

မြန်မာအမျိုးသမီးများ၏ ယဉ်ကျေးမှုသရုပ်ဆောင် ‘ ပုသိမ်ထီးများ ’

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်
၏
## ရုပ်ပြဗဟုသုတဘဏ်



အတွဲ — ၅

တူ — နိ

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ် အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ် အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ် ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ် ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ် တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာ တွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိ အောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ် အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေ သည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မှအကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်း ရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီ ရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (...................... — ရှု။) ဟုညွှန်းသည်။ ပညာသဘော အားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့်နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (...................... — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ် သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် လေ ဘက် ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သား ဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့် သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှော ရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါ အကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက် မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ပြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| | |
|---|---|
| ၁။ အ | |
| ၂။ အာ | |
| ၃။ အား | |
| ၄။ အိ | |
| ၅။ အီ | |
| ၆။ အီး | |
| ၇။ အု | |
| ၈။ အူ | |
| ၉။ အူး | |
| ၁၀။ အေ့ | |
| ၁၁။ အေ | |
| ၁၂။ အေး | |
| ၁၃။ အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ အယ် | |
| ၁၅။ အဲ | |
| ၁၆။ အော့ | |
| ၁၇။ အော် | |
| ၁၈။ အော | |
| ၁၉။ အို့ | |
| ၂၀။ အို | |
| ၂၁။ အိုး | |
| ၂၂။ အက် | ကသတ် |
| ၂၃။ အောက် | |
| ၂၄။ အိုက် | |
| ၂၅။ အင့် | ငသတ် |
| ၂၆။ အင် | |
| ၂၇။ အင်း | |
| ၂၈။ အောင့် | ငသတ် |
| ၂၉။ အောင် | |
| ၃၀။ အောင်း | |
| ၃၁။ အိုင့် | |
| ၃၂။ အိုင် | |
| ၃၃။ အိုင်း | |
| ၃၄။ အစ် | စသတ် |
| ၃၅။ အည့် | ညကြီးသတ် |
| ၃၆။ အည် | |
| ၃၇။ အည်း | |
| ၃၈။ အဉ့် | ဉကလေးသတ် |
| ၃၉။ အဉ် | |
| ၄၀။ အဉ်း | |
| ၄၁။ အတ် | တသတ် |
| ၄၂။ အိတ် | |
| ၄၃။ အုတ် | |
| ၄၄။ အန့် | နသတ် |
| ၄၅။ အန် | |
| ၄၆။ အန်း | |
| ၄၇။ အိန့် | |
| ၄၈။ အိန် | |
| ၄၉။ အိန်း | |
| ၅၀။ အုန့် | |
| ၅၁။ အုန် | |
| ၅၂။ အုန်း | |
| ၅၃။ အပ် | ပသတ် |
| ၅၄။ အိပ် | |
| ၅၅။ အုပ် | |
| ၅၆။ အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ အမ် | |
| ၅၈။ အမ်း | |
| ၅၉။ အိမ့် | |
| ၆၀။ အိမ် | |
| ၆၁။ အိမ်း | |
| ၆၂။ အုမ့် | |
| ၆၃။ အုမ် | |
| ၆၄။ အုမ်း | |
| ၆၅။ ျ | ယပင့် |
| ၆၆။ ြ | ရရစ် |
| ၆၇။ ွ | ဝဆွဲ |
| ၆၈။ ှ | ဟထိုး |
| ၆၉။ ျွ | ယပင့် ဝဆွဲ |
| ၇၀။ ြွ | ရရစ် ဝဆွဲ |
| ၇၁။ ျှ | ယပင့် ဟထိုး |
| ၇၂။ ြှ | ရရစ် ဟထိုး |
| ၇၃။ ွှ | ဝဆွဲ ဟထိုး |
| ၇၄။ ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆုရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းဖြေရန်နည်းများလည်း ရရှိပေအံ့။

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှုရင်း၊ နယူးယော့မြို့ အီဝင် ဂယ်လိုဝေမှုရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်း နှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါသည်။ ထိုပြင် အတွဲ ၅ မျက်နှာဖွဲ့ရာတွင် စေတနာရှိလှစွာနှင့် အကြံညဏ်နှင့်တကွ ကိုယ်ထိလက်ရောက် ကူညီ ပေးခဲ့သူ အင်္ဂလန်ပြည် ဟား (တ်) ဖို့မြို့နေ မစ္စတာ အီး အိပ် (ချ) ပမ်ဖိလုန် အားလည်း အထူး ကျေးဇူးတင်လိုက် ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ကယားပြည်နယ်အစိုးရ မြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၁၅၁။ ၁၅၂ |
| ဆိုဗီယက်သံရုံး | ရန်ကုန်မြို့ | ၄၁၆ |
| နယူးပစ်ဓာတ်ပုံတိုက် | ရန်ကုန်မြို့ | ၁၁၉ |
| နိုင်ငံတော်မြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၁၂၀။ ၁၈၇။ ၁၈၈။ ၃၅၀ |
| ပြည်သူ့ဆက်ဆံရေးဌာန မျူနီစီပယ် ကော်ပိုရေးရှင်း | ရန်ကုန်မြို့ | ၇၀ |
| မြန်မာ့အလင်းသတင်းစာတိုက် | ရန်ကုန်မြို့ | ၁၃၄။ ၄၁၃ |
| ရှမဝမဂ္ဂဇင်းတိုက် | ရန်ကုန်မြို့ | ၃၄၉။ ၃၄၉။ ၄၁၀ |
| ရှေးဟောင်းသုတေသနဌာန | ရန်ကုန်မြို့ | ၃၀၇။ ၃၀၇။ ၄၀၄ |
| လူထုပညာရေးကောင်စီ | ရန်ကုန်မြို့ | ၉၉။ ၄၆၂။ ၄၆၃။ ၄၆၅ |
| အမေရိကန်သံရုံး | ရန်ကုန်မြို့ | ၁၆၈။ ၁၆၉။ ၁၉၁။ ၄၄၂။ ၄၄၃ |
| ဦးကိုကိုလတ် | မန္တလေးမြို့ | ၂၃၇ |
| ဦးကျော်ခိုင် | ရန်ကုန်မြို့ | ၁၂၆ |
| ဦးကျော်ထွန်း | ရန်ကုန်မြို့ | ၅၆ |
| ဦးကျော်မင်း | ထားဝယ်မြို့ | ၂၀၁။ ၂၀၂ |
| ဦးကျင်သိန်း။ ဒေါ်ကျင်ဟုန် | ရန်ကုန်မြို့ | ၂၉၃ |
| ဆရာကြွယ် | တောင်တွင်းကြီးမြို့ | ၉၄ |
| ဒေါ်ဇဂုန်ခင်ခင်လေး | ရန်ကုန်မြို့ | ၂၉၃ |
| သခင်ခင်မောင်ဦး | တောင်တွင်းကြီးမြို့ | ၉၄ |
| ခင်လေးမောင် | ရန်ကုန်မြို့ | ၅၇။ ၈၇။ ၈၈။ ၈၉ |

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
| --- | --- | --- |
| ဦးငွေကြည် | တန်တားဦးမြို့ | ၁၃၉ |
| ဦးစို | ရန်ကုန်မြို့ | ၃၅ |
| ဗိုလ်မှူးကြီး စောမြင့် | မြစ်ကြီးနားမြို့ | ၂၈၃။ ၂၈၄ |
| ဦးစံသင် | မြောင်းမြမြို့ | ၁၅၀။ ၂၁၆။ ၃၁၂။ ၃၆၆။ ၄၆၆ |
| ဦးတော်ကြုံဘွန်း | ရန်ကုန်မြို့ | ၂၄ |
| ဒေါ်ထားရီနှင့် သမီး 'အိ' | ရန်ကုန်မြို့ | ၇၃ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၁၅၄။ ၁၅၅။ ၁၅၆။ ၁၅၈ |
| ဦးထွန်းနု | ရန်ကုန်မြို့ | ၂၀၃။ ၂၀၄ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၂၂၄ |
| ဦးမင်းနိုင် | ရန်ကုန်မြို့ | ၃၁၇။ ၃၅၁ |
| ဦးမောင်မောင် | မင်းဘူးမြို့ | ၄၁၀ |
| ဦးမောင်မောင်တင် | မန္တလေးမြို့ | ၁၁၂ |
| ဦးမြသင်း | တောင်ကြီးမြို့ | ၈၆ |
| ကနေဒါသံရုံး ဂေဟာ | လန်ဒန်မြို့ | ၄၃၂။ ၄၃၃။ ၄၃၃။ ၄၃၄။ ၄၃၅ |
| စစ်ဖက်ဆိုင်ရာပြတိုက်တော်ကြီး | လန်ဒန်မြို့ | ၃၂၉။ ၃၃၀ |
| ဗြိတိသျှပြတိုက် | လန်ဒန်မြို့ | ရခိုင်ဒင်္ဂါးဟောင်းများ |
| ရေဒီယို တိုင်း ဟလ်တန် ပစ်ချာ လိုက်ဗရေရီ | လန်ဒန်မြို့ | ၄၆၄ |
| ဝိတိုရိယနှင့်အယ်လဗတ်ပြတိုက် | လန်ဒန်မြို့ | ၃၆၈။ ၃၆၉။ ၄၅၄ |
| အမေရိကန်ပြန်ကြားရေးဌာန | လန်ဒန်မြို့ | ၄၃၆။ ၄၃၇။ ၄၄၄။ ၄၄၅။ ၄၄၆။ ၄၄၈ |
| အိန္ဒိယရုံးဟောင်း ပိဋကတ်တိုက် | လန်ဒန်မြို့ | ၂၄၁။ ၂၇၇။ ၂၇၈။ ၂၇၉။ ၂၈၀။ ၂၈၁။ ၃၁၈။ ၄၅၃ |
| ဩစတြေးလီးယားသံရုံး ဂေဟာ | လန်ဒန်မြို့ | ၄၂၄။ ၄၂၄။ ၄၂၅ |




# တဖြစ်လဲခဲ့သည့်အာရှနိုင်ငံ

**ရှေးအခါက ‘ ဥရောပတိုက်၏လူမမာကြီး ’ ဟူ၍ပင် ပြောင်လှောင်ခေါ်ဝေါ်ခြင်းခံခဲ့ရသော တူရကီနိုင်ငံသည် စစ်မှုရေးတွင်လည်း ကျွမ်းကျင်၊ နိုင်ငံရေးတွင်လည်း အရည်ဝသော ခေါင်းဆောင်ကြီး ကီမား အာတာတပ်၏ နိုင်ငံနှင့် လူမျိုးအတွက် စွမ်းလွန်းတမံ ဆောင်ရွက်မှုကြောင့်၊ ယခုအခါ ကမ္ဘာပေါ်ရှိ တိုးတက်နေသောနိုင်ငံများနှင့် ယှင်ပေါင်တန်းလိုက်နိုင်သောအခြေသို့ ရောက်ရှိခဲ့လေပြီ။**

**တူရကီနိုင်ငံ။** ။တူရကီနိုင်ငံသည် အာရှတိုက်အနောက်ပိုင်းရှိ အာရှမိုင်းနားကျွန်းဆွယ်တခုလုံးနှင့် ဥရောပတောင်ပိုင်း အရှေ့ဖက်အစွန်းတို့ပါဝင်သော သမတနိုင်ငံဖြစ်သည်။ တူရကီနိုင်ငံ၏ အကျယ်ဆုံးနှင့်အရှည်ဆုံး နေရာများမှာ မိုင် ၄၀၀ နှင့် မိုင် ၉၀၀ အသီးအသီးရှိကြ၍၊ စုစုပေါင်း အကျယ်အဝန်းမှာ ၂၉၆,၁၇၅ စတုရန်းမိုင်ဖြစ်သည်။ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၂၀,၉၃၆,၅၂၄ ယောက်ဖြစ်၏။ တူရကီ နိုင်ငံသားတို့သည် အစ္စလမ် အယူဝါဒကို သက်ဝင်ယုံကြည်ကြသည်။ အာရှတိုက်ရှိ တူရကီနိုင်ငံနှင့် ဥရောပတိုက်ရှိ တူရကီနိုင်ငံ၏ ပြည်နယ်များကို ဗော့စပရပ်ရေလက်ကြား၊ မာမရာပင်လယ်၊ ဒါးဒနဲရေလက်ကြားတို့က ပိုင်းခြားထားသည်။ ရှေးနှစ်ပေါင်းများစွာကပင် အရှေ့နှင့်အနောက်တို့ ဖြတ်သန်းသွားလာရာအရပ် ဖြစ်ခဲ့သောကြောင့် နိုင်ငံပင်ငယ်သော်လည်း များစွာအရေးပါခဲ့လေသည်။

တူရကီနိုင်ငံရှိ တောင်တန်းများကား တောရပ်၊ အင်တီတောရပ်၊ အဂ္ဂရီဒက်၊ ပွန်းတပ်ဟူ၍ဖြစ်သည်။ အာရှမိုင်းနား အတွင်းဖက်၌မူ တနိုင်ငံလုံး၏ သုံးပုံတပုံကျော်ခန့်ရှိ၍ ကျယ်ပြန့်သော ကုန်းပြင်မြင့်ကြီး ရှိသည်။ ထိုကုန်းပြင်မြင့်သည် ပင်လယ်ပြင်မှပေ ၂,၅၀၀ မှ ၆,၀၀၀ အထိမြင့်သည်။ တူရကီနိုင်ငံ၌ ထင်ရှားသော မြစ်ကြီးတို့မှာ ဥရောပတိုက်ဖက်တွင် မားရစ်ဆာမြစ်၊ မင်ဒယ်ရက်မြစ်နှင့် ဆာကားရယားမြစ်တို့ ဖြစ်ကြသည်။

ရာသီဥတုမှာ ကမ်းရိုးတန်းဒေသများ၌ စွတ်စိုထိုင်းမှိုင်း၍၊ ကုန်းတွင်းပိုင်း၌မူ ခြောက်သွေ့သည်။ ကုန်းတွင်းပိုင်းဒေသ၌ ဆောင်းရာသီတွင် အရှေ့မြောက်လေအေးတိုက်ခတ်သောကြောင့် ခိုက်ခိုက်တုန်အေး၍၊ နွေရာသီ၌ အလွန်ပူပြင်းသည်သာမက သဲမုန်တိုင်းများလည်း ကျရောက်လေ့ရှိသည်။ တောင်တန်းများ ဝန်းရံနေသဖြင့် ကုန်းတွင်းပိုင်း၌ နှစ်စဉ်ရွာသွန်းသော ဆောင်းရာသီမိုးရေချိန်မှာ ၁၀ လက်မပင်

မပြည့်ချေ။ ကမ်းရိုးတန်းတလျှောက်တွင် မိုးကောင်းသော်လည်း၊ မြောက်ဖက်ကမ်းရိုးတန်း၌သာလျှင် မိုးအသည်းထန်ဆုံးရွာသည်။ အီးဂျီးယန်ပင်လယ်ဖက်ရှိ အစ်ဇမာမြို့ (ရှေးအခေါ် ဆမားနားမြို့) အနီးတဝိုက်ဒေသမှာ နွေရာသီတွင်ပူနွေး၍၊ ဆောင်းရာသီတွင် တော်ရုံသာအေးသဖြင့် တူရကီနိုင်ငံတွင် ရာသီဥတု အသာယာဆုံးအရပ် ဖြစ်ပေသည်။

ရှေးတူရကီနိုင်ငံ၏ ရှစ်ပုံတပုံသည် ထင်းရှူးပင်၊ ဝက်သစ်ချပင်၊ ဗောက်ပင်၊ သစ်အယ်ပင် စသည့် အပင်များပါဝင်သော သစ်တောများဖြင့် ဖုံးလွှမ်းလျက်ရှိသည်။ တနိုင်ငံလုံးလူဦးရေ၏ ၆၅ ရာခိုင်နှုန်းသည် လယ်ယာစိုက်ပျိုးရေးလုပ်ငန်းနှင့်ကျွဲနွားမွေးမြူရေးလုပ်ငန်းများဖြင့် အသက်မွေးကြသော်လည်း၊ နိုင်ငံ၏မြေယာ ၂၀ ရာခိုင်နှုန်းကိုသာလျှင်စိုက်ပျိုး လုပ်ကိုင်ကြသည်။ ကျန်သော မြေသည်ကား မြေရိုင်းဘဝ၌သာရှိသေးသည်။ ရှေးအခါက လယ်မြေများကို လူတဦးတည်းက အများအပြားပိုင်ဆိုင်လေ့ ရှိခဲ့သော်လည်း၊ ၁၉၄၅ ခုနှစ် လယ်မြေပုံပြင်ပြောင်းလဲရေးဥပဒေအရ လယ်မြေများကို ကိုယ်တိုင်လယ်လုပ်သူများလက်သို့ ခွဲဝေပေးလိုက်လေသည်။

အလယ်ပိုင်း ကုန်းပြင်မြင့်ဒေသတွင် ဂျုံ၊ ဗာလီ၊ ပြောင်း၊ ရိုင်းစပါးနှင့်မြင်းစားဂျုံများ စိုက်ပျိုးကြသည်။ ယခုအခါ အစိုးရတို့၏ အားပေးမှုကြောင့် ဂျုံသည် ပြည်တွင်းစားသုံးရန်ထက်ပင် ပို၍ထွက်နေပေ၏။ ဆိတ်နှင့်သိုးများကို မွေးမြူ၍ ဆိတ်မွေး၊ သိုးမွေးကို ညှပ်ယူကြသည်။ ဆိတ်မွေးဖြင့် မိုဟဲခေါ်အထည်တမျိုးကို ရက်လုပ်ရာ၌ အန်ဂိုးရားအမည်ရှိ တူရကီဆိတ်များမှာ ကျော်ကြား၏။ ကမ်းရိုးတန်းဒေသများ၌ ဝါဂွမ်း၊ သဖန်း၊ ဆေး၊ သံလွင်၊ စပျစ်နှင့် ဟောဇယ်ပင်များကို စိုက်ပျိုးကြ၏။ ဘိန်းပင်သည် ကမ်းရိုးတန်းဒေသတွင် အရေးပါသော အပင်ဖြစ်၍၊ ဆေးဝါးအတွက် စိုက်ပျိုးလေသည်။

တူရကီနိုင်ငံသည် တွင်းထွက်ပစ္စည်းများစွာကြွယ်ဝသောနိုင်ငံဖြစ်သည်။ ရွှေ၊ ငွေ၊ ကြေးနီ၊ ကျောက်မီးသွေး၊ခဲ၊ သွပ်၊ ပြဒါး၊ ကျောက်မီးသွေးနု စသောပစ္စည်း အများအပြားထွက်၏။ ရေနံကို အရှေ့တောင်ပိုင်းဒေသမှ ရရှိနိုင်သော်

တူရကီနိုင်ငံ တည်နေရာပြ မြေပုံ

လည်း၊ ရေနံ ထုတ်လုပ်ရေး လုပ်ငန်းမှာ များစွာမဖွံ့ဖြိုးလှသေးချေ။ စက်မှုလက်မှုလုပ်ဆောင်ရာ မြို့များတွင် အဝတ်အထည်နှင့် သံထည်ပစ္စည်း ထုတ်လုပ်သော စက်ရုံကြီးများရှိ၏။ တူရကီနိုင်ငံ၏ ထင်ရှားသော ထွက်ကုန်တရပ်ကား ကော်ဇောများပင်ဖြစ်သည်။ (ကော်ဇော — ရှု။)

အန်ကာရာမြို့သည် တူရကီနိုင်ငံ၏မြို့တော်ဖြစ်၍၊ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂၈၆,၇၈၁ ယောက်ရှိသည်။ ထိုသန်ကောင်စာရင်းအရ လူဦးရေ ၁၀,၁၈,၄၆၈ ယောက်ရှိသော အစ္စတန်ဗူ (ရှေးအခေါ် ကွန်စတန်တီနိုပယ်) မြို့သည်ကား တူရကီနိုင်ငံ၏အကြီးဆုံးမြို့ဖြစ်၍၊ အခြားထင်ရှားသော မြို့မှာ လူဦးရေ ၃,၆၂,၃၄၀ ယောက်ရှိသော အစ်ဇမာမြို့ ဖြစ်လေသည်။

တူရကီလူမျိုးများ၏ မူလဒေသမှာ မွန်ဂိုးလီးယားပြည်ဖြစ်၍၊ ၆ ရာစုနှစ်တွင် တာကီစတန်ပြည်သို့ ထိုမှတဆင့် ရောက်လာကြပြီးလျှင်၊ ၇ ရာစုတွင် အစ္စလမ်အယူဝါဒကို သက်ဝင်ယုံကြည် ကိုးကွယ်ခဲ့ကြလေသည်။ (မွန်ဂိုးလီးယား။ တာကီစတန် — ရှု။) တူရကီနိုင်ငံတည်ရှိရာ အာရှမိုင်းနားအရပ်သို့ ပဌမဦးစွာရောက်လာသော တူရကီများမှာ ဆဲလဂျူ တူရကီလူမျိုးများဖြစ်၏။ ယင်းတို့သည် ၁၀၅၅ ခုနှစ်တွင် အာရှမိုင်းနား၌ နိုင်ငံတည်ထောင်ကြလေသည်။ မွန်ဂိုလူမျိုးများ၏တိုက်ခိုက်မှုကြောင့် အာရှတိုက်အလယ်ပိုင်းမှ ဆုတ်ခွာခဲ့ရသော အော်တိုမန် တူရကီလူမျိုးများသည် ဆဲလဂျူတူရကီလူမျိုးများထံတွင် အမှုထမ်းခဲ့

ပြီးနောက်၊ ၁၂၉၉ ခုနှစ်၌ ယင်းတို့၏ခေါင်းဆောင် ပဌမ အော့စမန်ဘုရင်သည် နိုင်ငံသီးခြားတည်ထောင်၍၊ အာရှ မိုင်းနား တခုလုံးကို သိမ်းပိုက်ပြီးသော်၊ ဥရောပတိုက်တွင်း သို့ နယ်ချဲ့ခဲ့လေသည်။ ၁၃၅၅ ခုနှစ်တွင် ဂလစ်ပိုလီကိုရင်း၊ ၁၄၅၃ ခုနှစ်တွင် ကွန်စတန်တီနိုပယ်မြို့ကိုရင်း၊ ၁၄၇၀ ပြည့် နှစ်တွင် ဗော်လကန်နိုင်ငံငယ်များကိုရင်း၊ ၁၅၅၀ ပြည့်နှစ် တွင် အီဂျစ်၊ ဆီးရီးယား၊ အာရေဗျ၊ မက်ဆိုပိုတေးမီးယား၊ ထရစ်ပိုလီနှင့်ဟန်ဂေရီစသောနိုင်ငံများကိုရင်း၊ ၁၅၇၁ ခုနှစ် တွင် စိုက်ပရပ်ကျွန်းနှင့် ၁၆၆၉ ခုနှစ်တွင် ကရိကျွန်းတို့ကိုရင်း၊ ဆက်လက် သိမ်းပိုက်လိုက်ခြင်းဖြင့် ဥရောပနှင့် အာဖရိက တိုက်များ အထိ ကျယ်ပြန့်သော အော်တိုမန် တူရကီနိုင်ငံ တော်ကြီး ဖြစ်ပေါ်လာခဲ့လေ၏။ စတုတ္ထမဟာမက်ဘုရင် (၁၆၄၁–၁၆၈၃) လက်ထက် ၁၆၈၃ ခုနှစ်၌ ဥရောပတိုက်ရှိ ဗီယင်းနားမြို့ကိုလုပ်ကြံရာ၌၊ အရေးနိမ့်ခဲ့သည်မှစ၍ တူရကီ တို့၏ အော်တိုမန် နိုင်ငံတော်ကြီး တဖြည်းဖြည်း ပျက်စီး ခဲ့ရလေသည်။ ၁၆၉၉ ခုနှစ်တွင် ဟန်ဂေရီနိုင်ငံကို စွန့်လွှတ် လိုက်ရပြီးနောက် ၁၇၆၈–၁၇၇၄ နှင့် ၁၇၈၂–၁၇၉၂ ခုနှစ် များ အတွင်း ရုရှနှင့် ဖြစ်ပွားသော စစ်ပွဲနှစ်ရပ်စလုံးတို့၌ အရေး နိမ့်ခဲ့သဖြင့် ၁၇၈၃ ခုနှစ်တွင် ကရိုင်းမီးယားနယ်ကို ရုရှသို့ ပေးလိုက်ရလေသည်။ ဂရိနိုင်ငံသည် ၁၈၂၁ ခုမှ ၁၈၂၉ ခုနှစ်အထိ တူရကီတို့အုပ်စိုးမှုကို အောင်မြင်စွာ တော် လှန်နိုင်ခဲ့သဖြင့် လွတ်လပ်ရေးပေးလိုက်ရပြန်သည်။ ၁၈၀၄ ခုနှစ်တွင် ဆားဗီးယားနိုင်ငံ ပုန်ကန်ထကြွမှုမှစ၍ ဂရိကဲ့သို့ သော တူရကီပိုင် ဗော်လကန် နိုင်ငံများ မငြိမ်မသက် ဖြစ် လျက်ရှိသည်ကို အခွင့်ကောင်းယူပြီးလျှင် ရုရှတို့က တူရကီ ဖက်သို့ နယ်ချဲ့လာပြန်သောကြောင့် ကရိုင်းမီးယား စစ်ပွဲ (၁၈၅၃–၁၈၅၆) ဖြစ်ပွားခဲ့၏။ ဤစစ်ပွဲတွင် အင်္ဂလိပ်နှင့် ပြင်သစ်တို့က တူရကီဖက်မှ ဝင်ရောက် တိုက်ခိုက်ကြသဖြင့် ရုရှကိုနိုင်ခဲ့သော်လည်း၊ ၁၈၇၆ ခုနှစ်၌ ဗူလဂေးရီးယားနိုင်ငံ ထကြွမှုကို အကြောင်းပြု၍၊ ရုရှနှင့်တူရကီတို့ ထပ်မံစစ်ဖြစ် ကြပြန်သည်တွင်၊ တူရကီက အရေးနိမ့်သဖြင့်၊ ၁၈၇၈ ခုနှစ် ဘာလင် စာချုပ်အရ ဗော်လကန် နိုင်ငံငယ်များ ဖြစ်သော ဗူလဂေးရီးယား၊ ဆားဗီးယား၊ ရူမေးနီးယား၊ ဗော့စနီး ယား၊ ဟားဇီဂိုဗီးနားစသော နိုင်ငံငယ်များကို တူရကီက လွတ်လပ်ရေးပေးလိုက်ရလေသည်။ ၁၉၀၈ ခုနှစ်တွင် စည်း မျဉ်းခံ အုပ်ချုပ်ရေးမျိုးပေးအပ်ရန် ပြုပြင်ရေးသမားများ ဖြစ်သော တူရကီလူငယ်အဖွဲ့က တောင်းဆိုရရှိခဲ့လေသည်။ ၁၉၁၂–၁၃ ခုနှစ်အတွင်း ဗော်လကန်နိုင်ငံများသည် တူရ ကီတို့ကို အယ်လဗေးနီးယားနှင့်မက်ဆီဒိုးနီးယားတိုင်းပြည် များမှ မောင်းထုတ်လိုက်ပြန်သောကြောင့် တူရကီပိုင် ဥရော ပနယ်မြေဟူ၍ အရှေ့တောင်ဖက်ဖျား၌ အနည်းငယ်မျှသာ ကျန်ရှိလေသည်။

ပဌမကမ္ဘာစစ် (၁၉၁၄–၁၉၁၈) အတွင်းက တူရကီနိုင်ငံ သည် စစ်ရှုံးသည့်ဂျာမန်တို့ဖက်မှပါဝင်ခဲ့သဖြင့် စစ်ပြီးသော အခါ ဆီးရီးယား၊ အာရေဗျနှင့်မက်ဆိုပိုတေးမီးယားနိုင်ငံ များကို လက်လွှတ်လိုက်ရပြီးလျှင်၊ အီဂျစ်နိုင်ငံအပေါ်ရှိ မိမိ



အစ္စတန်ဘူမြို့တော်မှ လမ်းဘေးဈေးဆိုင်ရှခင်းတရပ်



**တူရကီနိုင်ငံတွင် တွေ့ရခဲ့သည့်ရှုခင်း**

တူရကီနိုင်ငံသည် ခေတ်မီတိုးတက်လျက်ရှိသော်လည်း အချို့ကျေးလက်တို့တွင် မွတ်စလင် အမျိုး သမီးများ မျက်နှာဖုံးသည့်ဓလေ့ကို တွေ့မြင်ရပေသည်။

သြဇာကိုလည်း ရုပ်သိမ်းလိုက်ရလေသည်။ (ကမ္ဘာစစ်ကြီး၊ ပဌမ — ရှု။) ၁၉၁၉ ခုနှစ်တွင် တူရကီနိုင်ငံ ဆမားနားမြို့ (ယခုအခေါ် အစ်ဇမာမြို့) ကို ဂရိတို့က ဝင်ရောက်တိုက်ခိုက်ကြသဖြင့်၎င်း၊ တူရကီ နိုင်ငံကို ဖြိုခွဲလိုက်သောဆဲဗရားစာချုပ်ကို တူရကီဘုရင့် ကိုယ်စားလှယ်များက လက်မှတ်ရေးထိုးခဲ့ကြသဖြင့်၎င်း၊ မကျေမနပ်ဖြစ်ကုန်သော တူရကီလူမျိုးတို့သည် ၁၉၂၀ ပြည့်နှစ်တွင် အန်ကာရာမြို့၌ မျိုးချစ်ပုဂ္ဂိုလ်ကြီး မွတ်စတာဖာ ကီမားက ခေါင်းဆောင်၍ စင်ပြိုင်အစိုးရဖွဲ့စည်းပြီးလျှင်၊ ဂရိတို့အားနိုင်ငံတော်မှ တိုက်ထုတ်ကြလေ၏။ ထိုအခါ အာရှမိုင်းနားအရပ်တခုလုံးကို မွတ်စတာဖာ ကီမားအစိုးရအဖွဲ့က အုပ်ချုပ်၍၊ ကွန်စတန်တီနိုပယ်မြို့အနီးတဝိုက်ကိုသာလျှင် စူလတန်ဘုရင်က အုပ်ချုပ်ခဲ့ရလေသည်။ ၁၉၂၂ ခုနှစ်သို့ ရောက်သောအခါ၊ တူရကီနိုင်ငံသည် စူလတန်ဘုရင်၏အုပ်ချုပ်မှုကို ဖျက်သိမ်း၍၊ သမတနိုင်ငံထူထောင်လိုက်လေသည်။ ထိုအချိန်မှစ၍ တူရကီ နိုင်ငံသည် အဖက်ဖက်၌ လျင်မြန်စွာပြောင်းလဲတိုးတက်ခဲ့ပေသည်။ ရှေးဆန်သော စံနစ်တို့ကို ပယ်၍၊



တူရကီနိုင်ငံတွင် ဤသို့ခေတ်မီသော တက္ကသိုလ်များရှိသည်။

အနောက်နိုင်ငံ တရားဥပဒေနှင့်ဒီမိုကရေစီဝါဒတို့ကို ကျင့်သုံးလာကြပြီးလျှင်၊ စက်မှုလုပ်ငန်းများကို တည်ထောင်ခဲ့လေသည်။ (ကီမား အာတာတပ် — ရှု။)

ဒုတိယကမ္ဘာစစ် (၁၉၃၉–၄၅) ဖြစ်ပွါးစဉ်က တူရကီနိုင်ငံသည် ကြားနေခဲ့သည်ဟု ဆိုသော်လည်း၊ ၁၉၄၄ ခုနှစ် ဩဂုတ်လ ၂ ရက်နေ့တွင် ဂျာမနီနိုင်ငံနှင့်ငင်း၊ ၁၉၄၅ ခုနှစ် ဇန္နဝါရီလ ၃ ရက်နေ့တွင် ဂျပန်နိုင်ငံနှင့်ငင်း အဆက်အသွယ်များ ဖြတ်လိုက်ပြီးလျှင်၊ ၁၉၄၅ ခုနှစ် ဖေဖွာရီလ ၂၃ ရက်နေ့တွင် ထိုနိုင်ငံတို့ကိုစစ်ကြေညာခဲ့လေသည်။ စစ်ပြီးခေတ်၌ ဒါးဒနယ်ရေလက်ကြားကို တူရကီနှင့်ရုရှတို့ပူးပေါင်းထိန်းသိမ်းရန်ဟူသော ရုရှအဆိုကို တူရကီက လက်မခံသဖြင့် ရုရှက တူရကီနှင့်အဆက်ဖြတ်လိုက်လေ၏။ (ဒါးဒနယ်ရေလက်ကြား — ရှု။)

**တူရဂေနျက်, အိုင်ဗန်။** (ခရစ် ၁၈၁၈–၁၈၈၃)။ ။အိုင်ဗန် တူရဂေနျက်သည် ကမ္ဘာကျော် ရုရှစာရေးဆရာဖြစ်၍၊ ၁၈၁၈ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့တွင် ရုရှနိုင်ငံ၊ အိုရယ်မြို့၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ အငြိမ်းစား မြင်းတပ်ဗိုလ်မှူးကြီး တဦးဖြစ်သည်။ တူရဂေနျက်သည် အသက် ၁၆ နှစ်အရွယ်ကပင် မောစကိုတက္ကသိုလ်၌ ပညာသင်ခဲ့၏။ ၁၈၃၅ ခုနှစ်တွင် စိန်ပီတာစဗတ် (လင်နင်ဂရက်) တက္ကသိုလ်သို့ ပြောင်းရွှေ့ကာပညာဆက်လက် ဆည်းပူးသည်။ သို့သော် ရှေးဆန်သော မိခင်ဖြစ်သူ၏ပြင်းထန်သော အချုပ်အချယ်၊ အဆုံးအမများကို မနှစ်မြို့သဖြင့် ဂျာမနီနိုင်ငံသို့ ထွက်ခွာလာခဲ့ပြီးလျှင်၊ ဘာလင်တက္ကသိုလ်တွင် ဟေးဂယ်၏ ယထာဘူတပညာများကို လေ့လာလိုက်စား သင်ယူခဲ့လေသည်။ ဘာလင်တက္ကသိုလ်၌ နှစ်နှစ်မျှ ပညာဆည်းပူးပြီးသောအခါ၊ တူရဂေနျက်သည် ရုရှနိုင်ငံသို့ပြန်လာ၍၊ ၁၈၄၀ ပြည့်နှစ်တွင် မောစကိုတက္ကသိုလ်မှ ဒီဂရီဘွဲ့ထူးကိုဆွတ်ခူးလေသည်။

ထိုနောက် တူရဂေနျက်သည် ကဗျာများကို စတင်ရေးသားမှုနှိပ်ထုတ်ဝေခဲ့၏။ ယင်းကဗျာများမှာ စာပေဝေဖန်ရေး ဆရာကြီး ဗျီလျှင်းစကီး၏ ချီးကျူးခြင်းကို ခံခဲ့ရသော်လည်း၊ ကြာရှည်စွာ ကျော်ကြားခြင်း မရှိခဲ့ချေ။ ၁၈၄၅ ခုနှစ်တွင် တူရဂေနျက်သည် ပေါ်လင် ဂါးဆီးယားအမည်ရှိ ပြင်သစ်အဆိုတော် ဇာတ်မင်းသမီးတဦးနှင့် တွေ့ဆုံလေရာ၊ တဦးနှင့်တဦး များစွာအကျွမ်းတဝင် ဖြစ်ခဲ့လေသည်။ ထိုကဲ့သို့ ပေါ်လင် ဂါးဆီးယားနှင့်ချစ်ကျွမ်းဝင်ခြင်းကို မိခင်ဖြစ်သူက သဘောမကျ၍ငင်း၊ မင်းမှုထမ်းအလုပ်မှ နုတ်ထွက်ခြင်းကို မနှစ်သက်၍ငင်း သားဖြစ်သူနှင့် ခွန်းကြီးခွန်းငယ်စကားများကြလေသည်။ ထိုနောက်တွင် တူရဂေနျက်သည် နှစ်အတန်ကြာမျှ ဆင်းရဲငြိုငြင်စွာ နေထိုင်ခဲ့ရလေသည်။ သို့သော် ၁၈၄၈ ခုနှစ်တွင် သူ၏မိခင်ကွယ်လွန်သဖြင့်



ကမ္ဘာကျော် ရုရှဝတ္ထုရေးဆရာကြီး အိုင်ဗန် တူရဂေနျက်

တူရဂေနျက်သည် ကျန်ရစ်ခဲ့သော အမွေကို ဆက်ခံကာ လူချမ်းသာတဦး ဖြစ်လာလေ၏။

၁၈၄၆ ခုနှစ်တွင် တူရဂေနျက်အား စာရေးဆရာအဖြစ်ဖြင့် စတင်ကျော်ကြားစေခဲ့သော စာအုပ်တွင် သူသည် ရုရှ ကျေးတောနေ လယ်သမားများနှင့် လယ်ပိုင်ရှင်များ၏ ဘဝကို ရေးသားဖော်ပြခဲ့သည်။ ထိုပြင် ရုရှနိုင်ငံတွင် ထိုခေတ်က ပေါ်ပေါက်လျက်ရှိသော ကျေးကျွန်စံနစ် တိုက်ဖျက်ရေးကိုလည်း ပေါ်လွင်အောင်ပြဆိုခဲ့သည်။ တူရဂေနျက်၏အရေးအသားတို့သည် ၁၈၆၁ ခုနှစ် ရုရှနိုင်ငံ ကျေးကျွန်စံနစ်ဖျက်သိမ်းရေးတွင် အထောက်အပံ့များစွာ ပေးခဲ့လေသည်။

၁၈၅၂ ခုနှစ်၌ စာရေးဆရာကြီး ဂိုဂါးကွယ်လွန်သောအခါ၊ တူရဂေနျက်သည် ရုရှနိုင်ငံ လူနေမှုစံနစ်ကို လှောင်ပြောင်ရေးသားခဲ့သည့် စာပြောင်ဆရာကြီးတဦးအဖြစ် ဂိုဂါးအား ချီးကျူးဂုဏ်ပြုသောစာတပုဒ်ကို ရေးသားလိုက်ရာ၊ ပဋမ ဦးစွာ ဖမ်းဆီးချုပ်နှောင်ခြင်း ခံခဲ့ရလေသည်။ ထိုနောက် ကျေးလက်ဒေသရှိ သူ၏နယ်မြေတွင် အကျယ်ချုပ်သဘောဖြင့် သူ့အား ၁၈ လမျှ နေထိုင်စေခဲ့လေသည်။ ၁၈၅၅ ခုနှစ် ကရိုင်းမီးယန်းစစ်ပွဲပြီးဆုံး၍၊ ရုရှနိုင်ငံ၏သက်ဦးဆံပိုင်ဘုရင် ပဋမနစ်ကလပ်၏ နန်းသက်သည်လည်း ပြတ်စဲခဲ့လေသည်။ နောက်တနှစ်၌ 'ရုဒင်' အမည်ရှိသော တူရဂေနျက်၏ ပဋမဆုံးဝတ္ထုရှည်ကြီး ထွက်ပေါ်လာခဲ့လေသည်။

၁၈၅၈ ခုနှစ်တွင်ကား တူရဂေနျက်သည် လူကုံထံတဦး၏ အကြောင်းကို ဝတ္ထုဖြင့် ဖွဲ့နွဲ့ရေးသားခဲ့၏။ ထိုဝတ္ထုတွင် တူရဂေနျက်သည် ရုရှလယ်ပိုင်ရှင်ကြီးများ၏ဘဝကို စေ့စုံစွာဖော်ပြထားလေသည်။ တူရဂေနျက်သည် ၁၈၆၂ ခုနှစ်တွင် 'သားအဖ' ဟုခေါ်သောဝတ္ထုကို ရေးသား၍၊ ရှေးလူကြီးများ၏ အတွေးအခေါ်နှင့် ခေတ်လူငယ်များ၏ အယူအဆသစ်များ ပဋိပက္ခဖြစ်ကြပုံကို ထုတ်ဖော်လိုက်သဖြင့် ရုရှနိုင်ငံ၏လူနေမှုစံနစ်နှင့် နိုင်ငံရေးအဖွဲ့အစည်းတို့ကို ထိခိုက်လျက်ရှိလေရာ၊ တူရဂေနျက်သည် လူအများ၏ ပြစ်တင်ဝေဖန်ခြင်းကိုခံခဲ့ရလေသည်။

၁၈၇၀ပြည့်နှစ်တွင် တတိယနပိုလီယန်ဘုရင် နန်းကျပြီးနောက်၊ တူရဂေနျက်သည် ပြင်သစ်ပြည် ပါရစ်မြို့၌ အခြေစိုက် နေထိုင်ခဲ့လေသည်။ ရုရှနိုင်ငံသို့ကား ရံဖန်ရံခါမျှသာ သွားရောက်လည်ပတ်လေသည်။

၁၈၇၈ ခုနှစ်တွင် ပြင်သစ်ပြည် ပါရစ်မြို့၌ ကျင်းပသော နိုင်ငံပေါင်းစုံ စာရေးဆရာများညီလာခံကြီးက တူရဂေနျက်အား ဒုတိယဥက္ကဋ္ဌအဖြစ် ရွေးကောက်တင်မြှောက်ခဲ့လေသည်။ ထိုနှစ်၌ပင် အောက်စဖို့တက္ကသိုလ်ကလည်း တူရဂေနျက်အား ဂုဏ်ထူးဆောင် ဥပဒေပါရဂူဘွဲ့ကို အပ်နှင်းချီးမြှင့်သည်။ ပြင်သစ်ပြည်၌ အခြေစိုက်ကာနေထိုင်ခဲ့စဉ်အတွင်း တူရဂေနျက်သည် ပြင်သစ်စာရေးဆရာကြီးများဖြစ်သော ဖလိုဗဲယား၊ မိုပါဆန်းတို့နှင့် အကျွမ်းဝင် ခင်မင်ခဲ့သည်။ တူရဂေနျက်သည် တိုင်းရင်းသား ရုရှဘာသာစကားအပြင် အင်္ဂလိပ်ဘာသာ၊ ပြင်သစ်ဘာသာနှင့်ဂျာမန်ဘာသာစကားများကိုလည်း တတ်ကျွမ်း၏။ ၁၈၈၃ ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့တွင် ပြင်သစ်ပြည် ပါရစ်မြို့အနီးမြို့ကလေးတမြို့၌ တူရဂေနျက် ကွယ်လွန်ခဲ့လေသည်။

**တူရိယာ။** ။တူရိယာဟူသည်မှာ သာယာသောအသံများထွက်ပေါ်လာအောင် တီးအပ်မှုတ်အပ်သော ကရိယာဖြစ်သည်။ တီးခြင်း မှုတ်ခြင်းကိုအခြေပြု၍ တူရိယာကို ပိုင်းခြားကြည့်လျှင်၊ တီးရသော တူရိယာ၊ မှုတ်ရသော တူရိယာဟူ၍ နှစ်မျိုးရနိုင်သည်။ အတီးနှင့်ဆိုင်သော တူရိယာတို့မှာ ပုံ၊ စောင်းကောက်၊ ပတ္တလားစသည်တို့ဖြစ်သည်။ အမှုတ်နှင့်ဆိုင်သော တူရိယာတို့မှာ နှဲ၊ ပြွေစသည်တို့ဖြစ်သည်။

သို့ရာတွင် အနောက်တိုင်းသားတို့၏အလိုမှာ ခတ်၍အသံမြည်သော တူရိယာ၊ မှုတ်၍အသံမြည်သော တူရိယာ၊ တီး၍အသံမြည်သော တူရိယာဟူ၍ သုံးမျိုးခွဲခြားထားသည်။ ကြိုးတချောင်းကို တင်းတင်းဆွဲ၍ လက်ဖြင့်ခတ်လျှင်၊ ကြိုး၏တုန်ခါမှုကြောင့် အသံမြည်သည်။ ကျူရိုးကို တဖက်ပိတ်၍ လေကိုမှုတ်လျှင်လည်း လေ၏တုန်ခါမှုကြောင့် အသံမြည်သည်။ အိုးတခု၏ အဝတွင် သားရေကို ကျက်၍ ထိုသားရေကို လက်ဖြင့်တီးလျှင်၊ တင်းနေသော သားရေ၏ တုန်ခါမှုကြောင့် အသံမြည်သည်။ ဤသဘာဝကို စွဲ၍၊ ကြိုးတပ်တူရိယာ၊ လေမှုတ်တူရိယာ၊ တီးခတ်တူရိယာဟု တူရိယာ သုံးပါးကို ပြဆိုပေသည်။

အနောက်နိုင်ငံ ကြိုးတပ်တူရိယာတို့တွင် စန္ဒရားသည် ကြိုးတပ်တူရိယာ အကြီးစားဖြစ်သည်။ (စန္ဒရား — ရှု။) စန္ဒရားအဖုံးကို ဖွင့်ကြည့်လျှင်၊ အက်ခြင်း၊ ကွဲခြင်း၊ လိမ်ခြင်းမရှိသော သစ်သားအံ၏မျက်နှာဝကိုဖြတ်၍၊ ကြေးနန်းကြိုးများ တင်းအောင် တပ်ဆင်ထားသည်ကို တွေ့ရလိမ့်မည်။ စန္ဒရားလက်နှိပ်ခလုတ်ကို နှိပ်လိုက်သောအခါ၊ အဖျားတွင် သားမွေးခံသော ရိုက်တံသည် ထိုကြေးနန်းကြိုးကို လာ၍ရိုက်သည်။ ထိုအခါ တူရိယာသံ ဖြစ်ပေါ်လာသည်။ ကြိုးတပ်တူရိယာတမျိုးဖြစ်သော စောင်း၌မူ၊ တပ်ထားသော ကြိုးမှာ သားရေကြိုးဖြစ်သည်။ ရှေးခေတ် အီဂျစ်နိုင်ငံ၌ တွေ့ရသော ကြိုးတချောင်းတပ် စောင်းမှသည် ရှေးခေတ်ဂရိ ရောမနိုင်ငံတို့တွင် တွေ့ရသော စန္ဒရားကြေးနန်းကြိုး အရေအတွက်အတိုင်းရှိသော သားရေကြိုး တပ်ဆင်သော စောင်းအထိ အမျိုးမျိုးရှိကြသည်။ စောင်းအပြင် တယောမှာလည်း ကြိုးတပ်တူရိယာတွင် ပါဝင်သည်။ သို့သော် တယောကို စောင်းတီးသကဲ့သို့ တီးရသည်မဟုတ်။ မြင်းမြီးဖြင့် ပြုလုပ်ထားသော လက်တံဖြင့် တယောကြိုးကိုထိုးရသည်။ ထို့ကြောင့် စောင်းတီးသည်။ တယောထိုးသည်ဟုခေါ် ဆို၏။ အနောက်နိုင်ငံ တူရိယာတို့တွင် တယောရိုးရိုးအပြင်၊ တယောလတ်၊ တယောကြီး၊ ဗယ်သံတယောဟူ၍ ခွဲခြားထားသည်။ (တယော — ရှု။) အခြားကြိုးတပ်တူရိယာတို့မှာ ဂီတာ၊ မင်ဒိုလင်၊ ဘင်ဂျို၊ ဇစ်သာတို့ဖြစ်ကြသည်။

လေမှုတ်တူရိယာ၌ ပြွေနှင့်နှဲတို့ပါဝင်ကြသည်။ အနောက်နိုင်ငံသုံး အသံ အလွန်သေးသော ပြွေကို ပစ်ကိုလိုဟု ခေါ်သည်။ ခရာဟူသည်မှာ ပြွေတံရှည်ကို ရစ်ခွေထားသော ပြွေတမျိုးဖြစ်သည်။ ခရာရှည်ကြီးဟုခေါ်သော ပြွေတို့တွင် ပြွေတံ တခုထဲတွင် အခြားပြွေတံ အပိုတခုကို ထည့်သွင်းထား၍၊ ပြွေမှုတ်သည့်အခါ လိုရာတူရိယာသံကို ဖြစ်စေခြင်းငှာ ပြွေတံအပိုကို ဆွဲထုတ် ဆွဲသွင်းပြု၍ ပြွေမှုတ်ရသည်။ ပြွေနှင့်နှဲ ခြားနားချက်မှာ အခင်မပါဘဲ မှုတ်၍ရသည့် တူရိယာကို ပြွေဟုခေါ်၍၊ အခင်နှင့်မှုတ်ရသော တူရိယာမှာ နှဲဖြစ်သည်။ (ဆိုင်းဝိုင်း — ရှု။) အနောက်နိုင်ငံ နှဲတို့တွင် အိုးဘို၊ ကလဲရီနက်၊ ဆက်ဆိုဖုန်းတို့သည် အများသိသော တူရိယာဖြစ်လေသည်။

တီးခတ်တူရိယာတွင် အဓိကနှစ်မျိုးမှာ အနောက်နိုင်ငံစံနစ်အရ ပုံနှင့်ဆည်းလည်း ဖြစ်သည်။ ဆည်းလည်းဟူသော အမျိုးအစားတွင်မူ ဇိုင်လိုဖုန်း၊ လင်းကွင်းစသည်တို့ကို ထည့်

သွင်းသည်။ ကြိုဂံခေါ် သုံးထောင့်ကွေး သံချောင်းသည်လည်း ဆည်းလည်းနှင့် သဘောတူသော တီးခတ် တူရိယာဖြစ်သည်။

မြန်မာ့စံနစ်အရမှာမူ တူရိယာကို ကြေး၊ ကြိုး၊ သားရေ၊ လေ၊ လက်ခုပ်ဟူသော ဆိုရိုးစကားအတိုင်း၊ ကြေးဖြင့်လုပ်သော တူရိယာ၊ ကြိုးဖြင့်လုပ်သော တူရိယာ၊ သားရေဖြင့်ကျက်၍ရသော တူရိယာ၊ လေဖြင့်မှုတ်ရသော တူရိယာ၊ လက်ခုပ်ကဲ့သို့တီးရသော တူရိယာဟူ၍ ငါးမျိုး ပိုင်းခြားထားသည်။ မြန်မာကြေးတူရိယာများတွင် ကြေးဝိုင်း၊ မောင်းဆိုင်း၊ လင်းကွင်း၊ သံလွင် စသည်တို့ ပါဝင်သည်။ ကြိုးတူရိယာတို့တွင် စောင်းကောက်မှာ အဓိကဖြစ်သည်။ (စောင်းကောက် — ရှု။) မိကျောင်း၊ တရောနှင့်ဒုံမင်းတို့သည်လည်း ကြိုးတူရိယာများ ဖြစ်ကြ၏။

သားရေကျက်တူရိယာကား မြန်မာဆိုင်းဝိုင်းတွင် အခရာဖြစ်၏။ (ဆိုင်းဝိုင်း — ရှု။) ဆိုင်းဝိုင်းတွင် ပတ်ဟုခေါ်သော ပုံကလေးများ ပါဝင်သည်။ ပတ်မကြီး၊ ဒိုး၊ စခွံ့ စသည်တို့အပြင် အိုးစည်နှင့် စည်တို့သည်လည်း မြန်မာတို့အလွန်နှစ်သက်သော သားရေကျက် တူရိယာများဖြစ်ကြ၏။

မြန်မာသုံး လေမှုတ်တူရိယာ၌ အရင်းခံဖြစ်သော ပြွေနှင့် နှဲတို့ပါဝင်ကြသည်။ ဆိုင်းဝိုင်းအလို့ငှာ နှဲကြီး နှဲကလေးတို့ကို ထားရှိရသည်။

လက်ခုပ်ကား ဝါးဖြင့်လုပ်သော ဝါးလက်ခုပ်ပင်ဖြစ်သည်။ ဆိုင်းဝိုင်းကြီးပါလျှင်၊ ဝါးလက်ခုပ် သုံးလေးလက် ထားပေးရသည်။ ဝါးလက်ခုပ်သဘော ပါဝင်သော ချပ်၊ အုန်းမောင်းစသည်တို့လည်း ရှိသေးသည်။

# ခရီးချိုသောရေယဉ်လမ်း

**လူတို့သည် ခရစ်သက္ကရာဇ်မတိုင်မီကပင် တူးမြောင်းများကို ဖောက်လုပ်ခဲ့ကြသည်။ တူးမြောင်းဖြင့် ရေလမ်းခရီးနှစ်ခုကို ဆက်သွယ်နိုင်သည်။ ဤနည်းဖြင့် မြစ်ကြောင်း တလျှောက်သော်၎င်း၊ ပင်လယ်ကြောင်း တလျှောက်သော်၎င်း၊ ကောက်ကွေ့လှည့်ပတ်သွားရသော ခရီးရှည်ကို ခရီးတိုဖြစ်အောင် ဖန်တီးနိုင်သည်။ ထိုမျှမက၊ ခြောက်သွေ့သော ဒေသများ၌ တူးမြောင်းများသည် ရေသွင်းစိုက်ပျိုးရန်အတွက် အထူးပင်အသုံးဝင်ပေသည်။**

**တူးမြောင်း။** ။မြောင်းဖြစ်အောင် လူတို့တူးဖောက်ထားသော ရေကြောင်းလမ်းကို တူးမြောင်းဟုခေါ်သည်။ တူးမြောင်းကို လယ်ယာစိုက်ပျိုးရေးအတွက် ရေထုတ်ခြင်း၊ ရေသွင်းခြင်း အလို့ငှာ သော်၎င်း၊ ရေကြောင်း သယ်ယူပို့ဆောင်ရေးအတွက်သော်၎င်း ဖောက်လုပ်ကြသည်။ ရှေးဦးစွာ၌ တူးမြောင်းများကို လယ်ယာလုပ်ကိုင်ရေးအတွက်သာ ဖောက်လုပ်ခဲ့ကြဟန်တူ၏။ သို့သော် မကြာမီ အဆီးရီးယားနှင့် အီဂျစ်နိုင်ငံများမှာကဲ့သို့ ရေကြောင်းသယ်ယူပို့ဆောင်ရေး၌ ခရီးတွင်ကျယ်စေရန် တူးမြောင်းကို ဖောက်လုပ်လာကြသည်။ ရောမလူမျိုးတို့သည် တူးမြောင်းများကို ဖောက်၍ မာ့စနင့်ရိုင်းမြစ်များကို ဒန်ညုမြစ်နှင့် ဆက်ပေးခဲ့၏။ ကမ္ဘာပေါ်တွင် ရှေးအကျဆုံးနှင့်အကြီးဆုံး တူးမြောင်းမှာ တရုပ်နိုင်ငံရှိ ယူဟိုးခေါ် တူးမြောင်းကြီးဖြစ်၍၊ ထိုတူးမြောင်းကြီးသည် မိုင်ပေါင်း ၁၀၀၀ ကျော် ရှည်လျားသည်။ ဟန်ချိုမြို့နှင့်တီယန်စင်မြို့ကို ဆက်ပေးလေသည်။

ရှေးအထက်ကျော်ကာရီက တူးမြောင်းများကို တူးဖောက်ခဲ့ကြသော်လည်း၊ ကုန်းမြင့်ခံလျက်ရှိသောဒေသတို့၌ ထိုကုန်းမြင့်များကို လှေသမ္ဗန်တို့ကျော်လွှား သွားနိုင်လေအောင် ကြံဆောင်နိုင်ခြင်း မရှိခဲ့ချေ။ ထို့ကြောင့် တူးမြောင်းများသည် အရာရောက်သင့်သလောက် မရောက်ခဲ့ကြပေ။ သို့သော် ရေတံခါးကိုကြံစည်တီထွင်လာသည့်အခါ တူးမြောင်းဖောက်လုပ်ရေးနည်းနာတို့သည် အကြီးအကျယ်ပြောင်းလဲသွားလေသည်။ ရေတံခါးကို မည်သူက စတင်တီထွင်ခဲ့သည်ကို ကျွန်ုပ်တို့ တပ်အပ်သေချာစွာ မသိရချေ။ ဟော်လန်နိုင်ငံသည် ဣတလီနိုင်ငံထက် ပထဝီအသွင်အပြင်အနေအထားအရ တူးမြောင်းများကို အသုံးပြုရန် အခြေအနေ ပိုကောင်းသည့်အတွက် ဣတလီထက် နှစ်ပေါင်း ၁၀၀ ခန့်စော၍ ရေတံခါးများကို ဖန်တီးသုံးစွဲခဲ့ကြသည်ဟု အချို့ကယူဆကြသည်။ အချို့ကမူ ၁၄၈၁–၈၇ ခုနှစ်များမှစ၍ ဣတလီလူမျိုးများသာလျှင် ရေတံခါးကို ရှေးဦးစွာ အသုံးပြုခဲ့ကြသည်ဟု ယူဆကြသည်။ မည်သို့ပင်ဖြစ်စေ ရေတံခါးသည် ၁၄ ရာစုနှစ် သို့မဟုတ် ၁၅ ရာစုနှစ်တွင် စတင်ပေါ်ပေါက်ခဲ့၍၊ ထိုသို့ပေါ်ပေါက်လာခြင်းကြောင့် ပြည်တွင်းရေကြောင်း သယ်ယူပို့ဆောင်ရေးမှာ များစွာ တိုးတက်ခဲ့ရပေသည်။

ဥရောပတိုက်တွင် ပဌမဦးဆုံး ဖောက်လုပ်ခဲ့သော တူးမြောင်းမှာ ပြင်သစ်နိုင်ငံရှိ လန်းဒေါ့ တူးမြောင်း ဖြစ်၏။ ယင်းတူးမြောင်းကို ၁၆၈၁ ခုနှစ်တွင် ဖောက်လုပ်ပြီးစီးခဲ့၍၊ ဗစ္စကေး ပင်လယ်အော်နှင့် မြေထဲ ပင်လယ်ကို ဆက်ထားသည်။ အရှည်မှာ ၁၄၈ မိုင်ရှိ၍၊ ၆ ပေခွဲမျှ နက်၏။ ရေတံခါးပေါင်း ၁၁၉ ခုရှိ၍၊ ပင်လယ်ရေမျက်နှာပြင်မှ ပေ ၆၂၀ အထိ မြင့်သည်။ ထိုတူးမြောင်းကို ဖောက်လုပ်ပြီးနောက်၊ ပြင်သစ်လူမျိုးတို့သည် မိုင်ပေါင်း ၃၀၀၀ ကျော်မျှရှိသော တူးမြောင်းများကို ဖောက်လုပ်ခဲ့ကြသည်။ ပြင်



အင်္ဂလန်ပြည် ဟတ်ဖို့မြို့အနီး တူးမြောင်းရှုခင်း

သစ်နိုင်ငံရှိ ထိုတူးမြောင်းများနှင့်တကွ အခြားရေကြောင်းလမ်းများသည် ဒုတိယကမ္ဘာစစ်အတွင်းက အကြီးအကျယ်ပျက်စီးခဲ့ကြသည်။ သို့သော် စစ်ပြီးဆုံးသောအခါ၊ ယင်းတို့ကို ရှေးကထက် ပိုမိုကောင်းမွန်လာအောင် ပြန်လည်ပြုပြင် ဆောက်လုပ်ခဲ့ကြ၏။

ဂျာမနီနိုင်ငံတွင်ကား ကီး တူးမြောင်းသည် အကြီးဆုံးဖြစ်၏။ (ကီး တူးမြောင်း — ရှု။) ထိုတူးမြောင်းသည် ၆၁ မိုင်ခွဲမျှ ရှည်လျား၍၊ ကမ္ဘာပေါ်တွင် အကြီးဆုံးသော တူးမြောင်းများတွင် အပါအဝင်ဖြစ်သည်။ ၁ဂ၉၅ ခုနှစ်တွင် ဖောက်လုပ်ပြီးစီး၍၊ မြောက်ပင်လယ်နှင့် ဗောလတစ် ပင်လယ်တို့ကို ဆက်စပ်ထားသည်။ ၁၉၀၇–၉ ခုနှစ်များအတွင်း တူးမြောင်းဝ၏အကျယ်ကို ၇၂ ပေမှ ၁၄၄ ပေအထိ တိုးချဲ့ခဲ့သည်။ ရေအနက်ကိုလည်း ပေ ၃၀ မှ ၃၆ ပေအထိ တိုး၍တူးဖေါ်ခဲ့၏။ ဆောင်းရာသီတွင် တူးမြောင်းအတွင်းရှိ ရေသည် ခဲသဖြင့် ရေခဲခွဲသော သင်္ဘောများကို အသုံးပြု၍ ရှင်းလင်းရသည်။ သို့သော် တူးမြောင်းကို ပိတ်ထားခြင်းမရှိဘဲ၊ တနှစ်ပတ်လုံး ဖွင့်လှစ်ထား၏။ ဖြတ်သန်းသည့် သင်္ဘောများ၏ အသွားနှုန်းကို ရေမိုင် ဂ·၁ နှင့် ၅·၄ အထိသာ ခွင့်ပြုသည်။ အဝင်အထွက် အလွန်များသော နှစ်တွင် တူးမြောင်းကို အသုံးပြုသော သင်္ဘောပေါင်း ၅၆,၀၀၀ မျှရှိသည်။ ပျမ်းမျှခြင်းအားဖြင့် ၂၄ နာရီလျှင် သင်္ဘောပေါင်း ၁၅၀ ကျော်မျှ ထိုတူးမြောင်းထဲသို့ ဝင်ထွက်သွားလာကြသည်။ အဆိုပါ ကီး တူးမြောင်းအပြင် ဂျာမနီနိုင်ငံ၌ ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီ နှစ်များ အတွင်း အခြား အရေးပါ အရာရောက်သော တူးမြောင်းများကို ဖောက်လုပ်ခဲ့ကြသေးသည်။ ယင်းတူးမြောင်းတို့မှာ ဒေါ့တမန့် — အမ်း — ဗေဇာတူးမြောင်း၊ ဘာလင် — ရှတက်တင်း တူးမြောင်းနှင့် ဗရွမ်းဗတ် တူးမြောင်းတို့ဖြစ်သည်။

ဟော်လန်နိုင်ငံရှိ တူးမြောင်းများမှာကား သယ်ယူပို့ဆောင်ရေး အတွက်သာမက ရေသွင်းသော ဆည်များ အတွက်လည်း ဖြစ်သည်။ ထိုနိုင်ငံရှိ တူးမြောင်းများမှာ မြေညီတွင် ခပ်ပြေပြေ တူးဖောက်ထားခြင်းကြောင့် ကျယ်ဝန်း၍ ရေလည်းနက်၏။ ရေစီးလည်း နှေးသဖြင့် လှေသင်္ဘောများ အသွားအလာအတွက် ခက်ခဲခြင်းမရှိချေ။ အမ့်စတာဒမ်နှင့် အိုင်မှိုင်ဒင်ကို ဆက်သွယ်ထားသော မြောက်ပင်လယ်တူးမြောင်းကို ၁၉၃၇ ခုနှစ်တွင် တိုးချဲ့ ဖောက်လုပ်ခဲ့ရာ၊ အင်္ဂလန်ပြည်ရှိ မန်ချက်စတာ သင်္ဘောတူးမြောင်း နီးပါးမျှ ကြီးကျယ်လာသည်။ ထိုနောက် အမ့်စတာဒမ်နှင့် လက်မြစ်၊ ဝါလမြစ်များကိုဆက်သွယ်ထားသော မာဗေးဒီ တူးမြောင်းလည်း ရှိသေး၏။ နောက်ဆုံး ဖောက်လုပ်

သည့် တူးမြောင်းဟုဆိုရမည်ဖြစ်သော တူးမြောင်းမှာကား အမ္မစတာဒမ် — ရိုင်းတူးမြောင်းပင်ဖြစ်လေသည်။ ထိုတူးမြောင်းကို ၁၉၅၂ ခုနှစ်တွင် ဖွင့်လှစ်၍၊ အရှည် ၄၅ မိုင် ရှိသည်။

ဗဲလဂျီယမ်နိုင်ငံ၌ ရှေးအကျဆုံးတူးမြောင်းမှာ ၁၈၂၅-၂၇ နှစ်များအတွင်းက ဖောက်လုပ်ခဲ့သော ဂင့် — တနာဇင် တူးမြောင်းဖြစ်သည်။ ဂင့်မြို့နှင့် စကဲမြစ်တို့ကို တနာဇင် မြို့ဆုံရာ၌ ဆက်သွယ်ထားသော တူးမြောင်းဖြစ်၏။ ၁၈ မိုင်မျှ ရှည်သော ထိုတူးမြောင်း၏ အလျား တဝက်သည် ဟော်လန်နိုင်ငံ နယ်နိမိတ်အတွင်း၌ရှိ၍ ကျန်တဝက်မှာကား ဗဲလဂျီယမ်နယ်နိမိတ်အတွင်း၌ ရှိသည်။ ယခုအခါ ထိုတူးမြောင်းကို တိုးချဲ့ဖောက်လုပ်ထားသဖြင့် တူးမြောင်းဝမ်း အကျယ် ၁၆၄ ပေရှိ၍ ရေအနက် ၂၈½ ပေရှိသည်။ ၁၉၃၉ ခုနှစ်တွင် အလျားမိုင် ၈၀ ရှည်သော အဲလဗတ်တူးမြောင်းကို ဖွင့်လှစ်ခဲ့သေးသည်။

အင်္ဂလန်ပြည်၏ရှေးအကျဆုံး တူးမြောင်းမှာ ရောမလူမျိုးများထံမှ အမွေအနှစ်အဖြစ်ရရှိသော ဖော့စဒိုက်တူးမြောင်း ပင်ဖြစ်၏။ ထိုတူးမြောင်းသည် လင်ကွန်းမှတရင့်မြစ်အထိ ပေါက်သည်။ ၁၈ ရာစုနှစ် အလယ်ပိုင်းမတိုင်မီက အင်္ဂလန် ပြည်၌ တူးမြောင်းများ မရှိသလောက်ပင် နည်းပါးသည်။

၁၇၆၅ ခုနှစ်တွင် ဗရစ်ဂျဝါးတား မြို့စားသည် ဝါ့စလေမှ မန်ချက်စတာသို့ တူးမြောင်းတခုကိုဖောက်လုပ်ခဲ့ရာမှ အစပြု၍ တူးမြောင်းဖောက်လုပ်သည့်အလေ့ စတင်ပေါ် ပေါက်လာခဲ့သည်။ မီးရထားများ အသုံးပြုသည့်အချိန်အထိ တူးမြောင်းများကို ဆက်လက်၍ ဖောက်လုပ်ခဲ့သည်။ ထိုမန်ချက်စတာ တူးမြောင်းသည် အလွန် အသုံးဝင်သော တူးမြောင်းတခုဖြစ်၏။ ကုန်ထုတ်လုပ်သည့် မန်ချက်စတာ မြို့ကြီးသည် ပင်လယ်မှ ၃၅ မိုင်ဝေးသည်။ သို့သော် ထိုတူးမြောင်း၏ ကျေးဇူးကြောင့် ပင်လယ်ဆိပ်ကမ်းမြို့တမြို့ ဖြစ်လာခဲ့ပေသည်။ အင်္ဂလန်ပြည်တွင် ၁၈၃၀ ပြည့်နှစ်အထိ ဖောက်လုပ်ခဲ့သည့် တူးမြောင်းများသည် စုစုပေါင်း မိုင် ၃,၀၀၀ ခန့်မျှရှည်လျား၍၊ အကြီးဆုံး တူးမြောင်းမှာ မိုင် ၆၀ ရှည်သော ကယ်လဒိုးနီးယန်း တူးမြောင်း (၁၈၂၂) ဖြစ်သည်။ ထို တူးမြောင်းများကြောင့် ပြည်တွင်း သယ်ယူပို့ဆောင်ရေးသည် အလွန် စရိတ်သက်သာ၍၊ တနေ့တခြား တိုးတက်လာခဲ့ပေသည်။

အမေရိကန်နိုင်ငံတွင် ပဌမဦးဆုံး တူးမြောင်းကို ၁၇၉၂ ခု — ၁၇၉၆ ခုနှစ်များအတွင်း မက်ဆချူးဆက်ပြည်နယ် ကွန်နက်တီကတ် မြစ်အတွင်းရှိ ရေမော်များ အနီးတဝိုက်၌ ဖောက်လုပ်ခဲ့သည်။ ထိုနောက် ၁၉ ရာစုနှစ်ဦးမှ အစပြု၍



ဣတလီနိုင်ငံ ဗင်းနစ်မြို့အတွင်း မြတ်၍ဖောက်လုပ်ထားသော တူးမြောင်းငယ်တခု

အမေရိကန်၌ တူးမြောင်း ဖောက်လုပ်ခြင်း ခေတ်စားခဲ့ရာ၊ ၁၈၃၇ ခုနှစ် မီးရထားများကို စတင်အသုံးပြုသည့် အချိန်အထိပင်ဖြစ်လေသည်။ အမေရိကန်နိုင်ငံတွင် အထင်ရှားဆုံး တူးမြောင်းမှာ အီရီအိုင်မှ ဟဒ်ဆင်မြစ်အထိ ဆက်သွယ်ဖောက်လုပ်ထားသော အီရီတူးမြောင်းဖြစ်၍၊ ၃၆၅ မိုင်ခွဲရှည်သည်။ တခါက ဤတူးမြောင်းသည် ကုန်နှင့်လူများကို သယ်ယူပို့ဆောင်ရာ၌ အလွန်အသုံးဝင်ခဲ့သည်။ မကြာသေးမီက ဤတူးမြောင်းကို ဒေါ်လာသန်းပေါင်း ၂၃၀ သန်းအကုန်ခံ၍ ပြင်ဆင်ခဲ့ပြီးနောက် 'နယူးယော့ပြည်နယ်တူးမြောင်း' ဟု အမည်သစ် ပေးခဲ့၏။ သို့သော် အမေရိကန်နိုင်ငံတွင် တူးမြောင်းခေတ်မှာ တဖြည်းဖြည်းကုန်ဆုံးပြီဖြစ်ရကား၊ နယူးယော့၊ ပင်ဆီလဗေးနီးယားနှင့်အိုဟိုင်းအိုပြည်နယ်များတွင် တူးမြောင်းမိုင်ပေါင်း ၄၅၀၀ ရှိသည့်အနက် ၁၉၁၀ ခုနှစ်တွင် ၂၄၄၄ မိုင်မျှရှည်သော တူးမြောင်းများသည် ကူးသန်းသွားလာရေးအတွက် အသုံးမဝင် ဖြစ်ခဲ့လေသည်။ ကနေဒါနိုင်ငံ၏ အရေးပါ အရာရောက်သော တူးမြောင်းတခုမှာကား ဝဲလင် သင်္ဘောတူးမြောင်းဖြစ်သည်။ ၁၉၁၃–၃၂ ခုနှစ်များတွင် ဖောက်လုပ်ပြီးစီး၍၊ တူးမြောင်း၏အရှည်မှာ ၂၇.၆ မိုင်ရှိသည်။ ထိုတူးမြောင်းသည် နိုင်အဂ္ဂရာ ကျွန်းဆွယ်ကို ကျော်ဖြတ်၍ အတ္တလန္တိတ်သမုဒ္ဒရာနှင့် ရေအိုင်ကြီးများကို ဆက်သွယ်ထားသော တူးမြောင်းဖြစ်သည်။ ကမ္ဘာပေါ်၌ ထင်ရှားသော တူးမြောင်းများတွင်လည်း အပါအဝင်ဖြစ်သည်။ သို့သော် အမေရိကတိုက်တွင် အရေးပါအရာရောက်ဆုံး တူးမြောင်းမှာ ပနားမားတူးမြောင်းဖြစ်သည်။ (ပနားမားတူးမြောင်း — ရှု။)

ရုရှနိုင်ငံ၌ ပြည်တွင်းသယ်ယူပို့ဆောင်ရေး ရေလမ်းခရီးများမှာ အခြား ဥရောပနိုင်ငံများထက် ပိုမိုများပြားလေသည်။ ဗော်လဂါ၊ ဒွန်၊ နီပါးနှင့်နီစတာမြစ်များသည် ပင်လယ်ကူး သင်္ဘောကြီးများပင် သွားလာနိုင်သော မြစ်များဖြစ်ကြ၏။ ထိုအပြင်၊ အရေးကြီးသော တူးမြောင်း သုံးသွယ်ကို ဖောက်လုပ်လိုက်ခြင်းအားဖြင့် ရုရှနိုင်ငံသည် ဗောလတစ်ပင်လယ်မှ ပင်လယ်နက်အထိ ခရီးထုတ်ချောက်သွားလာနိုင်ခဲ့လေသည်။ ရုရှ နိုင်ငံတွင် ၁၈ ရာစုနှစ် အစ ပီတာ–သ–ဂရိတ်ဘုရင်လက်ထက်ကပင် တူးမြောင်းအများအပြားဖောက်လုပ်ခဲ့၏။ သို့သော် ယခုအခါလောက် အရေးပါ အရာရောက်ခြင်း မရှိခဲ့ပေ။ ယခုတွင် ရုရှနိုင်ငံအတွက် အရေးကြီးသော တူးမြောင်းများကို ဆောက်လုပ်ခြင်းသည် ဆိုဗီယက်အစိုးရ၏ ဒုတိယ ၅ နှစ်စီမံကိန်းအရပင်ဖြစ်သည်။ ဒုတိယ ၅ နှစ်စီမံကိန်းအရ ပဌမဦးဆုံး ဖောက်လုပ်သော တူးမြောင်းမှာ အိုနီဂါအိုင်နှင့် လာဒိုဂါအိုင်တို့ကိုဖြတ်၍ ပင်လယ်ဖြူနှင့် ဗောလတစ်ပင်လယ်တို့ကို ဆက်သွယ်ပေးသော တူးမြောင်းဖြစ်သည်။ ထိုတူးမြောင်းသည် အိုနီဂါအိုင်မှနေ၍ ဗော်လဂါ မြစ်နှင့်လည်း ဆက်သွယ်ထားသည်။ အထက်ပါ စီမံကိန်းအရ နောက်ဆုံးဖောက်လုပ်ခဲ့သော တူးမြောင်းသည်ကား ဗော်လဂါ — ဒွန် တူးမြောင်းဖြစ်သည်။ ထိုတူးမြောင်းသည် ဗော်လဂါနှင့်ဒွန်မြစ်နှစ်သွယ်တို့ကို စတာလင်ဂရက်မြို့အနီးတွင် ဆက်သွယ်ဆုံမိစေသည်။ ရေတံခါး ၁၃ ခုမျှရှိ၍၊ ဗော်လဂါမှ ဒွန်အထိ အမြင့် ၂၉၆ ပေရှိသည်။ ဒွန်မြစ်၏ရေမျက်နှာပြင်ကို တူးမြောင်းအဝင်ဝ အောက်နားတွင် ဆောက်လုပ်ထားသော တမံဆည်ရိုးကြီးတခုဖြင့် မြှင့်တင်ပေး၏။ ဗော်လဂါ — ဒွန်တူးမြောင်းကို ၁၉၅၂ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သည်။ တူးမြောင်း၏အရှည်မှာ ၆၂ မိုင်ခန့်ရှိသည်။ ထိုတူးမြောင်းကို ဖောက်လုပ်ခြင်းအားဖြင့် ဗော်လဂါမြစ် ရေကြောင်းသွားလာရေးကို ပင်လယ်နက်အထိ ပေါက်ရောက်စေခဲ့၍၊ ယင်းမှခွဲဖြာဖောက်လုပ်သော အခြားတူးမြောင်းငယ်များအားဖြင့်လည်း မော်စကိုမြို့၊ လီနင်ဂရက်မြို့၊ ပင်လယ်ဖြူတို့ကို ဆက်သွယ်နိုင်ခဲ့လေသည်။ ရုရှနိုင်ငံ၏ အခြားအရေးပါ အရာရောက်သော တူးမြောင်းတခုမှာ မော်စကိုတူးမြောင်းဖြစ်သည်။ ထိုတူးမြောင်းကို ၁၉၃၇ ခုနှစ်တွင် ဖွင့်လှစ်ခဲ့၍၊ ထိုစဉ်အခါက မော်စကိုဗော်လဂါတူးမြောင်းဟုခေါ်၏။ တူးမြောင်း၏အရှည်မှာ မိုင် ၈၀ ခန့်ရှိသည်။ ဤတူးမြောင်းကို ဖောက်လုပ်ခြင်းအားဖြင့် မော်စကိုမြို့သည် အရေးပါသော ပြည်တွင်း ဆိပ်ကမ်းမြို့တမြို့ ဖြစ်လာခဲ့လေသည်။

တရုပ်နိုင်ငံတွင် ယူဟိုးတူးမြောင်းသည် ကမ္ဘာပေါ်တွင် ရှေးအကျဆုံးနှင့် အကြီးဆုံး တူးမြောင်းဖြစ်သည်။ တီယန်စင်မြို့နှင့် ဟန်ချိုမြို့ကို ရေလမ်းခရီးဖြင့် ဆက်သွယ်ထားသည်။ တူးမြောင်း၏ ပဌမတပိုင်းဖြစ်သော ယန်ဆီမြစ်မြောက်ဖက်မှ ဟွေမြစ်အထိ မိုင်ပေါင်း ၁၃၀ ခန့်ကို ဘီစီ ၄၈၆ ခန့်တွင် ဖောက်လုပ်ခဲ့၏။ တူးမြောင်း၏ ဒုတိယတပိုင်းဖြစ်သော ယန်ဆီမြစ်တောင်ဖက်နှင့် အနောက်တောင်ဖက်များမှ ဟန်ချိုမြို့အထိ မိုင်ပေါင်း ၃၅၅ ခန့်ကို ခရစ် ၆၀၅–၆၁၀ ခုနှစ်များအတွင်း ဖောက်လုပ်ပြီးစီးခဲ့သည်။ မြောက်ပိုင်းတရုပ်နိုင်ငံနှင့် ဆက်သွယ်ခဲ့သော တူးမြောင်း၏နောက်ဆုံးတပိုင်းဖြစ်သည့် ဟွေမြစ်မှ တီယန်စင်မြို့အထိကိုမူကား မွန်ဂိုမင်းများလက်ထက် ခရစ် ၁၂၈၀ ပြည့်နှစ်ခန့်တွင် ဖောက်လုပ်ပြီးစီးခဲ့လေသည်။ ထိုနောက် ထပ်မံတိုးချဲ့ခြင်းအားဖြင့် ယခုအခါ ထိုတူးမြောင်းသည်ပီကင်းမြို့အနီးသို့ ရောက်ရှိလာပြီဖြစ်၏။ ဤတူးမြောင်းသည် ရာစုနှစ်ပေါင်းများစွာပင် မြောက်ပိုင်းတရုပ်နိုင်ငံနှင့် ယန်ဆီမြစ်ဝှမ်းတို့အကြားတွင် အဓိကရေကြောင်းသယ်ယူပို့ဆောင်ရေး လမ်းမကြီးဖြစ်ခဲ့လေသည်။ တူးမြောင်း၏ စုစုပေါင်း အလျားမှာ ၁,၂၀၉ မိုင်ခန့်ဖြစ်၏။ သို့သော် မကြာသေးမီကာလများအတွင်းက ဤတူးမြောင်း၏ အချို့သော အပိုင်းများမှာ

ကောကုန်သဖြင့် ယခုအခါ မိုင်ပေါင်း ၈၉၂ မိုင်ခန့်မျှသာ လှေသင်္ဘောများ သွားလာဝင်ထွက်နိုင်ပေသည်။

အီဂျစ်နိုင်ငံကား တူးမြောင်းတခုတည်းဖြင့်ပင် ကမ္ဘာတွင် ထင်ရှားကျော်ကြားခဲ့၏။ ထိုတူးမြောင်းမှာ ဆူးအက်တူးမြောင်းပင်တည်း။ (ဆူးအက်တူးမြောင်း — ရှု။)

မြန်မာနိုင်ငံ၌လည်း ရေကြောင်းခရီး သယ်ယူပို့ဆောင်ရေးနှင့် လယ်ယာ စိုက်ပျိုးရေးဆိုင်ရာ တူးမြောင်းများ ရှိသည်။ တွံ့တေးတူးမြောင်း၊ ကျိုက်ထိုတူးမြောင်းနှင့်ပဲခူးစစ်တောင်းတူးမြောင်းတို့သည် ရေကြောင်းခရီး သယ်ယူပို့ဆောင်ရေး လွယ်ကူစေရန် ဖောက်လုပ်ထားသော တူးမြောင်းများဖြစ်သည်။ မန္တလေးတူးမြောင်း (၁၉၀၂–၀၃ ခုနှစ်ဖွင့်သည်။)၊ ရွှေဘိုတူးမြောင်း (၁၉၀၆–၀၇ ခုနှစ်ဖွင့်သည်။) ၊ရေဦးတူးမြောင်း (၁၉၁၁–၁၂ ခုနှစ်ဖွင့်သည်။)၊ မုန်းတူးမြောင်း (၁၉၁၁–၁၂ ခုနှစ်ဖွင့်သည်။)၊ စလင်းတူးမြောင်း (၁၉၂၅–၂၆ ခုနှစ်ဖွင့်သည်။)၊ မန်းတူးမြောင်းနှင့် မူးတူးမြောင်းဟောင်း စသည်တို့မှာ ခြောက်သွေ့သော မိုးခေါင်ရေရှား အရပ်များ၌ လယ်ယာစိုက်ပျိုး လုပ်ကိုင်နိုင်စေရန် ဖောက်လုပ်ထားသော တူးမြောင်းများဖြစ်ကြလေသည်။

ရေကြောင်းခရီး သယ်ယူပို့ဆောင်ရေးဆိုင်ရာ တူးမြောင်းများအနက် ရန်ကုန်မြစ်နှင့်ချောင်းနားဗာကာမြစ်တို့ကို ဆက်သွယ်ထားသော အလျား ၂၁ မိုင်ရှည်သည့် တွံ့တေး တူးမြောင်းသည် အရေးအကြီးဆုံးဖြစ်သည်။ ရှေးအခါက ပြည်တွင်းရေကြောင်း ခရီးဖြင့် ရန်ကုန်မြို့သို့လာရာ၌ ခရီးရှည်လျား၍ အချိန်ကုန်သော တွံ့တေးချောင်းမှလာရ၏။ ယခုသော် တွံ့တေးတူးမြောင်းကို ဖောက်လုပ်ခြင်းအားဖြင့် ရန်ကုန်မြို့သို့ လှေသင်္ဘောအသွားအလာ လွယ်ကူလျင်မြန်လာသည့်အပြင် အချိန်ကုန်ခြင်းနှင့်စရိတ်ကုန်ခြင်းလည်း များစွာသက်သာခဲ့လေသည်။ အထက် မြန်မာနိုင်ငံမှ ဆန်နှင့် သစ်များကိုလည်း ဤတူးမြောင်းမှပင် လွယ်ကူစွာ သယ်ယူတင်ပို့နိုင်ပေသည်။ တွံ့တေးတူးမြောင်းကို ၁၉၁၆–၁၇ ခုနှစ်အတွင်း၌ ဖွင့်လှစ်အသုံးပြုခဲ့၍၊ ၁၉၃၅ ခုနှစ်တွင် တူးမြောင်းကို ဆည်ပြီးလျှင် ထပ်မံချဲ့ထွင်ခဲ့သည်။ တူးမြောင်းဖောက်လုပ်ခြင်းအတွက် စုစုပေါင်းကုန်ကျငွေမှာ ၁၀၃,၉၆,၀၀၀ ကျပ်ခန့်ဖြစ်သည်။

ရန်ကုန်မြစ်မှခွဲထွက်သော ပဲခူးမြစ်ပေါ်ရှိ တာဝမြို့နှင့် စစ်တောင်းမြစ်ပေါ်ရှိ မြစ်ကျိုးရွာမှစတင်၍ပဲခူးမြို့တောင်ဖက်ရှိ တာဝရွာတွင် ပဲခူးမြစ်နှင့်လာရောက်ဆက်သွယ်သည့် ပဲခူးစစ်တောင်းတူးမြောင်းသည် အလျား ၃၈ မိုင်ရှည်၍၊ တူးမြောင်း၏ထိပ်နှစ်ဖက်တွင် အရှည်ပေ ၂၄၀၊ အကျယ်ပေ ၃၀ ရှိသော ရေတံခါးတခုစီ တပ်ဆင်ထားသည်။ ထိုတူးမြောင်းသည် ၁၈၈၅ ခုနှစ် ရန်ကုန် တောင်ငူမီးရထားလမ်းဖွင့်သည့် အချိန်ထိ ရန်ကုန်နှင့်တောင်ငူအကြား၌ တခုတည်းသော လမ်းပန်းအဆက်အသွယ် ဖြစ်ခဲ့သည်။ ၁၈၈၇–၈၈ ခုနှစ်



ဂရိနိုင်ငံကို ၂ ပိုင်းခွဲခြမ်းထားသော ကော်ရင့်တူးမြောင်း

အတွင်းသို့ရောက်မှ ပဲခူးစစ်တောင်း တူးမြောင်းကို စိန့်စ် တကျ ဖွင့်လှစ်နိုင်ခဲ့သည်။ စစ်တောင်းမြစ် တလျှောက် မျှောချလာသော သစ်ဖောင်များသည် ထိုတူးမြောင်းမှ တဆင့် ရန်ကုန်မြို့သို့ ရောက်သည်။ ပဲခူးစစ်တောင်း တူး မြောင်း ဖောက်လုပ်ခြင်းအတွက် စုစုပေါင်းကုန်ကျငွေမှာ ၇၉,၄၆,၀၀၀ ကျပ်ခန့်ဖြစ်သည်။

ကျိုက်ထိုတူးမြောင်းသည် ကျိုက်ထိုမြို့တည်ရှိရာ ကျိုက် ထိုမြစ်မှ စစ်တောင်းမြစ်၏အရှေ့ဖက်ကမ်းအထိ ဆက်သွယ် ထား၍၊ မိုင် ၂၀ ခန့်ရှည်ပြီးလျှင် တူးမြောင်းထိပ်နှစ်ဖက်၌ ရေတံခါး တခုစီရှိသည်။ ပဲခူးစစ်တောင်း တူးမြောင်းမှ တဆင့် ကျိုက်ထို တူးမြောင်းသို့ ဆက်လက် သွားနိုင်သဖြင့် ဤတူးမြောင်းကို ပဲခူးကျိုက်ထို တူးမြောင်းဟုလည်း ခေါ် သည်။ ယခုအခါ ကျိုက်ထိုတူးမြောင်းမှာ ကောစပွံ့ပြီဖြစ် ၍ များစွာအသုံးမပြုကြတော့ချေ။

ရှေးအခါက ရေသွင်းပေးရန် ရေတံခါး၌ အပေါက်ငယ် များကို ဖောက်လုပ်ထားသည်။ ယခုခေတ်တွင်မူ ရေတံခါး ၏နံရံရှိ ရေလွှဲပေါက်များကို အသုံးပြုကြသည်။ ရေတံခါး များဖြင့် လှေသင်္ဘောများကို နိမ့်ရာမှ မြင့်ရာသို့ တင်ပေး ပုံမှာ ဤသို့ဖြစ်၏။ ပမာအားဖြင့် သင်္ဘောတစင်းသည် ရေမျက်နှာပြင်နိမ့်လျက်ရှိသော မြစ်တမြစ်မှ ရေမျက်နှာပြင် မြင့်သော အခြားမြစ်တမြစ်သို့ တူးမြောင်းဖြင့် ဖြတ်သွား လိုသည်ဆိုကြပါစို့။ တူးမြောင်းတွင် မြစ်နှစ်မြစ်ကြားရှိ မြင့် မားသော ကုန်းမြေကိုဖြတ်၍ သင်္ဘောကို သယ်ဆောင်ပို့ပေး နိုင်ရန် ရေတံခါးများကို အဆင့်ဆင့် ပြုလုပ်ထားသည်။ သင်္ဘောသည် တူးမြောင်းကိုဖြတ်ကျော်ရန် ပဌမရေတံခါး ထဲသို့ ရောက်ရှိလာသောအခါ၊ အခန်း၏တံခါးကိုပိတ်ပြီး လျှင် ရေလွှဲပေါက်များမှ ရေကိုသွင်းပေးသည်။ ဤသို့ ရေသွင်းပေး၍ ပဌမအခန်းရှိ ရေသည် ဒုတိယအခန်းရှိ ရေ နှင့်မျက်နှာပြင် ညီလာသောအခါ၊ ဒုတိယအခန်းကို ဖွင့်ပေး သည်။ ထိုနောက် သင်္ဘောကို ဒုတိယအခန်းတွင်းသို့ ဆွဲသွင်း၍၊ ဒုတိယအခန်းကို တဖန်ပိတ်ရပြန်သည်။ ယင်း ကဲ့သို့ ဆင့်ကဲဆင့်ကဲပြုလုပ်ပေးခြင်းဖြင့် သင်္ဘောသည် ရေ တံခါးအထပ်ထပ်ကိုဖြတ်ကျော်၍၊ နောက်ဆုံးတွင် မိမိသွား လိုရာ မြစ်ထဲသို့ရောက်ရှိလေသည်။ တူးမြောင်းအတွင်း မြင့်ရာမှနိမ့်ရာသို့ စုန်ဆင်းသောအခါ၌လည်း ဤနည်းကို ပြောင်းပြန်အသုံးပြုရသည်။ ရှေးအခါက တူးမြောင်းများ တွင် လှေသင်္ဘောများကို ဆွဲယူရန် လူအား တိရစ္ဆာန်အား ကိုသာ အသုံးပြုခဲ့ကြသည်။ ယခုအခါ၌ပင် အချို့ဒေသ များ၌ ဤနည်းကို အသုံးပြုဆဲ ဖြစ်၏။ ခေတ်မီသော ရေတံခါးများတွင်မူ လျှပ်စစ်ဓာတ်အားကို အသုံးပြုလျက် ရှိပြီဖြစ်သည်။

တူးမြောင်းများတွင် ပြည်တွင်းသုံးရန် တူးမြောင်းနှင့် သင်္ဘောကြီးများသွားလာရန် တူးမြောင်းဟူ၍ နှစ်မျိုးရှိ သည်။ သင်္ဘောကြီးများအသုံးပြုသည့် တူးမြောင်းမျိုးမှာ ပင်လယ်တခုမှ အခြားပင်လယ်တခုသို့ ကူးသွားရာ၌ ခရီးကို နီးအောင် ကျွန်းဆွယ်များကိုဖြတ်၍ ဖောက်လုပ်ထားသည့် တူးမြောင်းမျိုး သို့မဟုတ် ပြည်တွင်းအရေးကြီးသည့်နေရာ ကို သင်္ဘောဆိပ်ဖြစ်အောင် တူးယူသည့် တူးမြောင်းမျိုးဖြစ် သည်။ သင်္ဘောကြီးများအသုံးပြုသည့် တူးမြောင်းများ အနက် ပင်လယ်ချင်းဆက်သွယ်ထားသော တူးမြောင်းများ မှာ အီဂျစ်နိုင်ငံရှိ ဆူးအက်တူးမြောင်း၊ ဂျာမနီနိုင်ငံရှိ ကီး တူးမြောင်း၊ အမေရိကန်နိုင်ငံရှိ ပနားမားတူးမြောင်းစသည် တို့ ဖြစ်ကြ၍၊ ကယ်လဒိုးနီးယန်းတူးမြောင်းမှာ ဤအမျိုး အစားတွင် ရှေးအကျဆုံးတူးမြောင်းဖြစ်သည်။ အင်္ဂလန် ပြည်ရှိ မန်ချက်စတာတူးမြောင်းမှာကား မန်ချက်စတာမြို့ကို သင်္ဘောဆိပ်မြို့ဖြစ်လာစေရန် ဖောက်သွယ်ထားသော တူး မြောင်းဖြစ်လေသည်။

**တေဇောသာရ၊ ရှင်**။ ။ရှင်တေဇောသာရသည် အင်း ဝခေတ်တွင် ထင်ရှားသော ပျို့ကဗျာစာဆိုတဦးဖြစ်သည်။ အင်းဝမြို့သား ဇာတိဖြစ်၍၊ စာဆိုအကျော် ရှင်မဟာ ရဋ္ဌသာရ၏ တပည့်ရင်းလည်းဖြစ်သည်။ (မဟာရဋ္ဌသာရ၊ ရှင် — ရှု။) ရှင်မဟာသီလဝံသနှင့် ရှင်မဟာရဋ္ဌသာရတို့ သည် အပြိုင်စာဆိုကြသကဲ့သို့ ထိုဆရာတော်နှစ်ပါး၏တပည့် များ ဖြစ်ကြသော ရှင်အုံးညိုနှင့် ရှင်တေဇောသာရတို့သည် အပြိုင်စာဆိုလေ့ရှိကြသည်။ (မဟာသီလဝံသ၊ ရှင်။ ရှင် အုံးညို — ရှု။) ရှင်တေဇောသာရသည် ဓတရဋ္ဌသုဝဏ္ဏ ဟံသပျို့ခေါ် ရွှေဟသ်ာမင်းပျို့၊ ပြာဠိဟာခန်းပျို့၊ ဗျာဒိတ် တော်ခန်းပျို့နှင့် အာဒါသမုခပျို့များကို ရေးသားစီကုံးခဲ့ သည်။ ဓတရဋ္ဌသုဝဏ္ဏဟံသပျို့ခေါ် ရွှေဟသ်ာမင်းပျို့ကို ၈၇၁ ခုနှစ်၌စီကုံးပြုစုသည်။ ယင်းပျို့သည် ဘုရားဟော အသီတိနိပါတ် မဟာဟံသဇာက်တော်လာ ဘုရားလောင်း ဟသ်ာမင်း၏အကြောင်းကို ဖွဲ့နွဲ့ထားခြင်းဖြစ်သည်။ ထိုပျို့ ၌ ရှင်တေဇောသာရသည် ရာဇကြောင်းကိုနွယ်၍ အရှင် သ ခင်တို့၏ ကျေးဇူးသစ္စာကို အမတ်လုလင် အရာရှိဟူသမျှတို့ က စောင့်ထိန်းကြစေရန် ရည်ရွယ်ရေးသားသည်။ ပျို့ကဗျာ အဖွဲ့အနွဲ့၌ ရှင်တေဇောသာရသည် ပင်ကိုယ်ဉာဏ်ကိုသုံး၍ အသစ်အဆန်းတီထွင်ဖွဲ့နွဲ့တတ်သော သဘာဝရှိသည်။ ဥဒါ ဟရဏ်အားဖြင့်၊ ရိုးနေသောရှေးပျို့အဖွဲ့အနွဲ့တို့ဖြင့် မငြီးငွေ့ ကြရစေခြင်းငှာ၊ ရွှေဟသ်ာပျို့၏ အပိုဒ်အဖျားချများတွင် 'လက်ထပ်သင်သည် သင်ရသို့'၊ 'ငါလျှင်ကြင်သည် ကြင် ရသို့'၊ 'ကြီးရာတင်သည် တင်ရသို့' စသည်ဖြင့် ထူးခြားစွာ ထွင်၍ ဖွဲ့စပ်ဆိုခဲ့လေသည်။

သက္ကရာဇ် ၈၈၈ ခုနှစ်တွင် ရှမ်းဖျက်၍အင်းဝပျက်လေ

သော်၊ ရှင်တေဇောသာရသည် ပြည်မြို့သို့ဝင်ရောက်ခိုလှုံ၍ သီတင်းသုံးသည်။ ထိုသို့ပြည်မြို့သို့ ရောက်ပြီးနောက်၊ သက္ကရာဇ် ၈၉၈ ခုနှစ်၌ ပြာဋိဟာခန်းပျို့ကိုပြုစုလေသည်။ ထိုပျို့ကို ပြုစုရခြင်းအကြောင်းမှာ ရှမ်းမင်းသိုဟန်ဘွား၏ ရက်စက်ကြမ်းကြုတ်မှုကြောင့်၊ အလွန်စိတ်နာကြည်းလျက်ရှိသော ကန္နီမြို့စားသီရိဇေယျနော်ရထာသည် ရှင်တေဇောသာရအား မိစ္ဆာဒိဋ္ဌိအယူနှင့်သမ္မာဒိဋ္ဌိအယူကို နှိုင်းရှည့်ပြ၍၊ သာသနာကို ပြုစုရန် ကဗျာလင်္ကာ ဖွဲ့နွဲ့ပါမည့်အကြောင်း တောင်းပန်သဖြင့် ပြုစုခြင်းဖြစ်လေသည်။ ထိုပျို့သည် ဂေါတမမြတ်စွာဘုရားလက်ထက် သိဥ္စည်းအစရှိသော တိတ္ထိခေါင်းဆောင်ကြီးများက မြတ်စွာဘုရားနှင့်တန်ခိုးပြိုင်မည်ဟု အုတ်အော်သောင်းသဲ ကြော်ငြာလျက် ရှိခြင်းကြောင့် သာဝတ္ထိပြည် ကဏ္ဍမ္ဗမည်သော သရက်ဖြူပင်ရင်း၌ ဝါဆိုလပြည့်နေ့တွင် ရေမီးအစုံ တန်ခိုးပြာဋိဟာပြတော်မူကြောင်းများကို အလင်္ကာ တန်ဆာ ဆင်ယင် ဖွဲ့နွဲ့ ထားခြင်းပင် ဖြစ်သည်။

**တေမိယဇာတ်တော်**။ ။မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်တွင် သီတင်းသုံးတော်မူစဉ်၊ မဟာဘိနိက္ခမပါရမီတော်ကို အကြောင်းပြု၍၊ ဂါထာပေါင်း ၁၂၁ ဂါထာခွဲတို့ဖြင့် တန်ဆာစီခြယ်သော တေမိယ ဇာတ်တော်ကို ဟောတော်မူသည်။ ဤတေမိယဇာတ်တော်ကြီးကို မင်းဘူးမြို့ လေသာကျောင်းတိုက်၌ သီတင်းသုံးသော ဦးဩဘာသအရှင်သူမြတ်သည် ဒါယကာမောင်ဝက အဖန်အလဲလဲ တောင်းပန်အပ်သည် ဖြစ်၍၊ မြန်မာစကားပြေသက်သက်ဖြင့် ပြုစုရေးသားရာ၊ မြန်မာသက္ကရာဇ် ၁၁၄၇ ခုနှစ် တပို့တွဲလဆန်း ၁၁ ရက်နေ့တွင် ပြီးမြောက်လေသည်။

ထိုတေမိယဇာတ်တော်ကား ဤသို့တည်း။

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ကာသိတိုင်းကို အစိုးရသောကြောင့်၊ ကာသိကရာဇ်အမည်ရှိသော မင်းသည်မင်းပြု၏။ ထိုမင်း၏မိဖုရားကား မဒ္ဒရာဇ်တိုင်း သာဂလပြည် မဒ္ဒရာဇ်မင်း၏သမီးတော် စန္ဒာဒေဝီဖြစ်၏။ ထိုမိဖုရားကြီးမှစ၍ မင်းမောင်းမအပေါင်းတို့တွင် တယောက်သော မိဖုရား မင်းမောင်းမတို့မျှ သားသမီး မထွန်းကားကြကုန်။ ထိုကြောင့် ဗာရာဏသီ ပြည်သူပြည်သား အပေါင်းတို့သည် ထီးမွေ နန်းမွေကို ဆက်ခံရန် သားဆု တောင်းပါမည့်အကြောင်းကို မင်းရင်ပြင်၌ အညီအညွတ်စည်းဝေး၍၊ ကာသိကရာဇ်မင်းအား လျှောက်ထားကြကုန်၏။ ထိုကြောင့် မင်းကြီး၏ တသောင်းခြောက်ထောင်သော မောင်းမအပေါင်းတို့သည် မိမိတို့ကိုးကွယ်ရာ နတ်တို့ကို ပူဇော်တင်ကိုး၍ သားဆုကိုတောင်းကြရကုန်၏။ သို့ရာတွင် စန္ဒာဒေဝီမိဖုရားကြီး၌သာလျှင် သားဆုပန်သည့်အလိုတော်ပြည့်၍၊ တေမိယ ဟူသော အလောင်းတော် မင်းသားသည် ဖွားမြင်လေ၏။

တနေ့သ၌ မင်းကြီးသည် တလသားအရွယ် သားငယ်ကို မိဖတို့၏ ချစ်ခြင်းမေတ္တာအဟုန်ဖြင့် ရင်ခွင်၌ထား၍၊ မုတ်တံခါးနန်းရင်ပြင် သဘင်တော် ထီးဖြူရိပ်မှာ စိတ်နှလုံးချမ်းမြေ့စွာနေလေ၏။ ထိုအခါ မင်းချင်းတို့သည် ခိုးသူလေးယောက်ကို ဖမ်းယူချည်နှောင်၍၊ မင်းကြီးအား ဆက်လာလတ်၏။ ထိုအခါ မင်းကြီးလည်း ခိုးသူတို့ကို အများကြောက်ရွံ့ ထိတ်လန့်အောင် ထင်ရှားစွာစီရင်ဟု ဆိုတော်မူ၏။ ထိုသို့ကြောက်မက်ဖွယ်ဆိုသော မင်းကြီးစကားကို တလသားအရွယ် မင်းသားငယ် ကြားသိလေသော်၊ ရှေးဘဝက ဗာရာဏသီပြည်ဝယ် အနှစ် နှစ်ဆယ် မင်းပြုခဲ့သည့်အဖြစ်ကြောင့် နှစ်ပေါင်း ရှစ်သောင်းမျှ ငရဲသို့လားခဲ့ရသည်ကို ပါရမီအလျောက် ပြန်ပြောင်းအောက်မေ့မိ၍၊ မင်းပြုရမည့်အခြင်းအရာကို များစွာတုန်လှုပ်မိလေ၏။

ထိုအခါ ရှေးက အမိဖြစ်ခဲ့ဘူးသူ ထီးဖြူတော်စောင့်နတ်သမီးသည် တေမိယမင်းသားအား ဆွံ့၊ အ၊ နားပင်း၍ လူခြင်း မတူသော ကာလကဏ္ဏိကဲ့သို့ ဟန်ဆောင်၍နေရန် အကြံ ပေးလေသော်၊ တေမိယ မင်းသားသည် ထိုအကြံအတိုင်း တပါးသော သူငယ်များကဲ့သို့ မငို၊ အလိုအလျောက် လက်ခြေတို့ကိုလည်း မယူမသိမ်း၊ မှိန်းမှိန်းရှက်ရှက်အိပ်စက်မွေ့ခြင်းလည်းမရှိ။ နား၊ မျက်စိတူရှု အမြုအဖျော်မေးခေါ် ငြားသော်လည်း မကြားယောင်သဖွယ် တိမ်းဖက်လှည့်၍ မကြည့်ရှု၊ ပြုစု ထိန်းယသူတို့ ထားတိုင်းသော ခြေလက်မျက်နှာ ဣရိယာပုတ်ဖြင့်သာလျှင် အင်္ဂါသုံးတန်ကို အဓိဋ္ဌာန်မြဲစွာနှင့် ပါရမီဖြည့်တော်မူ၏။

ထိုသို့ မင်းသားမတုန်မလှုပ်နေကြောင်းကို အထိန်းတော်တို့ သိလတ်သော် မင်းကြီးအား လျှောက်ထားပြီးလျှင်၊ သူခမိန်တို့ဖြင့် တိုင်ပင်၍၊ တနှစ်အရွယ်၌ နို့ရည်ဖြင့်အလိုစမ်းခြင်း၊ နှစ်နှစ်အရွယ်၌ မုံ့ခဲဖွယ်ဖြင့်အလိုစမ်းခြင်း၊ သုံးနှစ်အရွယ်၌ သစ်သီးဖြင့် အလိုစမ်းခြင်း၊ လေးနှစ်အရွယ်၌ ကစားဖွယ်ဖြင့် အလိုစမ်းခြင်း၊ ငါးနှစ်အရွယ်၌ ဘောဇဉ်ဖြင့် အလိုစမ်းခြင်း၊ ခြောက်နှစ်အရွယ်၌ မီးဖြင့်အလိုစမ်းခြင်း၊ ခုနစ်နှစ်အရွယ်၌ ဆင်ဖြင့်အလိုစမ်းခြင်း၊ ရှစ်နှစ်အရွယ်၌ မြွေဖြင့်အလိုစမ်းခြင်း၊ ကိုးနှစ်အရွယ်၌ ကချေသဘင်ဖြင့် အလိုစမ်းခြင်း၊ ဆယ်နှစ်အရွယ်၌ သန်လျက်ဖြင့် အလိုစမ်းခြင်း၊ တဆယ့်တနှစ်အရွယ်၌ ခရုသင်းဖြင့် အလိုစမ်းခြင်း၊ တဆယ့်နှစ်နှစ်အရွယ်၌ စည်ကြီးဖြင့်အလိုစမ်းခြင်း၊ တဆယ့်သုံးနှစ်အရွယ်၌ ဆီးမီးဖြင့် အလိုစမ်းခြင်း၊ တဆယ့်လေးနှစ်အရွယ်၌ တင်လဲဖြင့် အလိုစမ်းခြင်း၊ တဆယ့်ငါးနှစ်အရွယ်၌ မစင်ဖြင့် အလိုစမ်းခြင်း၊ တဆယ့်ခြောက်နှစ်

အရွယ်၌ မီးမယ်ဖြူးဖြင့် အလိုစမ်းခြင်း၊ တဆယ့်ခုနစ်နှစ်အရွယ်၌ ကချေသည်ဖြင့် အလိုစမ်းခြင်းဟူ၍ မင်းအမတ်တို့သည် တေမိယမင်းသား၏အလိုကို သိရအောင် ဆယ့်ခုနစ်ကြိမ်တိုင်တိုင် အလိုစမ်းကြကုန်၏။ သို့ရာတွင် အမှန်ကို မလျှောက်ထားနိုင်ကြောင်း သိရှိရလေသော်၊ မင်းကြီးသည် ပုရောဟိတ်ပုဏ္ဏားတို့အား ခေါ်ယူမေးမြန်းပြန်ရာ၊ ပုရောဟိတ်တို့သည် တေမိယမင်းသားအား ကျက်သရေ မရှိသည်ဖြစ်၍၊ အမင်္ဂလာ အင်္ဂါ ချို့ယုတ်သော မြင်းရထား၌ တင်စေ၍ သုသာန် တစပြင်၌ မြှုပ်နှံသဖြင့် ဖျောက်ရန်သင့်မည်ဟု ဓမ္မဝတ်ကိုမငဲ့ကွက်ဘဲ လျှောက်ထားကြလေ၏။

ထိုအခါ မယ်တော်စန္ဒာဒေဝီမိဖုရားကြီးသည် ရှေးအခါက မိမိလိုရာ ခွင့်တောင်းစေ ဟူသော အမိန့်ကို မင်းကြီးထံမှ ကတိရရှိပြီးဖြစ်သည့်အတိုင်း၊ သားတော်တေမိယမင်းသား အသက်ချမ်းသာစိမ့်သောငှာ၊ သားတော်အား ထီးမွေနန်းမွေပေးအပ်ရန်တောင်းဆိုလေ၏။ မင်းကြီးငြင်းလတ်သော် မိဖုရားလည်း တသက်တာမျှ မင်းအဖြစ်မရလျှင် ခုနစ်နှစ်သို့တည်းမဟုတ် ခုနစ်လ၊ ခြောက်လ၊ ငါးလ၊ လေးလ၊ သုံးလ၊ နှစ်လ၊ တလ၊ ဆယ့်ငါးရက်၊ ခုနစ်ရက်စသည်ဖြင့် တတ်နိုင်သမျှ ဆိုကိုရလေအောင် လျှောက်ထားလေရာ၊ နောက်ဆုံး၌ တေမိယမင်းသားအား ခုနစ်ရက်ထီးနန်းအပ်လေ၏။ ဤ ခုနစ်ရက် ထီးနန်းစံနေစဉ် မယ်တော်စန္ဒာဒေဝီမိဖုရားသည် တေမိယမင်းသားအား စကား ပြောပါရန် တောင်းပန်၏။ သို့သော်ငြားလည်း တေမိယမင်းသားသည် မယ်တော် တယောက်ကို မထောက်မထား သနားခြင်းမရှိလေဟန်ဖြင့်၊ အဓိဋ္ဌာန် မပျက်ရအောင် ပြကတေ့မတုန်မလှုပ်သာလျှင် နေတော်မူလေ၏။

ထိုကြောင့် ခုနစ်ရက်မြောက်သောနေ့တွင် ရထားမှူးသည် တေမိယမင်းသားအား မြေတွင်မြှုပ်အံ့ဟု သုသာန်သို့ထုတ်လေ၏။ ထိုအခါမှ တေမိယမင်းသားသည် 'ငါကား အထက်က ပညာစွမ်း ကိုယ်စွမ်းကို ဖုံးလွှမ်းမြှုပ်တိမ် အချိန်အခါမဟုတ်သဖြင့် ထုတ်ပြခြင်းမပြု၊ ယခုမူကား ပညာနှင့်ကိုယ်အားကို ထင်ရှားစွာ ထုတ်ပြသင့်သောအခါရောက်ပြီ' ဟု ယူဆလျက်၊ ရထားမှမြေသို့သက်ပြီးလျှင် အဝတ်တန်ဆာတို့ကို ဝတ်ဆင်ရန် တောင့်တတော်မူလေ၏။ ထိုတောင့်တချက်အရ၊ ဝိသကြုံနတ်သားက သိကြားမင်းကိုယ်စား ဝတ်လဲတော်ကို ဆက်သရာ၊ ထိုဝတ်လဲတော်ကိုဝတ်၍၊ ရထားမှူး သုနန္ဒာနှင့် စကားဆိုတော်မူ၏။ ဘုရားလောင်း တေမိယမင်းသားသည် ရထားမှူးအား အဆွေခင်ပွန်းတို့အား မပြစ်မှားထိုက်ကြောင်းဖြင့် မိတ္တပူဇာ ဒေသနာ ဆယ်ဂါထာဖြင့် တရားဓမ္မဟောပြသည်တွင် ရထားမှူးသည် တေမိယမင်းသား၏အဖြစ်သနစ်ကို သိ၍၊ နေပြည်တော်သို့ ပြန်ပြီးလျှင်၊ မင်းပြုတော်မူပါရန် လျှောက်ထားလေ၏။

တေမိယမင်းသားကား မင်းအဖြစ်ကိုစွန့်၍ ရဟန်းပြုလျက် ချမ်းသာစွာနေအံ့မည်ကို ပြောပြ၍၊ ခမည်းတော် မယ်တော် ဆွေတော် မျိုးတော်တို့အား ကန်တော့လိုက်ကြောင်းကို မှာကြားကာ၊ ရထားမှူးကို နေပြည်တော်သို့လွှတ်လေ၏။ ရထားမှူးလည်း နေပြည်တော်သို့ရောက်၍ အကြောင်းစုံကို လျှောက်ထားလတ်သော်၊ မယ်တော် ခမည်းတော် စသည်တို့သည် ရဟန်းအဖြစ်သို့ရောက်ပြီးသော တေမိယမင်းသားထံသို့ ကိုယ်တိုင်လိုက်လာကြပြီးနောက်၊ တေမိယမင်းအား မင်းအဖြစ်ကို ယူရန် တောင်းပန်လတ်သော်၊ တေမိယမင်းသည် တောထွက်ခြင်း၏အကျိုးကို ပြ၍ တရားဓမ္မ ဟောကြားသည်တွင် မယ်တော်၊ ခမည်းတော်မှအစ ဗာရာဏသီ တပြည်လုံးသည် ဥစ္စာ စည်းစိမ် ဟူသမျှတို့ကို စွန့်လွှတ်၍ တောထွက်ကာ ရဟန်းပြုကြလေ၏။ ထိုမှတဖန် ဗာရာဏသီပြည်သူ ပြည်သားတို့ ရဟန်းပြုကြသည်ဟူသော သတင်းကို ကြားသိရသော်၊ အနီးအနားရှိ ခုနစ်ပြည်ထောင် မင်းအပေါင်းတို့လည်း တောထွက်၍ ရဟန်းပြုကြလေကုန်၏။

**တေးထပ်။** ။မြန်မာစာပေတွင် ကဗျာဟူသော မူလပင်မ၌ လက်ာ၊ သီချင်းဟု အခက်အလက်ရှိရာ တေးရိုး၊ တေးဆန်းသည် သီချင်းစုတွင်ပါဝင်သည်။ သက္ကရာဇ် ၉၅၉ မှ ၁၁၁၃ ခုနှစ်အထိထွန်းကားခဲ့သော ညောင်ရမ်းခေတ်တွင် တေးရိုးကဗျာ ပေါ်ပေါက်လာခဲ့သည်။ ယင်းတေးရိုးတို့ကို ဆယ်နှစ်ရာသီဖွဲ့များကို ဖွဲ့ဆိုရာ၌ သုံးလေ့သုံးထရှိကြသည်။ ထိုတေးရိုး၏ နမူနာကိုပြရသော် —

တန်ခူးဂိမ္မမှာ
ခတ်တေဇ ယှဉ်မှီ၊
ခါမိဿ ချိန်ညီ၊
သဝဏ္ဏီ နက္ခတ်၊
စိတြ မည်မက္ခာ
တာရာမှာ ကေဝဋ္ဋမှတ်။
ပန်းကုံကော် ရင်ခတ်တို့
ပွင့်ချပ်ကယ် စုံလင်၊
သင်းရနံ့ ပျံ့ရှင်၊
ရေသဘင် ပွဲလမ်း၊
ထိန့်ရိုက်ဆင့် ကြူးကြော်သည်
သကြာန်တော် ကျူးရင့်သည့်တမ်း။

ဟူ၍ဖြစ်သည်။

ထိုတေးရိုးတွင်ပါရှိသော တေးသံကို အကွန့်အတက် ဆန်းပြားစွာဖြင့် ထပ်၍ထပ်၍ ဖွဲ့စည်းသီကုံးအပ်သော ကဗျာကို တေးထပ်ခေါ်သည်ဟု ယူဆကြသည်။

တေးထပ်စပ်နည်းကို စလေဦးပုည က။ 'စပ်မူနည်းရေး

လိုပါလျှင်၊ တေးကိုသာ ရအောင်ကျက်ပါတော့၊ ခက်လှဘူး မျိုးသိဂ်ါ၊ စိုးရိမ်နှင့်ဗျာ။' ဟု ဩဝါဒ ပြုခဲ့ကြောင်းဖြင့် ကဗျာ့ကြေးမုံ ပိဋကတ်ကြေးမုံကျမ်းက ဆိုလေသည်။ ဤစကားအရ တေးထပ်တို့ကိုကျက်မှတ်၍၊ အဆိုတတ်လျှင်၊ တေးထပ်စပ်ရန် မခဲယဉ်းတော့ပြီဟု သိသာလေသည်။ သို့သော် တေးထပ်စပ်နည်းကို ဝေဖန်ပိုင်းခြား၍ကြည့်တတ်လျှင်၊ သာ၍လွယ်ကူစွာပင် စည်းစံနစ်မှန်ကန်စွာဖြင့် စပ်ဆိုနိုင်ရာသည်။

တေးထပ်စပ်နည်း အခြေခံတို့မှာ ဤသို့တည်း။ တေးထပ်၌ ၁၈ ပါဒရှိသည်။ ယင်း ၁၈ ပါဒတို့ကို အအုပ်အခံကာရန်အရ ခြောက်ပါဒစီ ပါဝင်သော အပိုင်းသုံးပိုင်း ခွဲခြားနိုင်သည်။ အပိုဒ်အားဖြင့် ခွဲခြားလျှင် ပဌမပိုင်းတွင် နှစ်ပိုဒ်၊ ဒုတိယပိုင်းတွင် သုံးပိုဒ်၊ တတိယပိုင်းတွင် နှစ်ပိုဒ်၊ ပေါင်း ခုနစ်ပိုဒ်ပါရှိသည်။ ပဌမပိုင်းတွင် အစလေးပါဒခံ၍၊ နှစ်ပါဒ အုပ်ရသည်။ ယင်းအခံနှင့်အအုပ်ပိုဒ်များမှာ ပဌမပိုဒ်နှင့် ဒုတိယပိုဒ်ဖြစ်သည်။ ဒုတိယပိုင်းတွင် နှစ်ပါဒတက်၍၊ နှစ်ပါဒခံပြီးလျှင်၊ နှစ်ပါဒအုပ်ရသည်။ နှစ်ပါဒစီပါသော တတိယပိုဒ်၊ စတုတ္ထပိုဒ်နှင့် ပဉ္စမပိုဒ်များ ဖြစ်ကြသည်။ တတိယပိုင်းမှာ ပဌမပိုင်းကနည်းအတိုင်း လေးပါဒခံ၍၊ နှစ်ပါဒအုပ်ရသည်။ ယင်းအခံနှင့် အအုပ်ပိုဒ်များမှာ ဆဋ္ဌမနှင့် သတ္တမပိုဒ်များဖြစ်သည်။ ဤစံနစ်တွင်၊ အခံအအုပ်ကာရန်သဘောဖြင့် အပိုဒ်ခွဲခြားခြင်း ဖြစ်သည်။

တေးထပ်၏ အစပါဒကို စကားလုံး ငါးလုံးဖြင့်သော်၎င်း၊ ခြောက်လုံးဖြင့်သော်၎င်း စသည်။ တေးသံအားဖြင့် အသံငါးလုံးမှာ မှုမှန် ဖြစ်၏။ သို့ရာတွင် ကဗျာဖွဲ့ရာတွင် ဝါစာသိလိဋ္ဌဖြစ်အောင် ထည့်သော စကားလုံးတို့ကြောင့်၊ ခြောက်လုံးဖြင့်စလျှင်လည်း၊ အသံစဉ်အားဖြင့် မများချေ။ တေးထပ်၏နောက်ဆုံးပါဒ နောက်ဆုံးစကားလုံးမှာ 'လေး' ဟူသောစကားလုံးကို အသုံးများသည်။ သို့သော် တခါတရံ 'လား' ဟူသော စကားလုံးကိုလည်း သုံးတတ်သည်။

တေးထပ်တို့တွင်ပါဝင်သော စကားလုံးဦးရေမှာ တေးထပ်တခုနှင့်တခု မညီကြလေ။ များသောအားဖြင့် ခြောက်လုံးတပါဒ၊ ငါးလုံးတပါဒ စပ်လေ့ရှိကြသည်။ ခုနစ်လုံး ရှစ်လုံးပါသော ပါဒများလည်း ရှိနိုင်သည်။ အသံ သုတိသာယာခြင်း၊ စကားသွား ချောမွတ်ခြင်းသာလျှင် အဓိကဖြစ်သည်။ ထိုပြင် တတိယပိုင်း၏ အခံပိုဒ်ဖြစ်သော ဆဋ္ဌမပိုဒ် (၁၆) ပါဒတွင် ကာရန်လေးလုံးမျှသာ ရှိတတ်သည်ကိုလည်း မှတ်သားသင့်ပေသည်။

အောက်ပါ တေးထပ်ရေးစပ်နည်း ပြဆိုသော တေးထပ်ကို ဥဒါဟရဏ်အားဖြင့် ထည့်သွင်းလိုက်သည်။ ထိုတေးထပ် စပ်နည်းကို လက်ဖက်ရည်တော် ရွာစဉ် ရွာစား မင်းလှသခ်ယာဘွဲ့ခံ ဦးပုညရေးသည်။

**ပဌမပိုင်း**

ပဌမပိုဒ်

| | | | |
|---|---|---|---|
| (၁) | ပါဒ | တေးထပ်ကိုဥာဏ်ဆလို | အခံ |
| (၂) | ပါဒ | ကြံကြတော့စပ်ပုံ | |
| (၃) | ပါဒ | ဆယ့်ရှစ်ပိုဒ်တွေ့ကြုံလျှင် | |
| (၄) | ပါဒ | အလုံးစုံပြီးမြဲ ° | |

ဒုတိယပိုဒ်

| | | | |
|---|---|---|---|
| (၅) | ပါဒ | အထခြောက်လုံးချီသည် | အအုပ် |
| (၆) | ပါဒ | ဆုံးလေပြီခုနစ်နှင့်ဘဲ ° | |

**ဒုတိယပိုင်း**

တတိယပိုဒ်

| | | | |
|---|---|---|---|
| (၇) | ပါဒ | ၏ ၍ ၌ သည် နှင့် ကို ကို | အတက် |
| (၈) | ပါဒ | သဒ္ဒါလိုမှတ်စွဲ ° | |

စတုတ္ထပိုဒ်

| | | | |
|---|---|---|---|
| (၉) | ပါဒ | အဓိပ္ပာယ်မှန်မလွဲ ° စေနှင့် | အခံ |
| (၁၀) | ပါဒ | ကြံခဲ ° လို့စပ်ပါ ᐟ | |

ပဉ္စမပိုဒ်

| | | | |
|---|---|---|---|
| (၁၁) | ပါဒ | ဆဲ့ခြောက်ထွေအစပ်သွား | အအုပ် |
| (၁၂) | ပါဒ | မမှားအောင်ရကြစေမှာ ᐟ | |

**တတိယပိုင်း**

ဆဋ္ဌမပိုဒ်

| | | | |
|---|---|---|---|
| (၁၃) | ပါဒ | ပေါရာဏကထာ ᐟ ကို | အခံ |
| (၁၄) | ပါဒ | အခါခါ ᐟ ဥာဏ်ရှုလို့ | |
| (၁၅) | ပါဒ | ချေင်းစု ၁၅ ထွေ ᐞ | |
| (၁၆) | ပါဒ | ကျွမ်းကျင်ကြစေ ᐞ | |

သတ္တမပိုဒ်

| | | | |
|---|---|---|---|
| (၁၇) | ပါဒ | တေးထပ်ရိုးပုံအနေ ᐞ မှာ | အအုပ် |
| (၁၈) | ပါဒ | စပ်ကြလေ ᐞ သည်နည်းပလေး | |

အထက်ပါဥဒါဟရဏ်တွင် အတွင်းကာရန်များကို အမဲစာလုံးပြောင်ဖော်၍ ပြထားသည်။ အခံအအုပ်ဟူသော အဆုံး ကာရန်တို့ကိုမူ အမဲစာလုံးပြောင် အပြင် °၊ ᐟ၊ ᐞ၊ ဟု ဂဏန်းစဉ်ဖြင့် ပြထားသည်။

တေးရိုးမှသည် တေးထပ်သို့ ပြောင်းလဲလာပုံကို ဤစာကိုယ်၏အစနားတွင် ဖော်ပြသောတေးရိုးနှင့် ယှဉ်၍ကြည့်ရသည်။

ကဗျာကဝိတို့သည် တေးထပ်ကို ဥာဏ်ကွန့်မြူး၍ အမျိုးမျိုးစပ်ဆိုကြသည်တွင်၊ ၁၀၇၀ ပြည့်နှစ်တွင် ရှစ်ဆယ်ပေါ်တေးထပ်ဟူ၍ ပေါ်ပေါက် လာကြောင်းဖြင့် ပုဂံဝန်ထောက်မင်း ဦးတင် ရေးသားသော ကဗျာဗန္ဓသာရကျမ်းတွင် လာရှိသည်။ နှောင်းပညာရှိတို့သည် ယင်းရှစ်ဆယ်ပေါ်တေးထပ်အသွားကိုပင် ဥာဏ်ကွန့်၍ ထပ်တွန့်တေးထပ်များ ရေးစပ်ကြသည်။ ကာရန်ကြွယ်ဝသည်နှင့်အမျှတေးထပ်ကိုချွဲထွင်၍ စပ်ဆိုကြစေကာမူ၊ ယခုပြဆိုခဲ့သောတေးထပ်စပ်နည်း အခြေခံအတိုင်းသာလျှင် ဖြစ်ကြရပေသည်။

**တယ်လီစကုပ်**။ ။အဝေးကြည့်မှန်ပြောင်း — ရှု

**တယ်လီဖုန်း**။ ။စကားပြောကြေးနန်း — ရှု

**တယ်လီဗစ်ရှင်း**။ ။တယ်လီဗစ်ရှင်းသည် အသံကိုကြားစေ၍၊ အရုပ်ကိုလည်းမြင်စေသော ရေဒီယိုတမျိုးပင် ဖြစ်၏။ တယ်လီဗစ်ရှင်းသည် ယခုအခါ စမ်းသပ်သည့်အဆင့်မှ လက်တွေ့အသုံးချသည့်အဆင့်သို့ ရောက်လာပြီဖြစ်ရာ၊ မကြာမီပင် ကမ္ဘာအနှံ့အပြား၌ တယ်လီဗစ်ရှင်းခေတ်စားလာမည့် အရိပ်အယောင်ကို မြင်နေရသည်။ တယ်လီဗစ်ရှင်းဖြင့် အသံနှင့်အရုပ် လွှင့်သောရုံများကို အင်္ဂလန်၊ အမေရိကန်စသော နိုင်ငံကြီးအချို့တို့တွင် ဆောက်လုပ်ထားပြီဖြစ်၍၊ အများသုံးနိုင်အောင် အဖိုးနှုန်းချိုသာသော တယ်လီဗစ်ရှင်းစက်ခေါ် ရုပ်မြင်သံကြားစက်များကို တီထွင်နိုင်ရန်အတွက်လည်း သိပ္ပံပညာရှင်များက ကြိုးစားလျက်ရှိကြလေသည်။

လွန်ခဲ့သောနှစ်ပေါင်းများစွာက ဂျာမန်လူမျိုး နစ်ပကိုဆိုသူသည် ရုပ်ပုံများကို လျှပ်စစ်ကြိုးဖြင့် လွှင့်နိုင်သောစက်တခုကို နမူနာပြုလုပ်ခဲ့ဘူးသည်။ လျှပ်စစ်ဓာတ်ကြိုးဖြင့် အသံကို သယ်ဆောင်နိုင်လျှင် အလင်းကိုလည်း သယ်ဆောင်နိုင်ရမည်ဟု ထိုပုဂ္ဂိုလ်ကယူဆသည်။ ရုပ်ပုံတို့သည် အလင်းကြောင့် ဖြစ်ပေါ်လာရာ၊ ဓာတ်သည် အလင်းကိုသာ သယ်ပို့နိုင်ပါက ရုပ်ပုံများကိုလည်း သယ်ဆောင်နိုင်ရမည်ဟု ယူဆကာ ကြံစည်ခြင်းဖြစ်သည်။ အလွန်ယုတ္တိရှိသော အယူအဆပင်ဖြစ်သည်။ သို့ရာတွင် ရုပ်ပုံကိုသယ်ယူပို့ဆောင်သောအလုပ်မှာ လွန်စွာခက်ခဲနက်နဲသည်




စကော့လူမျိုး ဂျွန် လိုဂီ ဗဲယာ့ တီထွင်ခဲ့သည့် တယ်လီဗစ်ရှင်းစက်



တယ်လီဗစ်ရှင်း ကင်မရာရှေ့တွင် ဟန်ပန်မူရာဖြင့် တေးသီဆိုနေသော အဆိုကျော်တဦး

က တကြောင်း၊ သူ၏စက်တွင် ချွတ်ယွင်းချက်များ ရှိနေသေးသည်က တကြောင်းတို့ကြောင့်၊ သူ၏အကြံမှာ အထမမြောက်ခဲ့ပေ။

၁၉၂၃ ခုနှစ်တွင် စကော့လူမျိုး ဂျွန် လိုဂီ ဗဲယာ့ဆိုသူက တဖန် ရုပ်ပုံများကို လွှင့်နိုင် ဖမ်းနိုင်သည့် စက်ရုံကို ကြံစည်ပြန်သည်။ ထိုအချိန်တွင် ဖိုတို အီလက်ထြစ်အိမ်ခေါ် အလင်းကြောင့် လျှပ်စစ်ဓာတ်လှုပ်ရှားမှုကို ဖြစ်စေသော ကရိယာနှင့် ဗက်ကျူယမ်ကျူခေါ် လေဟာပြွန်များ ဖြစ်ထွန်းနေပြီ။ သူသည် ထိုကရိယာနှစ်မျိုးကို အားကိုးပြု၍ နစ်ပကို၏ အယူအဆအတိုင်း လက်တွေ့ပြုလုပ်ရာ အောင်မြင်လာလေသည်။ မကြာမီပင် ရုပ်ဝေးမှုပုံများကို လွှင့်နိုင် ဖမ်းနိုင်လာသည်။ ၁၉၂၆ ခုနှစ်တွင် လန်ဒန်မြို့နှင့် ဝါရှင်တန်မြို့တို့တွင် ရုပ်ဝေးမှလွှင့်သော ရုပ်ပုံတို့ကို တယ်လီဗစ်ရှင်းဖြင့် ပြနိုင်လေသည်။ နောက်တနှစ်ကြာသော အခါ၊ ဗဲယာ့ကိုယ်တိုင် ရောင်စုံရုပ်ပုံများကို အတ္တလန္တိတ်သမုဒ္ဒရာ ဖြတ်ကျော်၍ တယ်လီဗစ်ရှင်းဖြင့် ပြနိုင်ခဲ့သည်။ နယူးယော့မြို့တွင်မူ ၁၉၃၀ ပြည့်နှစ်ကျမှ တယ်လီဗစ်ရှင်းဖြင့် ပြဇာတ်များကို ပဌမအကြိမ် ပြသနိုင်လေသည်။ ၁၉၃၂ ခုနှစ်တွင် ဒါဗီမြင်းပြိုင်ပွဲကို တယ်လီဗစ်ရှင်းဖြင့် လန်ဒန်မြို့၌ပြသခဲ့သည်။

တယ်လီဗစ်ရှင်းအကြောင်းကို နားလည်နိုင်ရန် တယ်လီဖုန်းခေါ် စကားပြောကြေးနန်းကို ရှေးဦးစွာ စဉ်းစားကြည့်ရပေမည်။ စကားပြောကြေးနန်းတွင် အသံသည် နန်းကြိုးတလျှောက်တွင် ပြေးခြင်းလည်းမဟုတ်။ လေထဲမှဖြတ်ကျော်၍ ပြေးခြင်းလည်းမဟုတ်ပေ။ လျှပ်စစ်ဓာတ်သာလျှင် ဝိုင်ယာကြိုးတလျှောက်တွင် ပြေး၍၊ လျှပ်စစ်ဓာတ် တုန်ခါမှုမှ အသံဖြစ်ပေါ်လာခြင်းသာ ဖြစ်သည်။ ထို့ကြောင့် စကားပြောကြေးနန်းတွင် ကြားရသည့်အသံသည် လူ၏ပါးစပ်မှပြောလိုက်သော တိုက်ရိုက်အသံမဟုတ်၊ လျှပ်စစ်ဓာတ်ကြောင့် ဖြစ်ပေါ်လာသော တုန်ခါမှုမျှသာ ဖြစ်ပေသည်။ (စကားပြောကြေးနန်း — ရှု။)

တယ်လီဖုန်းသည် အဝေးမှလွှင့်လိုက်သောအသံကို နန်းကြိုးတလျှောက်စီးသော လျှပ်စစ်ဓာတ်ဖြင့် ပြန်လည်ဖြစ်ပေါ်စေသည်။ ရေဒီယိုသည်လည်း တယ်လီဖုန်းနှင့် သဘောချင်း အတူတူပင်ဖြစ်၏။ (ရေဒီယို — ရှု) သို့သော် လျှပ်စစ်ဓာတ်ကို နန်းကြိုးတလျှောက် မစီးစေဘဲ၊ အာကာသထဲတွင် လျှပ်စစ်သံလိုက်လှိုင်းများကို ဖန်တီးပေးသည်။ တယ်လီဖုန်းက အသံကို ဖြစ်ပေါ်စေသကဲ့သို့ တယ်လီဗစ်ရှင်းက အလင်းကို ဖြစ်ပေါ်စေသည်။ တယ်လီဗစ်ရှင်းလွှင့်စက်တွင် ရုပ်ပုံများ၏ အလင်းကို ဖမ်းယူသည်။



ကချေသည်တဦး၏ ကဟန်ကို တယ်လီဗစ်ရှင်း စတူဒီယိုအတွင်း ရိုက်ကူးနေစဉ်

ထိုအလင်းကို လျှပ်စစ်ဓာတ်က လှိုင်းများအဖြစ်သို့ ပြောင်းလဲစေ၍၊ နန်းကြိုးတလျှောက် သို့မဟုတ် လေထဲတွင် ဖြတ်သန်းသွားစေသည်။ တယ်လီဗစ်ရှင်း ဖမ်းစက်တွင် ထိုလှိုင်းတို့ကို ရုပ်ပုံများအဖြစ် ပြန်လည်ဖြစ်ပေါ်စေသည်။ ထူးခြားချက်တခုမှာ အသံကို လွယ်ကူစွာ လွှင့်နိုင်သော်လည်း၊ ရုပ်ပုံများကို လွယ်ကူစွာ မလွှင့်နိုင်ခြင်းပင်ဖြစ်၏။ ပမာအားဖြင့် လှုပ်ရှားသွားလာနေသော လူတစု၏ရုပ်ပုံကို လွှင့်သည်ဆိုပါစို့။ ထိုလူစုပေါ်သို့ ကျရောက်နေသော အလင်း အမှောင်တို့သည် တညီတညာတည်း အတူတူပင် မဖြစ်နိုင်ချေ။ ရုပ်ပုံတခုကို လွှင့်ရာ၌ အလင်းနှင့် အမှောင်တို့ကို တိကျစွာ လွှင့်နိုင်မှသာလျှင် ပုံတူရုပ်ကို ဖမ်းယူနိုင်ပေမည်။ ထို့ကြောင့် အလင်းရောင်အမျိုးမျိုးကို အသံကဲ့သို့ တပြိုင်တည်း လွှင့်ရန်မှာ မလွယ်ကူသည့်အတိုင်း ရုပ်ပုံများကို လွှင့်သော စက်ကရိယာသည် ရေဒီယိုထက် များစွာ ရှုပ်ထွေးလေသည်။

တယ်လီဗစ်ရှင်း လွှင့်စက်တွင် အိုင်ကွန်နိုစကုပ်ခေါ် လေဟာပြွန်တခု ရှိသည်။ ပြွန်ထဲတွင် အလွန်ပါးလွှာ၍ လျှပ်စစ်ဓာတ်မလိုက်သည့် ပစ္စည်းဖြင့် ပြုလုပ်ထားသော ချပ်ပြားတခုရှိသည်။ များသောအားဖြင့် လချေးပြားဖြစ်တတ်သည်။ လချေးပြားနောက်ဖက်တွင် သတ္တုတမျိုးမျိုးကို ကာထား၍၊ ရှေ့ဖက်တွင် ဖိုတိုအီလက်တြစ်အိမ်မှာကဲ့သို့ အလင်းရောင်ကျရောက်က အီလက်ထရွန်များကို ထုတ်လွှတ်သော ပစ္စည်းတမျိုးမျိုးဖြင့် အကွက်ချ၍ ဖုံးအုပ်ထားသည်။ အကွက်တခုနှင့်တခု ကြားတွင် လျှပ်စစ်ဓာတ် မလိုက်သောပစ္စည်းဖြင့် ကြားခံထားသည်။ အကွက်ကလေးများသည် အလွန်သေးငယ်သောကြောင့် ချပ်ပြားတခုလုံးမှာ အလွန်သေးငယ်၍၊ သန်းပေါင်းများစွာပါဝင်သော ဖိုတိုအီလက်တြစ်အိမ်များဖြင့် ဖွဲ့စည်းပြုလုပ်ထားသကဲ့သို့ရှိသည်။ ဖိုတိုအီလက်တြစ်အိမ်ကဲ့သို့ ပြုမူစေရန်အတွက် အကွက်ကလေးများပေါ်တွင် ငွေသားအလိုက် အစက်ချထား၍၊ ထိုငွေသားပေါ်တွင် အလင်းရောင်နှင့်ထိတွေ့က ဓာတ်ဖောက်ပြန်တတ်သော ဆီးဇီယမ်ဒြဗ်စင်ဖြင့် ဖုံးအုပ်ပေးထားလေ့ရှိသည်။ ယခုခေတ်၌ အိုင်ကွန်နိုစကုပ်ထက်ပို၍ ပုံတူရိပ်ကို ပြတ်သားစွာ ထင်စေသော ပုံတူရိပ်အော်သီကွန်လေဟာပြွန်ကို သုံးသည်။

ရုပ်ပုံကိုလွှင့်ရာတွင် ဓာတ်ပုံရိုက်ကရိယာတမျိုးဖြင့် ရိုက်ယူ၍၊ ရုပ်ပုံ၏ ပုံတူရိပ်ကို အဆိုပါ ချပ်ပြားပေါ်သို့ ကျရောက်စေသည်။ ထိုအခါ ချပ်ပြားပေါ်ရှိအကွက်ကလေးများသည် မိမိတို့အပေါ်သို့ ကျရောက်သော အလင်းအနည်းအများအလိုက် အီလက်ထရွန်များကို ထုတ်လွှတ်

သည်။ ထိုအချိန်တွင် အီလက်ထရွန် သေနတ်ဟုခေါ်သော ပြောင်းတခုမှ အီလက်ထရွန်ရောင်ခြည်ဖြင့် ချပ်ပြားတပြင်လုံးပေါ်သို့ ကွက်လပ်မကျန်အောင် ပိုက်စိပ်တိုက်ထိုးပြသည်။ ထိုးပြပုံမှာ ကျွန်ုပ်တို့စာဖတ်စဉ် မျက်လုံးသည် စာကြောင်းများကို ဗယ်မှညာသို့ တကြောင်းစီ လိုက်ကြည့်ယင်း စာမျက်နှာထိပ်မှ အောက်သို့ တရွေ့ရွေ့ နိမ့်ဆင်းလာသကဲ့သို့ပင် ဖြစ်၏။ သို့သော် စာဖတ်သည်ထက် အဆပေါင်းများစွာ ပိုမိုလျင်မြန်၍၊ တစက္ကန့်အတွင်း အကြိမ်ပေါင်း ၃၀ အထိ ထပ်တလဲလဲထိုးပြသည်။ ဤသို့ထိုးပြရာတွင် အီလက်ထရွန် ထုတ်လွှတ်ပြီးသော အကွက်ပေါ်သို့ ထိုးမိသောအခါ၊ ကုန်ဆုံးသွားသော အီလက်ထရွန်များကို အစားဖြည့်ပေးသည်။ ဤသို့ အီလက်ထရွန်အစားဖြည့်ပေးတိုင်း သက်ဆိုင်ရာအကွက်ကလေးမှ ဖြစ်ပေါ်လာသည့် လျှပ်စစ်ဓာတ်လှုပ်ရှားမှုကလေးသည် ချပ်ပြားနောက်ဖက်၌ ဖုံးကာထားသောသတ္တုနှင့် ဆက်ထားသည့် နန်းကြိုးတလျှောက်တွင် ထွက်ပေါ်လာသည်။ ထိုနောက် ရေဒီယိုအသံလွှင့်ရာတွင် ပြုလုပ်သကဲ့သို့ အဆိုပါ လျှပ်စစ်လှိုင်းများကို အဆပေါင်းများစွာ အကြီးချဲ့ပေးပြီးလျှင် လေထဲသို့ လွှင့်လိုက်လေသည်။

တယ်လီဗစ်ရှင်းဖမ်းစက်တွင် ကင်နီစကုပ်ခေါ် အထူးစီမံထားသော ကက်သုတ်ရောင်ခြည်ပြွန်ရှိသည်။ ထိုပြွန်တွင်လည်း အီလက်ထရွန်သေနတ်တလက်ရှိ၍၊ ပြွန်အဆုံးဖက်တွင် အရောင်ခြည်တမျိုးမျိုးနှင့် ထိတွေ့က အလင်းရောင်ထွက်သော ကားချပ် (ဖလူးအိုရက်ဆင့် စကရင်း) ရှိသည်။ အီလက်ထရွန်သေနတ်မှ အီလက်ထရွန်ရောင်ခြည်ကို အိုင်ကွန်နိုစကုပ်မှာကဲ့သို့ ထပ်တူထပ်မျှ အံကိုက်ရွေ့ရှားစေ၍၊ အဆိုပါ ကားချပ်ပေါ်သို့ ထိုးပေးသည်။ ထိုအခါ ကားချပ်ပေါ်၌ တယ်လီဗစ်ရှင်းလွှင့်စက်မှ လွှင့်လိုက်သည့် ပုံတူရိပ်များအတိုင်း ထင်ပေါ်လာသည်။ အချို့သော တယ်လီဗစ်ရှင်းဖမ်းစက်တွင် ရုပ်ပုံများကို မူလအတိုင်း တိုက်ရိုက်ကြည့်နိုင်၍၊ အချို့တွင်မူ အခြားကားချပ် တခုခုပေါ်သို့ ပုံကြီးချဲ့၍ တဆင့်ထိုးပေးသည်ကို ကြည့်ရသည်။ တယ်လီဗစ်ရှင်းဖမ်းစက်များတွင် အရုပ်ကိုသာမြင်ရသည်မဟုတ်ဘဲ၊ အသံကိုလည်း တပြိုင်တည်းကြားနိုင်ရအောင် ရေဒီယိုအသံဖမ်းစက်ကိုပါ ပူးတွဲတပ်ဆင်ပေးထားလေသည်။

တယ်လီဗစ်ရှင်းကြောင့် အနာဂတ်ကာလ၌ တနိုင်ငံနှင့် တနိုင်ငံ ဆက်ဆံမှုသည် ပို၍ရင်းနှီးလာဖွယ်ရာ ရှိပေသည်။ တနိုင်ငံနှင့်တနိုင်ငံ တိုင်ပင်ဆွေးနွေးရန်အတွက် လူကိုယ်တိုင် တွေ့ဆုံစည်းဝေးဖို့ရာ လိုတော့မည်မဟုတ်ချေ။ တယ်လီဗစ်ရှင်းကို အသုံးပြုခြင်းဖြင့် မိမိတိုင်းပြည်မှာပင် နေထိုင်




ရေအောက် တယ်လီဗစ်ရှင်း ကင်မရာ (ယာစွန်) ကို ရေအောက်သို့ မချမီ ရေလုံဗူး (ဝဲ — လယ်) ထဲသို့ ထည့်သွင်းရန် ပြင်ဆင်နေပုံ



ရေနက်ထဲ၌ ရေငုပ်သမားတဦး၏ ရွေ့ရှားသွားလာပုံကို ရေအောက် တယ်လီဗစ်ရှင်း ကင်မရာဖြင့် မှတ်တမ်းတင်နေစဉ်

ယင်း တယောက်ကို တယောက် မြင်နေ ကြားနေလျက် ဆွေးနွေးနိုင်မည်ဖြစ်သည်။ လူကိုယ်တိုင်တွေ့ရန် ခရီးစရိတ်နှင့် အဖိုးတန်သောအချိန်ကို မကုန်စေဘဲ ဆက်ဆံနိုင်လိမ့်မည်။ နောင်သော် တယ်လီဗစ်ရှင်းတွင်သာမဟုတ်၊ တယ်လီဖုန်းတွင်ပါ စကားပြောယင်း တဦးကိုတဦး မြင်နေမည့်ခေတ်သို့ ရောက်ဖွယ်ရာအကြောင်းရှိသည်ဟု ယူဆရပေသည်။

တယ်လီဗစ်ရှင်းဖြင့် လူ၏ရုပ်ပုံကို ဟုတ်မဟုတ်၊ မှန်မမှန် တပ်အပ်သေချာစွာ ကြည့်မြင်ခွဲခြားနိုင်မည်ဖြစ်ရာ၊ တယ်လီဗစ်ရှင်းသည် နောင်ကာလ၌ အရောင်းအဝယ်ကိစ္စ၊ နိုင်ငံရေးရာ ကိစ္စများတွင်သာမက၊ ရာဇဝတ် စုံထောက်မှု ကိစ္စများတွင်လည်း အထူးအသုံးဝင်မည်မှာ အမှန်ပင်ဖြစ်ပေသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက တယ်လီဗစ်ရှင်း ရေဒါနှင့် တယ်လီဗစ်ရှင်းကင်မရာတို့ကို အသုံးပြုခဲ့ရာ၊ ယခုသော် ထိုနှစ်ခုကို စစ်ဖက်၌သာ လျှို့ဝှက်စွာအသုံးမပြုကြတော့ဘဲ၊ လူအများအကျိုးအတွက် စမ်းသပ်အသုံးပြုလျက် ရှိနေပြီဖြစ်ပေသည်။ တယ်လီဗစ်ရှင်းရေဒါကို သင်္ဘောများတွင် တပ်ဆင်ထားခြင်းဖြင့် ရှေ့၌ရှိသော အန္တရာယ်ဖြစ်စေမည့်အရာကို ကြိုတင်သိနိုင်သကဲ့သို့ တယ်လီဗစ်ရှင်းကင်မရာကို အသုံးပြုခြင်းဖြင့်လည်း ထိုအန္တရာယ်ဖြစ်စေမည့်အရာတို့ကို ထင်ရှားစွာ မြင်နိုင်ကြပေမည်။

တယ်လီဗစ်ရှင်းကို အသုံးပြုရာ၌ အခက်ခဲဆုံးပြဿနာ တရပ်မှာ လျှို့ဝှက်မှုပေါက်ကြားရေးပင် ဖြစ်၏။ ပမာအားဖြင့် လူနှစ်ယောက်သည် တယ်လီဗစ်ရှင်းဖြင့် ပြောဆိုဆွေးနွေးနေသည်ဆိုပါစို့။ ထိုအခါ ကြားလူတယောက်က ထိုလူနှစ်ယောက်ဆွေးနွေးနေပုံကို တခြားမှနေ၍ ကြည့်နိုင် မြင်နိုင်မည် ဖြစ်သဖြင့်၊ စိတ်ချရမည်မဟုတ်ဟု ထင်ရပေသည်။ သို့ရာတွင် တဦးနှင့်တဦး လျှို့ဝှက်သောအမှတ်အသားများထားကာ မလိုသောရုပ်ပုံကို မထင်စေရန် ဖျက်ဆီးသည့်နည်းများကို အသုံးပြုခြင်းဖြင့် ထိုအခက်အခဲကို ကျော်လွှားနိုင်မည်ဟု ယူဆရပေသည်။

တယ်လီဗစ်ရှင်းကို ယခုအခါ အများသုံးဖြစ်အောင် ကြိုးစားနေသော်လည်း၊ အခက်အခဲများ အများပင်ရှိသေး၏။ အထူးသဖြင့် တယ်လီဗစ်ရှင်းကို တနေရာတည်းမှ ကမ္ဘာသို့ အနှံ့ရောက်အောင် မလွှင့်နိုင်သည့်အတွက် အဆင့်ဆင့်လွှင့်ပေးသည့်ရုံများ ဆောက်လုပ်ရပေမည်။ အမြင့်မှလွှင့်လျှင် ပို၍ ခရီးဝေးဝေးလွှင့်နိုင်သဖြင့် လေယာဉ်ပျံမှတဆင့် လွှင့်သည့်နည်းကိုလည်း စမ်းသပ်လျက်ရှိသည်။ မည်သို့ပင်ဖြစ်စေကာမူ၊ အနာဂတ်ကာလတွင် အများသုံးဖြစ်လာရမည်မှာ အမှန်ဖြစ်ရာ၊ တယ်လီဗစ်ရှင်းသည် နိုင်ငံရေး၊ စစ်မက်ရေးတွင်သာမက စီးပွားရေး၊ ကုးသန်းဆက်ဆံရေး၊ ပညာရေးနှင့် ပျော်ရွှင်ရေးတို့တွင်လည်း တကယ်တမ်း အသုံးဝင်မည့် ကရိယာတခု ဖြစ်လာစရာ အကြောင်းရှိပေသည်။ (ရူပဗေဒ — လည်းရှု။)

**တယ်လျူရီယမ်။** ။တယ်လျူရီယမ်သည် ရှားပါးသော ဒြပ်စင်တမျိုး ဖြစ်သည်။ ယင်းကို သယံဇာတအဖြစ်ဖြင့် အများအပြားတွေ့ရသည်။ ထိုပြင် ရွှေဖြင့်၎င်း၊ ငွေဖြင့်၎င်း၊ ကြေးနီဖြင့်၎င်း၊ ခဲဖြင့်၎င်း၊ အခြားသတ္တုများဖြင့်၎င်း၊ တွင်းထွက်ပစ္စည်းရိုင်းများဖြင့်၎င်း ပေါင်းစပ်လျက်လည်း တွေ့ရသည်။ ၁၈ ရာစုနှစ်နောက်ပိုင်းကပင် တွင်းထွက်ပစ္စည်းရိုင်းတမျိုး၌ ဒြပ်စင်သစ်တခု ပါရှိသည်ဟု ရိပ်စားမိခဲ့ကြသည်။ သို့ရာတွင် နှစ်ပေါင်း ၅၀ ကျော်လွန်သောအခါမှသာ ဆီဒင်လူမျိုး ဓာတုဗေဒပညာရှင် ဗာဇီးလီယပ်ဆိုသူက ဤဒြပ်စင်သစ်သည် ကန့်နှင့် ဆီလီနီယမ် ဒြပ်စင်နှစ်ခုနှင့် ဂုဏ်သတ္တိများဆင်တူကြောင်း ပြနိုင်ခဲ့သည်။ (ကန့်၊ ဆီလီနီယမ် — လည်းရှု။) နောင်အခါ၌ ဤတွေ့ရှိမှု နှစ်ခုစလုံးပင် မှန်ကန်ကြောင်း သိရပြီးလျှင်၊ ယင်းဒြပ်စင်သစ်ကို တယ်လျူရီယမ်ဟု အမည်ပေးသည်။ ထိုတယ်လျူရီယမ်ဒြပ်စင်သည် အလှည့်မှန်ဇယားတွင် အောက်ဆီဂျင်၊ ဆာလဖာနှင့် ဆီလီနီယမ်အစု၌ ပါဝင်၍

ထိုဒြပ်စင်တွင် သတ္တုမဟုတ်သောဒြပ်စင်၏ ဂုဏ်သတ္တိများ ရှိသည်။ သို့သော် သတ္တုဒြပ်စင်၏ ဂုဏ်သတ္တိများကိုလည်း ပြသည်။ ပွင့်ပုံအနေ၌တည်သော တယ်လျူရီယမ်မှာ ငွေရောင်ကဲ့သို့ တောက်ပသည်။

တယ်လျူရီယမ်၏ အက်တမ် အလေးဆနှင့် အက်တမ် နံပတ်စဉ်တို့မှာ ၁၂၇·၆၁ နှင့် ၅၂ အသီးသီးဖြစ်၍ သင်္ကေတမှာ (Te) ဖြစ်သည်။ ပွင့်ပုံရှိ တယ်လျူရီယမ်၏ သိပ်သည်းဆမှာ ၆·၂၅ ဖြစ်၍ ပွင့်ပုံမဲ့ တယ်လျူရီယမ်၏ သိပ်သည်းဆမှာ ၅·၈၅ ဖြစ်သည်။ အပူချိန် စင်တီဂရိတ် ၄၅၂·၉ ၌ အရည်ပျော်၍ အပူချိန် စင်တီဂရိတ် ၁၄၀၀·၉ တွင် အရည်ဆူသည်။ ကြေးနီနှင့် ခဲရိုင်းတို့ကို လျှပ်စစ်ဖြင့် ဓာတ်ခွဲခြင်းဖြင့် သန့်ယူရာ၌ ကျန်ရစ်ခဲ့သောအမှိုက်မှရင်း၊ တယ်လျူရီယမ်ပါရှိသော တွင်းထွက်ရွှေရိုင်းများမှ ရွှေကို အရည်ဖျော်ယူရာတွင် ဓာတ်ငွေ့ပူများ၌ ပါရှိသော ဖုံမှုန့်များမှရင်း၊ တယ်လျူရီယမ်ကို ထုတ်ယူရသည်။ (လျှပ်စစ်ဓာတ်ဖြင့် ဓာတ်ခွဲခြင်း — လည်းရှု။) ဤသတ္တု၏ ဒြပ်ပေါင်းများသည် ဆိုးရွားသောအနံ့များရှိသည်။ ထို့ကြောင့် လူအများသည် ယင်းတို့ကို မကိုင်တွယ်လိုကြချေ။ တယ်လျူရီယမ်သည် အပူနှင့် လျှပ်စစ်လိုက်မကောင်းချေ။

တယ်လျူရီယမ်ကို အစွန်းခံ သံမဏိအကောင်းစား ပြုလုပ်ယူရန်ရင်း၊ သံဖြူနှင့် ခဲသတ္တုစပ် အကောင်းစား ပြုလုပ်ယူရန်ရင်း အသုံးပြုရသည်။ ဝိုင်ယာလက်များတွင် ကနဦးပြုလုပ်သုံးစွဲခဲ့သည့် ခရစ္စတယ်များမှာ တယ်လျူရီယမ်ဖြင့် ပြုလုပ်ယူသော ခရစ္စတယ်များဖြစ်သည်။ ယခုအခါ ရာဗာလုပ်ငန်းနှင့် ဓာတ်ပုံရိုက်လုပ်ငန်းများတွင်လည်း ဤသတ္တုကို စတင်သုံးစွဲလျက်ရှိလေသည်။

**တဲ, ဝီလျံ။** ။ဝီလျံ တဲသည် ဆွစ်လူမျိုးတို့၏ မျိုးချစ်ပုဂ္ဂိုလ်ကြီးဟူ၍ သမိုင်းတွင် စာတင်ခြင်းခံရသော လေးသည်ကျော်ဖြစ်၏။ ၁၃၀၇ ခုနှစ်လောက်တွင် ဆွစ်ဇာလန်နိုင်ငံရှိ နယ်အချို့ကို ဩစတြီးယားပြည်မှ ဟက်စဗတ်မင်းဆက်က အုပ်စိုးလျက်ရှိသည်။ တခါသော် အားလဒေါ့မြို့ဈေး၌၊ ဩစတြီးယန်းအမျိုးသား မြို့ဝန် ဂက်စလာသည် မြင့်မားသော တိုင်ကြီးတတိုင်ကို စိုက်ထူထားပြီးသော်၊ တိုင်ထိပ်တွင် ဦးထုပ်တလုံးကို တင်ထားစေ၏။ တိုင်အနီးမှ ဖြတ်သန်းသွားလာသူတိုင်း ထိုဦးထုပ်ကို ဒူးကွေးဦးညွှတ်ကာ အရိုအသေပြုကြရမည်ဟု ကျပ်တည်းစွာ အမိန့်ထုတ်ထားလေသည်။ ဤနည်းဖြင့် ဩစတြီးယန်းလူမျိုးတို့၏ တန်ခိုးဩဇာ လွှမ်းမိုးခြင်းကို ထင်ရှားစေလေသည်။

တနေ့သ၌ ဝီလျံ တဲသည် မိမိ၏သားငယ်ကလေးနှင့်အတူ



သားငယ်၏ဦးခေါင်းထက်ရှိ သစ်တော်သီးကို လေးဖြင့်ပစ်ရန် ချိန်ရွယ်နေသော ဝီလျံ တဲ

ထိုနေရာအနီးသို့ ရောက်လာ၏။ တဲကား ရိုးသားဖြောင့်မတ်၊ မြင့်မြတ်သောစိတ် ရှိသည်နှင့်အမျှ၊ ရဲစွမ်းသတ္တိရှိသူလည်း ဖြစ်လေသည်။ လေးအတတ်တွင်လည်း အထူးကျွမ်းကျင်လိမ်မာသည်။

လူမျိုးခြားတို့က မတရားသဖြင့် ရက်စက်စွာ အုပ်စိုးခြင်းကို ကျေနပ်နှစ်သိမ့်စွာ ခံယူကြောင်းပြရသည့် အထိမ်းအမှတ်ဖြစ်သော အဆိုပါဦးထုပ်အား ဦးညွတ်အရိုအသေပေးခြင်းကို စက်ဆုပ်သဖြင့် သူသည်မမြင်ဟန်ပြုကာ သွားလေသည်။ သို့အတွက် ဝီလျံ တဲအား ရက်စက်ကြမ်းကြုတ်လှသည့်မြို့ဝန်ထံသို့ စစ်သားများက ဆွဲယူခေါ်ဆောင်သွားကြလေသည်။

တဲက မိမိသည် တိုင်ထိပ်ရှိ ဦးထုပ်ကိုလည်း မမြင်၊ အမိန့်ချထားကြောင်းလည်း မသိသဖြင့် အပြစ်မရှိကြောင်း ရဲဝံ့စွာဆိုလေသည်။ သို့ရာတွင် ဂက်စလာသည် တဲ၏အကြောင်းကို ကြားသိထားသူဖြစ်၍၊ ဂိုက်တရာခန့်အကွာတွင် ရပ်နေသော တဲ၏သားကလေးခေါင်းပေါ်တွင် တင်ထားသည့် သစ်သော့သီးကို မှန်အောင် မြားနှင့် ပစ်ပြနိုင်ပါက တဲအား အပြစ်မှလွတ်မည်ဟု အမိန့်ချလေသည်။

တဲသည်ကား လက်တည့်လှသော်လည်း၊ မိမိ၏ရင်သွေးကလေး ဖြစ်နေသဖြင့် လက်မရဲနိုင်ရှာပေ။ ထိုကြောင့် မိမိ၏ရင်သွေးအတွက် အသက်အန္တရာယ်နီးလှသော အလုပ်ကို မလုပ်လိုရကား၊ မိမိကိုပင် သတ်လိုကသတ်ရန် ပြောဆိုလေသည်။ သို့ရာတွင် ဂက်စလာက မိမိအမိန့်အတိုင်း ဆောင်ရွက်စေ၏။

ရဲစွမ်းသတ္တိနှင့်ပြည့်စုံသော သားငယ်ကလည်း သူ့ဖခင်၏လက်စွမ်းကို ယုံကြည်သည့်အတိုင်း မိမိအား ထိမှန်မည်မဟုတ်ဟု စိတ်ချသဖြင့် ချထားသောနေရာမှနေ၍ ဖခင်အား မြားနှင့်ပစ်ရန် တိုက်တွန်းကာ အချက်ပင် ပြနေလေသည်။ ဝီလျံ တဲသည် မြားတောင့်မှ မြားတချောင်းကို ထုတ်ယူပြီးသော်၊ သေချာစေ့စုံစွာ ကြည့်ရှုစစ်ဆေး၍၊ သူ၏ခါးပတ်တွင် ထိုးထားလိုက်၏။ ထိုနောက် အခြားမြားတစင်းကို ထုတ်ယူပြီးလျှင် မိမိ၏လေးတွင်တင်ကာ ချိန်လွှတ်လိုက်လေသည်။ အနီးရှိသူတို့ အသက်ပင် မရှူနိုင်ဘဲ၊ ငေးမော ကြည့်ရှုနေကြစဉ် မြားသည် သစ်သော့သီးကို တည့်တည့်ကြီးထိမှန်လေ၏။

ကောက်ကျစ်သော စိတ်ထားဖြင့် စောင့်စားကြည့်ရှုနေသော မြို့ဝန်ကား မချိပြုံး ပြုံးလျက်၊ 'သင်သည် အလွန်လက်တည့်သူဖြစ်သည်။ သို့ရာတွင် အခြားမြားတစင်းကို မည်သည့်အတွက် ထုတ်ထားရသနည်း' ဟု မေးလေ၏။ 'အကျွန်ုပ်၏သားအား မြားမှန်ခဲ့ပါလျှင်၊ ဤထုတ်ထားသောမြားဖြင့် မင်းဆိုးမင်းညစ်အသင့်အား ပစ်၍သတ်ရန်ဖြစ်သည်' ဟု ဝီလျံ တဲက ရဲဝံ့စွာပြောပြလေ၏။ မြို့ဝန်မှာဒေါသအမျက် ခြောင်းခြောင်းထွက်ကာ၊ တဲကို ဖမ်းစေ၍ ကြိုးဖြင့် တုပ်ပြီးသော် လှေစန်းအိုင်ကြီးတဖက်ရှိ ထောင်အတွင်း၌ အကျဉ်းထားရန် အမိန့်ပေးလေ၏။ ဝီလျံ တဲအား ထောင်သို့ပို့ရန် အိုင်ကိုဖြတ်ကူးနေစဉ် လေပြင်းမုန်တိုင်းကျသဖြင့် ဝီလျံ တဲမှာ လှေပဲ့ကို ကူထိန်းပေးရလေသည်။ ထိုကြောင့် လှေကို ကျောက်ဆောင်ပေါများသောကမ်းစပ်တနေရာတွင် ဆိုက်ကပ်ပြီးလျှင် ကမ်းပေါ်သို့တက်ကာ တောအုပ်တခုအတွင်းသို့ ဝင်ရောက်လွတ်မြောက်သွားလေ၏။ အခြွေအရံများနှင့် နောက်မှ လိုက်ပါလာသော မြို့ဝန်အား တောအုပ်တွင်းမှ ချောင်းမြောင်း၍ မြားဖြင့် ပစ်သတ်လိုက်လေသည်။

ထိုအခါမှစ၍ တဲခေါင်းဆောင်သော ဆွစ်နယ် သုံးနယ်သည် ပူးပေါင်းကာ ဩစတြီးယန်းလူမျိုးတို့အား အောင်မြင်စွာတော်လှန်ကြလေ၏။ ထိုအောင်မြင်မှုမှာ ဆွစ်လူမျိုးတို့၏ လွတ်လပ်ရေးအစဖြစ်ရာ၊ မကြာမီ ဆွစ်တမျိုးလုံးဩစတြီးယန်းလူမျိုးတို့၏ လက်အောက်မှ လွတ်မြောက်ကြသည်ဟုဆိုလေသည်။ (ဆွစ်ဇာလန်နိုင်ငံ — လည်းရှု။) ဝီလျံ တဲ၏ အကြောင်းမှာ သမိုင်းဝင်ဟု ယူဆလောက်ပေသည်။ သို့သော် အချို့သော သုတေသီပုဂ္ဂိုလ်တို့ကမူ တဲ၏ အတ္ထုပ္ပတ္တိသည် ဒဏ္ဍာရီမျှသာဖြစ်၏ဟု ဆိုကြသည်။

**တော်စတွိုင်, ကောင့် လီယို** (ခရစ် ၁၈၂၈–၁၉၁၀)။ ရုရှစာပေသမိုင်းတွင် အထင်ရှားဆုံးဖြစ်သော စာရေးဆရာကြီး ကောင့် လီယို နီကိုလားအေဗစ် တော်စတွိုင် (ရုရှအသံထွက်အားဖြင့် လျက် နယိကပ်လာယေဗျစ် တာ့လစတွိုင်) သည် တူးလာနယ် ယာစနာယာပလျာနာ ကျေးရွာတွင် ခရစ် ၁၈၂၈ ခုနှစ်၌ ပီတာကေရာဇ်ဘုရင် လက်ထက်မှစ၍ ထင်ရှားသော မှူးမတ်မျိုးရိုးမှ မွေးဖွားခဲ့၏။ တော်စတွိုင်သည် စည်းစိမ်ဥစ္စာတို့ကို စွန့်လွှတ်၍ သူဆင်းရဲဘဝ၌ နေထိုင်ကာ အဓိဋ္ဌာန်ပါရမီကို တည်ဆောက်သော ဝတ္ထုရေးဆရာ၊ စာမွန်ရေးဆရာ၊ ယထာဘူတ ပညာရှင် အဖြစ်ဖြင့် ကျော်စော၏။

ငယ်စဉ်ကပင်လျှင် မိခင်နှင့် ဖခင်တို့ ကွယ်လွန်ခဲ့ကြသော်လည်း၊ ကြွယ်ဝသော မိဖအမွေအနှစ်ဖြင့် ဆွေမျိုးများအလယ်တွင် မတောင့်မတ မကြောင့်မကြ ကြီးပြင်းလာခဲ့သည်။ တဆယ့်တနှစ်သားအရွယ်ခန့်တွင် အစ်ကိုများနှင့်အတူ ကဇန်းမြို့တွင် ပညာသင်သည်။ ၁၈၄၄ ခုနှစ်တွင် ကဇန်းမြို့ တက္ကသိုလ်၌ အထက်တန်း ပညာရပ်များကို ဆက်လက်သင်ယူသည်။ ထိုခေတ်က ရုရှတို့၏ ပေါင်းသင်းဆက်ဆံရေးတွင် ကဇန်းမြို့မှာ အထက်တန်းကျလေရကား၊ တော်စတွိုင်သည် ဥာဏ်ပညာ ထက်မြက်သော်လည်း၊ ယင်းအထက်တန်း ပေါင်းသင်း ဆက်ဆံရေးတို့၌

## တော်စတွိုင်, ကောင့် လီယို



ရုရှစာပေသမိုင်းတွင် အထင်ရှားဆုံး စာရေးဆရာကြီး တော်စတွိုင်

အပျော်အပါးဖြင့် အချိန်ကုန်သည်က များလေသည်။ ၁၈၄၇ ခုနှစ်တွင် တက္ကသိုလ်မှ ထွက်သောအခါ တော်စတွိုင်သည် ကောင်းစွာကျန်းမာခြင်းမရှိဘဲ၊ မိမိ၏ရွာသို့ ပြန်လာရလေသည်။ ထိုအခါ မိမိပိုင် လယ်ယာချောင်းမြောင်း၌ လုပ်ကိုင်နေကြသော သီးစားတို့သည် ဆင်းရဲလွန်းလှ၍၊ မကျေမနပ်ဖြစ်ကာ တော်လှန်ဖီဆန်ကြသည်။ တော်စတွိုင်သည် ယင်းမကျေနပ်မှုတို့ ပပျောက်အောင်ကြိုးစားသော်လည်း၊ တောင်သူလယ်သမား၏ဘဝကို လက်တွေ့နားမလည်ဘဲ၊ စိတ်ကူးသာလျှင် ယဉ်ခဲ့သဖြင့်၊ မအောင်မြင်ခဲ့ချေ။ ထိုအခါ စိတ်အပျက်ကြီးပျက်ကာ ဖဲနှင့်အရက်တို့၌သာ မွေ့လျော်ခဲ့လေသည်။

၁၈၅၁ ခုနှစ်တွင် တော်စတွိုင်သည် ကော့ကဆပ်နယ်ရှိ ရုရှတပ်မတော်၌ အမှုထမ်းယင်း၊ ထိုနယ်ရှိ ကျေးရွာ၏အရိပ်အာဝါသ၌ ပျော်မွေ့ကာ၊ ‘ကလေးဘဝ၊’ ‘လူငယ်ဘဝ၊’ ‘ယုဝ’ ဟူသော စာအုပ်များကို ရေးသားထုတ်ဝေခဲ့လေသည်။ ထိုစာအုပ်တို့တွင် လူငယ်တို့အား ပညာပေးရေးသည် ပတ်ဝန်းကျင်သဘာဝနှင့်ယှဉ်၍ ပေးအပ်၏ဟူသော အယူအဆတို့ကို တင်ပြခဲ့သည်။ ထိုအယူအဆတို့မှာ ငယ်စဉ်က ကဇန်းတက္ကသိုလ်တွင် ပညာသင်စဉ်၊ ပြင်သစ်ကထိကဆရာများက သင်ကြားပို့ချသော ရူးဆိုး၏စာတို့တွင် ပါရှိသည့်ဩဝါဒတို့မှ ပေါက်ဖွားလာသည်ဟု ယူဆရန်ရှိလေသည်။

တော်စတွိုင်သည် ထိုစဉ်က ကရိုင်းမီးယားနယ်စစ်ပွဲတွင် ဆီဗတ်စတိုပိုမြို့ကို သိမ်းပိုက်ရာ၌ ပါဝင်ခဲ့၏။ ထိုစစ်ပွဲမှရသော ဗဟုသုတတို့ကို ‘ဆီဗတ်စတိုပိုမြို့မှ ပုံပြင်များ’ တွင် ရေးသားဖေါ်ပြခဲ့သည်။ ဆီဗတ်စတိုပိုမြို့မှ ယခုအခါ လီနင်ဂရက်ဟုတွင်သော စိန်ပီတာစဗတ်မြို့သို့ ရောက်လာခဲ့သည်တွင် စစ်ဖြစ်ခြင်း၌ များစွာ ငြီးငွေ့ရှိရှာလာခဲ့လေသည်။ ထို့ကြောင့် တော်စတွိုင်သည် ၁၈၅၇ နှင့် ၁၈၆၁ ခုနှစ်အကြားတွင် ဥရောပအရပ်ရပ်တို့သို့ သွားရောက်လည်ပတ်ယင်း ဂျာမနီ၊ ပြင်သစ်နှင့် အင်္ဂလန်နိုင်ငံတို့တွင်ရှိသော အလုပ်သမားအခြေအနေတို့ကို လေ့လာခဲ့သည်။ ဥရောပမှ ပြန်လာရာတွင်၊ ရုရှနိုင်ငံရှိ အလုပ်သမား အခြေအနေ ချွတ်ချော်တိမ်းပါးလျက်ရှိသည်ကို မြင်ပြီးလျှင်၊ မိမိကိုယ်တိုင် မြေယာကျေးကျွန်စံနစ်ကို ဖျက်သိမ်းပေးလိုက်ခြင်းအားဖြင့် မိမိ၏သီးစားတို့ကို သက်သာခွင့်ရစေသည်။ သို့ရာတွင် သူပိုင်ဆိုင်သော မြေယာရှိရာဒေသတွင် မြေယာကိစ္စ ဖြန်ဖြေရေးခုံရုံး၌ တရားသူကြီးအဖြစ် ဆောင်ရွက်ခဲ့ရသည်။ ထိုအတွင်း၌ပင် သူစိတ်တိုင်းကျ ကျောင်းထောင်သည်။ ထိုကျောင်း၌ ကျပ်တည်းကျဉ်းမြောင်းသော စည်းကမ်းစံနစ်တို့ မရှိစေရချေ။ ဤသို့ ကျောင်းထောင်ယင်း လူငယ်တို့ကို ဂီတနှင့် ပန်းချီပညာ သင်ကြားပေးသည်။ နောင်အခါသော် အစိုးရနှင့် မသင့်မြတ်၍၊ သူထောင်သောကျောင်းကို ပိတ်လိုက်ပြီးနောက် လယ်ထွန်ခြင်း၊ စာရေးခြင်းတို့ဖြင့်သာ မွေ့လျော်နေခဲ့သည်။ ဤအချိန်တွင် တော်စတွိုင်သည် စစ်ဖက်ဌာနနှင့် မြို့ပြအုပ်ချုပ်ရေးဌာနတို့၏ ဖိနှိပ်ခြင်းတို့ကို ဝတ္ထုစာအုပ်နှစ်အုပ်၌ သရုပ်ဖေါ်ကာ ရေးသားခဲ့လေသည်။ ထိုနောက်၌ကား ကမ္ဘာပေါ်တွင် ထင်ရှားကျော်စောသည့် ‘စစ်နှင့်ငြိမ်းချမ်းရေး’ ဟူသော ဝတ္ထုရှည်ကြီးကိုရင်း၊ ‘အန္နာကရင်နီနာ’ ဝတ္ထုကိုရင်း ရေးသားလေသည်။ ‘စစ်နှင့်ငြိမ်းချမ်းရေး’ ဟူသောဝတ္ထုတွင် ရုရှနိုင်ငံကို ပြင်သစ်ဘုရင်နပိုလီယန်က ကျူးကျော်တိုက်ခိုက်သည့်ခေတ်နှင့် ယှဉ်၍၊ ရုရှအမျိုးသားအိမ်ထောင်စု နှစ်ခုတို့ ဘဝအခြေအနေကို လူ့သမိုင်းတရပ်အနေဖြင့် တင်ပြသွားရာ၊ အဖွဲ့အနွဲ့နှင့်တကွ သရုပ်ဖေါ်ခြင်း၌ များစွာကောင်းမွန်လှချေရကား၊ စာဖတ်သူတို့မှာ ထိုခေတ်ကကြုံတွေ့ရသော လူ့လောက၏ ဒုက္ခသုခတို့ကို မိမိတို့ကိုယ်တိုင် ကြုံတွေ့ခံစားနေရသည်ဟုပင် ထင်မှတ်ရပေသည်။ ဤအကြောင်းကြောင့်လည်း ယင်းဝတ္ထုမှာ ကမ္ဘာကျော်ဖြစ်ခဲ့သည်။ ယင်းဝတ္ထုနှင့် မတိမ်းမယိမ်းကျော်ကြားသော ‘အန္နာကရင်နီနာ’ ဝတ္ထုကား ရုရှနိုင်ငံတွင် ၁၈၇၆ ခုနှစ်တဝိုက်က ကြုံတွေ့ရသော စိန်ပီတာစဗတ်မြို့နေ လူတန်းစားဘဝနှင့် တောနေ လူတန်းစားဘဝတို့ကို သရုပ်ဖေါ်သောဝတ္ထုဖြစ်သည်။

တော်စတိုင်သည် ထိုစဉ်က လယ်ယာလုပ်ငန်း၌ အကျိုးဖြစ်ထွန်း၍၊ စာရေးခြင်း၌လည်း ဝင်ငွေကောင်းခဲ့သည်။ သို့ဖြစ်၍ တော်စတိုင်သည် စည်းစိမ်ချမ်းသာနှင့် ကောင်းစွာ ပျော်ပျော်ပါးပါး နေထိုင်နိုင်ခဲ့၏။ သို့ရာတွင် ၁၈၈၀ ပြည့်နှစ်၌ ယင်းကဲ့သို့ စည်းစိမ်ချမ်းသာတို့၌ မွေ့လျော်ပျော်ပါးခြင်းအမှုကို စက်ဆုပ်လာသောကြောင့် သာမန် ဆင်းရဲသား အလုပ်သမားကဲ့သို့ နေထိုင်ပြီးလျှင်၊ အသားစားခြင်း၊ ဆေးလိပ်သောက်ခြင်းတို့ကိုပင် ရှောင်ကြဉ်လိုက်လေသည်။ ၁၈၈၈ ခုနှစ်၌ကား မိမိသည် စည်းစိမ်ဥစ္စာဟူသမျှတို့ကို စွန့်လွှတ်၍ ဆင်းရဲသူဆင်းရဲသားတို့အား လှူဒါန်းတော့မည်ဟု ဆုံးဖြတ်ပြီးလျှင် သားမယားတို့နှင့်တိုင်ပင်ရာ၊ သူ၏အိမ်ထောင်သားအားလုံးက ဥစ္စာပစ္စည်းတို့ကို သူ၏ဇနီးသို့ လွှဲပြောင်းပေးပါရန် များစွာတောင်းပန်ပြောဆိုခဲ့ရသည်။ သို့နှင့်ပင် တော်စတိုင်သည် မိမိကိုယ်တိုင် ပစ္စည်းတပြားတချပ်မျှ မယူဘဲ၊ ဇနီးသို့ပေးအပ်ပြီးလျှင်၊ လယ်ယာထွန်ခြင်း၊ ဖိနပ်ချုပ်ခြင်းစသော ကိစ္စတို့၌ သာမန်တောင်သူလယ်သမားတို့နှင့်အတူ လုပ်ကိုင်စားသောက်လေသည်။ စာရေးခြင်းမှ ဝင်ငွေကိုပင် မယူသည့်အပြင် သူရေးသောစာအုပ်များမှ ရအပ်သည့် မူပိုင် အခွင့်အရေးတို့ကိုပင်လျှင် စွန့်လွှတ်ခဲ့လေသည်။ ဤအခြေအနေတွင် တော်စတိုင်သည် 'သခရစ်ဇာဆိုနာတာ' ဝတ္ထုကို ၁၈၈၉ ခုနှစ်၌ ရေးသားလေသည်။ ယင်းဝတ္ထုတွင် အချို့သောခရစ်ယန်နှင့် အရှေ့တိုင်းရှိ အခြားအယူဝါဒီတို့က ဆိုဆုံးမသော ဗြဟ္မစရိယကျင့်စဉ်ကို အထူးအလေးဂရုပြု၍၊ အိမ်ထောင်သားမွေးခြင်းဟူသော လောကီသားတို့၏ဓလေ့ကို လုံးဝပယ်သင့်ကြောင်းကို ဖော်ပြလေသည်။ ဤသို့ သူချမှတ်ခဲ့သော ကျင့်စဉ်ကို ရုရှနိုင်ငံနှင့် ကမ္ဘာပေါ်ရှိ အခြားနိုင်ငံတို့က နှစ်ပေါင်းများစွာ ဝေဖန်ဆွေးနွေးခဲ့ကြပေသည်။ နောင်အခါသော် တော်စတိုင်သည် သူ၏အယူဝါဒများကို ပျံ့နှံ့စေရန် စာအုပ်များကို ရေးသားထုတ်ဝေခဲ့သည်။ သူ၏ ဝါဒတရပ်မှာ လောကီသားတို့ တဦးနှင့်တဦး မေတ္တာထား၍ နားလည်မှုရှိကြပါမှ၊ လူမှုရေးရာ၊ ပြဿနာများသည် ကောင်းစွာပြေလည်လိမ့်မည်ဟူ၍ဖြစ်သည်။ မြန်မာအယူ၌ ဗြဟ္မစိုရ်တရား လက်ကိုင်ထားရသည်ဟူသော သဘောမျိုးဖြစ်လေသည်။

သို့သော် သူ၏ အခြားသောအယူဝါဒနှင့် ကျင့်စဉ်တို့မှာ ထိုခေတ်၏ဉာဏ်အမြင်၌ များစွာပြင်းထန်၍ ကျပ်တည်းလှချေရကား၊ ၁၉၀၁ ခုနှစ်တွင် ရှေးရိုးဂရိတို့၏ ခရစ်ယန်ဂိုဏ်းတို့က တော်စတိုင်ကို သာသနာရေးအရ ကြဉ်လေသည်။ ၁၉၁၀ ပြည့်နှစ်၌ တော်စတိုင်သည် မိမိ၏ဇနီးအိမ်မှ ခြေဦးတည့်ရာသို့သွားမည်ဟု ထွက်ခွာလာရာ၊ အက်စတာပိုဗိုဟူသော မီးရထားဘူတာရုံ အရောက်တွင် အားပြတ်၍ သေဆုံးလေသည်။ သူ၏စျာပနသည် ခရစ်ယန် ထုံးစံအရ ဖုတ်ကြည်းသင်္ဂြိုဟ်ခြင်းကိုမပြုရလေ။ သို့သော် တော်စတိုင်သည် ကမ္ဘာကျော် ရုရှစာရေးဆရာကြီးအဖြစ်နှင့် ယနေ့တိုင် နှောင်းလူတို့၏အလေးပြုခြင်းကို ခံယူလျက်ရှိလေသည်။

**တော်စိန်ခို** (ခရစ် ၁၈၄၄–၁၉၃၀)။ ။တော်စိန်ခိုသည် မြန်မာနိုင်ငံ ကမ္ဘည်းကျောက်စာဝန်အဖြစ်ဖြင့် အလွန်ထင်ရှားကျော်စောခဲ့သော ပုဂ္ဂိုလ်တဦးဖြစ်သည်။ ဖခင်ဖြစ်သူ မစ္စတာတော်ဆွန်းသည် ကုန်သည်မျိုးရိုးဖြစ်၍၊ မူလက မော်လမြိုင်တွင်နေထိုင်ခဲ့သည်။ မော်လမြိုင်မြို့တွင် ဒေါ်နုနှင့်အကြောင်းပါရာ၊ ၁၈၄၄ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် တော်စိန်ခိုဟူသော သားတယောက် ထွန်းကားလေသည်။ ထိုနောက် အောက်ပြည်အောက်ရွာမှ အထက်သို့ တက်၍ ကုန်စည်ကူးသန်းရောင်းဝယ်ယင်းနှင့် ဗန်းမော်မြို့သို့ ရောက်ရှိရာ၊ ဗန်းမော်မြို့၌ပင် အခြေစိုက်၍ သက်ထက်ဆုံးနေထိုင်ခဲ့သည်။

တော်စိန်ခိုသည် ငယ်စဉ်ကပင် ရန်ကုန်မြို့ အစိုးရအထက်



ကမ္ပည်းကျောက်စာဝန်အဖြစ် ထင်ရှားကျော်စောသူ တော်စိန်ခို

တန်းကျောင်းတွင် ပညာသင်ယူ၍၊ အသက် ၁၇ နှစ်အရွယ်သို့ ရောက်သောအခါ၊ ကာလကတ္တားတက္ကသိုလ်မှ ကျင်းပသော အက် (ဖ) အေ စာမေးပွဲကို ရန်ကုန်ကောလိပ်မှ ဖြေဆို၍အောင်မြင်ခဲ့သည်။ ၁၇၉၂ ခုနှစ်တွင် အင်္ဂလန်နိုင်ငံသို့သွားရောက်ပြီးလျှင်၊ ကိမ်းဗရစ်တက္ကသိုလ် ခရိုက်ကောလိပ်၌ ဆက်လက်ပညာသင်၍၊ ဝတ်လုံတော်ရဘွဲ့ကို ရရှိရန် ကြိုးစားရာ၊ ကျန်းမာရေးအခြေအနေ မကောင်းသဖြင့် စာမေးပွဲမဖြေဆိုဘဲ၊ မြန်မာနိုင်ငံသို့ ပြန်လာရသည်။ သို့ရာတွင် ခရိုက်ကောလိပ်၌ ပညာသင်ဆဲ၊ လန်ဒန်မြို့ အရှေ့တိုင်းဆိုင်ရာ နဝမမြောက်ကွန်ဖရင့်သို့ မြန်မာနိုင်ငံမှ ကိုယ်စားလှယ်အဖြစ်ဖြင့် တက်ရောက်ခဲ့သည်။ မြန်မာနိုင်ငံသို့ပြန်ရောက်သော ၁၇၉၃ ခုနှစ်၌ပင်လျှင်၊ မြန်မာနိုင်ငံအစိုးရ၏ လက်ထောက်အတွင်းဝန်အဖြစ်ဖြင့် အမှုထမ်းရသည်။ တော်စိန်ခိုသည် မြန်မာနိုင်ငံနှင့် တရုပ်နိုင်ငံတို့၏ ဆက်ဆံရေးကို စိတ်ပါဝင်စားစွာ လေ့လာခဲ့သူ ဖြစ်သည့်အတွက် နိုင်ငံတော်အစိုးရသည် ထိုကိစ္စတို့ကို ဆောင်ရွက်ရာ၌ အရေးပါအရာရောက်စေရန် ရည်သန်၍၊ ၁၇၉၇ ခုနှစ်တွင် တော်စိန်ခိုအား တရုပ်နိုင်ငံ ပီကင်းမြို့တော်သို့ စေလွှတ်၍၊ တရုပ်ဘာသာစကားကို သင်ယူစေသည်။ ပီကင်းမြို့မှ မြန်မာနိုင်ငံသို့ ပြန်လည်ရောက်ရှိလာသောအခါ၊ တော်စိန်ခိုအား အစိုးရက စာတော်ပြန်ဝန်ထောက်အဖြစ်ဖြင့် ခန့်အပ်သည်။ ထိုနောက်တဖန် ကမ္ပည်းကျောက်စာအရာရှိအဖြစ်ဖြင့် ခန့်အပ်၍၊ မြန်မာနိုင်ငံ အစိုးရအတွက် တရုပ်ရေးရာ အကြံပေးအရာရှိ၏ ဝတ်တရားကိုပါ ပူးတွဲ၍ ဆောင်ရွက်စေလေသည်။ ဤသို့ နှစ်နှစ်ခန့် ရာထူးနှစ်ခုကိုတွဲဖက်ဆောင်ရွက်ပြီးသည့်နောက်၊ ၁၇၉၉–၁၈၀၀ ခုနှစ်များအတွင်း တရုပ်နိုင်ငံ၌ ဗောက်ဆာသူပုန် ဖြစ်ပွါးခဲ့သည်တွင် တော်စိန်ခိုသည် လန်ဒန်မြို့အိန္ဒိယပြည်ဆိုင်ရာရုံးတော်အား အဖိုးတန်အကူအညီတို့ကို ပေးခဲ့သည်။ ထိုနောက် တော်စိန်ခိုသည် နယ်ခြားစောင့်ရှောက်ရေးအရာရှိအဖြစ်ဖြင့် ခန့်အပ်ခြင်းကို ခံရသည်။ နယ်ခြားဆိုင်ရာ တာဝန်ဝတ်တရားမှာ နယ်ခြားရှိ တရုပ်အရာရှိများနှင့် ဗြိတိသျှအစိုးရအရာရှိတို့ ပူးပေါင်းဆောင်ရွက်ကြစေရန် ဆက်သွယ်ပေးရသော တာဝန်ဝတ်တရားဖြစ်သည်။ ၁၈၀၀ ပြည့်နှစ်တွင် တရုပ်နိုင်ငံနှင့် မြန်မာနိုင်ငံတို့၏ နယ်ခြားရှိ တရုပ်နှင့် ဗြိတိသျှစစ်တပ်တို့ နယ်ခြားနှင့်စပ်လျဉ်း၍ အချင်းများကြသောကိစ္စ၌ တော်စိန်ခိုသည် ယခုအခါ တန်ချုန်းဟုခေါ်သော မိုးမိန်း (မိုးမျဉ်း) မြို့ရှိ ယူနန်အနောက်ပိုင်း ပြည်နယ်ဘုရင်ခံ၊ မြစ်ကြီးနားခရိုင်ဝန်၊ ဗန်းမော်ခရိုင်ဝန် သုံးဦးတို့ တွေ့ဆုံဆွေးနွေးနိုင်အောင် ဆောင်ကြဉ်းပေးနိုင်သဖြင့်၊ ထိုကိစ္စသည် အပြေအလည် ဖြစ်ခဲ့သည်။ ဗန်းမော်မြို့နှင့်မိုးမိန်းမြို့တို့သည် ၁၇၇၆ ခုနှစ်ကပင်လျှင်၊ ကုန်းကြောင်းကူးသန်းရောင်းဝယ်ရေး၌ လမ်းဖွင့်ပြီးဖြစ်ခဲ့ရာ၊ တော်စိန်ခိုသည် ထိုနှစ်မြို့၏ ကူးသန်းရောင်းဝယ်မှုကို ဖွံ့ဖြိုးအောင် ဆောင်ရွက်လိုသော ရည်သန်ချက်ဖြင့်၊ ဗန်းမော်နှင့် မိုးမိန်းကိုဆက်သွယ်သော မီးရထားလမ်းကို ဖောက်လုပ်ရန် အကြံပေးခဲ့သည်။ ဗန်းမော်မြို့၌ အင်္ဂလိပ်နှင့်တရုပ်ဘာသာ စာသင်ကျောင်း ဖွင့်လှစ်ရန်လည်း အကြံပေးခဲ့သည်။ အစိုးရသည် ထိုအကြံနှစ်ခုစလုံးကို လက်ခံ၍၊ ဗန်းမော်မြို့၌ ကျောင်းတည်ထောင်ပေးခဲ့သည်။ မီးရထားလမ်းဖောက်လုပ်ရေးမှာမူ မအောင်မြင်ခဲ့ချေ။

၁၈၀၂ ခုနှစ်တွင် တော်စိန်ခိုသည် သူ၏မူလရာထူးရင်းဖြစ်သော လက်ထောက်အတွင်းဝန်အဖြစ်ဖြင့် ပြန်လည်လုပ်ကိုင်ခဲ့ရာ၊ ၁၈၀၃–၁၈၀၅ ခုနှစ်အတွင်းတွင် ယခင်ကကဲ့သို့ပင် ကမ္ပည်းကျောက်စာအရာရှိနှင့် တရုပ်ရေးရာ အကြံပေးအရာရှိအဖြစ် အမှုကိုထမ်းရွက်ရပြန်သည်။ ၁၈၀၆ ခုနှစ်တွင် ကမ္ပည်းကျောက်စာဝန်ရာထူးကို တီထွင်လိုက်သောအခါ၊ တော်စိန်ခိုသည် ကမ္ပည်းကျောက်စာဝန် ဖြစ်လာလေသည်။ ၁၈၁၉ ခုနှစ်တွင် တော်စိန်ခိုသည် အငြိမ်းစားယူခဲ့ပြီးလျှင်၊ ၁၈၂၃ ခုနှစ်၌ မြန်မာပြည် ဥပဒေပြုကောင်စီအဖွဲ့တွင် အစိုးရခန့်အပ်သော အမတ်အဖြစ်ဖြင့် ဆောင်ရွက်ခဲ့သည်။

၁၈၀၃ ခုနှစ်တွင် သတ္တမ အက်ဒွပ်ဘုရင် နန်းတက်ပွဲကျင်းပရာတွင် တော်စိန်ခိုသည် ကေ၊ အိုင်၊ အိပ် ရွှေတံဆိပ် ချီးမြှင့်ခြင်းကို ခံရသည်။ ၁၈၁၁ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့တွင် ပဉ္စမဂျော့ နန်းတက်ပွဲအတွက် ကျင်းပသော ဒေလီမြို့ဒါဗာပွဲ၌ အိုင်၊ အက် (စ)၊ အို ဘွဲ့ဖြင့် ချီးမြှင့်ခြင်းကို ခံရသည်။ ၁၈၁၇ ခုနှစ်တွင် စီ၊ အိုင်၊ အီဘွဲ့ဖြင့် ချီးမြှင့်ခြင်းကို ခံရသည်။

တော်စိန်ခိုသည် မြန်မာနိုင်ငံတွင် ထုတ်ဝေသော မြန်မာနိုင်ငံ သုတေသနအသင်းဂျာနယ်၊ ဘုံဘိုင်မြို့တွင် ထုတ်ဝေသော အိန္ဒိယနိုင်ငံရှေးဟောင်းပညာဂျာနယ်၊ လန်ဒန်မြို့တွင် ထုတ်ဝေသော 'အာရှကွာတာလီ ရီဗျူး၊' အာရှတော်ဝင်အသင်းဂျာနယ်တို့တွင် မြန်မာမှုဆိုင်ရာ ကမ္ပည်းကျောက်စာအကြောင်း၊ လူမျိုးနှင့် စာပေအကြောင်း၊ စေတီပုထိုးနှင့် ပိသုကာပညာအကြောင်း စသည်တို့ကို ရေးသားခဲ့သည်။ ရန်ကုန်ဂေဇက် သတင်းစာ၌လည်း မြန်မာတို့၏ ဓလေ့ထုံးစံ၊ ရှေးဟောင်းပုံပြင်၊ ဗုဒ္ဓသာသနာရေး၊ ပညာရေး စသည်တို့ကို ဆောင်းပါး ရေးသားလေ့ရှိသည်။ သူရေးသားသော ဆောင်းပါးတို့ကို ၁၈၁၃ ခုနှစ်တွင် တပေါင်းတည်းပြု၍ စာအုပ်ထုတ်ဝေခဲ့သည်။ ထို့ပြင် လွှတ်တော်မှတ်တမ်း ကောက်နုတ်ချက်၊ ကလျာဏီသိမ်ကျောက်စာ (အင်္ဂလိပ်လို) ဘာသာပြန်၊ မြန်မာဘာသာမူလတန်းလက်စွဲဟူသော စာအုပ်တို့ကိုလည်း ပြုစုခဲ့သည်။

အရှင် ဦးဩဘာသ၏ မဟာဇနကဇာတ်တော်ကြီးကိုလည်း အင်္ဂလိပ်ဘာသာဖြင့် ပြန်ဆိုခဲ့သည်။

မြန်မာမှုဆိုင်ရာ အရေးကိစ္စတို့တွင် တော်စိန်ခိုသည် စိတ်အားထက်သန်စွာဖြင့် အရေးတယူ ဆောင်ရွက်လေ့ရှိသည်။ သာသနာပိုင် ခန့်ထားရေးကိစ္စတွင် တော်စိန်ခိုသည် သံဃာတော်အရှင်မြတ်တို့အား ကောင်းသော အကြံဉာဏ်များ ပေး၍၊ ဤကိစ္စကို ဖြစ်မြောက်စေရန် ဆော်ဩပေးခဲ့သည်။ ထို့နောက် မဟာဒါန်ဝန် ခန့်ရေး၊ ဘုန်းတော်ကြီး ကျောင်းများတွင် သင်ကြားပို့ချသော ပညာရေးဟူသော ကိစ္စတို့တွင်လည်း အစိုးရကို အကြံဉာဏ်ကောင်းများ ပေးခဲ့သည်။ အထူးသဖြင့် ဘုန်းကြီးကျောင်း၌ ရှိရင်းစွဲဖြစ်သော ဘာသာစာရိတပညာရေးကို ဖွံ့ဖြိုးအောင်ဆောင်ရွက်ဖို့ရာ၊ တော်စိန်ခိုသည် အထူးတိုက်တွန်းခဲ့လေသည်။ ပဋ္ဌမပြန်စာမေးပွဲ ဖြစ်မြောက်ရေးကိုလည်း ဆော်ဩခဲ့သည်။ ထိုစာမေးပွဲတွင် သီလရှင်များ ဝင်ရောက်စာပြန်ရန် ကိစ္စကိုလည်း အောင်မြင်အောင် ဆောင်ရွက်ခဲ့သည်။ ၁၉၁၀ ပြည့်နှစ်တွင် မြန်မာနိုင်ငံ၌ တက္ကသိုလ်ကျောင်းဖွင့်လှစ်ပေးရန်အတွက် ဆော်ဩခဲ့သည့်အပြင်၊ ပန်ဂျပ်တက္ကသိုလ်၏ နမူနာကိုယူ၍၊ အရှေ့တိုင်းဘာသာ လေ့လာရေးဌာနတရပ် ဖွင့်လှစ်ပြီးလျှင်၊ မြန်မာစာပေကို အဓိကထား၍ ပို့ချရန်ကိစ္စကိုလည်း လှုံ့ဆော်ပေးခဲ့သည်။ မြန်မာနိုင်ငံ၌ တက္ကသိုလ်ဖွင့်လှစ်ပေးခဲ့ပါမူ၊ ဗုဒ္ဓအဘိဓမ္မာပို့ချရန်အတွက် ဌာနတခု ဖွင့်လှစ်ပေးသင့်ကြောင်းကိုလည်း အကြံပေးခဲ့သည်။ ထိုစဉ်ကပင်လျှင် မန္တလေး၌လည်း ရန်ကုန်နှင့်အလားတူ တက္ကသိုလ်ကျောင်းရှိသင့်သည်ဟု ထင်မြင်ချက်များကို ရေးသား၍ လှုံ့ဆော်ပေးခဲ့သည်။ သို့ဖြစ်၍ မန္တလေးမြို့တွင် ဥပစာကောလိပ်တည်ထောင်သောအခါ၊ တော်စိန်ခိုသည် ယင်းကောလိပ်၏ ပဋ္ဌမဦးဆုံးဖွဲ့စည်းသော အုပ်ချုပ်ရေးအဖွဲ့တွင် အဖွဲ့ဝင်တဦးဖြစ်လာလေသည်။

တော်စိန်ခိုသည် တရုပ်အမျိုးအနွယ်ပင် ဖြစ်စေကာမူ၊ မိမိ၏သားသမီးတို့ကို မိမိတို့မှီတင်းနေထိုင်ရာဒေသဖြစ်သော မြန်မာတို့နှင့် တသွေးတသား၊ တစိတ်တဝမ်းတည်းရှိအောင် နေထိုင်ရန် အမြဲဆုံးမဩဝါဒ ပေးလေ့ရှိသည်။ ဗုဒ္ဓဘာသာ၌ သက်ဝင်ကိုင်းရှိုင်းသူ ဖြစ်လေရာ၊ ၁၉၁၇ ခုနှစ် မြေလျှင်ကြောင့် ပြိုကျခဲ့သော ပဲခူးရွှေမော်ဓောဘုရား ပြန်လည်တည်ဆောက်ရေးတွင် ဝိဝါဒ မကွဲပြားဘဲ၊ အညီအညွတ် တည်ဆောက်နိုင်ရန် အလို့ငှာ ကိုယ်တိုင် ပါဝင်ဆောင်ရွက်ခဲ့သည်။ အမျိုးကိုချစ်ခင်သော စိတ်ဓာတ်ရှိသူလည်း ဖြစ်ရကား၊ တိုင်းရင်းဖြစ်ပစ္စည်း သုံးစွဲရေးကို ဆော်ဩခဲ့သည့်ပြင်၊ မိမိကိုယ်တိုင် နမူနာပြအဖြစ်ဖြင့် ပင်နီအင်္ကျီကို အမြဲဝတ်ဆင်လေ့ရှိသည်။

တော်စိန်ခိုသည် ရန်ကုန်မြို့နေ ကုန်သည်ကြီး မစ္စတာတန်ထွန်း၏ သမီး ဒေါ်မြနှင့် အကြောင်းပါခဲ့ရာ၊ သားခြောက်ယောက်နှင့် သမီးတယောက် ထွန်းကားသည်။ ၁၉၃၀ ပြည့်နှစ်တွင် မိမိနေထိုင်ရာ မန္တလေးမြို့နေအိမ်၌ ကွယ်လွန်လေသည်။

**တော်ပီဒိုနှင့် ရေမြှုပ် မြေမြှုပ်ဗုံးများ။** ။ပြီးခဲ့သည့် ကမ္ဘာစစ်ကြီးနှစ်ခုစလုံးတွင် များစွာသောသင်္ဘောတို့သည် တော်ပီဒိုနှင့် ရေမြှုပ်ဗုံးတို့၏လက်ချက်ဖြင့် ပျက်စီးနစ်မြုပ်ခဲ့ကြရလေသည်။ ထိုလက်နက်တို့သည် ရေမျက်နှာပြင်မှရင်း၊ ရေအောက်မှရင်း သင်္ဘောဆီသို့ရောက်လာ၍ ထိခိုက် ပေါက်ကွဲလေ့ရှိရာ၊ စစ်သင်္ဘော အချင်းချင်း အမြောက်နှင့် ပစ်ခတ်သည့်ဒဏ်ထက်ပင် ပို၍ ကြောက်စရာကောင်းလှပေသည်။

တော်ပီဒိုမှာ ၁၉ ရာစုနှစ် အစလောက်ကပင် ပေါ်ပေါက်လျက်ရှိပြီဖြစ်သော်လည်း၊ ထိုအခါက များစွာ အရေးပါ အရာမရောက်ခဲ့လှသေးချေ။ ၁၈၆၂ ခုနှစ်လောက်တွင် ဩစတြီးယားရေတပ်မှ ရေကြောင်းဗိုလ်ကြီး လပ်ပစ်ဆိုသူနှင့် စကော့လူမျိုး ရောဗတ် ဝိုက်ဟက် ဆိုသူတို့ ပူးပေါင်းတီထွင်သော တော်ပီဒိုမျိုးပေါ် လာမှသာ တော်ပီဒိုကို ထိထိရောက်ရောက် အသုံးချလာနိုင်သည်။ ထိုတော်ပီဒိုမှာ အလေးချိန် ပေါင် ၃၀၀ သာစီး၍၊ တနာရီလျှင် ခြောက်မိုင်နှုန်းမျှသာ သွားနိုင်သည်။ ထို့နောက်မှ တဖြည်းဖြည်း ပိုပြင်လာ၍၊ ယခုအခါ တော်ပီဒိုများသည် တနာရီလျှင် မိုင် ၃၀ မှ မိုင် ၅၀ အထိ သွားနိုင်ကြသည်။ ကိုက်ပေါင်း ၇၀၀၀၊ ၈၀၀၀ အဝေးထိ ပစ်ခတ်နိုင်သည်။ ရှေးအခါက တော်ပီဒိုများ၏ သွားရာလမ်းကြောင်းမှာ မမှန်ကန် မဖြောင့်တန်းသောကြောင့် ပစ်ခတ်ရာ၌ များစွာ အခက်အခဲနှင့်တွေ့ခဲ့ရလေသည်။ နှောင်းခေတ်သို့ရောက်သော်၊ တော်ပီဒို၌ ဂျိုင်ရိုစကုပ်ကို တပ်ဆင်ပေးကြသောကြောင့် တော်ပီဒိုသည် ဖြောင့်တန်းစွာ လိုရာသို့သွားနိုင်ခဲ့သည်။ (ဂျိုင်ရိုစကုပ် — ရှု။)

တော်ပီဒို၏ ပုံသဏ္ဌာန်မှာ ဆေးပြင်းလိပ်နှင့် ပုံသဏ္ဌာန်တူ၍ အချင်း ၁၄ လက်မမှ ၂၁ လက်မအထိရှိသည်။ အလျားသည် အချင်း၏ ၁၂ ဆမျှရှိတတ်သည်။ တော်ပီဒို၏ အမြီးတွင် ငါးအမြီးသဖွယ် ပန်ကာများရှိ၍၊ ထိုပန်ကာများအနီး၌ တော်ပီဒိုကို မောင်းနှင်ပေးသည့် စက်ရှိသည်။ ထိုအပြင် တော်ပီဒိုကို ရှေ့နောက်သို့ရင်း၊ ထက်အောက်သို့ရင်း သွားနိုင်ရန်ထိန်းပေးသော ဂီယာလည်းရှိသည်။ ထိုဂီယာတွင် ဂျိုင်ရိုစကုပ် တပ်ထားသည်။ တော်ပီဒို၏ အလယ်ပိုင်းတွင် ဖိနှိပ်ထားသော လေလှောင်ခန်းရှိသည်။ ကတော့ပုံရှိသော ခေါင်းပိုင်းတွင် ပေါက်ကွဲ



စစ်သင်္ဘောများအား ဖောက်ခွဲရာ၌ အစွမ်းထက်လှသော တော်ပီဒိုကြီးများ

တတ်သည့်ယမ်းရှိ၍၊ ကတော့ပုံထိပ်တွင် စနက်တံတပ်ထားလေသည်။ ရှေးက တော်ပီဒို၌ ဒိုင်းနမိုက် (ယမ်းဘီလူး) အလေးချိန် ၁၈ ပေါင်သာရှိခဲ့၍၊ ယခုခေတ် တော်ပီဒိုများတွင် တီ၊ အင်၊ တီ၊ ယမ်းအလေးချိန် ပေါင် ၅၀၀ မျှပါဝင်လေသည်။

တော်ပီဒိုကိုပစ်လွှတ်ရာတွင် သင်္ဘောရှိ တော်ပီဒိုပြွန်ထဲသို့ထည့်ပြီးလျှင် ဖိနှိပ်ထားသောလေအားနှင့် ပစ်လွှတ်ရ၏။ တော်ပီဒိုသည် သင်္ဘောနှင့် ထိခိုက်မိရာတွင် ထိပ်မှစနက်တံသည် အထဲသို့ဝင်သွားခြင်းဖြင့် တော်ပီဒို၏ယမ်းအိမ်ကို ပေါက်ကွဲစေသည်။ တော်ပီဒိုကို ရေငုပ်သင်္ဘောနှင့် စစ်သင်္ဘောတို့မှသာမက လေယာဉ်ပျံမှလည်း ပစ်လွှတ်နိုင်သည်။ လေယာဉ်ပျံမှ ပစ်လွှတ်သည့်တော်ပီဒိုသည် သင်္ဘောများမှ ပစ်လွှတ်သည့်တော်ပီဒိုထက် အလေးချိန်ချင်းတူညီလျှင် ယမ်းပိုမိုပါဝင်၍ ပိုမိုလျင်မြန်လေသည်။ တော်ပီဒို၏ အလေးချိန်သည် ကြီးမားသည့်အလျောက် လေယာဉ်ပျံတစီးလျှင် တော်ပီဒိုတခုသာ တင်ဆောင်နိုင်သည်။ လေယာဉ်ပျံမှပစ်လွှတ်သော တော်ပီဒိုမှာ ရေနှင့်ရိုက်မိသည့်ဒဏ်ကိုခံရ၍ ပိုမိုခိုင်ခံ့စွာရှိဖို့လို၏။ တော်ပီဒိုပစ်လွှတ်ရာ၌ ရေငုပ်သင်္ဘောဖြစ်လျှင် ရေအောက် အများဆုံး ၇၅ ပေအတွင်းမှရင်း၊ လေယာဉ်ပျံဖြစ်လျှင် ရေပြင်အထက် အမြင့်ပေ ၅၀ အတွင်းမှရင်း ပစ်လွှတ်ရလေသည်။

ရေမြှုပ်ဗုံးသည်လည်း ကမ္ဘာစစ်ကြီးနှစ်ခုစလုံးတွင် အသုံးပြုခဲ့သော အရေးကြီးသည့်လက်နက်ဖြစ်၏။ ရေမြှုပ်ဗုံးမှာ လုံးဝန်းသော သဏ္ဌာန်ရှိ၍၊ အချင်း ၃ ပေမျှရှိသည်။ ရေမြှုပ်ဗုံးများကို အသုံးပြုခဲ့သည်မှာ ကြာမြင့်ပြီဖြစ်သည်။ ၁၈ရာစုနှစ်ကတည်းက အမေရိကန်တို့အသုံးပြုကြောင်း သိရလေသည်။ ၁၈၃၉ ခုနှစ်မတိုင်မီက ရေမြှုပ်ဗုံးများပေါက်ကွဲစေရန် စက်ကရိယာဖြင့် စီမံထားလေသည်။ ထိုနှစ်တွင် ဆာ ချား ပတ်စလေက လျှပ်စစ်ဓာတ်အားဖြင့် ပေါက်ကွဲစေရန် စတင်စီမံရာ၌ ထမြောက်အောင်မြင်လေသည်။ ရေမြှုပ်ဗုံးကို ရေထဲသို့ချရာတွင် ရေငုပ်သင်္ဘောများအတွက် ရည်စူးပါက ရေအောက် ပေ ၂၄၀ လောက်တွင်ချထားရ၍၊ ရိုးရိုးသင်္ဘောများအတွက်ဖြစ်မူ ၅ ပေမှ ပေ ၂၀ အတွင်းလောက်၌ ချထားရ၏။ ထိုသို့ အလိုရှိသည့်အနက်၌ တည်စေနိုင်ရန် ရေမြှုပ်ဗုံးတို့ကို ကျောက်ချထားရသည်။ ရေမြှုပ်ဗုံးနှင့် ပင်လယ်အောက်ခြေရှိ ကျောက်ဆူးကို ကြေးနန်းကြိုးဖြင့် ဆက်ထား၏။ ထိုကျောက်ဆူးမှာ သင်္ဘောကျောက်ဆူးမျိုး မဟုတ်ပေ။

ရေမြှုပ်ဗုံးချသည့် ရည်ရွယ်ချက်မှာ မိမိဖက်ကဆိပ်ကမ်းများသို့ ရန်သူသင်္ဘောများ ချဉ်းကပ်ခြင်း၊ ရပ်နားခြင်း မပြုနိုင်အောင်ဖြစ်သည်။ ရေမြှုပ်ဗုံးများကို ရန်သူလာနိုင်မည့် အရေးကြီးသည့် လမ်းကြောင်းများကို ပိတ်ဆို့ရန်

အတွက်လည်း အသုံးချနိုင်ပေသည်။ အချို့ရေမြှုပ်ဗုံးများ၌ အထိန်းရှိ၍၊ အချို့၌ အထိန်းမရှိချေ။ အထိန်းရှိသည့်ရေမြှုပ်ဗုံးများကို ကမ်းခြေမှကြေးနန်းကြိုးဖြင့် ဆက်သွယ်ထား၍၊ ပေါက်ကွဲစေလိုသည့်အခါတွင် လျှပ်စစ်ဓာတ်အား လွှတ်ပေး၍ ပေါက်ကွဲစေနိုင်သည်။ သူ့အလိုအလျောက် မပေါက်ကွဲနိုင်ကြပေ။ ထို့ကြောင့် ကမ်းခြေတွင် ဝင်ထွက်နေကြသော မဟာမိတ်သင်္ဘောများနှင့် မိမိဖက်က သင်္ဘောများအတွက် စိတ်ချနိုင်ပေသည်။ အထိန်းမရှိဘဲ အလိုလိုပေါက်ကွဲနိုင်သော ရေမြှုပ်ဗုံးများမှာ စနက်တံကဲ့သို့ ထိပ်၌အတံငယ်ပါရှိသည်။ သင်္ဘောနှင့် တိုက်မိသောအခါ ပေါက်ကွဲစေနိုင်ရန် ထိုရေမြှုပ်ဗုံးကို စက်ကရိယာဖြင့်၎င်း၊ လျှပ်စစ်ဓာတ်ဖြင့်၎င်း စီမံထားသည်။ ထိုရေမြှုပ်ဗုံးတို့၌ အထိန်းမရှိခြင်းကြောင့် ရန်သူသင်္ဘောများသာမက မဟာမိတ်သင်္ဘောများပင် မကြာခဏ နစ်မြုပ်ကြရလေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ဂျာမန်တို့၏ရေမြှုပ်ဗုံးများတွင် သံလိုက်ဓာတ် ထည့်သွင်းထားသောကြောင့် ရေမြှုပ်ဗုံး၏ သံလိုက်နယ်အတွင်း ဝင်ရောက်လာသော သင်္ဘောများသည် ပျက်စီးကုန်ကြသည်။ ထိုအကြောင်းကို မသိမီက ဗြိတိသျှသင်္ဘော အများအပြားပင် ပျက်စီးနစ်မြုပ်ခဲ့ကြရလေသည်။ (သံလိုက်ဓာတ် — လည်းရှု။)

ရေမြှုပ်ဗုံးများကိုအသုံးပြု၍ တိုက်ခိုက်သကဲ့သို့ ရေမြှုပ်ဗုံးရန်မှ ကာကွယ်ရန်ကိုလည်း ကြိုးစားကြံစည်ကြရလေသည်။ ရေမြှုပ်ဗုံးရန်မှ ကာကွယ်နိုင်ရန်နည်းတနည်းမှာ တံငါသင်္ဘောနှစ်စင်း၏အကြား၌ ကြိုးကွင်းတန်း၍ ငါးပိုက်ဆွဲသကဲ့သို့ ဆွဲယူရသည်။ ရေမြှုပ်ဗုံး၏ကျောက်ဆူးကြိုးကို ဖြတ်မိသဖြင့် ရေမြှုပ်ဗုံး ရေပေါ်သို့တက်လာသောအခါ သေနတ်နှင့်ပစ်ခတ်ဖျက်ဆီးပစ်ရလေသည်။ ရိုးရိုးကြေးနန်းကြိုးကိုအသုံးပြု၍ ဆွဲယူပါက ရံဖန်ရံခါ ကျောက်ဆူးကြိုးမပြတ်ဘဲ၊ ရေမြှုပ်ဗုံး ပါလာတတ်သဖြင့် ရေမြှုပ်ဗုံးတို့ ပြန်ကြဲ၍သွားတတ်သည်။ ထို့ကြောင့် လွှကဲ့သို့ ခွဲသွားစိတ်အသွားများပါရှိသော ကြေးနန်းကြိုးကို အသုံးပြုရသည်။ ထိုနည်းကို ပဌမကမ္ဘာစစ်ကြီးကတည်းက အသုံးပြုခဲ့ကြသည်။ အခြားတနည်းမှာ ရေမြှုပ်ဗုံးချထားသည့် နယ်နိမိတ်အတွင်း အခြားဗုံးများချ၍ ပေါက်ကွဲစေသောနည်းဖြစ်သည်။ ရေမြှုပ်ဗုံးများကို ရှင်းပစ်ရန်အတွက် အများဆုံးအသုံးပြုခဲ့၍၊ အထိအရောက်ဆုံးဟု ဆိုနိုင်သောကရိယာမှာ သင်္ဘောဦးပိုင်းအောက်တွင် တပ်ဆင်ရသော ပါရာဗိန်းဟုခေါ်သော တော်ပီဒိုပုံသဏ္ဍာန်မျိုးရှိသည့် ကရိယာဖြစ်သည်။ ထိုကရိယာကို အင်္ဂလိပ်ရေတပ်အရာရှိတဦးဖြစ်သူ စီ၊ ဒီ၊ ဗာနီ တီထွင်ခဲ့သည်။ ထိုရေမြှုပ်ဗုံးရှင်း ကရိယာတွင် ဒလက်အသွားများ ဆူးထောင်သဖွယ်ပါရှိ၍၊ ထိုအသွားများနှင့် ရေမြှုပ်ဗုံးတို့၏ ကျောက်ဆူးကြိုးကို ဖြတ်တောက်မိသောအခါ၊ ရေမြှုပ်ဗုံးသည် ရေပေါ်သို့ ပေါလောပေါ်တက်လာသည်။ ထိုအခါ သေနတ်နှင့်ပစ်၍ ဖျက်ဆီးရသည်။

ဒုတိယကမ္ဘာစစ်အတွင်းက အသုံးပြုခဲ့ကြသော ပေါက်ကွဲစေတတ်သည့် ဗုံးအမျိုးမျိုးတို့အနက် ကြောက်မက်ဖွယ်ကောင်းသော ဗုံးများမှာ မြေမြှုပ်ဗုံးနှင့် ရေမြှုပ်ဗုံးများဖြစ်သည်။ အခြားဗုံးများကို အသုံးပြုသည့်အခါတွင် အသံလာရာကို ချိန်ဆ၍ ရှောင်တိမ်းနိုင်ရန် အခွင့်အရေးရှိနိုင်သော်လည်း၊ မြေမြှုပ်ဗုံး၊ ရေမြှုပ်ဗုံးများကိုမူကား မတိမ်းရှောင်နိုင်သဖြင့် အထူးပင်ကြောက်မက်ဖွယ်ကောင်းပေသည်။ မည်သည့်နေရာ၌ ဗုံးမြှုပ်ထားမှန်းမသိရသဖြင့် စစ်တပ်များသည် ရှေ့သို့ချီတက်ခြင်း၊ ရပ်နားခြင်းပြုရန်အတွက် များစွာအနှောင့်အရှက်တွေ့ကြုံခဲ့ကြရလေသည်။

မြေမြှုပ်ဗုံးများကို စစ်မျက်နှာအရှေ့ပိုင်းနှင့် အနောက်ပိုင်းတို့တွင် မြှုပ်နှံထားတတ်၏။ မြေမြှုပ်ဗုံး၏ ဘေးဒဏ်ကို စိုးရိမ်ရခြင်းမှာ ပေါက်ကွဲရာတွင် ပြင်းထန်ရုံမျှမက လိုသောအချိန်တွင်



ရေမြှုပ်ဗုံးပေါ်စခေတ် အသုံးပြုခဲ့သော ရေမြှုပ်ဗုံးများ

# တော်ပီဒိုနှင့် ရေမြှုပ် မြေမြှုပ်ဗုံးများ

တော်ပီဒိုခေါင်း | လေအိုး | အထိန်းကရိယာ | စက်ခန်း | ဂျိုင်ရို | ပဲ့ပိုင်း

အထက်ပါပုံမှာ ၂၁ လက်မရှိ တော်ပီဒိုလက်နက်၏ သရုပ်ပြပုံဖြစ်သည်။ တော်ပီဒိုခေါင်းတွင် ဖောက်ခွဲရန် ပေါက်ကွဲစေတတ်သောခဲယမ်းများပါရှိ၍၊ လေအိုးတွင် တော်ပီဒိုကို အဟုန်ပြင်းစွာ ပစ်လွှတ်ရန် လေကို သိပ်ထည့်ထားသည်။ ရေတိမ် ရေနက်သို့ လိုသလို သွားနိုင်ရန် လေအိုးနောက်တွင် အထိန်းကရိယာပါရှိ၍ စက်ခန်းမှာ လေနှိုးဒီဇယ်စက် တပ်ဆင်ထားသည်။ ဂျိုင်ရိုမှာတော်ပီဒိုသွားရာ လမ်းကြောင်းထိန်း ကရိယာဖြစ်၍ ပဲ့ပိုင်းမှာမူ တော်ပီဒိုကို ထက်အောက်ဝဲယာ လိုသလိုသွားစေရန် ပဲ့ကိုင်ပေးသောကရိယာဖြစ်သည်။

ပေါက်ကွဲရန် ပြုလုပ်ထားနိုင်ခြင်းကြောင့်လည်း ဖြစ်၏။ မြေမြှုပ်ဗုံးများကို အထူးသဖြင့် စစ်ဆုတ်ရာတွင် မြှုပ်နှံထားခဲ့တတ်ကြသည်။ ယခင်ကအထူးကြောက်မက်ဖွယ်ကောင်းသော မြေမြှုပ်ဗုံးမှာ တီ၊ အင်၊ တီခေါ် ဗုံးဖြစ်သော်လည်း၊ ဒုတိယကမ္ဘာစစ်ကြီးအတွင်းကမူ ထိုထက်ပြင်းထန်၍ ကြောက်မက်ဖွယ်ကောင်းသော တီ၊ အင်၊ တီနှင့် ရောစပ်ထားသည့် မြေမြှုပ်ဗုံးတမျိုးကို အသုံးပြုခဲ့ကြသည်။ တီ၊ အင်၊ တီ ဆိုသည်မှာ ထရိုင်နိုက်ထရို တော်လျူအင်ကို အတိုကောက် ခေါ်ထားခြင်းဖြစ်၏။ မြေမြှုပ်ဗုံးများတွင် သံလိုက်ဓာတ် ထည့်၍ထားတတ်သေး၏။ ထိုမြေမြှုပ်ဗုံးမျိုးကို သံလိုက်ဗုံးဟုခေါ်၏။

သံလိုက်ဗုံးများကို များသောအားဖြင့် ကုန်းမှာထက် ရေကြောင်းဖက်ဆိုင်ရာတွင် ပို၍အသုံးပြု၏။ ရေမြှုပ်ဗုံးများမှာ အားလုံးလိုလိုပင် သံလိုက်ဗုံးများဖြစ်သည်။ သံလိုက်ဗုံးများကို သင်္ဘောသွားရာလမ်း အောက်တွင် အလေးဆွဲ၍ ချထားလေ့ရှိသည်။ ထိုသို့ ချထားရာတွင် ရေအောက် ၁၅ ပေမှ ပေ ၃၀ အထိ အဆင့်ဆင့်ချထားလေ့ရှိ၏။ သင်္ဘောခုတ်မောင်းလာသောအခါ၌ သံလိုက်ဓာတ်ဆွဲငင်မှုကြောင့် ဗုံးသည်ပေါက်ကွဲ၏။ သင်္ဘောနှင့် မထိမိဘဲနှင့် ပေါက်ကွဲနိုင်သောကြောင့် အထူးကြောက်မက်ဖွယ်ကောင်းပေသည်။ လိုသောအချိန်တွင်မှ ပေါက်ကွဲစေရန်ပြုလုပ်ထားသော သံလိုက်ဗုံးများလည်း ရှိသည်။

မြေမြှုပ်ဗုံးနှင့် သံလိုက်ဗုံးတို့ကို ဒုတိယကမ္ဘာစစ်အတွင်းက ကြောက်မက်ဖွယ်ရာကောင်းသော လက်နက်ဆိုးများအဖြစ် အသုံးပြုခဲ့ကြသည်။ ယခုစစ်ပြီးကာလ၌မူ ထိုဗုံးများသည် လူ့အကျိုးဆောင်ရွက်ရန်အတွက် များစွာ အသုံးဝင်ပေသည်။ စစ်ဒဏ်ကြောင့် အိမ်များ၊ လမ်းများပျက်စီးခဲ့ကြရာ၊ စစ်ပြီးကာလ ပြန်လည်ထူထောင်သောခေတ်၌ အဆောက်အအုံပျက်များ၊ ပိတ်ဆို့နေသော လမ်းများကို ဖောက်ခွဲ ဖယ်ရှားပစ်ရန်အတွက် မြေမြှုပ်ဗုံးကို များစွာ အသုံးပြုကြရလေသည်။ ထို့ပြင် လမ်းသစ်များဖောက်လုပ်ခြင်း၊ အိမ်မြေရာသစ်များချထားခြင်း စသည်တို့ကိုပြုလုပ်ရန်အတွက် တောင်များကိုဖြိုရာတွင်လည်း မြေမြှုပ်ဗုံးများကို အသုံးပြုကြရသည်။ စစ်ပြီးကာလ၌ ရေလမ်းဖက်တွင်လည်း သင်္ဘောအသွားအလာ စည်ကားလာပြီဖြစ်ရာ၊ ရေလမ်းတွင် အန္တရာယ်ဖြစ်စေသော ရေခဲတောင်များကို ဖြိုခွဲရန်အတွက် ရေမြှုပ်ဗုံးနှင့် သံလိုက်ဗုံးများကို အသုံးပြုကြရပေသည်။ အနာဂတ်ကာလတွင် တူးမြောင်းဖောက်ခြင်း၊ တောင်ကိုဖြတ်၍ လိုဏ်ခေါင်းဖောက်ခြင်း စသည့် လမ်းပန်းဆက်သွယ်ရေးဆိုင်ရာ လုပ်ငန်းများတွင် မြေမြှုပ်ဗုံး၊ သံလိုက်ဗုံး၊ ရေမြှုပ်ဗုံးတို့သည် လူ့အကျိုးဆောင်ရန်အတွက် အသုံးဝင်မည်ပင်ဖြစ်လေသည်။

တော်ပီဒိုကို အဆင့်ဆင့် တိုးတက်ပြုပြင်လာခဲ့ကြသည်တွင် ယခုအခါ ယင်းကို ရေထဲ၌ တရှိန်ထိုးပစ်လွှတ်နိုင်ရုံသာမက၊ သွားစေလိုသော လမ်းကြောင်းအတိုင်း ပဲ့ကိုထိန်းပေးခြင်းဖြင့် လိုအပ်သော ရေအတိမ်အနက်သို့ရောက်ရှိအောင် သွားစေနိုင်၏။ တော်ပီဒိုတွင် အင်ဂျင်စက်တပ်ဆင်ထားသဖြင့် ခရီးဝေးသို့ရောက်အောင်လည်း မောင်းနှင်နိုင်သည်။ ယခုကာလ၌ပေါ် တော်ပီဒိုတခု၏ အစိတ်အပိုင်းတို့ကို ခွဲခြား၍ကြည့်လျှင်၊ အောက်ပါအတိုင်း တွေ့ရလိမ့်မည်။

## (၁) တော်ပီဒိုခေါင်း

တော်ပီဒိုခေါင်းထဲတွင် ရန်သူသင်္ဘောကို ဖောက်ခွဲဖျက်ဆီးရန် ခဲယမ်းမီးကျောက်ကို သိုလှောင်ထား၏။ တစုံတခုနှင့် ထိခိုက်မိသောကြောင့်ဖြစ်စေ၊ သံလိုက်ဓာတ်အားလှုပ်ရှားမှုကြောင့်ဖြစ်စေ၊ တော်ပီဒို၏ခေါင်းပိုင်းရှိ စနက်တံသည် ယမ်းအိုးကိုမီးငြိပေါက်ကွဲစေသည်။ (ပုံ — ရှု။)

## (၂) လေအိုး

စက်ခုတ်မောင်းရန်အတွက် အောက်ဆီဂျင်လို၏။ သို့ဖြစ်၍ လေအိုးထဲတွင် အောက်ဆီဂျင်ပါရှိသော လေကို သိပ်သည်းစွာ ဖိနှိပ်သိုလှောင်ထားသည်။ (ပုံ — ရှု။)

## (၃) အထိန်းကရိယာပါရှိသောအပိုင်း

တော်ပီဒိုကို ရေထဲတွင်ပစ်လွှတ်သည့်အခါ၌ လိုအပ်သော

ရေအတိမ်အနက်တွင် တောက်လျှောက်သွားနိုင်ရန် အထိန်းကရိယာဖြင့် ထိန်းပေးရသည်။ ထိုပြင် တော်ပီဒိုဝမ်းထဲရှိ စက်များအတွက် လိုအပ်သော စက်ဆီအိုးများကိုလည်း ဤအစိတ်အပိုင်းတွင် ထည့်သွင်းထားသည်။ (ပုံ — ရှု။)

### (၄) စက်ခန်း

လေအိုးထဲမှ လေပူဖြင့်၎င်း၊ ဆီအိုးထဲမှ စက်ဆီဖြင့်၎င်း၊ တော်ပီဒိုအင်ဂျင်စက်ကို ခုတ်မောင်း၍၊ ပဲ့ပိုင်းတွင် တပ်ဆင်ထားသည့် ပန်ကာများကို လည်စေလျက် တော်ပီဒိုကို တနာရီလျှင် ရေကြောင်းမိုင် ၄၀ နှုန်းဖြင့် သွားစေနိုင်သည်။ (ပုံ — ရှု။)

### (၅) ဂျိုင်ရိုကရိယာခန်း

တော်ပီဒိုကို ချိန်ထားသော လမ်းကြောင်းအတိုင်း ဖြောင့်တန်းစွာ ခုတ်မောင်းနိုင်ရန် တက်မကို ဂျိုင်ရိုစကုပ်ဖြင့် ထိန်းပေးရသည်။ လေအားဖြင့် ထိုဂျိုင်ရိုစကုပ်ကိုလည် ပတ်စေသည်။ (ပုံ — ရှု။)

### (၆) ပဲ့ပိုင်း

ပဲ့ပိုင်းတွင် တော်ပီဒိုကိုခုတ်မောင်းသည့် ပန်ကာများ၊ တော်ပီဒိုကို ဖြောင့်တန်းစွာသွားစေသည့် ထောင်လိုက်တက်မ၊ ရေအတိမ်အနက်ကို လိုအပ်သလို ထိန်းပေးသည့် အလျားလိုက် တက်မများ တပ်ဆင်ထားရှိလေသည်။ (ပုံ — ရှု။)

**တော်လမီ။** ။တော်လမီသည် အီဂျစ်တိုင်းရင်းသား နက္ခတ်၊ သင်္ချာနှင့် ပထဝီပညာရှင်တဦးဖြစ်သည်။ သူ၏အမည်ရင်းမှာ ကလောဒီးယပ် တော်လမေးယပ် ဖြစ်၏။ သူနှင့်ဆိုင်ရာ မွေးသောနှစ်နှင့် သေဆုံးသောနှစ်ကို အတိအကျမသိရချေ။ သို့သော် ခရစ် ၁၀၀ နှင့် ၁၇၀ ပြည့်နှစ်အကြားတွင် ဖြစ်လိမ့်မည်ဟု ခန့်မှန်းကြသည်။

ကျွန်ုပ်တို့မှီတင်းနေထိုင်ရာ ကမ္ဘာ မြေကြီးသည် စကြာဝဠာ၏ဗဟိုတွင် တည်ရှိ၍၊ နေ၊ လ၊ နက္ခတ်တာရာတို့သည် ကမ္ဘာကို လှည့်ပတ်လျက်ရှိကြသည်ဟူသော အယူအဆကို တော်လမီသည် ဦးစွာကြံဆခဲ့သူဖြစ်သည်။ ထိုအယူအဆသည် ဥရောပတွင် နှစ်ပေါင်း ၁၄၀၀ မျှပျံ့နှံ့ခဲ့ပြီးနောက်၊ ပိုလန်လူမျိုး နက္ခတ်ပညာရှင် ကောပါးနီးကပ်၏ တွေ့ရှိချက်ကြောင့်၊ သူ၏အယူအဆ မှားယွင်းပုံကို သိရှိလာကြရသည်။

တော်လမီပြုစုခဲ့သောကျမ်းတို့တွင် 'အဲလမာဂျက်' ခေါ် စကြာဝဠာတည်ဟန်ကျမ်းသည် အဓိကကျမ်းဖြစ်လေသည်။ ထိုကျမ်း၌ ဆိုခဲ့ပြီးသော သူ၏အယူအဆတို့ကို၎င်း၊ ကြယ်အမျိုးပေါင်း ၁၀၀၀ ကို၎င်း ဖော်ပြထားလေသည်။ ထို



အီဂျစ်လူမျိုး နက္ခတ်ပညာရှင် တော်လမီ

ကျမ်း၌ အရေးကြီးသောတွေ့ရှိချက်မှာ လ၏ သွားရာလမ်းကြောင်း မမှန်ဟူသောအချက်ဖြစ်သည်။

တော်လမီသည် ပထဝီပညာရှင်အနေဖြင့် ပို၍ထင်ရှားကျော်စောသည်။ သူသည် 'ဂျီဩဂရာဖီကေ ဆင်တက္ကဆစ်' ခေါ် ပထဝီသင်ပေကျမ်းကို အတွဲရှစ်တွဲမျှ ပြုစုခဲ့ရာ ထိုကျမ်းသည် ပထဝီပညာကို သိပ္ပံနည်းအရ တိကျစွာပြုစုသော ကျမ်းဖြစ်သည်။ ထိုကျမ်း၌ မြို့ရွာဒေသတို့ကို လတ္တီတွဒ်နှင့် လောင်ဂျီတွဒ်တို့ဖြင့် ပြထားသည်။ ခရစ္စတိုဖါကိုလံဗပ်၏ ခေတ်မတိုင်မီ ၁၅ ရာစုနှစ်အထိ ထိုကျမ်းကို ပညာရှင်တို့ စံတင်ခဲ့ကြရသည်။ ထိုကျမ်း၌ ရောင်စုံချယ်ထားသောမြေပုံများ ၂၆ ပုံခန့် ပါဝင်သည်။ ထိုမြေပုံတွင် ရှေးမြန်မာနိုင်ငံ၏ တည်နေဟန်ကိုလည်း တွေ့ရှိနိုင်ပေသည်။

သင်္ချာပညာနှင့်စပ်လျဉ်း၍ကား တော်လမီသည် မျက်နှာပြင်ညီနှင့် စက်ဝိုင်းလုံးဆိုင်ရာ တြိဂိုနိုမေထြီပညာကို စတင်၍အုတ်မြစ်ချခဲ့သည်။

**တော်လမီဘုရင်များ။** ။တော်လမီ ဟူသော အမည်သည် အီဂျစ်ပြည်ကို ဘီစီ ၃၂၃ မှ ၃၀ ခုနှစ်အထိ စိုးစံခဲ့သော ဘုရင် ၁၄ ဆက်တို့၏အမည်လည်း ဖြစ်သည်။ ထိုဘုရင် ၁၄ ဆက်ကို မက်ဆီဒုန်းဘုရင်မင်းဆက်ဟူ၍လည်း ခေါ်ကြသည်။

ဘီစီ ၃၂၃–၃၀ ခုနှစ်အတွင်း ထွန်းကားသော မက်ဆီဒုန်းလူမျိုးတို့၏ ပဌမဦးဆုံး ဘုရင်မှာ ပဌမတော်လမီဘုရင် (ဘီစီ ၃၆၇–၂၈၃) ဖြစ်သည်။ ထိုဘုရင်သည် မူလက အယ်လက်ဇန္ဒာ — သ — ဂရိတ်၏ လက်သုံးတော် စစ်

သေနာပတိတဦး ဖြစ်ခဲ့ဘူးသည်။ အယ်လက်ဇန္ဒာ — သ— ဂရိတ် ကွယ်လွန်လေသော်၊ ပဌမတော်လမိဘုရင်သည် အီဂျစ်ကိုသိမ်းပိုက်သည်။ သူ၏ခေတ်တွင် အီဂျစ်ပြည်သည် ကူးသန်းရောင်းဝယ်ရေး ဗဟိုဌာန ဖြစ်သည်။ ပညာရှိ သုခမိန်တို့ စုဝေးရာလည်း ဖြစ်သည်။

ပဌမတော်လမိဘုရင် ကွယ်လွန်လေသော်၊ သူ၏သားတော် ဒုတိယတော်လမိဘုရင် (ဘီစီ ၃၀၉–၂၄၆) သည် ခမည်းတော်၏ လက်ငုတ်ဖြစ်သော လုပ်ငန်းစဉ်တို့ကို မပျောက်မပျက်စေရဘဲ ထိန်းသိမ်းခဲ့သည်။ သူ၏ ဖခမည်းတော်လက်ထက်က တည်ဆောက်ခဲ့သော အယ်လက်ဇန္ဒြီးယားမြို့အနီး ဖေးရော့ကျွန်းရှိ မီးပြတိုက်ကို ဆက်လက်တည်ဆောက်၍၊ နိုင်းမြစ်မှ ပင်လယ်နီသို့ သွယ်ဖေါက်သောတူးမြောင်းကိုလည်း အပြီးသတ်တူးဖေါက်ခဲ့သည်။ သို့ရာတွင် တတိယတော်လမိဘုရင် (ဘီစီ ၂၈၂–၂၂၁) လက်ထက်၌ကား ပဌမတော်လမိဘုရင် တည်ထောင်ခဲ့သောနိုင်ငံသည် အင်အား ဆုတ်ယုတ်လာခဲ့လေသည်။ ပဥ္စမ တော်လမိဘုရင် (ဘီစီ ၂၀၉–၁၈၁) လက်ထက်၌ အီဂျစ်ပြည်ကို အန်တိုင်းအိုခပ်ဘုရင်က သိမ်းပိုက်၍၊ သူ၏သမီးတော်ကို ပဥ္စမတော်လမိဘုရင်နှင့်သင့်မြတ်စေသည်။

ပဥ္စမတော်လမိဘုရင်သည် အသက် ၂၈ နှစ်အရွယ်တွင် ရုတ်တရက်ကွယ်လွန်လေသည်။ ထိုနောက် အီဂျစ်သမိုင်းတွင် တော်လမိဘုရင်များ အစဉ်အဆက်စိုးစံလာခဲ့ပြီးသည့်နောက်၊ ရာဇဝင်တွင် ကလီယိုပါးထရားဘုရင်မဟု ထင်ရှားအံ့သော ကလီယိုပါးထရားမင်းသမီးသည် အသက်အရွယ်အားဖြင့် ဆယ်နှစ်သာရှိသေးသော၊ သူ၏မောင်တော်ကို ဘုရင်တင်မြှောက်၍၊ မောင်တော်နှင့်အတူ မိဖုရားအရာယူလျက် စိုးစံလေသည်။ ထိုမင်းသားကလေးကား ဒွါဒသမတော်လမိ ဖြစ်လေသည်။ ဘီစီ ၄၇ ခုနှစ်တွင် အီဂျစ်ပြည်ကို ရောမဘုရင် ဂျူးလယပ် ဆီဇာ အောင်နိုင် သိမ်းပိုက်သောအခါ၊ ဒွါဒသမတော်လမိသည် ကလီယိုပါးထရား၏ လက်ချက်ကြောင့် အီဂျစ်ပြည်မှ ထွက်ပြေးခဲ့ရလေသည်။ (ကလီယိုပါးထရားဘုရင်မ — ရှု။) တော်လမိဘုရင်လည်း ထိုစဉ်အခါတွင် ကလီယိုပါးထရားနှင့် သင့်မြတ်နေပြီဖြစ်သော ဆီဇာဘုရင်ကို ပြန်လှန်စစ်ပွဲရန်ကြိုးစားပါသော်လည်း၊ တိုက်ပွဲတခုတွင် လက်လွတ်ထွက်ပြေးရာမှ ရေနစ်၍ ကံကုန်လေသည်။

**တော်လဲခြင်း**။ ။လျှောင်လှုပ်ခြင်း — ရှု။

**တော်လှန်ရေး**။ ။ဤသင်္ခါရလောကတွင် မြင်မြင်သမျှသော သက်ရှိသက်မဲ့ ဟူသမျှတို့သည် နေ့စဉ်နှင့်အမျှ ပြောင်းလဲလျက်ရှိကြသည်။ ထိုပြောင်းလဲသောသဘောကို ဆင်ခြင်ကြံဆကြသော သိပ္ပံပညာရှင်တို့သည် ထိုထိုသော သဘာဝတ္ထုပြောင်းလဲမှုတို့ကို ဆင့်ကဲဖြစ်ခြင်းဟူသော အီဗော်လျူရှင်နှင့် ဆင့်ကဲဖြစ်သည့်သဘောကို ကျော်လွန်၍ တမုဟုတ်ခြင်း ပြောင်းလဲခြင်းဟူသော ရီဗော်လျူရှင် ဟူ၍ နှစ်မျိုးခွဲခြားပြကြကုန်သည်။ ဆိုခဲ့ပြီးသော သက်ရှိသက်မဲ့ ရုပ်ဝတ္ထုတို့၏ပြောင်းလဲမှုနှင့် အလားတူစွာ၊ လူ့ဘောင်အဖွဲ့အစည်း၌လည်း ပြောင်းလဲမှု သဘောတရားတို့ ရှိကြကုန်သည်။ ထိုပြောင်းလဲမှုတို့သည် လူမှုရေး ပြောင်းလဲမှုများဖြစ်သည်။ လူမှုရေးပြောင်းလဲမှု၌လည်း ဆင့်ကဲဖြစ်ခြင်းဟူသော အီဗော်လျူရှင်နှင့် တမုဟုတ်ခြင်း ပြောင်းလဲခြင်းဟူသော ရီဗော်လျူရှင်ဟုရှိသည်။ ထိုရီဗော်လျူရှင်ဟူသောဝေါဟာရကို မြန်မာဘာသာဖြင့် ယခုအခါ တော်လှန်ရေးဟု ခေါ်ဝေါ်ကြသည်။

တော်လှန်ရေးသည် နိုင်ငံရေးသဘောလည်း သက်ရောက်နိုင်သည်။ လူမှုရေးသဘောလည်း သက်ရောက်နိုင်သည်။ နိုင်ငံရေးသဘော သက်ရောက်သည့်အခါ၊ အုပ်ချုပ်သူကိုရင်း၊ အုပ်ချုပ်ရေး အသွင်သဏ္ဌာန်ကိုရင်း၊ အကြမ်းဖက်ကာ တမုဟုတ်ခြင်း ပြောင်းလဲပေးခြင်း ဖြစ်သည်။ လူဟောင်း၊ စံနစ်ဟောင်းကို လူသစ်၊ စံနစ်သစ်ဖြင့် အစားထိုးခြင်းသဘောဖြစ်၏။ အကြမ်းဖက်သည်ဟူရာ၌ အကြမ်းဖက်ခြင်းသည် အဓိကပင်မဟုတ်သော်လည်း၊ ယေဘုယျအားဖြင့်ကား တော်လှန်ရေး၏ အင်္ဂါတရပ်ကဲ့သို့ရှိချေသည်။ လူမှုရေးသဘော သက်ရောက်သည့်အခါတွင်ကား လူ့လောက၏ စီးပွားရေးအဆောက်အအုံကြီးတွင် အရင်းအမြစ်ကစ၍ တမုဟုတ်ခြင်း ပြုပြင် ပြောင်းလဲပေးမှုများကို ဆိုလိုပေသည်။ ယင်းကဲ့သို့သော လူမှုတော်လှန်ရေးများသည် နိုင်ငံရေးတော်လှန်ရေးများကဲ့သို့ အကြမ်းနည်းအားဖြင့်လည်း ပေါ်ပေါက်လာနိုင်သည်။ ဗြိတိန်နိုင်ငံ၏သမိုင်း၌ကဲ့သို့ အေးချမ်းငြိမ်သက်စွာ တဖြည်းဖြည်းလည်း ပေါ်ပေါက်လာနိုင်သည်။

၁၇၈၉ ခုနှစ် ပြင်သစ်တော်လှန်ရေးသည် အဓိကအားဖြင့် နိုင်ငံရေးတော်လှန်ရေးဖြစ်သည်ဟု ဆိုနိုင်၍၊ ၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေးကြီးသည် အဓိကအားဖြင့် လူမှုတော်လှန်ရေးဖြစ်သည်ဟု ဆိုနိုင်လေသည်။ သို့သော် စင်စစ်အားဖြင့် ထိုသို့ယတိပြတ် ပိုင်းခြားကန့်သတ်ရန်မှာ မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော်၊ နိုင်ငံရေး တော်လှန်ရေးများတွင် အများအားဖြင့် လူမှုရေးဖြင့် စီးပွားရေးဆိုင်ရာ အကြောင်းရင်းများ ရှိနေတတ်ပြီးလျှင်၊ လူမှုတော်လှန်ရေးများသည်လည်း ယေဘုယျအားဖြင့် အုပ်ချုပ်ရေး အသွင်သဏ္ဌာန် အသစ်တည်ထောင်ခြင်းဖြင့် စခန်းသိမ်းတတ်သောကြောင့် ဖြစ်လေသည်။ အကယ်၍ တိုင်းပြည်တပြည်ရှိ အညှဉ်းပန်းခံ အစိတ်အပိုင်းနှင့် မကျေမနပ်ဖြစ်နေသော အစိတ်

အပိုင်းများသည် ယင်းတို့၏နစ်နာချက်များကို ထင်ရှား သိသာအောင်ပြုရန်အတွက်ငှင်း၊ အေးချမ်းစွာ ထိုနစ်နာ ချက်များကို ပြုပြင်ပေးရန်အတွက်ငှင်း၊ တရားဝင်နည်း လမ်းမရှိခဲ့လျှင်၊ တော်လှန်ရေးသည် ရုတ်တရက်ပေါ် ပေါက်လာဦးမည် မဟုတ်သေးဘဲ ကြန့်ကြာနေဦးမည်ဖြစ် သော်လည်း၊ ပေါ်ပေါက်လာသည့်အခါတွင်ကား ပြင်သစ် နိုင်ငံနှင့် ရုရှနိုင်ငံတို့မှာကဲ့သို့ အကြမ်းဖက်မှု၊ သွေးထွက် သံယိုမှုများပါလာမည်မှာ သေချာလေသည်။ အင်အား တောင့်တင်းသော လူလတ်တန်းစားရှိ၍၊ လူထုကို ကိုယ် စားပြုသော အစဉ်အလာမျိုးလည်းရှိသော ဂရိတ်ဗြိတိန် ကဲ့သို့သော နိုင်ငံမျိုးတွင် တော်လှန်ရေး လှုပ်ရှားမှုသည် ခပ်စောစောပင် ပေါ်ပေါက်လာနိုင်သော်လည်း၊ တိုက်ခိုက် မှုလုံးဝမရှိဘဲ အေးချမ်းငြိမ်သက်စွာပင် ပြီးမြောက် အောင် မြင်နိုင်လေသည်။ ဥဒါဟရုဏ်များမှာ ၁၆၈၈ ခုနှစ်သွေး မြေမကျတော်လှန်မှုနှင့် စက်မှုလက်မှုအရေးပုံတို့ဖြစ်၏။

၁၉ ရာစုနှစ်သည် တော်လှန်ရေး ရာစုနှစ်ဟု ခေါ်ဆိုနိုင် ပေသည်။ မည်သည့်ဥရောပနိုင်ငံမျှ တော်လှန်ရေးသ ဘောတရားများ၏စက်ရိပ်နှင့် လုံးလုံးလျားလျား မကင်း ခဲ့ချေ။ ၁၈ ရာစုနှစ် နောက်ပိုင်းတွင် ပေါ်ပေါက်ခဲ့သည့် ပြင်သစ်တော်လှန်ရေးကြီးသည် ဥရောပတတိုက်လုံးတွင် အကြီးအကျယ်အကျိုးသက်ရောက်စေခဲ့လေသည်။ တော်လှန်ရေးစာပေများလည်း အထူးတွင်ကျယ်ခဲ့၏။



ပြင်သစ်တော်လှန်ရေး

၁၇၈၉ ခုနှစ် ဇူလိုင်လ ၁၄ ရက်နေ့တွင် ပြင်သစ်ပြည်သူတို့သည် လက်နက်စွဲကိုင်၍ ဗက်စတီး ထောင်ကြီးကို တိုက်ခိုက်ဖျက်ဆီးပစ်လိုက် ကြလေသည်။



ရုရှတော်လှန်ရေး

၁၉၁၇ ခုနှစ်တွင် ဇာဘုရင်၏ အုပ်ချုပ်ရေးကို ဖယ်ရှားပစ်သော ရုရှတော်လှန်ရေး

၁၇၄၇ ခုနှစ်တွင် ပြင်သစ်ဘုရင် လူဝီ ဖိလစ်အား နန်းစွန့်ရအောင်ပြုစွမ်းနိုင်သည်အထိ အောင်မြင်ခဲ့သော တော်လှန်ရေးတရပ် ပါရစ်မြို့၌ ပေါ်ပေါက်ခဲ့ရာမှ၊ နိုင်ငံအများတွင်လည်း တော်လှန်ရေးများ ပေါ်ပေါက်ခဲ့လေသည်။ (ဒန်တွန်, ဂျီ၊ ဂျေ။ ရောဗက်စပျ, အမ်။ မာရတ်,ဂျေ၊ ပီ — ရှု။) ယင်းသည့်တော်လှန်ရေးများကြောင့် ဩစတြီးယား — ဟန်ဂေရီနိုင်ငံမှာကဲ့သို့ တော်လှန်ရေး ဖြစ်ပွားရာနိုင်ငံတိုင်းတွင် ပြည်တွင်းစစ်ပွဲများမဖြစ်ပွားခဲ့ပေ။ သို့သော် လူထုဆူပူလှုပ်ရှားမှု၊ လူထုအကြမ်းဖက်မှုများကား ရှိခဲ့သည်သာ ဖြစ်လေသည်။ ဂျာမနီတွင် ဗစ်ဇမတ်ခေါင်းဆောင်၍ ၎င်း၊ ဣတလီတွင် ဂယ်ရီဗောဒီးနှင့် ကဗူးတို့ခေါင်းဆောင်၍ ၎င်း၊ တော်လှန်ရေးအစိတ်အပိုင်းများကို အမျိုးသားစည်းလုံးရေးအတွက် လှုပ်ရှားမှုများ အဖြစ်သို့ နောက်ဆုံး၌ ပြောင်းလဲပေးခဲ့၏။ (ဗစ်ဇမတ်။ ဂယ်ရီဗောဒီး, ဂျီ။ ကဗူး, စီ၊ ဗီ — ရှု။) ဩစတြီးယားနိုင်ငံတွင် ဟက်စဗတ်ဧကရာဇ်များသည်၎င်း၊ ရုရှ နိုင်ငံတွင် ဇာ ဧကရာဇ်ဘုရင်များသည်၎င်း၊ တော်လှန်ရေးအစိတ်အပိုင်းများကို ပြင်းပြင်းထန်ထန် နှိမ်နင်းခဲ့လေသည်။ သို့သော် ရုရှနိုင်ငံတွင် ၁၉၁၇ ခုနှစ်၌ ပိုမိုပြင်းထန်စွာ တဖန် ပြန်လည်ပေါ်ပေါက်ခဲ့၍၊ ဇာဘုရင်များ၏ အုပ်ချုပ်ရေးကို အမြစ်ပြုတ်အောင် ဖယ်ရှားသုတ်သင်နိုင်ခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ဂျာမန်တို့လက်အောက် ရောက်ခဲ့ရသည့် ဥရောပနိုင်ငံများတွင် ဖက်ဆစ်ဂျာမန် တော်လှန်ရေးများ ပေါ်ပေါက်ခဲ့သည့် နည်းတူ ဂျပန်တို့၏ လက်အောက်သို့ ကျရောက်ခဲ့ရသော မြန်မာနိုင်ငံ အဝင် အပါ၊ အာရှနိုင်ငံများတွင်လည်း ဖက်ဆစ်ဂျပန်တော်လှန်ရေးများ ပေါ်ပေါက်ခဲ့လေသည်။ (မြန်မာ့တော်လှန်ရေး — ရှု။)

**တော်သလင်းလ။** ။တော်သလင်းလသည် မြန်မာလများတွင် ဆဋ္ဌမမြောက်လဖြစ်၏။ မိုးဥတုတွင် ပါဝင်သည်။ တော်သလင်းလကို ရှေးအခါက သစ်ဆင်းလ ဟုလည်း ခေါ်သည်ဟုဆို၏။ သစ်ဆင်းလ ခေါ်ပုံ အကြောင်းကို ဝေါဟာရလိနတ္ထဒီပနီတွင် ‘ ရေစီးအဟုန် မည့်မဖျင်း။ မြစ်တွင်း သာသောကြောင့် သစ်ဖေါင် ဝါးဖေါင်အများ စုန်ဆင်းသည်။ တော်သလင်းကို မြစ်တွင်း သင်ဖြူးခင်းဟု ရှေးသူဟောင်းတို့ ဆိုရိုးရှိသည်နှင့် ထောက်ချင့်၍ဆင်ခြင်’ ဟူ၍ဖေါ်ပြထားလေသည်။ ပုဂံကျောက်စာများတွင်မူ တော်သလင်းလကို တံသွင်ဟူ၍၎င်း၊ တာ်သွင်ဟူ၍၎င်း ရေးသားထားသည်ကို တွေ့ရ၏။ ဗေဒင် အခေါ် အားဖြင့် တော်သလင်းလကို ကန်ရာသီဟုခေါ်သည်။ ထိုရာသီတွင် ဘဒြနက္ခတ်နှင့် လမင်းတို့ ယှဉ်ပြိုင်ကာ မွန်းတည့်၏။

ဘရဂုဏ္ဏီနက္ခတ်နှင့် နေမင်း ယှဉ်သည်။ ရာသီရုပ်မှာ မိန်းမရုပ် နှစ်ရုပ်ဖြစ်၏။ ရာသီပန်းမှာ ရင်းမာပန်းတည်း။ ထိုလတွင် ထန်းများလည်းမှည့်သည်။

တော်သလင်းလတွင် လှိုင်းလေများငြိမ်သက်၍၊ မြစ်တွင်းပျံ့ပျူးသောကြောင့် ရှေးမြန်မာမင်းများရှိစဉ်က လှေပြိုင်ပွဲများ ဆင်ယင်ကျင်းပလေ့ရှိသည်။ (ဆယ့်နှစ်ရာသီပွဲတော်များ — ရှု။) ဤသည်တို့ကိုရည်၍၊ ဦးအောင်ကြီး၏ အင်းဝမြို့ဘွဲ့ ၁၂ ရာသီလူးတား တော်သလင်းလဘွဲ့တွင်၊

'သာစွလေ၊ မြစ်ရေကမ်းပြည့်၊ ထန်းလည်းမှည့်၍၊ စည့်စည့်မိုးဃံးလ၊ ဗဒ္ဒရနှင့်၊ ပြည့်ဝအညီ၊ ကန်ရာသီဟု၊ အာနီမြိုင်၊ ရင်းမာလှိုင်က၊ မွှေးကြိုင်ပျံ့သင်း၊ တော်သလင်းဝယ်၊ မြစ်တွင်းရတု၊ ပန်းလုသဘင်၊ သစ်ဆင်းယင်လျက်၊ လက်သင်လှော်ကား၊ ရွှေသားစက်ကွင်း၊ လှေချင်းလှော်ပြိုင်၊ ခွင့်ရေးကိုင်၍' ဟူ၍စပ်ဆိုထား၏။

ရွှေဗျိုင်းတာရာ ထွန်းပသော တော်သလင်းသမယတွင် နံနက်စက်နာရီ ၅ နာရီ မိနစ် ၅၀ ၌ နေထွက်၍၊ ညနေစက်နာရီ ၆ နာရီ ၁၀ မိနစ်၌ နေဝင်သည်။ မြန်မာနာရီအားဖြင့် နေ့ ၃၂ နာရီ၊ ည ၂၈ နာရီရှိသည်။ ဤကိုရည်၍၊ ဦးယာ၏ ဆယ့်နှစ်ရာသီလူးတား တော်သလင်းလဘွဲ့၌၊

'တာရာရွှေဗျိုင်း၊ ဆီးတံ့ဆိုင်းသား၊ မရှိင်းနေ့ာက်က၊ အလျှံပြ၍၊ ထွန်းပရောင်လူ၊ ရွှေဇမ္ဗူရာဇ၊ မှန်ပုံစစ်လျက်၊ တက်သစ်စံရှင်၊ ပဘာက်ရ၊ တောက်ပဝင်းဝါ၊ နေစကြာနှင့်၊ ဥတ္တရာမှီ၊ ဘရဂုဏ္ဏီဟု၊ ပြည့်ညီနက္ခတ်၊ လှည့်ပတ်အတူ၊ ဇမ္ဗူမဇ္ဈေ၊ လယ်ဗွေရောက်ငြား၊ ဘဝါးဗီသ၊ တွက်ရမှန်ညီ၊ နာရီနေ့တွင်၊ သုံးဆယ်မြင်၍၊ နှစ်လျှင်စွန်းပါ၊ ညဥ့်ခါအဌ၊ စမ္မသို့နေ' ဟူ၍စပ်ဆိုထား၏။

တော်သလင်းလတွင် ဗုဒ္ဓဟူးနှင့် သောကြာနေ့တို့မှာ ပြဿဒါးနေ့များဖြစ်ကြ၍၊ ကြာသပတေးနှင့် စနေနေ့များမှာ ရက်ရာဇာများ ဖြစ်ကြသည်။ တော်သလင်းလမှာ ရက်စုံ ကွယ်သောကြောင့် ရက်ပေါင်း ၃၀ ရှိလေသည်။

**တောကျီးကန်း။** ။တောကျီးကန်းသည် 'ပက်ဆာရီဖောမီး' မျိုးစဉ်၌၎င်း၊ 'ကော်ဗီဒီ' မျိုးရင်း၌၎င်း ပါဝင်သည်။ တောကျီးကန်း၏ အလျားမှာ ၂၀ လက်မမှ ၂၂ လက်မထိရှိသည်။ ပျံသန်းရာတွင် အတောင်ကို မှန်မှန်ရိုက်၍၊ နှေးနှေးနှင့် ဖြောင့်ဖြောင့် ပျံတတ်သည်။ အတောင်စွန်းရှိ အမွေးများသည် မြို့ကျီးကန်းထက်ပိုကြီး၍ ကျဲသည်။

အား၊ အားဟု အာတတ်သည်။ တခါတရံစူးရှစွာ မြည်တတ်၏။ တခါတရံတွင်လည်း သာယာစွာမြည်လေ့ရှိသည်။ လည်ချောင်းသံနှင့်မြည်သည့်အခါ 'အားဝါး၊ အားဝါး' ဟုအသံထွက်သည်။ နေ့ခင်းနေပူချိန်၌ အရိပ်ကောင်းသည့် သစ်ကိုင်းပေါ်တွင်နားကာ လေးတွဲစွာ ညည်း၍လည်း နေတတ်သည်။

တောကျီးကန်းကို မြန်မာနိုင်ငံတွင် အနှံ့အပြား တွေ့နိုင်သည်။ အထူးသဖြင့် မေမြို့၌ တောကျီးကန်း ပေါများသည်။ ညနေအချိန်တွင် မေမြို့မှ တောင်ဖက်သို့ ထောင်ပေါင်းများစွာပါရှိသော တောကျီးကန်းအုပ်ကြီးများ အိပ်တန်းတက်ရန်ပျံသွားကြသည်ကို မြင်နိုင်သည်။ အရုဏ်တက်ချိန်၌ မြို့တွင်းသို့ ပြန်ဝင်လာလေ့ရှိကြသည်။



အသံအမျိုးမျိုး အော်မြည်တတ်သော တောကျီးကန်း

တနင်္သာရီ ခရိုင်တွင် ဇန္နဝါရီနှင့် ဖေဖွာရီ လများတွင် ဥများကို အုလေ့ရှိသည်။ အခြားနေရာများတွင်မူ မတ်လနှင့် ဧပြီလအတွင်း၌ အုကြသည်။ လွင်ပြင်ရပ်များ၌ကား၊ ဖေဖွာရီလမှစ၍ပင် တောကျီးကန်းအသိုက်များကို တွေ့နိုင်သည်။ အသိုက်ကို သစ်ပင်များပေါ်၌ စောက်နက်နက် ခွက်ပုံ လုပ်လေ့ရှိသည်။ အသိုက်လုပ်ရာတွင် သစ်ခက်များ၊ တုတ်ချောင်းငယ်များနှင့် လုပ်လေ့ရှိ၍ အတွင်း၌ အမွေးအမှင်၊ သစ်မြစ်၊ မြက်ခြောက်၊ လျှော်ပင် စသည်တို့ကို ခင်းထားတတ်သည်။ တမြုံလျှင် အများအားဖြင့် ၄ ဥမှ ၅ ဥအထိရှိ၍ တခါတရံမှသာ ၆ ဥအထိရှိတတ်သည်။ ဥများမှာ အပြာဖျော့အရောင်ခံပေါ်တွင် အညိုကွက်နှင့် အစင်းများရှိသည်။

တောကျီးကန်းကို မြန်မာနိုင်ငံ တဝှန်းလုံး၌သာမက၊ အရှေ့ဖက်နိုင်ငံများတွင်လည်း အနှံ့အပြားတွေ့နိုင်သည်။

**တောကြွက်။** ။ဇီဝဗေဒအလိုအရ တောကြွက်ကို 'ဂဲလပ်ဂဲလပ်' ဟုခေါ်၏။ ယင်းသည် 'ဖာစီအာနီဒီ' မျိုးရင်းတွင်ပါဝင်သည်။ တောကြွက်သည် အလွန်ပါးနပ်သော ကြွက်ရိုင်းမျိုးဖြစ်သည်။ ကြွက်ဖသည် အမြီးအပါအဝင် ၂၆ လက်မမှ ၂၈ လက်မခန့်အထိ ရှည်၍ ကြွက်မသည် ၁၇ လက်မခန့်ရှည်သည်။ တောကြွက် ပျံသန်းသည့်အခါ၌ အမြီးအထက်ရှိ အဖြူကွက်များကို ထင်ရှားစွာ မြင်နိုင်သည်။ ဦးခေါင်းထိပ်ရှိ နီတွေးသောအမောက်



ကြက်ရိုင်းမျိုးဖြစ်သော်လည်း လိမ်မာပါးနပ်သော
တောကြက်မောင်နှံ

မှလွဲ၍ တကိုယ်လုံးသည် မည်းပြာရောင် ဖြစ်နေသည်ဟု ထင်မှတ်ရသည်။

တောကြက် အဖိုအမတို့၏အသံသည် အိမ်ကြက်များ၏ အသံနှင့်တူ၏။ သို့သော် ကြက်ဖ၏တွန်သံသည် တို၍ပြတ် တောင်းတောင်းဖြစ်သည်။ တောကြက်ကို အများအား ဖြင့် ကျွန်းတောများတွင်တွေ့ရသည်။ မိုးတွင်း၌ တော နက်ရာသို့ ရွှေ့ပြောင်းလေ့ရှိကြ၍၊ ဆောင်းရာသီတွင် စပါး စိုက်သည့် လယ်တောနှင့် နီးသော တောစပ်များသို့ ရွှေ့ ပြောင်းလာပြန်သည်။ စပါးရိတ်ပြီးချိန်တွင် နံနက်စော စောနှင့် နေ့ခင်းပိုင်း၌ စပါးပင်ငုတ်တိုများကြားသို့ လာ ရောက်ကျက်စားသည်။

တောကြက်သည် ပူအိုက်သောနေ့လယ်အခါတွင် အနီး အနားရှိ ချုံဖုတ်ထဲတွင် ခိုအောင်းနေတတ်သည်။ ယင်း ၏အစာမှာ အသီးအနှံနှင့် ပိုးကောင်များဖြစ်သည်။ ကြက်ဖ တကောင်သည် ကြက်မ ၄၊ ၅ ကောင်နှင့် အုပ်ဖွဲ့၍နေတတ် သည်။ ဝါးစေ့ကို အလွန်နှစ်သက်သဖြင့် ဝါးစေ့ပေါသော နေရာများတွင် အုပ်လိုက်တွေ့နိုင်သည်။

မတ်လမှ မေလအတွင်း တောကြက်ငယ်များ ဥမှ ပေါက်ကြသည်။ တခါတရံ အောက်တိုဘာလတွင် တောကြက်ဥများများကို တွေ့ရတတ်သဖြင့် တနှစ်ပတ်လုံး အချိန်မရွေး အုသည်ဟု ယူဆရသည်။ ဥများကို ဝါးရုံ၊ ချုံဖုတ်များအကြား မြေပြင်နှင့် ပေအနည်းငယ်အကွာတွင် အုထားလေ့ရှိသည်။ တမြုံလျှင် ၅ ဥမှ ၆ ဥအထိ ရှိတတ် သည်။ ကြက်မများကသာ ဥများကို သားပေါက်ရန် ဝပ်ပေးကြသည်။ သားပေါက်ရန် ရက်ပေါင်း ၂၀ ခန့်ကြာ တတ်သည်။

တောကြက်ကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြား တွေ့ရ၏။ အိမ်ကြက်သည် တောကြက်မှ ဆင်းသက် ပေါက်ပွားလာသည်ဟု ထင်ရပေသည်။ (ကြက် — ရှု။) မြန်မာနိုင်ငံတဝှန်းလုံးတွင် တောကြက်ကိုတွေ့ရ၏။ တော ကြက်ကို ပေ ၅၀၀၀ အမြင့်အထိရှိသော အရပ်တို့၌ပင် တွေ့ရသည်။ ယင်းထက်မြင့်ရာ အရပ်တို့တွင်မူကား မတွေ့ရ တော့ချေ။

**တောကြောင်။** ။တောကြောင်ကို ဇီဝဗေဒအလိုအရ 'ဖဲလစ် ကေးအပ်' ဟုခေါ်သည်။ ခေါင်းနှင့်ကိုယ်သည် အရှည် ၂ ပေကျော်ခန့်ရှိ၍ အမြီးသည် တပေခန့်ရှည်သည်။ ကိုယ်အလေးချိန်မှာ ၁၀ ပေါင်နှင့် ပေါင် ၂၀ ကြားတွင် ရှိတတ်သည်။ တောကြောင်သည် ခြေတံရှည်၏။ သို့သော် အမြီးတိုသည်။ အစိမ်းရောင်သန်းသော မျက်စိများသည် ကြမ်းကြုတ်သော အမူအရာကို ပေါ်ပြလျက်ရှိလေသည်။ အမွေးသည် မွဲပြာရောင်မှ အဝါနှင့်မွဲပြာရောင် ရောထား သောအရောင်ထိ အရောင်အမျိုးမျိုး ရှိနိုင်သည်။ အမြီး တွင် အမည်းရောင်ကွင်းများရှိ၍ အမြီးဖျားသည် မည်း၏။ ခြေဖျားများသည် အဝါနုရောင်ဖြစ်၍၊ ခြေဖဝါးများသည် အမည်း သို့မဟုတ် အညိုပုပ်ရောင်ဖြစ်သည်။ နားရွက် များသည် နီ၍၊ အဖျားရှိ အမွေးကလေးများသည် မည်း၏။ ကိုယ်၏ အောက်ပိုင်းမှာ အရောင်ပို၍ဖျော့သည်။ ထိုပြင် ကိုယ်၏အောက်ပိုင်းနှင့် ခါးပိုင်း၏နံဘေးတွင်လည်း အစင်း များရှိသည်။

တောကြောင်ကို အာဖရိကတိုက် မြောက်ပိုင်းမှစ၍ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံအပြင် သီဟိုဠ်ကျွန်းနှင့် အင်ဒိုချိုင်း နားနိုင်ငံတလျှောက်ထိ တွေ့နိုင်သည်။ တောကြောင်နှင့်



လျှင်မြန်သန်စွမ်းသော တောကြောင်

မျိုးချင်းတူသော်လည်း၊ ကိုယ်နေအချိုးအစားနှင့် အမွေး ရောင်ချင်းမတူသော အခြားတောကြောင်မျိုးများလည်းရှိ သေးသည်။

တောကြောင်သည် ခြောက်သွေ့သော အရပ်များ တွင် နေထိုင်လေ့ရှိသည်။ အများအားဖြင့် မြက်တော၊ ချုံ တောနှင့် ကိုင်းထူထပ်သော မြစ်ကမ်းပါးများတွင် နေလေ့ ရှိသည်။ နံနက်နှင့် ညနေခင်းတွင် အစာရှာထွက်လေ့ ရှိသည်။ ကွင်းထဲ၌ တောကြောင် သွားလာ ရွေ့ရှား ပုံသည် ကျားသစ် သွားလာပုံနှင့်တူ၏။ နို့တိုက် သတ္တဝါ ကလေးများနှင့် ငှက်များကို အစာအဖြစ် ဖမ်းယူစား သောက်သည်။ မြို့ရွာအနီးသို့ ရောက်ရှိလာသောအခါ၊ အိမ်၌မွေးမြူထားသော ကြက်၊ ဘဲတို့ကို ဖမ်းယူစား လေ့ရှိသည်။ အလွန်လျင်မြန်သန်စွမ်းလှသဖြင့် သူ့ထက် ကြီးမားသော သားကောင်များကိုပင် ဖမ်းယူနိုင်လေ သည်။ တောကြောင် ပေါက်ပွားပုံနှင့်စပ်ဆိုင်သော အလေ့ အကျင့်ကိုမူ အတိအကျမသိရပေ။ သို့သော် တနှစ်လျှင် နှစ်ကြိမ် သားပေါက်သည်ဟုဆိုသည်။ တောကြောင် ကလေးများကို အိမ်ကြောင်များကဲ့သို့ ယဉ်ပါးအောင် မွေး မြူနိုင်သည်။ အချို့အရပ်များတွင် တောကြောင်ကို ဟင်း လျာအတွက် ဖမ်းဆီးလေ့ရှိကြသည်။

**တောငန်း။** ။တောငန်းသည် 'အန်စာရီဖောမီး' မျိုး စဉ်တွင်၎င်း၊ 'အနာတီဒီ' မျိုးရင်းတွင်၎င်း၊ 'အန်စာ ရိုင်နီ' မျိုးရင်းခွဲ၌၎င်း ပါဝင်၍၊ ယင်းကို 'အန်စာ အင် ဒီကပ်' ဟု ပါဏဗေဒအလိုအားဖြင့်ခေါ် သည်။

တောငန်းသည် အရွယ်အားဖြင့် အိမ်မွေးငန်းမျှရှိ၍၊ အလျား လက်မ ၃၀ ခန့်ရှိသည်။ အညိုနှင့် အဖြူရောင် သန်းသော မဲ့ပြာရောင်ကိုယ်ရှိသည်။ ဦးခေါင်းနှင့် လည် ချောင်းဘေးဖက်များတွင် အဖြူရောင်ရှိသည်။ လည်ကုပ် တွင် ကျယ်ပြန့်သော အနက်စင်း နှစ်ကြောင်းကို ထင် ရှားစွာ မြင်နိုင်သည်။ အဖိုနှင့် အမတို့၏အရောင်သည် အတူတူပင်ဖြစ်၏။ တောငန်းငယ်တို့၏ ဦးခေါင်းအ ရောင်သည် အညိုရင့်ရောင်ဖြစ်သည်။ အနက်စင်းများ ကား မရှိချေ။

မြန်မာနိုင်ငံတွင် တောငန်းများကို ဧရာဝတီမြစ်နှင့် ချင်း တွင်းမြစ်ရှိ သောင်ပြင်များတွင် အများအားဖြင့် တွေ့ ရသည်။ တောငန်းသည် တနေရာတည်းတွင် အတည် တကျမနေဘဲ၊ ရာသီအလိုက် ဒေသပြောင်းရွှေ့၍ ကျက် စားသည်။ တောငန်းသည် အအုပ်အသင်းနှင့်နေတတ်၏။ တောငန်းအုပ် တအုပ်လျှင် အများအားဖြင့် ၆ ကောင်မှ အကောင် ၂၀ ထိပါဝင်သည်။ သို့သော် တခါတရံ ကောင် ရေ ၁၀၀ မှ ၂၀၀ ထိပါဝင်သည့် ငှက်အုပ်ကြီးများကိုလည်း တွေ့နိုင်သည်။ မြစ်နှင့်ဝေးကွာသော အင်းအိုင်များတွင် တောငန်းကို မတွေ့ရတတ်ချေ။ ညဖက်တွင် မြစ်ချောင်း ကမ်းပါးအနီးရှိ လယ်ကွက်နှင့် ပဲခင်းများတွင် အစာရှာ ဖွေစားသောက်လေ့ရှိသည်။ နေ့အချိန်တွင် သောင်ပြင် သို့မဟုတ် အိုင်ကမ်းပါးတွင် ကြက်အိပ်ကြက်နိုးနှင့် ငိုက် မျဉ်းနေခြင်းဖြင့်၎င်း၊ ရေအယဉ်တွင် မျောနေခြင်းဖြင့်၎င်း အချိန်ကို ကုန်လွန်စေပြီးလျှင်၊ ညနေစောင်းအချိန်၌ အစာ



ပါးနပ်၍ သတိရှိသော တောငန်း

ရှာထွက်တတ်သည်။ တညလုံး အစာရှာစားပြီးနောက်၊ အရုဏ်တက်ချိန်တွင် နေရာအရပ်သို့ ပျံသွားလေ့ရှိကြသည်။ အစာစားနေချိန် သို့မဟုတ် နားနေချိန်တွင် တစုတပေါင်း တည်း ကျယ်လောင်စွာအော်တတ်ကြသည်။ ခရီးရှည်ပျံ သန်းရာတွင် တောငန်းတို့သည် မြားဦးပုံ သို့မဟုတ် ခုန် ညင်းတန်းပုံ ဖွဲ့ကာ တောင်ပံကိုမှန်မှန်ရိုက်ခတ်၍ ပျံသန်း တတ်ကြသည်။ တောငန်းများသည် အလွန်ပါးနပ်သတိ ရှိ၍ လူအနားကပ် မခံကြချေ။ တောငန်းများသည် မြန်မာ နိုင်ငံသို့ အောက်တိုဘာလတွင် ရောက်လာ၍၊ မတ်လတွင် ထွက်ခွာသွားသော ဧည့်သည်ငှက်ဖြစ်သည်။ သားပေါက်ရာ အနီးဆုံးဒေသမှာ တိဗက်ဖြစ်သည်။ အသိုက်များကို ရေညှိ၊ မြက်ပင်ဖြင့် ပေါင်းပင်တို့၏အကြားတွင် ပြုလုပ် လေ့ရှိသည်။ အသိုက်များတွင် ငှက်တောင်၊ ငှက်မွေး နု စသည်တို့ကို ထူထဲသိပ်သည်းစွာ ခံထားတတ်ကြသည်။ တမြုံလျှင် ဆင်စွယ်ကဲ့သို့ဖြူဆွတ်သော ၃ ၃ လုံး သို့မဟုတ် ၄ လုံးရှိသည်။

တောငန်းကို အာရှတိုက် အလယ်ပိုင်း၊ တရုပ်နိုင်ငံ အနောက်ပိုင်း၊ တိဗက်နိုင်ငံ၊ အာသံ၊ အိန္ဒိယနှင့် မြန်မာ နိုင်ငံတို့တွင် တွေ့ရသည်။ မြန်မာနိုင်ငံအလယ်ပိုင်း၊ ချင်း တွင်းမြစ်နှင့် ဧရာဝတီမြစ်တလျှောက် ပြည်မြို့တိုင်အောင် တွေ့ရသည်။ မြန်မာနိုင်ငံ အရှေ့မြောက်ပိုင်းဒေသ၊ သံလွင်

မြစ်ကမ်းရှိ ဖားအုံမြို့နှင့် မော်လမြိုင်မြို့ အနီးတွင်လည်း အနည်းငယ်တွေ့ရသည်။

**တောစာကလေး။** ။ဇီဝဗေဒအလိုအားဖြင့် တောစာကလေးသည် 'ပလိုဆီအိဒီး' မျိုးရင်းတွင်၎င်း၊ 'ပလိုဆီအိုင်နီး' မျိုးရင်းတွင်၎င်း ပါဝင်သည်။ တောစာကလေးကို စာဗူးတောင်း၊ စာဖောင်းဟုလည်း ခေါ်သေးသည်။ စာဗူးတောင်းဟု အမည်တွင်ခြင်းမှာ ထိုငှက်၏ အသိုက်သည် လည်ပင်းရှည်သော ဗူးတောင်းကို စောက်ထိုးဆွဲထားသည်နှင့် တူခြင်းကြောင့်ဖြစ်သည်။ အသိုက်ကို မြက် သို့မဟုတ် သစ်ရွက်တို့ဖြင့် ကျွမ်းကျင်စွာ ရက်ထားတတ်သည်။ တောစာကလေးများသည် အအုပ်အသင်းနှင့် နေထိုင်တတ်၍ လယ်တော၊ မြက်တော၊ စိုက်ခင်းများနှင့် တောစပ်များတွင် ကျက်စားလေ့ရှိကြသည်။ နံနှင့် ရေကန်အနီးရှိ ရွာများတွင်လည်း ကျက်စားတတ်သည်။ သားပေါက်ချိန်တွင် အဖို၏ အမွေးအတောင်များသည် ပြည့်စုံ၍လှပသည်။

တောစာကလေးကို အာဖရိကတိုက်တွင် အများအပြားတွေ့ရသည်။ ယင်းတို့မှ ပေါက်ပွားသော မျိုးစိတ်များအနက် အချို့ကို အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင် တွေ့ရသည်။ ထို့ပြင် ဥရောပတိုက်နှင့် အာရှတိုက်တို့၌လည်း တောစာကလေးများကို တွေ့နိုင်၏။ သို့သော် မြောက်နှင့် တောင်အမေရိကတိုက်တို့၌ မတွေ့ရချေ။ (စာကလေး — ရှု။)

**တောဆက်ရက်။** ။တောဆက်ရက်သည် မျိုးစဉ် 'ပက်စာရီဖောမီး၊' မျိုးရင်း 'စတာနီဒီး' တွင်ပါဝင်သည်။



တောဆက်ရက်

ဇီဝဗေဒအမည်အားဖြင့် 'အက်ကရီဒိုသီးရီး ဖပ်စကပ်' ဟုခေါ်သည်။ အလျား ၉ လက်မရှိသည်။ ခပ်လှမ်းလှမ်းမှကြည့်လျှင် ဆက်ရက်နှင့် ခွဲခြား၍မရအောင်တူသည်။ (ဆက်ရက် — လည်းရှု။) သို့သော် ဆက်ရက်နှင့် ကွာခြားချက်များကားရှိ၏။ ဆက်ရက်ထက် အမွေးအတောင်ညိုမှိုင်းသည်။ နှာပေါက်အထက်နားတွင် အမွေးများထောင်နေသည်။ ဆက်ရက်မှာကဲ့သို့ နှုတ်သီး အောက်ဖက်တွင် တွဲကျနေသော အဝါရောင်အရေပြား မရှိပေ။ ပျံသန်းနေစဉ် အတောင်ရှိအဖြူကွက်များနှင့် အမြီးစွန်းရှိ အဖြူရောင်ကို ထင်ရှားစွာမြင်နိုင်သည်။

သွင်ပြင်မူရာနှင့် ပျံသန်းပုံမှာ ဆက်ရက်နှင့်တူ၏။ သို့သော် ဆက်ရက်လောက် အတင့်မရဲသည့်ပြင်၊ ဆက်ရက်ကဲ့သို့ ညစ်ညမ်းသည့်အစာကို မစားချေ။ တောဆက်ရက်ဟု အမည်တွင်သော်လည်း၊ တောနက်တွင် ကျက်စားသောငှက်မျိုး မဟုတ်ပေ။ ဉယျာဉ်၊ တောစပ်တို့တွင် ကျက်စားလေ့ရှိသည်။ လယ်တောတွင် ကျွဲနွားတို့၏ဦးခေါင်းထက်၌ နားနေသည်ကို မကြာခဏတွေ့ရသည်။ ရေကန်နံဘေးရှိ ကိုင်းတောများနှင့် ညောင်ပင်၊ လက်ပံပင်များပေါ်တွင်နား၍ အသီးအပွင့်များကို စားသောက်လေ့ရှိသည်။ သားပေါက်ချိန်တွင် ရန်ကုန်မြို့အနီးအနားတွင် တွေ့ရတတ်သည်။

ချင်းတွင်းမြစ်တလျှောက် ကင်းတပ်အထက်တွင် သဲထူထပ်သောကမ်းခြေနှင့် တောင်ကမ်းပါး၌ တောဆက်ရက်များကို ဆက်ရက်လည်နက်၊ ပုစဉ်းထိုးငှက်တို့နှင့်အတူ ရောနှော၍တွေ့ရသည်။ တောဆက်ရက်များသည် အများအားဖြင့် သစ်ပင်အခေါင်းများတွင် သားပေါက်ကြသည်။ မြစ်ကြီးနားတွင် နှစ်စဉ် ဖေဖွာရီလ ၂၀ ရက်နေ့လောက်မှစ၍ ပေါက်သည်ဟုဆိုသည်။ တောဆက်ရက်ကို ကမ္ဘာ့အရှေ့ပိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံတွင် ကွင်းပြင်များ၌၎င်း၊ ရှမ်းကုန်းမြေမြင့်၌၎င်း အများအားဖြင့် တွေ့ရသည်။

**တောဆိတ်။** ။တောဆိတ်တို့သည် ဆိတ်နှင့် နွားများ ပါဝင်သည့် 'ဗိုဗီဒီး' မျိုးရင်းဝင် နို့တိုက်သတ္တဝါများဖြစ်ကြသည်။ တောဆိတ်များ၌ သမင်မျိုးမှာကဲ့သို့ ခွာကွဲများနှင့် ဦးချိုများရှိသည်။ သို့သော် တောဆိတ်၏ ဦးချိုသည် သမင်မျိုး၏ ဦးချိုများကဲ့သို့ ခေါင်းပိတ်မဟုတ်ဘဲ၊ ကျွဲ၊ နွား၊ သိုးနှင့် ဆိတ်တို့၏ဦးချိုကဲ့သို့ ခေါင်းပွဖြစ်သည်။ တောဆိတ်သည် စားမြုံ့ပြန်သည်။ သမင်မျိုးကဲ့သို့ ဦးချိုလည်းမလဲချေ။ မွေးစက ပေါက်လာသော ဦးချိုသည် အသက်ထက်ဆုံးကြီးရင့်၍တည်လေသည်။ အဖိုတွင်ရော အမတွင်ပါ ဦးချိုပေါက်သည်။ တောဆိတ်၏ဦးချိုသည် သမင်မျိုး၏ဦးချိုကဲ့သို့ ခွလျက်လည်းမရှိချေ။ ဖြောင့်၍ချွန်လျက်သော်၎င်း၊ ဝက်အူရစ်ကဲ့သို့သော်၎င်း၊ နောက်ဖက်သို့ ကောက်လျက်သော်၎င်း၊ ပန်းဆွဲပန်းတောင်ကဲ့သို့ အထက်သို့ ညီညာစွာ တက်၍ ကောက်လျက်သော်၎င်း ရှိတတ်သည်။ များစွာသော တောဆိတ်၏ ဦးချိုတွင် ကွင်းပုံများရှိတတ်သည်။



တောဆိတ်များအနက် အလှပဆုံးဖြစ်သော စပရင်းဗုတ် တောဆိတ်

ကမ္ဘာပေါ်တွင် တောဆိတ် အမျိုးကွဲပေါင်း ၁၀၀ ကျော်မျှရှိသည်။ ထိုအနက် အနည်းဆုံး အမျိုးပေါင်း ၉၀ သည် အာဖရိကတိုက်တွင် မူရင်းဒေသအဖြစ် နေထိုင်ကြသည်။ ထိုတောဆိတ်မျိုး အားလုံးလိုလိုသည် လွင်ပြင်များတွင် နေကြသည်။ တောဆိတ်တို့သည် ခြသေ့်၊ ကျားသစ်နှင့် တောလိုက်ခွေးများလိုက်လျှင် အလွန်လျင်မြန်စွာ ပြေးလွှားနိုင်ကြသည်။ ယင်းတို့၏ကိုယ်ကို ကာကွယ်ရန်အတွက် ဦးချိုမှလွဲ၍ အခြား မည်သည့်အရာမျှ မရှိချေ။ လျင်မြန်စွာ ပြေးနိုင်သောကြောင့်သာလျှင် သားရဲတို့ဘေးမှ လွတ်မြောက်နိုင်ကြပေသည်။

တောဆိတ် အများသည် ကြောက်ရွံ့တတ်သော်လည်း၊ မြေကြီးမှ ပခုံးစွန်းအထိ ၆ ပေမြင့်သည့် အီလန်ခေါ် တောဆိတ်မှာ မကြောက်ရွံ့ချေ။ အီလန် တောဆိတ်များသည် ရာနှင့်ချီ၍ အုပ်ဖွဲ့ကာ လွင်ပြင်များနှင့် တောင်ကုန်းများတွင် သွားလာကျက်စားကြသည်။ အီလန် တောဆိတ်အစစ်သည် မြင့်လည်းမြင့်၊ အားလည်းကောင်းသည်။ အီလန် တောဆိတ်၏ သေးသွယ်၍ တွန့်လိမ်လျက်ရှိသော ဦးချိုသည် ၂ ပေခွဲရှည်၏။ မျက်စိနှစ်လုံးကြား နဖူးပေါ်၌အမွေးမည်းများ စုလျက်ရှိသည်။ ထိုအမွေးမည်းများသည် အီလန် တောဆိတ်အဖို၌သာရှိ၍ အမတွင်မရှိချေ။ အမ၏ဦးချိုသည် အဖို၏ ဦးချိုထက် ပို၍ရှည်သော်လည်း အဖို၏ဦးချိုလောက် မခိုင်ခံ့ချေ။

အာဖရိကတိုက်ရှိ တောဆိတ်များအနက် အလှပဆုံး တောဆိတ်မှာ ဆေဗယ်တောဆိတ်ဖြစ်သည်။ အကောင် ၂၀၊ သို့မဟုတ် ၃၀ ခန့်ရှိသည့် ဆေဗယ် တောဆိတ်မနှင့် တောဆိတ်ကလေးများတအုပ်တွင် ဆေဗယ် တောဆိတ်သိုးတကောင်သာ ပါလေ့ရှိသည်။ ဆေဗယ်တောဆိတ်သည် မြင်းပုနီးပါးမျှကြီးသည်။ ယင်း၌ တောက်ပြောင်သော အမွေးနက်များနှင့် ခါးဖက်တွင် အမွေးဖြူများရှိသည့်ပြင် လည်ဆံမွေးနက်များလည်း ရှိသည်။ ဦးချိုများသည် တကိုက်မျှ ရှည်ပြီးလျှင် နောက်ဖက်သို့ကောက်လျက်ရှိသည်။ ဆေဗယ် တောဆိတ်မများ၏အရောင်မှာ အညိုရင့်ရောင်ဖြစ်သည်။ ယင်းတို့၌ လှပသည့် ဦးချိုများရှိသည်။ သို့သော် အဖို၏ဦးချိုလောက်ကား မသန်မာကြချေ။

ဆေဗယ် တောဆိတ်နီးပါးမျှကြီးမားသည့် တောင်အာဖရိကတိုက်ရှိ အခြားတောဆိတ်တမျိုးမှာ ဂင်းစဗုတ် တောဆိတ်ဖြစ်သည်။ ထိုတောဆိတ်၏ အမွေးရောင်မှာ မဲပြာရောင်ဖြစ်သည်။ မျက်နှာနှင့် ခြေထောက်များတွင် အဖြူနှင့်

အမည်းရောင်များသည် ထူးခြားစွာ ကျားလျက်ရှိသည်။ ဂင်းစဗုတ် တောဆိတ်၌ ဖြောင့်၍ ရှည်သော ဦးချိုများ ရှိသည်။ ရန်သူကို ရဲရင့်ကျင်လျင်စွာ ထိုဦးချိုများနှင့် ခုခံတိုက်ခိုက်တတ်သည်။

ဆေဗယ် တောဆိတ်ကဲ့သို့ပင် ကြီးမား၍ ခွန်အားကောင်းသော အခြားတောဆိတ်တမျိုးမှာ ဝါးတားဗတ်ခေါ် တောဆိတ်ဖြစ်သည်။ ယင်း၌ အမွေးကြမ်းရှည်များရှိသည်။ ထိုတောဆိတ်မျိုး၌ အဖိုတွင်သာ ဦးချိုပေါက်သည်။ ဦးချိုတွင် ကွင်းများရှိ၏။ ဦးချိုသည် ပဌမတွင် နောက်ဖက်သို့ကောက်၍ အဖျားနားတွင် တဖန် ရှေ့ဖက်သို့လန်လျက်ရှိသည်။ ထိုတောဆိတ်မျိုးသည် အုပ်ဖွဲ့ကာ ရေထဲတွင် ဒူးဆစ်နစ်သည်အထိ နေ၍ ရေထဲမှအပင်များကို စားသောက်လေ့ရှိကြသည်။ ထိုတောဆိတ်မျိုးကို ရေနှင့် တမိုင်ကျော်မျှ ဝေးရာအရပ်ရှိ မတ်စောက်သည့် ကျောက်တောင်များတွင် တွေ့ရတတ်သည်။

အာဖရိကနှင့် အာရှတိုက်တို့တွင် အလွန်နှစ်သက်ဖွယ်ကောင်းသည့် တောဆိတ်အမျိုးပေါင်း မြောက်မြားစွာရှိသေးသည်။ ယင်းတို့အနက် ဂက်ဇယ်ခေါ် တောဆိတ်တမျိုးသည် အလွန်လှပလေသည်။ ဂက်ဇယ် တောဆိတ်များသည် ပေါ့ပါးသေးသွယ်သော ကိုယ်လုံးရှိကြသည်။ ခြေထောက်များမှာလည်း သေးသွယ်သည်။ အဖျားရှူးသွားသည့် ဦးချိုဖျားသည် လှပသော အကွေ့အကောက်များနှင့် တွန့်လိမ်လျက်ရှိသည်။ ယင်းတို့၏ သဲရောင်အမွေးများသည် ချောမွတ်၏။ ဂက်ဇယ် တောဆိတ်တို့၏ မျက်နှာတွင် အဖြူစင်းနှစ်ခုရှိ၍ ရှုချင့်စဖွယ် တင့်တယ်သည်။ ထိုအစင်း နှစ်ခုသည် ဦးချိုမှ နှာခေါင်းဖျားအထိ ရောက်သည်။ ဂက်ဇယ် တောဆိတ်တို့သည် တိရစ္ဆာန်လောကတွင် အတောက်ပဆုံးနှင့် အလှပဆုံး မျက်လုံးများရှိသော တိရစ္ဆာန်များဖြစ်ကြသည်။ ထိုကြောင့် ထိုလှပသော မျက်လုံးများအကြောင်းကို ရှေးအာရေဗျလင်္ကာဆရာများသည် သူတို့၏ကဗျာများတွင် ထည့်သွင်း ခြီးကျူးဖွဲ့ဆိုကြလေသည်။

ဂက်ဇယ် တောဆိတ်များသည် အထူးသဖြင့် သဲကန္တာရအတွင်း၌ နေကြသည်။ ယင်းတို့သည် ပြေးလွှားရာ၌ လျင်မြန်လှသဖြင့် ခွေးနှင့် ကျားသစ်များပင် လိုက်၍ မမှီကြပေ။ လှပသည့် ဂက်ဇယ် တောဆိတ်မျိုး အမြောက်အမြားရှိသည့်အနက် လူသိအများဆုံးအမျိုးမှာ ဒေါကပ်ဂက်ဇယ် တောဆိတ်ဖြစ်သည်။ ထိုတောဆိတ်မျိုးသည်



အာဖရိကတိုက်တွင် တွေ့နိုင်သော ဟားနက် တောဆိတ်

၂ ပေမျှပင် မမြင့်တတ်ချေ။ သေးသွယ်၍ တွန့်လိမ်လျက် ရှိသော ဦးချိုများသည် ၁၃ လက်မခန့်ရှည်သည်။ ထိုတောဆိတ်မျိုးသည် ၃ ပေ၊ ၄ ပေမျှမြင့်အောင် ခုန်လွှားသွားနိုင်ကြသည်။ အိန္ဒိယ ဂက်ဇယ်တောဆိတ်သည် ဒေါကပ်အရွယ်လောက်ပင်ရှိသည်။ ယင်း၌ သေးသွယ်သော ကွင်းပုံဦးချိုများရှိသည်။ ထိုဦးချိုများသည် အင်္ဂလိပ်အက္ခရာ S ကဲ့သို့ ကောက်လျက်ရှိသည်။ ထိုဂက်ဇယ် တောဆိတ်များသည် ဒေါကပ်တို့ကဲ့သို့ ခုန်လွှား၍ မပြေးနိုင်ကြသော်လည်း၊ အပြေးတွင် အလွန်မြန်သဖြင့် တောလိုက် ခွေးများပင် ယင်းတို့ကို လိုက်၍ မမှီနိုင်ချေ။

တောင်အာဖရိကတိုက်ရှိ အလှပဆုံး တောဆိပ်များတွင် စပရင်းဗုတ်ခေါ် တောဆိတ်လည်း ပါဝင်သည်။ ထိုတောဆိတ်၏ တောက်ပသော အမွေးများသည် အနီရောင်သန်းလျက်ရှိ၍ အောက်ခံ အမွေးရောင်မှာ ဖြူသည်။ ကျောရိုးတလျှောက် အောက်ဖက်သို့လည်း အဖြူစင်း ရှိသည်။ စပရင်းဗုတ် တောဆိတ်၏ ကွင်းပုံဦးချိုများသည် မည်းနက်၍ ကောက်သည်။ နှစ်ဖက်ညီညာစွာ ထောင်လျက် ရှိသည်။ ထိုတောဆိတ်မျိုးသည် လေထဲသို့ တဟုန်ထိုး ခုန်လွှားနိုင်သည်။

အဲလပတောင်တွင် ရှံမွား ဆိတ်များကို တွေ့ရသည်။ ထိုတောဆိတ်၏ အရွယ်မှာ ရိုးရိုးဆိတ်အရွယ်လောက် ရှိသည်။ ယင်းတို့သည် အလွန်မြင့်သည့် တောင်ထိပ်များသို့ တက်နိုင်သည်။ အမွေးအရောင်မှာ အညိုရောင် ရှိသည်။ ကျောရိုးတလျှောက် အောက်ဖက်သို့ အမည်းရောင် အစင်းများရှိသည်။ ချိုငယ်များသည် အရင်းပိုင်း၌ ဖြောင့်၍ ထိပ်ဖက်တွင် ချိတ်သဖွယ်ကွေးလျက်ရှိသည်။

နူး ဟုခေါ်သော တောဆိတ်မှာလည်း အလွန်ထူးခြားသည်။ အခြား တောဆိတ်တို့ကဲ့သို့ သေးသွယ်သော ခြေထောက်နှင့်ခွာများ ရှိသည်။ ဦးခေါင်းသည် ကျွဲဦးခေါင်းနှင့် တူသည်။ လည်ဆံမွေးနှင့် မြင်းမြီးကဲ့သို့ အမြီးလည်း ပါရှိသည်။ လည်ပင်းပတ်လည်နှင့် နှာခေါင်း၊ ပါးစပ်တို့တွင် အမွေးကြမ်းများရှိသည်။ နူး တောဆိတ်တို့သည် အလွန်ရန်မူတတ်သည့် တောဆိတ်မျိုးဖြစ်သည်။

အခြားထူးခြားသည့် တောဆိတ်တမျိုးမှာ ဆိုင်ဂါးခေါ် တောဆိတ်မျိုးဖြစ်သည်။ ယင်းတို့သည် သိုးနှင့်တူ၍ အုပ်ဖွဲ့ကာ ဆိုက်ဗီးရီးယားလွင်ပြင်များတွင် နေကြသည်။ ဆိုင်ဂါးတောဆိတ်တို့တွင် သန်မာ၍ အချိုးအစားမကျသည့် ကိုယ်ထည်ရှိသည်။ ခြေထောက် တိုသည်။ ဦးချိုများလည်း တို၍ တွန့်လိမ်လျက်ရှိသည်။ နှာခေါင်းသည် ကြီးမား၍ ပွလွန်းသဖြင့် မြက်ကိုစားရာတွင် အပေါ်သို့ရှုံ့ပေးရသည်။ ထိုတောဆိတ်မျိုးကို ဆိုက်ဗီးရီးယန်းများက ချစ်စနိုးမွေးမြူထားလေ့ရှိကြသည်။

အမေရိကန်တောဆိတ် သို့မဟုတ် ပရောင်းဟွန်းခေါ် တိရစ္ဆာန်မျိုးသည် တောဆိတ်အစစ် မဟုတ်သော်လည်း၊ အခြား ကျွဲနွားမျိုးနှင့် စာလျှင် တောဆိတ်နှင့် ပို၍ နီးစပ်သည်။ ဦးချိုသည် ခေါင်းပွဖြစ်၏။ ဦးချိုအဖျားဖက်တွင် သမင်ဦးချိုကဲ့သို့ ခွလျက် ရှိသည်။ ထိုတောဆိတ်သည် သမင်မျိုးကဲ့သို့ နှစ်တိုင်းဦးချိုလဲသည်။ အမြင့်မှာ မြေကြီးမှ ပခုံးစွန်းထိ ၃ ပေပင် မပြည့်တတ်ချေ။ အမွေးအရောင်မှာ ညိုဝါရောင်ဖြစ်သည်။ မျက်နှာတွင် အမည်းကွက်များ ရှိ၍၊ လည်ပင်း၊ ရင်ပိုင်းနှင့်ဘေးဖက်များတွင် အဖြူကွက် တကွက်စီရှိသည်။ ထိုတောဆိတ်သည် အငြိမ်မနေတတ်ဘဲ အမြဲရွေ့ရှားသွားလာနေလေ့ရှိသည်။

**တောဘဲ**။ ။တောဘဲသည် 'အန်စာရီဖောမီး' မျိုးစဉ်တွင်၎င်း၊ 'အနာတီဒီ' မျိုးရင်းတွင်၎င်း၊ 'ကိုင်ရီနီနီး' မျိုးရင်းခွဲတွင်၎င်း ပါဝင်သည်။ ဝမ်းဘဲမျိုး အမြောက်အမြားရှိရာတွင် တောဘဲလည်း အပါအဝင်ဖြစ်သည်။ တောဘဲတွင် ပြားသောနှုတ်သီးနှင့် အသင့်အတင့် ရှည်သော ခြေချောင်းများရှိသည်။ ရှေ့ခြေချောင်း လေးချောင်းကြားတွင် အလွှာပါးများရှိ၍ နောက်ခြေချောင်း ကလေးမှာမူ သီးခြားလွတ်နေသည်။ အင်းအိုင်ချောင်းမြောင်းတို့၌ အစာရှာဖွေစားသောက်နိုင်သည်။ တောဘဲသည် အများအားဖြင့် ရေချိုတွင် ကျက်စားလေ့ရှိသည်။ တောဘဲ၏ အစာများတွင် တီမျိုး၊ အင်းဆက်ပိုး (ပိုးကောင်) နှင့်ဟင်းသီးဟင်းရွက်များပါဝင်သည်။ တောဘဲထီးသည် အလျားလက်မ ၃၀ ခန့်ရှိ၍ တောဘဲမသည် ၂၄ လက်မခန့်ရှိသည်။ အရွယ်ကြီးရင့်သော တောဘဲထီး၏ ကိုယ်အပေါ်ပိုင်းနှင့် ရင်ပိုင်းရှိ အစိမ်းရောင်သည် နေရောင်ထဲ၌ အလွန်တောက်ပသည်။ သားပေါက်ချိန်တွင် တောဘဲထီး၏ နှုတ်သီးအောက်ပိုင်းသည် ဖောင်း၍ နီလာသည်။ အမသည် အထီးထက် အရွယ်ငယ်၍ အရောင်မှာ အထီးကဲ့သို့မဟုတ်ဘဲ၊ မွဲခြောက်ခြောက်ဖြစ်သည်။ တောဘဲထီးသည် နေဝင်ချိန်၌ ပျံသန်းခိုက်တွင် သနားစရာကောင်းသောအသံဖြင့် နှစ်ဆင့်ထပ်ကာ အော်တတ်သည်။ တောဘဲမသည် ပျံသန်းခိုက်၌ လေချွန်သံကဲ့သို့ စူးရှစွာ အော်တတ်သည်။

အမြဲစိမ်းတောရှိ ရေအိုင်နှင့် ချောင်းများ၌ အများအားဖြင့် တကောင်ချင်းဖြစ်စေ၊ စုံတွဲဖြစ်စေ တွေ့ရသည်။ ကောင်ရေအများပါရှိသော တောဘဲအုပ်ကိုလည်း တခါတရံ တွေ့ရသည်။ ရွှေလီမြစ်တွင် အတွေ့ရများသောငှက်တမျိုး ဖြစ်သည်။ တောဘဲသည် ရေအိုင်နှင့် ရေကွက်များတွင်ဖြစ်စေ၊ လူသူမနီးသော တောထဲရှိ ရေအိုင် စမ်းချောင်းများတွင်ဖြစ်စေ နေ့အချိန်ကို ကုန်လွန်စေလျက်၊



ရေချိုတွင်ကျက်စားလေ့ရှိသော တောဘဲ

နေဝင်ဖျိုးဖျားအချိန်တွင်သာ မြစ်ရိုးသို့ထွက်လာပြီးလျှင် ညအချိန်ကို ကုန်လွန်စေဟန်တူသည်။ ထိုနောက် နေထွက်စပြုသည်နှင့်တပြိုင်နက် တောထဲသို့ ဝင်ရောက်ခိုအောင်းပြန်သည်။ အရုဏ်တက်ချိန်နှင့် နေဝင်ခါနီးအချိန်တွင် တောဘဲပျံသံကို အများအားဖြင့်ကြားရသည်။ ကျောက်စိမ်းတွင်းများရှိရာဒေသတဝိုက်တွင် နေဝင်ရီတရောအချိန်၌ တောဘဲများ အချိန်မှန် ပျံသန်းလာကြသည်ကို မြင်နိုင်သည်။ ယင်းတို့သည် စိုစွတ်လျက်ရှိသည့် ရိုးပြတ်တောများတွင် အစာကို ရှာဖွေစားသောက်ကြသည်။ မြန်မာနိုင်ငံ၌ တောဘဲတို့၏ အသိုက်ပြုလုပ်ပုံကို ဖော်ပြခြင်းမရှိပေ။ အိန္ဒိယနိုင်ငံတွင်မူ သစ်ခေါင်းများတွင် အသိုက်ပြုလုပ်လေ့ရှိကြသည်။

တောဘဲများကို အာသံပြည်နယ်၌ရှင်း၊ မြန်မာနိုင်ငံမှ ဆူမတြားကျွန်းထိ ဒေသတို့၌ရှင်း တွေ့နိုင်သည်။ မြန်မာနိုင်ငံတွင် တောဘဲများကို မြောက်ပိုင်း၌ အမြဲစိမ်းတောများတွင်ရှင်း၊ တောင်ဖက်၌ မူးချိုင့်ဝှမ်းမြောက်ပိုင်းအထိရှင်း၊ မိုးမိတ်နယ်၊ ရွှေလီမြစ်ဝှမ်းတွင်ရှင်း၊ ပုသိမ်ခရိုင်တွင်းရှိ အမြဲစိမ်းတောရှိရာ ရခိုင်ရိုးမတွင်ရှင်း တွေ့ရသည်။ ပဲခူးရိုးမတလျှောက်တွင်မူ မတွေ့ရချေ။ အင်းစိန်ခရိုင်နှင့် သာယာဝတီခရိုင်တွင်းရှိ အမြဲစိမ်းတောများ၌သာ တွေ့ရသည်။

**တောလား။** ။တောလားသည် မြန်မာကဗျာ အဖွဲ့အနွဲ့ တမျိုးဖြစ်၏။ တောလားကို အင်းဝခေတ်ကပင် စတင်တွေ့ရှိရသဖြင့် အင်းဝခေတ်တွင် စတင်ပေါ်ပေါက်သည်ဟု ယူဆရသည်။ တောလားကဗျာနှင့်ပတ်သက်၍ ရှေးပညာရှင်များ အယူအဆ ကွဲပြားလျက်ရှိကြ၏။ အချို့က တောလားကို ရတုဖြစ်သည်ဟု ဆိုသည်။ အချို့ကမူ လင်္ကာဖြစ်သည်ဟုဆို၏။ တောလားဟူသော ဝေါဟာရ၏အဓိပ္ပါယ်ကို စိစစ်လျှင်၊ တောမှာ တောဒေသဖြစ်၍၊ လားမှာ (၁) သွားသည်၊ (၂)အလားအလာ အခြေအနေဟု အနက်ထင်သည်။ ထို့ကြောင့် တောလားမှာ (၁) တောတွင်သွားလာခြင်း၊ (၂) တော၏ အလားအလာ အခြေအနေဟူ၍ နှစ်မျိုးယူဆနိုင်လေသည်။ ရှင်မဟာရဋ္ဌသာရ၏ ရွှေစက်တော်သွား တောလားအစတွင်၊ 'အောင်ဇေယျတု၊ ကျမ်းဂန်ရှု၍၊ ဂမုဓာတ်ရ၊ ဓာတွတ္တဖြင့်၊ ဂမနသဒ္ဒါ၊ ကြောင်းခြင်းရာကို၊ လင်္ကာကုံးသီ၊ လမ်းစဉ်စီအံ့။' ဟူ၍ရေးသားထားခဲ့သည်။ ဤတွင် ဂမနဟူသော ပါဠိစကားမှာ သွားခြင်းအနက်ထင်သဖြင့်၊ ဆရာတော်သည် တောသို့သွားခြင်း အကြောင်းလမ်းစဉ်ကို လင်္ကာစီမည်ဟု ဆိုလေသည်။ သို့ဖြစ်၍၊ ဆရာတော်က တောသို့သွားခြင်းဟူသော အနက်သဘောဖြင့် တောလားကို ရေးခဲ့ဟန်တူသည်။ မြန်မာစာပေသမိုင်းတွင်မူ 'တောလားဟူသည်မှာ တောတောင်၏ အခြေအနေ အလားအလာကို ဘော်ပြသော ကဗျာအဖွဲ့တည်း။ လယ်ယာမြေကွက်များကို သတ်မှတ်ကြရာ၌ အရှေ့အလား အနောက်အလား စသည်ဖြင့် သတ်မှတ်ပိုင်းခြားသကဲ့သို့ တောလားအဖွဲ့တွင်လည်း အရှေ့ဘက်အလားတွင် တောစပ်တောင်ကုန်း၏ တည်နေပုံ၊ အနောက်ဘက်အလားတွင် တောစပ်တောင်ကုန်း၏ တည်နေပုံ စသည်တို့ကို ထုတ်ဆိုညွှန်ပြပေသည်။ ထို့ကြောင့် တောလားဟူ၍ခေါ်သည်' ဟု ဖေါ်ပြထားသည်ကို တွေ့ရ၏။ ယင်းသို့ဖြစ်၍ တောလား၏ အဓိပ္ပါယ်ကို နှစ်မျိုးယူဆနိုင်လေသည်။ စင်စစ် တောလားကဗျာမှာ သြကာသလောကကြီး၏ သာယာကြည်နူးဖွယ်ကောင်းပုံတို့ကို စပ်ဆိုရေးသားထားခြင်းပင်ဖြစ်၏။

မြန်မာစာပေရှိ တောလားများတွင် ရှင်ဥတ္တမကျော်၏ တောလား ၉ ပုဒ်မှာ အထင်ရှားဆုံးဖြစ်၏။ ရှင်ဥတ္တမကျော်သည် မြန်မာမှုတွင် ဤတောလားတခုကိုသာ ပြုစုခဲ့၏။ ဤတောလားတခုကပင် ထိုဆရာတော်အား မြန်မာစာပေနယ်၌ ပဌမတန်း စာဆိုတော်အဖြစ်သို့ ပို့ဆောင်ပေးခဲ့လေသည်။ ရှင်ဥတ္တမကျော်၏ တောလားမှာ သက္ကရာဇ် ၈၄၅ ခုနှစ်ခန့်က ပေါ်ပေါက်ခဲ့၏။ ရှင်ဥတ္တမကျော်သည် မြတ်စွာဘုရား ကပိလဝတ်ပြည်သို့ ကြွချီရာတွင် လမ်းခရီးသဘာဝ၏ သာယာပုံကို စာပန်းချီကားရေးခြယ်ထားခဲ့ခြင်းဖြစ်၏။ ထိုသို့ရေးခြယ်ရာတွင်လည်း မိမိ၏ပွင့်လျှမ်းသော ဉာဏ်ဆီဉာဏ်နှစ်တို့ကိုသုံးလျက် မြတ်စွာဘုရား၏ ဂုဏ်တော်ကို ဖွင့်လေသည်။ (ဥတ္တမကျော်,

ရှင် — ရှု။) မြတ်စွာဘုရား ဒေသစာရီကြွချီရာခရီးစဉ်၌ မြတ်စွာဘုရား၏ တန်ခိုးတော်ကြောင့် လမ်းတလျှောက်ရှိ သစ်ပင်ပန်းမာလ်တို့ သီးပွင့်လျက်ပူဇော်ကြဟန်ကို 'ငှက်ပျောသခွား၊ သဖန်းခါးနှင့်၊ သျှစ်သျှားသမ္ဘာ၊ သြဇာသရက်၊ ဖက်သက်တရော်၊ မြတ်ရှင်တော်ကို၊ ပူဇော်လို့ငှာ၊ သီးကြရှာ၏။' ဟူ၍၎င်း၊ 'ပင်မြင့်ပင်လတ်၊ ပင်ပျပ်ပင်စောက်၊ ဖူးညှောက်ကိုက်နု၊ စည်းဝေးပြု၍၊ သီးမှုသန္ဓေ၊ သုံးလူ့ဆွေကို၊ ရိုသေလှစွာ၊ လှူ့ပမာသို့၊ ကမ္ဘာလိုလိုက်၊ စရိုက်အားကိုး၊ ညွန့်ညွန့်ဖြိုးသည်၊ သီးမျိုးခိုင်ညွှာ၊ လပြွတ်တည်း။' ဟူ၍၎င်း၊ တောတွင်းရှိ ကျေးငှက်သတ္တဝါတို့သည် မြတ်စွာဘုရားအား ဖူးမြော်ကြဟန်ကို 'ဟသာသောင်တင်း၊ ပိန်ညင်းဇင်ရော်၊ ငှက်တော်ကြိုးကြာ၊ သာရကာနှင့်၊ တမာကြက်တော၊ ဥသြငှက်ကျား၊ ငှက်နွေးလည်း၊ ဝတ်တွားဘီလုံး၊ ရွှေငုံးချိုးခါ၊ သူတို့မှာမူ၊ မြတ်စွာဘုရား၊ သုံးလူ့ဖျားကို၊ တတ်အားသမျှ၊ ဖူးကုန်ကြလျက်၊ ရှိစိုဆက်သည်။' ဟူ၍၎င်း၊ ရေနေသတ္တဝါများသည်လည်း မြတ်စွာဘုရားအား ဖူးကြဟန်ကို 'မကာရ်းလိပ်ငါး၊ ရှင်မြူးစားလျက်၊ ပျော်ပါးစံပ၊ ရွှေမျှော့တသင်း၊ တွင်းရွှေဂုဟာ၊ လိုဏ်နန်းသာက၊ ကက္ကဋာမွန်၊ ရွှေဖုဇွန်လည်း၊ အားသွန်ညွှတ်ခ၊ သုံးလူ့ဘကို၊ ဖူးကြသောဟန်၊ ရေနန်းစံခဲ့။' ဟူ၍၎င်း၊

ကောင်းကင်ရှိ နက္ခတ်တာရာတို့လည်း မြတ်စွာဘုရားအား ပူဇော်ဖူးမြော်ကြဟန်ကို 'ကရဝိတ်တွန်ကျာ၊ ချိန်တာရာလည်း၊ ကြယ်အာဒိစ္စ၊ ဟဿတနှင့်၊ စိတြမုနိ၊ သွာတိချက်မွှေ၊ ဆံကျင်ရွှေဝယ်၊ ကုဝေယက္ခ၊ ဂုမ္ဘဏ္ဍနှင့်၊ ဘုမ္မဖြိုးမြင့်၊ တန်ခိုးလွှင့်လျက်၊ ပိုက်လင့်ပတ်ဖြာ၊ ဝိသာခါနှင့်၊ နုရာဓရွှေ၊ ဇေဋ္ဌရွှေ၏၊ ဘုန်းဟော့မြတ်စွာ၊ စောသတ္တာကို၊ ကြယ်တာရာများ၊ ဦးညွှတ်တွားခဲ့' ဟူ၍၎င်း၊ သိကြားဗြဟ္မာ စသည်နတ်များ၊ နဂါးဂဠုန်၊ ဂုမ္ဘာန်ယက္ခ စသည်တို့ကလည်း မြတ်စွာဘုရားအား ပူဇော်ဖူးမြော်ကြဟန်ကို 'သုရနာဂ၊ သက္ကဗြဟ္မာ၊ ဘုမ္မာဒေဝ၊ ယက္ခနတ်မွန်၊ တိရစ္ဆာန်က၊ မြိုင်ယံခိုအောင်း၊ သားအပေါင်းလည်း၊ ညွတ်ပျောင်းပူဇော်၊ ဖူးကြသော်လျှင်။' ဟူ၍၎င်း၊ သစ်ပင် ပန်းမာလ်၊ ကျေးငှက် သတ္တဝါ၊ ရေနေ သတ္တဝါ၊ နက္ခတ်တာရာ၊ သိကြားဗြဟ္မာစသည်တို့က မြတ်စွာဘုရားအား ဖူးမြော်ပူဇော်ကြလေဟန်ကို ဖွဲ့လျက် မြတ်စွာဘုရား၏ ဂုဏ်တော်ကို ဖွင့်ထားလေသည်။

ထိုတောလားတွင် ရှင်ဥတ္တမကျော် သုံးနှုန်းသော စကားလုံးတိုင်းသည် အသက်ပါသည်ဟု ဆိုစမှတ်ပြုကြ၏။ စကားလုံးများကို နိုင်နင်းစွာ သုံးလျက် ဖွဲ့နွဲ့ထားသည်ကို တွေ့ရသည်။ တူရိယာသံ ထင်အောင်လည်း ဖွဲ့နွဲ့ထားသည်။ ရှင်ဥတ္တမကျော်ကား စာပန်းချီခြယ်ရာတွင် ကေစ်ဖြစ်လေသည်။ ရှင်ဥတ္တမကျော်နှင့် တခေတ်တည်းပေါ်သော ရှင်မဟာရဋ္ဌသာရ၏ ရွှေစက်တော်သွား တောလားမှာ ရှင်ဥတ္တမကျော်၏ တောလားလောက် မထင်ရှားချေ။ ရည်ရွယ်ချက်ခြင်းလည်း ကွာခြားလှ၏။ ရှင်ဥတ္တမကျော်က မြတ်စွာဘုရား၏ဂုဏ်တော်ကို ဖွင့်ဆိုရန်ရည်ရွယ်လျက် ဖွဲ့ဆိုခြင်းဖြစ်၍၊ ရှင်မဟာရဋ္ဌသာရကမူ ရွှေစက်တော်သွားရာ လမ်းတလျှောက်၌ တွေ့မြင်ရသော တောတောင် ရေမြေ သဘာဝအခြေအနေတို့ကို ဖွဲ့နွဲ့ခြင်းဖြစ်လေသည်။ ရှင်မဟာရဋ္ဌသာရ၏စိတ်၌ ခံစားမှုကို 'ဖိုမလင်းပြာ၊ တွန်သံသာနှင့်၊ ဆပ်ပြာစမ်းတွင်၊ တွေ့ကြိမ်မြင်သော်၊ စုံလင်ဖိုမ၊ နိမိတ်ပြ၏၊ ဥာဏကဝိ၊ ပဏ္ဍိတစစ်၊ ငါတည်းဖြစ်မူ၊ အနှစ်သာရ၊ သုံးပုံမျှရှင့်၊ အစအလယ်၊ အဆုံးဝယ်၌၊ ဓိပ္ပါယ်ကျွမ်းသိ၊ မှတ်သားမိလျက်၊ ဇာတိလိုက်လျော်၊ ချီးနှစ်ဖော်မူ။ ရှင်ပျော်စမြဲ၊ လည်ချင်းတွဲ၍၊ မကွဲတူကွ၊ နေသည်ဆသော်၊ ကာမလူ့ဘောင်၊ မရှောင်နိုင်ချေ၊ ညာကြေကျော်စော၊ သဘောစင်စစ်၊ ရှင်၏ဖြစ်မှ၊ တဆစ်လူ့ခွင်၊ ဝင်လည်းမည်၊ ချစ်ကြည်မျိုးနွယ်၊ ဥစ္စာကြွယ်သည်၊ လူဝယ်လူကောင်း၊ အကြောင်းရိုးစည်း၊ ဖြစ်မည်တည်းဟု၊ စနည်းနိမိတ်၊ ချီး၏ဟိတ်ကို၊ တိတ်တိတ်မှတ်ယူ၊ နှစ်လိုမှုကား၊ မပူမဆာ၊ ရေသီတာသို့၊ မျက်နှာရွှင်လန်း၊' ဟူ၍ ရေးသားစပ်ဆိုခဲ့သည်ကိုတွေ့ရ၏။ ယင်းသို့ စာဆိုတော်၏ အတွင်းစိတ်သန္တာန်ကို ပေါ်လွင်အောင် စပ်ဆိုနိုင်ခဲ့ခြင်းပင်လျှင် ထိုတောလားသည် အခြား တောလားများထက် ထူးခြားခြင်းပင် ဖြစ်ပေသည်။

အထက်အဆိုပါ တောလား ၂ ခုတို့အပြင်၊ အခြားစာဆိုတို့၏ တောလားများလည်းရှိသေး၏။ ထိုကျန်စာဆိုတို့၏ တောလားများအနက် ထင်ရှားသောတောလားများမှာ ရှင်ဇယန္တဘိဓဇ၏ တောလား၊ နဝဒေးကြီး၏ တောလားနှင့် စိန္တကျော်သူဦးဩ၏ တောလား စသည်တို့ဖြစ်သည်။ ရှင်ဥတ္တမကျော်၏ တောလားမှာ ယခုအခါ ၉ ပိုဒ်ကိုတွေ့ရ၏။ ရှင်မဟာရဋ္ဌသာရ၏ ရွှေစက်တော်သွား တောလားမှာ ၄ ပိုဒ်ရှိလေသည်။ ကျန်စာဆိုတော် သုံးဦး၏ တောလားများမှာ သုံးပိုဒ်စီရှိသော ပိုဒ်စုံရတုများဖြစ်၏။ ရှင်ဇယန္တဘိဓဇ၏တောလားတွင်

'ကြူးမွန့်ရှည်၍၊ ဖူးညွန့်စည်၍၊ ကျူးရင့်မြည်၍' ဟူသော သုံးပိုဒ်အစတွင် အချီညီနှင့်ချီကာ 'ပျော်မြူးရကုံပေသကား။ ခေါ်ထူးအစုံပေသကား။ မြော်ဘူးမကြုံလေသကား။' ဟူ၍ သုံးပိုဒ်အဆုံး၌ အချည်ဖြင့် ချထားသည့် ရတုပိုဒ်စုံမျိုးဖြစ်သည်။ ထိုအတူ စိန္တကျော်သူ ဦးဩ၏ တောလားမှာလည်း၊ 'ထွေတလာလျှင်၊ ဟေမဝါလျှင်၊ ဘွေကရာလျှင်' ဟူ၍ အချီညီချီလျက်၊ 'လွှမ်းရေးနှောင့်ဝယ် ဖြစ်သကား။ သမ်းမြွေးမှောင့်ဆွယ် ထင်သ

ကား။ ချမ်းဧးဆောင့်နှယ် ပင်သကား ’ ဟူသော အချညီ ချထားသည့် ပိုဒ်စုံရတုဖြစ်လေသည်။ သို့သော် နဝဒေးကြီး၏ တောလားမှာ ‘ထူးတလည်လျှင်၊ သာနိုးပျော်ရှင်၊ တပြည်းပုံ့ပုံ့ ’ ဟူ၍ချီကာ ‘လွှမ်းခွင့်နောင်တွင် ဖြင်တကား။ လူ၌တူပင် ဆင်တကား။ အလွမ်းပြည်ပြင် ပြင်တကား။ ’ ဟူသော အချမျှားဖြင့် ချထား၏။ ထိုကြောင့် နဝဒေးကြီး၏ တောလားမှာ ရတုပိုဒ်စုံ ဖြစ်သော်လည်း၊ အချီအချညီ စပ်ထားသည်မဟုတ်ပေ။ ထိုစာဆို သုံးဦး၏ တောလားမျှားသည် တောတောင်အတွင်းရှိ ကြက်ငှက် သားကောင်တို့နှင့် ယင်းတို့ မြည်တွန်ကြသံမျှားကိုသာ အဓိကထား၍ ရေးစပ်ထားခြင်းဖြစ်လေသည်။

ရှင်အုံးညို၏ ဂါထာ ၆၀ ပျို့သည် ပျို့ဟူ၍ ခေါ်သော်လည်း၊ တောလား၏ သဘောပင်ဖြစ်သည်။

**တောလုံငှက်။** ။ဇီဝဗေဒအလိုအရ တောလုံငှက်သည် ‘စတြစ်ဂျီဖောမီး ’ မျိုးစဉ်တွင်ဝင်၍၊ ‘စတြစ်ဂျီဒီး ’ မျိုးရင်းတွင်ဝင်၍ ပါဝင်သည်။ မြန်မာနိုင်ငံတွင် ကြက်ဝက်ခြောက်ကောင်အမည်ဖြင့် လူသိမျှားသည်။ အလျှား ၈ လက်မခန့်ရှိ၍၊ နားရွက်မွေးမျှား ပါရှိသည်။ တောလုံငှက်၏ အရောင်မှာ မွဲပြာရင့်ရောင် သို့မဟုတ် နီညိုရောင်ဖြစ်သည်။ တောတွင်း၌ကျက်စားသော ငှက်မျိုးဖြစ်သည်။

မှောင်စပျိုးသည့်အခါ တောလုံငှက်သည် ကြက်ဝက်ခြောက်ကောင်ဟု ထပ်တလဲလဲ အချိန်ကြာမြင့်စွာ အော်သည်ဟုဆိုသည်။ ထိုအသံကို တောင်ခြေရင်းရှိ ကျွန်းတောအတွင်း၌ တနှစ်ပတ်လုံးကြားရတတ်သည်။ သို့သော် မိုးရာသီနှင့် ဆောင်းရာသီ၌ အသံစဉ်အတိုင်း အပြည့်အစုံ မအော်ချေ။ နွေရာသီ၌မူ၊ တောလုံငှက်၏ အော်သံကို ကြက်ဝက်ခြောက်ကောင်ဟု အပြည့်အစုံ အဆက်မပြတ်ကြားရသည့်ပြင်၊ နေ့အခါ၌ပင် တခါတရံ ကြားရသေး၏။

တောလုံငှက်သည် ကျွန်းတောမျှား၌သာ ကျက်စားလေ့ရှိသည်။ ထူထပ်စွာပေါက်သော အရွက်တို့၏အကြား၌ နေ့အခါတွင် ပုန်းလျှိုး အိပ်နေတတ်သဖြင့် တွေ့ရခဲသည်။ ညအခါ၌သာ ထွက်လာတတ်သည်။ ယင်း၏အစာမှာ ပိုးဖလံ၊ ချေးထိုးပိုး၊ တိရစ္ဆာန်ငယ်မျှားနှင့် ငှက်ငယ်မျှားဖြစ်သည်။ ဖေဖွာရီလမှ ဧပြီလအထိ တောလုံငှက်မျှား သားပေါက်ကြသည်။ မေလနှင့် ဇွန်လတွင် ဒုတိယအကြိမ် သားပေါက်ပြန်သည်။ ဥမျှားကို သစ်ခေါင်းထဲ၌ အုလေ့ရှိသည်။ တမြုံလျှင် ၃ ဥမှ ၄ ဥထိ ရှိတတ်သည်။ ဥသည် ခပ်လုံးလုံးဖြစ်၍၊ ဥခွံမှာ နူးညံ့ချောမွတ်သည်။

တောလုံငှက်ကို အရှေ့နိုင်ငံမျှားတွင် အနှံ့အပြား တွေ့ရသည်။ အနောက်ဖက် ဟိမဝန္တာတောင်အထိ ယင်းကို တွေ့နိုင်သည်။ မြန်မာနိုင်ငံရှိ သစ်တောမျှားတွင် အမြဲတွေ့ရသော ငှက်မျိုးဖြစ်သည်။ ပေ ၆၀၀၀ အမြင့်ထိ နေနိုင်သည်။

**တောဝက်။** ။ဝက် — ရှု။

**တောသားသပိတ်လွယ်ငှက်။** ။တောသားသပိတ်လွယ်ငှက်သည် သပိတ်လွယ်ငှက်နှင့် မျိုးချင်းနီးစပ်သည်။ ဇီဝဗေဒအလိုအားဖြင့် ‘ကော့ဆိုင်ခပ် မာလာဗာရစ်ကပ် ’ ဟုခေါ်သည်။ မျိုးရင်းမှာ ‘တာဒီဒီး ’ မျိုးရင်းဖြစ်သည်။

ယင်းငှက်၏အမြီးသည် ကိုယ်ထည်ထက် ပို၍ရှည်သည်။ ငှက်ဖို၌ ဦးခေါင်း၊ ကျောနှင့် ရင်အုပ်မျှားမှာ ပြောင်လက်သော အမည်းရောင်ရှိ၍၊ ကိုယ်အောက်ပိုင်းမှာ အညိုရောင်ရှိသည်။ အဖြူနှင့်အမည်း ရောနေသော အမြီးအရင်းအထက်နားတွင် အဖြူကွက်ပါရှိသည်။ ငှက်မ၌ ကျောပိုင်းမှာ အညိုရောင်ရှိ၍၊ ကိုယ်အောက်ပိုင်းမှာ အညိုရောင် မွဲခြောက်ခြောက်ရှိသည်။ အမြီးသည် ငှက်ဖိုအမြီးလောက် မရှည်ပေ။

တောသားသပိတ်လွယ်ငှက်တို့သည် တမျိုးနှင့် တမျိုး အနည်းငယ်ကွဲလွဲကြသည်။ အမြီး အတိုအရှည်ကို လိုက်၍သော်၎င်း၊ အရောင်ခြားနားချက်ကို လိုက်၍သော်၎င်း၊ သုံးမျိုးခန့် ကွဲပြားကြသည်။ အမျှားအားဖြင့် ထိုငှက်မျိုးကို တောင်ခြေရှိ သစ်တောမျှားတွင် တွေ့ရသည်။ ကြောက်လန့်တတ်သော ငှက်မျိုးဖြစ်သဖြင့် ချုံကြို ချုံကြားတွင် နေလေ့ရှိသည်။ ထိုငှက်မျိုး၏အော်သံမှာ သာယာကြည်လင်ပေသည်။ အော်သံကို အထူးသဖြင့် နံနက်နှင့် နေဝင်ရီတရော အချိန်မျှားတွင် ကြားရသည်။ အခြားငှက်မျှား၏ အသံကိုလည်း အတုခိုး၍ အော်မြည်တတ်သည်။ ပိုးမွှားမျှားကို၎င်း၊ သစ်သီးမျှားကို၎င်း ရှာဖွေစားသည်။

တောသားသပိတ်လွယ်ငှက်၏ သားပေါက်ချိန်မှာ မတ်လမှ မေလအထိ ဖြစ်သည်။ အသိုက်မှာ သပိတ်လွယ်ငှက်အသိုက်နှင့် တူသည်။ အသိုက်ကို သစ်ရွက် သစ်ကိုင်းမျှား



ငှက်မျှားအသံကို အတုခိုးတတ်သော တောသားသပိတ်လွယ်ငှက်

ဖြင့် ပြုလုပ်တတ်ကြသည်။ တမြုံလျှင် ဥပေါင်း ၃ လုံးမှ ၄ လုံးအထိရှိသည်။ ဥအရောင်မှာ အပြာစိမ်းရောင်တွင် အညိုနှင့် နီညိုရောင် အပြောက်များ ပါရှိသည်။

တောသားသပိတ်လွယ်ငှက်မျိုးကို မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်းနှင့် ကပ္ပလီကျွန်းများတွင် အနှံ့အပြား တွေ့ရသည်။

**တို့ဗမာအစည်းအရုံး။** ။မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းကြရာတွင် တခဏ်းတကဏ္ဍအဖြစ် ပါဝင်လျက် ထင်ရှားပေါ်လွင်ခဲ့သော တို့ဗမာအစည်းအရုံးကြီးသည် သက္ကရာဇ် ၁၂၉၂ ခု (ခရစ်သက္ကရာဇ် ၁၉၃၀–၃၁) ခုနှစ်လောက်တွင် စတင်ပေါ်ပေါက်လာခဲ့လေသည်။

ဗမာပြည်သည် — တို့ပြည်
ဗမာစာသည် — တို့စာ
ဗမာစကားသည် — တို့စကား
တို့ပြည်ကို — ချစ်ပါ
တို့စာကို — ချီးမြှင့်ပါ
တို့စကားကို — လေးစားပါ

ဟူသော ကြွေးကြော်သံတို့ဖြင့် တို့ဗမာအစည်းအရုံးဟူ၍ လူငယ်များက၊ ဖွဲ့စည်းတည်ထောင်ကြလေသည်။ တို့ဗမာအစည်းအရုံးကို စတင်တည်ထောင်သူမှာ သခင်ဗသောင်းဖြစ်၏။ သခင်ဗသောင်းအား၊ သခင်လှဘော်၊ ကိုအုံးခင် (ခြေလျင်) (ယခုဗမာ့ခေတ်သတင်းစာတိုက်ရှင်၊) ကိုတင်စိန်၊ ကိုကျော်ထွန်းစိန်စသည့် လူငယ်တစုက၊ အစပဌမတွင် ကူညီအားပေးကြ၏။ နောက် သခင်ဗစိန်၊ သခင်သိန်းမောင်၊ သခင်ထွန်းရွှေတို့ ပါလာကြ၏။ တို့ဗမာအစည်းအရုံးဝင်တို့သည်၊ သခင်အမည်ခံရသဖြင့် လူအများက တို့ဗမာအစည်းအရုံးကို သခင်ပါတီ ဟူ၍လည်း ခေါ်ဆိုကြလေသည်။

တို့ဗမာအစည်းအရုံးပေါ်စတွင်၊ အစည်းအရုံးဝင်တို့အား သခင်တပ်၍ ခေါ်ရသည်ကို လူအများက လွယ်လင့်တကူ တပ်၍ ခေါ်ဆိုခြင်းမပြုကြဘဲ၊ သခင်ထည့်၍ ခေါ်ဆိုရမည်ကို ဦးလေးလျက်ရှိကြ၏။ တို့ဗမာအစည်းအရုံးဝင် အချင်းချင်းသာလျှင်၊ တဦးကိုတဦး သခင်တပ်ကာ၊ ခပ်တွင်တွင် ခေါ်ဆိုကြရလေသည်။ တရားပွဲတိုင်းမှာလည်း သခင်ဆိုသည်မှာ ဗမာတိုင်းသခင်ဖြစ်သည့်အကြောင်း၊ သူတပါးလက်အောက်တွင် ကျွန်သဘောက်ဖြစ်နေရသဖြင့်၊ ကျေးစိတ် ကျွန်စိတ်တွေပပျောက်၍ သခင်စိတ်ပေါ်ပေါက် ကိန်းအောင်းလာရန် ဖြစ်သည့်အကြောင်းတို့မှစ၍၊ ရာဇဝင် ကိုးကားချက်များနှင့်တကွ ဇာတိမာန်တက်ကြွအောင် ရှင်းလင်းဟောပြောခြင်းတို့ဖြင့် တစတစ သခင်အမည် ယဉ်ပါးလျက် အသုံးများလာအောင် အားထုတ်ခဲ့ရလေသည်။

### တို့ဗမာသီချင်း

တို့ဗမာအစည်းအရုံး၏ စည်းရုံးရေး တရားပွဲများတွင် တို့ဗမာသီချင်းဖြင့် သီဆိုစည်းရုံးခဲ့ကြ၏။ တို့ဗမာအစည်းအရုံး သခင်ပါတီကို လူအများက ရုတ်တရက် အားပေးထောက်ခံမှု မပြုကြသေးစေကာမူ တို့ဗမာသီချင်းကိုမူ လူကြိုက်များကာ လူအများက လက်ခံလာကြလေသည်။ တို့ဗမာသီချင်းကို ရေးသားသူမှာ စာရေးဆရာ (ဝိုင်၊ အမ်၊ ဘီ) ဆရာတင်ခေါ် သခင်တင်ဖြစ်၏။ သခင်တင်၏ တို့ဗမာသီချင်းမူရင်းမှာ—

တကောင်းအဘိရာဇာ၊ တို့ဗမာသာကီမျိုးဟာမို့၊ မည္သီးဂုဏ်တေဇာ၊ ယိုးဒယားနဲ့ ကုလားကိုပါ၊ တိုက်ခိုက်ခဲ့ — အောင်ခဲ့တာ၊ တို့ဗမာ။ စိန်မှန်ကင်းစစ် အဖြစ်ကြီးဖြစ်ရဲ့၊ ထင်းတလှည့်ကြုံရ၊ ထုံးနှင့်မသွေ၊ လောကဓမ္မတာပေ၊ ငါ တို့ကံခေ — ဖြစ်ရပြန်သလေ၊ သို့သော် — အရင်းကိုစစ်လျှင်၊ ဗမာပြေ၊ ငါတို့ — ငါတို့ပြေ။

နောင်ဥဒါန်း ဘယ်မကြေစရာ၊ ရာဇဝင်တင်ထား မျိုးရိုးနွယ်လာ၊ ကမ္ဘာတခွင်မှာဖြင့်၊ ဗမာအထင်အရှား၊ တို့ခေတ်တွင်မှ၊ ညှိုးကြတော့မှာလား၊ တို့ဗမာ — တို့ဗမာ — မဟုတ်လေသလား၊ တို့ဗမာ — ငါတို့ဗမာ၊ ဒါငါတို့ဗမာ — ဒါ ငါ တို့ဗမာ။ အားလုံးညီညီ၊ ယောက်ျားဘသား — တို့ဗမာ၊ နောင်လာနောက်သား ကောင်းစားဘို့ရာ၊ တိုကိုယ်ကျိုး — လုံးလုံးမပါ၊ ရဲရဲဗမာပီပီ၊ ဗမာပြေ တို့ဗမာဘို့ပါ၊ သခင်ကျင့်ကို ကျင့်ကြပါ၊ သခင်မျိုးဟေ့ — တို့ဗမာ၊ တမိုးအောက်မြေပြင်မှာ၊ အထက်တန်းစိတ်နဲ့၊ စာမရှိသွေး တို့ဗမာ။ ။

(သံပြိုင်)။ ။ကမ္ဘာမကြေ — ဗမာတွေ၊ ဒါတို့ပြေ — ဒါ တို့မြေ — ဒါငါတို့ပြေ။ ကမ္ဘာမကြေ — ဗမာတွေ (ဒါတို့ပြေ —ဒါတို့မြေ — ဒါငါတို့ပြေ။ ၃–ခါ) တို့ဗမာ — တို့ဗမာပြေကို၊ တိုင်းရင်းသားအကုန်အစင်၊ တို့ပြေလို့ မှတ်ထင်၊ တို့ဝတ်တရားပင်၊ တို့ဗမာခင်။ ။

(အမျိုးသားရေး — ကြိုးပမ်းကြပါ၊ တို့ဗမာ — ဟေ့ တို့ဗမာ၊ ၂–ခါ)

အရှေ့က နေဝန်းထွက်သည့် ပမာပ၊ တို့ခေတ်ကိုတော့ ရောက်ရမည်မှာ မလွဲပါ၊ တို့ဗမာ — ဟေ့တို့ဗမာ၊ ဗမာပြေ အဝှန်းအကုန်၊ တို့အိမ်မှတ်ပါ၊ တို့ယာမှတ်ပါ၊ အဲဒါ တို့ဗမာ။ ။

(သံပြိုင်ပြန်ကောက်)။

### စည်းရုံးသော်လည်း မအောင်မြင်၊ တို့ဗမာအစည်းအရုံးမှာ ပျောက်ကွယ်လုမတတ်ပင်

တို့ဗမာအစည်းအရုံးဝင်တို့သည်၊ တို့ဗမာသီချင်းကို သီဆိုလျက်၊ တရားပွဲများကျင်းပကာ၊ စည်းရုံးရေးကို ကြိုးစားကြ

သော်လည်း၊ များစွာ မအောင်မြင်ကြချေ။ တို့ဗမာ အစည်းအရုံးဝင် သခင်တို့သည်၊ လူငယ်များ ဖြစ်ကြသည် အားလျော်စွာ၊ အခြားသော နိုင်ငံရေးအဖွဲ့အစည်းတို့နှင့် မတူ၊ နိုင်ငံရေး ဟောပြောရေးသားမှုတို့တွင် တော်လှန်ရေးစိတ်ဓာတ် တက်ကြွလျက်၊ အသုံးအနှုန်း အပြောအဆိုတို့မှာလည်း ပြတ်သားပြင်းထန်ကြလေရာ အခြားသော နိုင်ငံရေးအဖွဲ့တို့ကရင်း၊ နိုင်ငံအစိုးရတို့ကရင်း လူငယ်တို့၏ ဝေဖန်ချက်တို့ကို ခံပြင်းလျက်ရှိကြလေသည်။ သို့ဖြင့် လူကြီးတို့၏ အားပေးထောက်ခံမှု မရသည့်ပြင် အာဏာပိုင်အစိုးရတို့၏ အငြိုအငြင်ကိုလည်း အခံရဆုံးသော အဖွဲ့ ဖြစ်လေသည်။ မင်းဘေးစိုးဒဏ်ကို ကြောက်ရွံ့ကြသဖြင့်လည်း တို့ဗမာအစည်းအရုံး သခင်များကို အားမပေးဝံ့ကြကုန်။ ထို့ကြောင့် တို့ဗမာအစည်းအရုံးဝင် သခင်များ၏ စည်းရုံးရေးသည် အောင်မြင် တွင်ကျယ်ခြင်း မရှိလှဘဲ နောက်ဆုံးတွင်၊ တို့ဗမာအစည်းအရုံး၌ သခင်ဗသောင်း၊ သခင်ဗစိန်၊ သခင်သိန်းမောင်တို့လောက်သာ ကျန်ရှိကာ ပျောက်ကွယ်လုမတတ်ပင် ရှိလေသည်။

## တခါတရံမှ ထွက်ပေါ်လာသော တို့ဗမာအစည်းအရုံး၏ အသံ

ထိုသို့ ပျောက်ကွယ်လုမတတ်ရှိသော်လည်း မြန်မာ့နိုင်ငံရေး လှုပ်ရှားလာသောအခါတိုင်းနှင့် နိုင်ငံရေးအချက်ကောင်း ပေါ်လာသောအခါတို့တွင် ရန်ကုန်မြို့၊ ဗဟန်းရပ်၊ ရေတာရှည်လမ်း ခြံအတွင်းမှ၊ တခါတရံထွက်ပေါ်လာသော တို့ဗမာအစည်းအရုံး၏ အသံများကို ကြားကြရလေသည်။ ဤသို့ကြားကြရသဖြင့်လည်း တို့ဗမာ အစည်းအရုံးသည် ဇွဲနဘဲကြီးစွာဖြင့် ရှိနေသေးသည်ကို သိရှိနိုင်လေသည်။ သက္ကရာဇ် ၁၂၉၅ ခု၊ နတ်တော်လ (၁၉၃၃ ခု၊ ဒီဇင်ဘာလ) တွင် ရွှေဘိုအရှေ့ပိုင်းမဲဆန္ဒနယ်မှ မင်းတိုင်ပင်အမတ် အနိစ္စရောက်လေရာ၊ ကြားရွေးကောက်ပွဲတခု ဖြစ်ပေါ်လာ၏။ ထိုကြားရွေးကောက်ပွဲတွင် တို့ဗမာ အစည်းအရုံးမှ သခင်ဗသောင်း ဝင်ရောက်အရွေးခံပြီးလျှင် ရွှေဘိုနယ်တွင် တရားပွဲများ ကျင်းပရလေရာ၊ တို့ဗမာဝါဒ ပြန့်ပြီးလျှင် လူသိများလာ၏။ ရွေးကောက်ပွဲ ပြီးသည်နှင့်တပြိုင်နက်၊ တရားဟောကြသည့် သခင်ဗသောင်း၊ သခင်ဗစိန် သခင်သိန်းမောင်နှင့်သခင်ထွန်းရွှေတို့အား ရွှေဘိုနယ်မှ ၂၄ နာရီအတွင်း ထွက်ခွာသွားရမည်ဟု ရာဇဝတ်ကျင့်ထုံး ပုဒ်မ ၁၄၄ ကို အသုံးပြုကာ ရွှေဘိုတရားသူကြီးက နှင်ထုတ်လိုက်၏။ အမိန့်မနာခံသဖြင့် အဖမ်းခံကြရ၏။ မတရားအမိန့်ဖြစ်သောကြောင့်၊ ဟိုက်ကုတ်တွင် အယူခံရာ လွတ်လာ၏။ ဤသို့အဖမ်းခံရသဖြင့်လည်း တို့ဗမာအစည်းအရုံးမှာ ပို၍ထင်ရှားလာလေသည်။

ထို့နောက် တို့ဗမာအစည်းအရုံးကို သခင်ဗစိန်၊ သခင်သိန်းမောင်၊ သခင်ဟန်၊ သခင်လေးမောင်၊ သခင်ညီ၊ သခင်ထွန်းရွှေ စသည်တို့ ဆက်လက်ဆောင်ရွက်နေကြ၏။ သို့ဆောင်ရွက်နေရင်း သခင်ထွန်းအုပ်၊ သခင်ကံတင့်၊ သခင်တင်မောင်၊ သခင်ဗို၊ သခင်ချန်ထွန်း၊ သခင်အောင်သန်း၊ သခင်ထွန်းဦး စသည်တို့ ဝင်ရောက်လာကြသည်သာမက၊ အချို့မှာ သခင်အမည်မခံ၊ တို့ဗမာအစည်းအရုံးကိုပင် မဝင်သေးသော်လည်း အားပေးလာကြသဖြင့် တစတစ အင်အားတိုးတက်လာလေသည်။

တို့ဗမာအစည်းအရုံးသည် အမျိုးသားနေ့၊ ဦးဝိစာရနေ့ စသော အထိမ်းအမှတ်နေ့ နိုင်ငံရေးတရားပွဲတို့တွင် ပါဝင်ဟောပြောကြသဖြင့်လည်း လူသိများလာ၏။ အခွန်ထမ်းတို့ အရေး၊ အလုပ်သမားအရေး၊ တောင်သူလယ်သမား ဆင်းရဲသားတို့၏အရေးတို့ကို ရွက်ဆောင်ပေးသဖြင့်လည်း ထင်ရှားလာသည်။ တို့ဗမာအစည်းအရုံးဝင် လူငယ်အများအပြားမှာ၊ ရန်ကုန်တက္ကသိုလ် ကျောင်းသားဟောင်းများ ဖြစ်ကြသည့်ပြင်၊ တက္ကသိုလ်ကျောင်းသား သမဂ္ဂဝင်တို့နှင့် ရင်းနှီးကြသည်အားလျော်စွာ ထိုစဉ်က သမဂ္ဂလူကြီးများ ဖြစ်ကြသော ကိုနု (ဝန်ကြီးချုပ်)၊ ကိုအောင်ဆန်း (ကွယ်လွန်သူဗိုလ်ချုပ်)၊ ကိုလှဖေ (ဗိုလ်လကျာ်) ကိုလှရွှေ (ကွယ်လွန်သူ ကျောင်းသားခေါင်းဆောင်)၊ ကိုထွန်းစိန် (ဝတ်လုံတော်ရ)၊ ကိုသိန်းတင် (ညိုမြ) (အိုးဝေ)၊ ကိုဘဟိန်း (ကွယ်လွန်သူ)၊ ကိုသိန်းဖေ (သိန်းဖေမြင့်) အစရှိသူတို့နှင့် နိုင်ငံရေးတွင် အချို့နေရာ၊ အချို့ကိစ္စများ၌ လက်တွဲဆောင်ရွက်ခဲ့ကြလေသည်။ တို့ဗမာအစည်းအရုံးဝင် သခင်တို့သည် ခေတ်စာပေများကိုလိုက်စားလေ့လာကြလျက် ပြင်သစ်သူပုန် အရေးတော်ပုံ၊ အိုင်ရစ်သူပုန် အရေးတော်ပုံ၊ ရုရှားသူပုန် အရေးတော်ပုံ၊ တရုတ်သူပုန် အရေးတော်ပုံတို့ကိုလည်း လေ့လာကြ၏။ တို့ဗမာအစည်းအရုံးသည် အရင်းရှင်၊ မနရှင်၊ နယ်ချဲ့ဝါဒကိုတိုက်ဖျက်၍ ဆင်းရဲသား၊ အလုပ်သမားလယ်သမား ပစ္စည်းမဲ့လူတန်းစားခေတ်ကို တည်ဆောက်မည့်လမ်းစဉ်ကို ချမှတ်ခဲ့လေသည်။

## ပဉ္စမ သခင်ညီလာခံကွန်ဖရင့်

ထိုအချိန်က တိုင်းပြည်ရှိ သတင်းစာများနှင့်တကွ လူကြီးပိုင်း၏ အားပေးကူညီမှုကိုလည်း မရရှိကြသေး။ သခင်တရားပွဲများတွင် လက်ရှိနိုင်ငံရေးသမား လူကြီးများ၏ အပြစ်ကို ဝေဖန်ထုတ်ဘော် ဟောပြောလေ့ရှိသဖြင့်လည်း လူကြီးတို့၏ ဝိုင်းပယ်ခံကြရ၏။ ထိုအတွင်း စာရေးဆရာကြီး မစ္စတာမောင်မှိုင်း အမည်ခံ ဆရာဦးလွန်းထံ ချဉ်းကပ်ကြ၏။ ဆရာကြီးကလည်း ဖျတ်ဖျတ်လတ်လတ်၊ ပြတ်ပြတ်သားသားပြောဆို၍၊ ထောင်မကြောက်၊ တန်းမ

ကြောက်၊ ရဲရဲဝံ့ဝံ့ဆောင်ရွက်မည့်သူများကို အားပေးမည်ဟုဆိုကာ လက်ခံအားပေးလေသည်။ ဆရာကြီးပါလာလျှင်ပင်၊ လူကြီးပိုင်းကလည်း ဂရုပြုလာ၏။ ဤသို့လျှင် တဖြည်းဖြည်း တစစ တိုးတက်လာရာ သက္ကရာဇ် ၁၂၉၆ ခု၊ တပေါင်းလတွင်၊ တို့ဗမာအစည်းအရုံး၏ ပဌမအကြိမ်၊ သခင်ကွန်ဖရင့်ကြီးကို ရေနံချောင်းမြို့တွင် ကျင်းပနိုင်ခဲ့လေသည်။ ဆရာကြီး မစ္စတာ မောင်မှိုင်းသည်လည်း ထိုအချိန်မှစ၍ သခင်ကိုယ်တော်မှိုင်း ဟူသောအမည်ကို ခံယူလိုက်လေသည်။ သခင်ကွန်ဖရင့်အစည်းအဝေးကိုလည်း သခင်ညီလာခံဟု ကင်ပွန်းတပ်လေသည်။ ဤ ရေနံချောင်းသခင်ကွန်ဖရင့်ကိုလည်း အစိုးရက ရာဇဝတ်ကျင့်ထုံး ပုဒ်မ ၁၄၄ နှင့် လူငါးယောက်ထက်ပို၍ မစုဝေးရဟု တားမြစ်ခံရသေး၏။

### ဒုတိယအကြိမ် တို့ဗမာအစည်းအရုံး၏ညီလာခံ

ဤသို့လျှင် ပဌမညီလာခံကျင်းပပြီးသည်နောက်၊ ဌာနချုပ်နှင့်တကွ နယ်အနှံ့ စည်းရုံးရေးလုပ်ငန်းများမှစ၍၊ ကြိုးပမ်း လုပ်ဆောင်လာကြပြီးလျှင် ၁၂၉၇ ခု (၁၉၃၆ ခု၊ ဇွန်လ) သို့ရောက်သောအခါ၊ တို့ဗမာအစည်းအရုံး၏ ဒုတိယအကြိမ် ညီလာခံကြီးကို မြင်းခြံမြို့၊ ကိုးဆောင်းကျောင်းတိုက်ကြီးအတွင်း၌ မဏ္ဍာပ်ကြီးဆောက်လုပ် ကျင်းပကြလေသည်။ ထိုညီလာခံတွင် သခင်ကိုယ်တော်မှိုင်းနှင့်တကွ သံဃာတော်များ၊ သာယာဝတီ၊ ပြည်၊ မင်းဘူး၊ မကွေး၊ စစ်ကိုင်း၊ ကျိုက္ကမီ၊ မန္တလေး၊ ရွှေဘို၊ မုံရွာ၊ ဖျာပုံ၊ ရန်ကုန်၊ အင်းစိန်၊ ပုသိမ်၊ မြင်းခြံစသော စီရင်စုများမှ ကိုယ်စားလှယ်များ တက်ရောက်ကြလျက်၊ တိုးတက်သိုက်မြိုက်စည်ကားလာလေသည်။ ဤ ညီလာခံ အစည်းအဝေးကပင် ရောက်ရှိလာတော့မည့် ဗမာပြည်အုပ်ချုပ်ရေးသစ် ရွေးကောက်ပွဲတွင် အုပ်ချုပ်ရေးသစ်ကို တိုက်ဖျက်ပစ်ရန်အတွက် ဝင်ရောက်အရွေးခံကြရန် ဆုံးဖြတ်ကြလေသည်။ ထိုညီလာခံ ပြီးဆုံးသည်နှင့်တပြိုင်နက်၊ သခင်ဗစိန်၊ သခင်ညို၊ သခင်အောင်သန်း၊ သခင်ထွန်းဦးနှင့်သခင်သိန်းတို့အား၊ ညီလာခံမဏ္ဍာပ်မှာပင်လျှင် တရားဟောမှုနှင့်ဖမ်းလိုက်ပြန်ရာ၊ တို့ဗမာအစည်းအရုံးမှာ ပိုမိုထင်ရှားသွားပြန်လေသည်။

### တို့ဗမာအစည်းအရုံးနှင့်အုပ်ချုပ်ရေးသစ်

၁၉၃၅ ခု၊ မြန်မာနိုင်ငံအက်ဥပဒေအရ၊ အိန္ဒိယပြည်နှင့်ဗမာပြည်ခွဲပြီးလျှင်၊ ဗမာပြည်အား ပေးအပ်မည့် အုပ်ချုပ်ရေးသစ် (ထိုအုပ်ချုပ်ရေးကို၊ ၉၁-ဌာနအုပ်ချုပ်ရေးဟူ၍လည်း ခေါ်ဆိုကြသည်) စတင်တော့မည်ဖြစ်ရာ၊ ၁၉၃၆ ခု၊ နိုဝင်ဘာလတွင် ဤအုပ်ချုပ်ရေးသစ်အရ၊ ဥပဒေပြုလွှတ်တော်ရွေးကောက်ပွဲများ ကျင်းပကြပေတော့မည်။ တို့ဗမာအစည်းအရုံး၏ ဒုတိယအကြိမ် မြင်းခြံညီလာခံမှလည်း ရွေးကောက်ပွဲဝင်ရန် ဆုံးဖြတ်ခဲ့သည်အတိုင်း၊ ကိုယ့်မင်း ကိုယ်ချင်းပါတီအမည်နှင့် သခင်အမတ်လောင်းများ ဝင်ရောက်အရွေးခံကြလေသည်။ သခင်သိန်းမောင်၊ သခင်မြ၊ သခင်အေး၊ သခင်ဗကွန်း၊ သခင်အုံ့ကြီး၊ သခင်လှတင်၊ သခင်ဗဦး၊ သခင်ဗသန်းမှစ၍ သခင်အများ ဝင်ရောက်အရွေးခံကြသည်အနက်၊ သခင်မြ၊ သခင်အုံ့ကြီး၊ သခင်လှတင်တို့သုံးဦးသာလျှင် မဲနိုင်၍ အမတ်ဖြစ်ကြသည်။ အခြားသခင်များမှာ အမတ်ပင်မဖြစ်ကြသော်လည်း၊ ရရှိသောမဲများမှာ မနည်းလှချေ။ ထိုရရှိသောမဲများကို ထောက်ဆ၍၊ တို့ဗမာအစည်းအရုံးနှင့် သခင်များကို လိုလားကြောင်း သိရှိရသည့်ပြင်၊ ဤသို့ဝင်ရောက်ယှဉ်ပြိုင် အရွေးခံကြသဖြင့်လည်း တို့ဗမာအစည်းအရုံး၏ အင်အားမှာ သိသိသာသာကြီး တိုးတက်လာလေသည်။

### တို့ဗမာအစည်းအရုံး၏ တတိယအကြိမ် ညီလာခံသဘင်

ဤသို့ ရွေးကောက်ပွဲ ပြုလုပ်ပြီးသည်နောက်၊ တို့ဗမာအစည်းအရုံး၏ တတိယမြောက် သခင်ညီလာခံသဘင်ကို ပြည်မြို့၌၊ ၁၉၃၇ ခုနှစ်၊ မတ်လတွင်ကျင်းပပြုလုပ်ရာ ပရိသတ်မှာအထူးပင် စည်ကားများပြားလှသည်။ ထိုညီလာခံအစည်းအဝေးမှ သခင်အမတ်များ လခယူရေး မယူရေးနှင့် ဥက္ကဋ္ဌနှင့် အလုပ်အမှုဆောင်သစ်များ ရွေးချယ်ရမည့်အရေးတို့ကိုပါ အကြိတ်အနယ် ဆွေးနွေးကြပြီးလျှင်၊ သခင်အမတ်များ လစာငွေမယူကြရန် ဆုံးဖြတ်ကြလေသည်။ ထိုနောက် ဥက္ကဋ္ဌသစ် ရွေးကြရာတွင်၊ သခင်သိန်းမောင်နှင့် သခင်ညီတို့ ယှဉ်ပြိုင်အရွေးခံကြရာ၊ သခင်သိန်းမောင် အနိုင်ရရှိသွား၏။ ထိုညီလာခံတွင် သဘောကွဲလွဲမှုများ ဖြစ်ပေါ်လျက်၊ မကျေနပ်ချက်များလည်း ပေါ်ထွက်ခဲ့လေသည်။ သခင်သိန်းမောင်နှင့် သခင်ဗစိန်တို့ အချင်းချင်း မသင့်သောကိစ္စလည်းရှိ၏။ သို့သော် အစစတို့ကို မျှိသိပ်ကာ ပြည်ဖုံးချလျက်၊ ညီလာခံသဘင်အစည်းအဝေးကြီးမှာမူ အေးချမ်းသာယာစွာ ပြီးဆုံးခဲ့လေသည်။

ထိုညီလာခံ ပြီးသည်နောက်၊ ဥက္ကဋ္ဌသစ်နှင့် အလုပ်အမှုဆောင်သစ်တို့သည် ဌာနချုပ်လုပ်ငန်းများကို ချမှတ်ကြသည်။ တို့ဗမာအစည်းအရုံး ဌာနချုပ်လက်အောက်တွင် 'ကိုယ့်မင်းကိုယ့်ချင်းအဖွဲ့' ဟူသော ဥပဒေပြုလွှတ်တော်နှင့်တကွ ဒေသန္တရအဖွဲ့ဝင်ပုဂ္ဂိုလ်များ၏ အစုအဖွဲ့သည်၎င်း၊ 'ဗမာ့လက်ရုံးတပ်' ဟူသော တို့ဗမာတပ်ဖွဲ့ကို၎င်း၊ ဖွဲ့စည်းလိုက်ကြသည်။ တို့ဗမာလက်ရုံးတပ်တွင်၊ ပင်ဖြူလှဖေ (ခေါ်) သခင်လှဖေက ဗိုလ်ချုပ်ပြုလုပ်၍၎င်း၊ ကိုယ့်မင်းကိုယ့်ချင်းအဖွဲ့တွင် သခင်မြက ခေါင်းဆောင်ပြုလုပ်၍၎င်း ဆောင်ရွက်ကြရာ၊ လက်ရုံးတပ်အင်အားလည်း တိုးတက်များပြားလာ၏။ ကိုယ့်မင်းကိုယ့်ချင်းအဖွဲ့ဝင်တို့သည် ဥပ

ဒေပြုလွှတ်တော် စတင်စည်းဝေးသည့်နေ့မှာပင်လျှင်၊ ဘုရင်ခံ ကြွရောက်လာသည်ကို အခြားပါတီ ဥပဒေပြုအမတ်တို့ကဲ့သို့ မတ်ရပ်ထကာ အရိုအသေမပြုခြင်း၊ နှုတ်မဆက်ခြင်းတို့ကို ပြောင်အတိအလင်း လုပ်ပြလိုက်ကြသဖြင့် ဥပဒေပြုလွှတ်တော်ရာဇဝင်တွင် မပေါ်ပေါက်ဘူးသေးသော အဖြစ်တို့ ပေါ်ပေါက်ကာ၊ ကိုယ်မင်းကိုယ်ချင်းသခင်အမတ်တို့ အပေါ်တွင် တိုင်းပြည်က အတော်ဂရုစိုက်လာကြလေသည်။

### တို့ဗမာအစည်းအရုံးကြီး နှစ်ပက္ခကွဲပြီးလျှင်၊ စတုတ္ထညီလာခံမှာ တကွဲတပြားစီဖြစ်သွားခြင်း။

ဤသို့ တို့ဗမာအစည်းအရုံးကြီးအား တိုင်းပြည်နှင့်အဝှန်းအာရုံညွှတ်၍၊ အင်အား တိုးတက်ကြီးထွားလာစဉ်ပင်လျှင် ဖော်ပြခဲ့သည့် သခင်သိန်းမောင်၊ သခင်ဗစိန်တို့၏ မသင့်တင့်မှုသည် ရင့်မာကြီးထွားလာချေသည်။ နောက်ဆုံးတွင် သခင်သိန်းမောင်က၊ သခင်ဗစိန်အား၊ တို့ဗမာအစည်းအရုံးမှ ထုတ်ပစ်လေရာ၊ ဥက္ကဋ္ဌ သခင်သိန်းမောင်သည် အလုပ်အမှုဆောင်များနှင့် မတိုင်ပင်ဘဲ ထုတ်ပစ်သဖြင့် ထိုဥက္ကဋ္ဌအမိန့်သည် တရားဝင်မဝင်၊ အလုပ်အမှုဆောင်တွင် အပြင်းဖြစ်ကာ နှစ်ဘက်ဖြစ်သွားပြန်သည်။ ထိုမှတဖန်၊ တပြည်လုံးရှိ တို့ဗမာအစည်းအရုံးဝင်တို့တွင်၊ ဂရက်ရိုက်ကာ ဆူပွက်ကုန်ကြလေသည်။ ဤတွင် ဗမာပြည်လုံးဆိုင်ရာ အမှုဆောင်များက ဆရာကြီးသခင်ကိုယ်တော်မှိုင်းအား ဆုံးဖြတ်ပေးရန် ပုံ၍ အာဏာကုန်လွှဲအပ်ကြလေသည်။ နောက်ဆုံး ဆရာကြီး၏အဆုံးအဖြတ်ကိုလည်း မနာယူကြသဖြင့်၊ သခင်ဗစိန်တို့လူစုက သာယာဝတီ၊ သုံးဆယ်-ပန်းဆွဲတွင်၎င်း၊ သခင်သိန်းမောင်တို့လူစုက မော်လမြိုင်မြို့တွင်၎င်း စတုတ္ထအကြိမ်ညီလာခံကို တကွဲတပြားစီ ကျင်းပကြလေသည်။ သာယာဝတီ ပန်းဆွဲ ညီလာခံတွင် ပန်းဆွဲဆရာတော်၊ ဆရာတော် ဦးကွာဝိန္ဒဓိပတိ၊ ဆရာတော် ဦးဝါသဝ၊ ဦးဥတ္တမညီ ရှင်အရိယကြီး၊ သခင်ထွန်းအုပ်၊ သခင်ဗစိန်၊ သခင်အောင်သန်း၊ သခင်အေး၊ သခင်ညီ၊ သခင်ခင်အောင်၊ သခင်လှဖေ၊ သခင်ခ၊ သခင်ကျော်ရင်၊ သခင်ထွန်းဆိုင်၊ သခင်စောကြီး၊ သခင်အောင်ကြီး စသည်တို့ပါဝင်၍၊ မော်လမြိုင် ညီလာခံတွင်၊ သခင်သိန်းမောင်၊ သခင်မြ၊ သခင်လေးမောင်၊ သခင်ထွန်းခင်၊ သခင်ထိပ်တင်ကိုယ်တော်ကြီး၊ သခင်လှဘော်၊ သခင်ဗမောင်ကြီး၊ သခင်သန်းထွန်း၊ သခင်ထွန်းစိန်၊ သခင်ဗရင်၊ သခင်စံထွန်းလှ စသည်တို့ ပါဝင်ကြလျက်၊ တက္ကသိုလ်ကျောင်းမှထွက်၍ နိုင်ငံရေး လုံးလုံးလုပ်တော့မည်ဟု ဆုံးဖြတ်လာသူ သခင်အောင်ဆန်း၊ သခင်လှဖေ၊ သခင်တင်မောင်ကြီးစသော လူငယ်စုတို့လည်း တို့ဗမာအစည်းအရုံးသို့ ဝင်ရောက်ခဲ့ကြ၏။ ဆရာကြီး သခင်ကိုယ်တော်မှိုင်းအားလည်း ပင့်ဆောင်ကာ ဆက်လက်လုပ်ဆောင်သွားကြ၏။ ဤတွင် တို့ဗမာအစည်းအရုံးကြီးမှာ၊ ၂ ခုဖြစ်ကာ၊ သခင်ကိုယ်တော်မှိုင်း တို့ဗမာအစည်းအရုံး၊ သခင်ဗစိန် တို့ဗမာအစည်းအရုံးဟု ဖြစ်ပေါ်လာပြီးလျှင် နယ်အရပ်ရပ်တို့ရှိ တို့ဗမာအစည်းအရုံးတို့လည်း ကွဲပြားကြလေကုန်၏။

### ဒုတိယကမ္ဘာစစ်နှင့် တို့ဗမာအစည်းအရုံး

ဤသို့ တို့ဗမာအစည်းအရုံးကြီး နှစ်ခုဖြစ်ကာ၊ လုပ်ဆောင်လာကြရာ၊ လုပ်ငန်းဝါဒတို့သဘောမှာ ခြားနားခြင်းမရှိလှသဖြင့်၊ ၁၃၀၀ ပြည့်တွင် ပေါ်ပေါက်လာသော ရေနံသပိတ် အရေးတော်ပုံ၊ ကျောင်းသား အရေးတော်ပုံ၊ တောင်သူလယ်သမား အရေးတော်ပုံတို့တွင် တို့ဗမာအစည်းအရုံး နှစ်ခုစလုံးကပင် ကူညီအားပေး ရွက်ဆောင်ကြလေသည်။ ဤသို့လျှင် နိုင်ငံရေးရာတို့ကို အကြောင်းအားလျော်စွာ ရွက်ဆောင်လာကြရင်းပင် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားမည့် အရိပ်အရောင်တို့လည်း ထွက်ပေါ်လာလေသည်။ တို့ဗမာအစည်းအရုံးကြီးသည်လည်း ဒုတိယကမ္ဘာစစ် ဖြစ်မည့်အရေးကို မျှော်တွေးကာ အာရုံစူးစိုက်လာကြသည်အားလျော်စွာ တို့ဗမာအစည်းအရုံးကြီးသည် ၁၉၄၁ ခုနှစ်တွင် ဂျပန်တို့နှင့် လျှို့ဝှက်ဆက်သွယ်ကြလေသည်။ ဤသို့ဆက်သွယ်ရာတွင် အစည်းအရုံးကြီး ၂ ခုရှိလေရာ၊ သခင်ကိုယ်တော်မှိုင်း အစည်းအရုံးသည် ဂျပန်ကုန်းတပ်မတော်နှင့်၎င်း၊ သခင်ဗစိန် တို့ဗမာအစည်းအရုံးကမူ ဂျပန်ရေတပ်မတော်နှင့်၎င်း အဆက်အသွယ် ပြုလုပ်ကြပြီးလျှင်၊ ဂျပန်ပြည်သို့ တိတ်တဆိတ် လူငယ် ကိုယ်စားလှယ်များ စေလွှတ်ကြလေသည်။ ဗမာပြည်တွင် ရှိနေသော တို့ဗမာအစည်းအရုံးဝင် အမြောက်အမြားတို့လည်း ကာကွယ်ရေးဥပဒေနှင့် အဖမ်းအဆီးခံကြရသည်။

### ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွား၍ ဂျပန်စစ်တပ်နှင့် ရဲဘော်သုံးကျိပ်ပါရှိလာခြင်း။

တို့ဗမာအစည်းအရုံးတို့မှ လျှို့ဝှက်စေလွှတ်လိုက်သော လူငယ်များသည် ဂျပန်ပြည်တွင် စစ်လေ့ကျင့်ခန်းများ ယူလျက် ဗိုလ်မိုယ်ကြိုးခေါင်းဆောင်ကာ ဗမာ့လွတ်လပ်ရေးတပ်မတော်ဟူသော အမည်ဖြင့် ဂျပန်တို့နှင့်အတူ ယိုးဒယားမှ ဗမာပြည်သို့ တိုက်ခိုက်ဝင်ရောက်လာကြလေသည်။ ဗမာနယ်တွင်းသို့ ရောက်သောအခါ၊ ရဲဘော်တို့သည် တရားဟောကာ တပ်သားစုဆောင်းလာသဖြင့် ဗမာ့လွတ်လပ်ရေးတပ်မတော် (ဘီ၊ အိုင်၊ အေ) သို့ ဝင်ရောက်လာကြသူတို့မှာ အထူးများပြားလာသည်သာမက၊ ရောက်လေရာ အရပ်တိုင်းတို့ကလည်း ဗမာ့တပ်မတော်အား အထူး ကြိုဆိုကြလေသည်။ ဤသို့လျှင် ဂျပန်ပြည်သို့ လျှို့ဝှက်စွာသွား

ရောက်ပြီး ဗမာ့လွတ်လပ်ရေးအတွက် ချီတက်လာကြသော ရဲဘော်သုံးကျိပ်တို့မှာ —

**သခင်ဗစိန်တို့ အစည်းအရုံးမှ။** ။သခင်ထွန်းအုပ်၊ ဗိုလ်စကြာ၊ ဗိုလ်နေဝင်း၊ ဗိုလ်စောအောင်၊ ဗိုလ်မြင့်ဆွေ၊ ဗိုလ်ဖုန်းမြင့်၊ ဗိုလ်စောနောင်၊ ဖော်မိုဆာတွင်ကျဆုံးသူ သခင်သန်းတင် (ဗိုလ်ရာမဒါ) နှင့် ဗိုလ်မိုးညိုတို့ ဖြစ်ကြသည်။

**သခင်ကိုယ်တော်မှိုင်း အစည်းအရုံးမှ။** ။ဗိုလ်တေဇ (ကွယ်လွန်သူဗိုလ်ချုပ်အောင်ဆန်း)၊ ဗိုလ်လကျာ၊ ဗိုလ်ရန်နိုင်၊ ဗိုလ်ရန်အောင်၊ ဗိုလ်ဇေယျ၊ ဗိုလ်မိုး၊ ဗိုလ်ရဲထွတ်၊ ဗိုလ်လရောင်၊ ဗိုလ်မင်းခေါင်၊ ဗိုလ်ဗလ၊ ဗိုလ်ညာဏ၊ ဗိုလ်မြဒင်၊ ဗိုလ်မင်းရောင်၊ ဗိုလ်မြင့်အောင်၊ ဗိုလ်လင်းယုန်၊ ဗိုလ်ဇင်ယော်၊ ဗိုလ်အောင်၊ ဗိုလ်ကျော်ဇော၊ ဗိုလ်တာရာ၊ ဗိုလ်ထိန်ဝင်း၊ ဗိုလ်တောက်ထိန်တို့ ဖြစ်ကြလေသည်။ (ရဲဘော်သုံးကျိပ်လည်း — ရှု)

## ဂျပန်ခေတ် တို့ဗမာအစည်းအရုံး

၁၉၄၂ ခုနှစ်တွင် ဂျပန်တပ်မတော်နှင့်တကွ ဗမာ့လွတ်လပ်ရေးတပ်မတော် (ဘီ၊ အိုင်၊ အေ) တို့ မြန်မာပြည်သို့ တိုက်ခိုက်ဝင်ရောက်လာသောအခါ အင်္ဂလိပ်စစ်တပ်တို့သည် မြန်မာပြည်မှဆုတ်ခွာ၍ အိန္ဒိယပြည်ဘက်သို့ ပြေးကြလေကုန်၏။ ဆုတ်ပြေးကြသည့် အင်္ဂလိပ်တပ်များ၏နောက်က ထက်ကြပ်မကွာ လိုက်၍ တိုက်ခိုက်ကြရာတွင် ဗိုလ်ချုပ်အောင်ဆန်းသည် ဗမာ့လွတ်လပ်ရေးတပ်မတော်ကို ဦးစီးကွပ်ကဲရလေသည်။ တိုက်ခိုက်သိမ်းပိုက်ပြီးသော နယ်အရပ်ရပ်ကို ငြိမ်ဝပ်ပိပြားအောင် အုပ်ချုပ်ရန်အတွက် သခင်ထွန်းအုပ်က ခေါင်းဆောင်ရ၏။ သခင်ထွန်းအုပ်သည် နယ်အရပ်ရပ်တွင် ငြိမ်ဝပ်ပိပြားရေးအဖွဲ့များ (ပီ၊ ပီ၊ စီ) များဖွဲ့ကာ ထိန်းသိမ်းအုပ်ချုပ်သွားလေသည်။ မြန်မာတပြည်လုံးကို သိမ်းပိုက်မိသောအခါ၊ ဂျပန်တပ်မတော်သည် ဆင်းရဲသားအဖွဲ့ခေါင်းဆောင်ကြီး ဒေါက်တာ ဘမော်အား ရှာဖွေပြီးလျှင်၊ တို့ဗမာ သခင်ခေါင်းဆောင်များနှင့်ပေါင်းလျက် စစ်အုပ်ချုပ်ရေးအဖွဲ့ကို ဖွဲ့စည်းအုပ်ချုပ်စေသည်။ ထိုအချိန်တွင် တို့ဗမာအစည်းအရုံးနှင့် ဆင်းရဲသားအဖွဲ့တို့မှတပါး အခြားသောအဖွဲ့တို့မှာ ပျောက်ကွယ်လုမတတ်ရှိလေရာ၊ ထိုနှစ်ဖွဲ့ကို ပေါင်းစပ်လိုက်ပြီးလျှင် တို့ဗမာ ဆင်းရဲသား အစည်းအရုံး ဟု တည်ထောင်လိုက်ကြလေသည်။ ထို အစည်းအရုံး ဌာနချုပ် အကြီးအကဲမှာ သခင်နု (ယခုဝန်ကြီးချုပ်ဦးနု) ဖြစ်လေသည်။ ထို့နောက် ယင်းအစည်းအရုံးသည် မဟာဗမာအစည်းအရုံး ဖြစ်လာလေသည်။

## ဂျပန်တော်လှန်ရေး

ဤသို့လျှင် မြန်မာပြည်၌ ဂျပန်စစ်လက်အောက်ခံ အစိုးရတို့ အုပ်ချုပ်နေရာမှ၊ ၁၉၄၃ ခု၊ ဩဂုတ်လ ၁ ရက်နေ့သို့ ရောက်သောအခါ၊ ဂျပန်က မြန်မာပြည်အား လွတ်လပ်ရေးကို ကမ္ဘာသိကြေငြာပေးအပ်သဖြင့်၊ မြန်မာပြည်သည် လွတ်လပ်သော အချုပ်အခြာ အာဏာပိုင် တိုင်းပြည် ဖြစ်လာလေသည်။ ထိုလွတ်လပ်သော မြန်မာပြည်အုပ်ချုပ်ရေးတွင် ဒေါက်တာဘမော်အား နိုင်ငံတော်အဓိပတိ တင်မြှောက်၍၊ အဖွဲ့အသီးသီးမှ ကိုယ်စားလှယ်များ ပါဝင်ရသော အစိုးရအဖွဲ့ကို ဖွဲ့စည်းလေသည်။ ထိုအစိုးရအဖွဲ့တွင် သခင်ထွန်းအုပ်နှင့် သခင်ဗစိန်တို့ မပါဘဲရှိသဖြင့်၊ တို့ဗမာအစည်းအရုံးဝင် အချို့သည် မကျေမနပ်ရှိကြလေကုန်၏။ နောက်ဆုံးတွင် ယင်းတို့နှစ်ယောက်မှာ ရှိုနန်ခေါ် စင်္ကာပူမြို့သို့ ရောက်သွားကြလေသည်။ လွတ်လပ်ရေးကို ကမ္ဘာသိကြေငြာ၍ ပေးအပ်စေကာမူ ဂျပန်တို့၏ ရက်စက်ကြမ်းကြုတ်သော ဖက်ဆစ်အပြုအမူတို့ကို ကျိတ်မှိတ်ခံနေကြရသော မြန်မာတို့မှာ အချိန်ကောင်းကို စောင့်မျှော်လျက်ရှိကြ၏။ ၁၉၄၅ ခုနှစ်သို့အရောက်တွင်မူ ဂျပန်တို့စစ်ရေးနိမ့်ကာ မဟာမိတ်တပ်တို့သည် မြန်မာပြည်သို့ ပြန်လည်တိုက်ခိုက် ဝင်ရောက်လာကြလေသည်။ ဗိုလ်ချုပ်အောင်ဆန်း၊ ဗိုလ်နေဝင်း၊ သခင်သန်းထွန်း၊ သခင်စိုး၊ သခင်ဗဟိန်း၊ သခင်ဗိုလ်စသော လူငယ်များသည် မဟာမိတ်တပ်တို့နှင့် ဆက်ကာ၊ ဂျပန်တို့အား တော်လှန်၍ မြန်မာပြည်မှ မောင်းထုတ်ကြပြန်သည်။ ဂျပန်တို့ မြန်မာပြည်မှ လုံးဝ ထွက်ပြေးဆုတ်ခွာကြရသောအခါ အင်္ဂလိပ်မဟာမိတ်တပ်များ ဝင်ရောက်လျက် ကက်စဘီခေါ် စစ်ဘက် မြို့ပြအုပ်ချုပ်ရေးအဖွဲ့များက အုပ်ချုပ်ကြလေသည်။

ထိုအချိန် ၁၉၄၅ ခုနှစ်တွင်၊ ရန်ကုန်မြို့၌ရှိနေကြသော တို့ဗမာအစည်းအရုံးဝင် သခင်ဟောင်းများဖြစ်သူ၊ သခင်လေးမောင်၊ သခင်အေး၊ သခင်သိန်းမောင်၊ သခင်ဗသောင်း၊ သခင်ညီ၊ သခင်ကျော်စိန်၊ သခင်မြင့်၊ သခင်ဗရန်၊ သခင်ဗရင်၊ သခင်ခင်မောင် စသည်တို့သည် သခင် ကိုယ်တော်မှိုင်းအား ဥက္ကဋ္ဌတင်ပြီးလျှင် တို့ဗမာအစည်းအရုံး ဌာနချုပ်ကို ပြန်လည်ဖွင့်လှစ်ကာ ဆက်လက်ဆောင်ရွက်ကြလေသည်။ သခင်အောင်ဆန်း၊ သခင်မြ၊ သခင်သန်းထွန်း စသည့် သခင်ဟောင်းတို့ကမူ တို့ဗမာအစည်းအရုံးတွင် ဆက်လက်ပါဝင်ခြင်း မပြုတော့ဘဲ (ဖ၊ တ၊ ပ၊ လ) ဖက်ဆစ်တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ ဟူသော အမည်မှ (ဖ၊ ဆ၊ ပ၊ လ) ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ ဟူသော အမည်သို့ ပြောင်းယူကာ၊ ပါတီအလိုက်ရော တဦးချင်းပါ ပါဝင်နိုင်သောအဖွဲ့ချုပ်ကို ဖွဲ့စည်းလိုက်၏။ (ဖ၊ ဆ၊ ပ၊ လ — ရှု)။ တို့ဗမာအစည်းအရုံးကလည်း ဖ၊ ဆ၊ ပ၊ လ နှင့်ဆက်သွယ်လိုက်ကြ၏။ သို့သော် မကြာမီပင် သဘောကွဲကာ ဖ၊ ဆ၊ ပ၊ လ မှ နုတ်ထွက်လိုက်ကြလေသည်။ ဗြိတိသျှအစိုးရသည် ကက်

စဘီ အစိုးရကို ရုပ်သိမ်းပြီးနောက် ဘုရင်ခံဟောင်းဖြစ်သူ၊ ဆာ ဒေါ်မန် စမစ်အား ၁၉၃၅ ခုနှစ်၊ မြန်မာပြည်အုပ်ချုပ်ရေးဥပဒေအရ အုပ်ချုပ်စေသည်။ ဘုရင်ခံ ဆာ ဒေါ်မန် စမစ်သည် ဗမာပြည်အား ဒိုမီနီယန်လွတ်လပ်ရေးပေးအပ်ရန် လာပါသည်ဟုဆိုကာ၊ ပြည်သူတို့အား ဘိတ်ခေါ်လေရာ၊ တို့ဗမာအစည်းအရုံးသည် ထိုအုပ်ချုပ်ရေးအဖွဲ့တွင် ပါဝင်ရွက်ဆောင်လေသည်။ သခင်ရန်အောင်သည် ဝန်ကြီးအဖြစ်၄င်း၊ သခင်ညီ၊ သခင်အေး၊ သခင်ကျော်စိန်၊ သခင်လူထွန်းတို့သည် ဥပဒေပြုအမတ်များအဖြစ်နှင့်၄င်း ဆောင်ရွက်ကြ၏။ မကြာမီ သခင်ထွန်းအုပ် ပြန်လည်ရောက်ရှိလာရာ သခင်ထွန်းအုပ်လည်း ဝန်ကြီးတနေရာက ပါဝင်ဆောင်ရွက်လေသည်။ ဤသို့လျှင် ဆာ ဒေါ်မန် စမစ် အုပ်ချုပ်ရေး လုပ်ကိုင်နေစဉ် ဗမာနိုင်ငံပုလိပ်အဖွဲ့ကြီးနှင့် အမှုထမ်းပေါင်းစုံ အဖွဲ့ကြီးတို့၏ သပိတ်အရေးတော်ပုံများ ပေါ်ပေါက်လာလေရာ၊ ဗြိတိသျှအစိုးရသည် ဘုရင်ခံ ဆာ ရယ်ဂျီနယ် ဒေါ်မန် စမစ်အား ပြန်၍ခေါ် ရလေတော့သည်။ ယင်း၏နေရာတွင် ဘုရင်ခံအဖြစ် ဆာ ဟင်နရီ နိုက် ခေတ္တရောက်ရှိလာပြီး မကြာမီပင်လျှင် ဘုရင်ခံ ဆာ ဟူးဘတ် ရန့်စ် ရောက်လာလေတော့၏။

ဆာ ဟူးဘတ် ရန့်စ် ရောက်ရှိလာပြီး မကြာမတင်ပင် (ဖ၊ ဆ၊ ပ၊ လ) နှင့်စေ့စပ်၍ ဗိုလ်ချုပ်အောင်ဆန်းအား အစိုးရအဖွဲ့ဖွဲ့ရန် လွှဲအပ်လေသည်။ ဗိုလ်ချုပ်အောင်ဆန်း အစိုးရဖွဲ့သောအခါ၊ တို့ဗမာအစည်းအရုံး၏ကိုယ်စားလှယ်အဖြစ် ဂျာဗားမှ ပြန်လည်ရောက်ရှိလာသော သခင်ဗစိန်အား ဝန်ကြီးအဖွဲ့တွင် ထည့်သွင်းခန့်ထားလေသည်။ ထိုအချိန်တွင် တို့ဗမာအစည်းအရုံးကြီး၏ အာဘော်ဖြစ်သောနေ့စဉ်ထုတ် သခင်သတင်းစာကို သခင်အေးနှင့်သခင်ထွန်းအုပ်တို့က တာဝန်ယူထုတ်ဝေကာ၊ အရေးကြီးသော နိုင်ငံရေးကိစ္စအဝဝတို့ကို ပြင်းပြင်းထန်ထန် ဝေဖန်ရေးသားလျက်ရှိလေသည်။ နောက်များမကြာမီ ၁၉၄၇ ခုနှစ်တွင်၊ ဗမာ့လွတ်လပ်ရေးကိစ္စအတွက် ဆွေးနွေးရန် ဗြိတိသျှအစိုးရက ဘိတ်ခေါ်လေရာ၊ ဗိုလ်ချုပ်အောင်ဆန်း၊ ဦးဘဖေ၊ ဂဠုန်ဦးစော၊ ဦးတင်ထွဋ်တို့နှင့်အတူ တို့ဗမာအစည်းအရုံး၏ ကိုယ်စားလှယ်အဖြစ် သခင်ဗစိန်လည်း လိုက်ပါသွားရလေသည်။ ထိုလန်ဒန်ဆွေးနွေးပွဲတွင် ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်သဘောကွဲကြလေရာ၊ ရန်ကုန်မြို့သို့ ပြန်လည်ရောက်ရှိသည်နှင့်တပြိုင်နက် တို့ဗမာအစည်းအရုံး သခင်ဗစိန်သည် ဗိုလ်ချုပ်အောင်ဆန်း (ဖ၊ ဆ၊ ပ၊ လ) အစိုးရအဖွဲ့မှ နုတ်ထွက်လိုက်လေသည်။ ထို့နောက် ၁၉၄၇ ခုနှစ်၊ ဇူလိုင်လ ၁၉ ရက်နေ့သို့ ရောက်သောအခါ ဗိုလ်ချုပ်အောင်ဆန်း အစိုးရအဖွဲ့မှာ လူသတ်သမားတို့လက်ချက်ဖြင့် အစိုးရအဖွဲ့ဝင် ဝန်ကြီး ၆ ဦး၊ အမှုထမ်း ၂ ဦးတို့နှင့်အတူ ဗိုလ်ချုပ်အောင်ဆန်းပါ ကွယ်လွန်ကြရရှာလေသည်။ ဗြိတိသျှအစိုးရသည် ဖ၊ ဆ၊ ပ၊ လ ဒုတိယဥက္ကဋ္ဌသခင်နုအား အစိုးရဖွဲ့ရန် အပ်နှင်းပြီးလျှင် ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်နေ့သို့ ရောက်ရှိသောအခါ မြန်မာပြည်အား လွတ်လပ်သော ပြည်ထောင်စုသမတနိုင်ငံတော်ဟူ၍၊ ကမ္ဘာသိ ကြေငြာပေးအပ်လေ၏။ တို့ဗမာအစည်းအရုံးသည်ကား အတိုက်အခံ အစည်းအရုံးအဖြစ် ဆက်လက်တည်ရှိလျက်၊ အစည်းအရုံးဝင်သခင်ဟောင်းအချို့တို့သည် တို့ဗမာအစည်းအရုံးမှ ဖယ်ခွာ၍ အဖွဲ့သစ်များ တည်ထောင်သွားကြကုန်သော်လည်း သခင်ဟောင်းအချို့တို့သည်ကား တို့ဗမာအစည်းအရုံးဟူသော အမည်ဖြင့် ယခုတိုင် ဆက်လက်လုပ်ဆောင်လျက် ရှိကြလေသတည်း။ **သခင်အေး**

**တိုကျိုမြို့။** ။တိုကျိုမြို့သည် ဂျပန်နိုင်ငံ၏ မြို့တော်ဖြစ်သည်။ ဂျပန်နိုင်ငံတွင် အကြီးဆုံးမြို့ဖြစ်၍၊ ကမ္ဘာပေါ်ရှိ အကြီးဆုံးမြို့ကြီး သုံးမြို့အနက် တတိယလိုက်သောမြို့ဖြစ်သည်။ မြို့၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၆၁ မိုင်ခန့်ရှိသည်။ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ၅,၃၈၅,၀၇၁ ယောက်ရှိသည်။ တိုကျိုမြို့သည် နှစ်

တိုကျိုတက္ကသိုလ်၏ အထိမ်းအမှတ်အဆောက်အအုံ



ကြိမ်မျှ အကြီးအကျယ် ပျက်စီးခဲ့ရဘူးသည်။ ပဌမအကြိမ်မှာ ၁၉၂၃ ခုနှစ်တွင် ငလျင်လှုပ်၍ မီးဘေးသင့်သောကြောင့် လူပေါင်း တသိန်းခွဲမျှ သေကြေပျက်စီးသည်။ သို့ရာတွင် မြို့အနေအထားကို ခေတ်နှင့်လျော်စွာ ပြန်လည်တည်ဆောက်ခဲ့ရာ၊ လူဦးရေ ခုနစ်သန်းအထိ တိုးပွားခဲ့ဘူး၏။ ဒုတိယအကြိမ်မှာ ဒုတိယကမ္ဘာစစ်အတွင်းက အမေရိကန်ဗုံးကြဲလေယာဉ်ပျံတို့က အကြိမ်ကြိမ်ဗုံးကြဲချသဖြင့် ဖြစ်၏။ သို့သော် ယခုအခါ မြို့ကို လုံးဝပြန်လည်ထူထောင်ပြီးဖြစ်သဖြင့် လူဦးရေမှာ တနေ့တခြား တိုးပွားလျက်ရှိသည်။

ဂျပန်ကျွန်းစုရှိ အဓိကကျွန်းမှာ ဟွန်ရှူးကျွန်းဖြစ်၏။ ထိုကျွန်း၏ အရှေ့တောင်စွန်းတွင် တိုကျိုပင်လယ်အော်ဟူ၍ ရှိသည်။ တိုကျိုမြို့သည် ထိုတိုကျိုပင်လယ်အော်၏ထိပ်တွင် တည်ရှိသည်။ ထိုပင်လယ်အော်၌ ပင်လယ်ကူးသင်္ဘောများသည် ဘေးရန်အန္တရာယ်ကင်းရှင်းစွာ ဆိုက်ကပ်နိုင်သောကြောင့်၊ ကူးသန်းရောင်းဝယ်ရေးသည် များစွာ အဆင်ပြေလေသည်။ တိုကျိုမြို့၏ ပတ်ဝန်းကျင်၌ လူဦးရေ ၁၄ သန်းကျော်တို့ မှီခိုနေထိုင်ရာဖြစ်သော ကွယ်ဝသည့် ကွမ်တိုလွင်ပြင် တည်ရှိသည်။ ဤအကြောင်းတို့ကြောင့် တိုကျိုမြို့တော်သည် ကမ္ဘာပေါ်တွင် ကြီးမားသော ပင်လယ်ဆိပ်ကမ်းမြို့ကြီး ဖြစ်ရသည်။

တိုကျိုမြို့ တည်ရာဒေသမှာ ၁၂ ရာစုနှစ်က တည်ထောင်ထားသော ယေဒိုခေါ် ရွာငယ်ဖြစ်သည်။ ခရစ် ၁၈၆၈ ခုနှစ်တွင် ယေဒိုဟူသောအမည်ကို အရှေ့မြို့တော်ဟု အဓိပ္ပါယ်ရသော တိုကျိုမြို့ဟု ပြောင်းလိုက်သည်။

တိုကျိုမြို့၌ စည်ကားသော ရပ်ကွက်ကြီးများ ရှိလေသည်။ ဂင်ဇာဟူသော ရပ်ကွက်မှာ မြို့၏အချက်အခြာဖြစ်၍၊ ဈေးဆိုင်များ၊ ကုန်စုံဆိုင်များ၊ ရုပ်ရှင်ရုံများ၊ ပြဇာတ်ရုံများ၊ ဟိုတယ်များဖြင့် များစွာစည်ကားသည်။ ဂင်ဇာရပ်ကွက်၏ အနောက်ဖက်တွင်မူကား၊ အစိုးရရုံးနှင့် အစိုးရအဆောက်အအုံများဖြင့် ပြည့်နှက်နေသော မာရုနိုဥချိ ရပ်ကွက်ရှိသည်။ ထိုရပ်ကွက်၏ အလယ်ဗဟိုရှိ မာရုနိုဥချိအဆောက်အအုံသည် တိုကျိုမြို့ရှိ အကြီးဆုံးသော အဆောက်အအုံများတွင် အပါအဝင်ဖြစ်သည်။ ထိုရပ်ကွက်၏ အနောက်တွင် ဂျပန်ဘုရင်စံမြန်းရာ နန်းတော်ရှိသည်။ ထိုနန်းတော်ရာကို ကျုံးကြီး ပတ်လည်ဝိုင်းလျက်ရှိသည်။ နန်းတော်အဝင်ဝ၌ စစ်ရေးပြရာ ကွင်းပြင်ကြီးရှိသည်။ မာရုနိုဥချိရပ်ကွက်၏ တောင်ဖက်၌ကား ဟိဗုယာ၊ ရှိဗုယာနှင့် အကာဆာကာ ရပ်ကွက်များရှိကြသည်။ ထိုရပ်ကွက်တို့နှင့် စပ်၍ တောင်ကုန်းပေါ်တွင် ဂျပန် ဒိုင်းယက်လွှတ်တော် အဆောက်အအုံ တည်ရှိသည်။



**တိုကျိုမြို့ရှိ ဂျပန်နိုင်ငံထွက်ပစ္စည်းများဖြင့်သာ တည်ဆောက်ထားသော ဒိုင်းယက်လွှတ်တော်**



တိုကျိုမြို့၏ အချက်အချာစည်ကားလှသည့် ဂင်ဇာရပ်ကွက်

တိုကျိုမြို့သည် ဂျပန်နိုင်ငံယဉ်ကျေးမှုအတွက် ဗဟိုအချက်အခြာမြို့ကြီး ဖြစ်သည့်အားလျော်စွာ၊ တိုကျိုတက္ကသိုလ်တည်ရာဌာန ဖြစ်လေသည်။ တိုကျိုမြို့၌ ဂျပန်ရိုးရာယဉ်ကျေးမှုကို ဖော်ပြရာဖြစ်သော ကဗူကီ နန်းတွင်းဇာတ်များ ပြသရာ ပြဇာတ်ရုံကြီးများရှိသည်။ ရုပ်ရှင်လုပ်ငန်းနှင့် စပ်လျဉ်း၍ တိုကျိုမြို့သည် ဗဟိုဌာနဖြစ်လေသည်။ ကိုးကွယ်ရာ အယူဝါဒနှင့် စပ်လျဉ်း၍လည်း၊ ရိုးရာနှင့်ဆိုင်သော ယာစာကုနီ နတ်ကွန်း၊ ဗုဒ္ဓအယူဝါဒနှင့်ဆိုင်သော ကန်နွန်ဘုရားတန်ဆောင်း၊ ခရစ်ယန်နှင့်ဆိုင်သော ရောမကက်သလစ်နှင့် ပရိုတက်စတန့် ဘုရားရှိခိုးကျောင်းစသည်တို့ ရှိကြသည်။ တိုကျိုမြို့တွင် အကြီးအကျယ်ဆုံးသော ပန်းခြံမှာ ဥနော ပန်းခြံဖြစ်သည်။ ထိုပန်းခြံတွင် ဂျပန်နိုင်ငံ၌ အကြီးဆုံးသော တိရစ္ဆာန်ရုံရှိသည်။

တိုကျိုမြို့သည် ကုးသန်းရောင်းဝယ်ရေးအတွက် အဓိကသင်္ဘောဆိပ်မြို့ပင် ဖြစ်သော်လည်း၊ စက်မှုလက်မှုလုပ်ငန်း၌ကား များစွာအရေးပါသော မြို့မဟုတ်ချေ။ တိုကျိုမြို့ ပတ်ဝန်းကျင် ထွက်ကုန်မှာ အငယ်စား စက်မှုလက်မှု လုပ်ငန်း ထွက်ကုန်များသာ ဖြစ်သည်။ သို့သော် တိုကျိုမြို့မှာ ဂျပန်တနိုင်ငံလုံးရှိ မီးရထားလမ်းဆုံဖြစ်သည်။ ဓာတ်ရထား၊ ဘတ်စကား၊ မြေအောက်မီးရထား စသည့်တို့သည် အနောက်နိုင်ငံ မြို့ပြကြီးများနှင့် မခြား သယ်ယူပို့ဆောင်ရေးလုပ်ငန်းကို မပြတ်မလပ် ဆောင်ရွက်လျက်ရှိလေသည်။

**တိုဂျို, ဟိဒဲကီ** (ခရစ် ၁၈၈၄–၁၉၄၈)။ ။ဟိဒဲကီ တိုဂျိုသည် ဒုတိယကမ္ဘာစစ်ကြီးအတွင်းက (၁၉၄၁–၄၄ ခုနှစ်) ဂျပန်ဝန်ကြီးချုပ်အဖြစ်ဖြင့် ထင်ရှားသော ပုဂ္ဂိုလ်တဦးဖြစ်လေသည်။ ၁၈၈၄ ခုနှစ်တွင် ဂျပန်နိုင်ငံ တိုကျိုမြို့တော်၌ ဖွားမြင်ခဲ့၍၊ ဖခင်မှာ ၁၉၀၄–၀၅ ခုနှစ် ရုရှဂျပန်စစ်ပွဲအတွင်းက ထင်ပေါ်ကျော်ကြားခဲ့သော ဗိုလ်ချုပ်မှူး အဲဒီးကျို တိုဂျိုဖြစ်လေသည်။ မျိုးရိုးအားဖြင့် ဆာမူရိုင်းခေါ် သူရဲကောင်းအဆက်အနွယ်မှ ဆင်းသက်ပေါက်ဖွားလာသူဖြစ်သည့်အတိုင်း တိုဂျိုသည် အရွယ်ရောက်သောအခါ၊ တိုကျိုမြို့တော်ရှိ စစ်ဦးစီးအရာရှိကောလိပ်တွင် ပညာသင်ကြားခဲ့လေသည်။ စစ်ကောလိပ်ကျောင်းမှ ထွက်သောအခါ စစ်ဗိုလ်တဦးဖြစ်လာ၍ စစ်ပညာသင်ဆရာအလုပ်ကို ခေတ္တမျှ လုပ်ကိုင်ခဲ့ပြီးနောက်၊ တိုဂျိုသည် မန်းချူးရီးယားပြည်တွင် တပ်ခွဲများကို စေလွှတ်ထားသော ကွမ်တန်စစ်တပ်သို့ ဝင်ရောက်အမှုထမ်းခဲ့လေသည်။



ဒုတိယကမ္ဘာစစ်အတွင်း ဂျပန်နိုင်ငံ၏ဝန်ကြီးချုပ် တိုဂျို

ကွမ်တန်စစ်တပ်ထဲတွင် ဂျပန်နယ်ချဲ့စံနစ်ကို အကောင်အထည်ပေါ်အောင် အထူးပင် လုံးပန်းနေသော စစ်အရာရှိ အချို့ ပါဝင်လေသည်။ ယင်းစစ်အရာရှိများသည် ၁၉၃၁ ခုနှစ်တွင် မန်ချူးရီးယားပြည်ကို သိမ်းပိုက်ရန် စီစဉ်ခဲ့ကြသည်။ ထိုနောက် တရုပ်နိုင်ငံကို ချင်းနင်းဝင်ရောက် တိုက်ခိုက်ရန်လည်း စီစဉ်ခဲ့ကြသည်။ တိုဂျိုသည် ကွမ်တန်စစ်တပ်ထဲတွင် ရာထူး တဆင့်ပြီးတဆင့် တက်ကာ နာမည်ထွက်လာခဲ့လေသည်။ ၁၉၃၇ ခုနှစ်တွင် ဒုတိယဗိုလ်ချုပ် အဆင့်အတန်းနှင့် တရုပ်နိုင်ငံရှိ ဂျပန်စစ်တပ်များ၏ စစ်ဦးစီးချုပ်အဖြစ် ဆောင်ရွက်ခဲ့ရလေသည်။ ထိုစဉ်က တရုပ်နိုင်ငံရှိ ဂျပန်စစ်အရာရှိများ၏ မှတ်တမ်းကို စစ်ဆေး၍ ကွမ်တန်စစ်တပ်၏ ရည်မှန်းချက်များကို သဘောမကျသူများအား ရာထူးမှ ဖြုတ်ချခဲ့လေသည်။

၁၉၃၈ ခုနှစ်တွင် တိုဂျိုသည် နိုင်ငံရေးတွင် ဝင်ရောက်ဆောင်ရွက်သည်။ ဒုတိယစစ်ဝန်ကြီးရာထူးကို လအနည်းငယ်ခန့် လုပ်ကိုင်ရပြီးနောက် ၁၉၄၀ ပြည့်နှစ်တွင် စစ်ဝန်ကြီးဖြစ်လာလေသည်။ စစ်ဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့စဉ် ဂျပန်၊ ဂျာမန်၊ ဣတလီ ဝင်ရိုးတန်းသုံးနိုင်ငံ မဟာမိတ်စာချုပ်ကို ဖြစ်မြောက်အောင် ကူညီခဲ့သည်။ ထိုစဉ်က နန်းရင်းဝန်မှာ ကိုနိုယေး ဖြစ်လေသည်။

၁၉၄၁ ခုနှစ် အောက်တိုဘာလတွင် ဝန်ကြီးချုပ်ရာထူးကို ဆက်ခံရလေသည်။ ထိုအပြင် တိုဂျိုသည် စစ်ဦးစီးချုပ်အဖြစ်လည်း တွဲဖက်ဆောင်ရွက်ခဲ့သည်။ ယင်းသို့ ဝန်ကြီးချုပ်က စစ်ဦးစီးချုပ်ရာထူးကို ယူထားသည်မှာ ဂျပန် ဥပဒေနှင့် ဆန့်ကျင်နေလေသည်။ သို့သော်လည်း တိုဂျိုမှာ အာဏာရှင်တပိုင်း ဖြစ်နေရာ မည်သူမျှ အတိုက်အခံ မပြုဝံ့ခဲ့ချေ။

တိုဂျို နန်းရင်းဝန်ဖြစ်၍ တလခွဲခန့် ရှိသောအခါ၊ ဂျပန်သည် အမေရိကပိုင် ပါးလဟာဗာကို စစ်လေယာဉ်ပျံများဖြင့် ဗုံးကြဲတိုက်ခိုက်ခဲ့လေသည်။ စစ်ဖြစ်စ နှစ်များတွင် ဂျပန်တို့သည် အရှေ့အာရှတိုက်ဒေသတွင် နေရာတိုင်း၌ အောင်မြင်ခဲ့ကြသော်လည်း၊ ၁၉၄၃–၁၉၄၄ ခုနှစ်များသို့ ရောက်လာသောအခါ နေရာအနှံ့အပြားတွင် အရေးနိမ့်လျက်ရှိလေတော့သည်။ တိုဂျိုအစိုးရမှာလည်း တနေ့တခြား လူကြိုက်နည်းလာလေရာ၊ ၁၉၄၄ ခုနှစ် အတွင်း၌ ဂျပန်ပိုင် ဆိုင်ပန်ကျွန်း ကျဆုံးသည်တွင် တိုဂျို ရာထူးမှ နုတ်ထွက်ခဲ့ရလေသည်။

၁၉၄၅ ခုနှစ် စက်တင်ဘာလတွင် အမေရိကန်တပ်များက ဂျပန်ကျွန်းကို တက်ရောက်ပြီးသောအခါ၊ တိုဂျိုသည် ရန်သူ့အဖမ်းမခံလိုသဖြင့် မိမိကိုယ်ကို သေနတ်နှင့်ပစ်၍ အဆုံးစီရင်ရန်ကြိုးစားခဲ့၏။ သေနတ်ဒဏ်ချက်မှာ အတော်ပင် ပြင်းထန်သော်လည်း၊ အမေရိကန်ဆရာဝန်များက ကုသပေး၍ ပြန်လည်ကျန်းမာလာသဖြင့် သူ၏ရည်ရွယ်ချက်လည်း အထမမြောက်ခဲ့ချေ။ အမေရိကန်စစ်ခုံရုံးက တိုဂျိုအား စစ်ရာဇဝတ်ကောင်တဦးအဖြစ် တရားစွဲဆိုစစ်ဆေးပြီးနောက်၊ သေဒဏ်အပြစ်ပေးကာ ၁၉၄၈ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် အဆုံးစီရင်လိုက်လေသည်။

**တိုဗဂ္ဂန်စီးခြင်း။** ။တိုဗဂ္ဂန်စီးခြင်းသည် ဆောင်းရာသီကစားနည်းတမျိုး ဖြစ်သည်။ တိုဗဂ္ဂန်ဟူသည်မှာ ပျဉ်ပြားများ ပေါင်းစပ်ထားသော ချပ်ပြားကြီးဖြစ်၍ ထိပ်ဖက်တွင် ဦးကော့ထားသည်။ အောက်ခြေအပြင်ဖက်ကို ချောမွတ်နေအောင် ပွတ်တိုက်ထားရသည်။ အရှည်မှာ ၈ ပေခန့်ရှိ၍၊ အကျယ် ၁ ပေခွဲခန့် ရှိသည်။ အများအားဖြင့် လူ ၄ ယောက်စီးကြသည်။ နောက်ဆုံးလူက ပဲ့ကိုင်၏။ တိုဗဂ္ဂန်တွင် ဘီးများမပါချေ။ ရေခဲပြင်နှင့် နှင်းဖုံးနေသော တောင်ကုန်းများပေါ်မှ အရှိန်နှင့် လျှောဆင်းရသည်။ မြေပြန့်များသည့်ဒေသ၌ အရှိန် များများရစေရန် ကုန်းလျှောသဖွယ် ပြုလုပ်ထားရ၏။ တိုဗဂ္ဂန်ကို တနာရီလျှင် ၆၁ မိုင်နှုန်းစီးနိုင်သည့် စံချိန်ရှိသည်။ အင်ဒီးယန်းအမဲလိုက်မုဆိုးများသည် တိုဗဂ္ဂန်ကို သစ်ခေါက်ဖြင့် စတင်ပြုလုပ်ခဲ့ကြသည်။ နှင်းထူထပ်သောနေရာ၌ အမဲ သား



တိုဗဂ္ဂန်စီးခြင်းသည် ဘီးမပါဘဲလျှောစီးရသည့် ဆောင်းရာသီကစားနည်းတမျိုးဖြစ်သည်။

ကောင်များကို တိုဗဂ္ဂန်တွင်တင်၍ ယူဆောင်လေ့ရှိသည်။ အက်စကီးမိုး လူမျိုးများကမူ တိုဗဂ္ဂန်ကို ဝေလငါးရိုးဖြင့် လုပ်သည်။ တိုဗဂ္ဂန်စီး၍ ကစားခြင်းကို ဆွစ်ဇာလန် နိုင်ငံ၌ ၁၉ ရာစုနှစ်ခန့်တွင် စတင်ပြုလုပ်ခဲ့၏။ ယခုအခါ ထိုကစားနည်းသည် အမေရိကနှင့် ဥရောပတိုက်တို့တွင် ပြန့်ပွားလျက်ရှိနေသည်။ ဗော့ဗစလက် ကစားနည်းမှာ တိုဗဂ္ဂန်ကစားနည်းတမျိုးပင် ဖြစ်သည်။ ကိုယ်ထည်မှာ ပျဉ်ချပ်ဖြင့်မဟုတ်ဘဲ သံမဏိဖြင့်လုပ်ထားခြင်းသာ ကွာခြား၏။ တနာရီလျှင် မိုင် ၃၀ မှ ၇၀ အထိ ရောက်နိုင်သည်။ ကိုယ်ထည်အရှည်မှာ ၉ ပေမှ ၁၂ ပေခန့်အထိ ရှိ၍ ၂ ယောက်ထိုင်၊ ၄ ယောက်ထိုင်ဟူ၍ အစားစားရှိလေသည်။

**တိုရွန်တိုမြို့။** ။တိုရွန်တိုမြို့သည် ကနေဒါနိုင်ငံ အွန်တေးရီးယိုးနယ်၏ မြို့တော်ဖြစ်၏။ မြို့၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄၀ ရှိ၍၊ လူဦးရေမှာ ၁၉၄၅ ခုနှစ်တွင် ၆၇၆,၈၈၇ ယောက်ရှိလေသည်။ တိုရွန်တိုမြို့သည် အွန်တေးရီးယိုးရေအိုင်၏မြောက်ဖက် ပေ ၃၀၀ ခန့်မြင့်သော ကုန်းမြေပေါ်တွင် တည်ရှိ၏။ ဒွန်မြစ်သည် မြို့၏အရှေ့ပိုင်းကို ဖြတ်၍ စီးဆင်းပြီးလျှင်၊ အနောက်ဖက်တွင်မူကား ဟမ်းဗားမြစ်က နယ်နိမိတ်သတ်ထားလေသည်။

တိုရွန်တိုမြို့၏အမည်ဟောင်းမှာ ယော့မြို့ဖြစ်၏။ အမေရိကန် လွတ်လပ်ရေးစစ်ပွဲအတွင်းက မီးရှို့ဖျက်ဆီးခြင်း ခံခဲ့ရ၏။ သို့ရာတွင် မကြာမီအတွင်း အသစ်တည်ကာ ပြန်လည်ထူထောင်ခဲ့သဖြင့် ယခုအခါ ကနေဒါနိုင်ငံတွင် ကြီးကျယ်ခမ်းနားသော မြို့ကြီးတမြို့ ဖြစ်လာလေပြီ။ ဤမြို့တွင် နေထိုင်သူများသည် များသောအားဖြင့် အမေရိကန် လွတ်လပ်ရေးစစ်ပွဲအတွင်းက ဗြိတိသျှတို့ဖက်မှ ပါဝင်တိုက်ခိုက်ခဲ့သော စစ်သည်တော်တို့၏ အဆက်အနွယ်များဖြစ်သည်။

တိုရွန်တိုမြို့တွင် လှပသော အဆောက်အအုံကြီးများ အများအပြား ရှိသည့်အနက်၊ မြို့လယ်ရှိ ဘုရင်မပန်းခြံအတွင်း၌ သဲကျောက် အနီအပြာဖြင့် ဆောက်လုပ်ထားသော ပါလီမန်အဆောက်အအုံများ၊ မိုးထိအဆောက်အအုံများ၊ မြို့တော်ခန်းမ၊ ဘုရားရှိခိုးကျောင်း၊ တက္ကသိုလ်ကျောင်း၊ ကနေဒီယန် ကူးသန်းရောင်းဝယ်ရေးဘဏ်နှင့် ရှိုင်ယယ်ယော့ဟိုတယ်တို့သည် ထင်ရှား၏။ တိုရွန်တိုတက္ကသိုလ်၌ပါဝင်သော ကောလိပ်ကျောင်းပေါင်း လေးကျောင်းရှိသည်။ ထို့ပြင် ကူးသန်းရောင်းဝယ်ရေးနှင့် စက်မှုလက်မှုပညာသင် တန်းမြင့်ကျောင်း၊ မိန်းကလေးကျောင်းနှင့် ဥပဒေပညာသင်ကျောင်းများလည်း ရှိလေသည်။ တိုရွန်တိုမြို့၌ ဆေးရုံပေါင်း ၇၂ ခုရှိရာ၊ ၁၀ ခုမှာ ပြည်သူ့ဆေး



ကနေဒါနိုင်ငံ၏ ဒုတိယအကြီးဆုံးမြို့ဖြစ်သော တိုရွန်တိုမြို့

ရုံကြီးများဖြစ်၍၊ တိုရွန်တိုဆေးရုံမှာ အကြီးဆုံးဖြစ်သည်။

တိုရွန်တိုမြို့သည် စက်မှုလုပ်ငန်း ထွန်းကားသော မြို့ကြီး တမြို့ဖြစ်ရာ၊ အငယ်ဆုံးသော ဆပ်ပြာချက်လုပ်ငန်းမှ အကြီးဆုံးသော သံစက်ကရိယာလုပ်ငန်းအထိ ရှိသည်။ ကုန်စည်ထုတ်လုပ်ရေးအတွက် ကုန်စိမ်း ကုန်ရိုင်းကို မြို့နှင့်မနီးမဝေး ရှိ နယ်များမှ ရရှိနိုင်၍၊ လျှပ်စစ်ဓာတ်အားကိုမူ၊ မြို့နှင့် ၇၃ မိုင်ခန့် သာဝေးသော နိုင်အဂ္ဂရာရေတံခွန်မှ ရရှိနိုင်လေသည်။ မြို့တွင်း သွားလာရေးအတွက်လည်း လျှပ်စစ်ဓာတ်အားဖြင့် သွားသော မီးရထားနှင့် ကားများရှိလေသည်။ တိုရွန်တိုမြို့သည် လမ်းပန်းသာယာသော ဆိပ်ကမ်းမြို့လည်း ဖြစ်ခြင်းကြောင့်၊ ကုန်စည်များကို ရေလမ်းမှရင်း၊ ကုန်းလမ်းမှရင်း အလွယ်တကူ တင်ပို့နိုင်လေသည်။

စက်မှုလက်မှုနှင့် ကုန်ကူးသန်းရေး၌ တွင်ကျယ်ထွန်းကားသော မြို့ဖြစ်သောကြောင့် ကနေဒီယန် အမျိုးသား စက်မှုလက်မှုပညာပြပွဲကြီးကို တိုရွန်တိုမြို့၌ နှစ်စဉ်ခင်းကျင်း ပြသလေ့ရှိသည်။ ထိုပြပွဲကြီးသည် ကမ္ဘာပေါ်တွင် အကြီးကျယ်ဆုံးပြပွဲဖြစ်၍၊ အမေရိကန်ပြည်ထောင်စုမှပင် လာရောက်ကြည့်ရှုကြရသည်။ နွားမွေးမြူရေး လုပ်ငန်း၊ ကောက်ပဲသီးနှံ စိုက်ပျိုးရေးလုပ်ငန်း၊ သစ်လုပ်ငန်း၊ ကျောက်မီးသွေးတူးဖော်ရေးလုပ်ငန်း စသောလုပ်ငန်းများလည်း တိုးတက်ကြီးပွားလျက်ရှိလေသည်။

**တိုး၊ ဦး၊ ရွှေတိုက်စိုး** (မြန်မာ ၁၁၁၃–၁၁၅၈)။ ။ရကန်လောကတွင် ပဌမတန်းစားဟု စံတင်ထိုက်သော ရာမရကန်ဆရာ ဦးတိုးသည် ၁၁၁၃ ခုနှစ်တွင် စိုင်နံ့သာရွာ၌ ဖွားမြင်လေသည်။ အချို့ကလည်း ရွှေဘိုမြို့အနီး၊ ဆီးတောရွာတွင် ဖွားမြင်သည်ဟုဆိုကြ၏။ ရဟန်းဘဝနှင့် စာပေကျမ်းဂန်လေ့လာဆည်းပူး၏။ ဆင်ဖြူရှင်မင်းနှင့် စဉ့်ကူးမင်းလက်ထက်တွင် မင်းမှုထမ်း၏။ ထိုစဉ်က ဆောင်းပါးများ၊ သီချင်းများရေးသောကြောင့် ဆောင်းပါးမောင်တိုးဟု နာမည်ကျော်ခဲ့သည်။ ကဗျာလင်္ကာများတွင်သာမက သဒ္ဒါပရမတ်ကျမ်းဂန်၌လည်း နှံ့စပ်သည်။ စာဟောင်းပေဟောင်းတို့၌ နားလည်တတ်မြောက်သဖြင့် မင်းညီမင်းသားမှစ၍ ဗဟုသုတလိုလားသူတို့ အားကိုးအားထားပြုသော ဆရာတဦးဖြစ်၏။ ရှေးဟောင်း ပေပုရပိုက်တို့ကိုချည်း လေ့လာနေသည်မဟုတ်။ ပတ်ဝန်းကျင်လောကကို သုံးသပ်ကာ လူတို့ပြုမူ ပြောဆို ကျင့်ကြံပုံတို့ကို မှတ်သားပြီးလျှင် သူ၏စာတွင် ပေါ်လွင်အောင် စပ်ဆိုလေသည်။ မိမိဘဝ ပတ်ဝန်းကျင်နှင့် နီးစပ်သော စာဆိုတဦးဖြစ်သည်။ မြန်မာစာပေလောကနယ်တွင်းရှိ အတွေးနှင့် အရေး ဆန်းကြယ်သောစာဆိုတို့တွင် ဦးတိုးသည် ခေါင်းဆောင်တဦးဖြစ်လေသည်။

ရာမရကန်ကို ဖတ်လျှင်၊ စာဆိုဦးတိုး၏ဉာဏ်မှာ သာမညသင်ဉာဏ်၊ မှတ်ဉာဏ်၊ ကျက်ဉာဏ်သာမဟုတ်။ ဝမ်းတွင်း

ပါ ပင်ကိုယ်ပါရမီဉာဏ်ဖြစ်ကြောင်း ထင်ရှား၏။ ယင်းသို့ ဉာဏ်ကလည်း ချွန်သည့်ပြင် လောကကိုလည်း လေ့လာ၍ ရေးသားသူ ဖြစ်ရကား၊ ဦးတိုး၏ အာဝဇ္ဇန်းမှာ ရှင်လှပေသည်။ ထိုကြောင့် သူရေးသားသော ရကန်မှာ လူ့လောကအကြောင်းတို့ဖြင့် ဝေဆာလျက်ရှိသည်။ · အထူးသဖြင့် လူ့သဘာဝကို အကဲခတ်လေ့ရှိသော ဦးတိုးသည် လူတို့ ကမောက်ကမပြုမူကြပုံကို ရယ်စရာဖြစ်အောင် သူ၏ရကန်တွင် စပ်ဆိုခဲ့သည်။ ဤနည်းဖြင့် လူသားတို့အား လောကဓံတရားကို ခံနိုင်ရည်ရှိ၍၊ သဘောထား ကြီးလာအောင် လမ်းညွှန်ခဲ့ပေ၏။

ဖွဲ့နွဲ့ရာ၌ ယဉ်ကျေးသိမ်မွေ့တန်သည့် နေရာတွင် များစွာ ယဉ်ကျေးသိမ်မွေ့၍ ကြမ်းတမ်းသင့်သည့် နေရာ၌ များစွာ ကြမ်းတမ်းစွာ ရေးနိုင်သူဖြစ်သည်။ ဦးတိုးသည် စကားအဆန်း လက်တန်းထွင်၍ ရေးသားရန်လည်း ဝါသနာပါ၏။ ထိုကြောင့် ဦးတိုး၏ ရာမရကန်လာ စကားအဖွဲ့အနွဲ့များကို နာမည်ကျော် စာဆိုအချို့ကပင် ထပ်၍ အမွှမ်းတင်ကာ အတုလိုက်ရေးသည်ကို တွေ့ရသည်။ ဤသို့လျှင် အခြားဆရာများက စံနမူနာထား၍ အတုယူရလောက်အောင် ဦးတိုးသည် စကားကိုနိုင်နင်းစွာ သုံးစွဲနိုင်လေသည်။ ထိုမျှမကသေး ဌာနန္တရဝေါဟာရ၊ ဒေသန္တရ၊ ဘာသန္တရ စကားရပ်များကို ရေရေလည်လည် ခမ်းခမ်းနားနား တင့်တယ်အောင် တန်ဆာဆင်ကာ နေရာနှင့်လိုက်အောင် ရာမရကန်၌ သုံးထားသည်မှာ အလွန်ပင်ခြီးကျူးဘွယ်ရာ ကောင်းလှ၏။ ရာမရကန်၌ ကတ္တား၊ ကံ၊ ကြိယာတို့ကို အလိုက်သင့်စွာ သုံးစွဲထားသည်မှာ ဦးတိုးသည် သဒ္ဒါအရာ၌ မည်မျှချက်ခြာ နားလည်ကြောင်း ထင်ရှားစေလေသည်။ စကားအသုံးအနှုန်းတို့မှာလည်း အပိုမပါ၊ ဟာလပ်ခြင်းမရှိဘဲ၊ နေရာတကာတွင် စေ့စေ့စပ်စပ်ရှိလှ၏။ အသိခက်ခဲသော စကားလုံးများကို မသုံးဘဲ၊ လူသာမန်တို့ သိလွယ်သော စကားလုံးများကို ရေးသားသူဖြစ်လေသည်။ သူရေးသောစာတို့ကို ထောက်ခြင်းဖြင့် ဦးတိုးသည် လူ့စိတ်သဘောကို အကဲခတ်တတ်သူဟု သိသာနိုင်ပေသည်။

လောက၊ ဓမ္မ၊ ရာဇသုံးကြောင်းတွင် ဦးတိုးသည် လောကအကြောင်းကို ပို၍ နိုင်နင်းသူဖြစ်သည်။ လောကကြီး၌ ဖြစ်ပျက်နေပုံကို ကွက်ကွက်ကွင်းကွင်း ပေါ်အောင် ရေးသားနိုင်သော စာပန်းချီ ဆရာကြီးတဦး ဖြစ်ပေသည်။ ရာမရကန်ကို ဦးတိုးသည် ပြီးဆုံးအောင် မရေးသားနိုင်ခဲ့ပေ။ သုဂြိတ်မျောက် လျှောက်ခန်းဖြစ်သော အပိုဒ် ၃၄ အဆုံးတွင် အနိစ္စရောက်ရှာလေသည်။ ကျန်အပိုင်းကို ဆက်လက်ရေးသားမည့် ဦးတိုးလိုလူ ပေါ်ဦးမည်လောဟု အိမ်ရှေ့မင်းသားနှင့် ဘိုးတော်ဘုရားတို့မှာ ယူကျုံးမရ တောင့်တမိကြ၏။ ထိုအခါမှ ရဟန်းဘွဲ့ ဦးဂမ္ဘီ၊ လူအမည် ဦးရွှဲက ဆက်လက်ရေးနိုင်ကြောင်း လျှောက်ထားသဖြင့် မင်းတရားကြီးမှာ များစွာ ဝမ်းမြောက်ရွှင်လန်းခြင်း ဖြစ်၍၊ ဦးရွှဲကိုပင် ဆက်လက်ရေးသားစေတော်မူလေသည်။ ဦးတိုးသည် ဘိုးတော်မင်းတရား လက်ထက်၌ မြေးတော် စစ်ကိုင်းမင်း ဧချင်းကို ရေးသားခဲ့၏။ ၁၁၄၆ ခုနှစ်တွင် အိမ်ရှေ့မင်းသားကြီး ရခိုင်သို့ ချီသောအခါတွင် ရခိုင်ချီ မောင်ဘွဲ့မယ်ဘွဲ့ ရတုများကို ရေးသားဆက်သွင်းရလေသည်။ ရာမရကန်ကြီးကိုလည်း အိမ်ရှေ့မင်း၏ အမိန့်တော်အရ ရေးသားပြုစုခြင်းဖြစ်၏။ ဦးတိုး၏ လက်ရာများထဲတွင် ရာမရကန်မှာ အကောင်းဆုံးလက်ရာဖြစ်လေသည်။

မြန်မာစာပေနယ်တွင် ထင်ရှားလှသည့် စွယ်စုံပညာရှင် ဦးပုညပင်လျှင် ဦးတိုး၏ရာမရကန်မှ သမင်၏ အမူအရာ အဖွဲ့ဖြစ်သော 'ဆိတ်စာကလေး၊ လိုက်သူနှင့်ဝေးသောခါ၊ ခေါ်သွေးခေါ်ယောင်၊ နီးပြန်အောင်လို့၊ ခြေတပေါင်ကျိုး၊ နိမ့်မျိုးနိမ့်မြင့်၊ မလှမ်းချင်ချင်၊ လှမ်းချင့်ချင့်နှင့်၊ သစ်ပင်ကိုခိုတဲ့လို့' ဟူသည့် စာပိုဒ်ကို အတုယူမှီငြမ်းပြု၍ စလေဦးမောင်ရွှေချွန် မေတ္တာစာတွင် 'စိန်ချယ်ရတီ၊ ဝဇီရာဝုတ်၊ မုတ်ပုလဲပွင့်၊ ချိုဝင့်ဝင့်နှင့်၊ ရွှေသမင့်လက္ခဏာ၊ မြက်နုံ့သာမြေညီတွင်၊ တဘက်ခွာ ခြေချီ၍၊ ပီပီလည်း မနင်း၊ ပရိယာယ် ရှစ်ဖြာဖြင့်၊ ချစ်စရာ ဖန်ဆင်း၍၊ ဟန်ခင်းကာ ကြော့လိုက်သည့်၊ တော့စရိုက် ဘာသာ' ဟု စာကွန့်တက် စပ်ဆိုခဲ့လေသည်။

ဦးတိုး ရေးသားပြုစုခဲ့သည့် စာပေကျမ်းဂန်များတွင် တောင်ငူမင်း၊ နတ်သျှင်နောင်၏ရတုကို ဖြေဆိုထားသော ကျမ်းတစောင်လည်း ပါဝင်သည်။ ယင်းတောင်ငူမင်းဆို ရတုအဖြေတွင် ဦးတိုးသည် 'ဆွတ်ပျံ့ဘွယ်အောင်' ချီ ပိုဒ်စုံရတု တပုဒ်တည်းကို ကျမ်းတစောင်တဖွဲ့ ဖြစ်သည်အထိ အကိုးအကားများ၊ ဝေဖန်နိုင်းရှည့်ချက်များနှင့် ခမ်းနားစွာ ဖြေဆိုခြင်းပြုခဲ့လေသည်။ ထိုကဲ့သို့ အဖြေရေးသားရခြင်း၏ အကြောင်းရင်းကား ဤသို့တည်း။ အမရပုရဆင်ဖြူများရှင် မင်းတရားကြီး၏သားတော် အိမ်ရှေ့ဥပရာဇာသည် စာပေကျမ်းဂန်အရာတွင် ကိုယ်တော်တိုင် လေ့လာလိုက်စား အားပေးချီးမြှောက်လေ့ရှိသော ပညာရှိ ပုဂ္ဂိုလ်ကြီးတပါး ဖြစ်သည်။ အိမ်ရှေ့မင်းသည် စာပေကျမ်းဂန်၊ သမိုင်း၊ မော်ကွန်း၊ ဗေဒင် အလင်္ကာ၊ ကဗျာ၊ ချောင်းအစရှိသည်တို့မှ နက်နဲသောခက်ဆစ်တို့ကို ကြံစည်လေ့ ရှိသောသူ ဖြစ်သည်။ ယင်းသို့ ကြံစည်အားထုတ်ရာတွင် ကျမ်းဂန်နှင့်ဆိုင်လျှင် ကံအခွဲကိုငှင်း၊ တိထီစက်ဗေဒင်နှင့်ဆိုင်လျှင် ဓာတ်အခွဲကိုငှင်း၊ သမိုင်းနှင့်ဆိုင်လျှင် မဟာသမ္မတမင်းမှစ၍ စကားကြီး စကားချပ်တို့ကိုငှင်း၊ အလင်္ကာ သဒ္ဒါနှင့်ဆိုင်လျှင် ပသာဒဒေါသ နည်းလေးဆယ်၊ ဥပစာဆယ်ပါးတို့ကိုငှင်း၊ မော်ကွန်းနှင့်ဆိုင်လျှင်လည်း မင်္ဂလာ

စေတီဘွဲ့၊ ဝတ်ရုံကျောင်းဘွဲ့၊ သျှစ်သျှားကန်ဘွဲ့၊ ပုံတောင်နိုင်အစရှိသော မော်ကွန်းများမှ နက်နဲသော ခက်ဆစ်တို့ကိုငင်း၊ ရတု ပျို့ကဗျာများနှင့် ဆိုင်လျှင်လည်း သျှင်မဟာသီလဝံသ၊ သျှင်မဟာရဋ္ဌသာရ၊ နတ်သျှင်နောင်၊ နဝဒေးအစရှိသော စာဆိုများ၏ ရတုပျို့ကဗျာများမှ ခက်ဆစ်စကားစုတို့ကိုငင်း ကြံစည်မေးမြန်း ပြောဆိုလေ့ရှိသည်။ ယင်းသို့လျှင် အိမ်ရှေ့မင်းသည် စာပေကျမ်းဂန်အရာတွင်ကိုယ်တော်တိုင် စိတ်ဝင်စားခြင်း ရှိသည်နှင့်အမျှ သူတပါးကိုလည်း အားပေးချီးမြှောက်ခြင်းပြုလေသည်။

ဤယခု နတ်သျှင်နောင်၏ ‘ဆွတ်ပျံ့ဘွယ်အောင်’ ချီပိုဒ်စုံရတုတွင်လည်း ဒုတိယပုဒ်နှင့် တတိယပုဒ်များ၌ ‘ရွှေသာပြောင်ဝင်း၊ နန်းပြုတင်းက၊ လေညှင်းမြူးရှင်၊ ကြည့်စဉ်တွင်၌၊ ဘုန်းအင်ကြီးလှ၊ ဆင်ထိုက်ရသား၊ မမျှပန်းချင်း၊ မွှေးတုကင်းကို’ ဟူ၍ငင်း၊ ‘ကော်ကျစ်၊ ပေါက်ပြလျှံမျှ၊ ညှာတံပွင့်ချပ်၊ ဖြူလှပ်ပုလဲ၊ ဇော်တစွဲလျက်၊ ဖြစ်ခဲဆင်းဝါ၊ ပန်းထွင်ချာကို’ ဟူ၍ငင်း နက်နဲကွယ်ဝှက်သော အဖွဲ့အနွဲ့ပါရှိ၍နေပေသည်။ ဤ ‘ဆွတ်ပျံ့ဘွယ်အောင်’ ချီရတုကိုပန်းထွင်ချာဘွဲ့ဟုပင် ခေါ်စမှတ်ပြုခဲ့ကြသည်။ နက်နဲကွယ်ဝှက်သော ထိုပန်းထွင်ချာဘွဲ့ကို အချို့က စွယ်တော်ဖြစ်သည်။ အချို့က မြသပိတ်ဖြစ်သည်။ အချို့ကလည်း သကျမုနိဘုရားဖြစ်သည်။ အချို့ကလည်း သရီရ ဓာတ်တော်မွေတော်ဖြစ်သည်။ အချို့ကလည်း စွယ်တော်ပန်းဖြစ်သည်ဟု အသီးသီး ဉာဏ်ကြီး ဉာဏ်ကျယ် လှယ်ပယ်ဆွတ်ခူး၍၊ အိမ်ရှေ့မင်းအား အနူးအညွတ် လျှောက်တင်ကြသော်လည်း၊ အိမ်ရှေ့မင်း၏စိတ်၌ နှစ်ခြိုက်ခြင်းမရှိခဲ့ချေ။ ထိုကြောင့် သက္ကရာဇ် ၁၁၅၁ ခုနှစ် တော်သလင်းလတွင် ဦးတိုးသည် နတ်သျှင်နောင်၏ ‘ဆွတ်ပျံ့ဘွယ်အောင်’ ချီပိုဒ်စုံရတုမှ နက်နဲကွယ်ဝှက်သော ‘ပန်းထွင်ချာ’ ဘွဲ့မှာ ထီးဖြူတော်ဖြစ်ကြောင်း အခိုင်အမာ ဖြေဆိုရေးသား၍ အိမ်ရှေ့မင်းအား တင်ဆက်ခဲ့ပေသည်။

ဦးတိုးသည် ဘိုးတော်မင်းတရားလက်ထက် ဇေယျကျော်သူ ဘွဲ့နှင့် သံတော်ဆင့်အရာ၊ ရွှေတိုက်စိုးအရာ ခန့်ထားခံရသည်။ သက္ကရာဇ် ၁၁၅၈ ခုနှစ် အသက် ၄၅ နှစ်တွင် အနိစ္စရောက်လေသည်။

**တိုးနယား။** ။တိုးနယားဟူသော သတ္တဝါသည် ပန်းချီပန်းပုဆရာတို့၏ စိတ်ကူးမျှသာဖြစ်သည်။ ပန်းချီပန်းပုတို့၏ အဆင်တန်ဆာအဖြစ်ဖြင့် တိုးနယား၏ သဏ္ဌာန်ကို အသုံးပြုလေ့ရှိသည်။ ပုံစံအားဖြင့် ကြက်လျှာ၊ တံခွန်၊ အလံစသည်တို့တွင် တိုးနယားရုပ်များကို ရေးခြယ်လေ့ရှိကြသည်။ ထို့ပြင်လည်း၊ ယွန်းထည်၊ ပန်းပုပစ္စည်း၊ မှန်စီရွှေချ သားရိုးထည်တို့တွင် ရုပ်လုံး ရုပ်ပြားများကို ခြယ်



ပွဲသဘင်များတွင် ကပြလေ့ရှိသော တိုးနယားအက

လယ်ရာ၌ တိုးနယားရုပ်ဖြင့် ခြယ်လယ်ကြသည်။ ယွန်းထည် ကလပ်ခြေတို့ကို များသောအားဖြင့် တိုးနယားဖြင့် ထုလုပ်ခြယ်လယ်သည်။ တိုးနယား၏ ကိုယ်နေဟန်မှာ ပြေပြစ် ကြော့ရှင်းသဖြင့်၊ ကျောင်းလှေကားလက်ရန်း၊ စောင်းတန်း လက်ရန်း၊ လှေကားထစ်၊ လှေကားဘောင်ဟူသည်တို့တွင် တိုးနယားဟန် ထုထွင်းမွမ်းမံကြသည်။ အုတ်တိုင်များ၌ တိုင်ဆင်းနယား ထုလုပ်ထားသည်မှာ အလွန်တင့်တယ်၏။ ကျောင်းကန်ဘုရား အဆောက်အအုံဆိုင်ရာ အနုပညာမြောက်သည့် လက်ရာကောင်းတို့တွင် တိုးနယားရုပ်ကို တွေ့ရစမြဲဖြစ်သည်။ ကုန်းဘောင်ခေတ်တွင် မြန်မာဘုရင်များ သွန်းလုပ်သော ကြေးပိုက်ဆံ၊ ငွေဒင်္ဂါးစသည်တို့တွင် တိုးနယားရုပ်ကို ထုလုပ်၍၊ ‘တိုးတံဆိပ်တော်’ ဟု ခပ်နှိပ်သည်။ မြန်မာဆိုင်းဝိုင်းတွင် ပတ်မထမ်းသည် မူလက ရိုးရိုးပင်ဖြစ်သော်လည်း၊ နောင်အခါ၌ တိုးနယားရုပ်ဖြင့် ခြယ်လယ်ထားသော ပတ်မထမ်းဖြစ်လာလေသည်။ (ဆိုင်းဝိုင်း — ရှု။) ရွှေဘုံနိဒါန်းတွင် ခြင်္သေ့ပေါင်၊ ကရဝိတ်ပေါင်၊ စာမရီပေါင်၊ ဏောင်ပေါင်များအပြင်၊ တိုးနယားပေါင်များကိုလည်း ပြုလုပ်မြဲဖြစ်ကြောင်း ဖော်ပြထားသည်။ တိုးနယားရုပ်ပုံကို ရေးခြယ်ရာ၌ ခြူးပန်း၊ ကနုတ်ပန်းတို့ကို အသုံးပြုသည်။ ကော့ညွတ်နေဟန်ရှိသော ကိုယ်ထည်တွင် ငါးကြေးခွံများ ထုထွင်းထားသည်။ ရှေးအခါမှစ၍ ယခုခေတ်တိုင်အောင် ဘုရားပွဲ၊ အလှူပွဲ၊ မင်္ဂလာပွဲများတွင် တိုးနယားအကကို ကပြလေ့ရှိကြသည်။



အနာဂတ် နိုင်ငံခေါင်းဆောင်ကောင်းများ မွေးမြူပေးရာ ရန်ကုန်တက္ကသိုလ်

**တက္ကသိုလ်။** ။အထက်တန်းပညာနှင့် ဗဟုသုတများကို စံနစ်တကျပို့ချရာ ကျောင်းကြီးများကို တက္ကသိုလ်ဟု ခေါ်သည်။ ရှေးယခင်က တက္ကသိုလ်များသည် စာပေပညာ၌ ဝါသနာပါသူတစုက အထက်တန်းပညာရပ်များကို သင်ကြားပေးရန် ဖွဲ့စည်းထားသော အဖွဲ့အစည်းများသာ ဖြစ်သည်။ သို့ရာတွင် ယခုအခါ၌မူ နိုင်ငံတော်အစိုးရ သို့မဟုတ် သာသနာပိုင်ပုပ်ရဟန်းမင်းကြီး သို့မဟုတ် ဘုရင်မင်းမြတ်တို့က ချာတာခေါ် အထူးအခွင့်အရေးပေးသော စာချုပ်ဖြင့် တည်ထောင်ခွင့်ပြုသော အထက်တန်းပညာရပ်များကို သင်ကြားပို့ချပေးသည့် ကျောင်းကြီးများကိုသာ တက္ကသိုလ်ဟု ခေါ်သည်။ ယင်းတို့သည် သတ်မှတ်ထားသော စည်းကမ်းနှင့် အဆင့်အတန်းပြည့်စုံသူများအား စာမေးပွဲဖြင့် စစ်ဆေးပြီးနောက် ဘွဲ့ထူးဂုဏ်ထူးများ ပေးအပ်နိုင်လေသည်။ ဘွဲ့ထူးဂုဏ်ထူးမပေးမီ တက္ကသိုလ်၌ တက်ရောက်သင်ကြားရန် နှစ်ပိုင်း၊ သင်တန်းတက် အချိန်ပေါင်း၊ ဖြေဆိုရမည့်စာမေးပွဲများကို သတ်မှတ်ထားလေသည်။

တက္ကသိုလ်ကို အင်္ဂလိပ်ဘာသာဖြင့် ယူနီဗာစီတီဟု ခေါ်သည်။ ယင်းစကားသည် လက်တင်စကား 'ယူနီဗာစီတပ်' မှလာ၍ အဖွဲ့အစည်းဟူသော အဓိပ္ပါယ်ရသည်။ ပညာလိုလားသူများနှင့် ဆရာများ စုပေါင်း၍ အဖွဲ့အစည်းကြီးများ တည်ထောင်ရာမှအစ ဥရောပတိုက်တွင် ယူနီဗာစီတီခေါ် တက္ကသိုလ်ကျောင်းကြီးများ ပေါ်ပေါက်လာခြင်းကြောင့် ဖြစ်သည်။ ယင်းအဖွဲ့အစည်းသို့ နိုင်ငံပေါင်းစုံမှ ပညာလိုလားသော ကျောင်းသားတို့ လာရောက် ပညာသင်၍ ထိုသူတို့အား ဆရာတို့က ထောက်ခံချက်လက်မှတ်များ ထုတ်ပေးသည့်အလေ့ ပေါ်လာသည်။ နောင်သောအခါ သာသနာပိုင် ပုပ်ရဟန်းမင်းကြီးကသော်၎င်း၊ ဘုရင်များကသော်၎င်း၊ အခွင့်အမိန့်မပေးဘဲ ပညာရေးအဖွဲ့ကြီးများ မဖွဲ့ရ၊ ဘွဲ့လက်မှတ်များ မပေးရ ဟူသော ပညတ်ချက်များ ပေါ်လာကာ အထူးအခွင့်အရေးစာချုပ်ဖြင့် တည်ထောင်သော တက္ကသိုလ်များ ပေါ်ပေါက်လာခြင်းဖြစ်သည်။

တက္ကသိုလ်များသည်အများအားဖြင့် စာပေပို့ချရာဌာနများ ဖြစ်သဖြင့် သက်ဆိုင်ရာဘာသာရပ်တခုစီအတွက် ပါမောက္ခများ၊ ကထိကများနှင့် နည်းပြဆရာများ ရှိသည်။ ထိုသူများက စာပေပို့ချခြင်း၊ ညွှန်ကြားပေးခြင်းများ ပြုသည်။ ဘာသာတရပ်စီကို ဌာနတခုစီခွဲ၍ ပါမောက္ခတဦးစီက အုပ်ချုပ်သည်။ ယင်းဌာနများကိုပင် အသွင်တူရာ ဌာနချင်း ပေါင်း၍ မဟာဌာနဟု ခေါ်သည်။ ဝိဇ္ဇာမဟာဌာန၊ သိပ္ပံမဟာဌာန၊ ဆေးမဟာဌာန၊ အင်ဂျင်နီယာမဟာဌာန၊ ပညာရေးမဟာဌာနစသည်ဖြင့် ရှိသည်။ မဟာ



အိန္ဒိယနိုင်ငံ ရာဇဂြိုဟ်ပြည်အနီးရှိ နလန္ဒာ ရှေးဟောင်းတက္ကသိုလ်

ဌာနများအားလုံးကို စုစည်း၍ ပါမောက္ခချုပ်တဦးက အုပ်ချုပ်သည်။ အချို့တက္ကသိုလ်များ၌ ထိုပုဂ္ဂိုလ်ကို ဥက္ကဋ္ဌဟူ၍၎င်း၊ သဘာပတိဟူ၍၎င်း၊ အုပ်ချုပ်ရေးမှူးဟူ၍၎င်း ခေါ်သည်။ ပါမောက္ခချုပ်သည် တက္ကသိုလ်တခုလုံး၏ အုပ်ချုပ်ရေးဆိုင်ရာ အမှုဆောင်အရာရှိကြီး ဖြစ်သည်။ တက္ကသိုလ်နှင့်သက်ဆိုင်သည့် ကိစ္စဟူသမျှကို ပါမောက္ခချုပ်က အုပ်ချုပ်ရေးကောင်စီသို့ဖြစ်စေ၊ ပညာရေးဆိုင်ရာ ဆီးနိတ်အဖွဲ့သို့ဖြစ်စေ အစီရင်ခံရသည်။ ယင်းတို့မှ သဘောတူ ချမှတ်ပေးသော လုပ်ငန်းမှန်သမျှကို ပါမောက္ခချုပ်က တာဝန်ယူဆောင်ရွက်ရသည်။ မြန်မာနိုင်ငံ တက္ကသိုလ်၌ ကောင်စီ၏ဥက္ကဋ္ဌအဖြစ် ဒုတိယအဓိပတိတဦး ခန့်ထားရသည်။ နိုင်ငံတော်ဝန်ကြီးချုပ်သည် ရာထူးအရ တက္ကသိုလ်အဓိပတိ ဖြစ်သည်။ အခြားနိုင်ငံတက္ကသိုလ်များ၌မူ အုပ်ချုပ်ပုံစံနစ်သည် တူသည့်နေရာ တူ၍ ကွဲသည့်နေရာ ကွဲသည်။

ကျောင်းသားတို့အဖို့ တက္ကသိုလ်သို့ တက်ရောက်သင်ကြားခွင့်ရရန် လိုအပ်သော အရည်အချင်းများမှာလည်း တက္ကသိုလ် တခုနှင့်တခု အနည်းငယ်စီ ကွာခြားမှုရှိတတ်သည်။ ယေဘုယျအားဖြင့် တူညီသည့်အချက်လည်း ရှိသည်။ တက္ကသိုလ်သို့ တက်ရောက်သင်ကြားနိုင်ရန် စာမေးပွဲ ဝင်ရောက်ဖြေဆိုရသည်။ ယင်းစာမေးပွဲကို တက္ကသိုလ်ဝင်စာမေးပွဲဟု ခေါ်၍ စာမေးပွဲအောင်သူများသာ တက္ကသိုလ်သို့ ဝင်ခွင့်ရနိုင်သည်။ တက္ကသိုလ်ဝင်စာမေးပွဲ ဝင်သည်မှစ၍ ဘွဲ့မရသေးမီအတွင်း ဘွဲ့မရသေးသူဟု ခေါ်၍ ဘွဲ့ပေးအပ်ခံရသည့်အခါမှ ဘွဲ့ရသူဟု ခေါ်ကြသည်။ တက္ကသိုလ်ဝင်စာမေးပွဲမဖြေဆိုမီ အထက်တန်းကျောင်း၌ ယေဘုယျအားဖြင့် အနည်းဆုံး အဆင့် ၃ ဆင့်အောင်ရသည်။ တက္ကသိုလ်ဝင်စာမေးပွဲ အောင်မြင်ပြီးနောက် ဘွဲ့ရရန် အနည်းဆုံး လေးဆင့်ဖြေရသည်။ သို့ရာတွင် ဝိဇ္ဇာဘွဲ့၊ သိပ္ပံဘွဲ့၊ မဟာဝိဇ္ဇာဘွဲ့၊ မဟာသိပ္ပံဘွဲ့၊ ဆရာဖြစ်ဘွဲ့၊ အင်ဂျင်နီယာဘွဲ့၊ ဆေးပညာဘွဲ့ စသည်ဖြင့် ဘွဲ့အမျိုးမျိုးရှိရာ သင်ကြားရသည့် နှစ်အပိုင်းအခြားခြင်း မတူချေ။ အချို့ဘွဲ့ကို လေးဆင့်ဖြေရသော်လည်း အချို့ဘွဲ့ကို ခုနစ်ဆင့်ဖြေရသည်။

မျက်မှောက်ခေတ်တက္ကသိုလ်များသည် ရှေးနှစ် ရာပေါင်းများစွာမှ စတင်ပေါ်ပေါက်ခဲ့လေသည်။ ခေတ်အဆက်ဆက်၌ လူတို့သည် ပညာအရပ်ရပ်ကို နည်းအမျိုးမျိုးဖြင့် ရှာမှီးခဲ့ကြရ၏။ ဗုဒ္ဓရှင်တော်မြတ်မပွင့်မီကာလကပင် ယခုခေတ်တက္ကသိုလ်များ၏ ရှေ့ပြေး ပညာပေး ဗဟိုဌာနကြီးများဖြစ်သော တက္ကသိုလ်ပြည် ဒိသာပါမောက္ခဆရာကြီးများထံတွင် ပညာများကို ဆည်းပူးသည့်အလေ့ ရှိခဲ့သည်။ ထို့ကြောင့် ပညာဆည်းပူးရာကျောင်းကြီးကို တက္ကသိုလ်ပြည်အား အစွဲပြု၍ တက္ကသိုလ်ဟု မှည့်ခေါ်ထားကြသည်။ ဘုရားပွင့်တော်မူပြီးနောက် ခရစ်နှစ် ၄၅၀ ခန့်တွင် ပေါ်ပေါက်၍ထင်ရှားသော မဂဓတိုင်းမှ နလန္ဒာ၊ ဝိက္ကမသီလ သြဒန္တပူရ ကျောင်းကြီးများသည်၎င်း၊ အိန္ဒိယတောင်ပိုင်း သီရိဓညကနုက ကျောင်းတိုက်သည်၎င်း၊ ဗင်္ဂလားနယ်မှ ဇဂဒ္ဒလ ကျောင်းတိုက်သည်၎င်း၊ ကျော်ကြားသော ဗုဒ္ဓတက္ကသိုလ်ကြီးများပင် ဖြစ်သည်။ ရှေးခေတ်ကမူ ယခုခေတ်ကဲ့သို့ တက္ကသိုလ်မပေါသဖြင့် ပညာလိုလားသူတို့သည် တက္ကသိုလ်ရှိရာသို့ အသက်ဆံဖျား သွားရောက်ဆည်းပူးကြရသည်။ ခရစ်မပေါ်မီဖြစ်သော လွန်ခဲ့သည့် အနှစ် ၂၀၀၀ ခန့်က အီဂျစ်နိုင်ငံ အလက်ဇန္ဒြီးယားမြို့ကြီး၌ သိပ္ပံပညာ တက္ကသိုလ်ကြီး ပေါ်ပေါက်ခဲ့သည်။ သင်္ချာဆရာကြီး ယူကလစ်၊ ကမ္ဘာ၏အရွယ်အစားကို ပဌမဆုံး တိုင်းတာသော ပညာရှင်ကြီး အီရာတော့သနီး၊ ပဌမဆုံး ကြယ်



အိန္ဒိယနိုင်ငံ ဗာရာဏသီဟိန္ဒူတက္ကသိုလ်ရှိ သသ်ကြိုက်စာပေကောလိပ်

နက္ခတ်မြေပုံကို ပြုပြင်စီရင်သော နက္ခတ်ဆရာကြီး ဟိပါကတ်၊ သိပ္ပံပညာရှင်ကြီး အာခီမိဒီ စသော ပါမောက္ခကြီးတို့သည် အလက်ဇန္ဒြီးယား တက္ကသိုလ်ကြီး၌ စာပေပို့ချခဲ့သူများ ဖြစ်ကြသည်။ ယင်းတက္ကသိုလ်ကြီးကို ထိုအချိန်က တက္ကသိုလ်ဟုမခေါ်ဘဲ အလက်ဇန္ဒြီးယားပြတိုက်နှင့် ပိဋကတ်တိုက်ကြီးဟု ခေါ်လေသည်။

ဥရောပတိုက်၏ ရှေးအကျဆုံးသောတက္ကသိုလ်မှာ အီတလီနိုင်ငံ ဆလာနိုမြို့တွင် ခရစ်နှစ် ၈၀၀ ကျော် ၉၀၀ တွင်းပေါ်ပေါက်လာသော တက္ကသိုလ်ဖြစ်သည်။ ယင်းတက္ကသိုလ်သည် ဆေးပညာသင်ကြားမှုအတွက် အထူးကျော်ကြားသည်။ ဖွင့်လှစ်စက ကျောင်းသဘောဖြစ်၍ ၁၂၃၁ ခုနှစ်တွင်မှ ထုံးတမ်းစဉ်လာအရ တက္ကသိုလ်အဖြစ် အသိအမှတ်ပြုခံရသည်။ ၁၂ ရာစုနှစ် ကုန်ခါနီးလောက်တွင် ဗိုလိုညား တက္ကသိုလ် ပေါ်ပေါက်လာသည်။ ယင်းတက္ကသိုလ်၌မူ ဆလာနို တက္ကသိုလ်၌ကဲ့သို့ ဆေးပညာ တခုတည်းကိုသာ မဟုတ် ပညာရပ်မျိုးစုံ သင်ကြားပေးလေသည်။ ဥပဒေပညာအတွက် အထူးကျော်ကြားသော တက္ကသိုလ်ဖြစ်သည်။ ၁၂ ရာစုနှစ် နှောက်ပိုင်းတွင်မှ စံနစ်တကျ တည်ထောင်လိုက်သော ပဲရစ် တက္ကသိုလ်သည် အလယ်ခေတ် အထက်တန်းပညာပေးဌာနတို့တွင် အထင်ရှားဆုံးဖြစ်သည်။ ယင်းတက္ကသိုလ်သည် ဘုရားနီဒီးကျောင်းရန်ပုံငွေဖြင့် ဖွင့်လှစ်သောကျောင်းမှ ပေါက်ဖွားလာခြင်းဖြစ်သည်။ ဥရောပ၏ စံပြတက္ကသိုလ်အဖြစ် ကျော်ကြားသည်။ ပုပ်ရဟန်းမင်းကြီးကိုယ်တိုင် အားပေးချီးမြှောက်ပြုခဲ့ရာ ကျမ်းဂန်စာပေ ပို့ချရာ၌ အထူး ကျော်ကြားသည်။ ၁၂၅၇ ခုနှစ်တွင် ပဲရစ် တက္ကသိုလ်၌ ကမ္ဘာကျော် ဆော်ဗန်းကောလိပ်ကျောင်းကို တည်ထောင်သည်။ ပဲရစ် တက္ကသိုလ်ကြီးသို့ ခရစ်ယာန်သာသနာဝင် နိုင်ငံများစွာမှ သွားရောက်ဆည်းပူးကြသည်။ ၁၁၆၇ ခုနှစ်တွင် အင်္ဂလန်နှင့် ပြင်သစ်တို့ မသင့်ဖြစ်သောအခါမှ အင်္ဂလိပ်တို့သည် ကိုယ်ပိုင်တက္ကသိုလ် တည်ထောင်ရန် စိုင်းပြင်းကြသည်။ ခရစ်နှစ် ၁၂၀၀ ကျော်တွင် အောက်စဖို့မြို့၌ ကောလိပ်ကျောင်းတိုက်ပေါင်း များစွာ တည်ထောင်၍ ၁၂၅၇ ခုနှစ်တွင် ယင်းကောလိပ်ကျောင်းများကို စုပေါင်းကာ အောက်စဖို့ တက္ကသိုလ်ဟူ၍ ဖွင့်လှစ်သည်။ ပဲရစ် တက္ကသိုလ်နောက် အကျော်ကြားဆုံးသောတက္ကသိုလ် ဖြစ်သည်။ အလားတူထင်ရှားသော အခြားအင်္ဂလိပ်တက္ကသိုလ် တခုကား ကိန်းဗရစ် တက္ကသိုလ်ဖြစ်သည်။ ယင်းတက္ကသိုလ် ၂ ခုစလုံးပင် ခရစ်ယာန်ကျမ်း စာသင်တိုက်ကြီးများ အဖြစ်မှ တိုးတက်လာခြင်းဖြစ်သည်။ ယခုအခါ အောက်စဖို့ တက္ကသိုလ်တွင် ကောလိပ်ကျောင်းတိုက်ပေါင်း ၂၉ တိုက် ရှိ၍ ကိန်းဗရစ် တက္ကသိုလ်တွင် ကျောင်းတိုက်ပေါင်း ၂၀ ရှိသည်။ ယင်းအင်္ဂလိပ်တက္ကသိုလ်ကြီး ၂ ခုမှ၌ ကောလိပ်ကျောင်းစံနစ် ပေါ်ပေါက်ခဲ့လေသည်။



အင်္ဂလန်ပြည်ရှိ ထင်ရှားကျော်စောသော အောက်စဖို့တက္ကသိုလ်တစိတ်တဒေသကို ကောင်းကင်မှ ဤသို့ရှုမြင်ရသည်။



ကိမ်းဗရစ်တက္ကသိုလ်တွင်ပါဝင်သော ထရင်နီတီ ကောလိပ်ကျောင်း

တက္ကသိုလ်နှင့် ကောလိပ်ကျောင်းတို့တွင် ခြားနားချက်ရှိသည်။ ကောလိပ်ကျောင်းဆိုသည်မှာ ပညာတရပ်ကိုသာ အာရုံစိုက်၍ သင်သော အထက်တန်းပညာပေး ကျောင်းကြီးဖြစ်သည်။ အထက်တန်း ဆေးပညာတခုကိုသာ သတ်မှတ်သင်ပေးသော ဆေးကောလိပ်၊ အထက်တန်း အင်ဂျင်နီယာပညာတခုကိုသာ သတ်မှတ်သင်ပေးသော အင်ဂျင်နီယာ ကောလိပ်တို့ကဲ့သို့ပင် ဖြစ်သည်။ တက္ကသိုလ်၌မူ ပညာရပ်တခုကိုသာမဟုတ် ပညာရပ် မျိုးစုံ သင်ကြားပေးသည်။ ကောလိပ်ကျောင်းများသည် ကျောင်းသူကျောင်းသားများ၏ နေထိုင်မှုနှင့် ပညာရပ်သင်ကြားမှုလောက်သာ ပေးစွမ်းနိုင်၍ တက္ကသိုလ်များကမူ ယင်းကိစ္စတို့အပြင် စာမေးပွဲ စစ်ခြင်း၊ ဘွဲ့ထူးဂုဏ်ထူး ပေးအပ်ခြင်းတို့ကိုပါ ဆောင်ရွက်သည်။ ကောလိပ်ကျောင်းပေါင်းများစွာ စုပေါင်းဖွဲ့စည်းထားခြင်းကို တက္ကသိုလ်ဟုခေါ်သည်။ တခါတရံ ကောလိပ်ကျောင်းများသည် တက္ကသိုလ်သို့ တက်ရောက်မသင်ကြားမီ အဆင့်အတန်းမှီအောင် အသင့်ပြင်ရာ ပညာပေးဌာနများ ဖြစ်သည်။ ဗက်ပတစ် ကောလိပ်ကျောင်း၊ စိန်ဂျွန်း ကောလိပ်ကျောင်း စသည်တို့ကဲ့သို့ ဖြစ်သည်။

ခရစ်နှစ် ၁၃၀၀ ကျော်သောအခါ ဥရောပတိုက်ရှိ အခြားနိုင်ငံများ၌လည်း တက္ကသိုလ်များ စတင်ဖွင့်လှစ်ကြသည်။ ဂျာမနီနိုင်ငံမှ ပရပ် တက္ကသိုလ်၊ ဟိုက်ဒဲဗတ် တက္ကသိုလ်၊ ဘာလင် တက္ကသိုလ်၊ ပိုလန်နိုင်ငံမှ ကရာကို တက္ကသိုလ်၊ ဗယ်လဂျီယံနိုင်ငံမှ လိုဗိန်း တက္ကသိုလ်၊ အိုင်ယာလန်နိုင်ငံမှ ဒဗ္ဗလင်တက္ကသိုလ်၊ ဩစတြီးယားနိုင်ငံမှ ဗီယင်းနား တက္ကသိုလ်၊ စကော့တလန်ပြည်မှ အီဒင်ဗရာ တက္ကသိုလ်တို့သည် အလယ်ခေတ်က ပေါ်ပေါက်၍ ယခုတိုင် ရှိနေသေးသော တက္ကသိုလ်ကြီးများဖြစ်သည်။

ကမ္ဘာသစ်ဖက်၌မူ ပဌမဆုံး တည်ထောင်သော တက္ကသိုလ်မှာ ၁၅၃၈ ခုနှစ်တွင် ဒိုမီနီကန်သမတနိုင်ငံ၌ ဖွင့်လှစ်သော တက္ကသိုလ်ဖြစ်သည်။ ၁၅၅၁ ခုနှစ်တွင် ပီရူးနိုင်ငံ လိုင်နာမြို့တွင် ဆန်မာကော့ တက္ကသိုလ် တည်ထောင်သည်။ အမေရိကန်ပြည်ထောင်စု၏ ပဌမဆုံးသော တက္ကသိုလ်ကား ဗာဂျီးနီးယားပြည်နယ်၌ ၁၆၁၉ ခုနှစ်တွင် တည်ထောင်သော ဟင်နရီကိုပေါလစ် တက္ကသိုလ်ဖြစ်သည်။ သို့ရာတွင် ၁၆၂၂ ခုနှစ် ရက်အင်ဒီးယန်းအရေးတော်ပုံကြောင့်၊ ယင်းတက္ကသိုလ်ကို ပိတ်လိုက်ရသဖြင့် ယခုခေတ်တွင် အလွန်ထင်ရှားသော ဟားဗတ် တက္ကသိုလ်သည် အမေရိကန် ပြည်ထောင်စု၏ ရှေးအကျဆုံးသောတက္ကသိုလ် ဖြစ်လာသည်။ ဟားဗတ် တက္ကသိုလ်ကို ၁၆၃၆ ခုနှစ်တွင် နယူးတောင်း ကောလိပ်ကျောင်းအဖြစ် စတင် တည်ထောင်ခဲ့ခြင်းဖြစ်သည်။ နောက်မှ ဂျွန် ဟားဗတ်ဆိုသူ ရဟန်းတော်တပါးက ရန်ပုံငွေလှူဒါန်းသဖြင့် ဟားဗတ် တက္ကသိုလ်ဟု တွင်သည်။ အမေရိကန်ပြည်ထောင်စု၏ အခြား ထင်ရှားသော တက္က

သိုလ်များမှာ ယေး တက္ကသိုလ် (၁၇၀၁ ခုနှစ်)၊ ပရင့်စတန် တက္ကသိုလ် (၁၇၄၆ ခုနှစ်)၊ ဝါရှင်တန်၌လည်း တက္ကသိုလ် (၁၇၄၉)၊ ပင်းဆယ်လဗေးနီးယား တက္ကသိုလ် (၁၇၅၁)၊ ကိုလံဗီးယား တက္ကသိုလ် (၁၇၅၄)၊ ဗရောင်း တက္ကသိုလ် (၁၇၆၄) တို့ ဖြစ်ကြသည်။

ဆွစ်ဇာလန်နိုင်ငံ ဇူးရစ်မြို့၌ ဥရောပနိုင်ငံစုံမှ ပညာ အမွေကိုယူ၍ ၁၈၅၅ ခုနှစ်တွင်၊ ပြည်ထောင်စုစက်မှုလက်မှု သိပ္ပံကျောင်းတော်ကြီးခေါ် တက္ကသိုလ်ကြီးတခု တည်ထောင်လေသည်။ သိပ္ပံပညာကျော် အဲလဗတ် အိုင်းစတိုင်းသည် ယင်းတက္ကသိုလ်၌ ပညာရှာဘူး၍ အိပ်စရေးရောင်ခြည်ကို စူးစမ်းတွေ့ရှိသူ ပညာရှင်ကြီး ရိုဝင်ဂျင်စသည့် သိပ္ပံပညာကျော်အချို့နှင့် နိုဗယ်ဆုရ ပုဂ္ဂိုလ်ကြီးရှစ်ဦးတို့သည် ဤတက္ကသိုလ်ထွက်များ ဖြစ်ကြသည်။

ရုရှနိုင်ငံ၌မူ ဆိုဗီယက်သမတနိုင်ငံအဖြစ် တည်ထောင်ပြီးသည့်အချိန်မှစ၍ တက္ကသိုလ်ကျောင်းများ ပေါ်များလာသည်။ ၁၉၁၄ ခုနှစ် ဇာဘုရင်ထက်လက်က တက္ကသိုလ်ဟူ၍ ၁၀ ကျောင်းသာ ရှိသော်လည်း ယခုအခါ၌မူ တက္ကသိုလ် ၃၂ ကျောင်းကျော် ရှိနေလေပြီ၊ မော်စကို တက္ကသိုလ်ကို ၁၈ ရာစုနှစ်က စတင်တည်ထောင်သော်လည်း ၁၉၅၃ ခုနှစ်ကမှ အသစ်တဖန်ပြုပြင်၍ ယင်းတက္ကသိုလ်သစ်ကို ဖွင့်လှစ်သည်။ ပညာရပ် ၁၂ မျိုးပို့ချ၍ သိပ္ပံပညာ သုတေသနလုပ်ငန်းတွင် အလွန်အထက်တန်းကျသော တက္ကသိုလ်ဖြစ်သည်။ အခြား ထင်ရှားသော ရုရှတက္ကသိုလ်များမှာ လီနင်ဂရက် တက္ကသိုလ်၊ ရော့စတော့ တက္ကသိုလ်၊ ခါးကော့ တက္ကသိုလ်စသည်တို့ဖြစ်သည်။

ပြည်ထောင်စုမြန်မာနိုင်ငံ၌မူ ယခုအခါ တက္ကသိုလ်ကြီး နှစ်ကျောင်းသာ ရှိသေးသည်။ ရန်ကုန် တက္ကသိုလ်နှင့် မန္တလေး တက္ကသိုလ်တို့ ဖြစ်သည်။ ရန်ကုန် တက္ကသိုလ်၏ အစသည် ၁၈၇၈ ပြည့်နှစ်က ရန်ကုန်မြို့၌ ဗြိတိသျှ အစိုးရတို့ဖွင့်လှစ်သော ရန်ကုန်ကောလိပ်မှ ပေါက်ပွားလာခြင်းဖြစ်သည်။ ရန်ကုန်ကောလိပ် ဘဝက ကလကတ္တား တက္ကသိုလ် လက်အောက်ခံမျှသာ ဖြစ်သည်။ ၁၉၂၀ ပြည့်နှစ်တွင်မှ ရန်ကုန်ကောလိပ်အစား တက္ကသိုလ်အက်ဥပဒေပြဋ္ဌာန်း၍ ရန်ကုန် တက္ကသိုလ်ဟူသော သီးခြားတက္ကသိုလ်တခု တည်ထောင်သည်။ ရန်ကုန် တက္ကသိုလ်ထည်ထောင်ပြီးသော အခါ လက်အောက်ခံကောလိပ်များ ပေါ်ထွက်လာသည်။ ၁၉၂၅ ခုနှစ်တွင် မန္တလေး ဥပစာကောလိပ်ကျောင်း ဖွင့်လှစ်သည်။ ယုဒသန် ကောလိပ်၊ ဆေး ကောလိပ်၊ အင်ဂျင်နီယာ ကောလိပ်၊ ဆရာအတတ်သင် ကောလိပ်၊ မန္တလေး စိုက်ပျိုးရေး သိပ္ပံ၊ မော်လမြိုင် ကောလိပ်၊ ကျောက်ဖြူ ကောလိပ်၊ ပုသိမ် ကောလိပ်၊ မကွေး ကောလိပ်စသည်ဖြင့် လက်အောက်ခံကောလိပ်ပေါင်းများစွာ ဖွင့်လှစ်နိုင်ခဲ့သည်။ ၁၉၅၉ ခုနှစ်တွင် မန္တလေး ကောလိပ်ကို မန္တလေး တက္ကသိုလ်အဖြစ် တိုးချဲ့ဖွင့်လှစ်နိုင်ခဲ့သည်။

ကမ္ဘာစစ်ကြီးကြောင့် နိုင်ငံအရပ်ရပ်တွင် တက္ကသိုလ်များ ပျက်စီးခဲ့သော်လည်း ကမ္ဘာစစ် ၂ ခုမှရရှိသော အတွေ့အကြုံများအရ တက္ကသိုလ်ပညာသည် အလွန်အထောက်အပံ့ဖြစ်စေသဖြင့် အစိုးရတို့သည် တက္ကသိုလ်များကို တိုး၍ ဖွင့်လှစ်ပေးနေကြသည်။

•

**တက်ဂျမဟာ သင်းချိုင်းဂူ**။ ။တက်ဂျမဟာ သင်းချိုင်းဂူသည် အိန္ဒိယနိုင်ငံ အာဂရာ မြို့ပြင်၊ အာဂရာခံတပ်၏ အရှေ့ဖက် ၁ မိုင်ခန့်ဝေးသော လှပသည့် ဥယျာဉ်တခုတွင်း၌ တည်ရှိသည်။ ဤကမ္ဘာကျော် အဆောက်အအုံကြီးကို မဂိုဧကရာဇ်ဘုရင် ရှားဂျဟန်းက မိမိချစ်လှစွာသော မိဖုရားကြီး မမ်တပ်မဟာအား မြှုပ်နှံသဂြိုဟ်ရန်အတွက် ၁၆၃၂ ခုနှစ်တွင် စတင်တည်ဆောက်စေခဲ့သည်။ ထိုနှစ်တွင် ဘုရင်ကြီးသည် အခြား မည်သည့်ဘုရားကျောင်းကိုမျှ မတည်ဆောက်စေရဟု အမိန့်တော် ထုတ်ပြန် တားမြစ်တော်မူ၍၊ ထိုဂူကို အလုပ်သမားပေါင်း ၂၀,၀၀၀ ကျော်ဖြင့် တည်ဆောက်စေခဲ့သည်။ ဂူမှာ ၁၆၅၀ ပြည့်နှစ်တွင်မှ အပြီးသတ်ခဲ့၏။ ဤသင်းချိုင်းဂူကို ပိသုကာဆရာကြီး ဥစတတ်အီဆာက ပုံစံထုတ်ခဲ့သည်ဟု ဆိုလေသည်။ ထိုဂူကြီးသည် အလွန်ပြောင်မြောက်သော မဂိုပိသုကာ အနုပညာလက်ရာတခု ဖြစ်လေရာ၊ အချို့က ကမ္ဘာပေါ်တွင် အလှဆုံးသော အဆောက်အအုံကြီးဟူ၍ ဆိုကြသည်။ 'တက်ဂျမဟာ' ဟူသည်မှာ 'နန်းများထွတ်ခေါင်' ဟု အနက်ရ၏။ ရှားဂျဟန်း ဧကရာဇ်ဘုရင်မင်းမြတ်၏ အလောင်းကိုလည်း ဤသင်းချိုင်း၌ပင် မြှုပ်နှံခဲ့ကြလေသည်။

တက်ဂျမဟာ သင်းချိုင်းဂူမှာ ကျောက်ဖြူဖြင့် တည်ဆောက်ထားသော ရှစ်မြောင့်ပုံ အဆောက်အအုံကြီးဖြစ်၍၊ ပေ ၇၀ မြင့်ပြီးလျှင်၊ သဲနီကျောက် အောက်ခြေပေါ်တွင် တည်ရှိ၏။ သို့သော် ယင်းထိပ်တွင် ပေ ၁၂၀ မြင့်သော ခုံးဝိုင်းကြီး တပ်ဆင်ထားပြန်သဖြင့် စုစုပေါင်း ပေ ၁၉၀ ခန့် မြင့်ပေသည်။ အဆောက်အအုံကြီး၏ ဘေးပတ်လည် သဲနီကျောက်အောက်ခြေ၏ ထောင့်များတွင် ၁၃၃ ပေမြင့်သော ဘုရားရှိခိုးမျှော်စင် တခုစီရှိ၏။ အဆောက်အအုံကြီးမှာ သဲနီကျောက် တံတိုင်းဖြင့် ဝန်းရံထားသော ရှုချင်စဖွယ် ဥယျာဉ်တခု၏ အလယ်တွင် တည်ရှိလေသည်။ အတွင်းဖက်တွင် ဆင်ပြင်ထားပုံမှာ ခမ်းနားဆန်းပြားလှ၏။ ကျောက်ဖြူဂူ နှစ်ခုရှိသော အခန်းကြီးကို အဖိုးတန်ကျောက်မျက် ရတနာ ၁၂ မျိုးဖြင့်ပြီးသည့် ခန်းဆီးများနှင့် ကာရံထားသည်။ အတွင်းနံရံများတွင် တိရစ္ဆာန်ပုံနှင့် သစ်ပင်ပန်းပင်ပုံများ ဖော်ထားသည့် မှန်စီရွှေချ လက်ရာ



ကောင်းကင်မှရှုမြင်ရသော တက်ဂျမဟာ သင်းချိုင်းတော်

များမှာ အလှဆုံးပင်ဖြစ်သည်ဟု ဆိုသည်။ ထိုပြင် ကိုရန်ကျမ်းထွက် တရားစာများကိုလည်း လှပဆန်းကျယ်စွာ ထွင်းထုထား၏။ ဤအဆောက်အအုံကြီးကို ဆောက်လုပ်ရာတွင်, ပေါင် ၃ သန်းကျော် ကုန်ကျခဲ့သည်ဟု ဆိုလေသည်။

**တက်စမေးနီးယားကျွန်း။** ။ဩစတြေးလီးယားတိုက် ဓနသဟာယ ပြည်ထောင်စုတွင် ပါဝင်သော တက်စမေးနီးယားကျွန်းသည် အကျယ်အဝန်းအားဖြင့် အငယ်ဆုံး ဖြစ်သော်လည်း၊ အလွန်သာယာလှသောကြောင့် ဩစတြေးလီးယားတိုက်၏ ဥယျာဉ်ဟု တွင်လေသည်။ တက်စမေးနီးယားကျွန်းရှိ ရှုမျှော်ခင်းတို့သည် ကြည့်၍ မငြီးဖွယ်ရာ၊ တင့်တယ်သာယာလှသောကြောင့်၊ ဩစတြေးလီးယား တိုက်သူ တိုက်သားများသည် ထိုကျွန်းကို အပန်းဖြေဒေသကဲ့သို့ အသုံးပြုကြသည်။

တက်စမေးနီးယား ကျွန်းသည် တခါက ဩစတြေးလီးယား ကုန်းမကြီး၏ အရှေ့တောင်ဖက်စွန်း ကုန်းမြေ ဖြစ်ခဲ့သော်လည်း၊ နှောင်းအခါတွင် ပင်လယ်ရေ လွှမ်းမိုးခြင်းကြောင့် ဩစတြေးလီးယားတိုက်နှင့် အဆက်ပြတ်ခဲ့ရသော ကျွန်းတကျွန်းဖြစ်ခဲ့သည်ဟု ဆိုလေသည်။ ယခုအခါ ဗတ်စရေလက်ကြားသည် တက်စမေးနီးယားကျွန်းကို ဩစတြေးလီးယားပြည်မကြီးမှ ခြားထားလေသည်။ ထိုကျွန်းသည် တောင်မြောက် မိုင် ၁၈၀ ကျယ်၍၊ အရှေ့အနောက် မိုင် ၁၉၀ ခန့် ကျယ်သည်။ တက်စမေးနီးယားကျွန်း အရှေ့ဖက်ရှိ တောင်တန်းများသည် ဩစတြေးလီးယားတိုက်မှ ဂရိတ်ဒိဗိုက်ဒင်း တောင်တန်း၏ အဆက်များ ဖြစ်ကြ၏။ ကမ်းရိုးတန်းမှာ အလွန်ကွေ့ကောက်၍ အငူများ၊ ပင်လယ်အော်ကလေးများ များစွာရှိလေသည်။

တက်စမေးနီးယားကျွန်း၌ ရာသီဥတုသည် မျှတ၍ ကျန်းမာရေးနှင့် ညီညွတ်သင့်လျော်၏။ သို့သော် မကြာခဏ ရာသီဥတု ဖောက်ပြန်ပြောင်းလဲတတ်သည်။ မိုးကောင်း၍ မြေဩဇာလည်း ကောင်းမွန်သောကြောင့် စိုက်ပျိုးရေးသည် အဓိကလုပ်ငန်းတရပ် ဖြစ်၏။ ဂျုံမှာ အဓိကစိုက်ပျိုးသည့် ကောက်သီးကောက်နှံဖြစ်၍၊ သစ်သီး (အထူးသဖြင့် ပန်းသီး) တို့ကိုလည်း စိုက်ပျိုးကြသည်။ ထိုပြင် အာလူး၊ မြင်းစားဂျုံနှင့် ဟင်းသီးဟင်းရွက်တို့ကိုလည်း စိုက်ပျိုး၏။ နို့စားနွားမ မွေးမြူရေးလုပ်ငန်းမှာ အရေးပါသော လုပ်ငန်းတရပ်ဖြစ်သည်။ သိုးကိုလည်း မွေးမြူကြသည်။

ထိုကျွန်း၏တောင်စောင်းများတွင် ယူကလစ်တပ်ပင်များ ထူထပ်စွာပေါက်၏။ တက်စမေးနီးယားကျွန်းရှိ တောင်များမှ အပိုးတန်သတ္တုများဖြစ်သော ငွေ၊ ကျောက်မီး



**အလွန်သာယာလှပသော တက်စမေးနီးယားကျွန်း၏ ရှုခင်းတရပ်**

သွေး၊ သွပ်စသည်တို့ကိုလည်း တူးဖေါ်ရရှိလေသည်။ သံကို အတော်အတန် တူးဖေါ်ရရှိနိုင်မည် ဖြစ်သော်လည်း၊ သေချာကျနစွာ တူးဖေါ်လုပ်ကိုင်ခြင်း မရှိသေးချေ။ သြစတြေးလီးယားတိုက်တွင် တက်စမေးနီးယားကျွန်းသည် ကြေးနီအထွက်ဆုံး ပြည်နယ်တခု ဖြစ်၏။ သတ္တုတူးဖေါ်ခြင်းလုပ်ငန်းမှာ တက်စမေးနီးယားကျွန်း၏ အရေးအပါဆုံးသော လုပ်ငန်းတရပ် ဖြစ်လေသည်။ စက်မှုလက်မှုလုပ်ငန်းများလည်း အတော်အတန် ထွန်းကားလေရာ၊ ယင်းတို့မှာ သစ်သီးစည်သွတ်လုပ်ငန်း၊ သိုးမွေးလုပ်ငန်း၊ ထောပတ် ဒိန်ခဲစသည့် နို့ထွက်ပစ္စည်းလုပ်ငန်း၊ သတ္တုလုပ်ငန်းစသည်တို့ ဖြစ်၏။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက သစ်ပျော့ဖတ် လုပ်ငန်းနှင့် စက္ကူ လုပ်ငန်းတို့ အတော်ပင် တိုးတက်ထွန်းကားခဲ့လေသည်။

တက်စမေးနီးယားကျွန်းသည် စတုရန်းမိုင် ၂၆,၀၀၀ ခန့် ကျယ်၍၊ လူဦးရေမှာ ၃၀၀,၀၀၀ ကျော်မျှရှိသည်။ ကျွန်းသူ ကျွန်းသား ဂ ရာခိုင်နှုန်း ခန့်သည် ဗြိတိသျှ အဆက်အနွယ်နှင့် ဥရောပ အဆက်နွယ်များ ဖြစ်ကြ၍၊ ကျန်လူဦးရေမှာ တိုင်းရင်းသားများ ဖြစ်၏။ လူအများဆုံး နေထိုင်သော ဒေသမှာ ထိုကျွန်း၏ မြို့တော်ဖြစ်သော ဟိုဗတ်မြို့ အနီးအနားတဝိုက် ဖြစ်လေသည်။ ထိုကျွန်း၏ တိုင်းဦးသားများမှာ ၁၉ ရာစုက လာရောက် အခြေစိုက်နေထိုင်သူများ၏ လက်ချက်ကြောင့် အမျိုးပါ ကွယ်ပျောက်ခဲ့ရလေသည်။

ထိုကျွန်းရှိ သစ်ပင်များနှင့် တိရစ္ဆာန်များသည် အများအားဖြင့် သြစတြေးလီးယား တိုက်ဖက်မှ သစ်ပင်များ၊ တိရစ္ဆာန်များနှင့် တူလေသည်။ သို့သော် သားကောင်နှစ်မျိုး ကိုမူကား၊ သြစတြေးလီးယားတိုက်ဖက်တွင်၎င်း၊ ကမ္ဘာပေါ်ရှိ အခြားအရပ်ဒေသများတွင်၎င်း မတွေ့ရှိကြရချေ။ ထိုထူးခြားသော သားကောင်နှစ်မျိုးအနက်၊ တမျိုးမှာ ဝံပုလွေနှင့်တူသော သားပိုက်ကောင်ဖြစ်၍၊ အခြားတမျိုးမှာ ဝက်ဝံငယ်နှင့်တူသော သားပိုက်ကောင် ဖြစ်လေသည်။

တက်စမေးနီးယားတွင် အခမဲ့ ပညာသင်ကြားရေး စံနစ်ကို ပြဋ္ဌာန်း ထားသည့်ပြင် ကလေးသူငယ်တိုင်း ၆ နှစ်မှ ၁၆ နှစ်အရွယ်အထိ ဥပဒေအရ ကျောင်းများတွင် တက်ရောက်၍ မသင်မနေရ ပညာကို သင်ကြားကြရသည်။ အစိုးရ တက္ကသိုလ်မှာ ဟိုဗတ်မြို့တွင်ရှိ၏။ တက်စမေးနီးယားကျွန်း၏ အုပ်ချုပ်ရေးစံနစ်မှာ သြစတြေးလီးယားတိုက်ရှိ အခြားပြည်နယ်များ၏ အုပ်ချုပ်ရေးစံနစ်တို့နှင့် ဆင်တူလိုပင် ဖြစ်သည်။ အုပ်ချုပ်ရေးအကြီးအကဲမှာ ဘုရင်ခံဖြစ်၍၊ အမတ် ၁ဂ ဦးပါဝင်သော အထက်လွှတ်တော်နှင့် အမတ် ၃၀ ပါဝင်သော အောက်လွှတ်တော်ဟူ၍ ဥပဒေပြု လွှတ်

တော်နှစ်ရပ်ရှိ၏။ ဩစတြေးလီးယား ဗဟိုပါလီမန် အထက်လွှတ်တော်သို့ ကိုယ်စားလှယ် ၁၀ ဦးနှင့် အောက်လွှတ်တော်သို့ ကိုယ်စားလှယ် ၅ ဦး စေလွှတ်ခွင့်ရသည်။

တက်စမေးနီးယား ကျွန်းကို စတင်တွေ့ရှိသူမှာ ဒပ်ချ လူမျိုး အဗယ် ယန်ဆွန် တက်စမန် ဆိုသူဖြစ်၍၊ သူသည် ၁၆၄၂ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်နေ့တွင် ထိုကျွန်းကို စတင်တွေ့ရှိခဲ့၏။ ထိုစဉ်က ထိုကျွန်းကို ဒပ်ချ အရှေ့ အိန္ဒိယ ကျွန်းစုများ၏ ဘုရင်ခံ ဗန် ဒီးမင်းအား ဂုဏ်ပြုသောအားဖြင့်၊ ဗန် ဒီးမင်းကျွန်းဟု အမည်ပေးခဲ့၏။ သို့သော် ထိုကျွန်းသည် ဥရောပတိုက်သားများ အခြေစိုက်နေထိုင်လောက်အောင် မက်မောစရာ မရှိသောကြောင့် မည်သူမျှ လာရောက်နေထိုင်ခြင်း မပြုခဲ့ကြချေ။ ၁၈၀၃ ခုနှစ်တွင်မှ ဗြိတိသျှတို့က အကျဉ်းသမားစခန်းအဖြစ် စတင်အသုံးပြုခဲ့လေသည်။ သို့ရာတွင် လူလွတ်များလည်း တဖြည်းဖြည်း လာရောက်နေထိုင်ကြသဖြင့်၊ ၁၈၅၃ ခုနှစ်မှစ၍ အကျဉ်းသမားများအတွက် 'တကျွန်း' အဖြစ် အသုံးမပြုတော့ပေ။ ကျွန်း၏အမည်ကိုလည်း စတင်တွေ့ရှိသူ၏အမည်ကို အစွဲပြု၍ တက်စမေးနီးယားကျွန်းဟု ပြောင်း လိုက်လေ၏။ သို့သော် ထိုကျွန်းသည် အစပဌမတွင် နယူး ဆောက်သဝေး ပြည်နယ်၏ လက်အောက်ခံဒေသအဖြစ် တည်ရှိခဲ့ရာ၊ ၁၈၅၆ ခုနှစ်၌ တာဝန်ခံအုပ်ချုပ်ရေး ရရှိခဲ့၏။ ၁၉၀၁ ခုနှစ် ဇန်နဝါရီလ ၁ ရက်နေ့တွင် ဩစတြေးလီးယား မနသဟာယ နိုင်ငံတွင် ပါဝင်သော ပြည်နယ်တခု ဖြစ်လာလေသည်။

**တက်စီဒါမီအတတ်**။ ။တိရစ္ဆာန်တို့ကို အကောင်မပျက်ရအောင် ဆေးစီရင်၍၊ အခြောက်အတိုင်း ထားခြင်းအတတ်သည် အင်္ဂလိပ်ဘာသာဖြင့် တက်စီဒါမီဟု တွင်လေသည်။ ထိုအတတ်မှာ ၁၈ ရာစုနှစ်အတွင်းကမှ ပေါ်ပေါက်လာသည်။ မူလက တိရစ္ဆာန်တို့၏ အရေခွံနှင့် ဦးခေါင်း၊ ခြေလက်အင်္ဂါ စသည်တို့ကို အိမ်တွင် အလှဆွဲချိတ်ထားရန်အလို့ငှာ ထိုအတတ်ကို အသုံးချကြရာ၊ နောင်သောအခါတွင် စူးစမ်းလေ့လာမှု၌၎င်း၊ ပြတိုက်တွင် အလှထားရန်၎င်း ထိုအတတ်သည် များစွာအသုံးဝင်လာသည်။

အစပဌမတွင် ရေသတ္တဝါ၊ ကုန်းသတ္တဝါတို့၏ အရေခွံများကို အမွေးအတောင်၊ အကြေးခွံများ မပျက်စေဘဲ ခွာယူ၍၊ ကြာရှည်ခံအောင် ဆေးစိမ်ကာ၊ အရေခွံအတွင်းသို့ ကောက်ရိုးစသည့် အစာများသွင်း၍ အခြောက်လှန်းသည်။ ထိုအခါ ဆေးစီရင်ပြီးသား အခြောက်ကောင်သည် မူလအသက်ရှိစဉ်က တိရစ္ဆာန်နှင့် အကြမ်းအားဖြင့် တူလေသည်။ သို့ရာတွင် ထိုအတတ်ကို နောင်သောအခါ တဖြည်းဖြည်း တိုးတက်အောင် ပြုပြင်လာခဲ့ကြရာ၊ ကြမ်းတမ်းသော အကောင်အဖြစ်မှ သဘာဝကျ၍ သက်ရှိတိရစ္ဆာန်နှင့် ခွဲခြားမရနိုင်အောင် တူလှသောပုံတူများကို ကောင်းစွာ ဆေးစီရင်နိုင်ခဲ့လေသည်။ ထိုကဲ့သို့သော အခြေအနေမျိုးသို့ တိုးတက်အောင် ပြုပြင်ရခြင်းမှာ လွယ်ကူလှသည့် အလုပ် မဟုတ်ချေ။ အနာတမီခေါ် ကိုယ်ခန္ဓာ၏ အသွေးအသား၊ အရိုးအကြောတို့၏ တည်နေပုံ ပညာရပ်၊ ပါဏဗေဒ၊ ရုပ်လုံးဖော် ကျောက်ဆစ်ပန်းပုပညာ၊ ပန်းချီပညာ၊ သားရေနယ်ပညာ၊ ဆေးဆိုးအတတ်များကို တတ်မြောက်ထားသူများသာလျှင် ထိုမျှလောက်ကျနစွာ၍ သဘာဝကျသော အခြောက်ကောင်တို့ကို ပြုလုပ်နိုင်ကြပေသည်။

ထိုအတတ်၌ အပိုင်းနှစ်ပိုင်းရှိရာ၊ ပဌမပိုင်းမှာ အသေကောင်မှ အရေခွံကို မပျက်စီးရအောင် ခွာယ်၊ ကတ်ကျေးယ်များဖြင့် သေချာစွာ စိတ်ရှည်လက်ရှည် ခွာယူရခြင်းဖြစ်၏။ ထိုနောက် ထိုအရေခွံကို နှစ်ပေါင်းများစွာခံအောင် စင်ကြယ်စွာ ဆေးကြော၍၊ အရေထဲသို့ ဆေးဝင်အောင် စီရင်ပေးခြင်း ဖြစ်လေသည်။ ဒုတိယပိုင်းမှာ၊ မူလတိရစ္ဆာန်တို့၏ နမူနာကို အသေးစိတ် ကြည့်ရှု လေ့လာမှတ်သားရလေသည်။



တောကြောင်၏ပုံတူကို ပြုပြင်မွမ်းမံနေသော တက်စီဒါမီ ပညာရှင်တဦး

ပဌမဦးစွာ အခြောက်ဆေးစိရင်ရမည့် တိရစ္ဆာန်၏အချိုး အစားအတိုင်း မိမိတို့အလိုရှိရာ အနေအထားကို ပြုပြင်၍၊ ကြေးနန်းကြိုးများဖြင့်၊ သတ္တဝါတို့၏ အရိုးစုကို ပြုလုပ်ရ လေသည်။ အရိုးစုပေါ်သို့ ရွှံစေးသော်၎င်း၊ ပလတ်စတာ သော်၎င်း၊ စက္ကူပျော့ဖြင့်သော်၎င်း ဖုံးပေးရသည်။ ကြွက် သားရှိသော နေရာများတွင် အဖုအထစ်ပေါ်အောင် ပြုလုပ်ပေးရသည်။

ဤသို့ပြုလုပ်ပြီးဖြစ်သော ကိုယ်ထည်ပုံကြမ်းပေါ်သို့ ပြုပြင်ထားပြီးသော အရေကို အုပ်၍ တပ်ဆင်ပေးရသည်။ မျက်စိနှင့် လျှာများကို ပကတိအစစ်နှင့်တူအောင် ပြုလုပ် ထည့်သွင်းပေးကြရ၏။ အရေခွံထဲသို့ အစာသွတ်၍၊ ရုပ်လုံး များ ပြုလုပ်သည့်ခေတ်က မျက်စိများကို ခေါင်းပိတ်ဖန်သီး ထည့်ပေးလေ့ရှိရာ၊ သဘာဝမကျဘဲ ရှိနေလေ၏။ ယခုအ ခါတွင်မူ၊ ခေါင်းပွဖန်သီးများကို ပကတိမျက်စိနှင့်တူ အောင် ဆေးခြယ်၍ ထည့်ပေးသဖြင့် နဂိုမျက်စိနှင့် များ စွာတူလေသည်။ ဤသို့ဖြင့် သက်ရှိတိရစ္ဆာန်တို့၏ ပုံ သဏ္ဌာန်နှင့် တသွေမတိမ်းတူလှသည့် အကောင်ခြောက် များကို လုပ်ကိုင်နိုင်လာကြလေသည်။

ယနေ့အဖို့ ထိုအတတ် တိုးတက်လာပုံမှာ မြေတွင်းမှတူး ဖော်ရရှိသည့် ကျောက်ဖြစ်ရုပ်ကြွင်း ဖြစ်နေသော တိရစ္ဆာန် အသေကောင်တို့ကို မူလသဏ္ဌာန်အတိုင်း ပြန်ဖြစ်အောင် ပြုလုပ်နိုင်ခြင်းပင်ဖြစ်၏။ ထိုလုပ်ငန်းတွင် အထက်ဖော်ပြခဲ့ သော ပညာရပ်များအပြင်၊ ဘူမိဗေဒပညာနှင့် အီဗော်လျူ ရှင်ပညာရပ်များကိုပါ ကျွမ်းကျင်ရလေသည်။

ထိုကဲ့သို့သော အကောင်ခြောက်များကို သဘာဝပြတိုက် ကြီးများတွင် တွေ့မြင်နိုင်သည်။ ပြတိုက်ကြီးများတွင် သတ္တဝါတို့၏ ရုပ်လုံးများသာမက သူတို့၏ အနေအထိုင် အလေ့အကျင့်များကိုပါ ပေါ်လွင်လေအောင်၊ သူတို့ကျက် စားလေ့ရှိသော ဒေသများနှင့်တူသော ရှုခင်းများကိုလည်း စီရင်၍ ပြသထားလေသည်။

**တက်ဆို, တီ။** (ခရစ် ၁၅၄၄–၁၅၉၅)။ ။တော်ကွာတို တက်ဆိုသည် ဣတလီနိုင်ငံ၏ ရီနေဆွန်းခေတ်တွင် အလွန် ကျော်ကြားသော အဲပစ် ကဗျာဆရာကြီးများအနက် တဦး အပါအဝင်ဖြစ်သည်။ သူ၏ကဗျာများသည် ဒန္တေ၏က ဗျာနီးနီး ကောင်းသည်ဟု ယူဆကြသည်။ (ဒန္တေ, အလီဂျာ ရီ — ရှု။) တက်ဆိုသည် ဆိုရန်တိုမြို့သား ဖြစ်သည်။ သို့သော် ဆယ်နှစ်သား အရွယ်ကပင်လျှင် ရောမမြို့သို့ ရောက်၍၊ စာပေနှင့် သမိုင်းတို့ကို သင်ကြားရသည်။ ဖခင်ဖြစ်သူသည် ကဗျာဆရာပင် ဖြစ်လင့်ကစား တက်ဆိုကို ရှေ့နေဖြစ်စေရန် ရည်ရွယ်ချက်ဖြင့် ပက်ဒူးအား တက္ကသိုလ် သို့ ဥပဒေသင်ယူရန် စေလွှတ်ခဲ့၏။ သို့ရာတွင် အသက် ၁၈



ဣတလီလူမျိုး စာဆိုကျော် တက်ဆို

နှစ်အရွယ်၌ပင်လျှင် ကဗျာတပုဒ်ကြောင့် များစွာ ကျော် စောလာလေရာ၊ ဖခင်ဖြစ်သူသည် သားဖြစ်သူအား ယထာ ဘူတနှင့် ကဗျာကို တက္ကသိုလ်၌ သင်ယူရန် ခွင့်ပြုခဲ့ရ လေသည်။

ထိုခေတ်တွင် တူရကီလူမျိုးတို့သည် ဟန်ဂေရီနှင့် ဣတလီ လူမျိုးတို့ကို နှိပ်စက်ကလူပြုနေသော အချိန်အခါ ဖြစ် လေသည်။ ဤသည်ကိုအကြောင်းပြု၍၊ တက်ဆိုသည် ဂျရုးဆလမ်မြို့သို့ သာသနာရေးစစ်ပွဲကြီး ချီတက်ခဲ့ဘူး သည်ကို အဲပစ်ကဗျာဖြင့် ဖွဲ့နွဲ့စပ်ဆိုခဲ့လေသည်။ သို့ရာ တွင် ထိုကဗျာနှင့်စပ်လျဉ်း၍ ရိုမန်ကက်သလစ်သာသနာ ဂိုဏ်းနှင့် ဝိဝါဒကွဲပြားသည်တွင် တက်ဆိုသည်လည်း ထိုမှဤမှ လှည့်လည်သွားလာနေထိုင်ယင်းနှင့်ပင် စိတ်တွင် ရောဂါကပ်ငြိလာလေသည်။ ၁၅၉၄ ခုနှစ်တွင် ပုပ်ရဟန်း မင်းက သူ့အား သူ၏ကဗျာအတွက် ဂုဏ်ပြုရန်အလို့ငှာ ရောမမြို့သို့ ဖိတ်ခေါ်လေသည်။ တက်ဆိုလည်းရောမမြို့သို့ လာခဲ့၏။ သို့သော် ဂုဏ်ပြုခြင်းမခံရမီ၊ တက်ဆို ကွယ်လွန် လေသည်။

**တက်ဆက်ပြည်နယ်။** ။တက်ဆက်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် အကြီးဆုံးပြည်နယ်

ဖြစ်၍၊ အနောက်ဖက်ရှိ နယူးမက္ကဆီကိုပြည်နယ်နှင့် အရှေ့ဖက်ရှိ လူဝီးဇီယန္နားပြည်နယ် နှစ်ခုတို့၏အကြား၌ မက္ကဆီကိုပင်လယ်ကွေ့ကို မျက်နှာမူလျက် တည်ရှိသည်။ ဤပြည်နယ်၏ မြောက်ဖက်တွင် အိုကလဟိုးမားပြည်နယ်၊ တောင်ဖက်နှင့် အနောက်ဖက်တွင် မက္ကဆီကိုနိုင်ငံတို့ တည်ရှိကြ၍၊ အရှေ့တောင်ဖက်တွင်မူ မက္ကဆီကိုပင်လယ်ကွေ့ ဝန်းရံလျက်ရှိသည်။

တက်ဆက်ပြည်နယ်၏ အနောက်ဖက်တွင် တောင်တန်းထူထပ်၍၊ အလယ်တွင် မြေသြဇာကောင်းသည့် လွင်ပြင်ကြီးများရှိသည်။ အရှေ့တောင်ဖက်ရှိ မက္ကဆီကိုပင်လယ်ကွေ့ ကမ်းခြေဒေသသည် နုံးတင်မြေနုပေါသော မြေနိမ့်ပိုင်း ဖြစ်၍၊ ကမ်းခြေတလျှောက်တွင် မြစ်ဝသဲခုံများရှိသည်။

မြေမျက်နှာသွင်ပြင် အမျိုးမျိုး ခြားနားလျက် ရှိခြင်းကြောင့်၎င်း၊ ပြည်နယ်၏ ပမာဏ ကြီးမားခြင်းကြောင့်၎င်း၊ တက်ဆက်ပြည်နယ်၏ ရာသီဥတုသည် တနေရာနှင့်တနေရာ မတူဘဲ ကွဲပြားလေသည်။ တောင်ဖက်ကမ်းခြေတလျှောက်တွင် အပူလျော့ ရာသီဥတုမျိုးမှသည် အနောက်မြောက်ဖက်တွင် မျှတသည့် သမပိုင်း ရာသီဥတုမျိုးအထိ ရှိသည်။ တက်ဆက်ပြည်နယ် အရှေ့ပိုင်းတွင် မိုးအများဆုံး ရွာသွန်း၍၊ အနောက်ဖက်တွင် မိုးပါးသည်။

တက်ဆက်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင် မြေသြဇာကောင်းသော လယ်မြေ အများဆုံးရှိ၍၊ အရေးပါဆုံးသော ပြည်နယ်ဖြစ်သည်။ အရှေ့တောင်ပိုင်းတွင် ဆန်စပါးနှင့် ဝါကို အကြီးအကျယ် စိုက်ပျိုး၍၊ ဝါအထွက်မှာ အမေရိကန်ပြည်ထောင်စုတွင် ပဌမစွဲသည်။ ပြောင်းကိုလည်း ပြည်တွင်း၌ အများအားဖြင့် နွားများနှင့် ဝက်များကိုကျွေးရန် စိုက်ပျိုး၏။ မိုးများသော အရှေ့ဖက်တွင် သစ်တောများရှိ၍၊ သစ်လုပ်ငန်း ထွန်းကားသည်။ တက်ဆက်ပြည်နယ် မြောက်ပိုင်းနှင့် အနောက်ပိုင်းတွင် ဂျုံ၊ မြင်းစားဂျုံ၊ မုယောနှင့် ရိုင်းစပါးတို့ကို စိုက်ပျိုးကြသည်။ ရိုင်ယိုဂရန်းမြစ်ဝှမ်း အောက်ဖက်တလျှောက်၌ သစ်သီးပင်များ စိုက်ပျိုးသည်။ စားကျက်ကောင်းများရှိသည့် အနောက်တောင်ပိုင်းတွင် သိုး၊ နွား၊ ဆိတ် မွေးမြူရေး လုပ်ငန်းသည် အကြီးအကျယ် ထွန်းကားသည်။ တက်ဆက်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင် ရေနံ အများဆုံးထွက်ရာ ပြည်နယ်ဖြစ်လေသည်။


တက်ဆက်ပြည်နယ်တွင် ကျွဲနွားမွေးမြူရေးလုပ်ငန်းသည် ကြီးကျယ်ပေသည်။

တက်ဆက်ပြည်နယ်၏ ထွက်ကုန်များကား ဝါဂွမ်း၊ နွား၊ နို့ထွက်ပစ္စည်း၊ ပြောင်း၊ ဝက်နှင့်ဝက်သား၊ ဂျုံ၊ ကြက်ဥ၊ မြင်းစားဂျုံ၊ ဆန်စပါး၊ သစ်သီး၊ ဟင်းသီးဟင်းရွက်၊ မြင်းနှင့်လား၊ သိုးနှင့်သိုးမွေး၊ ဆိတ်နှင့်ဆိတ်မွေး၊ ကြက်ငှက် (အထူးသဖြင့် ကြက်ဆင်)၊ ပျားနှင့်ပျားရည်၊ ရေနံ၊ ဟီလီယမ်ဓာတ်ငွေ့၊ ရေနံထွက်ပစ္စည်း၊ ရေနံမြေသုံး စက်ကရိယာ၊ သစ်၊ အမဲသား၊ ဂျုံမှုန့်၊ ဗိလပ်မြေ၊ ဓာတုဗေဒပစ္စည်း၊ ချည်ထည်၊ လေယာဉ်ပျံ၊ စည်သွတ်သစ်သီးနှင့် ဟင်းသီးဟင်းရွက်၊ သကြား စသည်တို့ဖြစ်ရာ၊ ထွက်ကုန်မှာ အထွေထွေအပြားပြားဖြစ်လေသည်။

၁၉၅၅ ခုနှစ် ခန့်မှန်းခြေစာရင်းအရ တက်ဆက်ပြည်နယ်၏ လူဦးရေသည် ၈,၅၆၃,၀၀၀ ယောက် ဖြစ်သည်။ ထိုပြည်နယ်တွင် မူလက နေထိုင်ခဲ့သူများသည် ရက်အင်ဒီးယန်းလူမျိုးများ ဖြစ်ကြသည်။ သို့သော် ၁၆ ရာစုနှစ်များတွင် စပိန်နှင့် ပြင်သစ်လူမျိုးများ လာရောက်အခြေစိုက် နေထိုင်ကြသည်။ ယခုလက်ရှိ နေထိုင်သူများကား နောက်ထပ်လာရောက်အခြေစိုက်ခဲ့ကြသော အိုင်းရစ်၊ ဂျာမန်၊ ပြင်သစ်၊ ဒပ်ချ၊ ဆွိနှင့် အင်္ဂလိပ်လူမျိုးများတို့၏ အဆက်အနွယ်များဖြစ်၏။

တက်ဆက်ပြည်နယ်သို့ ပဌမဦးစွာ လာရောက်လှည့်လည်ရှာဖွေခဲ့သူတို့မှာ စပိန်လူမျိုးများ ဖြစ်ကြသည်။ ကာဗေးသား သေဗားကားနှင့် အဖော်သုံးဦးတို့သည် ၁၅၂၈ ခုနှစ်



အော်စတင်မြို့တော်ရှိ တက်ဆက်ပြည်နယ် အစိုးရအိမ်တော်

တွင် မက္ကဆီကို ပင်လယ်ကွေ့ရှိ ဂယ်လဗက်စတန် ကျွန်း၌ သင်္ဘောပျက်ကာ သောင်တင်ခဲ့သောကြောင့် တက်ဆက်ပြည်နယ် အနောက်ဖက်သို့ ရောက်ရှိခဲ့သည်။ ထိုမှအစပြု၍ စပိန်လူမျိုးတို့သည် အနောက်ဖက်ရှိ အယ်ပက်ဆိုမြစ်နှင့် ရိုင်အို ဂရန်းမြစ်များ တဝိုက်၌ စတင်အခြေစိုက် နေထိုင်ခဲ့ကြသည်။

ပြင်သစ်လူမျိုး လဆဲသည် ၁၆၈၅ ခုနှစ်တွင် ဂယ်လဗက်စတန်ကျွန်း တောင်ဖက်ရှိ မက်တဂေါ်ဒကျွန်း၌ လာရောက်အခြေစိုက် နေထိုင်ခဲ့သည်။ သို့သော် စပိန်တို့သည် ဆက်လက်၍ လှည့်လည်ရှာဖွေခဲ့ရာ၊ ၁၇၃၁ ခုနှစ်သို့ ရောက်လျှင် အကြိမ်ပေါင်း ၉၀ မျှမက လှည့်လည် စူးစမ်း ရှာဖွေစေခဲ့ပြီးဖြစ်၍၊ သာသနာပြုဌာန အမြောက်အမြား ဖွင့်လှစ်တည်ထောင်ခဲ့ပြီးဖြစ်၏။ ၁၇၁၂ ခုနှစ်မှ ၁၈၀၃ ခုနှစ်အထိ စပိန်တို့ နယ်သစ်စိုက်ထူခြင်းမှာ နှေးကွေးခဲ့သော်လည်း၊ ထိုဒေသသည် စပိန်၏ကြိုးကိုင်မှုအောက်တွင် ရှိခဲ့လေသည်။ ၁၈၂၁ ခုနှစ်၌ စပိန်တို့ထံမှ မက္ကဆီကိုနိုင်ငံ လွတ်လပ်ရေးရသော အခါ၊ တက်ဆက်ပြည်နယ်မှာ မက္ကဆီကိုနိုင်ငံပိုင် ပြည်နယ်တခု ဖြစ်သွားလေသည်။

ထိုသို့ တက်ဆက်ပြည်နယ်သည် မက္ကဆီကိုနိုင်ငံ လက်အောက်၌ ရှိနေခဲ့စဉ်က ထိုပြည်နယ်တွင်းသို့ အမေရိကန်များ လာရောက်အခြေစိုက် နေထိုင်ခဲ့ကြသည်။ ၁၈၂၁ ခုနှစ်တွင် စတီဖင် ဖူးလား အော်စတင် ခေါင်းဆောင်၍ တက်ဆက်ပြည်နယ်အရှေ့ဖက် ဗရက်ဇတ်မြစ်တဝိုက်၌ ဆန်ဖိလစ် သေ အော်စတင် အရပ်ကို တည်ထောင်ကာ အခြေစိုက် နေထိုင်ခဲ့ကြသည်။ တဖြည်းဖြည်းနှင့် အမေရိကန်တို့သည် လူဦးရေ ၂၀,၀၀၀ ကျော်လာခဲ့လေသည်။ ထိုနောက်တွင် မက္ကဆီကိုနိုင်ငံအစိုးရသည် အမေရိကန်တို့ အပေါ် ဖိနှိပ် ချုပ်ချယ်လာသောအခါ၊ အမေရိကန်နယ်သစ်ထူထောင်သူများသည် ပုန်ကန်တော်လှန်ကာ၊ ၁၈၃၆ ခုနှစ်မှ အစပြု၍ တက်ဆက်သမတနိုင်ငံ ထူထောင်ခဲ့လေသည်။ ၁၈၄၅ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၏ ၂၈ ခုမြောက် အဖွဲ့ဝင်ပြည်နယ် ဖြစ်လာခဲ့သည်။ အမေရိကန်ပြည်တွင်းစစ်ပွဲကြီး ဖြစ်ပွားချိန်တွင် ပြည်ထောင်စုမှ ခွဲထွက်ခဲ့သော်လည်း၊ ၁၈၇၀ ပြည့်နှစ်တွင် ပြည်ထောင်စုထဲသို့ ပြန်လည်ဝင်ရောက်လေသည်။ ၁၉၀၀ ပြည့်နှစ်လောက်တွင် ရေနံတွင်းများ စတင်တွေ့ရှိခဲ့ရာ၊ ပြည်နယ်မှာ တဖြည်းဖြည်း တိုးတက်စည်ကား၍ ချမ်းသာကြွယ်ဝလာလေသည်။ ယခင်က မြို့သိမ် ရွာငယ်များသည် မြို့ကြီးများ ဖြစ်လာ၏။ ရေနံချက်စက်များ၊ အလုပ်ရုံများ၊ စက်ရုံများ ပေါ်ပေါက်လာခဲ့၏။ ဆိပ်ကမ်းမြို့များကို ပြုပြင်ပေးခဲ့၍၊ နိုင်ငံခြားကုန်သွယ်မှု အကြီးအကျယ် တိုးတက် ကောင်းမွန်ခဲ့သည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်းက အမေရိကန်ပြည်ထောင်စု၏ အကြီးဆုံးသော စစ်သားလေ့ကျင့်ရေးစခန်း အများအပြား ပြည်နယ်အတွင်းတွင် တည်ရှိခဲ့ပေ၏။ ဒုတိယကမ္ဘာစစ်ကြီး အတွင်း၌မူ စက်မှုလက်မှုအလုပ်ရုံသစ် အမြောက်အမြား တည်ထောင်ခဲ့လေသည်။ တက်ဆက်ပြည်နယ်၏ မြို့

တော်မှာ အော်စတင်ဖြစ်၍၊ ပြည်နယ်၏ အလယ်ကို ဖြတ်သန်းစီးဆင်းသော ကော်လိုရားဒိုး မြစ်ကမ်းပေါ်တွင် တည်ရှိသည်။ အခြားမြို့ကြီးများမှာ ဟူစတန်၊ ဆန်အန်တိုးနယိုး၊ ဂယ်လဗက်စတန်နှင့် ဖို့ဝပ်မြို့တို့ဖြစ်ကြသည်။

**တောက်တဲ့။** ။တောက်တဲ့သည် ဖွတ်ပုတတ်မျိုးတွင် အပါအဝင်ဖြစ်၏။ ယင်းတို့ကို ကမ္ဘာပေါ်ရှိ ပူနွေးသော အပိုင်း၌ အနှံ့အပြား တွေ့ရသည်။ ပါဏဗေဒအလိုအားဖြင့် တောက်တဲ့သည် 'ဂက်ကိုနီဒီး' မျိုးရင်းတွင် ပါဝင်၍၊ အမျိုးပေါင်း မြောက်မြားစွာရှိ၏။ အကောင် သေးငယ်၏။ အကြီးဆုံး တောက်တဲ့မျိုးသည် အလျား တပေသာသာ ရှိသည်။ ဦးခေါင်းနှင့် ကိုယ်ထည်မှာ တိုရှိ တုတ်သည်။ အရေပြားသည် ပျော့ပျောင်း၍၊ အဖုကလေးများ ပါရှိ၏။ မျက်လုံး၌ မျက်ခွံမရှိချေ။ သို့သော် မျက်လုံးပေါ်၌ အမြှေးပါး ပါရှိ၏။ အမြီးသည် မျိုးရိုးအလိုက် အတို၊ အရှည်၊ အပြား၊ အလုံး စသည်ဖြင့် ပုံသဏ္ဌာန် အမျိုးမျိုးရှိ၏။ အမြီးကို ကိုင်လိုက်လျှင် လွယ်ကူစွာ ပြတ်ထွက်လာတတ်သည်။ ပြတ်သွားသည့် အမြီးနေရာတွင် အမြီးသစ်ပြန်၍ ပေါက်လေ့ရှိ၏။ တောက်တဲ့သည် အမြီးထဲ၌ အာဟာရဓာတ်များကို သိုလှောင်ထားပြီးလျှင် အစားအစာ ရှားပါးသော အချိန်အခါများ၌ ထိုသိုလှောင်ထားသော အာဟာရကို အသုံးပြုသည်ဟု ဆိုလေသည်။ တောက်တဲ့၏ အစာမှာ ပိုးကောင်များဖြစ်၏။ သို့သော် မိတတ်ရာရာ အခြားသတ္တဝါများကိုလည်း စားတတ်သည်။ အိမ်နှင့် ကုန်လှောင်ရုံများ၌ တွေ့ရသော တောက်တဲ့တို့သည် ကြွက်တို့ကိုပင် ဖမ်းယူစားသောက်ကြသည်ဟု ဆို၏။

တောက်တဲ့၏အရောင်မှာ မွဲပြာရောင်၊ မီးခိုးရောင်၊ အဖြူပုပ်ရောင်၊ အညိုရောင်စသည်ဖြင့် အရောင်အမျိုးမျိုးဖြစ်သည်။ တောက်တဲ့သည် သစ်တောနှင့် ကျောက်ကြိုကျောက်ကြားများ၌ နေတတ်၏။ နေ့အခါ၌ ငြိမ်သက်စွာ ပုန်းအောင်းနေပြီးလျှင်၊ ညအခါမှသာ ထွက်၍ ကျက်စားလေ့ရှိသည်။ တောက်တဲ့သည် မျက်နှာပြင် တခုခုပေါ်၌ ခြေကိုချလိုက်သည်နှင့် ခြေထောက်သည် ထိုမျက်နှာပြင်နှင့် ကပ်နေအောင် ထူးခြားသည့် အနေထားမျိုးရှိ၏။ ထိုကြောင့် တောက်တဲ့သည် နံရံမျက်နှာကြက်၌ပင် စောက်ထိုး လျှောက်သွားနိုင်၏။ မျိုးကိုလိုက်၍ တကောင်နှင့်တကောင် အော်သံခြင်း အနည်းငယ် ကွာခြားသည်။

လူအများပင် တောက်တဲ့ကိုက်လျှင် အဆိပ် တက်တတ်သည်ဟူ၍၎င်း၊ တောက်တဲ့တံထွေးနှင့် ထိလျှင် အရေပြား၌ အဖုအပိမ့်များ ထွက်တတ်သည်ဟူ၍၎င်း၊ ထိမိရုံနှင့်ပင် အရေပြားပေါ်၌ အကွက်များ ပေါ်တတ်သည်ဟူ၍၎င်း



အမြီးထဲ၌ အာဟာရဓာတ်များသိုလှောင်တတ်သည့် သတ္တဝါ

အမျိုးမျိုး ထင်မြင်ယူဆတတ်ကြလေသည်။ သို့သော် ထိုထင်မြင်ယူဆချက်များမှာ လုံးဝမှားယွင်း၏။ စင်စစ်သော်ကား၊ တောက်တဲ့သည် ပိုးမွှားများကို စားသောက်သောကြောင့်၊ တနည်းအားဖြင့် လူတို့အား အကျိုးပြုသည်ဟု ဆိုနိုင်ပေသည်။

**တောက်ရပ်ပင်။** ။တောက်ရပ်ပင်သည် 'ယူဖေါဗီးယားစီအီး' မျိုးစဉ်တွင် ပါဝင်၍၊ ယင်း၏ ရုက္ခဗေဒ အမည်မှာ 'ပူတြန်ဂျီဗာ ရော့ကစဗာဂိုင်အီ' ဖြစ်သည်။ တောက်ရပ်ပင်ကို ပုတီးဖြူဟူ၍လည်း ခေါ်သည်။

အမြဲစိမ်းသော အပင်ဖြစ်သည်။ အမြင့် ပေ ၅၀ ရှိ၍၊ အကိုင်းများမှာ အောက်သို့ တွဲကျနေတတ်သည်။ အရွက်

များသည် အုပ်အုပ်ဆိုင်းဆိုင်း ပေါက်တတ်သဖြင့် အရိပ်ကောင်း ရ၏။ အခေါက်မှာ မဲ့ပြာရောင် ရှိ၍၊ ပြားလိုက်အရေးကြောင်းများနှင့် ရှည်လျားလျား အကွက်များ ပါရှိသည်။ အပင်နုမှ အခေါက်မှာ ဖြူဖပ်ဖြူရော် ရှိသည်။ အသား မာ၍၊ သိပ်သည်းသည်။ အရွက်တို့မှာ ရွက်လွှဲဖြစ်၍၊ ငှက်ပျောဖူးပုံသဏ္ဌာန် ရှိသည်။ အရွက်၏အရွယ်မှာ အလျား ၃ လက်မခန့် ရှိ၍၊ ရွက်နားတွင် ခွေးသွားစိတ် အနည်းငယ် ပါရှိသည်။ အပွင့် သေးငယ်၍ အဝါရောင်ရှိသည်။ ပွင့်ဖိုနှင့် ပွင့်မ နှစ်မျိုးပွင့်သည်။ ပွင့်မသည် ပွင့်ဖိုထက် အရွယ်ကြီး၏။ တောက်ရပ်သီးသည် ချယ်ရီသီးအရွယ် ရှိ၍၊ အတွင်း ခံ့မာသီးမျိုး ဖြစ်သည်။ ပုံသဏ္ဌာန်မှာ ဝိုင်း၍ အဖြူရောင်ရှိသည်။ အမွေးအမှင် ပါရှိသည်။

တောက်ရပ်ပင်ကို အများအားဖြင့် နုံးမြေ ပေါရာဒေသတွင် တွေ့ရသည်။ လှပတင့်တယ်သော အပင်ဖြစ်သည်။ အချိန်အတန်ကြာမှ အပင်ရင့်သန်သည်။ ခြောက်သွေ့သောဒေသများ၌ ပေါက်ရောက်သော တောက်ရပ်ပင်မှာ ပုက္ကကူဖြစ်၍၊ ချုံပင်နှင့် တူ၏။ မြန်မာနိုင်ငံတွင် တောက်ရပ်ပင်ကို စွတ်စိုသောဒေသရှိ လမ်းဘေး၌ စိုက်ပျိုးရန် သင့်တော်သည်။ အပင်ကို အစေ့များမှ မျိုးပွားယူရသည်။ အစေ့များသည် မိုးနှောင်းတွင် မှည့်လာသည်။ ထိုအစေ့များကို ရက်ပေါင်းများစွာ ရေတွင်စိမ်ထားပြီးမှ ခြင်း၊ တောင်း သို့မဟုတ် ပျိုးခင်းများတွင် တပေစီခြား၍ ပျိုးရသည်။ ရွှေ့ပြောင်းစိုက်ပျိုးသောအခါ ပဌမနှစ် နွေရာသီတွင် ရေလောင်းပေးရန် လိုသည်။ လမ်းဘေးတွင်စိုက်ပျိုးသောအခါ တပင်နှင့်တပင်ကို ပေ ၃၀ စီ ခြားရသည်။

တောက်ရပ်ပင်သည် ဟိမဝန္တာ အနိမ့်ပိုင်းနှင့် မြန်မာနိုင်ငံတွင် ပေါက်ရောက်သည်။ အိန္ဒိယနိုင်ငံ၌လည်း စိုက်ပျိုးလေ့ရှိသည်။

တောက်ရပ်သားကို ကရိယာတန်ဆာပလာ ပြုလုပ်ရန် အသုံးပြုကြသည်။ အသီးကို စိပ်ပုတီး သို့မဟုတ် လည်ဆွဲပုတီးများ ပြုလုပ်ရသည်။

**တောက်ရှာငှက်။** ။သစ်တောက်ငှက် — ရှု။

**တိုက်။** ။ပထဝီဝင်သဘောအရ တိုက်ဟူသည်မှာ ကမ္ဘာ့မျက်နှာပြင်တွင် တခုစီ တခုစီ သီးခြား၍ တည်ရှိနေကြသော ကုန်းမြေကြီးများဖြစ်သည်။ ကမ္ဘာပေါ်တွင် ဥရောပ၊ အာရှ၊ အာဖရိက၊ ဩစတြေးလီးယား၊ အမေရိကဟူ၍ တိုက်ကြီး ငါးတိုက်ရှိကြောင်းကို ရှေးပထဝီ ပညာရှင်တို့က ဆိုခဲ့ကြသည်။ သို့သော် ဤခေတ်တွင် တောင်ဝင်ရိုးစွန်းရှိ အန္တာတိကကုန်းမြေကို တိုက်ဟူသောအရာ၌ ထားသည်။ ထို့ကြောင့်၊ တိုက်ကြီး ခြောက်တိုက်ဟု ဆိုကြပြန်သည်။ အချို့ပထဝီပညာရှင်တို့ကမူ အမေရိကတိုက်ကို တောင်နှင့် မြောက် အမေရိကတိုက်ဟု နှစ်တိုက်ခွဲ၍ ပြကြသည်။ တဖန် ဥရောပနှင့် အာရှတိုက်တို့သည် တဆက်တည်းဖြစ်ကြ၍၊ ယူရေးရှအမည်ဖြင့် ထိုနှစ်တိုက်ကို တတိုက်တည်းပေါင်းစပ်၍ ယူကြသည်။ ထို့ပြင်လည်း ဩစတြေးလီးယားတိုက်ကို နမူနာယူ၍၊ ဂရင်းလန်ကျွန်းကို တိုက်တတိုက်အဖြစ်ဖြင့် သတ်မှတ်လိုသော ပညာရှင်များလည်း ရှိသေးသည်။ အချို့ကမူ ဩစတြေးလီးယားသည် ကျွန်းတကျွန်းမျှသာ ဖြစ်၍၊ ယင်းတခုထည်းကို တိုက်ဟူ၍ မခေါ်ဘဲ၊ ယင်းနှင့်တကွ နီးစပ်လျက်ရှိသော ကျွန်းကြီးကျွန်းငယ် အသွယ်သွယ်တို့ကို သိမ်းရုံးစုပေါင်း၍၊ ဩစထရယ်လေးရှားတိုက် ဟူ၍၎င်း၊ အိုရှီယန်းနီးယားတိုက် ဟူ၍၎င်း သမုတ်ကြသည်။

**တိုက်ကြီးမြို့။** ။တိုက်ကြီးမြို့သည် အင်းစိန်ခရိုင် တိုက်ကြီးနယ်နှင့် တိုက်ကြီးမြို့နယ်တို့၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ရန်ကုန်-ပြည် မီးရထားလမ်းနှင့် မော်တော်ကားလမ်း ပေါ်တွင် တည်ရှိသော မြို့ ဖြစ် သည်။ ရန်ကုန်မြို့မှ အနောက်မြောက်ဖက် သို့ ရထားလမ်းဖြင့် ၄၂ မိုင်မျှ ကွာဝေးသည်။ မြို့အနေအထားမှာ မကြီးလှသော်လည်း၊ နယ်ကျယ်၍ လမ်းဆုံရာဒေသ ဖြစ်သော ကြောင့် အရောင်းအဝယ် စည်ကားသည်။ ရန်ကုန်မြို့ကို ရေပေးသော ဂျီးဖြူ သို့ တိုက်ကြီးမှ ကားလမ်းဖောက်ထားသည်။ တိုက်ကြီးနယ်တွင် တိုက်ကြီး



ရန်ကုန်မြို့သို့ရေပေးသော တိုက်ကြီးမြို့အနီးရှိ ဂျီးဖြူကန်

မြို့နယ်နှင့် ထန်းတပင်မြို့နယ်တို့ ပါဝင်ကြ၏။ တိုက်ကြီးမြို့ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၈,၇၂၀ ယောက် ရှိလေသည်။

**တင့်ကားများ။** ။ပဌမ ကမ္ဘာစစ်ကြီးတွင်မှ စတင် အသုံးပြုသော စစ်ယန္တရား ယာဉ်တမျိုးကို တင့်ကားဟူ၍ ခေါ်ကြသည်။ အကြောင်းမှာ စစ်အတွင်းတွင် အင်္ဂလန်ပြည်မှ ဥရောပတိုက်သို့ ထိုပစ္စည်းများကို ပို့ရာ၌ စစ်ပစ္စည်းဖြစ်ကြောင်း မသိစေခြင်းငှာ၊ တင့်များ (သံရေလှောင်ကန်ကြီးများ) ဟု စာကပ်၍ ပို့ရာမှ 'တင့်' ဟူသောအမည်တွင်လာသည်။ ထိုပစ္စည်းများတွင် ဘီးဝိုင်းများ မပါသောကြောင့် ကားဟူ၍ ခေါ်သော်လည်း၊ လုံးဝမမှန်ချေ။

အကာအကွယ်ကင်းသောကန္တာရများတွင် တင့်ကားများသည် အသုံးဝင်လှသည်။





ဒုတိယကမ္ဘာစစ်အတွင်း စတင်အသုံးပြုခဲ့သော စင်တျူရီယန် တင့်ကားတစီး

သို့ရာတွင် အခြားအမည်ဖြင့် ခေါ်တွင်ရန် မလွယ်ကူသောကြောင့် တင့်ဟူ၍၎င်း၊ တင့်ကားဟူ၍၎င်း သုံးစွဲခေါ်ဝေါ်နေကြလေသည်။

ဘီစီ ၃၅၀၀ ပြည့်နှစ်ခန့်က အဆီးရီးယန်းလူမျိုးတို့သည်၎င်း၊ ဘီစီ ၁၂၀၀ ပြည့်နှစ်ခန့်က တရုပ်လူမျိုးတို့သည်၎င်း စစ်ပွဲများတွင် စစ်ရထားများကို အသုံးပြုလေ့ရှိခဲ့ကြသည်။ ဤသို့အားဖြင့် အကွယ်အကာယူ၍၊ ရန်သူတပ်အတွင်းသို့ ထိုးဖောက်ဝင်ရောက်နိုင်လေသည်။ စစ်ပွဲတွင် ဆင်များကို အသုံးပြုခြင်းမှာလည်း ဤသဘောပင် ဖြစ်သည်။

စစ်ရထားကို တဆင့်ထက် တဆင့် တိုးတက်ကောင်းမွန်လာအောင် ကာလရှည်သည်နှင့်အမျှ ပြုပြင်၍လာကြရာ၊ မော်တော်ကားများ ပေါ်ပေါက်လာသည့် အခါက၊ သံချပ်ကာ ကားများကို အသုံးပြုလာကြလေသည်။ သို့ရာတွင် ဘီးများ ပါရှိခြင်းကြောင့် ချိုင့်၊ ကျင်း၊ မြောင်းနှင့် မြေမညီသော နေရာများတွင် အသုံးရခက်သည်။ ထို့ကြောင့် နောင်တွင် ဗိုလ်ချုပ်ဖြစ်လာသူ အီး၊ ဒီ၊ ဆွင်တန်နှင့် အပေါင်းပါတစုတို့သည် သံချပ်ကာ ကားထက် ပို၍ အရာရောက်မည့် တင့်ကားကြီးများကို ထွင်လိုက်ကြလေသည်။ တင့်ကားများတွင် ဘီးဝိုင်းအစား၊ လယ်ထွန်စက်များတွင် တပ်ဆင်သော သံခါးပတ်ကြီးများရှိ၏။ ယင်းတို့ဖြင့် တင့်ကားများ ရွေ့ရှားသွားလာနိုင်၏။ မညီညာသော မြေပြင်နှင့် တူးမြောင်း၊ ချိုင့်ဝှမ်း၊ ကျင်းများကို ဖြတ်ကျော်သည့်အခါ၊ တင့်ကားကြီးများသည် ဦးပိုင်းကို မော့ထား၍၊ နောက်ပိုင်းကိုလည်း မလွတ်သေးဘဲ၊ တဖက်ကို မိလောက်မှ မြေပြင်သို့ ဦးပိုင်းကိုနှိမ့်ချ၍ ဖြတ်ကူးလေသည်။ တင့်ကားကြီးများသည် သံဆူးကြိုး အကာအရံများကိုလည်း ဖျက်ဆီး ဖြတ်ကျော်သွားနိုင်လေသည်။

တင့်ကားကြီးများသည် ခံတပ်အရှင်များ ဖြစ်ပေသည်။ သံမဏိပြားများနှင့် ပြုလုပ်ထားသဖြင့် ရန်သူ၏ကျည်ဆန်များ တိုးဖောက်ခြင်း မပြုနိုင်ချေ။ အကြီးစား တင့်ကား

များတွင် စက်သေနတ်များသာမက၊ အပေါ့စား အမြောက်များကိုပါ တပ်ဆင်ထားသည်။ ထိုကြောင့် ရန်သူ၏ တပ်တွင်းသို့ ထိုးဖောက်သည့်အခါ၊ ကျည်ဆန်များကို မိုးသီးမိုးပေါက်ပမာ ပစ်သွင်းနိုင်သည်။

၁၉၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၅ ရက်နေ့ ဆုမ်းတိုက်ပွဲတွင် တင့်ကားများကို အင်္ဂလိပ်တို့က စတင်အသုံးပြုခဲ့လေသည်။ ဂျာမန်တို့ပင် ခုကောင်များကဲ့သို့ ရွေ့ရှားလာသော ထိုထူးခြားသည့် ယာဉ်ကြီးများကို မြင်လျှင် အံ့သြကြလေသည်။ ထိုနောက်တွင်ကား ပြင်သစ်၊ အမေရိကန်နှင့် ဂျာမနီတို့ကလည်း တင့်ကားများကို ပြုလုပ်၍ အသုံးချလာကြလေသည်။

သံချပ်ပြားများဖြင့် ပြုလုပ်ထား၍ လေးလံသောကြောင့် တင့်ကားများသည် ယေဘုယျအားဖြင့် အသွားနှေး၏။ သို့ရာတွင် ဗြိတိသျှ တင့်ကားများသည်ကား ပိုမိုပေါ့ပါး၍ အသွားမြန်သည်။ ဗြိတိသျှတို့၏ အကြီးဆုံးတင့်ကားမှာ ၃၅ တန်မျှရှိ၍၊ 'ကရူဆာ' ခေါ် တင့်ကားများမှာ ၁၄ တန်မျှ ရှိရာ၊ တနာရီလျှင် ၁၅ မိုင်မှ မိုင် ၂၀ အထိ သွားနိုင်လေသည်။ ထိုထက်ပေါ့ပါးသော တင့်များလည်း ရှိသေးရာ၊ ယင်းတို့ကို ကင်းထောက်ရာတွင် အသုံးပြုသည်။ ဂျာမနီနှင့် ပြင်သစ်တို့၏ တင့်ကားများမှာ တန် ၈၀ နှင့် ၇၅ တန်မျှ ရှိရာ၊ အသွားနှုန်းမှာ တနာရီလျှင် ၁၀ မိုင်မျှသာ ဖြစ်လေသည်။

တင့်ကားများ၏ အသုံးဝင်ပုံ၊ အရာရောက်ပုံတို့ကို တွေ့မြင်လာကြသည့်အလျောက်၊ တင့်ကားများကို ပိုမိုတိုးတက်ကောင်းမွန်အောင် ပြုပြင်၍၊ တွင်ကျယ်စွာ အသုံးပြုလာကြသည်။ ထိုကြောင့် ဗြိတိသျှစစ်တပ်တွင် တင့်ကားများနှင့် လိုက်ပါ တိုက်ခိုက်သော တပ်သားများကို ဘုရင့် တင့်ကားတပ်ဖွဲ့ဟု တပ်ဖွဲ့တခု ဖွဲ့ထား၍၊ ထိုတပ်ဖွဲ့များကို ဘုရင့်ယန္တရားတပ်ဖွဲ့နှင့် ပူးပေါင်းထား၏။

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ စစ်ပွဲတွင်ပါဝင်သော နိုင်ငံတိုင်းပင် တင့်ကားကို အသုံးပြုကြသည်။ ပြင်သစ်နိုင်ငံ၊ ပိုလန်နိုင်ငံစသည်တို့ကို လျှပ်တပြက် စစ်ဆင်နည်းဖြင့် တိုက်ခိုက်ရာ၌ ဂျာမန်တို့သည် တင့်ကားကို အသုံးပြုခဲ့ကြ၏။ အာဖရိကမြောက်ပိုင်း တိုက်ပွဲများ၌ အင်္ဂလိပ်နှင့် ဂျာမန်တို့ စစ်တိုက်ခိုက်ကြရာတွင် တင့်ကားသည် အဓိကလက်နက်တခုဖြစ်သည်။ ဆိုဗီယက်ယူနီယန်မှ ဂျာမန်တို့ကို မောင်းထုတ်နိုင်ခြင်းမှာလည်း တင့်ကားကြောင့်ပင် ဖြစ်သည်။ ၁၉၄၄ ခုနှစ်တွင် တင့်ကားဖြင့် ပြင်သစ်နိုင်ငံကို ပြန်လည်တိုက်ယူနိုင်ခဲ့သည်။ ကိုရီးယားစစ်ပွဲ၌ မြောက်ကိုရီးယား စစ်တပ်နှင့် ကုလသမဂ္ဂစစ်တပ် နှစ်ဖက်စလုံးသည် တင့်ကားကို အသုံးပြုခဲ့ကြသည်။ (အမြောက်ကြီးများ — လည်းရှု။)

**တင့်ဆွေ၊ ဦး** (ခရစ် ၁၉၀၆–၁၉၅၃)။ ။ဦးတင့်ဆွေသည် ကျောင်းဆရာ အဖြစ်ဖြင့်၎င်း၊ စာရေးဆရာ အဖြစ်ဖြင့်၎င်း၊ သတင်းစာဆရာ အဖြစ်ဖြင့်၎င်း၊ သီဟိုဠ်နိုင်ငံအတွက် မြန်မာသံအမတ် အဖြစ်ဖြင့်၎င်း၊ ထင်ရှားခဲ့သော ပုဂ္ဂိုလ်ဖြစ်ပေသည်။ ဦးတင့်ဆွေကို ရန်ကုန်မြို့၊ ၂၅ လမ်း (စာဆိုတန်း)၌ အဖ စာတော်ပြန်ဝန်ထောက် ဦးဖိုးဖြူ၊ အမိ ကဝိမျက်မှန် စာပုံနှိပ်တိုက်ပိုင်ရှင် ဒေါ်အေးမေတို့မှ ခရစ် ၁၉၀၆ ခုနှစ် ဇူလိုင်လ ၁၆ ရက်နေ့တွင် ဖွားမြင်သည်။ အဖဖြစ်သူ ဦးဖိုးဖြူသည် လောကုပ္ပတ္တိကျမ်း၊ ဗုဒ္ဓုပ္ပတ္တိကျမ်းများကို ပြုစုခဲ့သော ကျမ်းပြုပုဂ္ဂိုလ်ကြီးတဦးလည်း ဖြစ်၍၊ အမိဖြစ်သူ ဒေါ်အေးမေကား စပယ်ပင်၊ ရွှေပြည်စိုး၊ သုံးဘို၊ တနန်းပျော် ရင်သွေးတော် အစရှိသောဝတ္ထုများကို ရေးသားခဲ့သူ ရာဇဝတ်ဝန်ထောက် ဦးလတ်၏ အစ်မတဝမ်းကွဲ ဖြစ်သည်။ မွေးချင်း ၇ ယောက်ရှိသည့်အနက် ဦးတင့်ဆွေသည် ဆဋ္ဌမမြောက် သားဖြစ်သည်။

စာသင်ရွယ် ရောက်သော်၊ ဦးတင့်ဆွေသည် ရန်ကုန်မြို့ ဘိဂင်းဒတ် အင်္ဂလိပ်ကျောင်းတွင် စတင်၍ ပညာဆည်းပူးသည်။ ထိုနောက် အစိုးရ အထက်တန်းကျောင်းသို့ ပြောင်းကာ ဆက်လက်၍ ပညာသင်ယူနေစဉ်၊ ၁၉၂၀ ပြည့်နှစ် ပဌမ ကျောင်းသားသပိတ် ဖြစ်ပေါ်လာသောအခါ၊ အစိုးရကျောင်းကို သပိတ်မှောက်၍၊ တည်ထောင်စဖြစ်သော ရန်ကုန်မြို့၊ မြို့မ အမျိုးသားအထက်တန်းကျောင်းတွင် ဆက်လက်ပညာသင်ယူခဲ့သည်။ မြို့မ အမျိုးသားအထက်တန်းကျောင်းမှ ၁၀ တန်း အောင်မြင်သောအခါ ရန်ကုန်တက္ကသိုလ်ကျောင်း၌ ဆက်လက်၍ ပညာဆည်းပူးရာ၊ ၁၉၃၁ ခုနှစ်တွင် ဝိဇ္ဇာဘွဲ့ကို ရရှိခဲ့သည်။ ထိုနောက် မြို့မ အမျိုးသားအထက်တန်းကျောင်းတွင် အထက်တန်းပြဆရာအဖြစ် ဝင်ရောက်လုပ်ကိုင်ယင်း၊ ဥပဒေပညာကို သင်ယူပြန်ရာ ဥပဒေဝိဇ္ဇာဘွဲ့ကို ရရှိခဲ့သည်။

၁၉၃၅ ခုနှစ်၌ ဦးတင့်ဆွေသည် ကျေးလက်တောရွာ ပြုပြင်ရေးပညာရပ်များကို လေ့လာရန်အတွက် အစိုးရပညာတော်သင် အဖြစ်ဖြင့် အင်္ဂလန်ပြည် အိတ်ဇီတာ ကောလိပ်သို့ ရွေးချယ်စေလွှတ်ခြင်း ခံရသည်။ ဦးတင့်ဆွေသည် အိတ်ဇီတာ ကောလိပ်မှ ဆရာဖြစ် ဒီပလိုမာဘွဲ့ကို ရရှိခဲ့သည်။ ဦးတင့်ဆွေသည် အင်္ဂလန်နိုင်ငံ၌ ပညာတော်သင်အဖြစ် သင်ကြားနေစဉ်အတွင်း ဥရောပတိုက် နိုင်ငံများသို့ လှည့်လည်ကာ ဒေသန္တရဗဟုသုတများကို လေ့လာဆည်းပူးခဲ့သေးသည်။

မြန်မာနိုင်ငံသို့ ပြန်ရောက်သောအခါ ဦးတင့်ဆွေသည် မန္တလေးမြို့ အစိုးရ ဆရာဖြစ်သင် နော်မန်ကျောင်းတွင် ကျောင်းအုပ်ကြီးအဖြစ် ဆောင်ရွက်သည်။ ၁၉၃၉ ခုနှစ် ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်စတွင် ပြည်ထဲရေးနှင့် ကာကွယ်

ရေးဌာန လက်အောက်၌ ဝါဒနှင့် သတင်းဖြန့်ချိရေး အရာရှိအဖြစ် အမှုထမ်းခဲ့သည်။

ဦးတင့်ဆွေသည် ၁၉၄၀ ပြည့်နှစ် အသက် ၃၄ နှစ်အရွယ်တွင် ဥပဒေပြုအမတ်၊ မြေပိုင်ရှင် ဦးဘဖူနှင့် ဇနီး ဒေါ်ဒေါ်သိန်းတို့၏သမီး၊ နိုင်ငံကျော် စန္ဒယားချံပီယန် ဦးကျော်၏ အစ်မဖြစ်သူ ဒေါ်ထားရီနှင့် ထိမ်းမြားခဲ့ရာ သမီး တယောက်သာ ထွန်းကားခဲ့လေသည်။

ဂျပန်ခေတ်တွင် ဦးတင့်ဆွေသည် မန္တလေးမြို့မှထုတ်ဝေသော တိုင်းချစ်သတင်းစာတွင် ခေတ္တမျှ အယ်ဒီတာလုပ်ခဲ့ပြီးနောက်၊ ဝန်ကြီးချုပ်ရုံးတွင် အတွင်းဝန်အဖြစ်ဖြင့်၎င်း၊ သာသနာရေး၊ နိုင်ငံတော်ကြီးပွါးရေး၊ ဝါဒဖြန့်ချိရေး ဝန်ကြီးဌာနတွင် အတွင်းဝန်အဖြစ်ဖြင့်၎င်း ဆောင်ရွက်ခဲ့လေသည်။ ၁၉၄၃ ခုနှစ်တွင် ဦးတင့်ဆွေသည် ဒေါက်တာဗမော်၊ ဗိုလ်ချုပ် အောင်ဆန်း၊ သခင်မြတို့ အမှူးပြုသောအဖွဲ့တွင် အတွင်းရေးမှူး အဖြစ်ဖြင့် ဆောင်ရွက်၍ ဂျပန်ပြည်၊ ဖိလစ်ပိုင်၊ ဖော်မိုးဆား၊ စင်္ကာပူတို့သို့ လိုက်ပါလှည့်လည်ခဲ့ဘူးသည်။

ဒုတိယ ကမ္ဘာစစ်ကြီး အပြီးတွင် ဦးတင့်ဆွေသည် အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသော ဘားမင်းသတင်းစာအယ်ဒီတာချုပ်အဖြစ်ဖြင့် ဆောင်ရွက်လေသည်။ ထို့ပြင်ဦးတင့်ဆွေသည် ယူနက်စကိုကော်မရှင်၏ မြန်မာနိုင်ငံဆိုင်ရာအဖွဲ့တွင် ဒုတိယဥက္ကဋ္ဌ အဖြစ်ဖြင့်၎င်း၊ မြန်မာနိုင်ငံပညာရေး စုံစမ်းရေးကော်မတီဝင် အဖြစ်ဖြင့်၎င်း၊ ရုပ်ရှင် ဆင်ဆာလူကြီး အဖြစ်ဖြင့်၎င်း၊ သတင်းစာ အကြံပေးအဖွဲ့ဝင်အဖြစ်ဖြင့်၎င်း ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တာဝန်များကို ထမ်းရွက်ခဲ့သေးသည်။

၁၉၅၀ ပြည့်နှစ် ဇန်နဝါရီလတွင်ကား ဦးတင့်ဆွေသည် သီဟိုဠ်နိုင်ငံဆိုင်ရာ မြန်မာသံအမတ်ကြီးအဖြစ် ခန့်အပ်ခြင်းခံရခဲ့ပေသည်။ သံအမတ်ကြီးအဖြစ် ဝတ်တရား ရွက်ဆောင်နေစဉ်အတွင်း ဦးတင့်ဆွေသည် ၁၉၅၂ ခုနှစ်၌ နယူးယော့မြို့တွင် ကျင်းပခဲ့သော ကမ္ဘာ့ကုလသမဂ္ဂ အစည်းအဝေးကြီးသို့ မြန်မာနိုင်ငံမှ ကိုယ်စားလှယ်တော်အဖြစ် တက်ရောက်ခဲ့သေးသည်။



**နိုင်ငံပြုသုခမိန် စာရေးဆရာကြီး ဦးတင့်ဆွေ**

သို့ရာတွင် ဦးတင့်ဆွေ ကျင်လည်ခဲ့သော ဘဝအမျိုးမျိုးတို့တွင် စာရေးဆရာဘဝကိုမူ တကဏ္ဍခွဲခြား ဖေါ်ပြရပေလိမ့်မည်။ ဦးတင့်ဆွေသည် စာရေးဆရာ ဦးတင့်ဆွေအဖြစ်ဖြင့် ကွယ်လွန်သည့်တိုင်အောင် ထင်ရှားခဲ့သောပုဂ္ဂိုလ်ဖြစ်သည်။ ၁၉၄၉ ခုနှစ်၌ မြန်မာနိုင်ငံ စာရေးဆရာအသင်း၏ ဥက္ကဋ္ဌအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံခဲ့ရသည်။ ဦးတင့်ဆွေသည် ကျောင်းသားဘဝကပင် ကဝိမျက်မှန်မဂ္ဂဇင်း၌ 'တာတေ'၊ 'ရွှေဘိုမောင်လတ်တူ' ဟူသော ကလောင်အမည်များဖြင့် ဝတ္ထုတိုနှင့် ကဗျာ အမြောက်အမြားကို ရေးသားခဲ့ပေသည်။ ဖခင်သည်၎င်း၊ ဦးလေးသည်၎င်း စာပြုပုဂ္ဂိုလ်စာဆိုတော် အကျော်အမော်များချည်း ဖြစ်ကြသဖြင့် ဦးတင့်ဆွေ၌ စာပေအရေးအသားဗီဇအခံသည် မွေးကတည်းကပါလာဟန်တူသည်။ 'ရွှေဘိုမောင်လတ်တူ' ဟူသော ကလောင်အမည်ဖြင့် ဦးတင့်ဆွေရေးသားခဲ့သည့် ဝတ္ထုများအနက် 'ရတီမှန်' အမည်ရှိသော ဝတ္ထုရှည်ကြီးကား အပြီးသို့ မရောက်ချေ။ ဆောင်းပါးများကိုကား ဦးတင့်ဆွေသည် နာမည်ရင်းဖြင့်ပင် ရေးသားလေ့ရှိ၍၊ လူလားမြောက်သည့် အရွယ်ကပင်ရန်ကုန် ဂေဇက်နှင့် ရန်ကုန် တိုင်းသတင်းစာများတွင်ဆောင်းပါးများ ရေးသားခဲ့ဘူးသည်။ စစ်ပြီးခေတ်၌ ဦးတင့်ဆွေသည် သွေးသောက်၊ ရှုမဝ၊ ပဒေသာ၊ ကြေးမုံ၊ တော်ဝင်နှင့် မြဝတီမဂ္ဂဇင်းများတွင် ဒေသန္တရ၊ ရာဇဝင်၊ ကိုယ်ကျင့်တရား၊ ကလေးသူငယ်နှင့် အမျိုးသမီးများအား စောင့်ရှောက်ကာကွယ်ရေး ဆောင်းပါးများကို ရေးသားခဲ့ပေသည်။ ကွယ်လွန်သည်အထိ အစုစုပေါင်း စာအုပ် ၅ အုပ်ကိုလည်း ဦးတင့်ဆွေသည် ရေးသားပြုစုခဲ့၏။ ယင်းစာအုပ်များမှာ လန်ဒန်ဆောင်းပါး၊ ရင်သွေး၊ ကလေးလောက၊ ဒီမိုကရေစီစိတ်ထားနှင့် တက်လူနှင့်တက်လမ်းတို့ ဖြစ်သည်။ ထို့ပြင် ဦးတင့်ဆွေ ကွယ်လွန်ပြီးသည့်နောက်မှ သူရေးသားခဲ့သော ဆောင်းပါးအချို့ကို '၂၄ နာရီ' ဟူသောအမည်ဖြင့် သွေးသောက်စာအုပ်တိုက်မှ ပုံနှိပ်ထုတ်ဝေခဲ့ပေသည်။

ဦးတင့်ဆွေသည် ဆောင်းပါးများကို ရေးသားသော

အခါ၊ ယောနိသော မနသိကာရတည်းဟူသော ကောင်းစွာ နှလုံးသွင်းခြင်းနှင့် မိမိကိုယ်ကို နှိမ့်ချခြင်း၊ မိမိကိုယ်ကို မိမိကိုယ်တိုင် သုံးသပ်ဆင်ခြင်ခြင်း သဘောတို့ကို ထည့်သွင်း ရေးသားလေ့ရှိသည်။ ယောနိသော မနသိကာရမှာ ဦး တင့်ဆွေ၏ စာရိတအရင်းခံလည်း ဖြစ်သည်။ သူသည် ပကတိ တည်ငြိမ်သောစိတ်နှင့် အစဉ်ပြုံး၍ နေတတ်ခြင်း ကြောင့် လူချစ်လူခင်ပေါများသော ပုဂ္ဂိုလ်ဖြစ်ပေသည်။ သူကိုယ်တိုင်ကလည်း ရုပ်မှုရွာမှု၊ အသင်းအဖွဲ့ကိစ္စများတွင် ပါဝင်ကာ ကူညီဆောင်ရွက်လေ့ရှိသည်။ ရန်ကုန် တက္က သိုလ်တွင်ပညာသင်ကြားနေစဉ်အခါက တက္ကသိုလ်ကျောင်း သား သမဂ္ဂနှင့် သုစရိတယုဝ အသင်းများကို စတင် တည် ထောင်သူများအနက် တဦးအပါအဝင် ဖြစ်ခဲ့သည်။ ထို ခေတ်က သုစရိတယုဝ အသင်းသည် သေရည်သေရက် ရှောင်ကြဉ်ခြင်းနှင့် ပိတ်ပင်ခြင်းတို့ကို လှုံ့ဆော်အားပေး သော အသင်းဖြစ်သည်။

၁၉၅၀ ပြည့်နှစ်တွင် မြန်မာနိုင်ငံတော်အစိုးရသည် ဦးတင့် ဆွေအား သီဟိုဠ်နိုင်ငံအတွက် သံအမတ် ခန့်အပ်လေသည်။ ၁၉၅၃ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် ဦးတင့်ဆွေသည် သံအမတ်ဝတ်တရားကို ထမ်းရွက်နေစဉ်အတွင်း ကိုလံဘို မြို့တွင် ကွယ်လွန်ခဲ့ရာ၊ သူ၏ကြွင်းကျန်ရစ်သော ရုပ်က လာပ်ကို ရန်ကုန်မြို့သို့ ယူဆောင်လာကာ တခမ်းတနား သင်္ဂြိုဟ်ကြလေသည်။

**တင်၊ ဆရာ၊ နန်းတော်ရှေ့** (မြန်မာ ၁၂၅၆–၁၃၁၁)။ ။ နန်းတော်ရှေ့ ဆရာတင်သည် မြန်မာနိုင်ငံတွင် အထူး ထင် ရှား ကျော်ကြားသော ဂီတစာဆို ဖြစ်သည်။ အငြိမ့်မင်း သမီးနှင့် ဓာတ်ပြား အဆိုတော်များသည် နန်းတော်ရှေ့ ဆရာတင် ရေးသားစပ်ဆိုသော သီချင်းများကို သီဆို၍ နာမည်ကြီးခဲ့ကြသည်သာ များပေသည်။

ဆရာတင်ကို သက္ကရာဇ် ၁၂၅၆ ခုနှစ်တွင် ကြည့်မြင်တိုင် ထီးတန်း၌ ဖွားမြင်သည်။ ဖခင်မှာ မြို့စာရေးတော်မင်း ဦးမှန်၊ မိခင်မှာ ဒေါ်မမဖြစ်၏။ မန္တလေးမြို့ နန်းတော်ရှေ့ မင်္ဂလာဥယျာဉ်တွင် နေထိုင်ခဲ့သဖြင့် နန်းတော်ရှေ့ ဆရာ တင်ဟု ခေါ်တွင်ခြင်းဖြစ်သည်။

ဆရာတင်သည် အတီးအမှုတ်ဂီတပညာကို တတ်မြောက် ရုံမျှမက၊ ဗုဒ္ဓဝင်၊ မဟာဝင်၊ ရာဇဝင်မှအစ စာပေကျမ်း ဂန်များကို နှံ့စပ်စွာ လေ့လာသင်ကြားခဲ့သူ ဖြစ်၍၊ ဥာဏ် လည်း လျင်မြန်သွက်လက်သည်။ စိတ်ကူး လေးနက်သည်။ ထို့ကြောင့်လည်း သူ၏ သီချင်းများသည် ငြိမ့်ငြောင်းသာ ယာ၍ အဓိပ္ပါယ်ရှိသည်။ ကာလပေါ် သီချင်းများကို တီထွင် စပ်ဆိုသူများအနက်၊ နန်းတော်ရှေ့ ဆရာတင်မှာ ထိပ်ဆုံးက ပုဂ္ဂိုလ်တဦးဖြစ်သည်။



မြန်မာဂီတသမိုင်းတွင်ထင်ရှားခဲ့သူ ဂီတစာဆို နန်းတော်ရှေ့ဆရာတင်

ရှေးအခါက လူတိုင်း၏နှုတ်ဖျားတွင် ခေတ်စားခဲ့သည့် 'လာမယ် လာမယ် မကြည်ရှဲ့လို့' အစချီ သီချင်းနှင့် 'ရွှေကြီးညိုလာယင်' အစချီသီချင်းများအစ 'ပျူစောထီး၊ 'စိန္တာမဏိ၊' 'မြနန္ဒာ၊' 'အောင်နိမိတ်' စသော သီချင်း များအထိ များပြားသော သီချင်းတို့ကို စီကုံးစပ်ဆို ရေး သားခဲ့သည်။ ထိုခေတ်က ကိုလံဘီယာ ဓာတ်ပြားသီချင်း များသည် အများအားဖြင့် နန်းတော်ရှေ့ ဆရာတင်၏ သီချင်းများသာဖြစ်သည်။

ထိုခေတ် အဆိုကျော်များဖြစ်သော မြခြေချင်း မငွေမှိုင်၊ မကြည်အောင်၊ လေဘာတီ မမြရင်၊ စိန်ပါတီ စသော သူများသည် နန်းတော်ရှေ့ ဆရာတင်၏ သီချင်းများဖြင့် ပင် ထင်ရှားခဲ့ကြသည်။ ဆရာတင်မှာ ထိုအဆိုတော် အသီးအသီး၏ ပင်ကိုယ်သံများနှင့် လိုက်လျောဖက်စပ် အဆင်ပြေသည့် တေးသွားများကို ရေးစပ် သီကုံးပေးနိုင် ခဲ့သဖြင့် ပို၍နာမည်ကြီးခဲ့သည်။

ဆရာတင်သည် ၁၃၁၁ ခုနှစ်တွင် ကွယ်လွန်သည်။ ဆရာ တင်၏ ဇနီးဖြစ်သူ အငြိမ့်သဘင်လောက၌ နာမည်ကျော်ခဲ့ သော ပေါ်လင်တင်မှာ ဆရာတင် မကွယ်လွန်မီကပင် ကွယ်လွန်ခဲ့သည်။ ဆရာတင်၌ သားသမီး ၁၄ ယောက် ထွန်းကားခဲ့သည့်အနက်၊ ယခုအခါ ဇာတ်သဘင်တွင် အမည်ကျော်ကြားသူမှာ ရွှေနန်းတင်ဖြစ်သည်။



မြန်မာစာပေပညာရှိ ပုဂံဝန်ထောက်မင်း ဦးတင်

**တင်၊ ဦး၊ ပုဂံဝန်ထောက်** (မြန်မာ ၁၂၃၃–၁၂၉၅)။ ။ ကဗျာဗန္ဓသာရကျမ်း၊ မြန်မာမင်း အုပ်ချုပ်ပုံစာတမ်းနှင့် မော်ကွန်း မေတ္တာစာ အတ္ထုပတ္တိစသည့် စာအုပ်စာတမ်း ပေါင်း ၅၀ ခန့်တို့ကို ရေးသားပြုစုခဲ့သော ပုဂံဝန်ထောက်မင်း ဦးတင်သည် မင်းတုန်းမင်းလက်ထက် ၁၂၃၃ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၄ ရက် စနေနေ့တွင် မန္တလေးမြို့၊ ရွှေနန်းတော်အနောက်ဖက် ရန်နည်းတံခါး လမ်းမတော်ကြီး ရှိ စကြာအိမ်၌ ဖွားမြင်သည်။ အဖကား အသုံးစာရေး ဝမ်းတွင်း ငါးမြို့ဝန် မဟာမင်းလှသင်္ခယာဘွဲ့ခံ ဦးမောင်၊ အမိကား အသုံးစာရေး စာဆိုတော် တောင်အင်းတိုက်စား မဟာမင်းခေါင်ရာဇာ ဦးဘဲ၏သမီး ဒေါ်စောဖြစ်သည်။ ၉ နှစ်သားအရွယ်တွင် အမရပူရမြို့ ဘုံကျော်ကျောင်းတိုက်၌ စာပေ သင်ကြားလေ့လာသည်။ ၁၁ နှစ်သားအရွယ်သို့ ရောက်သောအခါ ရှင်သာမဏေ ပြု၍၊ ဘုံကျော်ကျောင်း တိုက်ရှိ ဆရာတော်နှစ်ပါးထံ ဆည်းကပ်ကာ စာပေပရိယတ္တိများကို သင်ကြားခဲ့၏။ ရှင်မည်မှာ နိမ္မလဖြစ်သည်။

၁၃ နှစ်သားတွင် ကင်းဝန်မင်းကြီး ရေးသားသော အဍ္ဍသံခေပ ဓမ္မသတ်လင်္ကာ ၇၂ ပိုဒ်ကို နှုတ်တက်အာဂုံ ဆောင်နိုင်ရုံမက၊ အနက်အဓိပ္ပာယ်ကို ဆရာတော်ဘုရားကြီး သင်ကြားထားသည့်အတိုင်း ကင်းဝန်မင်းကြီးရှေ့တွင် ပြန်ဆိုဖြေကြားနိုင်သဖြင့် ကင်းဝန်မင်းကြီး၏ ချီးမွမ်းထောမနာ ပြုခြင်း ခံရသည်။ ထိုအချိန်မှစ၍ ထင်ရှားကျော်စောလာလေသည်။

အသက် ၁၅ နှစ်အရွယ်တွင် ရှင်လူထွက်၍၊ မင်းတုန်းမင်းတရားကြီးနှင့် သီပေါမင်းတရားကြီးတို့ လက်အောက်တွင် ရွှေတိုက်၊ ဖြတိုက်၊ လွှတ်တော် စသည်တို့၌ စာရေးတော်အရာဖြင့် အမှုထမ်းသည်မှာ အသက် ၂၃ နှစ်အထိ ဖြစ်သည်။ ၁၂၄၂ ခုနှစ် သီပေါမင်းလက်ထက်တွင် ဇေတဝန်ဆောင်၌ ကျင်းပသော စာရေးတော် စာမေးပွဲ၌ သတ်ပုံသတ်ညွှန်းဖက်တွင် ပဌမ ရသည့်အတွက် နော်ရထာကျော်ထင်ဘွဲ့ကို ရရှိ၏။

အသက် ၂၃ နှစ်မှ ၂၆ နှစ်တိုင် မြန်မာမင်းတို့ခေတ်မှ အင်္ဂလိပ်မင်းတို့ခေတ်သို့ အကူးတွင် မန္တလေးလွှတ်တော်၌ မြန်မာပညာရှိကြီးများနှင့်အတူ အမှုထမ်းခဲ့လေသည်။ အသက် ၂၇ နှစ်မှစ၍ ၃၃ နှစ်တိုင် မြန်မာပြည် အတွင်းဝန်များရုံး စာတော်ပြန်ဌာနနှင့်ကျောက်စာဌာနတွင် ထမ်းရွက်ရပြန်၏။ ထိုနောက် ၁၂၅၇ ခုနှစ်ကစ၍ ပုဂံမြို့အုပ် ရာထူးမှ တဆင့်ထက်တဆင့် တက်၍ ဆောင်ရွက်ခဲ့ရာ၊ အသက် ၄၆ နှစ်တွင် နယ်ပိုင်ဝန်ထောက် ဖြစ်လာလေသည်။ ဦးတင်သည် ပုဂံအကြောင်းအရာကို နှံ့စပ်စွာ သိသူဖြစ်သောကြောင့် ပုဂံဝန်ထောက် ဦးတင်ဟု တွင်လေသည်။

အသက် ၆၀ အရွယ်တွင် အငြိမ်းစားယူ၍၊ စာပေရေးသားမှုတွင် အားပြုခဲ့သည်။ အသက် ၆၅ နှစ်၊ ၁၂၉၄ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်၌ မြန်မာစာပေ ကျောက်စာဌာန အထူးကထိကအဖြစ် ခန့်ထားခြင်းခံရသည်။ ဤသို့ တက္ကသိုလ်၌ အမှုထမ်းစဉ်၊ မြန်မာမင်းတို့ အုပ်ချုပ်ပုံစံနစ်နှင့် ကျောက်စာပညာတို့ကို သုတေသန ပြုခဲ့သဖြင့် မဟာဝိဇ္ဇာဘွဲ့ ပေးအပ်ခြင်းခံရသည်။ သက္ကရာဇ် ၁၂၉၅ ခုနှစ် အသက် ၇၂ နှစ်တွင် ကွယ်လွန် အနိစ္စရောက်လေသည်။ စာပေလောကတွင် အထူးပြောင်မြောက်လှသော ဝန်ထောက်မင်း ဦးတင်သည် နောင်လာနောက်သားတို့ သုံးမကုန်နိုင်သည့် ပညာအမွေကို ပေးခဲ့သောပုဂ္ဂိုလ်ကြီးဖြစ်၏။

**တင်ကျီးငှက်။** ။တင်ကျီးငှက်သည် ခြေချောင်းများကြားတွင် အရေပြားရှိသော ငှက်ကြီးမျိုးဖြစ်သည်။ ရေတွင်ငုပ်၍ ငါးများကို အစာအဖြစ် လိုက်လံဖမ်းဆီး စားသောက်တတ်သည်။ တင်ကျီးငှက်သည် ဇီဝဗေဒ အလိုအားဖြင့် 'ဖယ်လာကရိုကိုရက်စီဒီး' မျိုးရင်းဝင် ဖြစ်သည်။ ကမ္ဘာတဝှန်းလုံးတွင် တင်ကျီးငှက် အမျိုးမျိုးကို တွေ့နိုင်သည်။ အများအားဖြင့် တင်ကျီးငှက်တို့သည် ပင်လယ်ကမ်းခြေတွင် နေလေ့ရှိကြသော်လည်း၊ မြစ်များနှင့် အိုင်များတွင်လည်း မကြာခဏ တွေ့ရတတ်သည်။ ငှက်ကြီးဝံပိုနှင့် တင်ကျီးငှက်သည် နီးစပ်သည်။ တင်ကျီးငှက်ကြီး

မျိုးသည် အလျား လက်မ ၃၀ မက ရှည်သည်။ တင်ကျီးငှက် အားလုံးတွင် သန်မာ၍ရှည်သော နှုတ်သီးနှင့် တောင်ပံများ ရှိသည်။ နှုတ်သီး၏အဖျား ကောက်သည်။ အမြီးရှိ အမွေးများသည် အနည်းငယ်ဖွင့်ထားသော ယပ်တောင်ကဲ့သို့ ပြန့်ကားလျက်ရှိသည်။

တင်ကျီးငှက်တို့သည် အများအားဖြင့် ရေငုပ်၍ ငါးဖမ်းရာ၌ ရေထဲတွင် ကြာရှည်စွာနေနိုင်ကြသည်။ ရေကူးရာတွင် အရေပြားရှိသည့် ခြေများကို အသုံးပြုသည်။ ပျံသန်းသောအခါ ရေမျက်နှာပြင်နှင့်ကပ်၍ ပျံသန်းပြီးလျှင် ငါးများကို ဖမ်းယူတတ်ကြသည်။ သို့မဟုတ်လျှင်လည်း ရေပေါ်တွင် ကိုင်းလျက်ရှိသော သစ်ကိုင်းပေါ်တွင်နားကာ ငါးပေါ်လာမည်ကို စောင့်မြော်နေတတ်သည်။ အစာစားရာတွင် လောဘတကြီး စားမျိုလေ့ရှိသည်။

မြန်မာနိုင်ငံရှိ တင်ကျီးငှက်သည် အလျား ၃၂ လက်မခန့်ရှိသည်။ သားပေါက်ချိန်ဖြစ်သော စက်တင်ဘာလဆန်းမှ ဒီဇင်ဘာလလယ်အထိ ပါးနှစ်ဖက်နှင့် နံဘေးတို့တွင် အဖြူရောင်ရှိသည်။ ထို့ကြောင့် တင်ကျီးငှက်ကို မှတ်မိရန် လွယ်ကူသည်။ ငှက်ငယ်များသည် ပို၍အရောင်ညိုပြီးလျှင် အောက်ပိုင်းတွင် အဖြူရောင် ရှိသည်။ ဘေးဖက်နှင့်တခါတရံ ကိုယ်အလယ်ပိုင်းတွင် အညိုကွက်များ ရှိတတ်သည်။

မြန်မာနိုင်ငံရှိ တင်ကျီးငှက်မျိုးသည် ရေချိုသက်သက်တွင်သာ ကျက်စားသည့် ငှက်မျိုးဖြစ်သည်။ မြစ်များနှင့် အိုင်များတွင် အုပ်ဖွဲ့ကာ နေကြသည်ကို မကြာခဏ တွေ့ရတတ်သည်။ ပျံသန်းရာတွင် လည်ပင်းကို ရှေ့သို့ဆန့်ထုတ်ပြီးနောက် အတောင်ကို မှန်မှန်ရိုက်ခတ်ကာ အတော်မြန်မြန်ပျံသည်။ ပျံရာ၌ တည့်တည့်ပျံသည်။ နားနေသည့်အခါတွင် ဝမ်းဘဲများကဲ့သို့ ရေပေါ်၌ မနားဘဲ၊ ကမ်းခြေပေါ်၌၎င်း၊ ကျောက်တုံးများပေါ်၌၎င်း၊ သစ်ပင်များပေါ်၌၎င်း နားနေလေ့ရှိသည်။ ထိုကဲ့သို့ နားနေခိုက်တွင် အတောင်များကိုဖြန့်၍ နေလှန်းလေ့ရှိကြသည်။ ကုန်းပေါ်၌ လျှောက်သွားသည့်အခါ ငှက်ကြီးဝံပိုကဲ့သို့ ကိုယ်ကို မတ်မတ်ထား၍ သွားတတ်ကြသည်။ သို့သော် ခေတ္တမျှသာ လျင်မြန်စွာ သွားနိုင်သည်။ ရေကူးသောအခါ ခေါင်းကို မတ်မတ်ထားလျက် ကိုယ်ကို နှစ်၍ကူးသည်။ ထိတ်လန့်သည့်အခါ၌ ကိုယ်ကို ရေအောက်သို့ နှစ်၍ ခေါင်းနှင့် လည်တံသာ ပေါ်ထားသည်။ ရေငုပ် ကျွမ်းကျင်သော်လည်း ရေထဲ၌ စက္ကန့် ၆၀ ထက်ပို၍ နေခဲသည်။ ငါးဖမ်းအလွန်လျင်မြန်သည်။ မိသည့်အစာကို မမျိုမီ အများအားဖြင့် ရေပေါ်သို့ ယူလာတတ်သည်။ အစာကို ခေါင်းပိုင်းမှစ၍ မျိုချလေ့ရှိသည်။ ရေပြင်မှထ၍ အပျံတွင် တောင်ပံများကို ရိုက်ခတ်ရုံမက၊ ခြေများဖြင့်လည်း ယက်ကန်ပေးကြသည်။



ဘုရင့်စာဆိုတော်ဘွဲ့တံဆိပ်ရ ကဗျာစာဆို တင်နီဆန်

**တင်နီဆန်, အေ** (ခရစ် ၁၈၀၉–၉၂)။ ။တင်နီဆန်သည်ကား အင်္ဂလိပ်စာပေသမိုင်းအရ ဝိတိုရိယခေတ်တွင် ထွန်းကားခဲ့သော ကဗျာစာဆိုတဦး ဖြစ်သည်။ ၁၈၀၉ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် လင်ကွန်ရှိုင်ယာနယ် ဆိုမာစဗီမြို့တွင် ဖွားမြင်သည်။ ဖခင်သည် စာပေကျမ်းဂန် တတ်မြောက်သော အင်္ဂလိပ်ဘုန်းကြီးတပါး ဖြစ်သည်။ အသက် ၆ နှစ်သားတွင် လောက်သမြို့ရှိ စာသင်ကျောင်းတွင် ပညာသင်ကြားရ၏။ ထိုကျောင်းတွင် လေးနှစ်မျှ နေပြီးနောက် သူ၏ဖခင်က အိမ်၌ပင် သင်ကြားပြသပေးလေသည်။

၁၈၂၈ ခုနှစ်တွင် တင်နီဆန်သည် ကိမ်းဗရစ် တက္ကသိုလ်တွင် ပညာများကို ဆက်လက်ဆည်းပူးသည်။ တင်နီဆန်သည် ကဗျာအရာ၌ ပါရမီထက်သန်သူ ဖြစ်ရကား အသက် ၁၈ နှစ်သား အရွယ်ကတည်းကပင်၊ ကဗျာလင်္ကာ စီကုံးဖွဲ့နွဲ့မှုကို လေ့လာလိုက်စားခဲ့သည်။ ထိုအချိန်က တင်နီဆန်သည် သူ၏အစ်ကိုနှင့်အတူ ပေါင်း၍ ကဗျာများကို ရေးသားပြီးလျှင် ‘ညီအစ်ကိုနှစ်ဦး၏ ကဗျာများ’ ဟူသော အမည်ဖြင့် စာအုပ် ထုတ်ဝေခဲ့သည်။ ကိမ်းဗရစ် တက္ကသိုလ် ထရင်နီတီ ကောလိပ်ကျောင်းတွင် နေစဉ်ကလည်း ကဗျာပြိုင်ပွဲတခုတွင် ဝင်ရောက်ယှဉ်ပြိုင် ရေးသားခဲ့ရာ၊ တက္ကသိုလ် အဓိပတိ၏ ပဌမဆု ချီးမြှင့်ခြင်းကို ခံရသည်။ ထိုအချိန်က တင်နီဆန်သည် အသက် ၂၀ မျှသာ ရှိသေးသည်။ တက္ကသိုလ်အဓိပတိ၏ ကဗျာဆုကို ချီးမြှင့်ခြင်း ခံရပြီးသည့်

နောက်တနှစ်တွင် တင်နီဆန်သည် အင်္ဂလိပ်ကဗျာ စပ်နည်းတို့တွင် လူကြိုက်များသော လစ်ရစ်ကဗျာတို့ကို စပ်ဆိုလေရာ၊ ထိုခေတ် ဝေဖန်ရေးသမားတို့က ပြစ်တင်ဝေဖန်ခြင်း ပြုကြသော်လည်း၊ သူ၏ လစ်ရစ်ကဗျာတို့သည် အနာဂါတ်၌ အလားအလာ များစွာရှိကြောင်းကို ပြသလေသည်။

၁၈၃၁ ခုနှစ်တွင် ဖခင် အနိစ္စမရောက်မီ တင်နီဆန်သည် အတတ်ပညာဘွဲ့ တခုကိုမျှ မရဘဲ၊ တက္ကသိုလ်မှ ထွက်ခဲ့ပြီးနောက် ကဗျာများကို ရေးသားစ ပြုလာလေသည်။ ၁၈၃၃ ခုနှစ်တွင် တင်နီဆန်သည် နောက်ထပ် ကဗျာစာအုပ်တအုပ်ကို ထုတ်ဝေပြန်သည်။ ထိုစာအုပ်တွင် ပါဝင်လာသော သီချင်းကဗျာများအနက်၊ 'ရှဲလော့ကျွန်းသူ လုပျိုဖြူ'၊ 'မေ့သီး စားသူများ' အစရှိသော ကဗျာများမှာ အထူးပင် နှစ်သက်ဖွယ်ကောင်းသော ကဗျာများ ဖြစ်ပေသည်။

၁၈၃၃ ခုနှစ်တွင် တင်နီဆန်၏ ခင်မင်ရင်းနှီးဆုံး မိတ်ဆွေဖြစ်သော အာသာဟယ်လမ်သည် ရုတ်တရက် ကွယ်လွန်ခဲ့လေ၏။ ထိုသို့ အလွန်ရင်းနှီးသော မိတ်ဆွေတဦး ဆုံးရှုံးရခြင်းအတွက် တင်နီဆန်သည် ယူကျုံးမရ ဖြစ်ကာ၊ မိမိအထူးနှစ်သက်သော ကဗျာစပ်ဆိုခြင်း အလုပ်ကိုပင် ၁၀ နှစ်ခန့် စွန့်လွှတ်ထားလေသည်။ ဤသို့ ၁၀ နှစ်ခန့်မျှ အနားယူပြီးနောက် တင်နီဆန်သည် ကဗျာစာအုပ် အသစ်တခုကို တတိယအကြိမ် ထုတ်ဝေပြန်လေသည်။ ဤစာအုပ်တွင် ပါဝင်သော ကဗျာများတွင် 'မော့ဒါးသား'၊ 'ဒိုရာ'၊ 'ယူလစ်ဆီ'၊ 'ဗရိတ်၊ ဗရိတ်၊ ဗရိတ်' အစရှိသော ကဗျာတိုကလေးများသည် အထူးပင် ထင်ရှားလေသည်။

လူ့လောကအပေါ်၌ တင်နီဆန်ထားရှိသော သဘောထားနှင့် အတွင်းခံစားချက်တို့ကို ၁၈၅၀ ပြည့်နှစ်တွင် ထုတ်ဝေခဲ့သော 'အမှတ်တရ' အမည်ရှိ သူ၏ကဗျာစုတွင် တွေ့နိုင်သည်။ ထိုကဗျာကို တင်နီဆန်သည် ကွယ်လွန်ခဲ့ပြီးသော သူ၏အချစ်ဆုံးသူငယ်ချင်း အာသာဟယ်လမ်အား ရည်စူး၍ ရေးသားခြင်းဖြစ်သည်။ တင်နီဆန်၏ စွမ်းရည်သည် ဤ 'အမှတ်တရ' ကဗျာတွင် အမြင့်ဆုံးအဆင့်သို့ ရောက်ရှိသည်ဟု ဆိုနိုင်သည်။ ထိုနှစ်တွင်ပင် တင်နီဆန်အား ဝိတိုရိယ ဘုရင်မကြီးက ဘုရင့်စာဆိုတော်ဟူသော ဘွဲ့ထူးကို ချီးမြှင့်သည်။

တင်နီဆန်သည် သူ့အား ဆယ်နှစ်တိတိ စောင့်ဆိုင်းနေခဲ့ရှာသော ချစ်သူ အဲမလီ ဆဲလဝုနှင့် လက်ထပ်ခဲ့၏။ 'သူကို ကျွန်ုပ်လက်ထပ်ခဲ့သည့် အချိန်ကစ၍ ကျွန်ုပ်သည် အေးချမ်းခြင်းတည်းဟူသော အရိပ်အာဝါသကို ခိုလှုံခဲ့ရပေသည်။' ဟု တင်နီဆန်က ပြောဆိုဘူးလေသည်။ တင်နီဆန်သည် အသက် ၈၃ နှစ်သို့ ရောက်သောအခါ ကွယ်လွန်လေသည်။

**တင်နက်ဆီပြည်နယ်။** ။အမေရိကန်ပြည်ထောင်စု၏ အလယ်ပိုင်း ပြည်နယ်တခု ဖြစ်သော တင်နက်ဆီပြည်နယ်သည် ကင်တပ်ကီးပြည်နယ်၏ တောင်ဖက်တွင် တည်ရှိ၍၊ အနောက်ဖက် မစ်စစ်စပီမြစ်မှ အရှေ့ဖက် မြောက်ကယ်ရိုလီးနားပြည်နယ်အထိ ကျယ်ပြန့်သည်။

ထိုပြည်နယ်၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၄၂,၂၄၆ မိုင်ရှိ၍၊ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်းကောင်စာရင်း အရ ၃,၂၉၁,၇၁၈ ယောက် ဖြစ်၏။ မြို့တော်မှာ နက်ရှဗီးမြို့ ဖြစ်၍၊ လူဦးရေမှာ ၁၇၄,၃၀၇ ယောက်ရှိသည်။ အကြီးဆုံးမြို့မှာ မစ်စစ်စပီ မြစ်ပေါ်တွင်ရှိသော မင်းဖစ်မြို့ဖြစ်၍၊ လူဦးရေ ၃၉၆,၀၀၀ ယောက်ခန့် ရှိလေသည်။

ထိုပြည်နယ်၏ မြေမျက်နှာပြင်ကို သဘာဝ အနေအထား



တင်နက်ဆီပြည်နယ် နက်ရှဗီမြို့တော် ပန်းခြံရှိ ပါးသီနွန် အဆောက်အအုံ

လိုက်၍ သုံးပိုင်း ခွဲခြားနိုင်သည်။ ပဌမပိုင်းမှာ အရှေ့ဖက် တောင်တန်းဒေသ ဖြစ်၍၊ ထိုဒေသတွင် အက်ပလက်ချီယန် တောင်တန်းရှိ၏။ ထိုတောင်တန်းမှ ကျောက်မီးသွေး၊ သံနှင့် ကြေးနီတို့ကို မြောက်မြားစွာ တူးဖော်ရရှိလေသည်။ ဒုတိယပိုင်းဖြစ်သော အလယ်ပိုင်းမှာ ဂျုံ၊ ပြောင်းနှင့် ဆေးရွက်စိုက်ပျိုးရာ ကျယ်ပြန့်သော ဒေသဖြစ်သည်။ တတိယပိုင်းဖြစ်သော အနောက်ဖက်ဒေသမှာ အိုဟိုင်းအိုမြစ်တွင်းသို့ စီးဝင်သော တင်နက်ဆီမြစ် ဖြတ်သန်းစီးဆင်းရာ မြေနိမ့်လွင်ပြင် ဖြစ်၍ ဝါဂွမ်းစိုက်ပျိုးရာ ဒေသဖြစ်၏။

တင်နက်ဆီမြစ်မှ ရေအားကိုယူကာ စက်မှုလုပ်ငန်းများ၌ တွင်ကျယ်စွာ အသုံးချနိုင်သဖြင့်၊ ထိုပြည်နယ်၏ စက်မှုလုပ်ငန်းများမှာ အတော်ပင် တိုးတက်ခဲ့လေသည်။ ထိုပြည်နယ်သည် ရှေးအခါက ရက်အင်းဒီးယန်း လူရိုင်းတို့၏ ဒေသဖြစ်ခဲ့သည်။ ထိုနောက် ဥရောပတိုက်သားများ ရောက်ရှိလာသောအခါ အင်္ဂလိပ်၊ ပြင်သစ်၊ စပိန် သုံးဦးတို့သည် ထိုဒေသကို အပိုင်ရရန် ကြိုးစားကြ၏။ သို့သော် အင်္ဂလိပ်တို့က တိုင်းရင်းသားများနှင့် ပို၍ရင်းနှီးစွာ ဆက်ဆံနိုင်သဖြင့် ထိုဒေသကို အင်္ဂလိပ်ပိုင်အဖြစ် ပြုလုပ်နိုင်ခဲ့ကြသည်။

တင်နက်ဆီပြည်နယ်သည် အမေရိကန် လွတ်လပ်ရေးစစ်ပွဲ အပြီးတွင်မှ တစတစ တိုးတက်လာ၍၊ ၁၇၉၆ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၏ ၁၆ ခုမြောက် ပြည်နယ်တခု ဖြစ်လာလေသည်။

**တင်နက်ဆီမြစ်ဝှမ်း အာဏာပိုင်အဖွဲ့။** ။အမေရိကန် ပြည်ထောင်စုနိုင်ငံ တည်ထောင်ခဲ့ပြီးနောက်၊ ပဌမ အနှစ်တရာအတွင်းတွင် သဘာဝ ပင်ရင်းအခြေအမြစ်များ အကြီးအကျယ် ပြုန်းတီးပျက်စီးခဲ့ရလေသည်။ လူတို့သည် လယ်ယာ တည်ရန်အတွက်ငှင်း၊ ဓာတ်သတ္တုများ တူးဖော်ရန် အတွက်ငှင်း၊ သစ်တောကြီးများကို စည်းမဲ့ကမ်းမဲ့ ခုတ်ထွင်းရှင်းလင်းခဲ့ကြ၏။ ထိုကြောင့် မြေဆီလွှာတို့သည် ရေတိုက်စားသဖြင့်ငှင်း၊ လေတိုက်ခတ်သဖြင့်ငှင်း၊ ပြုန်းတီးသွားခဲ့လေရာ၊ ထိုဒေသ၌ လယ်ယာလုပ်ကိုင်ရန် မဖြစ်နိုင်တော့ဘဲ၊ ယခင်ကထက် ရေလွှမ်းမိုးသည့်ဒဏ်ကို ပိုမိုခံစားရသဖြင့် လူအများ သေကြေပျက်စီး၍၊ ပစ္စည်းဥစ္စာအများ ဆုံးပါးခဲ့ရလေသည်။ ထိုသို့ပျက်စီးရသည့် ဒေသတို့တွင် တင်နက်ဆီမြစ်ဝှမ်းဒေသသည် အခြားတပါးသော ဒေသတို့ထက် ပို၍ ဆိုးရွားလေသည်။ ထိုကြောင့် တင်နက်ဆီ မြစ်ဝှမ်း အာဏာပိုင်အဖွဲ့ကို ၁၉၃၃ ခုနှစ် မေလ ၁၈ ရက်နေ့တွင် ပြည်ထောင်စုဆိုင်ရာ ကော်ပိုရေးရှင်းအဖြစ် တည်ထောင်ခဲ့လေသည်။

အင်္ဂလိပ်လို တင်နက်ဆီ ဗဲလေး အော်သောရီတီဟု ခေါ်သည်။ ယင်းကိုတဖန် အတိုကောက်အားဖြင့် တီ၊ ဗွီ၊ အေဟု ခေါ်ပြန်သည်။ ထို တီ၊ ဗွီ၊ အေ၏ ရည်ရွယ်ချက်မှာ တင်နက်ဆီမြစ်ဝှမ်း ပင်ရင်းအခြေအမြစ်များကို တိုးချဲ့လုပ်ကိုင်သွားရန်၊ ရေလွှမ်းမိုးခြင်းဘေးမှ ကာကွယ်ရန်၊ ရေကြောင်းသွားလာရေးအတွက် မြစ်များကို နက်အောင်တူးရန်နှင့် လျှပ်စစ်ဓာတ်အားအတွက် ရေကာတာ ဆောက်လုပ်ရန်ဖြစ်၏။ ထိုပြင် သစ်တောသစ်များကို ပြုစုပျိုးထောင်ပေး၍၊ လက်ရှိသစ်တောများကို ကာကွယ်စောင့်ရှောက်ပေးရန်နှင့် မြေသြဇာ ကောင်းကောင်းကို စျေးနှုန်းချိုသာစွာဖြင့် ထုတ်လုပ်ပေးရန်ဟူ၍လည်း ဖြစ်၏။ ထိုမှတပါး တောင်သူလယ်သမားများနှင့် ကုန်ထုတ်လုပ်သူများအား တင်နက်ဆီမြစ်ဝှမ်း သဘာဝ အခြေအမြစ်များကို အသုံးပြုနိုင်အောင် အားပေးမည်ဟူ၍လည်း ရည်ရွယ်လေသည်။။ တင်နက်ဆီမြစ်ဝှမ်းသည် စတုရန်းမိုင်ပေါင်း ၄၀,၉၁၀ ကျယ်ဝန်း၏။ တင်နက်ဆီ၊ ကင်တပ်ကီး၊ ဗာဂျင်းနီးယား၊ မြောက်ပိုင်း ကယ်ရိုလိုင်းနား၊ ဂျော်ဂျီးယား၊ အယ်လာဗားမား၊ မစ်စစ်စပီတည်းဟူသော ပြည်နယ် ၇ နယ်တို့၏ အစိတ်အပိုင်းများ ပါဝင်လေသည်။ သို့သော် မြစ်ဝှမ်းအပြင်ဖက်ရှိ ဒေသများလည်း တီ၊ ဗွီ၊ အေ လုပ်ငန်း၏ အကျိုးကို ခံစားရသည်။ ထိုအစီအစဉ်အရ ထုတ်ယူရရှိသော လျှပ်စစ်ဓာတ်အားကို စတုရန်းမိုင် ၇၃,၀၀၀ ခန့်ကျယ်ပြန့်သော ဒေသအတွင်းရှိ အိမ်များ၊ လယ်ယာများ၊ ဆိုင်များ၊ သတ္တုတွင်းများနှင့် စက်ရုံများပင် အသုံးပြုကြရလေသည်။

တင်နက်ဆီမြစ်ဝှမ်းသည် မီးသွေး၊ ကြေးနီ၊ သံ၊ မန်ဂနိဓာတ်ပစ္စည်း၊ စကျင်ကျောက်၊ သွပ်နှင့် အခြားအဖိုးတန်ဓာတ်သတ္တုများစွာ ထွက်သည်။ ထုံးကျောက်၊ သဲ၊ နှင့် ကျောက်စရစ်တို့မှာကား သုံးစွဲ၍မကုန်နိုင် ဖြစ်သည်။ ယခုအခါ အဆိုပါပစ္စည်းများသည် ရှေးကထက်ပိုမို၍ ထွက်ရှိနေလေသည်။

တီ၊ ဗွီ၊ အေ အဖွဲ့၏ ဆောက်လုပ်ရေး အစီအစဉ်အရ၊ တင်နက်ဆီမြစ်နှင့် ယင်း၏ မြစ်လက်တက်များတွင် ရေကြောင်း သွားလာရေး၊ ရေလွှမ်းမိုးမှု ထိန်းသိမ်းကာကွယ်ရေးနှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးတို့အတွက် ရေကာတာများ တည်ဆောက်ပေးရန် ရည်ရွယ်သည်။ သို့ဖြစ်၍ ရေကြောင်း သွားလာရေးအတွက် ရေ အတိမ်အနက်ကို ထိန်းသိမ်းပေးရန် တင်နက်ဆီမြစ်တလျှောက် ကင်တပ်ကီး ပြည်နယ် ပဒူကာမှ တင်နက်ဆီပြည်နယ် နော့စဗီးအထိ ကင်တပ်ကီး၊ ပစ်ကဝစ် လန်ဒင်၊ ဝီလဆန်၊ ဗိုးလား အစရှိသော ရေကာတာကြီး ကိုးခုကို ဆောက်လုပ်ခဲ့ရာ ယင်းတို့အနက် ကင်တပ်ကီး ရေကာတာမှာ အကြီးဆုံးဖြစ်၍၊ တမိုင်ခွဲ ရှည်ပြီးလျှင် ၁၆၆ ပေ မြင့်သည်။



တင်နက်ဆီမြစ်ရေစီးကိုထိန်းသိမ်းရန် တီဗွီအေမှ ဆောက်လုပ်ထားသော ဖွန်တန်နာ ဆည်သည် အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် စတုတ္ထအမြင့်ဆုံးဖြစ်သည်။

တင်နက်ဆီမြစ်၏ မြစ်လက်တက်များပေါ်တွင် မြစ်မကြီးအတွင်းသို့ ရေအစီးကို ထိန်းသိမ်းရန်အတွက် ရေလှောင်သော ဆည်များ ဆောက်လုပ်ထား၏။ ယင်းတို့အနက် ဖွန်တန်နာ ဆည်သည် ပေ ၄၈၀ မြင့်၍၊ အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် အမြင့်ဆုံး ဆည်များအနက် စတုတ္ထဖြစ်၏။ တင်နက်ဆီမြစ်နှင့် ယင်း၏ မြစ်လက်တက်များရှိ ရေကာတာနှစ်ရပ် စုစုပေါင်းမှာ ၂၁ ခု ဖြစ်လေသည်။

တီ၊ ဗွီ၊ အေ အဖွဲ့သည် ရေကြောင်း သွားလာရေးနှင့် ရေလွှမ်းမိုးမှု ကာကွယ်ရေးတို့ကို ဆောင်ရွက်ယင်းနှင့် လျှပ်စစ်ဓာတ်အားကိုလည်း ထုတ်ပေးလေသည်။ ပိုလျှံသော လျှပ်စစ်ဓာတ်အားကို နှုန်းထား ချိုသာစွာဖြင့် မျူနီစီပယ်အဖွဲ့နှင့် တောနယ် လျှပ်စစ်ဓာတ်အား သမဝါယမအဖွဲ့ပေါင်း ၁၄၈ ဖွဲ့ကို လျှပ်စစ်ဓာတ်အား ပေးသွင်းခဲ့ရာ နှစ်စဉ် ဒေါ်လာသန်းပေါင်းများစွာ ရရှိလေသည်။

တီ၊ ဗွီ၊ အေ အဖွဲ့သည် မြေကြီးကို ရေတိုက်စားခြင်းမှ တားဆီးကာကွယ်ရန်နှင့် မြစ်ဝှမ်းတလျှောက် လယ်ယာလုပ်ငန်း အခြေအနေများ တိုးတက်ရန် ဆောင်ရွက်၏။ ၁၉၃၃ ခုနှစ်မှစ၍ ရေတိုက်စားခြင်းမှ ကာကွယ်ရန် မြေဧက ၅၀၀,၀၀၀ ကျော်ကို လှေကားထစ်သဖွယ် လယ်ကွက်များ ပြုလုပ်ပေးခဲ့ပြီးဖြစ်သည်။ သစ်ပင်ပေါက် ၂၅ ကုဋေကို ဖြန့်ချီဝေငှ၍ စိုက်ပျိုးစေရာ၊ ယခုအခါ ဧကပေါင်း ၂၁၁,၀၀၀ တို့မှာ သစ်တောများ ပြန်၍ဖြစ်နေကြပြီ။

ထို့ပြင် သစ်တောများကို ပေါင်းရှင်းခြင်း၊ မီးဘေးမှကာကွယ်ခြင်းစသော အစီအမံများကို ပြုလုပ်စီမံပေးသဖြင့် ထိုဒေသရှိ သစ်တောအခြေအမြစ်တို့ကို ထိန်းသိမ်းစောင့်ရှောက်ခဲ့သည်။ တီ၊ ဗွီ၊ အေ အဖွဲ့သည် လုပ်ငန်းဆိုင်ရာ လက်နက်ကရိယာအသစ်များကို တီထွင်ခြင်း၊ လယ်ယာလုပ်ငန်းထွက်ပစ္စည်းကို လျှပ်စစ်ဓာတ်အားဖြင့် ပြုပြင်ပေးခြင်း စသည့်နည်းသစ်များကို သုတေသနပြုပေးသည်။ ထို့ကြောင့် တောင်သူလယ်သမားများသည် လယ်ယာများကို ပိုမိုကောင်းမွန်စွာ စီမံအုပ်ချုပ်နိုင်ရန်အတွက် အကူအညီများစွာ ရကြလေသည်။

ထို့ပြင် ငှက်ဖျားရောဂါ ကာကွယ်ရေး၊ အပန်းဖြေရေး၊ လမ်းပန်း ဆက်သွယ်ရေး၊ သဘာဝအခြေအမြစ်များ လေ့လာရေး၊ စီးပွားရေး စသော ပြဿနာများကို လေ့လာရန် သုတေသနနည်းဖြင့်ရင်း၊ လက်တွေ့နည်းဖြင့်ရင်း ဆောင်ရွက်သည်။

တီ၊ ဗွီ၊ အေ အဖွဲ့၏ ရန်ပုံငွေသည် ဒေါ်လာ ၂၆ ကုဋေကျော်သည်။ လိုအပ်လျှင် ငွေချေးလက်မှတ်များကို ဒေါ်လာ ၇ ကုဋေကျော်ဖိုးအထိ ထုတ်ရန် အာဏာရှိသည်။ တီ၊ ဗွီ၊ အေ အဖွဲ့၏ လုပ်ငန်းကို ကွန်ဂရက်နှင့် နိုင်ငံတော်သမတသို့ တာဝန်ခံရသော အဖွဲ့ဝင် ၃ ဦးပါဝင်သည့် ဘုတ်အဖွဲ့က စီမံအုပ်ချုပ်ဆောင်ရွက်ပေးသည်။ ထိုအဖွဲ့ဝင်ပုဂ္ဂိုလ်များကို သုံးနှစ်တကြိမ် ခန့်အပ်၍၊ ပုဂ္ဂိုလ်တဦးလျှင် အလုပ်သက်တမ်း ၉ နှစ်ဖြစ်လေသည်။

**တင်း။** ။ခြင်းနှင့်တောင်းများ — ရှု။

**တင်းဒါးလ, ဂျန်** (ခရစ် ၁၈၂၀–၁၈၉၃)။ ။ဂျန် တင်းဒါးလသည် ရူပဗေဒပညာရပ်များကို ဖားရဒေးနှင့် အတူတကွ တွဲဖက်လေ့လာ၍၊ ဖားရဒေးအား များစွာ အကူအညီ အထောက်အပံ့ ပေးခဲ့သောပုဂ္ဂိုလ် ဖြစ်သည်။ (ဖားရဒေး, အမ် — ရှု။) ထို့ကြောင့် တော်ဝင်အဖွဲ့၌ သဘာဝ ယထာဘူတပညာ ပါမောက္ခရာထူးကို ဖားရဒေးနောက်တွင် ဆက်ခံနိုင်ခဲ့လေသည်။



သိပ္ပံပညာရှင် ဂျွန် တင်းဒါးလ

တင်းဒါးလသည် အိုင်ယာလန်နိုင်ငံ၌ မွေးဖွား၍၊ ငယ်စဉ်က သဒ္ဒါကျောင်းများတွင် စာသင်ပြီးနောက်၊ ဂျာမနီနိုင်ငံရှိ တက္ကသိုလ်တခုတွင် ဆက်လက် ပညာရှာယူခဲ့သည်။
ထိုပုဂ္ဂိုလ်ကြီးသည် ရေခဲမြစ်ကြီးများ ရွေ့ရှားပုံ၊ ဓာတ်ငွေ့၊ အခိုးအငွေ့နှင့် အသံတို့အပေါ် အပူရှိန် သက်ရောက်ပုံတို့ကို လေ့လာခဲ့လေသည်။ တင်းဒါးလ ပြုစုခဲ့သော အကြောင်းအရာများအနက် အထင်ရှားဆုံးမှာ အဲလပ တောင်မှ ရေခဲမြစ်များ အကြောင်းအရာနှင့် ရေ၏ဖြစ်ထွေ အကြောင်းအရာတို့ ဖြစ်လေသည်။

**တင်းဒါးလ, ဝီလျံ** (ခရစ် ၁၄၉၂ ခန့်–၁၅၃၆)။ ။ဝီလျံ တင်းဒါးလသည် ပရိုတက်စတန့် ခရစ်ယန်သာသနာအရေးပုံတွင် အင်္ဂလန်ပြည်၌ ထင်ရှားသော ခေါင်းဆောင်တဦး ဖြစ်သည်။ တင်းဒါးလသည် သမ္မာကျမ်းစာကို ဂရိဘာသာမှ အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့သည်။ သူပြန်ဆိုသော ကျမ်းတို့မှာ ဓမ္မသစ်ကျမ်းနှင့် ယောနဝတ္ထု ဖြစ်သည်။ ခရစ် ၁၅၂၆ ခုနှစ်တွင် ထိုကျမ်းတို့ကို ပုံနှိပ်ထုတ်ဝေခဲ့သည်။
တင်းဒါးလသည် ဝေလနယ်စပ် ဂလော့စတာနယ်တွင် ဖွားမြင်၍၊ ကြီးပြင်းလတ်သော်၊ အောက်စဖို့နှင့် ကိမ်းဗရစ် တက္ကသိုလ်တို့တွင် ပညာသင်ကြားပြီးလျှင် ခရစ်ယန် ရဟန်းဘောင်သို့ ဝင်လေသည်။ ထိုနောက် ဂလော့စတာ



အင်္ဂလန်ပြည်၏ သာသနာ့အာဇာနည် ဝီလျံ တင်းဒါးလ

နယ်၌ပင် တရားဟောဆရာ အဖြစ်ဖြင့် ဆောင်ရွက်နေရာမှ မာတင်လူသာနှင့် အဆက်အသွယ် ရှိခဲ့သည်။ (လူသာ,မာတင် — ရှု။) သာသနာ၌ သန့်ရှင်းစေလိုသော စိတ်ဓာတ်ဖြင့် အင်္ဂလန်ပြည်ဘုရင် အဋ္ဌမ ဟင်နရီအား ကက်သရင်းမိဖုရားနှင့် ကွာရှင်းသည့်အတွက် ပြစ်တင်ရေးသား ပုံနှိပ်ထုတ်ဝေသည်။ ဤအချက်ကြောင့် ၁၅၃၆ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် တင်းဒါးလသည် အရှင်လတ်လတ် မီးရှို့ ကွပ်မျက်ခြင်း ခံရသည်။ (ဟင်နရီဘုရင်များ (အင်္ဂလိပ်) — ရှု။)။

**တင်းနစ်ကစားခြင်း။** ။တင်းနစ်ကစားခြင်းသည် တင်းနစ်ကစားကွင်း၏ အလယ်၌ရှိသော ပိုက်တန်းကို ကျော်အောင်၊ ဗက်တံဖြင့် ဘောလုံးကို တဖက်မှ တဖက်သို့ အပြန်အလှန် ပေးပို့ကစားခြင်းဖြစ်သည်။ ဤကစားနည်းကို တဖက်လျှင် တယောက်စီသော်၎င်း၊ တဖက်လျှင် နှစ်ယောက်စီသော်၎င်း ကစားနိုင်သည်။ တင်းနစ်ကစားခြင်းနှင့် ဆင်ဆင်တူသော ကစားနည်းကို ရှေးဂရိလူမျိုးတို့ ကစားလေ့ရှိသည်ဟု အဆိုရှိသည်။ သို့ရာတွင် ယခုခေတ် ကစားနည်းမှာမူ အလယ်ခေတ်က ပြင်သစ်နိုင်ငံတွင် ကစားကြသောနည်းမှ အဆင့်ဆင့် ပြောင်းလဲဖြစ်ထွန်းလာသည်။ ပြင်သစ်နိုင်ငံ၌ ရှေးက ကစားပုံမှာ ကွင်းအလယ်တွင်

မြေကတုတ်ဖို့၍၊ ထိုမြေကတုတ်အပေါ်သို့ ကျော်သွားအောင် ဘောလုံးကို လက်ဖြင့်ပုတ်ခတ်၍ တဖက်နှင့်တဖက် အပြန်အလှန်ပို့သော ကစားနည်းဖြစ်၏။ နှောင်းအခါ၌ ဘောလုံးကို လက်ဖြင့်မပုတ်ဘဲ၊ ဗက်တံဖြင့်ရိုက်၍ ကစားလာကြသည်။ ပြင်သစ်နှင့် အင်္ဂလန်ပြည်တွင် ဘုရင်နှင့်တကွ နန်းတွင်းသူ နန်းတွင်းသားတို့သည် တင်းနစ်ကွင်းများကို ငွေကြေးမြောက်မြားစွာ အကုန်အကျခံ၍ ပြုလုပ်ပြီးလျှင်၊ တင်းနစ်ကစားလေ့ ရှိကြသည်။ နှောင်းအခါ၌ နန်းတွင်းသူ နန်းတွင်းသားတို့သာ မဟုတ်ဘဲ၊ အရပ်သူ အရပ်သား အများလည်း တင်းနစ်ကို မြက်ခင်းကွင်းပြင်များပေါ်တွင် ကစားကြသည်။ ယခုခေတ်၌ကား တင်းနစ်ကွင်းကို သမံတလင်းကျံ၍ ပြုလုပ်လေ့ရှိကြသည်။ သို့သော် ဒေသကိုလိုက်၍ ကွင်းအမျိုးမျိုး ရှိကြသည်။ အင်္ဂလန်နှင့် ဥရောပနိုင်ငံတို့တွင် ယခုတိုင် မြက်ခင်းပြင်ကို တင်းနစ်ကစားရန် ကွင်းအဖြစ်ဖြင့် အသုံးပြုဆဲပင်ဖြစ်သည်။ မြန်မာနိုင်ငံ၌ နွားချေးကျံသော တင်းနစ်ကွင်းများကို ပြုလုပ်ကြသည်။ အခြားနိုင်ငံတို့တွင် ကျောက်နုမှုန့်၊ ရွှံ့စေး၊ ကတ္တရာစေးတို့အပြင်၊ ပျဉ်ပြားကိုပင်လျှင် တင်းနစ်ရိုက်ရန် ကွင်းပြင်များပြုလုပ်ရာ၌ အသုံးချကြသည်။

တင်းနစ်ကွင်းသည် အလျား ၇၈ ပေ၊ အနံ ၃၆ ပေရှိသည်။ အလျားလိုက် မျဉ်းကြောင်းသည် ဘေးမျဉ်းဖြစ်၍၊ အနံလိုက် မျဉ်းကြောင်းသည် အောက်ခြေမျဉ်းဖြစ်သည်။ ဘေးမျဉ်းမှ ၄ ပေခွဲအကွာ၌ ဘေးမျဉ်းနှင့်ပြိုင်၍ အတွင်းမျဉ်းကြောင်းတခုကို ဆွဲရသည်။ ထိုအတွင်းမျဉ်းမှာ တင်းနစ်ကို တယောက်တဖက် ကစားသည့်အခါ၊ သတ်မှတ်သည့် စည်းဖြစ်သည်။ တင်းနစ်ကို တဖက်နှစ်ယောက်စီ ကစားလျှင်၊ ဘေးမျဉ်းသည် ကစားရန်အတွက် သတ်မှတ်သော စည်းဖြစ်သည်။ ကွင်း၏အလယ်တွင် သုံးပေမြင့်သောပိုက်ကို သွယ်တန်းထားသည်။ ထိုပိုက်တန်းကို ဗဟိုပြု၍ အောက်ခြေဖက် ၂၁ ပေအကွာ၌ အောက်ခြေမျဉ်းနှင့် မျဉ်းပြိုင်ဖြစ်သော မျဉ်းကို ပိုက်တန်း၏။ ထိုဖက် ဤဖက် နှစ်ဖက်စလုံး၌ ရေးဆွဲရသည်။ တဖန် ကွင်း၏ အလယ်တည့်တည့်တွင် အလျားလိုက် ကန့်လန့်ဖြစ်သော မျဉ်းတကြောင်းရှိသည်။ ထိုမျဉ်းသည် ဘေးမျဉ်းနှင့် ၁၈ ပေ ကွာသည်။ ဤနည်းဖြင့်၊ ပိုက်တန်း၏ တဖက်တချက်တွင် အကွက် လေးကွက် ရှိလေသည်။ ထိုအကွက်တို့မှာ ဘောလုံးပို့ရန် သတ်မှတ်သော စည်းများဖြစ်လေသည်။

တင်းနစ်ဘောလုံးသည် အချင်းအားဖြင့် ၂ လက်မခွဲရှိသည်။ ဘောလုံးမှာ ကြက်ပေါင်စေးနှင့်လုပ်သော ဘောလုံးများဖြစ်သည်။ သို့သော် ဘောလုံးအပြင်ဖက်သည် သက္ကလတ်ဖြင့် ပြုလုပ်ထားသည်။ ဗက်တံကား အနံလိုက် အချင်းအားဖြင့် ၈ လက်မ ကျယ်၍၊ အလျား



ဒေးဗစ်ဖလားပွဲအတွက် အင်္ဂလန်နိုင်ငံ ဝင်ဗယ်လဒန် ကစားကွင်း၌ နိုင်ငံချင်းချင်း တင်းနစ်ပြိုင်ပွဲ ကျင်းပစဉ်

လိုက် အချင်းအားဖြင့် ၁၂ လက်မရှည်၏။ ထိုဗက်တံတွင် ကြောင်အူကြိုးကို လေးထောင့်ကွက်ဖေါ်ကာ တပ်ထားသည်။ ယခုခေတ်၌ ကြောင်အူကြိုးအစား၊ နိုင်လွန်ကြိုးကို သုံးကြသည်။

ကစားနည်းမှာ အောက်ခြေမျဉ်းပြင်ဖက်ရှိ လက်ျာဖက်ထောင့်အနီးမှနေ၍ ပဌမဘောလုံး ပို့ပေးသူက ဘောလုံးကို ခေါင်းပေါ်သို့မြှောက်၍ ဗက်တံဖြင့် ရိုက်ချကာ ပိုက်တန်းတဖက်တွင် ဘောလုံးကို ခံယူသူထံသို့ရောက်အောင် ပို့ပေးရသည်။ ထိုသို့ပို့လိုက်သော ဘောလုံးသည် ပိုက်တန်းကို ကျော်၍ ဘောလုံးကို ခံယူသူ၏ လက်ျာဖက်လေးထောင့်ကွက်၌ ကျစေရမည်။ ဘောလုံး ပို့ရန်အလို့ငှာ ပို့သူသည် ပဌမအကြိမ်ပို့၍ နေရာမကျလျှင်၊ ဒုတိယအကြိမ် ထပ်မံပို့ရန် အခွင့်အရေးရှိသည်။ ဘောလုံးပို့ရာ၌ မှားယွင်းသော်၊ ပို့သူ အမှတ်ရှုံးလေသည်။ ဘောလုံးကို ပို့ရာ၌ ပိုက်တန်းကို မကျော်နိုင်လျှင်၎င်း၊ ကျော်ပင် ကျော်စေကာမူ ယူသူ၏ လေးထောင့်စည်းကွက်ထဲသို့ မကျလျှင်သော်၎င်း၊ ပိုက်တန်းကိုထိ၍၊ ယူသူ၏ လေးထောင့်စည်းကွက်ပြင်ဖက်သို့ ရောက်လျှင်သော်၎င်း၊ ဘောလုံး အပို့မှားသည်ဟု စည်းကမ်းသတ်ထားသည်။ ဘောလုံးကို အပို့တွင်၊ ပိုက်တန်းကို ထိ၍၊ လေးထောင့်စည်းကွက်ထဲကျသော်၊ ဘောလုံးကို ပြန်ပို့ရန် အခွင့်အရေးရှိသည်။ ပို့လိုက်သော ဘောလုံးကို ယူသူက တင်းနစ်ကွင်း၏စည်းတွင်းသို့ ပိုက်တန်းကျော်အောင် ပြန်၍ ရိုက်မပို့နိုင်သော်၊ ယူသူ အမှတ်ရှုံးလေသည်။ အကယ်၍ ယူသူက ဘောလုံးကို ပြန်ပို့ရာ၌ ပိုက်တန်းကို ဘောလုံးထိသော်၊ ထိုဘောလုံးသည် စည်းတွင်းသို့ ကျရောက်ပါက၊ မှားယွင်းသည်ဟု မယူဆရချေ။ စည်းပြင်ဖက်သို့ ကျသွားပါမူ ရှုံးလေသည်။ ဦးစွာ ဘောလုံးပို့လိုက်သော အလှည့်၌၊ ယူသူသည် ဘောလုံး မြေနှင့်တကြိမ်ထိပြီးမှ ပြန်၍ရိုက်ရသည်။ ဘောလုံးပို့ပြီးသော ပဌမအလှည့် ကုန်လျှင်၊ ကျန်အလှည့်များ၌ ဘောလုံး မြေကျသည်ဖြစ်စေ၊ မကျသည် ဖြစ်စေ၊ ဘောလုံးပို့သူရော ယူသူပါ၊ အလျဉ်းသင့်သလို ရိုက်နိုင်သည်။ သို့ရာတွင် ဘောလုံး မြေသို့ နှစ်ခါတော့၍ကျပြီးမှ၊ ဘောလုံးကိုရိုက်ရန် အခွင့်မရှိချေ။ ပဌမအကြိမ် ဘောလုံးပို့၍၊ ပို့သူနှင့်ယူသူ အပြန်အလှန် ရိုက်ပြီးနောက်၊ တဦးဦးက နိုင်သော်၊ ပို့သူသည် လက်ျာဖက်အောက်ခြေမျဉ်းမှ လက်ဝဲဖက် အောက်ခြေမျဉ်းသို့ ကူးပြောင်း၍ ဘောလုံးကို တဖန်ပို့ပေးရပြန်သည်။ ယင်းကို ပို့သူနှင့်ယူသူတို့က အပြန်အလှန် ရိုက်ကြပြန်သည်။ ဤနည်းအတိုင်းရိုက်၍ အရှုံးအနိုင် ပေါ်လာသောအခါ နေရာကို မူလ၊ လက်ျာဖက်သို့ ပြန်ရွှေ့၍ ကစားရပြန်သည်။ ပဌမနှင့် ဒုတိယအကြိမ် နိုင်မှတ်တို့သည် ၁၅ မှတ်စီဖြစ်၏။ တတိယနှင့် စတုတ္ထအကြိမ် နိုင်မှတ်တို့မှာကား ၁၀ မှတ်စီဖြစ်သည်။ နိုင်မှတ် ၅၀ အလျှင်ရသူသည် တပွဲ၌ အနိုင်ရလေသည်။ သို့သော် တကြိမ်ကြိမ်တွင် ပို့သူနှင့်ယူသူတို့ အမှတ် ၄၀ ချင်း တူနေပါလျှင်၊ နောက်ထပ် နှစ်ကြိမ် အမှတ်သာသောသူသာလျှင် အနိုင်ရသည်။ ဤသို့ အရှုံးအနိုင်ယူသော ပွဲပေါင်းကို သာမန်အားဖြင့် ခြောက်ပွဲ ကစားရသည်။ ထိုခြောက်ပွဲတွင် နှစ်ပွဲတိတိ အပြတ်အသတ် နိုင်မှသာလျှင် အနိုင်ရသည်မည်၏။ ဥဒါဟရုဏ်မှာ တဦးက ၆ ပွဲနိုင်စဉ် အခြားတဦးက ၅ ပွဲနိုင်ထားလျှင်၊ နိုင်ပွဲများရာလူကို အနိုင်မပေးရသေး။ ထိုသူက နောက်ထပ် တပွဲတက်နိုင်သောကြောင့် ရှုံးသူကို နှစ်ပွဲတိတိဖြင့် ဖြတ်ပြီးမှသာလျှင်၊ ထိုသူကို အနိုင်ပေးရသည်။ ဤသဘောအတိုင်း ခြောက်ပွဲလျှင် တချီကျဖြင့်၊ ငါးချီ ကစားရသည်။ ယင်း ငါးချီ အနက် သုံးချီ နိုင်သူသည် နောက်ဆုံး အနိုင်ရလေသည်။

ယခုခေတ် ကစားသော တင်းနစ်ကစားနည်းကို အင်္ဂလန်ပြည်တွင် ခရစ် ၁၈၇၄ ခုနှစ်က စတင်သတ်မှတ်ခဲ့သည်။ အမေရိကန်ပြည်ထောင်စုတွင် ၁၈၇၅ ခုနှစ်က စတင်ကစားခဲ့သည်။ နိုင်ငံချင်းချင်း တင်းနစ်ပြိုင်ပွဲကို ၁၈၇၇ ခုနှစ်တွင် အင်္ဂလန်ပြည် ဝင်ဗယ်လဒန် ကစားကွင်း၌ ဦးစွာ ကျင်းပခဲ့သည်။ ၁၉၀၀ ပြည့်နှစ်တွင် ဒွိုက် ဒေးဗစ်ဆိုသူသည် နိုင်ငံချင်းချင်း တင်းနစ်ပြိုင်ပွဲတွင် အကောင်းဆုံး တင်းနစ်အဖွဲ့ဟု ဆုံးဖြတ်ခြင်းခံရသော နိုင်ငံအား ဒေးဗစ် ဖလားကို ဆုပေးခဲ့ရာ၊ ယခုအခါ နှစ်စဉ်နှစ်တိုင်း အစဉ်အလာအဖြစ်ဖြင့် ဒေးဗစ် ဖလားပွဲကို နှစ်စဉ် နိုင်ငံအများက အလှည့်ကျ ကျင်းပလျက်ရှိသည်။

**တင်းမြစ်**။ ။တင်းမြစ်သည် အင်္ဂလန်ပြည်တွင် အကြီးဆုံးမြစ်ဖြစ်သည်။ ကူးသန်းသွားလာရေးအတွက်လည်း အရေးအပါဆုံး ဖြစ်သည်။ ထိုမြစ်သည် ဂလော့စတာရှိုင်ယာနယ်၊ ကော့စဝေါ တောင်တန်း၌ မြစ်ဖျားခံ၍၊ အင်္ဂလန်ပြည်တောင်ပိုင်းဒေသတွင် အနောက်မှ အရှေ့သို့ ဖြတ်သန်းလျက် မြောက်ပင်လယ်ထဲသို့ စီးဆင်းသည်။ မိုင်ပေါင်း ၂၀၉ မိုင်မျှ ရှည်လျားသည်။ မြောက်ပင်လယ်ထဲသို့ စီးဆင်းရာမြစ်ဝတွင် လန်ဒန်မြို့ တည်ရှိသည်။ မြစ်၏အကျယ်မှာ လန်ဒန်မြို့ တန်တားကြီးအနီး၌ ကိုက်ပေါင်း ၂၅၀ မျှ ကျယ်၍၊ မြစ်ဝ၌မူ ငါးမိုင်ခွဲမျှ ကျယ်သည်။ တင်းမြစ်ကို ပင်လယ်မှ မိုင် ၅၀ ကွာဝေးသော လန်ဒန်မြို့တန်တားကြီးအထိ နက်စွာ တူးဖေါ်ထားလေရာ၊ ပင်လယ်ကူးသင်္ဘောတို့သည် လန်ဒန်မြို့သို့အရောက် ဝင်နိုင်သည်။ သင်္ဘောဆိုက်ကပ်သော ဒေသဖြစ်သည့်အလျောက် တင်းမြစ်၏ ဝဲယာ ကမ်းနှစ်ဖက်တွင် သင်္ဘောကျင်းများစွာတို့ ရှိကြသည်။ လန်ဒန်မြို့မှလွန်သော် မြစ်ဖျားတလျှောက်အထိ တည်ရှိသော တင်းမြစ်ကမ်းခြေတလျှောက်မှာမူ၊ အလွန် လှပတင့်တယ်သော



တင်းမြစ်ကို ဖြတ်ကျော်ဆောက်လုပ်ထားသည့် လန်ဒန်မြို့၊ တာဝါတန်တား

ရှုခင်းများရှိသည်။ ထိုကြောင့် တင်းမြစ်ထဲတွင် လှေပြိုင်ပွဲများ နှစ်စဉ်မပြတ် ကျင်းပလေ့ရှိကြသည်။ လှေပြိုင်ပွဲများကို ဟင်လေ၊ ကင်းစတန်၊ မိုးလဇီ၊ စတိန်းစသော မြို့ကလေးများတွင် ကျင်းပကြသည်။ နာမည်ကျော် ကိမ်းဗရစ် တက္ကသိုလ်နှင့် အောက်စဖို့ တက္ကသိုလ် လှေပြိုင်ပွဲများကို ပတ္တနီမှ မော်တလိတ်အထိရှည်သော မြစ်ရိုးတွင် ကျင်းပသည်။ အောက်စဖို့မြို့၌ တင်းမြစ်ကို အိုင်းဆစ်ဟု ခေါ်သည်။ မြန်မာစာဖြင့် ရေးသားထားသော ပထဝီဝင် စာအုပ်တို့တွင် တင်းမြစ်ကို သိမ်းမြစ်ဟူ၍ ရေးကြသည်။

**တင်းဝါး။** ။ဝါး — ရှု။

**တောင်။** ။တောင်များ ဖြစ်ပေါ်လာခြင်း အကြောင်းကြီး သုံးရပ်ရှိသည်။ ကမ္ဘာမြေကြီးသည် လွန်ခဲ့သည့် နှစ်ပေါင်း ကုဋေကုဋာ အလွန်ရှေးကျသော အခါက အလွန်ပူရာမှ တဖြည်းဖြည်း အေးလာသောအခါ၌ မြေကြီး၏ အပေါ်ယံအလွှာသည် ဖိနှိပ်အားကြောင့် တွန့်ရှုံ့သွားသဖြင့် မြေမျက်နှာပြင်တွင် ပေါင်းကူးကုန်းကြီးများသဏ္ဌာန် ပေါ်ပေါက်လာ၏။ အေးလာသော အခါတွင်ကား ယင်းကုန်းကြီးများမှာ မာကျစ်လာခြင်းကြောင့်၊ တောင်များ ဖြစ်လာလေသည်။ ဥရောပတိုက်ရှိ အဲလပ တောင်တန်းများသည် ယင်းကဲ့သို့ ဖြစ်ပေါ်လာသော တောင်များဖြစ်၏။

အချို့နေရာများ၌ ကမ္ဘာမြေကြီး၏ အပေါ်ယံလွှာသည် ကျောက်သားပကတိ ဖြစ်နေသဖြင့်၊ မြေမျက်နှာပြင်မှာ ခုံး၍မထတဲ၊ ကွဲပြတ်၍သွားတတ်၏။ သို့ဖြစ်သောကြောင့်၊ မတ်စောက်သော တောင်ကြီးများ ဖြစ်ပေါ်လာပြန်သည်။ ယင်းတောင်မျိုးမှာ တဖက်၌ မတ်စောက်သော်လည်း အခြားတဖက်၌ကား ခပ်ပြေပြေ ဆင်ခြေလျှော ရှိနေတတ်၏။ တခါတရံလည်း လွန်စွာရေစီးသန်လှသော မြစ်များသည် ကုန်းပြင်မြင့်ကို တိုက်စားသွားရာတွင် တိုက်စား၍မရသော ကျောက်မာများသည် ထီးတည်းကျန်ကာ၊ မြင့်မားသော တောင်များအဖြစ် တည်ရှိနေခဲ့ကြ၏။ နယူးယော့ပြည်နယ်ရှိ ကက်စကီး တောင်များနှင့် မိဇူးရီပြည်နယ်ရှိ အိုဇတ် တောင်တန်းများမှာ ယင်းကဲ့သို့ ဖြစ်ပေါ်လာသော တောင်များသာတည်း။

အချို့သော တောင်များမှာကား အောက်ခံမြေအတွင်းမှ ထွက်လာသော ချော်ပူတို့သည် မြေမျက်နှာပြင်တွင် စုပုံလျက်၊ မာသွားရာမှ ဖြစ်ပေါ်လာသည့် တောင်ပူစာများ ဖြစ်ကြသည်။ တောင်အမေရိကတိုက်ရှိ အန်းဒီး တောင်တန်းများမှာ ထိုကဲ့သို့ပင် ဖြစ်ပေါ်လာခဲ့သည်။

တောင်ထူထပ်သော ဒေသ၌ လူနေအိမ်ခြေ ယုတ်လျော့နည်းပါးတတ်၏။ အဘယ်ကြောင့်ဆိုသော် မြေညီ နည်းပါးသဖြင့် စိုက်ပျိုးမှုအတွက် အခက်အခဲ တွေ့တတ်ခြင်း၊ လေတင်ဖက်တွင် မိုးလွန်၍ လေအောက်ဖက်တွင် မိုးခေါင်ရေရှား ဖြစ်တတ်ခြင်းစသည်တို့ကြောင့်ဖြစ်သည်။ သို့သော် တောင်များရှိမှ မြစ်များ ရှိတတ်သဖြင့်၊ မြစ်မရှိသော



**ဟိမဝန္တာအနောက်ဖက်တောင်တန်းကြီး၏ တစိတ်တဒေသကို အိန္ဒိယပြည်ရှိ ဆင်းမလားမြို့မှ ဤသို့တွေ့မြင်ရသည်။**

ဒေသမှာ ကူးသန်းရောင်းဝယ်ရေး ညှံ့ဖျင်းတတ်၏။ အချို့တောင်များတွင် အဖိုးတန်ဓာတ်သတ္တု ပေါများသည့်ပြင်၊ တောင်ခါးပန်း သစ်တောများမှလည်း လူတို့အတွက်အသုံးဝင်သော သစ်များ ရရှိသောကြောင့် တနည်းအားဖြင့် အကျိုးရှိသည်ဟု ဆိုနိုင်လေသည်။ ထို့ပြင် မြို့ကြီးများအတွက် လျှပ်စစ်ဓာတ်အားပေးရန် ရေစီးသန်သော တောင်ကျ မြစ်ချောင်းများမှ ရေအားကိုလည်း အသုံးပြုနိုင်ကြသေးသည်။

တောင်၏အမြင့်ကို ဗရိုမီတာခေါ် လေဖိတိုင်းကရိယာဖြင့် တိုင်းထွာကြသည်လည်း ရှိ၏။ တြိဂိုနိုမေတြီနည်းဖြင့် တွက်ချက် တိုင်းထွာယူကြသည်လည်းရှိ၏။ အချို့ သိပ္ပံပါရဂူများက တောင်ကိုတိုင်းရာ၌ ကမ္ဘာ၏ အလယ်ဗဟိုချက်မှ နေ၍ တိုင်းထွာရမည်ဟူ၍၎င်း၊ အချို့ကမူ ပင်လယ်ပြင်အထက်မှစ၍ တိုင်းရမည်ဟူ၍၎င်း ဆိုကြလေသည်။ ပင်လယ်ပြင်မှ တိုင်းသော အတိုင်းအထွာအရဆိုပါက အာရှတိုက်ရှိ ဧဝရက်တောင်ထိပ်သည် ပေပေါင်း ၂၉,၀၂၈ ပေကျော် မြင့်၍ ကမ္ဘာပေါ်တွင် အမြင့်ဆုံးတောင်ဖြစ်သည်။ ကမ္ဘာပေါ်တွင် ထင်ရှားသော တောင်ကြီးများကား၊ အာရှတိုက်ရှိ ဟိမဝန္တာတောင်တန်း၊ ဥရောပတိုက်ရှိ အဲလပတောင်တန်း၊ တောင်အမေရိကတိုက်ရှိ အန်းဒီးတောင်တန်းနှင့် မြောက်အမေရိကတိုက်ရှိ ရော့ကီးတောင်တန်း အစရှိသည်တို့ ဖြစ်သည်။

ကမ္ဘာပေါ်ရှိ တိုက်အသီးသီးတွင် တောင်စဉ်တောင်တန်းများစွာ ရှိသည့်အနက် ဟိမဝန္တာတောင်တန်း၊ အန်းဒီးတောင်နှင့် ရော့ကီးတောင်များမှာ သက်နုတောင်များသာ ဖြစ်ကြ၍၊ အာဖရိကတိုက်ရှိ တောင်တန်းများမှာ သက်လတ်တောင်များ ဖြစ်လျက်၊ ကနေဒါနိုင်ငံရှိ လော်ရင်းရှန်းတောင်တန်းများမှာ သက်ရင့်တောင်များ ဖြစ်လေသည်။ အသက်အကြီးဆုံး တောင်များကို စကော့တလန်ပြည်တွင် တွေ့ရလေသည်။

ဟိမဝန္တာတောင်တန်းကြီးသည် အိန္ဒိယနှင့် တရုပ်နိုင်ငံတို့ကို ပိုင်းခြားထား၏။ ပီးရနီးတောင်တန်းသည် စပိန်နိုင်ငံကို အခြားသော ဥရောပနိုင်ငံများမှ ပိုင်းခြားထား၏။ အဲလပတောင်တန်းကြီးသည်လည်း ဣတလီနှင့် ဂျာမနီနိုင်ငံတို့ကို ပိုင်းခြားထား၏။ ထို့ကဲ့သို့ပင် မြန်မာနိုင်ငံကိုလည်း ရိုးမတောင်တန်းများက တံတိုင်းသဖွယ် ဝိုင်းရံကာဆီးထားသဖြင့် သဘာဝနယ်နိမိတ်ကဲ့သို့ ဖြစ်နေလေသည်။

မြန်မာနိုင်ငံ၏ အနောက်ဖက် နယ်နိမိတ်တွင် မြောက်ဖက်တိဗက်ပြည်မှစ၍ တောင်ဖက် နိဂရေအငူထိ တန်းဆင်းသွားသော အနောက်ရိုးမတောင်တန်းကြီး ရှိသည်။ ထို

အနောက်ရိုးမတောင်တန်း၌ အမြင့် ၁၂,၅၅၃ ပေခန့်ရှိသော နွေမောက်တောင်ခေါ် စာရာမေရီတောင်ထိပ် တည်ရှိသည်၊ ထိုတောင်တန်းသည် အာသံ၊ မဏိပူရ၊ လူရှေ၊ စစ်တကောင်း နယ်များနှင့် ကမ်းရိုးတန်းတလျှောက်တွင် လေးကိုင်းကဲ့သို့ တည်ရှိသည်။ အနောက်ရိုးမတောင်တန်း၏ မြောက်ပိုင်းသည် ပေ ၈,၀၀၀ ကျော် မြင့်၍၊ ပတ်ကိုင်းသို့မဟုတ် နာဂတောင်ဟု ခေါ်သည်။ ချင်းဝိသေသတိုင်းသို့ ရောက်သောအခါ ပေ ၃,၀၀၀ ကျော် မြင့်၍၊ ချင်းတောင်ဟု ခေါ်သည်။ တဖန် တောင်ဖက် ရခိုင်ပြည်သို့ ဆင်းလာရာ ရခိုင်ရိုးမတောင်ဟု တွင်၍၊ တောင်ဖက်စွန်းတွင် ပေ ၁၀၀ နှင့် ပေ ၂၀၀ မျှလောက်သာ မြင့်လေသည်။ အလယ်ရိုးမတောင်သည် မြောက်ပိုင်း၌ ချင်းတွင်းမြစ်နှင့် ဧရာဝတီမြစ်အကြားတွင် တည်ရှိ၏။ အလယ်ရိုးမတောင်ကို မြစ်များဖြတ်စီးခြင်းကြောင့် ထိုတောင်တန်းသည် တဆက်တည်း မတည်ဘဲ၊ ရွှေတောင်တန်း၊ ဟူးကောင်းတောင်တန်း၊ ဇီးဖြူတောင်၊ မင်းဝံတောင် အစရှိသည်ဖြင့် ပြတ်လျက်နေသည်။ ယင်းတို့တောင်ဖက်၌ ဧရာဝတီမြစ် ဖြတ်စီးသောနေရာတွင် တောင်ဆက်သည် ပို၍ပြတ်နေပြီးလျှင်၊ မြင်းခြံနယ်တွင် ပေ ၄၀၀၀ ကျော်မြင့်သော ပုပ္ပားတောင်မှ တဖန်ပြန်၍ အစပြုပြီးလျှင် ရန်ကုန်မြို့သို့အရောက် မိုင် ၃၀၀ ခန့် ရှည်လျားစွာ တဖြည်းဖြည်းနိမ့်လျှော၍ တည်ရှိသည်။ ပဲခူးနယ်သို့ ဖြတ်သန်းလာသောအခါ ယင်းတောင်တန်းသည် ပဲခူးရိုးမဟူ၍ တွင်လေသည်။ တောင်တန်း၏ တောင်ဖက်ဆုံးတွင် ရွှေတိဂုံစေတီ တည်ရှိ၏။ အထက်ပါ ချင်းတွင်းမြစ်နှင့် ဧရာဝတီမြစ်တို့အကြားရှိ တောင်များတွင် ဟူးကောင်းတောင်၌ ပယင်းထွက်သည်။ ထိုကြောင့် ပယင်းတွင်းဟု ထင်ရှားသည်။ ပုပ္ပားတောင်သည် ရှေးအခါက မီးတောင်ဖြစ်ခဲ့ဘူးသည်။ ပုပ္ပားတောင်နှင့် ပတ်သက်၍ မြန်မာ့သမိုင်းတွင် ထင်ရှားသော အဖြစ်အပျက်များလည်း ရှိလေသည်။

အရှေ့ဖက်ရိုးမသည် ပျမ်းမျှခြင်းအားဖြင့် ပေပေါင်း ၃၀၀၀ မှ ၆၀၀၀ ထိ မြင့်သည်။ သို့သော် အချို့နေရာတို့တွင် ပေ ၈၀၀၀ ခန့်မြင့်သော တောင်ထိပ်များရှိသည်။ မြောက်ပိုင်းတွင် ဂိုလ်စီကောင်းတောင် ဟူ၍၎င်း၊ ကချင်ပြည်နယ်တွင် ကချင်တောင် ဟူ၍၎င်း၊ ရှမ်းပြည်နယ်တွင် ရှမ်းရိုးမ ဟူ၍၎င်း ခေါ်တွင်သည်။ ရှမ်းပြည်တွင် ကုန်းပြင်မြင့်သည် ကျယ်ပြန့်၍၊ အချို့နေရာတွင် ညီညာလျက် အချို့နေရာတွင် နက်ရှိုင်းသော ချိုင့်ဝှမ်းများ ရှိလေသည်။ တောင်ဖက်၌ ယင်းတောင်တန်းသည် ကယားပြည်နယ်ကို ဖြတ်၍သွားသည်။ ထိုအခါ၌ တောင်တန်းသည် ပေ ၈၀၀၀ မြင့်သည်။ ယင်း၏အနောက်ဖက်၌ ပေါင်းလောင်းတောင်၊ တောင်ဖက်၌ ကော့ကရိတ်တောင်၊ တောင်ညိုတောင်၊ နွားလည်ပို့တောင် အစရှိသည်ဖြင့် တည်ရှိသည်။

တဝင်းတောင်တန်းကြီးသည် သံလွင်မြစ်၏ အရှေ့ဖက်ကမ်းတွင် မြောက်ဖက်မှ တောင်ဖက်သို့ သံလွင်မြစ်အလိုက် တန်းလျက်ဆင်းလာသည်။ တနင်္သာရီ ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင်ကား ထိုတောင်တန်းသည် တနင်္သာရီ ရိုးမတောင်ဟူသော အမည်ကိုရ၍၊ ကော့သောင်အထိ တည်ရှိသည်။

**တောင်ကုပ်မြို့။** ။တောင်ကုပ်မြို့သည် သံတွဲခရိုင်၊ တောင်ကုပ်မြို့နယ်၏ ရုံးစိုက်ရာ မြို့ဖြစ်သည်။ တောင်ကုပ်မြစ်ဝမှ ၅ မိုင်ခန့် ကွာဝေး၍၊ မြစ်၏ လက်ဝဲကမ်းပေါ်တွင် တည်ရှိသည်။ ရခိုင်ရိုးမတောင်ကို တောင်ကုပ်မြို့မှနေ၍ ကြည့်လျှင်၊ ရိုးမတောင်တန်းသည် ကုပ်၍ဆင်းလာသည့် ယောင်ယောင်ရှိသည်ကိုစွဲ၍ တောင်ကုပ်မြို့ဟု တွင်သည်။

တောင်ကုပ်ရိုးလမ်းမကြီးသည် တောင်ကုပ်မြို့ကို မြန်မာပြည်မရှိ ပန်းတောင်းမြို့နှင့် ဆက်သွယ်ပေးသည်။ ထိုရိုးလမ်းမှာ ရှေးနှစ်ပေါင်းများစွာကပင် ရခိုင်ပြည်နှင့် မြန်မာပြည်မတို့၏ ကုန်စည် ကူးသန်းရောင်းဝယ်ရေး၌ အလွန်အရေးပါခဲ့သည်။ သက္ကရာဇ် ၁၁၄၆ ခုနှစ် ဘိုးတော်ဘုရား လက်ထက် ရခိုင်ပြည်ကို ချီတက်တိုက်ခိုက်ခဲ့စဉ်က ဤတောင်ကုပ်ရိုး လမ်းကြီးကိုပင် အသုံးပြုခဲ့ကြသည်။ တိုက်ခိုက်အောင်မြင်ပြီးနောက်၊ မဟာမြတ်မုနိ ရုပ်ပွားတော်ကြီးကို ပင့်ဆောင်လာသည့်အခါတွင်လည်း၊ တောင်ကုပ်မြို့မှတဆင့် ဤရိုးလမ်းခရီးဖြင့် ပင့်ဆောင်ခဲ့ကြသည်။ မဟာမြတ်မုနိ ရုပ်ပွားတော်ကို ပင့်ဆောင်လာစဉ် တောင်ကုပ်မြို့၌ ခေတ္တရပ်နား ကိန်းဝပ်တော်မူခဲ့ရာ၊ ထိုကိန်းဝပ်သည့်နေရာတွင် စေတီတဆူ တည်ထားကိုးကွယ်ကြ၏။ ယင်းစေတီကို ဖေါင်တော်ဦးစေတီဟု ခေါ်သည်။ တောင်ကုပ်မြို့လယ် မြစ်ကမ်းပါးတွင် တည်ရှိသည်။ ခရစ်နှစ် ၁၈၂၅ ခုနှစ်တွင် အင်္ဂလိပ် မြန်မာ ပဌမစစ်ပွဲ ဖြစ်ပွားခဲ့စဉ်ကလည်း အင်္ဂလိပ်တို့သည် ထိုတောင်ကုပ်ရိုး လမ်းခရီးဖြင့်ပင် စစ်ချီတက်ခဲ့ကြသည်။

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌လည်း တောင်ကုပ်ရိုးလမ်းကို မဟာမိတ်တပ်များက တလှည့်၊ ဂျပန်စစ်တပ်များက တလှည့် မိမိတို့သိမ်းပိုက်ထားစဉ်အတွင်း ပြင်ဆင်၍ စစ်ကြောင်းခရီးလမ်းအဖြစ် အသုံးပြုခဲ့ကြသည်။

၁၉၅၄ ခုနှစ်မှစ၍ ခိုင်မြဲသော လမ်းမကြီး တခုဖြစ်အောင် နိုင်ငံတော်အစိုးရက အထူးအင်ဂျင်နီယာများနှင့် အထူးလုပ်သားများကို ခန့်အပ်စေလွှတ် ပြင်ဆင်စေခဲ့သည်။ တောင်ကြားလမ်း အကျယ်ကို ၃၂ ပေအထိ ချဲ့ထွင်ပြီးနောက်၊ အလယ် ၁၂ ပေကို ကတ္တရာစေး ခင်းလျက်ရှိသည်။ ၁၉၅၈ ခုနှစ်တွင် အချောကိုင် ပြီးစီးလိမ့်မည်ဟု စီမံကိန်းချမှတ်ထားသည်။ ယင်းလမ်းမကြီးကိုငွေ ၃၇၈ သိန်းမျှ

အကုန်အကျခံ၍ ပြင်ဆင်ရန် သတ်မှတ်ထားပြီးဖြစ်သည်။ တောင်ကုပ်မြို့နှင့် ပန်းတောင်းမြို့မှာ ၁၀၅ မိုင်ခန့် ဝေး၍၊ နွေအခါ၌ ရိုးလမ်းတလျှောက် မော်တော်ကားများ သွားလာနိုင်သည်။ အထက်ဖော်ပြပါ စီမံကိန်းများအရ၊ ရိုးလမ်းမကြီးကို လုံးဝပြင်ဆင်ပြီးသောအခါ မိုးရာသီ နွေပါ မော်တော်ကားများ သွားလာနိုင်ပေလိမ့်မည်။

တောင်ကုပ်မြို့နှင့် သံတွဲမြို့မှာ မိုင် ၄၀ ခန့် ဝေးသည်။ သို့သော် ပြန့်ဟုခေါ်သော ချောင်းငယ်ကလေးများတွင် ခုတ်မောင်းသော မီးသင်္ဘောဖြင့် ထိုမြို့ နှစ်မြို့မှာ ဆက်သွယ်နိုင်ပေသည်။

သံတွဲမြို့မှ သဒ္ဒေးရွာကိုဖြတ်၍၊ တောင်ကုပ်မြို့သို့ ပေါက်ရောက်သော ကုန်းလမ်းဟောင်းကြီးတခုလည်း ရှိသည်။ စစ်ကြီးအတွင်းက ထိုလမ်းကို ဂျပန်စစ်ဖက်မှ ပြင်ဆင်၍ စစ်လမ်းအတွက် အသုံးပြုခဲ့သည်။ ထိုမျှမကသေး၊ တောင်ကုပ်မြို့မှ ဆားပြင်၊ လမုအရပ်တို့ကိုဖြတ်၍၊ အမ်းမြို့အထိ မော်တော်ကားလမ်း ဖေါက်ခဲ့ဘူးသည်။ သို့သော် ယခုအခါ၌မူ ထိုလမ်းမှာ တောလမ်းမျှသာဖြစ်သည်။

တောင်ကုပ်မြို့နယ်မှ ဆန်စပါးနှင့်သစ်များ ထွက်သည်။ နတ်မော်ရွာမှ မြေအိုးများထွက်သည်။ တောင်ကုပ်မြို့ပေါ်တွင် နယ်အရာရှိရုံး၊ အစိုးရ အထက်တန်းကျောင်း၊ အစိုးရ ဆေးရုံနှင့် စာတိုက်ရုံး၊ ကြေးနန်းရုံးများရှိသည်။ စစ်ကြီးမဖြစ်မီက မြန်မာပြည်နှင့် အိန္ဒိယပြည် ဆက်သွယ်သော ကြေးနန်းလမ်းမှာ တောင်ကုပ်မြို့ကိုဖြတ်၍ ဆက်သွယ်ထားခြင်းဖြစ်သည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ တောင်ကုပ်မြို့၏လူဦးရေမှာ ၄,၁၁၇ ယောက်ဖြစ်သည်။

**တောင်ကြီးမြို့။** ။တောင်ကြီးမြို့သည် ရှမ်းပြည်နယ် တောင်ပိုင်းရှိ ခရိုင်ဝန် ရုံးစိုက်ရာ မြို့ဖြစ်သည်။ ကူးသန်းရောင်းဝယ်ရေးတွင်လည်း အချက်အခြာဖြစ်သည်။ ပင်လယ်ရေမျက်နှာပြင်ထက် ပေ ၅,၀၀၀ ကျော်မြင့်သော ကုန်းပြင်မြင့်ပေါ်တွင် တည်ရှိသဖြင့် ရာသီဥတုမှာ မျှတညီညွတ်၍ ကျန်းမာရေးအတွက် အထူးနေထိုင်ရန်ကောင်းသော ဒေသဖြစ်သည်။ တောင်ကြီးမြို့မှာ ကျယ်ပြန့်သော တောင်ကမ်းပါးယံရှိ ကုန်းပြင်မြင့်ပေါ်တွင် တည်ရှိရာ၊ မြို့၏ အရှေ့ဖက်စွန်းမှ အထက်ဆီသို့ အုပ်မိုးနေအောင် မတ်စောက်နေသော တောင်ကြီးကို အစွဲပြု၍ တောင်ကြီးမြို့ဟု ခေါ်လေသည်။ တောင်ထိပ်တွင် စေတီတော်တဆူနှင့် ထူးခြားစွာ စွန်းထွက်နေသော ကျောက်ဆောင် ကျောက်တုံးကြီးများ ရှိသောကြောင့် မြို့သူမြို့သားများသည် ထိုတောင်ထိပ်သို့ မကြာမကြာ သွားရောက်လည်ပတ်ကြသည်။ မြို့ကိုတပ်မြေဌာနကဲ့သို့ စံနစ်တကျ တည်ဆောက်၍ လမ်းကြီးလမ်းငယ် အသွယ်သွယ် ဖောက်လုပ်ထားသည်။ မြို့အတွက်ရေကို မြို့တောင်ဖက်စွန်းမှ စီးဆင်းလာသော ချောင်းငယ်မှ ယူသဖြင့် သန့်ရှင်းသောရေကိုရသည်။ အနောက်စွန်းရှိ တောင်ကုန်းငယ်တွင် ဘုရားတန်ဆောင်းများ ရှိသည်။ သာစည် ရွှေညောင်သွား မီးရထားလမ်းဆုံမြို့ဖြစ်သော ရွှေ



တောင်ကြီးမြို့ကို မင်းလမ်းမဖက်မှမြင်ရသော ရှုခင်းတရပ်

ညောင်မြို့နှင့် တောင်ကြီးမြို့သည် ကားလမ်းအားဖြင့် ၁၂ မိုင် ဝေး၍၊ ခြေလျင်လမ်းအားဖြင့် ၅ မိုင်မျှသာ ဝေးသည်။ သာစည်မြို့မှာမူ တောင်ကြီးမြို့မှ ၁၀၃ မိုင် ဝေးသည်။

တောင်ကြီးမြို့တွင် အစိုးရရုံးများ၊ အင်္ဂလိပ် မြန်မာ အထက်တန်းကျောင်းများ၊ မူလတန်းကျောင်းများ၊ ဆေးရုံ၊ ဟော်နန်းနှင့် ခမ်းနားသော တိုက်တာ အဆောက်အအုံများ ရှိသည်။ မြို့မြောက်ပိုင်းရှိ ဈေးကြီးမှာ အထူးပင်သန့်ရှင်းသည့်ပြင် မုန်လာ၊ မုန်ညင်း၊ အားလူး၊ ကြက်သွန် စသော ဟင်းသီးဟင်းရွက်၊ လတ်ဆတ်သော ကြက်ဥနှင့် ညောင်ရွှေ အင်းလေးဖက်မှ ငါးများကို ထိုဈေးကြီးတွင် ဝယ်ယူရရှိနိုင်ပေသည်။ ၅ ရက်တဈေး ကျရောက်သော နေ့တွင် နယ်မှ လာရောက်ရောင်းဝယ်ကြသဖြင့် အထူးပင် စည်ကားလေသည်။ တောင်ကြီးမြို့မှ မြန်မာနိုင်ငံ အခြားမြို့များသို့ ကြက်သွန်ဖြူ၊ ဂျင်း၊ အာလူး၊ သနပ်ဖက်များကို မီးရထားလမ်း၊ ကားလမ်းနှင့် လေကြောင်းဖြင့် တင်ပို့သည်။ အရှေ့ဖက်ရှိ တောင်ကျစမ်းချောင်းမှရေကို ရေလှောင်ကန်ကြီး ၂ ခုမှ တဆင့် ပြွန်လုံးများဖြင့် တမြို့လုံးအတွက် သောက်ရေ ပို့ပေးသည်။ တောင်ကြီးမြို့၏ လူဦးရေမှာ ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ ၉,၀၀၀ ကျော် ဖြစ်သည်။ ယခုအခါမှာမူ လူဦးရေ ၁၅,၀၀၀ ကျော်မျှရှိမည်ဟု ခန့်မှန်းကြသည်။

**တောင်ခါ**။ ။ဇီဝဗေဒအလိုအရ တောင်ခါသည် 'ဂယ်လီဖောမီး' မျိုးစဉ်တွင်ဝင်၍၊ 'ဖာစီအာနီဒီ' မျိုးရင်းတွင်ဝင်၍၊ 'ပါဒီစိုင်နီ' မျိုးရင်းခွဲတွင်ဝင်၍ ပါဝင်သည်။ တောင်ခါသည် အလျား ၁၁ လက်မခန့် ရှိသည်။ မေး၊ ပါးနှင့် နားများတွင် ဖြူသောအရောင် ရှိသည်။ ရင်အုပ်တွင် ညိုဝါရောင် ဖျော့တော့တော့ရှိ၍၊ လည်ပင်း၏ တဖက်တချက်တွင် အမည်းကွက်တခုစီ ထင်းလျက်ရှိသည်။ အမြဲစိမ်းသစ်တောများတွင် ကျက်စားသည်။ လေချွန်သံမျိုးဖြင့် ခပ်တိုးတိုး မြည်တတ်သည်။ တောင်ခါသည် ဝါးပင်ကျဲကျဲပေါက်သော တောများ၌ ဥကျင်းများ ပြုလုပ်၍ ဥအုတတ်သည်။ ဥကျင်းများကို ဝါးရွက်၊ မြက်တို့ဖြင့် ဖုံးထားတတ်သည်။ နယုန်လလောက်တွင် ရန်ကုန်မြို့ အနီးတဝိုက် ဒေသရှိ တောင်ခါတို့၏ ငှက်သိုက်များ၌ ဥကျင်း တကျင်းလျှင် ဥ ၄ လုံး ရှိသည်ကိုတွေ့ရတတ်သည်။

မြန်မာနိုင်ငံမှ အရှေ့ဖက်တလွှား ဖော်မိုးဆားကျွန်းအထိ၊ တောင်ဖက်တလွှား မလ္လာယုကျွန်းစုအထိ တောင်ခါများကို အနှံ့အပြား တွေ့နိုင်သည်။ မြန်မာနိုင်ငံတွင် ပဲခူးရိုးမ အရှေ့ပိုင်းဒေသများ၌၎င်း၊ ပေ ၄၅၀၀ မြင့်သော ကုန်းမြေပြန့်များ၌၎င်း တွေ့ရတတ်သည်။ မြန်မာနိုင်ငံ၏ နယ်စပ်အနီး ယူနန်တွင်လည်း တောင်ခါကို တွေ့ရသေးသည်။

**တောင်ငူခရိုင်**။ ။တောင်ငူခရိုင်သည် စစ်မဖြစ်မီက တနင်္သာရီတိုင်းတွင်ပါဝင်သော ခရိုင်တခုဖြစ်သည်။ မြန်မာနိုင်ငံ လွတ်လပ်ရေး ကြေညာပြီးသည့်နောက်၌မူ တောင်ငူခရိုင်ကို ပဲခူးတိုင်းထဲသို့သွင်း၍ ပူးပေါင်းလိုက်သည်။ ခရိုင်အတွင်း ပါဝင်သော ရွှေကျင်နယ်သည် သီးခြားခရိုင်တခု



တောင်ငူခရိုင်၌ထင်ရှားသည့် မြတ်စောညီနောင် စေတီ ၂ ဆူအနက် ညီတော်ဖြစ်သော စောလှစေတီ

အဖြစ်ဖြင့် ယခင်က ရှိနေခဲ့ရာ၊ ၁၈၉၅ ခုနှစ်တွင် တောင်ငူခရိုင်တွင်းသို့ ပေါင်းစပ်ထည့်လိုက်လေသည်။

တောင်ငူမြို့၏ အနောက်ဖက် ၆ မိုင်ခန့် အကွာ၌၊ ခရစ် ၁၂၇၉ ခုနှစ်က တည်ခဲ့သော ဒွါရာဝတီ၊ မြို့တော်ဟောင်း နေရာ တည်ရှိ၏။ အနောက်မြောက်ဖက် ၂၄ မိုင်ခန့်ကွာသော ဆွာ မြို့ကလေးတွင် ခရစ် ၁၁၉၄ ခုနှစ်က ပုဂံပြည့်ရှင် ဘုရင်နရပတိစည်သူ၏ သားမက်တော် နန္ဒသူရိယ တည်ထားခဲ့သော မြို့တော်ဟောင်းနေရာရှိ၏။ တောင်ငူမြို့၏ တောင်ဖက် ၁၁ မိုင်ဝေးသော ဇေယျဝတီသည် ဘုရင့်နောင် တည်ခဲ့သော မြို့ဖြစ်သည်။

တောင်ငူခရိုင်၏ မြောက်ဖက်၌ ရမည်းသင်း ခရိုင်နှင့် တောင်ပိုင်း ရှမ်းပြည်နယ်ရှိ၍၊ အရှေ့ဖက်၌ တောင်ပိုင်း



တောင်ငူခရိုင်အတွင်းရှိ စစ်တောင်းမြစ်ကိုဖြတ်၍ ဆောက်လုပ်ထားသော စစ်တောင်းတန်တား

ရှမ်းပြည်နယ်၊ ကယားပြည်နယ်နှင့် သံလွင်ခရိုင်တို့ ရှိကြ၏။ တောင်ဖက်၌ကား၊ ကျုံပကူးချောင်းသည် တောင်ငူခရိုင်ကို သထုံခရိုင်နှင့် ခြား၍ထား၏။ အနောက်တောင်ဖက်တွင်မူ ပဲခူးစီရင်စုကိုခြားထားသော စစ်တောင်းမြစ်နှင့် ကွန်းချောင်းရှိသည်။ အနောက်မြောက်ဖက်တွင် ပဲခူးရိုးမတောင်တန်းသည် ပြည်၊ သာယာဝတီနှင့် သရက်မြို့ခရိုင်များကို ပိုင်းခြားလျက် တည်ရှိသည်။

တောင်ငူခရိုင် ရွှေကျင်နယ်၊ ရွှေကျင်ချောင်းထဲမှ ရွှေကိုရ၏။ ကြေးနီ၊ ခဲ၊ သံဖြူ၊ ကျောက်မီးသွေးများလည်း အတော်အတန်ထွက်၏။ သို့သော်လည်း ယင်းတို့ကို များစွာထုတ်လုပ်ခြင်း မရှိချေ။ တောင်ငူခရိုင်သည် တောထူထပ်၍၊ ကျွန်းသစ်များ အများအပြား ထွက်၏။ စစ်တောင်းမြစ်၏အရှေ့ဖက် တောင်တန်းများတွင် ထင်းရှူးတောများ ရှိလေသည်။ သစ်တောဧရိယာ စတုရန်းမိုင် ၅၀၀၀ ရှိသည်။ တောတောင်ထူထပ်သော နေရာများ၌ ငှက်ဖျားရောဂါ ထူပြော၍၊ လွင်ပြင်များတွင် မျှတသော ဥတုရှိ၏။

တောင်ငူခရိုင်ရှိ အကြီးဆုံးသောမြစ်မှာ စစ်တောင်းမြစ်ဖြစ်၍၊ မြောက်ဖက်မှ တောင်ဖက်သို့ အလျားလိုက် ဖြတ်စီးပြီးလျှင်၊ တောင်ဖက်တွင် တောင်ငူခရိုင်၏ အနောက်ဖက်နယ်နိမိတ်အဖြစ် ရှိနေ၏။ စစ်တောင်းမြစ်သည် ရမည်းသင်းစီရင်စု အရှေ့ဖက်ရှိ တောင်တန်းများတွင် မြစ်ဖျားခံ၍ စီးဆင်းလာပြီးလျှင်၊ မုတ္တမပင်လယ်ကွေ့ထဲသို့ စီးဝင်ရာ လက်တက်ချောင်းငယ်များမှာ သစ်များ ထင်းများ မျှောရန်နှင့် ကူးသန်းသွားလာရန်အတွက် များစွာအသုံးဝင်လေသည်။

တောင်ငူခရိုင်သည် ရန်ကုန်နှင့်မန္တလေးမြို့ မီးရထားလမ်းပေါက်သည်မှစ၍၊ စည်ကားလာ၏။ ဖြူးချောင်းနှင့် ကွန်းချောင်းတို့ စီးဆင်းရာမြို့နယ်များမှ စပါး အမြောက်အမြား ထွက်၍၊ ရန်ကုန်မြို့သို့ တင်ပို့ရောင်းချလေသည်။ တောင်ငူခရိုင်တွင် ပါဝင်သော ရွှေကျင်နှင့် ဖြူးမြို့နယ်များမှ နှမ်းနှင့် ဆေးထွက်၏။ ရေတာရှည်နှင့် ရွှေကျင်မှ ပဲများထွက်၏။ ကွမ်းသီးကို ရွှေကျင်၊ ထန်းတပင်နှင့် ကျောက်ကြီးနယ်များတွင် အများအပြား စိုက်ပျိုးကြသည်။ တောင်ငူကွမ်းသီးသည် နာမည်ကြီးသော ထုတ်ကုန်တခု ဖြစ်လေသည်။ ရွှေကျင်နယ်မှ ဆေးထွက်၍၊ ရွှေကျင်ဆေးကို ဆေးပြင်းလိပ် လိပ်ရန် အသုံးများ၏။ တောင်ငူတောလက်နှင့် သံတောင်တို့တွင် ကာဖီခင်းများရှိ၍၊ တောင်ငူကာဖီမှာလည်း အထူးကျော်ကြားလေသည်။

တောင်ငူခရိုင်ကို တောင်ငူနယ်၊ ဖြူးနယ်နှင့် ရွှေကျင်နယ်ဟု နယ်သုံးနယ်ခွဲ၍ အုပ်ချုပ်သည်။ တောင်ငူနယ်တွင် တောင်ငူမြို့နယ်၊ ရေတာရှည်မြို့နယ်နှင့် သံတောင်မြို့နယ်တို့ ပါဝင်၍၊ ဖြူးနယ်တွင် ဖြူးမြို့နယ်၊ အုတ်တွင်းမြို့နယ်နှင့် ထန်းတပင်မြို့နယ်များ ပါဝင်သည်။ ရွှေကျင်နယ်ကား ရွှေကျင်မြို့နယ်နှင့် ကျောက်ကြီးမြို့နယ်တို့ ပါဝင်လေသည်။

တောင်ငူခရိုင်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆,၁၇၂ မိုင်ရှိ၍၊ ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄၅,၆၁၇ ယောက် ရှိလေသည်။ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ လူဦးရေမှာ ၅,၃၂,၂၂၅ ယောက်ဖြစ်သည်။ တောင်ငူခရိုင် ရုံးစိုက်ရာမြို့မှာ တောင်ငူမြို့ ဖြစ်လေသည်။

**တောင်ငူမြို့။** ။တောင်ငူမြို့သည် တောင်ငူခရိုင်၏ ရုံးစိုက်ရာ မြို့ဖြစ်၍၊ စစ်တောင်းမြစ်၏ လက်ျာဘက်ကမ်းပေါ်တွင် တည်ရှိသည်။ ရန်ကုန်-မန္တလေး မီးရထားလမ်း ပေါက်သည်ကစ၍၊ တိုးတက်စည်ကားလာသော မြို့ကြီး ဖြစ်သည်။ ရန်ကုန်မြို့၏ မြောက်ဖက်၌ တည်ရှိ၍၊ မီးရထားလမ်းအတိုင်း မိုင်ပေါင်း ၁၆၆ မိုင် ဝေးသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ တောင်ငူမြို့၏ လူဦးရေမှာ ၃၁,၅၇၉ ယောက်ဖြစ်သည်။

တောင်ငူမြို့သည် အရေးပိုင်ရုံးစိုက်ရာ ဌာနဖြစ်၍၊ လူနေအိမ်ခြေ စည်ကားပြီးလျှင်၊ ဈေး၊ ကျောင်း၊ ဆေးရုံ၊ ခရစ်ယန် ဘုရားရှိခိုးကျောင်းနှင့် မီးရထားဘူတာရုံတို့မှာ ထင်ရှားသော အဆောက်အအုံများ ဖြစ်လေသည်။ မြို့ပြစည်ပင်ရေးအတွက် မျူနီစီပယ်အဖွဲ့က အုပ်ချုပ်သည်။ မီးရထား စက်ခေါင်းရုံနှင့် လေယာဉ်ပျံကွင်းလည်း ရှိသည်။ တောင်ငူမှ စစ်တောင်းမြစ်ကို ဖြတ်၍၊ သံတောင်မြို့နှင့် မော်ချီမိုင်းသို့ မော်တော်ကားလမ်း ဖောက်ထားသည်။ တောင်ငူမှ ထန်းတပင်သို့လည်း လမ်းပေါက်သည်။

မြို့ပေါ်ရှိ ရွှေဆံတော်ဘုရားမှာ၊ တန်ခိုးကြီးဘုရား ဖြစ်၍၊ မြို့နှင့် ၅ မိုင်ခန့်ဝေးသော မြတ်စောညီနောင် စေတီ ၂ ဆူမှာလည်း ထင်ရှားသောစေတီများ ဖြစ်လေသည်။

ရှေးမြန်မာရာဇဝင်တွင် မင်းကြီးညို စ၍တည်ခဲ့သော မြို့ဖြစ်၍၊ တပင်ရွှေထီးနှင့် ဘုရင့်နောင်တို့ လက်ထက်တွင် အထင်ရှားဆုံး မင်းနေပြည်တော် ဖြစ်ခဲ့သည်။ စာပေလောကတွင် ရတုစာဆို နတ်သျှင်နောင်သည် တောင်ငူသမိုင်းနှင့် ဆက်စပ်လျက်ရှိသည်။ (နတ်သျှင်နောင် ဘုရင် — ရှု။) ရှေးက မြို့ရိုးနှင့်ကျုံးများကို ယခုထက်တိုင် တွေ့ရှိနိုင်ပေသည်။ တောင်ငူမြို့နယ်မှ အရေးကြီးသော ထွက်ကုန်မှာ စပါး၊ သစ်နှင့် ကွမ်းသီးဖြစ်၏။ ကွမ်းသီးကြိုက် တောင်ငူပို့ ဟူသော စကားပုံပင် ရှိလေသည်။



တောင်ငူမြို့၊ ကေတုမတီကျုံးဟောင်းနှင့် မြို့ရိုးဟောင်းတို့၏ ရှုခင်းတရပ်



နံနက်နှင့်ညနေခင်းတို့တွင် သာယာစွာမြည်တတ်သည့် တောင်ငုံး

**တောင်ငုံး။** ။ဇီဝဗေဒအလိုအရ တောင်ငုံးသည် 'ပစ်တီဒီး' မျိုးရင်းတွင် ပါဝင်၍၊ ယင်းကို 'ပစ်တာ မိုလပ်စင်ဆစ်' ဟုခေါ်သည်။ အလျား ၈ လက်မခန့်ရှိသည်။ ဦးခေါင်း၏ အလယ်တည့်တည့်မှ လည်ကုပ်သို့ ဆင်းလာသော အမည်းစင်းတခုသည် နှုတ်သီးဖက်မှ မျက်စေ့များကို ဖြတ်ကျော်လျက်ရှိသော အမည်းစင်းများနှင့် လည်ကုပ်တွင် ဆုံကြပြီးလျှင် ကော်လာသဖွယ် လည်ကုပ်ကို ရစ်ပတ်လျက်ရှိသည်။ ပျံသန်းနေစဉ် တောင်ငုံး၌ အပြာရင့်ရောင်ရှိသည်ဟု ထင်ရ၏။ တောင်ပံတွင်ရှိသော အဖြူကွက်များကိုလည်း ထင်ရှားစွာ မြင်ရသည်။

နံနက်ခင်းနှင့် ညနေခင်းတွင် တောင်ငုံးသည် သာယာစွာ အော်မြည်တတ်သည်။ တောင်ငုံး၏ အော်သံကို အများအားဖြင့် တနေ့လုံး ကြားရတတ်သည်။ လသာသော ညအခါ၌လည်း ကြားရလေ့ရှိသည်။

မြန်မာနိုင်ငံတွင် ပဲခူးရိုးမရှိ တောင်ငုံးများသည် မိုးဥတုတွင် ကျွန်းတောများ၌ ကျက်စားလေ့ရှိသည်။ ထိုတောင်ငုံးသည် အချို့တောင်ငုံးများကဲ့သို့ သစ်တောထူထပ်ရာဒေသတွင် မနေကြချေ။ တခါတရံ ရွာနီးချုပ်စပ်၊ ဥယျာဉ်နှင့် ယာခင်းများသို့ လာရောက်တတ်ကြသည်။ အအုပ်အသင်းဖွဲ့၍ နေလေ့မရှိသော်လည်း၊ စုရုံးနေကြသည်ကို မကြာခဏ တွေ့ရတတ်သည်။ ပရွက်ဆိတ်နှင့် အင်းဆက်ပိုးများကို စားလေ့ရှိသည်။

မြန်မာနိုင်ငံ တောင်ပိုင်းဒေသနှင့် တနင်္သာရီတိုင်းတွင်နေသော တောင်ငုံးများ၏ သားပေါက်ချိန်မှာ ဧပြီလမှ ဩဂုတ်လထိဖြစ်သည်။ ထိုတောင်ငုံးများသည် အသိုက်ကို တောအတွင်း ချောင်းကမ်းပါးတွင် ပြုလုပ်တတ်ကြသည်။ ယင်းတို့၏ ဥများမှာ အခြားတောင်ငုံးမျိုးတို့၏ ဥများထက် လှသည်။

တောင်ငုံးများကို အာဖရိကတိုက်၊ အာရှတိုက် တောင်ပိုင်းနှင့် ဩစတြေးလီးယားတိုက်တို့တွင်လည်း တွေ့ရသည်။ မြန်မာနိုင်ငံ၌ ရခိုင်တိုင်း တောင်ပိုင်း၊ ပဲခူးရိုးမ၊ ကယားပြည်နယ်၊ ရှမ်းပြည်နယ် တောင်ပိုင်းနှင့် တနင်္သာရီတိုင်းတွင် တွေ့ရသည်။ ဇီဝဗေဒအမည်အားဖြင့် ပစ်တာမျိုးရင်းထဲတွင် ဖေရီ၊ နီပါလင်ဆစ်၊ အိုတီစီ၊ စီရူလီ၊ ဆိုင်အေးနီးယား စသော တောင်ငုံးမျိုးများလည်း ပါဝင်ကြသည်။

**တောင်စလပ်ပင်။** ။တောင်စလပ်ပင်ကို လက်ထုတ်သိမ်ဟုလည်း ခေါ်သည်။ ရုက္ခဗေဒအလိုအားဖြင့် 'ရိုက်ရှား တိုမင်တိုစား' ဟုခေါ်၍၊ 'အဲပေါ့ဆီနေဆီအီး' မျိုးရင်းတွင် ပါဝင်သည်။ တောင်စလပ်ပင်သည် အမြင့်ပေ ၄၀ ထိ ကြီးထွားနိုင်၍ လုံးပတ် ၃-၄ ပေ ရှိနိုင်သည်။ အထက်နှင့် အောက်မြန်မာနိုင်ငံရှိ လယ်ကွင်းများ၊ တောင်နိမ့် သစ်တောများတွင် ပေါက်ရောက်ကြသည်။ အသားမှာ ဖြူ၍ အတော်အတန် မာကျောသည်။ အသား ကုဗပေ တပေလျှင် အလေးချိန် ပေါင် ၄၀ မျှရှိသည်။ ထိုအသားကို



အဆုပ်လိုက် အခိုင်လိုက် ပွင့်လေ့ရှိသော တောင်စလပ်ပန်း

အိမ်ထောင်ပရိဘောဂ ပစ္စည်းများ၊ သေတ္တာနှင့် ဘီးများ ပြုလုပ်ရာတွင် အသုံးပြုကြသည်။ ပန်းပုနှင့် ပန်းပွတ် လုပ်ငန်းများအတွက် သုံးရန်လည်း အကောင်းဆုံးဖြစ်သည်။ အရွက်များမှ မဲနည်းရောင် ဆိုးဆေးတမျိုးထွက်၍၊ အစေ့များကို စားနိုင်သည်။ အခေါက်နှင့် အမြစ်များကို မြွေကင်းမြီးကောက်ကဲ့သို့သော အဆိပ်ရှိ သတ္တဝါများကိုက်လျှင် အဆိပ်ဖြေဆေးအဖြစ် သုံးကြသည်။

**တောင်ဆိတ်။** ။တောင်ဆိတ်များသည် အလွန်မြင့်မား၍၊ ဆီးနှင်းခဲသော ဟိမဝန္တာတောင်၊ အဲလပတောင်တန်း၊ ကော်ကေးဆပ်တောင်နှင့် ပီရနီးတောင် စသည့် တောင်တန်းကြီးများပေါ်တွင် နေထိုင်ကြသည်။ တောင်ဆိတ်အဖိုတို့၏ ဦးချိုများသည် ဓားလွယ်ကောက်ကြီး ၂ ခုနှင့်တူလျက်၊ ရှေ့ဖက်တွင် ဖေါင်းရစ်သဖွယ် အထစ်အထစ် ဖြစ်နေသည်။ အရှည် လက်မ ၃၀ မှ ၆၀ အထိ ရှိတတ်သည်။ အမများ၏ ဦးချိုသည်ကား ၈ လက်မခန့်သာ ရှည်လေသည်။ ထိုသတ္တဝါတို့သည် ရေ အမြဲခဲနေသော တောင်အမြင့်ပိုင်းတွင်သာ နေထိုင်လေ့ရှိကြလျက် အစာစားရန် သစ်တောမြက်တောများ ရှိရာသို့ ညအချိန် ဆင်းလာတတ်သည်။ ထူထဲသော အမွေးများကြောင့် အအေးဒဏ်ကို ခံနိုင်သည်။ အမွေးမှာ အပြာနီရောင် ဖြစ်၍၊ ဆောင်းအခါတွင် ပို၍ရှည်လာသည်။ တောင်ဆိတ်တို့၏ အရပ်မှာလက်မ



တောင်တက်ကျင်လျှင်၍ ခြေမြဲလှသော တောင်ဆိတ်

၄၀ ခန့်သာရှိသည်။ ရှေ့ခြေများသည် နောက်ခြေများထက် တိုသဖြင့် တောင်ကိုဆင်းရန်ထက် တောင်ကိုတက်ရန် ပို၍လွယ်ကူသည်။

တောင်ဆိတ်များသည် အုပ်လိုက်စု၍ မနေတတ်ကြချေ။ ဆိတ်မများနှင့် ဆိတ်ကလေးများသာ အနည်းငယ်စု၍ အုပ်ဖွဲ့နေတတ်ကြသည်။ ဆိတ်ထီးအိုကြီးများမူကား၊ မြင့်လှသော တောင်ထိပ်များတွင် တကောင်တည်း ကျက်စားတတ်ကြသည်။ တောင်ဆိတ်ဆိုသည့်အတိုင်း အလွန်မတ်စောက်၍ အတက်ရခက်သော နေရာများတွင် တက်ရောက်သွားလာနိုင်ပေသည်။ တခါတရံ အိမ်တွင် ယဉ်ပါးအောင် မွေးထားသော တောင်ဆိတ်ကလေးများသည် အိမ်ခေါင်မိုးပေါ် သို့ပင် တက်၍ကစားတတ်ကြသည်။ ဆွစ်ဇာလန်နိုင်ငံ၊ အဲလပတောင်ကုန်းများရှိ တောင်ဆိတ်များကို ပစ်ခတ်သတ်ဖြတ်ကြသဖြင့် နည်းပါးသွားက၊ မျိုးဆက်ပြတ်လုမတတ် ရှိနေသောကြောင့် အစိုးရတို့က မပစ်ခတ် မသတ်ဖြတ်ကြရန် ဥပဒေဖြင့် တားမြစ်ထားရလေသည်။

**တောင်တက်ခြင်း။** ။သားရဲတိရစ္ဆာန် ပေါများရာ ဒေသနှင့် သားကြီးငါးကြီး ပေါများရာ ဒေသတို့တွင် လူတို့သည် အမဲလိုက်ခြင်း၊ ဆင်ဖမ်းခြင်း၊ ကျားပစ်ခြင်း၊ ငါးဖမ်းခြင်း စသည်တို့ကို အပျင်းဖြေခြင်း အလို့ငှာသော်၎င်း၊ စွန့်စားခြင်း အလို့ငှာသော်၎င်း၊ ကစားခုန်စားခြင်း အလို့ငှာသော်၎င်း၊ ပြုလုပ်လေ့ရှိသကဲ့သို့ တောင်ထူထပ်သော ဒေသတို့၌ နေထိုင်ကြသော သူတို့သည် တောင်တက်ခြင်း အလုပ်ကို အပျင်းဖြေစွန့်စားသော ကစားခုန်စား ပွဲသည့်သဘောဖြင့် ပြုလုပ်လေ့ရှိကြသည်။ အမဲလိုက်ရာ၌ သေနတ်သည် လက်နက်ကောင်းတခုဖြစ်၏။ ငါးဖမ်းရာ၌ ငါးများတံသည် လက်နက်ကောင်းတခုဖြစ်၏။ တောင်တက်ခြင်း၌ကား ကျန်းမာရေး ပြည့်စုံ၍၊ စိတ်ဓာတ် ကြံ့ခိုင်ခြင်းသည် အရေးပါသော လက်နက်ကောင်းတခု ဖြစ်လေသည်။

တောင်တက်ခြင်း အလေ့အထကို ၁၆ ရာစုနှစ်လောက်ကပင် စတင်ပြုလုပ်နေကြသော်လည်း၊ အသေအချာ မှတ်တမ်းတင်ရလောက်အောင် ပြုလုပ်ကြသည်ကား အနှစ် ၂၀၀ ခန့်သာ ရှိသေးသည်။ ၁၇၈၆ ခုနှစ်တွင် အဲလပတောင်တန်းရှိ ပေ ၁၅,၇၈၀ မြင့်သော ဗလန့်တောင်ထိပ်သို့ရောက်အောင် တက်နိုင်ခြင်းသည် ပဌမဦးဆုံး မှတ်တမ်းတင်လိုက်သော တောင်တက်ခြင်းပင်ဖြစ်၏။ သို့ရာတွင် ခေတ်မှီ စံနစ်တကျ တောင်တက်ခြင်းကိုကား ၁၈၅၀ ပြည့်နှစ်ခန့်လောက်မှသာ စတင်ပေါ်ပေါက်လာလေသည်။ ထိုနှစ်တွင် အဲလပတောင်ထိပ်များသို့ အင်္ဂလိပ် တောင်တက်သမားများ အရောက်တက်နိုင်ခဲ့ပြီးနောက် ဆက်လက်၍ ဆွစ်ဇာလန်တောင်ထိပ်များကို ဆွစ်လူမျိုး၊ ပြင်သစ်လူမျိုး၊ ဣတာလျံလူမျိုးတို့

သည် အတူတကွ တက်ရောက်ခဲ့ကြ၏။ ၁၉ ရာစုနှစ်အတွင်းတွင် အင်္ဂလိပ် တောင်တက်သမားတို့သည် ဥရောပတောင်ထိပ်များကိုသာမက ကော်ကေးဆပ်တောင်၊ ဟိမဝန္တာတောင်၊ အန်းဒီးတောင်များကိုပင် ရောက်အောင်တက်ခဲ့ကြလေသည်။ ၂၀ ရာစုနှစ်အစတွင် အမေရိကတိုက်မှ တောင်တက်သမားများ ပေါ်လာရာ၊ အမေရိကန်တောင်ထိပ်အများအပြားကို ပေါက်ရောက်ခဲ့လေသည်။ ယခုအခါ၌မူကား ကမ္ဘာပေါ်ရှိ တောင်တက်သမားတို့သည် ဟိမဝန္တာတောင်ရှိ ဧဝရက်တောင်ထိပ် (အမြင့် ၂၉,၁၀၀ ပေ) သို့ မရောက်မနေအားခဲ၍ အမျိုးမျိုး ကြံစည်အားထုတ်ကြရာ၊ ၁၉၅၃ ခုနှစ် မေလ ၂၉ ရက်နေ့တွင် အက်ဒမန် ဟစ်လာရီနှင့် တင်းဆင်း နော်ကေးတို့သည် အောင်မြင်စွာ ရောက်နိုင်ခဲ့ကြသည်။ ယင်းတို့နှစ်ဦးမှာ ဗြိတိသျှတို့ ဦးစီးသော ဧဝရက်တောင်တက်အဖွဲ့ဝင်များ ဖြစ်ကြသည်။ ဟစ်လာရီသည် နယူးဇီလန်ကျွန်းသားဖြစ်၍၊ တင်းဆင်းမှာမူ အိန္ဒိယနိုင်ငံ နီပေါနယ်သားဖြစ်သည်။ ထိုတောင်တက်အဖွဲ့ အောင်မြင်ခြင်းကို ဂုဏ်ပြုသောအားဖြင့်၊ ဟစ်လာရီသည် ဗြိတိန်နိုင်ငံ အယ်လစ်ဇဗက်ဘုရင်မက သူကောင်းပြုခြင်း ခံရ၍၊ ယခုအခါ ဆာ အက်ဒမန် ဟစ်လာရီဟုတွင်သည်။ (ဧဝရက်တောင်ထိပ် — ရှု။)

၁၉၅၄ ခုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် ဧဝရက်မှလွဲလျှင် အမြင့်ဆုံးဖြစ်သော ကာရာကိုရမ်တောင်တန်းရှိ ကေ ၂ ဟု အမှတ်သညာပြုသည့် တောင်ထွတ်ကို ဣတလီလူမျိုး ပါမောက္ခ ဒေဆီယို အမှူးပြုသည့် တောင်တက်အဖွဲ့က တက်ရောက်ခဲ့သည်။ ထိုတောင်ထွတ်သည် ပေပေါင်း ၂၈,၂၅၀ မြင့်သည်။ ၁၉၅၅ ခုနှစ် မေလ ၂၅ ရက်နေ့တွင်ကား အမြင့်ဆုံး တောင်ထိပ်များတွင် တတိယဖြစ်၍ အမြင့် ၂၈,၁၄၆ ပေရှိသော ကန်ချင်းဂျွန်ဂါတောင်ကို ဗြိတိသျှ တောင်တက်အဖွဲ့သည် တောင်ထွတ်မှ ၅ ပေမျှသာဝေးသော နေရာသို့ ရောက်ခဲ့သည်။ တောင်ထွတ်ကို ရောက်အောင် မတက်ခြင်းမှာ ဆစ်ကင်အစိုးရနှင့် ကတိပြုထားသည့်အတိုင်း တောင်ထွတ်ကို မရှိမသေ ပြုမူသည့်သဘော မရောက်စေလို၍ဖြစ်သည်။ ၁၉၅၆ ခုနှစ် မေလ ၁၈ ရက်နေ့၌ကား ဒေါက်တာ အဂ္ဂလား အမှူးပြုသော ဆွစ်ဇာလန်တောင်တက်အဖွဲ့သည် အမြင့်ဆုံး တောင်ထိပ်များတွင် စတုတ္ထဖြစ်သော အမြင့် ၂၇,၈၀၃ ပေရှိ လိုဆီတောင်ထွတ်ကို တက်ရောက်ခဲ့၏။

တောင်တက်ခြင်းကို အပျင်းဖြေ လေ့ကျင့်သူတို့သည် ကျန်းမာသန်စွမ်းရန် လိုအပ်သည်။ အမြင့်မှနေ၍ အောက်သို့ ငုံ့ကြည့်လျှင် မူးတတ်သောသူသည် တောင်တက်၍ မဖြစ်ချေ။ မည်မျှပင် ကျန်းမာသောသူ ဖြစ်စေကာမူ အလေ့အကျင့် မရှိက မူးတတ်သည်သာဖြစ်၏။ လေကြောင်း၌ မည်မျှပင် မြင့်မြင့်ပျံသန်းနိုင်သော အလေ့အကျင့် ရထားသူ ဖြစ်စေကာမူ တောင်မြင့်မှ ငုံ့ကြည့်လိုက်လျှင် မူးဝေသွားတတ်သည်။



ဧဝရက်တောင်တက်အဖွဲ့တွင်ပါဝင်သော တောင်တက်ကရိယာတန်ဆာပလာများ

တောင်တက်ခြင်း အမျိုးမျိုးရှိ၏။ ကျောက်တောင်များကို တက်ခြင်း၊ နှင်းခဲဖုံးလွှမ်းသော တောင်များကိုတက်ခြင်းဟူ၍ နှစ်မျိုးရှိသည့်အနက်၊ အင်္ဂလန်ပြည်သားများသည် ကျောက်တောင်များကို အများအပြား တက်လေ့ရှိကြ၏။ ဆွစ်ဇာလန်နိုင်ငံသားများသည်ကား ဆီးနှင်း ဖုံးအုပ်နေသော တောင်ထိပ်များသို့ တက်ကြသည်။ ဗြိတိသျှကျွန်းစုတွင် ကျောက်တောင် ထူထပ်၍ အပြင်းဖြေ



**စွန့်စားရသည့် တောင်တက်သမား၏သတ္တိ**

ပြင်သစ်နိုင်ငံ အဲလပတောင်တန်းရှိ မတ်စောက်လှသော ကျောက်တောင်ထိပ်သို့ စွန့်စားတက်ရောက်နေပုံဖြစ်သည်။ မြင့်မားသော ကျောက်တောင်စွန်းသို့ ရောက်နှင့်နေသူထံမှတန်းကို ဒုတိယလူကကုတ်တွယ်၍ ဖြတ်ကူးနိုင်အောင် တတိယလူက ကြိုးစတဖက်ကို အားခွန်စိုက်၍ တည်ငြိမ်အောင်ကိုင်ထားရသည်။ ကျောက်တောင်တက်ခြင်း၌ ကြိုးသည် အလွန်အသုံးဝင်သည်။ ကြိုးတချောင်းကို လူသုံးယောက်သာ အသုံးပြုလေ့ရှိသည်။

တက်ရန် တောင်ထိပ်တောင်ထွတ် ပေါများလေသည်။ ကျောက်တောင် တက်နည်းနှင့် ဆီးနှင်းဖုံးအုပ်နေသော တောင် တက်နည်းတို့သည် တခုနှင့်တခု မတူကြချေ။ ကျောက်တောင်တက် ကျွမ်းကျင်သူသည် ဆီးနှင်းဖုံးအုပ်သော တောင်တက် ကျွမ်းကျင်သည်ဟု မဆိုနိုင်။ ကျောက်တောင်ကို တက်ရာ၌မြင့်မား မတ်စောက်သော ကမ်းပါးကြီးများ၊ ကျောက်တုံးစွန်းကြီးများကို ခက်ခဲစွာ တွယ်ကပ်၍ တက်ရသည်။ ခိုင်ခံ့သော ကြိုးများကို အားပြု၍တက်ရာတွင်လည်း တစုံတရာ ချွတ်ချော်ခဲ့သော်၊ လိမ့်ကျ၍ သေကြေပျက်စီးဖွယ်ရာသာ ရှိသောကြောင့် အထူးဂရုစိုက်ရသည်။ ခြေလက်မြဲရန်မှာ တောင်တက်သမားများအဖို့ အလိုအပ်ဆုံးသော အရည်အခြင်းဖြစ်၏။ ရံဖန်ရံခါ တောင်တက်သမားများသည် ထိတ်လန့်စိုးရိမ်ဖွယ်ကောင်းလောက်အောင် အသက်ဆံဖျား စွန့်စားကြရ၏။

ကျောက်တောင်ကို တက်သူများသည် ကျောက်ဆောင် ကျောက်စွန်းများကို အသက်ဆံဖျားစွန့်၍ တက်ရသကဲ့သို့ ရေခဲနှင်းခဲ တောင်ထိပ်များကို တက်သူတို့သည်လည်း အမျိုးမျိုးသော ဘေးအန္တရာယ် အခက်အခဲများကို ကျော်လွန်အောင် ကြိုးစား၍တက်ကြရသည်။ ရေခဲတောင်များပေါ်၌ တွေ့ကြုံရတတ်သော အန္တရာယ်နှင့် အခက်အခဲများမှာ ကျောက်တောင်များ တက်ရာ၌ တွေ့ရသောအန္တရာယ်၊ အခက်အခဲများနှင့် အလားတူပင်ဖြစ်၏။ ရုတ်တရက် နှင်းထုထပ်စွာ ကျလာတတ်ခြင်း၊ တောင်ပေါ်မှ အရည်ပျော်၍ အရှိန်ပြင်းစွာ ကျဆင်းလာတတ်သော နှင်းခဲလျှောများနှင့် မရှောင်သာမတိမ်းသာ တွေ့ရခြင်းတို့မှာ ရေခဲ နှင်းခဲတောင်များသို့ တက်ကြသူတို့ တွေ့ကြုံရသော ကြောက်မက်ဖွယ်ကောင်းသည့် အန္တရာယ်များပင်ဖြစ်၏။ တခါတရံ ထိုဘေးအန္တရာယ်တို့နှင့် တွေ့သည့်အခါ အသက်ပင် သေကြေပျက်စီးတတ်လေသည်။ ဆီးနှင်းတောင်များကို တက်ရာ၌ အအေးဒဏ်ကို ကာကွယ်နိုင်သော အဝတ်များ၊ ခြေချော်မသွားစေရန် သံချွန်တပ်ဖိနပ်များ၊ ပေါက်တူး ပေါက်ချွန်းငယ်များ၊ ခိုင်ခံ့သော ကြိုးများလို၏။

အထက်ဖော်ပြရပါ တောင်တက်ခြင်းကို အပြင်းဖြေပြုလုပ်ကြရာမှ ပညာဗဟုသုတရသော အဖိုးတန်သည့်

လုပ်ငန်းတခုသဖွယ် လူတို့က အားပေးခြင်းပြုလာကြသည်။ ဤတောင်တက်သမားတို့သည် မြင့်မားလှစွာသော တောင်ကြီးများကို ကျော်ဖြတ်၍ တိုင်းပြည် နယ်နိမိတ်များကို သတ်မှတ်ပေးနိုင်သည်။ အမြင့်ရှိ လေထုအကြောင်း၊ ရာသီဥတုအကြောင်း စသည်ဖြင့် သိပ္ပံပညာဆိုင်ရာ စုံစမ်းမှုများကို ဆောင်ရွက်ပေးနိုင်သည်။ ထို့ကြောင့် ဗြိတိန်နိုင်ငံ၊ ဥရောပတိုက်၊ အမေရိကန်နိုင်ငံ၊ ကနေဒါနိုင်ငံ၊ အာဖရိကတိုက်၊ အာရှတိုက်၊ ဩစတြေးလီးယားတိုက် စသည့် တိုင်းပြည်ကြီးများ၌ တောင်တက်သမားအသင်းများ ဖွဲ့စည်း၍ တောင်တက်ခြင်းကို စံနစ်တကျ ပြုလုပ်ကြသည်။ ထိုတောင်တက်သမားအသင်း၌ ယခင်က မိန်းမများကို ဝင်ခွင့်မပြုသော်လည်း၊ ယခုအခါ မိန်းမများကိုပါ ဝင်ခွင့်ပြုလျက်ရှိသည်။ ဤမျှသာမက မိန်းမချည်း ပါဝင်သည့် သီးခြားတောင်တက်အသင်းများကိုပင် တည်ထောင်လျက်ရှိကြသည်။

**တောင်တွင်းကြီးမြို့။** ။မကွေးခရိုင် တောင်တွင်းကြီးနယ် ရုံးစိုက်မြို့ဖြစ်သည်။ တောင်တွင်းကြီးနယ်တွင် တောင်တွင်းကြီး မြို့နယ်၊ မြို့သစ် မြို့နယ်နှင့် နတ်မောက် မြို့နယ်တို့ ပါဝင်ကြသည်။

တောင်တွင်းကြီးမြို့သည် မကွေးမြို့မှ အရှေ့ဖက် ၅၁ မိုင်ကွာဝေးသည်။ ပေလေးပင်၊ ရှင်လေးပါး ပေါ်ထွန်းသောမြို့ဟု မြန်မာစာပေလောကတွင် ထင်ရှားကျော်စောသည်။ တောင်တွင်းကြီး မြို့နယ်သည် တြိဂံပုံသဏ္ဌာန်ရှိ၍၊ မြေဩဇာ ထက်သန်ကောင်းမွန်သော လွင်ပြင်ဒေသများရှိသောကြောင့် မကွေးခရိုင်တွင် စပါး အများဆုံး ထွက်သော မြို့နယ်ဖြစ်သည်။ လယ်ယာစိုက်ပျိုးခြင်းအတွက် ဆည်မြောင်းများ တူးဖောက်လုပ်ကိုင်ကြရသည်။ ရှေးခေတ်က ဆည်မြောင်း အဟောင်းများကိုလည်း ယခုတိုင်တွေ့ရှိနိုင်သည်။ တောင်တွင်းကြီးမြို့ မျူနီစီပယ်အဖွဲ့ကို


အဝေးမှဖူးမြင်ရသော တောင်တွင်းကြီးမြို့ ရတနာတင်းတိမ်


တောင်တွင်းကြီးမြို့ အောင်မြင်ဇေယျ ရခိုင်ဘုရားကြီး

၁၀၇၇ ခုနှစ်မှစ၍ တည်ထောင်ခဲ့သည်။ တောင်တွင်းကြီးမြို့သည် မကွေးမြို့နှင့် ကတ္တရာစေးခင်း ကျောက်လမ်းဖြင့် ဆက်သွယ်ထားရှိသည်။ ထို့ပြင် ပျဉ်းမနား-ကျောက်ပန်းတောင်း မီးရထားလမ်းသည် တောင်တွင်းကြီးမြို့ကို ဖြတ်၍ သွားလေသည်။ မီးရထားလမ်းအားဖြင့် ပျဉ်းမနားမြို့နှင့် ၆၇ မိုင် ကွာဝေးသည်။ မြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ ၁၆,၂၃၃ ယောက်ခန့်ရှိသည်။

**တောင်တွင်းဆရာတော် (ခင်ကြီးပျော်)** (မြန်မာ ၁၀၈၄-၁၁၂၄)။ ။တောင်တွင်းဆရာတော်သည် တောင်တွင်းကြီးမြို့တွင်၊ သက္ကရာဇ် ၁၀၈၄ ခုနှစ်၌ ဖွားမြင်သည်။ မျိုးရိုးမှာ တောင်တွင်းကြီး မြို့သူကြီးရိုး ဝဇနရာဇာဘွဲ့ခံ ဦးကံ့ဘော်၏ အနွယ်အဆက်ဖြစ်သည်။ မိဘများက မှည့်ခေါ်သော ငယ်မည် မောင်ပျော်ကို အစွဲပြု၍၊ တောင်တွင်းဆရာတော် ခင်ကြီးပျော်ဟူ၍လည်း ခေါ်ကြသည်။

အသက် ၁၀ နှစ်အရွယ်တွင် မောင်ပျော်အား မိဖတို့က မြို့လုလင် ကန်ရိုးကျောင်း ဆရာတော်ထံသို့ပို့၍၊ စာပေ သင်ကြားစေသည်။ ကျောင်းသို့ရောက်စကပင် သင်ရိုး သင်တန်း စာပေများကို မခက်မခဲ အလွယ်နှင့် တတ်မြောက်၍၊ ပညာဉာဏ်စွမ်း ထက်မြက်ကြောင်းပြသည်။ ကန်ရိုးကျောင်း၌ ပညာသင်ကြားနေစဉ်၊ မြို့လုလင်တွင် သရေခိုင်း၍၊ မိဖများနှင့်အတူ ကျောက်ပန်းတောင်း၊ သေရောက်၊ တုးရှင်းတိုင်မြို့များသို့ လှည့်လည်နေထိုင်ခဲ့သည်။ တုးရှင်းတိုင်၌ နေစဉ်၊ အသက် ၂၀ သို့ရောက်၍၊ တုးရှင်းတိုင် တောင်ချာ ဘုန်းတော်ကြီးထံတွင် ရဟန်းပြုသည်။ ရဟန်းမည် ရှင်ဉာဏဝရဖြစ်၏။

ထိုနောက် တောင်တွင်းကြီးမြို့သို့ ပြန်လည်ရောက်ရှိ၍၊ စာပေ ဆက်လက် သင်ကြားစဉ်၊ ပဒ်စစ်၊ ဥဒ်ကောက်၊ ယမိုက်ဂဏ္ဌိ၊ ပဋ္ဌာန်းအရကောက် ကျမ်းများကို စီရင်ရေးသားရာတွင်၊ တောင်တွင်းဆရာတော်၏ သတင်းသည် မင်းနေပြည်အရောက် ပျံ့နှံ့ကျော်စောလေသည်။ ထိုသို့တောင်တွင်းပုဂ္ဂိုလ်သည် ဉာဏ်ပညာ ကြီးမားထက်သန်ကြောင်းကို ၁၁၂၂ ခုနှစ် နန်းတက်၊ စစ်ကိုင်းမြို့တည်၊ နောင်တော်ကြီးမင်းတရား အိမ်ရှေ့ စံတော်မူစဉ် ကြားသိတော်မူ၍၊ ဆရာတော်အား နေပြည်တော်သို့ ပင့်ဆောင်ရန် မှူးမတ်တို့ကို စေလွှတ်ရာ၊ ဆရာတော်လည်း မလိုက်လို၍၊ မကွေးမြို့အစီရင် တက်ဝံနဂါးရွာသို့ တိမ်းရှောင်ထွက်သွားလေသည်။ ထိုမှတဖန် ကျောက်ရဲ၊ ပုခန်းငယ်၊ စလေ၊ စဉ့်ကူး၊ ရွာသာ၊ ပုဂံ၊ တုးရှင်းတိုင်၊ မဲတည်၊ ခံတောစသော ရွာများသို့လှည့်လည် သွားလာနေရာ၊ အပင့်အဆောင်လိုက်လာသော မှူးမတ်များလည်း၊ ရွာစဉ်အတိုင်း နောက်မှ လိုက်လာကြလေသည်။ မဲတည်ရွာရောက်လျှင်၊ ရွာသူကြီးအား ချုပ်နှောင်၍၊ ဆရာတော်ကို ရှာဖွေပေးရမည်ဟု အတင်းအကြပ်ပြုမှ၊ ဆရာတော်က 'တကာတော်တို့ သည်းခံကြ၊ ငါကြွခဲ့မည်' အမိန့်ရှိလေသည်။

ထိုနောက် တလခန့်အကြာ ၁၁၁၆ ခုနှစ်တွင် နောက်ပါ အလုပ်အကျွေး တကာတယောက်နှင့်ပင် စစ်ကိုင်းမြို့သို့ ကြွရောက်လေသည်။ သုဓမ္မာစရပ်တွင် ဆရာတော်ကြီးများနှင့် တွေ့ဆုံ၍၊ ဆရာတော်ကြီးများက 'ငါ့ရှင်၏ဂုဏ်သတင်းသည် ရွှေမြို့တော်အထိ ပျံ့နှံ့ကျော်ကြားပေသည်။ စာပေကျမ်းဂန်များကို အဘယ်မျှလောက် သင်ကြားခဲ့ဘူးပါသနည်း' ဟုမေးရာ၊ တောင်တွင်းပုဂ္ဂိုလ်က 'တပည့်တော်သည် ပိဋကတ်သုံးပုံတွင် မသင်ဘူးသည့်ကျမ်း မရှိပါ။ မေးတော်မူရာကို လျှောက်ထားပါမည်' ဆို၍၊ ဆရာတော်ကြီးများ မေးသမျှကို ဖြေဆိုလေသည်။ ဆရာတော်ကြီးများက 'ပေလေးပင် ရှင်လေးပါး ထွန်းကားသည့်မြို့မှာ ယခု ပေတပင် ရှင်တပါး ထွန်းကားပြန်သည်' ဟု ခြီးကျူးတော်မူကြလေသည်။ ထိုနောက် နောင်တော်ကြီးမင်းတရားက ဉာဏာဘိဓမ္မလင်္ကာရ မဟာဓမ္မရာဇဂုရု တံဆိပ်နာမံကို ကပ်လှူ၍၊ သာသနာပြု သာသနာပိုင် အရာ တင်မြှောက်ကိုးကွယ်သည်။ မင်္ဂလာဘုံသာ ကျောင်းတော်ကိုလည်း တင်လှူသည်။

နေပြည်တော်တွင် သုံးဝါခန့် သီတင်းသုံးပြီးနောက်၊ သလုံးမြို့ ရေငုံဆရာတော်ထံ ကြွရောက်၍ စာဝါခံပြီးလျှင်၊ သဒ္ဒါကျမ်းကို ထပ်မံသင်ယူတော်မူပြန်သည်။ ထိုနောက် မြစ်စဉ်တလျှောက် စုန်ဆင်းရာ ပြည်မြို့သို့ရောက်၍၊ ဟံသာဝတီရောက် မင်းတရားလက်ထက် စစ်မက်အရေးပုံအတွင်းက ပျက်စီးသော ပြည်မြို့ပိဋကတ်တိုက်ရှိ ကျမ်းဂန်ပိဋကတ်များ ပျက်ပြားထွေးရှုပ်နေသည်ကို ရဟန်းငယ်တကျိပ်၏ အကူအညီဖြင့် ပေများကို တချပ်စီ စစ်ဆေးပြီးလျှင် နေရာတကျရှိအောင် ပြုပြင်စီစဉ်ပေးခဲ့သည်။

ညောင်ရမ်း ၁၀ ဆက် သက္ကရာဇ် ၁၀၆၀ ပြည့် နန်းတက်သော စနေမင်းလက်ထက်က စတင်ပေါ်ပေါက်ခဲ့သော အတင်ဂိုဏ်း အရုံဂိုဏ်း ကွဲပြားမှုသည် နောင်တော်ကြီးလက်ထက်၌လည်း မပြီးမပြတ်ပင် ရှိနေသေးသည်။ တောင်တွင်းဆရာတော်မှာ အရုံဂိုဏ်းဖြစ်သည်၊ ထို့ကြောင့် တောင်တွင်းဆရာတော် သာသနာပိုင် ဖြစ်သည့်အခါ၊ ဗဒ္ဒံမြို့၊ ကန္တီကျေးသံဃာတော်များက တောင်တွင်းဆရာတော်ထံ အဆုံးအဖြတ် ခံပြန်ရာ၊ ဆရာတော်က 'သာသနာပြုဆရာတော် ၁၄ ပါးမှာ အတင်ဂိုဏ်းချည်းဖြစ်သည်။ တပည့်တော်တပါးတည်းနှင့် ဆုံးဖြတ်ခြင်းငှာ မတတ်နိုင်။ ထို့ပြင် 'သည်သဲပုံ ငွေဖြစ်မှ တင်ရစ်တော့လေး' ဟုတပေါင်ရှိသည်။ (သဲပုံမှာ သောကြာသား အလောင်းမင်းတရားကြီးဖြစ်သည်။ ငွေမှာ တနင်္လာသား ဘိုးတော်မင်းတရားဖြစ်သည်။) ထို့ကြောင့်

ယခုမင်း လက်ထက်တွင် မဖြစ်သေး၊ နောက်မင်းများ လက်ထက်တွင်မှ ဖြစ်မည်' ဟုအမိန့်ရှိကာ၊ အဆုံးအဖြတ်မပေးဘဲ ထားခဲ့လေသည်။

တောင်တွင်းဆရာတော်သည် ပိဋကတ် ကျမ်းဂန်၌သာ လျှင် နှံ့စပ်တတ်မြောက်သည်မဟုတ်၊ လောကီ ပညာရပ် တို့၌လည်း နှံ့စပ်တတ်ကျွမ်းတော်မူသည်။ တခါသော်၊ နောင်တော်ကြီးမင်းတရားက 'ဆရာတော်သည် တပါး ပညာများ၌ ကျွမ်းကျင်သော်လည်း၊ အတီးအမှုတ်ကိုကား နားလည်မည်မဟုတ်' ဟုဆိုကာ၊ ဆိုင်းသမားများ အား ဆရာတော်၏ကျောင်းသို့ စေလွှတ်၍၊ တီးမှုတ်စေ လေသည်။ ဆရာတော်လည်း ဆိုင်းသမားများအား ဤအလုံးနှင့် ဤအလုံးကို ပေါင်း၊ ဤအလုံးကိုခွဲ၊ ဤသို့တီး ဟု ပြသပေးလေသည်။ ဆရာတော် ညွှန်ပြ သွန်သင်ချက် အတိုင်း တီးရာ၊ ရှေးအထက်က မကြားဘူးအောင် ကောင်း သောတီးရိုးကို ရကြသည်။ ဤသို့သော လောကီ လော ကုတ္တရာ၌ မတတ်သော ပညာ၊ မသိသော အရာဟူ၍ မရှိ သဖြင့်၊ တောင်တွင်းဆရာတော်သည် 'မ' တလုံး ကျေ သည်ဟု ဥဒါန်းစည်းရှည် ပြောဆိုစမှတ်ပြုကြသည်။

ဆရာတော်သည်၊ သက်တော် ၃၉ နှစ် ဝါတော် ၁၉ ဝါ သက္ကရာဇ် ၁၁၂၄ ခုနှစ်တွင် ဘဝပြောင်းတော်မူသည်။ ထိုမျှ သော သက်တော်ဝါတော် အတွင်း၌၊ ကျမ်းပေါင်း ၃၇ ကျမ်း အပြင်၊ မင်းလက်ဝဲနော်ရထာအမတ် အရပ်ရပ် လျှောက် ထား မေးမြန်းသည်များကိုလည်း ဖြေဆိုတော်မူခဲ့သည်။ ထိုအမေးအဖြေများကို စုပေါင်း၍ ထားသော 'မင်းလက်ဝဲ နော်ရထာ လျှောက်ထုံး' ဟု ကျမ်းတကျမ်း ထင်ရှား ရှိသည်။

ပြုစုတော်မူခဲ့သော ကျမ်းများမှာ၊ (၁) ပဋ္ဌာန်းအရ ကောက် (၂) ဥဒ်ကောက်၊ (၃) ယမိုက်ဂဏ္ဌိ၊ (၄) မာ တိကာဂဏ္ဌိ၊ (၅) ဓာတုကထာဂဏ္ဌိ၊ (၆) ပုဒ်စစ်ကျမ်း၊ (၇) သဒ္ဒါစစ်ဂါထာဖွင့်၊ (၈) သံဝဏ္ဏနာအဖွင့်၊ (၉) နည်း လေးဆယ်၊ (၁၀) အာဒိကပ္ပကျမ်း၊ (၁၁) ဒွါဒသရာသီ ကျမ်း၊ (၁၂) ဓာတုဘေဒကျမ်း၊ (၁၃) ဓာတုဝိဘာဂကျမ်း၊ (၁၄) နေမိတ္တကကျမ်း၊ (၁၅) နရတန်းဆောင်ကျမ်း၊ (၁၆) နရမာလာကျမ်း၊ (၁၇) လက္ခဏာသင်္ဂြိုဟ်ကျမ်း၊ (၁၈) နရသုခိကျမ်း၊ (၁၉) ဝေနေယျသုခိကျမ်း၊ (၂၀) မဟာနာရီကွန်ချာကျမ်း၊ (၂၁) ပဋိစ္စသမုပ္ပါဒ်ဓာတ်ကျမ်း၊ (၂၂) ဓာတုသင်္ဂဟကျမ်း၊ (၂၃) ဓာတုဒီပဏီကျမ်း၊ (၂၄) အရသာကျမ်း၊ (၂၅) အင်္ဂဝိဇ္ဇာကျမ်း၊ (၂၆) ကဝေသာရ ကျမ်း၊ (၂၇) လက္ခဏာဒီပကျမ်း၊ (၂၈) ဆနဝုတိကျမ်း၊ (၂၉) ဓာတ္တန္တြီကျမ်း၊ (၃၀) မဏိဇောတရသ်ကျမ်း၊ (၃၁) စူဠဇောတရသ်ကျမ်း၊ (၃၂) ပရမီသွာကျမ်း၊ (၃၃) ဇမ္ဗူ့ ကြက်သရေကျမ်း၊ (၃၄) သာသနာသိုက်ကျမ်း၊ (၃၅) သဇ္ဇ သာဓရကျမ်း၊ (၃၆) ယောဟနကျမ်း (၃၇) ပဥ္စပုမ် ကျမ်း၊ စုစုပေါင်း ၃၇ ကျမ်းဖြစ်သည်။ ထိုကျမ်းများ အနက် အချို့ကိုသာ ဆရာတော်ကိုယ်တိုင် ပေတင်ခဲ့၍၊ အချို့ကိုမူကား ဆရာတော် မရှိသည့်နောက်မှ တပည့်များ က ပေတင်ကြသည်ဟုဆိုသည်။ ထို့ပြင် နောင်တော်ကြီး မင်းက တောင်းပန်သဖြင့် ငွေဖြစ် လုပ်ယပ်ကျမ်းကိုလည်း ပြုခဲ့သည်ဟုဆိုသည်။ ဦးယော

**တောင်ဒေါင်း**။ ။တောင်ဒေါင်းသည် မြေဝပ်ငှက်မျိုး ဖြစ်၍၊ 'ကက်ပရီမာလဂျီဖောမီး' မျိုးစဉ်တွင်ရင်း၊ 'ကက် ပရီမာလဂျီဒီး' မျိုးရင်းတွင်ရင်း ပါဝင်သည်။ ဇီဝဗေဒ အလိုအားဖြင့် တောင်ဒေါင်းကို 'ယူရိုစတော့ပိုဒပ် မက်က ရောတစ် စာဗီနီစက်' ဟု ခေါ်သည်။

အလျား ၁၆ လက်မခန့်ရှိ၍ ကိုယ်ထည် ကြီးမားသည်။ နားရွက်တွင် အမွေးစုများ ရှိခြင်း၊ အတောင်နှင့် အမြီး တို့တွင် အဖြူရောင် မရှိခြင်းတို့ကြောင့် တောင်ဒေါင်းကို အခြား မြေဝပ်ငှက်မျိုးမှ လွယ်ကူစွာ ခွဲခြားသိနိုင်သည်။

ပျံသန်းနေခိုက် 'တူဝီအူး' ဟု သာယာနာပျော်ဖွယ်ရာ ကျယ်လောင်စွာ ပြတ်ပြတ်သားသား အော်လေ့ရှိသည်။ တခါတရံ ပဉ္စမအသံကို နှစ်ချက်ဆင့်၍ တိုတောင်းစွာ 'တူတူဝီအူး' ဟု အော်သည်။ အော်သံကို နိုဝင်ဘာလမှ ဇွန်လထိ ကြားနိုင်သည်။ အထူးသဖြင့် ဖေဖွာရီလနှင့် မတ်လ၌ လသာသည့်ညများတွင် တညလုံးကြားနိုင်သည်။

ပဲခူးရိုးမရှိ ကျွန်းတောများတွင် တောင်ဒေါင်းကိုတွေ့ရ သည်။ ယင်းတို့သည် နေဝင်ချိန်သို့ရောက်လျှင် အလွန်မြင့် မားစွာ တကွဲတပြား ပျံသန်းလာတတ်ကြသည်။ ထိုသို့ ပျံသန်းလာကြစဉ် ကြည်လင်ပြတ်သားစွာ လေချွန်သံလုပ်၍ မြည်ကြသည်။ မိုးချုပ်လျှင် အနိမ့်သို့ ဆင်းလာကြသည်။ လုံးဝမှောင်သောအခါ မြေကြီးနှင့် ပေအနည်းငယ်သာခွာ၍ ပျံသန်းကြတော့သည်။ ဂျမ်းထိုးပျံသန်းလျက် ပိုးကောင် များကို ရှာဖွေစားသောက်တတ်ကြသည်။ တောတွင်း၌ ယင်း၏ သာယာသောအသံကိုသာ မကြားရလျှင်၊ တောင် ဒေါင်းကို သိမ်းငှက်နှင့် ယိုးမှားနိုင်သည်။ သာမန် မြေဝပ် ငှက်ကဲ့သို့ တောင်ဒေါင်းသည် မကြာခဏ နားလေ့မရှိ ချေ။ နားပြန်လျှင်လည်း မြေကြီးပေါ်၌ နားခဲသည်။ ဝါး ပင်နှင့် သစ်ပင်များပေါ်တွင် နားနေတတ်၏။ နားသော အခါ ရင်အောက်ပိုင်းနှင့် ဝမ်းပိုက်တို့ဖြင့်သာ နားသည်။ နားနေစဉ် လေချွန်သံကို မကြာခဏ ပြုလုပ်သည်။ လေချွန် ခါနီးတွင် ဦးခေါင်းကို ရှေ့သို့ ရုတ်တရက် ဆန့်ထုတ်လေ့ရှိ သည်။ တောင်ဒေါင်း၏အရောင်သည် ပတ်ဝန်းကျင်အ ရောင်နှင့် အလွန်တူသဖြင့် ငှက်ကို ခွဲခြား၍မြင်နိုင်ရန် ခဲယဉ်းသည်။

တောင်ဒေါင်းသည် ဇန္နဝါရီလမှ ဧပြီလအထိ ဥ အုလေ့ရှိသည်။ တမြုံလျှင် တဥသာ ရှိသည်။ ဥအရောင်မှာ မလိုင်နှစ် ဖျော့ရောင် ဖြစ်၍ အပြောက် အနည်းငယ်သာ ပါရှိသည်။ အရှေ့ဖက်နိုင်ငံများတွင် တောင်ဒေါင်းကို အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံ တောင်ခြေရှိ သစ်တောများတွင် အမြဲနေ၍ တောင်မြင့်များပေါ်တွင်ကား နေလေ့မရှိချေ။

**တောင်ပီစူးငှက်။** ။တောင်ပီစူးငှက်ကို ဘီးတောင်ပိုဟူ၍လည်း ခေါ်ကြသည်။ ဇီဝဗေဒအလိုအားဖြင့် ထိုငှက်ကို 'ယူးပူပ အဲပေါ့' ဟုခေါ်သည်။ မျိုးရင်းမှာ 'အုပျူးပီဒီး' ဖြစ်သည်။ အလျား ၁၂ လက်မရှိသည်။ ပျံသန်းနေချိန်၌ အဖြူနှင့် အမည်းစင်းများကို မြင်ရ၏။ အတောင်များကို လိပ်ပြာကဲ့သို့ ရိုက်ခတ်ကြသည်။ ဦးခေါင်း၌ အမောက် ပါရှိသည်။ သာမန်အချိန်၌ အမောက်သည် လဲနေတတ်သော်လည်း၊ လန့်ဖျပ်သောအခါ ထောင်ထလာတတ်သည်။

သားပေါက်ချိန်၌ အော်သံမှာ ပျော့ပျောင်း၍၊ ဟွပ် ဟွပ် ဟွပ်ဟု မြည်သည်။ ထိုအော်သံကို အဝေးကပင် ကြားရသည်။ အော်သောအခါ လည်ပင်းသည် ဖောင်းကြွလာသည်။ ခေါင်းလည်း ညိတ်လာသည်။

ထိုငှက်များသည် မြေပေါ်၌ချည်းလိုပင် ကျက်စားလေ့ရှိကြသည်။ လန့်ချောက်လိုက်သည့်အခါကျမှသာ သစ်ပင်ပေါ်သို့ ပျံတက်သည်။ အကြောက်ပြေလျှင်၊ မြေပေါ်သို့ ပြန်ဆင်းသည်။ ယင်းတို့ကို စိုက်ခင်းများ၊ ထူထပ်သော မြက်ခင်းများ၊ ခြောက်သွေ့သော ဝါးတောများတွင် တွေ့ကြရသည်။ တကောင်တည်း ဖြစ်စေ၊ ခြောက်ကောင်ထက်မနည်း အုပ်ဖွဲ့၍ဖြစ်စေ ကျက်စားတတ်ကြသည်။ ခေါင်းကိုလှုပ်၍ လျှောက်ရင်း ပပ်ကြားအက်များကို နှိုက်၍ ရင်း၊ သစ်ရွက်များကို လှန်လှော၍ရင်း ပိုးမွှားများနှင့် ခူကောင်များကို ရှာဖွေစားကြသည်။



ဘီးတောင်ပိုဟူ၍လည်းခေါ်သည့် တောင်ပီစူးငှက်

မြန်မာနိုင်ငံ၌ တောင်ပီစူး ငှက်ဥများကို မတ်လမှ ဇွန်လအတွင်း နေရာအနှံ့အပြားတွင် တွေ့ရသည်။ အသိုက်ကို သစ်ခေါင်းများထဲတွင် ပြုလုပ်တတ်ကြသည်။ တမြုံလျှင် ဥပေါင်း ၃ လုံးမှ ၁၀ လုံးအထိရှိသည်။ ဥအရောင်မှာ စိမ်းပြာဖျော့ရောင်မှ အညိုဖျော့ရောင်အထိ အရောင်အမျိုးမျိုး ရှိသည်။

**တောင်ဖီလာဆရာတော်** (မြန်မာ ၉၄၀–၁၀၁၂)။ ။တောင်ဖီလာဆရာတော်သည် ညောင်ရမ်း ၃ ဆက်မြောက် ဖြစ်သော သာလွန်မင်းတရားကြီး ကိုးကွယ်သည့် ဆရာတော်ဖြစ်သည်။ ၉၄၀ ပြည့်နှစ်၌ စလင်းမြို့တွင် မွေးဖွားသည်။ နံတော် ကြာသပတေးသားတည်း။ ၁၂၁၃ ခုနှစ်တွင် ပြုစုသော မင်းလှသီရိသီဟသူ၏ ဆရာတော်များစာရင်းအရ တောင်ဖီလာဆရာတော်မှာ ၉၄၀ ပြည့်နှစ်တွင် ပျံလွန်တော်မူသော ဆီးတောဆရာတော် ဝင်စားသော ပုဂ္ဂိုလ် ဖြစ်သည်ဟုဆိုသည်။ (ဆရာတော်များ — ရှု။) ၁၃ နှစ်အရွယ်တွင် ရှင်ပြု၍ စာသင်ရာ၊ သာမဏေမည်မှာ မိုရိန္ဒဃောသဖြစ်၏။ ငါးဆူဒါယကာ၏သားတော် သတိုးဓမ္မရာဇာခံ မင်းကြီးနှောင်းပင့်၍၊ ပြည်မြို့သို့ရောက်လျှင်၊ မင်းကြီးနှောင်း ကိုးကွယ်သော အရှင် အဘိသင်္ကေတသာရထံတွင် ဆည်းကပ်၍ စာပေပိဋကတ် သင်ကြားသည်။ ၉၅၄ ခုနှစ်အသက် ၁၅ နှစ်အရွယ်တွင် ဝေဿန္တရာပျို့ကို စပ်ဆိုစီရင်ရာ၊ လောကဓမ္မ ပြည့်စုံလှသောကြောင့်၊ သာမဏေကျော်ဟု ထင်ရှားလာလေသည်။ ၉၅၉ ခု ရန်နိုင်မှူးမင်းဖြစ်သည့်နှစ်၊ အသက် ၂၀ ပြည့်လျှင် အရှင် အဘိသင်္ကေတသာရအထံ၌ ရန်နိုင်မှူးက ဒါယကာပြု၍ ပဉ္စင်းခံသည်။ ပဉ္စင်းဖြစ်လျှင်၊ သာမဏေကျော်သည် ကျမ်းဂန်အရာ၌ လိမ္မာလှသောကြောင့်၊ ပဉ္စင်းကျော်ဟု ထင်ရှားကျော်စောလေသည်။ ပြည်မြို့ကို အစွဲပြု၍ ပြည်ပဉ္စင်းကျော်ဟုလည်း တွင်၏။ ထိုနောက် စလင်းမြို့သို့ ကြွတော်မူ၍၊ မြို့အရှေ့မျက်နှာ ဦးရီးတော် မဟာထေရ်ကျောင်း၌ ဥပါလိဟူသော အမည်ကိုခံ၍ နေတော်မူသည်။ ရဟန်းဝါ ဆယ်ဝါရှိသောအခါ ပြည်မြို့သို့ ပြန်လည်ကြွတော်မူ၍၊ မူလဆရာ့အထံ၌ပင် နေတော်မူသည်။

၉၇၀ ပြည့်နှစ်တွင် အနောက်ဖက်လွန် မင်းတရားကြီးသည် ပြည်မြို့ကို လုပ်ကြံပြီးသောအခါ၊ ပြည်ပဉ္စင်းကျော်ကို အင်းဝမြို့သို့ ပင့်ဆောင်၍ ကိုးကွယ်လေသည်။ 'ငါ ပြည်ကိုလုပ်ကြံသည်ကား ရှင်တဆူ လူတယောက်သာရသည်' ဟု အနောက်ဖက်လွန်မင်းတရား မိန့်ဆိုကြောင်းကို ယခုတိုင် လူတို့ပြောဆိုကြသည်။ ရှင်တဆူဟူသည်မှာ တောင်ဖီလာ

ဆရာတော်ဖြစ်အံ့သော ပြည်ပဥ္စင်းကျော်ပင်တည်း။ ပြည်ပဥ္စင်းကျော်သည်လည်း အင်းဝမြို့တွင် မဟာမုနိအရံအတွင်း သုဓမ္မာစရပ်၌သီတင်းသုံးတော်မူသည်။ ထိုအခါ သာသနာပိုင် ဆရာတော်ဖြစ်သော လေးထပ်ကျောင်း မဟာသံဃနာထ ဆရာတော်သည် ပြည်ပဥ္စင်းကျော်အား စာပေကျမ်းဂန် တတ်မြောက်လှသည်ဖြစ်၍ အလွန်နှစ်သက်တော်မူသည်။

ထိုအချိန်တွင် အင်းဝမြို့၌ အရှင် အရိယာလင်္ကာရသည်လည်း ကျမ်းဂန် အလွန်တတ်သည်ဖြစ်၍ အဝပဥ္စင်းကျော်ဟု ကျော်စောထင်ရှားသည်။ ပြည်ပဥ္စင်းကျော် ရောက်လာကြောင်းကို အဝပဥ္စင်းကျော် ကြားလျှင်၊ အလွန်တွေ့လိုမြင်လိုလှ၍၊ သိက္ခာဝါ အသက်အရွယ် မည်မျှရှိကြောင်းကို ဂါထာဗန္ဓဖွဲ့၍မေး၏။ ပြည်ပဥ္စင်းကျော်ကလည်း ဂါထာဗန္ဓဖွဲ့၍ဖြေ၏။ ဤအကြောင်းကို အနောက်ဖက်လွန် မင်းတရား ကြားတော်မူလျှင်၊ ပဥ္စင်းကျော်နှစ်ပါးနှင့် အခြားကျမ်းဂန်တတ်ကုန်သော ပုဂ္ဂိုလ်တို့သည် လေးထပ်ကျောင်းတော်၌ စာပေကျမ်းဂန် ဆွေးနွေးတော်မူကြပါဟု ပင့်လျှောက်တော်မူလေ၏။ ထိုကြောင့် ကျောင်းတော်၌ ဆရာတော်ကြီး၏ရှေ့တွင် ပဥ္စင်းကျော်နှစ်ပါးသည် ကျမ်းဂန်တို့ကို ဆွေးနွေးကြရာ၊ လေးထပ်ဆရာတော်ကြီးက 'ဂန္ထန္တရနှင့်စပ်သည်ကို ပြည်ပဥ္စင်းကျော်ကို မေးလျှင်၊ ဝါးခွဲသကဲ့သို့ ရှိပေသည်။ ဝိဂြိုဟ်ဝစနတ္ထနှင့်စပ်သည်ကို အဝပဥ္စင်းကျော်ကိုမေးလျှင်၊ မိုးသေးမိုးဖွဲကျသကဲ့သို့ရှိပေသည်' ဟု ပုဂ္ဂိုလ်နှစ်ပါး၏ သတ္တိအထူးကို ဆိုစမှတ်ပြုတော်မူသည်။

၉၉၁ ခုနှစ်တွင် အင်းဝမြို့၌ သာလွန်မင်းတရားကြီး အထွတ်အမြတ်သို့ ရောက်သောအခါ ပြည်ပဥ္စင်းကျော်ကို တိပိဋကာလင်္ကာရ၊ အဝပဥ္စင်းကျော်ကို အရိယာလင်္ကာရဟူ၍ ဘွဲ့တံဆိပ် အပ်နှင်းလေသည်။ ထိုအခါ ဟံသာဝတီပဲခူးတွင် မွန်မျိုးမတ်ရဟန်းရှင်လူတို့က မြန်မာရဟန်းများ စာပေကျမ်းဂန်ကို မတတ်မသိဟု ဆိုလေသည်ကို သာလွန်မင်းတရားကြီး ကြားတော်မူ၍၊ လေးထပ်ဆရာတော်အား လျှောက်ထားလေရာ၊ လေးထပ်ဆရာတော်လည်း တိပိဋကာလင်္ကာရကို နောက်ပါရဟန်းများနှင့်တကွ ပဲခူးသို့ စေလွှတ်တော်မူ၏။ ပဲခူးတွင် ရွှေမော်ဓောဘုရားအရှေ့ဖက်တဲကျောင်း၌သီတင်းသုံး၍ စာပေကျမ်းဂန်တို့ကို ပို့ချရ၏။ ရွှေမော်ဓောသုဓမ္မာစရပ်တွင် ကျမ်းဂန်တတ်ကုန်သော မွန်ဆရာတို့နှင့် ကျမ်းဂန်ဆွေးနွေးရာ၊ မွန်မျိုးမတ်ရဟန်းရှင်လူတို့လည်း မြန်မာရဟန်းတို့ အစွမ်းသတ္တိကို ထင်ရှားသိကြကုန်သည်။

၉၉၆ ခုနှစ်တွင် အရှင်တိပိဋကာလင်္ကာရပုဂ္ဂိုလ်လည်း ပဲခူးမှ ပြန်ခဲ့၍၊ မင်းရဲကျော်စွာဆောက်လုပ်သော စစ်ကိုင်းမြစ်နား လေးထပ်ကျောင်းတွင် သီတင်းသုံးလေသည်။ ဤအတွင်းတွင် အရှင်တိပိဋကာလင်္ကာရသည် စက်တော်ရာသို့ကြွတော်မူ၍၊ တောချုံဖုံးအုပ်နေသော စက်တော်ရာနှစ်ဆူကို ရှာဖွေရာ တွေ့ရှိတော်မူလေသည်။ ဤသည်မှစ၍ လူဒါယကာတို့သည် စက်တော်ရာဒေသသို့ လူသူအပေါက်အရောက် လွယ်ကူစေရန် ခုတ်ထွင်ရှင်းလင်းကြလေသည်။ (စက်တော်ရာ — ရှု။)

ရှင်တိပိဋကာလင်္ကာရသည် စက်တော်ရာမှ အပြန်တွင် ပုခန်းကြီး ရွှေဥမင်ဆရာတော် အရှင်ဇမ္ဗုဓဇထံ ဝင်တော်မူသည်။ ရွှေဥမင်ဆရာတော်ကား အလုပ်အကျွေး လူသူတော် တယောက်နှင့်သာ ခေါင်းခေါင်းပါးပါး နေတော်မူသည်။ ထိုအခါ ပရိသတ်နောက်ပါအများနှင့် မင်းဆရာ အရှင်တိပိဋကာလင်္ကာရ ရောက်လာသည်ကို ဝတ်ပြုရန် မရှိ၍၊ သုံးတော်မူအပ်သော စမ္မခဏ်ကိုခါ၍ နေရာခင်းပေးသည်။ အရှင်တိပိဋကာလင်္ကာရလည်း ပရိသတ်ခြွေရံ နည်းပါးလှ၍ ကြောက်တော်မမူလောဟု မေးတော်မူလျှင်၊ ရွှေဥမင်ဆရာတော်က ကြောက်၍ပင် ပရိသတ်အနည်းနှင့် နေပါသည်ဟု မိန့်တော်မူသည်။ ဤတွင် အရှင်တိပိဋကာလင်္ကာရလည်း ငါသည် မကြောက်တတ်သူဖြစ်ခဲ့ပြီဟု တရားသံဝေဂ ရမိလေသည်။ ထိုနောက် အရှင်တိပိဋကာလင်္ကာရသည် ရွှေဥမင်ဆရာတော်အား သင်္ကန်း၊ ဒုကုဋ်စသော လှူဖွယ်အသီးသီးတို့ကို ကပ်လှူရာ၊ လှူတိုင်းလှူတိုင်း ရွှေဥမင်ဆရာတော်က ရွှေစည်းခုံအား လှူပါ၏ဆို၍ ချထားလေသည်။ ရွှေဥမင်ဆရာတော်ကား ရဟန်းအဖြစ်ကို ရပါလျက်၊ မင်းဆရာ ပြုနေခြင်းသည် အကျိုးမရှိကြောင်း ပြလို၍ ဤသို့ဆိုသတည်း။ (ဆရာတော်များ — ရှု။)

ထိုနောက် အရှင်တိပိဋကာလင်္ကာရက၊ ရွှေဥမင်ဆရာတော်အား မည်သည့်ကျမ်းများကို ပြုစုနေကြောင်း မေးမြန်းရာ၊ ရွှေဥမင်ဆရာတော်က ဝိနည်းပါဠိတော်ငါးကျမ်း နိသျကို စီရင်ပြီးစီးကြောင်း မိန့်တော်မူသည်။ မင်းဆရာပုဂ္ဂိုလ်ကျော်လည်း ရွှေဥမင်ဆရာတော်နိသျ၏ ကျမ်းပြုသက္ကရာဇ်ကို ကြည့်၍၊ ရွှေဥမင်ဆရာတော်၏ နိသျက သက္ကရာဇ်ဦးသောကြောင့်၊ မိမိစီရင်ပြီးသား နိသျကို ဌာပနာသွင်း၍ စေတီတည်သည်ဟု အဋ္ဌုပ္ပတ္တိကထာ၌ဆိုသည်။ အချို့ စာတမ်းတို့၌ကား၊ မင်းဆရာသည် ရွှေဥမင်ဆရာတော်၏ နိသျနှင့် မိမိစီရင်သောနိသျကို ယှဉ်ကြည့်၍၊ နိသျ နှစ်စောင်ကြောင့်၊ နှစ်နည်း ရှိသဖြင့် ဘုရားနှစ်ဆူ ပြိုင်၍ပွင့်သော်၊ သူ့ဘုရား သာသည်၊ ငါ့ဘုရား သာသည်ဟု အငြင်းအခုံဖြစ်ကြ၍ အကျိုးမရှိလေသကဲ့သို့ ဖြစ်တော့မည်ဟု ဆင်ခြင်၍၊ မိမိစီရင်အပ်သော နိသျကို စေတီယင်ပြင်မှာ မီးပူဇော်သည်ဟု ဆိုသည်။

အရှင်တိပိဋကာလင်္ကာရ ပြန်လေလျှင်၊ အလုပ်အကျွေးသူတော်သည် ရွှေဥမင်ဆရာတော်အား 'အရှင်ဘုရား၊ သူသဒ္ဒါ

၍ လှူအပ်သော ပစ္စည်းကို မိမိမသုံးဆောင်ဘဲ၊ သူတပါး အား ပေးသည်မှာ သူ့သဒ္ဓါကို ဖျက်သည် မမည်ပါလော' ဟု မေး၏။ ရွှေဥမင်ဆရာတော်လည်း သူတပါး၏သဒ္ဓါကို ဖျက်ခြင်းမဟုတ်၊ မင်းဆရာကို ဆုံးမလိုက်ခြင်းမျှသာ ဖြစ် ကြောင်း၊ မင်းဆရာသည် အပြန်တွင် စစ်ကိုင်းမြစ်နား လေး ထပ်ကျောင်းသို့ ဝင်ဝံ့ပေတော့မည် မဟုတ်၊ ဝင်ဝံ့ပေလျှင် လောကဝယ် အလွန့်ယောကျ်ားတည်းဟု မိန့်တော်မူ၏။ ဤသို့ မိန့်တော်မူသည့်အတိုင်းပင်၊ အရှင်တိပိဋကာလင်္ကာရ သည် စစ်ကိုင်းသို့ရောက်လျှင်၊ လေးထပ်ကျောင်းသို့ မဝင် ဘဲ၊ မင်းဝံတောင်ရိုး အရှေ့ချောက်ကြား၌ တောဝင်တော်မူ လေသည်။ ဤသို့တောဝင်သည်ကား ၁၀၀၀ ပြည့်နှစ် တပေါင်းလပြည့်နေ့ သက်တော် ၆၀ ပြည့်သောအခါတည်း။ ဤအကြောင်းကိုကြားလျှင်၊ သာလွန်မင်းတရားနှင့် ညီတော်စလင်းစား မင်းရဲကျော်စွာတို့သည် ဆရာတော်ကို သူ့ထက်ငါဦး ရှာကြလေသည်။ စလင်းစားသည် ဆရာ တော်အား အလျင်တွေ့သဖြင့်၊ တောင်ဖီလာချောင်၌ ဇေတဝန်ရွှေကျောင်း ဆောက်၍လှူသည်။ သာလွန် မင်း တရားကြီးကား၊ မဟာတိပိဋကာလင်္ကာရဟူသော တံဆိပ် တော်ကို လှူတော်မူသည်။ ထိုအခါမှစ၍ တောင်ဖီလာ ပုဂ္ဂိုလ်ကျော်ဟု တွင်ပြန်လေသည်။

သာလွန်မင်းတရားကြီးသည် မိမိဆရာ တောင်ဖီလာ ပုဂ္ဂိုလ်ကျော်၏ သီလသမာဓိကို အထူးထင်ရှားစေလိုသော စေတနာဖြင့်၊ နန်းတွင်းသူမ တဦးကို ဆရာတော်ကျောင်းသို့ ဝင်စေပြီးလျှင်၊ ဆရာတော်အား ဖြားယောင်းစေ၏။ သို့ သော် ဆရာတော်သည် မာတုဂါမက တညလုံးဖြားယောင်း ပါသော်လည်း၊ သိက္ခာပုဒ်ကို ထိမ်းသိမ်း၍ တညလုံး မအိပ် မစက်ဘဲ၊ ရုပါရုံ သဒ္ဒါရုံတို့၌ အာရုံမပြုမူ၍၊ ဓားမဖြင့် ခြေသလုံးသားကို လှီးပြီးလျှင်၊ ထိုမှဖြစ်လာသော ဒုက္ခဝေဒ နာကိုသာ ခံစားလျက် တရားမလွတ်၊ မချွတ်မယွင်း၊ မိုး လင်းအောင် နေတော်မူသည်။ သို့သော် နံနက်၌ ဆရာ တော်ဘုရားသည် ခရီးသွားမိန်းမနှင့် ညကမှားယွင်း လေသည်ဟု အင်းဝမြို့တမြို့လုံး၌ ကောဠာဟလ ဖြစ်လေ၏။ ထိုအခါ ဆရာတော်ဘုရားသည် သူ၏ခြေသလုံးသားကိုလှီး သော ဓားမကို သက်သေထူ၍၊ အဓိဋ္ဌာန်ဖြင့် ရေကန်တွင် မျှောလေရာ၊ ထိုဓားမသည် ရေ၌ကူးလေသည်ဟု ဆိုရိုး စ ကား ရှိ၏။ ဤအကြောင်းကိုရည်၍လည်း ဓားမကူးဆရာ တော်ဟု တွင်သည်။

ရှင်ဖြစ်လျှင် သာမဏေကျော်၊ ရဟန်းဖြစ်လျှင် ပဥ္စင်း ကျော်၊ တံဆိပ်ရလျှင် တိပိဋကာလင်္ကာရအကျော်၊ တော ဝင်လျှင် တောင်ဖီလာပုဂ္ဂိုလ်ကျော်ဟု အကျော် လေးပါး ဖြင့် ထင်ရှားခဲ့သော ဆရာတော်ကြီးသည် ၁၀၁၂ ခုနှစ် သက်တော် ၇၂ နှစ်တွင် ပျံလွန်တော်မူလေသည်။

ထိုဆရာတော်ဘုရားကြီးကား၊ အဋ္ဌသာလိနီ ကျမ်းဦး ဂါထာ ၂၀ အဖွင့် ကျမ်းရိုးဝိသတိဝဏ္ဏနာကျမ်းကိုရင်း၊ မင်းရဲ ကျော်စွာ တောင်းပန်သောကြောင့် ယသဝဍ္ဎန ဝတ္ထုကိုရင်း၊ တောင်ဖီလာကျောင်း၌ သီတင်းသုံးစဉ် ဝိနယာလင်္ကာရ ဋီကာကိုရင်း၊ သာလွန်မင်းတရားမေးသည်ကို ဖြေရာ ဖြစ် သော အမေးတော်ပုံအဖြေကိုရင်း၊ မာတုကာထာအကောက်၊ ယမိုက်အကောက်၊ ပဋ္ဌာန်းအကောက်ကျမ်းတို့ကိုရင်း၊ မနု သာရ ဓမ္မသတ်၊ ရွှေမျဉ်း ဓမ္မသတ်တို့ကိုရင်း၊ ကွန်ခြာ မာတိ ကျမ်း၊ ကွန်ခြာကျမ်း၊ ကမ္မဇရုပ်ကျမ်းတို့ကိုရင်း ရေးသား စီ ရင်တော်မူသည်။ ဆရာတော်ဘုရားကြီး၏ လက်ထက်တွင် နေပြည်တော်၌ ကျောက်ရောဂါ ကျရောက်သည်နှင့် ဆရာ တော်ဘုရားသည် ကျောက်ရောဂါကျမ်းတစောင်ကိုလည်း စီရင်ခဲ့သည်ဟု အမှတ်အသားရှိလေသည်။

**တောင်ရိုးလူမျိုး။** ။တောင်ရိုးလူမျိုးတို့သည် တိဗက်မြန် မာ အစုဝင် မြန်မာအစုခွဲတွင် အပါအဝင်ဖြစ်၏။ ရှမ်းပြည် နယ် မြေလတ်ပိုင်းဒေသ ပွေးလှနှင့် ပင်းတယ နယ်တဝိုက်၌ အများဆုံး နေထိုင်ကြသည်။ လူဦးရေ ၂၂,၀၀၀ ကျော် ရှိသည်။ တောင်ရိုးလူမျိုးတို့၏ အဝတ်အစားမှာ ရှမ်းလူမျိုး တို့၏ အဝတ်အစားနှင့်တူသည်။ ယောကျ်ားများသည် ခေါင်းပေါင်းနှင့် ဖောင်းဘီပွကြီးများကို ဝတ်ဆင်၍၊ မိန်း မများကမူ အညိုရောင် သင်တိုင်းပွပွကို ဒူးဆစ်ဖုံးရုံမျှ ဝတ် ဆင်ကြသည်။ ဦးခေါင်း၌ တဘက်အနက်ကို အထပ်ထပ် ရစ်ပတ်၍ ပေါင်းကြသည်။ တောင်ရိုးလူမျိုးများတွင် အပျိုဆိုလျှင် ငွေလက်ကောက်၊ ငွေနားသန်သီး၊ ငွေပုတီးနှင့် ငွေခြေချင်းများကို ဝတ်ဆင်၍၊ အအိုဆိုပါက ကြေးခွေများ ကို ခြေသလုံးတွင် ရစ်ပတ်ဆင်ယင်လေ့ရှိသည်။



တောင်ရိုးအမျိုးသား မိသားစု

တောင်ရိုးလူမျိုးတို့သည် တောင်ယာလုပ်ငန်းကို လုပ်ကိုင်ကြသည်။ ကျွဲနွား၊ စီးမြင်းနှင့် ကြက်စသည်တို့ကိုလည်း မွေးမြူကြသည်။ ပင်းတယနှင့် ပွေးလှေစျေးနေ့များ၌ ယာထွက်ခြံထွက် ပစ္စည်းများကို သွားရောက်ရောင်းချလေ့ရှိ၏။ တောင်ရိုးလူမျိုးတို့သည် တောင်သူလူမျိုးတို့နှင့် အနေအထိုင် နီးစပ်မှုရှိသော်လည်း၊ မျိုးနွယ်ချင်း မတူချေ။ တောင်ရိုးလူမျိုးတို့၏ စကားမှာ မြန်မာပေါရာဏများနှင့် တူပေသည်။ ပုဂံခေတ်က မြန်မာစကား အသုံးအနှုန်းမျိုးကို ပြောဆိုကြခြင်းကြောင့် ယင်းတို့အား ပုဂံအနွယ် မြန်မာလူမျိုးများပင် ဖြစ်သည်ဟု ယူဆရ၏။ အချို့ကမူ တောင်ရိုးလူမျိုးတို့သည် ထားဝယ်ဖက်မှ ထွက်ပြေးလာသော မြန်မာအချို့မှ ပေါက်ဖွားလာကြသူများဟု ယူဆကြလေသည်။

တောင်ရိုးလူမျိုးတို့တွင် နတ်ကိုးကွယ်သူနှင့် ဗုဒ္ဓအယူဝါဒီများဟူ၍ ရှိသည်။ အိမ်တိုင်းတွင် ဘုရားစင်ကို ထားရှိသည့်အပြင် မိရိုးဖလာ နတ်စင်တခုလည်း ရှိ၍၊ နှစ်စဉ် ဝါခေါင်လနှင့် တပို့တွဲလတို့၌ နတ်ပွဲပသကြ၏။ တော်သလင်းလတွင် လူမျိုးစုအလိုက် ပသသော နတ်ပွဲရှိ၏။ တောင်ရိုးလူမျိုးတို့သည် အလှူပွဲ ဘုရားပွဲတို့၌ စာဟောဆရာများက ကွက်စိတ်ဆန်ဆန် ရွတ်ပြသီဆိုခြင်းကို စိတ်ပါစွာ နားထောင်လေ့ရှိသည်။ အိုးစည်၊ မောင်း၊ လင်းကွင်း၊ ဝါးလက်ခုပ်နှင့် ခင်ပြွေတို့ပါဝင်သည့် တူရိယာတီးဝိုင်းများလည်း ရှိသည်။ ထိုတီးဝိုင်းများရှေ့တွင် ယောကျ်ားမိန်းမ ပေါင်းစုံ စုဝေး ကခုန်လေ့ရှိ၏။

**တောင်ဝင်ရိုးစွန်း။** ။ကမ္ဘာမြေကြီး၏ တောင်ဖက်အစွန်ဆုံးကျသည့် နေရာကို တောင်ဝင်ရိုးစွန်းဟုခေါ်သည်။ တောင်ဝင်ရိုးစွန်းသည် အိကွေတာမျဉ်းကြောင်း တောင်ဖက် ဒီဂရီ ၉၀ အကွာတွင် တည်ရှိသည်။ တောင်ဝင်ရိုးစွန်း၌ ပထဝီ ဝင်ရိုးစွန်းနှင့် သံလိုက် ဝင်ရိုးစွန်းဟူ၍ နှစ်နေရာရှိသည်။ ထိုနေရာနှစ်ခုမှာ ထပ်တူမဟုတ်ချေ။



တောင်ဝင်ရိုးစွန်းသို့ ပဌမဆုံးရောက်ရှိခဲ့သူ နော်ဝေးလူမျိုးအားမန်ဆင်

သံလိုက်တောင်ဝင်ရိုးစွန်းမှာ အိမ်မြှောင်ကရိယာက တောင်ဖက်ကို ပြသည့်ဖက်တွင် တည်ရှိသည်။ ထိုနေရာမှာ ဩစတြေးလီးယားတိုက်၊ ဆစ်ဒနီမြို့အနီးတွင် တည်ရှိသည်။

တောင်ဝင်ရိုးစွန်းဒေသမှာ အလွန်အေးမြ၍၊ တဆဲ့နှစ်ရာသီ ကာလပတ်လုံး ရေခဲအတိ ဖုံးလွှမ်းနေသည်။ ထိုရေခဲကုန်းမြင့် ဒေသသည် ပင်လယ်ရေပြင်ထက် ပေပေါင်း ၁၀,၀၀၀ နီးပါးခန့်မြင့်သည်။ လူဟူ၍ တယောက်မျှ မရှိ



တောင်ဝင်ရိုးစွန်းသို့ ကက်ပတိန် စကော့နှင့်အဖွဲ့သွားရောက်ကြစဉ်

ချေ။ ရေသတ္တဝါအချို့သာ ကျက်စားသွားလာ နေထိုင်ကြသည်။ တောင်ဝင်ရိုးစွန်းသို့ ရှေးဦးစွာ ရောက်ရှိသူမှာ၊ အားမန်ဆင်အမည်ရှိ နော်ဝီဂျင် လူမျိုးတဦးဖြစ်သည်။ (အားမန်ဆင်, အာ — ရှု။) ရောက်သည့်နှစ်မှာ ၁၉၁၁ ခုနှစ်ဖြစ်သည်။ ထိုနောက် ခရစ် ၁၉၂၉ ခုနှစ်နှင့် ၁၉၄၆ ခုနှစ်များတွင် အမေရိကန် ရေကြောင်းဗိုလ်ချုပ်ကြီး ရစ်ချတ် ဗတ်သည် နောက်ပါအဖွဲ့သားများနှင့်အတူ တောင်ဝင်ရိုးစွန်းသို့ ရောက်ရှိခဲ့သည်။ ၁၉၄၆ ခုနှစ်တွင် ဗိုလ်ချုပ်ကြီး ဗတ်နှင့်အတူ သွားရောက်ခဲ့သောအဖွဲ့မှာ ကြီးကျယ်လှပေသည်။ အဖွဲ့တွင် လေယာဉ်တင်သင်းဘော တစင်း၊ လေယာဉ်ပျံ အစင်း ၂၀၊ ရိုးရိုးသင်းဘော ၁၃ စင်းနှင့် လူပေါင်း ၄၀၀၀ ပါဝင်လေသည်။ (ဗတ်, ရစ်ချတ် — ရှု။)

**တောင်သာမြို့။** ။မြင်းခြံခရိုင် တောင်သာမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ တောင်သာမြို့သည် သာစည်မြင်းခြံ မီးရထားလမ်းနှင့်မော်တော်ကားလမ်းပေါ်၌ တည်ရှိ၍ မြင်းခြံမှ ၁၄ မိုင် ကွာဝေးသည်။ မြို့ပင်ငယ်သော်လည်း အရောင်းအဝယ် အလွန်စည်ကားသည်။ ထင်ရှားသော ထွက်ကုန်များမှာ ထန်းလျက်၊ ဆီ၊ ဝါ၊ နှမ်း၊ ပြောင်းတို့ဖြစ်သည်။ တောင်သာထန်းလျက်သည် ကုန်သည်လောကတွင် ထင်ရှားသည်။

တောင်သာမြို့နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၅၁၆ မိုင်မျှရှိ၍၊ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၅၄၁၀ ယောက်ရှိသည်။

**တောင်သူလူမျိုး။** ။ပအိုဝ်လူမျိုး — ရှု။

**တောင်အမေရိကတိုက်။** တောင်အမေရိကတိုက်သည် ကမ္ဘာသစ်တွင်ပါဝင်သော တိုက်ကြီး နှစ်တိုက်အနက် တတိုက်ဖြစ်သည်။ အနောက် လောင်ဂျီတွတ်မျဉ်းကြောင်း ၃၄ ဒီဂရီနှင့် ၈၂ ဒီဂရီ စပ်ကြားတွင်၎င်း၊မြောက် လတ္တီတွတ်မျဉ်းကြောင်း ၁၃ ဒီဂရီနှင့် တောင် လတ္တီတွတ်မျဉ်းကြောင်း ၅၅ ဒီဂရီ စပ်ကြားတွင်၎င်း တည်ရှိသည်။

တောင်အမေရိကတိုက်သည် အကြမ်းအားဖြင့် တြိဂံ ပုံသဏ္ဌာန်ရှိသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၆,၈၄၁,၈၀၂ မိုင်ဖြစ်၍ ကမ္ဘာပေါ်တွင် စတုတ္ထ အကြီးဆုံးတိုက်ကြီးဖြစ်သည်။ ထိုအကျယ်အဝန်းသည် ကမ္ဘာကြီးတခုလုံး အကျယ်အဝန်း၏ ၁၄ ရာခိုင်နှုန်းဖြစ်၏။ လူဦးရေမှာ ၁၀၈,၄၀၃,၀၀၀ ဖြစ်သည်။ တောင်အမေရိကတိုက်ကို မြောက်အမေရိကတိုက်နှင့် ပနားမားကျွန်းဆက်က ဆက်သွယ်ထား၏။ သို့ရာတွင် ၁၉၁၄ ခုနှစ်တွင် ပနားမားတူးမြောင်းကို ဖောက်လုပ်ပြီးစီးသည့် အချိန်ကစ၍ တောင်အမေရိကတိုက်သည် မြောက်အမေရိကတိုက်နှင့် တဆက်တည်း မဟုတ်တော့ဘဲ၊ ကြီးမားသော ကျွန်းကြီးတကျွန်းအဖြစ် တသီးတခြား တည်ရှိနေတော့သည်။

ကိုလံဗပ်သည် ၁၄၉၈ ခုနှစ်တွင် အနောက် အိန္ဒိယကျွန်းစုများကို ရှာဖွေတွေ့ရှိပြီးနောက် အော်ရင်နိုးကိုးမြစ်ဝသို့ ရောက်ခဲ့ဘူး၏။ ထိုနောက် ဥရောပတိုက်သား စပိန်နှင့် ပေါ်တူဂီလူမျိုးများသည် တောင်အမေရိကတိုက်သို့ ရောက်ခဲ့ကြ၏။ သူတို့သည် တောင်အမေရိက မြောက်ဖက်ကမ်းခြေသို့ တက်ပြီးလျှင် တောင်ဖက်သို့ တဖြည်းဖြည်း ပြောင်းရွှေ့နေထိုင်ခြင်းဖြင့် ပီးရူး၊ အာဂျင်တီးနား၊ ချီလီ အစရှိသော နယ်များကို တည်ထောင်နိုင်ကြလေသည်။ ဗရာဇီးနိုင်ငံ တည်ရှိရာဒေသကို ၁၅၀၀ ပြည့်နှစ်တွင် ပေါ်တူဂီလူမျိုးများက ရှေးဦးစွာ တွေ့ရှိခဲ့ကြ၏။ ထိုဥရောပတိုက်သားများသည် မိမိတို့ရောက်လေရာ ပြည်နယ်တို့၌ တွေ့ရှိသမျှသော တိုင်းရင်းသားများကို နည်းအမျိုးမျိုးတို့ဖြင့် ဖိနှိပ်ချုပ်ချယ်ကာ ထိုအခါက ထွန်းကားလျက်ရှိသော တိုင်းရင်းသားယဉ်ကျေးမှုများကို ဖျက်ဆီးပစ်ကြလေသည်။ ဗရာဇီး၊ ပီးရူးနှင့် ဗိုလစ်ဗီးယားနိုင်ငံများသည် ရွှေ၊ ငွေ၊ စိန်၊ ကြေးနီ၊ သံဖြူစသော တွင်းထွက်သတ္တုတို့ဖြင့် ကြွယ်ဝသောနိုင်ငံများ ဖြစ်ရကား၊ မျက်နှာဖြူ ဥရောပတိုက်သားများသည် တောင်အမေရိကတိုက်ကြီး၏ နေရာတကာ၌ လှည့်ပတ်မွှေနှောက် ရှာဖွေခဲ့ကြလေသည်။ တိုင်းရင်းသားလူမျိုးများမှာမူကား လွှမ်းမိုးလာသူ လူဖြူတို့၏ စေခိုင်းသမျှကိုသာ လုပ်ကိုင်ပေးကြရလေသည်။

တောင်အမေရိကတိုက်၏ အသွင်အပြင် အနေအထားသည် အချို့နေရာများတွင် မြောက်အမေရိကတိုက်နှင့် ဆင်ဆင်တူ၏။ ဤတိုက်ကြီးသည် မြောက်အမေရိကတိုက်ကဲ့သို့ပင် မြောက်ပိုင်း၌ ကျယ်ပြန့်၍ တောင်ပိုင်းသို့ တဖြည်းဖြည်း သေးငယ်ကျဉ်းမြောင်းသွားလေသည်။ အနောက်ပိုင်းဖြစ်သော ပစိဖိတ် ကမ်းခြေဖက်၌ တောင်နှင့်မြောက် စီတန်းလျက်တည်ရှိသော မြင့်မားရှည်လျားသည့် တောင်တန်းကြီးတခုရှိ၏။ ထိုတောင်တန်းကြီးကို အန်းဒီး တောင်တန်းကြီးဟုခေါ်သည်။ ဤအန်းဒီးတောင်တန်းသည် အိန္ဒိယနိုင်ငံ၏ ဟိမဝန္တာတောင်တန်းကလွဲလျှင် ကမ္ဘာပေါ်တွင် အမြင့်ဆုံး တောင်တန်းဖြစ်သည်။ အန်းဒီးတောင်တန်းထဲတွင်ပါဝင်၍ ချီလီနိုင်ငံနှင့် အာဂျင်တီးနားနိုင်ငံ နှစ်ခုစပ်ကြားတွင် တည်ရှိသော အားကွန်ကားဂွါးတောင်ထိပ်သည် အမြင့်ပေပေါင်း ၂၂,၇၃၅ ပေရှိ၍ ကမ္ဘာသစ်တွင် အမြင့်မားဆုံး တောင်ထိပ်ဖြစ်သည်။ အန်းဒီးတောင်တန်းတွင် မီးတောင်ပေါ်များ၏။ မီးတောင်များ မကြာခဏ ပေါက်ကွဲမှုကြောင့် လူ တိရစ္ဆာန်နှင့်တကွ မြို့ရွာအဆောက်အအုံများ ပျက်စီးကြရလေသည်။




တောင်အမေရိကတိုက်၊ နိုင်ငံများ၏ တည်နေရာပြ မြေပုံ

တောင်အမေရိကတိုက်သည် ဥရောပတိုက်ထက် သုံးဆကျော်မျှ ပိုမိုကြီးမားသော်လည်း၊ ပင်လယ်ကမ်းရိုး၏ အလျားမှာမူကား ဥရောပတိုက် ပင်လယ်ကမ်းရိုးတန်းထက် တိုလေသည်။ ကမ်းရိုးတန်းသည် တောင်ဖက်အစွန်းမှတပါး ကျန်နေရာများတွင် အကွေ့အကောက် နည်းပါး၏။ ပင်လယ်ကွေ့များလည်း နည်းပါးသဖြင့် ဆိပ်ကမ်းကောင်းဟူ၍ မရှိလှချေ။

ပကတိအသွင်အပြင် အနေအထားအရ တောင်အမေရိကတိုက်ကို အပိုင်း ၄ ပိုင်း ခွဲခြားနိုင်၏။ ယင်းတို့မှာ (၁) ပစိဖိတ် ကမ်းမြောင်ဒေသ (၂) အန်းဒီး တောင်တန်းဒေသ (၃) အလယ်ပိုင်း လွင်ပြင်ဒေသ (၄) အရှေ့ပိုင်း တောင်ကုန်းဒေသဟူ၍ ဖြစ်လေသည်။

၁၉ ရာစုနှစ်စက တောင်အမေရိက တိုင်းရင်းသားလူမျိုးများသည် နှစ်ပေါင်းသုံးရာနီးပါးမျှ စိုးမိုးအုပ်ချုပ်ခဲ့သော နယ်ချဲ့သမား စပိန်နှင့် ပေါ်တူဂီလူမျိုးတို့ကို အပြင်းအထန် တော်လှန်တိုက်ခိုက်ကြပြီးလျှင် လွတ်လပ်သော သမတနိုင်ငံများကို တည်ထောင်ခဲ့ကြလေသည်။ ထိုကြောင့် ယခုအခါ တောင်အမေရိကတိုက်တွင် သမတနိုင်ငံပေါင်း ၁၀ နိုင်ငံ ရှိလေသည်။ ယင်းတို့မှာ ဗရာဇီး၊ ဗင်နီးဇွဲလား၊ ကိုလံဘီယား၊ အက်ကွာဒေါ၊ ပီးရူး၊ ဗိုလစ်ဗီးယား၊ ချီလီ၊ အာဂျင်တီးနား၊ အူရုဂွေးနှင့် ပါရဂွေးတို့ဖြစ်၏။ ကိုလိုနီနယ်များဟူ၍လည်း ယခုထက်တိုင် ကျန်ရှိနေသေးရာ ယင်းတို့မှာ ဗြိတိသျှ၊ ပြင်သစ်နှင့် ဒပ်ချအစိုးရတို့က အသီးအသီး ပိုင်ဆိုင်သော ဂီယားနားနယ် သုံးနယ်ဖြစ်လေသည်။

ပစိဖိတ် ကမ်းမြောင်ဒေသသည် အီကွေတာမျဉ်းကြောင်းမြောက်ဖက်၌ စိုစွတ်ထိုင်းမှိုင်း၍ ပူအိုက်သော ရာသီအစွမ်းကြောင့် သစ်တောကြီးများ ဖုံးအုပ်နေ၏။ ပီးရူးနှင့် ချီလီနိုင်ငံ မြောက်ပိုင်းဒေသတို့တွင် မိုးနည်းပါးသည်။ ဗယ်လပရိုက်ဇိုမြို့ ပတ်ဝန်းကျင်ရှိ အရပ်ကိုကား မြေထဲပင်လယ် ရာသီဥတုဒေသဟုခေါ်၏။ ထိုဒေသ၌ ခေတ်သတ္တု အမြောက်အမြားထွက်၍၊ သစ်သီးဝလံများကိုလည်း စိုက်ပျိုးကြလေသည်။ တောင်ဖက်အစွန်ဆုံးသို့ ရောက်သောအခါ သမပိုင်း သစ်တောဒေသကို တွေ့ရ၏။ ဤဒေသ၌ တနှစ်ပတ်လုံး မိုးရွာသွန်း၍ သစ်တောထူထပ်သောကြောင့် သစ်အမျိုးမျိုးထွက်သည်။ အခြားထွက်ကုန်များမှာ အမဲသား၊ ငါးနှင့် သိုးမွေးတို့ဖြစ်၏။

အန်းဒီး တောင်တန်းဒေသကို မြောက်ပိုင်း၊ အလယ်ပိုင်းနှင့် တောင်ပိုင်းဟူ၍ သုံးပိုင်းခွဲခြားနိုင်၏။ မြောက်ပိုင်းနှင့် တောင်ပိုင်းမှာ ကောင်းမွန်သော ရာသီဥတုရှိ၍၊ ထွက်ကုန်ပေါများ၏။ မြောက်ပိုင်းတောင်တန်းများမှာ အီကွေတာမျဉ်းကြောင်းကို ဖြတ်သန်းတည်ရှိသောကြောင့် အီကွေတာ တလျှောက်ရှိ ဒေသများ၌တွေ့ရသော ရာသီဥတုမျိုးရှိသော်လည်း၊ ကုန်းမြင့်သောကြောင့် အအေးခေတ် ပိုများ၏။ မိုးများစွာရွာသွန်း၍ အထူးသဖြင့် အနောက်ဖက်ကမ်းခြေပိုင်းတွင် ပို၍စိုစွတ်သည်။ မူလက အန်းဒီး မြောက်ပိုင်းဒေသတွင် ထူထပ်သောသစ်တောများ ရှိခဲ့ရာ၊ ယခုအခါ ထိုသစ်တောများကို ခုတ်ထွင်ရှင်းလင်းပြီးလျှင် ကိုကိုးပင်၊ ငှက်ပျောပင်စသည်တို့ကို စိုက်ပျိုးကြလေသည်။ မြင့်



တောင်အမေရိကတိုက် ဗင်နီးဇွဲလားနိုင်ငံတွင် ရေနံကို ဤသို့ ရေအိုင်အောက်မှ တူးယူသည်။

သော တောင်ပေါ်ဒေသများတွင်ကား မြက်ခင်းများရှိ၍ ကျွဲနွားမွေးမြူခြင်း သို့မဟုတ် ကာဖီစိုက်ပျိုးခြင်း လုပ်ငန်းများကို လုပ်ကိုင်ကြ၏။

အက်ကွာဒေါနိုင်ငံ၏ တောင်ပိုင်းတွင် တောင်တန်း သုံးခုသည် ပီးရူးနိုင်ငံကိုဖြတ်၍ တောင်ဖက်သို့ ဆင်းသွား၏။ ထိုဒေသတဝိုက်တွင် ဂျုံ၊ ဗာလီနှင့် အာလူးများကို စိုက်ပျိုးကြ၏။ ငွေ၊ ကြေးနီစသော ဓာတ်သတ္တုများလည်း ထွက်လေသည်။ ဗိုလစ်ဗီးယားနိုင်ငံထဲတွင် အန်းဒီးတောင်တန်းသည် မိုင် ၄၀၀ မှ ၅၀၀ အထိ ကျယ်ပြန့်ရာ၊ ဤနေရာတွင် အကျယ်ပြန့်ဆုံး ဖြစ်လေသည်။



တောင်အမေရိကတိုက်၊ အာဂျင်တီးနားနိုင်ငံ ဗျူနိုစ်အိုင်ရိစ်မြို့တော်တွင် ဤသို့ မိုးမျှော်တိုက်များဆောက်လုပ်ကာ အိုးအိမ်ပြဿနာကို ဖြေရှင်းလျက်ရှိသည်။

အန်းဒီး တောင်ပိုင်းဒေသသည် မိုးများ၍ သစ်တောထူထပ်၏။ ချီလီနိုင်ငံ အလယ်ပိုင်းသည် အန်းဒီး တောင်တန်းဒေသတလျှောက်တွင် လူဦးရေ အများဆုံးနေရာဖြစ်၏။ ဗိုလစ်ဗီးယားနိုင်ငံမှ လွန်သော် အန်းဒီးသည် တောင်တန်းတခုတည်း ဖြစ်သွား၏။ အမေရိကတိုက်တွင် အမြင့်ဆုံးဖြစ်သော အားကွန်ကားဂွါးတောင်ထိပ်သည် ဤဒေသ၌တည်ရှိ၏။ တောင်တန်းသည် ထိုနေရာမှ တောင်ဖက်သို့ တဖြည်းဖြည်း နိမ့်ဆင်းသွားလေသည်။

အလယ်ပိုင်း လွင်ပြင်ဒေသတွင် မြစ်ဝှမ်းကြီး သုံးခုရှိ၏။ ယင်းတို့မှာ အော်ရင်နိုးကိုး မြစ်ဝှမ်း၊ အမဇုန် မြစ်ဝှမ်းနှင့် ပလိတ်မြစ်ဝှမ်းတို့ဖြစ်သည်။ မြစ်ဝှမ်း တခုနှင့်တခု စပ်ကြားတွင် ကုန်းမြင့်တခုစီ ခြားလျက်ရှိ၏။ အော်ရင်နိုးကိုး မြစ်ဝှမ်းအနောက်ပိုင်းသည် ကိုလံဘီးယားနိုင်ငံနှင့် ဗင်နီဇွဲလားနိုင်ငံ နှစ်နိုင်ငံထဲသို့ ကျရောက်နေ၏။ ဤဒေသ၌ ပူအိုက်သော ရာသီဥတုရှိ၍ ကျယ်ပြန့်သော မြက်ခင်းကြီးများကို တွေ့ရှိနိုင်၏။ ထိုအရပ်၌ နေထိုင်ကြသောလူများသည် ကျွဲနွားသိုးဆိတ်များ မွေးမြူခြင်းဖြင့် နေထိုင်စားသောက်ကြ၏။ ဤအပိုင်းမှာ လူနေ အလွန်နည်းပါးလေသည်။ အော်ရင်နိုးကိုးမြစ်ဝှမ်း အရှေ့ပိုင်းမှာ စိုစွတ်၍ ရွှံ့နွံ ပေါများပြီးလျှင် သစ်တော ထူထပ်လေသည်။

အမဇုန် မြစ်ဝှမ်းသည် ဗရာဇီးနိုင်ငံ မြောက်ပိုင်းတွင် တည်ရှိ၍ အနောက်ဖက်သို့ အန်းဒီး တောင်တန်းဒေသအထိ ကျယ်ပြန့်လေသည်။ ရာသီဥတုမှာ ပူအိုက်၍ ကျန်းမာခြင်းနှင့် မညီချေ။ မိုးအမြောက်အမြား ရွာသွန်း၏။ သစ်တောများ ထူထပ်စွာ ပေါက်ရောက်၍ ရွှံ့နွံဒေသ ပေါများလေသည်။ ဤဒေသတွင် နေထိုင်ကြသော လူမျိုးများမှာ ရှေးကျသော တိုင်းရင်းသားလူမျိုးများ ဖြစ်၍ ရှေးကျသော လယ်ယာစိုက်ပျိုးခြင်း စံနစ်ကိုပင် အမှီပြုကာ နေထိုင်စားသောက်ကြလေသည်။ သစ်တောများတွင် အဖိုးတန်သစ်ပင်များ ရှိသော်လည်း၊ ခရီးလမ်း ခက်ခဲမှုကြောင့် ထိုသစ်ပင်များကို ခုတ်လှဲရောင်းချခြင်းမပြုနိုင်ချေ။

လွင်ပြင်ဒေသ၏ တတိယအပိုင်းမှာ ပါရာနာ၊ ပါရဂွေးနှင့် အူရူဂွေး မြစ်ဝှမ်းဒေသများပင်ဖြစ်၏။ ဤလွင်ပြင်ဒေသသည် အာဂျင်တီးနား၊ ပါရဂွေး၊ အူရူဂွေးနှင့် ဗရာဇီး တောင်ပိုင်းဒေသများကို လွှမ်းခြုံတည်ရှိ၏။ မြေဩဇာ ထက်သန်ကောင်းမွန်၍၊ ရှည်လျားသော မြက်ပင်များ ပေါက်ရောက်လေသည်။ မိုးနည်းပါးသည့်အပိုင်း၌ သာမန်မြက်ခင်းများရှိသည်။ အရှေ့တောင်ပိုင်း လွင်ပြင်ဒေသ၌ မိုးကောင်း၍ မျှတ၏။ သို့ရာတွင် အတွင်းဖက် အန်းဒီးတောင်တန်း၌မူကား မိုးနည်းပါးသည်။ ပါရဂွေးနိုင်ငံနှင့် အာဂျင်တီးနားနိုင်ငံ မြောက်ပိုင်းတို့၌ နွေရာသီတွင် အလွန်ပူပြင်း၏။ ၁၈၁၀ ပြည့်နှစ်မတိုင်မီက ဤလွင်ပြင်ဒေသများတွင် လူသူတစုံ

တယောက်မျှ မနေထိုင်ခဲ့ကြချေ။ ထိုနောက်မှသာ လူများ လာရောက်နေထိုင်စ ပြုကြပြီးလျှင် လယ်ယာကိုင်းကျွန်း လုပ်ငန်းများကို လုပ်ကိုင်ကြလေသည်။ မီးရထားလမ်း များကို ၁၈၇၀ ပြည့်နှစ်တွင် စတင်ဆောက်လုပ်ခဲ့ကြရာ ယခုအခါ မီးရထားလမ်းများသည် ပိုက်ကွန်ကဲ့သို့ တခုနှင့် တခု ယှက်လျက်ပင် ရှိနေလေပြီ။

ဤဒေသ၌ နွား၊ သိုး၊ ဆိတ် မွေးမြူခြင်းသည် အဓိကလုပ် ငန်းဖြစ်၏။ ပလိတ် မြစ်ဝကျွန်းပေါ်ဒေသတွင် ဂျုံနှင့် ပြောင်းဖူးကို အမြောက်အမြား စိုက်ပျိုးလုပ်ကိုင်ကြ၏။ မြောက်ပိုင်းဖြစ်သော ပါရာနာ မြစ်ကမ်းတလျှောက်၌ကား ကြံခင်းများကို တွေ့ရှိနိုင်ပေသည်။

အရှေ့ပိုင်း တောင်ကုန်းဒေသ သို့မဟုတ် ဗရာဇီး ကုန်းမြင့် ဒေသတွင် ဗိုလစ်ဗီးယားနိုင်ငံအနောက်ပိုင်းနှင့် ဗရာဇီးနိုင်ငံ တို့ ပါဝင်ကြ၏။ ဤကုန်းပြင်မြင့်သည် အရှေ့ပိုင်း၌ ပေ ၂၀၀၀ ကျော်မြင့်၍၊ အတွင်းဖက်သို့ တဖြည်းဖြည်း နိမ့်ဆင်း သွားလေသည်။ ထိုဒေသသည် တြိဂံကဲ့သို့ ပုံသဏ္ဍာန်ရှိ၍၊ အတ္တလန္တိတ်ကမ်းခြေပိုင်း၌ အကျယ်ပြန့်ဆုံးဖြစ်၏။

ဗရာဇီး ကုန်းမြင့်ဒေသသည် ပူအိုက်သော ရာသီဥတုရှိ၍ မိုးများ၏။ ပူအိုက်၍ ရွှံ့နွံပေါများသော အရပ်များ၌ တောထူထပ်သော်လည်း၊ ဤနေရာများတွင် မြက်ခင်းများ နှင့် သေးငယ်သော သစ်တောများကိုသာ တွေ့ရှိနိုင်လေ သည်။ ဤဒေသ၏ တောင်ပိုင်း၌ နွားမွေးမြူသည့် လုပ်ငန်း များကို လုပ်ကိုင်ကြ၏။ ကာဖီပင် စိုက်ပျိုးခြင်းသည် ဗရာဇီးနိုင်ငံ၏ အဓိက လုပ်ငန်းကြီးပင် ဖြစ်လေသည်။ စန် ပေါ်လိုနှင့်ဝိတိုရိယမြို့ နှစ်မြို့စပ်ကြားရှိ ဆင်ခြေလျှော တောင်စောင်းများတွင် ကာဖီ အများဆုံးစိုက်ပျိုး၏။ ထိုဒေသ၏ မြောက်ဖက်၌ သံထွက်သောနေရာများကို တွေ့ ရှိကြ၏။ သို့ရာတွင် တူးဖော်ခြင်း မပြုလုပ်နိုင်သေးချေ။ ဗရာဇီးနိုင်ငံအတွင်း၌ ယခုအခါ လူဦးရေ တနှစ်ထက်တနှစ် ပိုမိုများပြားလာ၏။ ကာဖီစိုက်ခင်းများရှိသည့် နေရာများ တွင် လူအနေများ၏။ အထူးသဖြင့် ရီးအို ဒါဇနဲရိုး မြို့တ ဝိုက်သည် တောင်အမေရိကတိုက်တွင် လူဦးရေ အထူထပ်ဆုံး ဖြစ်သည်။

တောင်အမေရိကတိုက်တွင် ပင်လယ်ဆိပ်ကမ်းမြို့ လွန်စွာ နည်းပါး၏။ ရှိသမျှ ဆိပ်ကမ်းမြို့များမှာလည်း အများ အားဖြင့် အတ္တလန္တိတ်ကမ်းခြေဖက်တွင်သာ တည်ရှိကြလေ သည်။ အဘယ်ကြောင့်ဆိုသော် နိုင်ငံခြားသို့တင်ပို့ရသော အရေးကြီးသည့် ထွက်ကုန်များမှာ အဆိုပါ ကမ်းခြေတ လျှောက်တွင်သာ အများအပြားထွက်သောကြောင့်တည်း။

တောင်အမေရိကတိုက်ရှိ မြစ်ကြီးများသည် ပြည်တွင်း သယ်ယူပို့ဆောင်ရေး လုပ်ငန်းတွင် များစွာ အထောက်အပံ့ ရသည်။ ပင်လယ်ကူး သင်္ဘောကြီးများသည် အမွှဇုန်မြစ်



တောင်အမေရိကတိုက် ဗင်နီဇွဲလားနိုင်ငံသူ သားအမိ

အတွင်းသို့ မိုင်ပေါင်း ၁၀၀၀ အထိ ခုတ်မောင်းနိုင်၍၊ သင်္ဘောအငယ်စားများမှာ မြစ်ဝမှ မိုင် ၁၇၀၀ ကွာဝေး သော ပီးရူးနိုင်ငံအတွင်းရှိ အီကီးတိုမြို့အထိ ဆန်တက်နိုင်ကြ လေသည်။

ဤဒေသ၌ မီးရထားလမ်း အနည်းငယ်သာရှိ၍၊ မော် တော်ကားလမ်းလည်း မများလှချေ။ တောတောင် ထူ ထပ်ခြင်းသည် မီးရထားလမ်း ဖောက်လုပ်ရေးလုပ်ငန်းကို ခက်ခဲစေ၏။ သို့ဖြစ်၍ တနယ်မှ တနယ်သို့ ကူးသန်းသွား လာရေးအတွက် လေကြောင်းခရီးကို အားကိုး ပြုကြရ လေသည်။

**တောင်အမေရိကတိုက်စာပေ။** ။တောင်အမေရိက တိုက်၌ လွှမ်းမိုးသော ဘာသာစကားသည် စပိန်စကားဖြစ် သည်။ ထို့ကြောင့် တောင်အမေရိကတိုက်စာပေ ဟူရာ၌၊ တောင်အမေရိကတိုက်တွင် သုံးစွဲသော စပိန်စာပေကို ဆိုလို ပေသည်။ ထိုစာပေသည် လွန်ခဲ့သော နှစ်ပေါင်း ၄၀၀ အထက်တွင် တောင်အမေရိကတိုက်သို့ နယ်သစ်တည်၍ သာ

သနာပြုရန် လာရောက်ကြသော စပိန်နှင့် ပေါ်တူဂီလူမျိုးတို့က မိမိတို့၏ ဇာတိဌာနေသို့ ရေးသားတင်သွင်း အစီရင်ခံကြသောစာများမှ အစပြု၍ ဖြစ်ထွန်းလာသော စာပေဖြစ်သည်။ ၁၆ ရာစုနှစ် ကုန်ဆုံးခါနီး၌ မက္ကဆီကိုပြည်နယ်နှင့် ပီရူးနိုင်ငံရှိ လီမာမြို့တော်တို့သည် ပညာဗဟုသုတအရာတို့၌ အချက်အခြာဒေသများ ဖြစ်ခဲ့လေရာ၊ ထိုခေတ်၌ ပေသရို သေ အိုညာ (ခရစ် ၁၅၇၁ ခုနှစ်) အမည်ရှိ ချီလီပြည်နယ်သား ကဗျာဆရာ၏ အဲပစ်ကဗျာသည် ၁၅၉၆ ခုနှစ်တွင် များစွာ ထင်ပေါ်ကျော်စောလာခဲ့လေသည်။ ၁၇ ရာစုနှစ်၌မူ ပြဇာတ်များ ခေတ်စားလာ၍၊ ဟွန် ရူးအီး သေ အားလားကွန်းသည် ထင်ရှားသော ပြဇာတ်ဆရာကြီး ဖြစ်ခဲ့သည်။ ထိုပြင် ထိုခေတ်က အဓိပ္ပါယ်နက်နဲသော ဂမ္ဘီရ ကဗျာများလည်း များစွာတွင်ကျယ်ခဲ့လေသည်။ ဝတ္ထုအရေးအသားမှာကား ၁၈ ရာစုနှစ်တွင် ထင်ပေါ်လာခဲ့လေသည်။ မက္ကဆီကိုပြည်သား ဝတ္ထုရေးဆရာ ဖာနန်းဒေး သေ လီဆားဒီ၏ဝတ္ထုသည် တောင်အမေရိကတိုက်စာပေတွင် ထူးခြားသော ဝတ္ထုဖြစ်သည်။ ၁၉ ရာစုနှစ်သို့ရောက်သော်၊ တော်လှန်ရေး အမျိုးမျိုးများ ဖြစ်ပွားနေသည့်အထဲတွင် နိုင်ငံနှင့်အမျိုးကိုချစ်သော ရသ ပေါ်အောင် ဖွဲ့နွဲ့သည့်ကဗျာများ ပေါ်ပေါက်လာပြီးလျှင်၊ တော်လှန်ရေးများ ပြီးစီးသွားသောအခါ၊ တိုင်းရင်းသားတို့သည် စပိန်နိုင်ငံနှင့်စပ်ဆိုင်သော အကြောင်းအရာတို့ကို ဖွဲ့နွဲ့စပ်ဆိုခြင်းကို ငြီးငွေ့ရှိရှာလာကြပြီးလျှင်၊ မိမိတို့နေရပ်ဌာနီနှင့် စပ်ဆိုင်ရာအကြောင်းတို့ကို ဖွဲ့နွဲ့ရေးသားလာကြလေသည်။ ၁၉ ရာစုနှစ်နောက်ပိုင်း၌ တောင်အမေရိကတိုက်၏ဇာတိကို ဖော်ပြရာဖြစ်သော မြင်းစီးသူရဲ နွားကျောင်းသား ဂေါင်ချိုတို့၏ဘဝကို ဖွဲ့နွဲ့သည့်ကဗျာများသည် အာဂျင်တိုင်ပြည်နယ်တွင် ထွန်းကားလာလေသည်။

ထိုခေတ်တို့မှ လွန်လာသောအခါ၊ စာပေလောကတွင် ကဗျာကို ပိုမို၍ တိုးတက် ဖွံ့ဖြိုးအောင် လုပ်သော ခေတ်သစ်စာပေဂိုဏ်းနှင့် အမျိုးသားစိတ်ဓာတ်ကိုလှုံ့ဆော်ပေးသော အမျိုးသား စာပေဂိုဏ်းဟူ၍ နှစ်မျိုးထွန်းကားလာလေသည်။ သို့သော် ဤခေတ်တွင်ထွန်းကားသော တောင်အမေရိကတိုက်စာပေမှာမူ ခရစ် ၁၉၁၀ ပြည့်နှစ်တွင် စတင်ဖြစ်ပေါ်ခဲ့သော မက္ကဆီကိုတော်လှန်ရေးမှ အစပြုသည်။ ထိုတော်လှန်ရေးမှာ ဆင်းရဲသားလူထု၏ မြေယာ တော်လှန်ရေးဖြစ်လေရကား၊ မာရီယာနို အာဇွေးလားနှင့် လိုပေ့ အီဖွိန်းတေးဟူသော စာရေးဆရာတို့သည် အဖိနှိပ်ခံ လူတန်းစားတို့၏ အကြောင်းကို ရေးသားလာကြလေသည်။ ထိုမှသည် တောင်အမေရိကတိုက်အတွင်းရှိ လူထုအကြောင်း၊ ထိုလူထုတို့ မှီတင်းနေထိုင်ရာ ဒေသအကြောင်း စသည်တို့နှင့်ဆိုင်သော ဝတ္ထုတို့ မြောက်မြားစွာ ပေါ်ပေါက်လာလေရာ၊ မျက်မှောက်ကာလတွင် ဝတ္ထုခေတ်သည် ဖွံ့ဖြိုးလာသည်ဟု ဆိုရမည်ဖြစ်သည်။

ယခုအခါ တောင်အမေရိကတိုက်နှင့် စပ်လျဉ်းသမျှကို မြောက်အမေရိကတိုက်နှင့် ခြားနားလေအောင်၊ လက်တင်အမေရိကဟု ခေါ်ဝေါ်လေ့ ရှိသည့်အားလျော်စွာ၊ တောင်အမေရိကတိုက်စာပေကို လက်တင်အမေရိကန်စာပေဟုလည်း ခေါ်ဝေါ်ကြသည်။ စပိန်လူမျိုးတို့၏ အနွယ်ဖြစ်၍၊ စပိန်ဘာသာကို မူတည်သော အချက်ကြောင့်လည်း စပင်းနစ် အမေရိကန်စာပေဟုလည်း ခေါ်ဝေါ်သည်။

**တောင်အာဖရိကစာပေ။** ။တောင်အာဖရိကစာပေဟူရာ၌ အင်္ဂလိပ်စာဖြင့် အာဖရိကတိုက် တောင်ပိုင်းကို မူရင်းထား၍ ရေးသားသော စာပေများနှင့် တိုင်းရင်း ဘာသာဖြစ်သော အာဖရိကန်စာနှင့် ရေးသားသောစာပေများဟူ၍ နှစ်မျိုး ရှိလေသည်။ အာဖရိကတိုက် တောင်ပိုင်းနှင့်စပ်လျဉ်း၍ ရေးသားထားသောရှေးဦးစာပေတို့မှာ ယင်းဒေသနှင့် လူမျိုးများအကြောင်းကို စူးစမ်းရှာဖွေ၍ ရေးသားသော ဒေသန္တရ ဗဟုသုတ စာအုပ်များဖြစ်သည်။ ယင်းတို့အနက် ထင်ရှားသောစာအုပ်များမှာ ခရစ် ၁၈၂၂ ခုနှစ်တွင် ဝီလျံ ဂျွန် ဗာခဲ့ အမည်ရှိသော သဘာဝပညာရှင် ရေးသားသည့် 'တောင်အာဖရိကအတွင်း လှည့်လည်သော ခရီးစဉ်' နှင့် ၁၈၅၇ ခုနှစ်တွင် ခရစ်ယန်သာသနာပြုဆရာ ဒေးဗစ် လစ်ဗင်းစတုန်း ရေးသားသည့် 'တောင်အာဖရိကအတွင်း သာသနာပြု ခရီးစဉ်နှင့် စူးစမ်းရှာဖွေမှုများ' ဟူသောစာအုပ်များ ဖြစ်လေသည်။ (လစ်ဗင်းစတုန်း, ဒေးဗစ် — ရှု။)

တောင်အာဖရိကစာပေဟူ၍ သီးခြားခေါ်ဆိုလောက်သော ကဗျာများကို အင်္ဂလိပ်ဘာသာဖြင့် ရေးသားရာတွင်၊ ထောမတ် စပရင်ဂယ် (၁၇၈၉–၁၈၃၄) နှင့် အာသာ ရှီယာလီ ကရစ်တို့သည် ထင်ရှားခဲ့သည်။ တောင်အာဖရိကတိုက်မှ ထုတ်ဝေသော ဝတ္ထုတို့တွင် အော်လစ် ရှရိုင်နားအမည်ရှိ အမျိုးသမီးတဦးက ခရစ် ၁၈၈၃ ခုနှစ်တွင် အာဖရိကတိုက်ရှိ လယ်ယာအကြောင်းကို အရင်းခံ၍ ရေးသားထားသော ဝတ္ထုသည် ထင်ရှားသည်။ အင်္ဂလိပ်ဝတ္ထုရေးဆရာကြီး ဆာ ရိုက်ဒါ ဟက်ဂဒ် ရေးသားသော 'ဆောလမွန် သိုက်' အစရှိသည့် ဝတ္ထုတို့ကို တောင်အာဖရိကစာပေတွင် ပညာရှင်တို့က ထည့်သွင်း၍ပြကြသည်။

သို့ရာတွင် အထက်ပါ အင်္ဂလိပ်ဘာသာဖြင့် ထွန်းကားခဲ့သော တောင်အာဖရိကစာပေတို့မှာ ဒေသကိုစွဲ၍သာလျှင် တောင်အာဖရိကအမည်ကို ခံယူသော်လည်း၊ အရင်းစစ်လျှင် အင်္ဂလိပ်စာပေ၌သာ အကျုံးဝင်သည်။ ခေတ်အလျောက် အမျိုးသားစိတ်ဓာတ်တို့ ထွန်းကားလာသော



**တောင်အာဖရိကတိုက်ကိုအခြေခံသည့် ဝတ္ထုများကိုရေး၍ နာမည်ကျော်ခဲ့သူ ဆာ ရိုက်ဒါ ဟက်ဂဒ်**

အခါ၊ တိုင်းရင်းသား အာဖရိကန်၏စာပေတို့သည် ပိုမို၍ ထင်ရှားလာလေသည်။ အာဖရိကန်ဟူသော အမည်မှာ ခရစ် ၁၈၀၆ ခုနှစ်တွင် တောင်အာဖရိကကို ဗြိတိသျှတို့ မသိမ်းပိုက်မီ၊ မူလကရှိနှင့်ကြသော ကိုလိုနီ တည်ထောင်သူ ဒပ်ချ၊ ပြင်သစ်နှင့် ဂျာမန်လူမျိုးတို့၏ အဆက်အနွယ်များ ပြောဆိုသော ဘာသာစကားကို ခေါ်ဝေါ်သောအမည်ဖြစ်သည်။

ရှေးက ထိုဘာသာစကားကို တားလဟုခေါ်သည်။ ထိုစကားမှာ ၁၇ ရာစုနှစ်က ဟော်လန်နိုင်ငံတွင် ပြောဆိုသောစကားနှင့် ဂျာမန်ပြင်သစ်စကားတို့ရောနှော၍ ဖြစ်ပေါ်လာသောစကား ဖြစ်လေရာ၊ ခရစ် ၁၇၅၀ ပြည့်နှစ် လွန်သောအခါမှပင်လျှင် ယခုခေတ်သုံး အာဖရိကန်စကားမျိုးသည် တိတိကျကျ ပေါ်ထွန်းလာလေသည်။ သို့သော် ထိုစကားကို စာအဖြစ်ဖြင့် ခရစ် ၁၈၆၀ ပြည့်နှစ်လောက်ကမှ စတင်၍ အသုံးပြုလာသည်ဟု ဆိုကြသည်။ ထိုနှစ်တွင် တရားသူကြီးတဦးက အာဖရိကန်စကားကို စာဖြင့်ရေး၍ ထုတ်ဝေရာ၊ သူ၏နမူနာကိုလိုက်၍၊ အာဖရိကတိုင်းရင်းသားတို့က သတင်းစာများတွင် ဆောင်းပါးများကို အာဖရိကန်စာဖြင့် ရေးသားကြလေသည်။ ၁၈၇၂ ခုနှစ်တွင် အာဖရိကန်စာကို သုံးစွဲရန်အတွက် လှုံ့ဆော်သော အဖွဲ့တရပ် ပေါ်ပေါက်လာသည်။ ၁၈၇၅ ခုနှစ်၌ကား အာဖရိကန်စာနှင့် ရေးသားထားသော သမ္မာကျမ်းစာ ဖြစ်မြောက်ရေးနှင့် အာဖရိကန်စာကို အများသုံးဖြစ်အောင် ပြုလုပ်ရေးအတွက် အသင်းတခု ပေါ်ပေါက်လာပြန်သည်။ ထိုခေတ်တွင် သတင်းစာတစောင်နှင့် လစဉ်ထုတ် မဂ္ဂဇင်းတစောင်ကို အာဖရိကန်စာဖြင့် ထုတ်ဝေခဲ့ကြသည်။ ခရစ် ၁၈၆၀ ပြည့်နှစ်နှင့် ၁၉၀၀ ပြည့်နှစ်များအကြား အချိန်ကာလမှာ အာဖရိကန်စာပေ တည်ထောင်မှုကို ကြိုးပမ်းသည့် ပဌမပိုင်းကာလဖြစ်သည်။

ခရစ် ၁၈၉၉–၁၉၀၂ ခုနှစ်တွင်ဖြစ်ပွားသော ဗိုးဝါး စစ်ပွဲကြီး ပြီးသည့်နောက်၌မူကား၊ ခေတ်သစ်တခေတ် ဖြစ်ထွန်းလာလေရကား၊ အာဖရိကန်စာပေ ပြန့်ပွားရေးသည် ဒုတိယအကြိမ် လှုပ်ရှားလာလေသည်။ ထိုဒုတိယခေတ်၏ခေတ်ဦးတွင် အာဖရိကန်စာဖြင့် ဝတ္ထု၊ ကဗျာစသည်တို့ကို ရေးသားကြသည့်အပြင် အာဖရိကန်စာကို အားပေးသော အာဖရိကန်စာဖြင့် ရေးသားသည့် မဂ္ဂဇင်းများလည်း ပေါ်ပေါက်လာလေသည်။ ထိုကြောင့် ၁၉၁၄ ခုနှစ်တွင် အာဖရိကန် ဘာသာစကားနှင့် စာပေတို့ကို ကျောင်းများ၌ သင်ကြားလာရသည်။ ၁၉၁၉ ခုနှစ်၌ကား တက္ကသိုလ်တို့တွင် အာဖရိကန်စာပေအတွက် ပါမောက္ခများ ခန့်အပ်၍ ဌာနများ တီထွင်ပေးလာရလေသည်။ ၁၉၂၄ ခုနှစ်တွင် အာဖရိကန် ဘာသာကို ရုံးသုံးဘာသာဟု အသိအမှတ် ပြုလာကြသည်။ ၁၉၃၇ ခုနှစ်တွင် သမ္မာကျမ်းစာကို အာဖရိကန်ဘာသာဖြင့် ပြန်ဆိုခြင်းသည် ပြီးမြောက်ခဲ့၏။ ၁၉၂၅ ခုနှစ်တွင် အာဖရိကန်ဘာသာကို ပါလီမန်က ဥပဒေပြုရာ၌ပင်လျှင် သုံးစွဲရန် ပြဋ္ဌာန်းခဲ့လေသည်။

ဤနည်းဖြင့်လျှင်၊ အာဖရိကန်စာပေသည် တနေ့တခြား တိုးတက်လာခဲ့လေရာ၊ အာဖရိကတိုင်းရင်းသား ကဗျာဆရာ၊ ဝတ္ထုဆရာစသော စာရေးဆရာအပေါင်းတို့သည်လည်း ထွန်းကားလာခဲ့လေသည်။ စကားပြေ အရေးအသားတွင် ဆန်ဂီရိုဟု ကလောင်အမည်ကိုခံယူသော အေ၊ အေ၊ ပိုင်းနားအမည်ရှိ စာရေးဆရာ၏ 'ခြသေ့်မိသားစု၏ စွန့်စားခြင်း' အမည်ရှိသောဝတ္ထုမှာ အရှေ့အာဖရိကတိုက်ရှိ တိရစ္ဆာန်တို့၏ အမူအကျင့်တို့ကို ဖော်ပြသော စာအုပ်ဖြစ်ရာ၊ ကမ္ဘာကျော်ခဲ့လေသည်။ ယင်းဝတ္ထုကို အင်္ဂလိပ် ဘာသာဖြင့် ပြန်ဆိုထားလေသည်။

# စိန်၊ ရွှေ၊ ရတနာထွက်ရာအရပ်

အာဖရိကတောင်ပိုင်းသည် မိုးနည်းသော်လည်း၊ ကုန်းမြင့်အရပ်ဖြစ်၍၊ ရာသီဥတု မျှတညီညွတ်သည်။ ထို့ကြောင့် ဥရောပတိုက်သားတို့ နယ်သစ်တည်၍ စီးပွားရှာကြသည်။ လယ်ယာစိုက်ပျိုးခြင်း၊ တိရစ္ဆာန် မွေးမြူခြင်းတို့အပြင်၊ သယံဇာတပစ္စည်း ကြွယ်ဝသဖြင့် သတ္တုတွင်း လုပ်ငန်းသည်လည်း ထင်ရှားသည်။ အထူးသဖြင့် တောင်အာဖရိက ပြည်ထောင်စုအတွင်းရှိ စိန်တွင်း၊ ရွှေတွင်းများမှာ ကမ္ဘာပေါ်တွင် အလွန်ထင်ရှားပေသည်။

**တောင်အာဖရိက ပြည်ထောင်စု။** ။တောင်အာဖရိက ပြည်ထောင်စုသည် ဗြိတိသျှ ဓနသဟာယအဖွဲ့တွင် ပါဝင်သော ဒိုမီနီယန်နိုင်ငံ တနိုင်ငံဖြစ်သည်။ ထိုနိုင်ငံသည် အာဖရိကတိုက်၏ တောင်ဖက်စွန်းတွင် တည်ရှိ၍၊ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄၇၂,၃၅၉ မိုင် ရှိလေသည်။ ထိုနိုင်ငံတွင် ဂွတ်ဒဟုပ်အငူ၊ နာတဲ၊ ထရန်စဗားနှင့် ဩရိန်း ဖရီးစတိတ်ပြည်နယ်တို့ ပါဝင်ကြသည်။ ထို့ပြင်လည်း ခရစ် ၁၉၂၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် နိုင်ငံပေါင်းချုပ် အသင်းကြီးက ချမှတ်သောအမိန့်အရ၊ ယခင်က ဂျာမန်ပိုင်ဖြစ်သော အနောက်တောင် အာဖရိကပြည်နယ်သည် တောင်အာဖရိကပြည်ထောင်စု၏ အုပ်ချုပ်မှုအောက်သို့ ရောက်ရှိလာခဲ့လေသည်။ အနောက်တောင် အာဖရိက ပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၃၁၇,၈၈၇ မိုင် ဖြစ်လေသည်။ တောင်အာဖရိက ပြည်ထောင်စု နယ်နိမိတ်ထဲတွင် တိုင်းရင်းသားပိုင် နယ်မြေဖြစ်သော ဗာဆူးတိုလန်နယ်မြေရှိသည်။ သို့ရာတွင် ထိုနယ်မြေကို တောင်အာဖရိက ပြည်ထောင်စုက မပိုင်ချေ။ ထိုနယ်မြေမှာ ဗြိတိသျှ အစောင့်အရှောက်ခံ နယ်မြေဖြစ်သည်။

တောင်အာဖရိက ပြည်ထောင်စု၏ မြေမျက်နှာပြင်မှာ ကုန်းမြင့်လွင်ပြင်ကြီးဖြစ်၍၊ ပင်လယ်ရေမျက်နှာပြင်အထက် ပေပေါင်း ၄၀၀၀ မှ ၆၀၀၀ အထိမြင့်သည်။ များစွာသော မြေအကျယ်အဝန်း၌ မြက်တို့သာ ပေါက်ရောက်ကြသည်။ ယင်းမြက်ပေါက်ရာ မြက်ခင်းပြင်ကြီးကို ဗဲ့လဒဟုခေါ်သည်။ အတ္တလန္တိတ် သမုဒ္ဒရာကမ်းဖက်ရှိ ခြောက်သွေ့သော ကာလဟာရီဒေသ၌ အပင်ပေါက်ရောက်ခြင်း အလွန်နည်းပါးသည်။ အနောက်ဖက် ကမ်းခြေတလျှောက်၌ သဲကန္တာရများ ရှိသည်။ အိန္ဒိယ သမုဒ္ဒရာကမ်းဖက်၌မူ ကုန်းပြင်မြင့်သည် အရှေ့ဖက်သို့ တဖြည်းဖြည်း မြင့်တက်လာပြီးလျှင်၊ ဒရားကင်စဗာ့ တောင်တန်းတွင် အဆုံးသတ်လေသည်။ ထိုတောင်တန်း အရှေ့ဖက်၌ကား မြေပြင်သည် သမုဒ္ဒရာကမ်း



တောင်အာဖရိကပြည်ထောင်စု ကိပ်ပ်တောင်းမြို့တော်ရှိ ပါလီမန်အဆောက်အအုံ

ခြေသို့အရောက် နိမ့်လျှော၍သွားပြန်သည်။ တောင် အာဖရိက ပြည်ထောင်စု၏ အနောက်တောင်ဖက်ဒေသသည် သွေ့ခြောက်သည်။ သို့ရာတွင် မြစ်ဝှမ်းများ၌ ရေမိုး အလုံအလောက်ရရှိသဖြင့် အပင်များ ကောင်းစွာပေါက်ကြ၏။ အရှေ့တောင်ဖက်မှာမူကား မိုးပိုမိုရွာသွန်းသည်။ အပူဒီဂရီလည်း ပိုများသည်။ သို့သော် ပြည်ထောင်စု တခုလုံး အတွက် ခြုံ၍ကြည့်လျှင်၊ မိုးနည်းပါးသည်ဟု ဆိုရမည်ဖြစ်၏။ ပုံစံမှာ ဂွတ်ဒဟုပ်အငူ ပြည်နယ်၌ မိုးရေချိန်သည် ၁၅ လက်မခန့်ရှိ၍၊ နာတဲပြည်နယ်၌မူကား မိုးရေချိန်သည် ၃၅ လက်မမှ လက်မ ၅၀ ထိရှိသည်။

တောင်အာဖရိက ပြည်ထောင်စုတွင် မြစ်ကြီး မြစ်ငယ် အများပင်ရှိသည်။ ဩရိန်းမြစ်သည် မြစ်ကြီးတခုဖြစ်၍ အတ္တလန္တိတ် သမုဒ္ဒရာထဲသို့ စီးဝင်သည်။ လင်းပိုးပိုးမြစ်မှာမူ ထရန်စဗားနယ်ကို ဝိုက်၍လာပြီးနောက်၊ ပေါ်တူဂီပိုင် အရှေ့အာဖရိကနယ်ဖြစ်သော မိုဇမ်ဗစ်ပြည်နယ်ကိုဖြတ်၍ အိန္ဒိယ သမုဒ္ဒရာထဲသို့ စီးဝင်သည်။ တောင်အာဖရိက ပြည်ထောင်စုအတွင်းရှိ ဒေသတို့မှာ များသောအားဖြင့် မြေဩဇာ ကောင်းသဖြင့် သီးနှံများကို စိုက်ပျိုးကြ၏။ သို့သော် ပြည်ထောင်စု၏ ဓနအင်အားမှာ သတ္တုတွင်းများအပေါ်၌ တည်သည်။ ကမ္ဘာ့မြေလွှာတို့တွင် ထရန်စဗားပြည်နယ်ရှိ မြေလွှာမှာ ဓာတ်သတ္တုတို့ အကြွယ်ဝဆုံးမြေလွှာဖြစ်သည်ဟု သိပ္ပံပညာရှင်တို့က ဆိုကြသည်။ ရန်းဟု တွင်သောနယ်တွင် ရွှေတွင်းများရှိ၍၊ ကင်ဗာလီနယ်တွင် စိန်တွင်းများရှိလေရာ၊ ယင်းရွှေနှင့်စိန်တွင်းတို့သည် ကမ္ဘာပေါ်တွင် အဖိုးအတန်ဆုံးသော သတ္တုတွင်းများ ဖြစ်ကြသည်။ အခြား ဓာတ်သတ္တုတို့ကား သံ၊ ကျောက်မီးသွေး၊ ကြေး၊ မန်ဂနိ၊ ခဲမဖြူ၊ အက်စဗက်စတော့၊ ပလက်တီနမ် အစရှိသည်တို့ဖြစ်ကြသည်။ ထိုဓာတ်သတ္တုတို့၌ မည်မျှကြွယ်ဝသည်ကို သိသာရန်ပြရလျှင်၊ ၁၉၅၄ ခုနှစ် တနှစ်အတွက် သတ္တုထုတ်လုပ်ခြင်း၏တန်ဖိုးကို ပေါင်စတာလင်ဖြင့် အောက်ပါအတိုင်း နမူနာပြရမည်ဖြစ်သည်။ နမူနာပြ စာရင်းတွင် အရေးကြီးသော သတ္တုအနည်းငယ်မျှကိုသာ ဖော်ပြလိုက်သည်။

| သတ္တု | တန်ဖိုး |
|---|---|
| အက်စဗက်စတော့ | ၅,၇၉၆,၄၅၂ |
| ကျောက်မီးသွေး | ၁၆,၁၂၂,၂၅၁ |
| ကြေးနီ | ၉,၉၇၁,၁၇၀ |
| စိန် | ၁၂,၆၁၃,၆၅၁ |
| ရွှေ | ၁၆၄,၆၇၅,၂၃၁ |
| ပလက်တီနမ် | ၆,၇၀၁,၁၀၄ |

၁၉၅၄ ခုနှစ်တွင် ရွှေ အောင်စပေါင်း ၁၃,၂၁၀၊ ပလက်တီနမ် ၃၃၈ အောင်စ၊ စိန် ကာရက်ပေါင်း ၂,၈၆၀ ထွက်သည်။ ၁၉၅၅ ခုနှစ်ကုန်တွင် ယူရေနီးယမ်းသတ္တုတွင်း ၂၄ တွင်းကို ပြည်ထောင်စု၏ ယူရေနီးယမ်း ထုတ်လုပ်ရေး အစီအစဉ်တွင် စာရင်းပြထားသည်။ ယင်းအနက် ၁၁ တွင်းမှာ လက်ရှိလုပ်ကိုင်နေသော တွင်းများဖြစ်သည်။

တောင်အာဖရိက ပြည်ထောင်စု၏ လူဦးရေမှာ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ၊ ၁၂,၆၆၇,၇၅၉ ယောက်ဖြစ်သည်။ ယင်းတို့အနက် ဥရောပတိုက်သား အမျိုးအနွယ်ဖြစ်သော လူမျိုးတို့မှာ ၂,၆၄၁,၆၈၉ ယောက်ဖြစ်သည်။ ကျန်လူမျိုးတို့တွင် အာဖရိကန် ဘာသာစကားကိုသုံးစွဲသူ ဗိုဝါး စစ်ပွဲခေတ်ကလူများ၏ အဆက်အနွယ်ဖြစ်သော အာဖရိကန္ဒားလူမျိုး၊ ဗန်တူအမျိုးစုတွင် ပါဝင်ကြသော တိုင်းရင်းသား ကပ္ပလီလူမျိုးများ၊ ဟိန္ဒူနှင့် မွတ်စလင်တို့ပါဝင်သော အာရှအနွယ် လူမျိုးများနှင့် အမျိုးရောယှက်နေသည့် အထွေထွေသောလူမျိုးများ ပါဝင်လေသည်။ (တောင်အာဖရိကစာပေ — ရှု)။ တောင်အာဖရိက ပြည်ထောင်စုတွင် ဓလေ့ထုံးစံ ဘာသာစကားအားဖြင့် ကွဲပြားခြားနားသူတို့ မှီတင်းနေထိုင်ကြသဖြင့် လူမျိုးရေးဝိဝါဒ များစွာရှိသည်။ ဥရောပအနွယ်ဖြစ်သော လူမျိုးတို့သည် မြေယာနှင့် လုပ်ငန်းတို့ကို ပိုင်ဆိုင်၍ အုပ်ချုပ်ရေးကို ကြိုးကိုင်သူများ ဖြစ်ကြသည်။ ယင်းတို့၏ လူနေမှုအဆင့်အတန်းသည် များစွာမြင့်သည်။ တိုင်းရင်းသားတို့မှာမူ လူနေမှုအဆင့် အတန်း များစွာနိမ့်ကျသည်။ ဥရောပအနွယ် လူမျိုးများပိုင် အလုပ်ရုံ စက်ရုံများတွင် အလုပ်သမားများအဖြစ် လုပ်ကိုင်ကြရသည်။ ထိုစက်ရုံ အလုပ်ရုံတို့တွင် တိုင်းရင်းသား အလုပ်သမားများ တသန်းခွဲခန့်ရှိသည်။ ယင်းတို့အပြင် အိန္ဒိယ အရှေ့ပိုင်းနယ်များမှ လာရောက်နေထိုင်ကြသော ဟိန္ဒူနှင့် မွတ်စလင်လူမျိုးများလည်း ရှိကြသေးသည်။ ထိုအိန္ဒိယအနွယ် လူမျိုးများမှာကား ကူလီလုပ်ငန်းမှစ၍ ဈေးဆိုင်လုပ်ငန်းအထိ လုပ်ကြသည်။ နာတဲပြည်နယ်တွင် ယင်းတို့၏လူဦးရေသည် အများဆုံးဖြစ်၍၊ ဈေးရောင်းသည့် လုပ်ငန်းကို လုပ်ကိုင်ကြသည်။ အိန္ဒိယအနွယ် လူမျိုးများ မြေယာ ပိုင်ဆိုင်ရေးနှင့် နိုင်ငံတော်သားဖြစ်ရေး ကိစ္စတို့တွင် ယင်းလူမျိုးနှင့် တောင်အာဖရိက ပြည်ထောင်စုအစိုးရတို့သည် မကြာခဏ ဝိဝါဒ ဖြစ်ခဲ့ရသည်မှာ အိန္ဒိယနိုင်ငံခေါင်းဆောင်ကြီး မဟာတ္တမ ဂန္ဒီ ငယ်စဉ်ကပင် စတင်၍ဖြစ်သည်။ (ဂန္ဒီ၊ မဟာတ္တမ — ရှု။)

တောင်အာဖရိက ပြည်ထောင်စု၏ အုပ်ချုပ်ရေး ဗဟိုမြို့တော်သည် ပရီတိုးရီးယားမြို့ဖြစ်သည်။ သို့သော် ပါလီမန်တည်ရာမြို့တော်မှာ ကိပ္ပတောင်းမြို့ဖြစ်၏။ ဂျိုဟန္နက်စဗတ်မြို့သည်ကား အကြီးဆုံးသော မြို့ဖြစ်သည်။ ဒါဗန်နှင့် ပို့အယ်လစ်ဇဗတ်မြို့တို့မှာမူ ဆိပ်ကမ်းမြို့ကြီးများဖြစ်ကြ၏။

တောင်အာဖရိက ပြည်ထောင်စု တည်ထောင်ပုံသမိုင်းမှာ



ကမ္ဘာ့ကျော်ရွှေတွင်းများတည်ရှိရာ ဂျိုဟန္နက်စဗတ်မြို့၏ ရှုခင်းတရပ်

ဤသို့ဖြစ်၏။ ခရစ် ၁၄၈၇ ခုနှစ်တွင် ဗာတူးလူးမေယူ ဒီး အတ်သည် ဂွတ်ဒဟုပ်အင်ူကို စတင်တွေ့ရှိသည်။ သို့သော် ယင်းဒေသကို ၁၆၅၂ ခုနှစ်ရောက်ခါမှ ဒပ်ချလူမျိုးတို့က စတင်၍ နယ်သစ်ထူထောင်သည်။ ထိုသည်မှစ၍ ဒပ်ချနှင့် ပြင်သစ်တို့ ဝင်ရောက်နေထိုင်လာခဲ့ကြရာ၊ ထိုဒေသမှာ ဒပ် ချပိုင် နယ်ပယ်ဖြစ်လာလေသည်။ သို့သော် ၁၈၀၆ ခုနှစ် တွင် အင်္ဂလိပ်တို့က ထိုနယ်ကို ဝင်ရောက် သိမ်းပိုက်လိုက် လေသည်။ ဤသည်တွင် ဒပ်ချအနွယ် ဗိုးဝါးတို့နှင့် အင်္ဂလိပ် တို့ စစ်ဖြစ်ကြသည်။ ၁၈၃၆ ခုနှစ်တွင် ဗိုးဝါးတို့သည် ယခု ဩရိန်း ဖရီး စတိတ်ပြည်နယ် တည်ရာဒေသသို့ ရွှေ့ ပြောင်း၍ နယ်သစ် ထူထောင်ပြန်သည်။ လေးနှစ်ကြာ သောအခါ ထိုဗိုးဝါးတို့သည် ထရန်စဗားနယ်ကို သမတနိုင် ငံဟု ကြေညာ၍ တည်ထောင်လိုက်လေသည်။ သို့သော် ထိုအချိန်၌ ဗိုးဝါးတို့က မြောက်အရပ်သို့ ဒေသရွှေ့ပြောင်း နေစဉ်၊ တိုင်းရင်းသား ဇူးလူးလူမျိုးတို့က တောင်အရပ်သို့ ရွှေ့ပြောင်းနေကြသဖြင့်၊ ဗိုးဝါးတို့နှင့် ဇူးလူးတို့ စစ်ဖြစ်ကြ လေသည်။ ထိုစစ်သည် ၁၈၇၉ ခုနှစ်ရောက်မှရပ်စဲလေသည်။

ဤအတွင်းတွင် အင်္ဂလိပ်တို့သည် ၁၈၆၈ ခုနှစ်၌ ဗိုးဝါးတို့ ရွှေ့ပြောင်း တည်ထောင်ရာ ဩရိန်း ဖရီး စတိတ်ကို သိမ်း ပိုက်ခဲ့ပြန်သည်။ ကိုးနှစ်ကြာသော် ထရန်စဗားနယ်ကို သိမ်းပြန်၏။ ဤတွင်တဖန် ဗိုးဝါးတို့နှင့် ဆက်လက်၍ စစ် ဖြစ်လေရာ ၁၉၀၂ ခုနှစ်ကျမှပင် ထိုစစ်သည် ငြိမ်းငြိမ်း လေသည်။ (ဗိုးဝါး စစ်ပွဲ — ရှု။) ထိုနောက် ၁၉၀၆ ခုနှစ် တွင် ဗြိတိသျှအစိုးရသည် ထရန်စဗားနှင့် ဩရိန်း ဖရီး စတိတ်တို့ကို လွတ်လပ်ရေးပေးခဲ့လေသည်။ ၁၉၀၉ ခုနှစ်၌ မူ တောင်အာဖရိက အက်ဥပဒေဖြင့် ဂွတ်ဒဟုပ်အင်ူ၊ နာတဲ၊ ထရန်စဗားနှင့် ဩရိန်းမြစ် ကိုလိုနီဟုလည်း ခေါ်သော ဩ ရိန်း ဖရီး စတိတ်တို့ကို ပူးပေါင်း၍ တောင်အာဖရိက ပြည် ထောင်စုကို တည်ထောင်လိုက်သည်။ သို့ရာတွင် ထိုပြည် ထောင်စုသည် ၁၉၃၁ ခုနှစ်သို့ ကျရောက်ခါမှပင်လျှင် လုံးဝ လွတ်လပ်ရေးကို ရခဲ့သည်။ ဒုတိယ ကမ္ဘာစစ်အတွင်း တွင် တောင်အာဖရိက ပြည်ထောင်စုသည် ဗြိတိန်နိုင်ငံနှင့် မဟာမိတ်ပြုသင့် မပြုသင့်ဟူသော ကိစ္စနှင့် စပ်လျဉ်း၍၊ ဝန်ကြီးချုပ် ဟာဆော့နှင့် ဒုတိယဝန်ကြီးချုပ် ဂျင်နရယ် စမတ်တို့ သဘောကွဲလွဲခဲ့ကြသည်။ ဂျင်နရယ် စမတ်က ဗြိတိသျှနှင့်မဟာမိတ်ဖွဲ့ရန် သဘောကိုက်ညီသည်။ တောင် အာဖရိက လွှတ်တော်ထဲတွင် ထိုကိစ္စကို မဲခွဲရာ ဂျင်နရယ် စမတ်၏ ပါတီဝင်များက အနိုင်ရရှိသဖြင့်၊ ဂျင်နရယ် စမတ် လည်း ဝန်ကြီးချုပ်ဖြစ်လာပြီးလျှင် မဟာမိတ် ဗြိတိသျှ ဖက်မှနေ၍ ဒုတိယ ကမ္ဘာစစ်ကြီးတွင် ပါဝင်ဆင်နွှဲခဲ့ရာ၊

ဂျာမနီဖက်မှ ဂျင်နရယ် ရှမ်းမဲကို ဖက်ပြိုင် တိုက် ခိုက်ခဲ့ရသည်။ (စမတ်, ဂျေ၊ စီရယ် — ရှ။)

**တောင်သြစတြေးလီးယားပြည်နယ်။** ။တောင်သြစတြေးလီးယားပြည်နယ်သည် သြစတြေးလီးယားတိုက် တောင်ဖက်၏ အလယ်ပိုင်းတွင် တည်ရှိသည်။ ထိုပြည်နယ်၏ အကျယ်အဝန်းသည် ၃၈၀,၀၇၀ စတုရန်းမိုင်မျှ ရှိသည်။ ထိုပြည်နယ်၏ ကျယ်ပြန့်သော အစိတ်အပိုင်းသည် သဲကန္တာရဖြစ်သည်။ မြေသြဇာ ကောင်းမွန်၍၊ စိုက်ပျိုးလုပ်ကိုင်နိုင်သော ဒေသများကား မြို့တော်ဖြစ်သော အက်ဒီလိတ်မြို့ အနီးအနားတဝိုက်နှင့် အရှေ့တောင်ဖက် ကမ်းရိုးတန်းတလျှောက်တွင် တည်ရှိလေသည်။ ထိုဒေသများတွင် စပျစ်ခြံနှင့် သစ်သီးခြံများရှိသည်။ ထိုထက် မြောက်ဖက်ကျသော အပိုင်းတွင် ဂျုံခင်းများရှိ၍၊ ထိုထက် အထက်ကျသော အပိုင်းမှာကား သိုးနွားတို့၏ စားကျက် မြက်ခင်းကြီးများ ရှိလေသည်။ ထိုမြက်ခင်းကြီးများ၏ အထက်တွင် သဲကန္တာရကြီး တည်ရှိ၏။ ထိုသဲကန္တာရသည် သြစတြေးလီးယားတိုက်အလယ်ပိုင်း သဲကန္တာရကြီးနှင့် တဆက်တည်း ဖြစ်လေသည်။

ထိုပြည်နယ်၏ အနောက်ဖက်ပိုင်းသည် ချုံဖုတ်ကလေးများသာ ပေါက်ရောက်သော ကျတ်တီးပြင်ဒေသ ဖြစ်လေသည်။ ပင်လယ်ကမ်းရိုးတန်း တလျှောက်တွင် ပင်လယ်ကွေ့နှင့် ပင်လယ်အော် အများရှိသည်။ ထိုပြည်နယ်တွင် အဲယားအိုင်၊ ဖရုမ်းအိုင်နှင့် တောရင်းအိုင်များရှိသည်။ ဖရုမ်းအိုင်နှင့် တောရင်းအိုင်တို့မှာ ယခုအခါ ရေခန်းခြောက်နေသည်သာ များ၏။ မာရေးမြစ်သည် ထိုပြည်နယ်၏ အရှေ့တောင်ဖက်ပိုင်းကို ဖြတ်သန်းစီးဆင်း၍၊ တောင်ဖက်သမုဒ္ဒရာထဲသို့ စီးဝင်လေသည်။ ယင်းမြစ်သည် သြစတြေးလီးယားတိုက်တွင် အကြီးဆုံးဖြစ်သည်။ အခြားမြစ်ငယ်များ ရှိသည့်အနက် အချို့သည် အဲယားအိုင်တွင်းသို့ စီးဝင်ကြလေသည်။ ရာသီဥတုမှာ ပူပြင်းခြောက်သွေ့သော်လည်း၊ ကျန်းမာရေးနှင့် ညီညွတ်၏။ တောင်ဖက်ကမ်းရိုးတန်း တလျှောက်နှင့် ကုန်းမြင့်ပိုင်းများတွင် စိုက်ပျိုးရေးကို လုပ်ကိုင်နိုင်လောက်အောင် မိုးရွာသွန်းသော်လည်း၊ အတွင်းဖက်တွင်ကား တနှစ်လျှင် မိုးရေချိန် ၅ လက်မမှ ၁၁ လက်မအထိမျှသာ မိုးရွာသည်။

တောင်သြစတြေးလီးယားပြည်နယ်သည် လယ်ယာလုပ်ငန်း ထွန်းကားသော ပြည်နယ်ဖြစ်၏။ မြောက်ဖက် ရေရှားသော ဒေသများတွင် ရေသွင်း၍ သစ်သီးခြံများကို စိုက်ပျိုးလုပ်ကိုင်ကြလေသည်။ ထိုပြည်နယ်မှ ဂျုံ၊ မုယော၊ မြင်းစားဂျုံ၊ အာလူး ထွက်၏။ သတ္တုများလည်း ထွက်၏။ အရှေ့ဖက်တောင်တန်းများမှ သံကျောက်၊ ထုံးကျောက်၊ ရွှံ့ဖန်ချက်ကျောက်နှင့် ဆားကြမ်းတို့ကို ရနိုင်သည်။ ထိုပြည်နယ်ရှိ ခန်းခြောက်သွားသောဆားအိုင်များမှ ဆား မြောက်မြားစွာ ရရှိသည်။ အဓိက ထုတ်ကုန်များမှာ သစ်သီးအစိမ်းနှင့်အခြောက်၊ အရက်ချို၊ အမဲသား၊ ဂျုံ၊ ဂျုံမှုန့်၊ သိုးမွေး၊ ကြေးနီနှင့် သိုး၊ နွားမွေးမြူရေးလုပ်ငန်းထွက်ပစ္စည်းများ စသည်တို့ဖြစ်၏။

ထိုပြည်နယ်တွင် မီးရထားလမ်း ဖောက်ထားသောကြောင့် ကူးသန်းသွားလာရေး လွယ်ကူသည်။ ပြည်နယ်အတွင်း မီးရထားလမ်း မိုင်ပေါင်း ၃,၉၀၀ ခန့်နှင့် ကုန်းလမ်းမိုင်ပေါင်း ၅၂,၀၀၀ ခန့်ရှိသည်။ သြစတြေးလီးယားတိုက်ကို အရှေ့မှ အနောက်သို့ဖြတ်ကာ တောင်သြစတြေးလီးယားပြည်နယ် စပင်ဆာကွေ့ရှိ ပို့သြဂတ်စတာမြို့မှသည် အနောက် သြစတြေးလီးယားပြည်နယ်ရှိ ကယ်လဂူလီမြို့ အထိ ဖောက်လုပ်ထားသော မီးရထားလမ်းသည် သဲကန္တာရကို ဖြတ်သန်းသွားလေသည်။ ထို့ပြင် ပို့သြဂတ်စတာမှ မြောက်ပိုင်းပြည်နယ်ရှိ အဲလစ် စပရင်းမြို့သို့ပေါက်သော မီးရထားလမ်းရှည်တသွယ်လည်း ရှိသည်။ ရေကြောင်း ကူးသန်းသွားလာရေးတွင် မာရေးမြစ်သည် အလွန်အသုံးဝင်ပေသည်။

တောင်သြစတြေးလီးယားပြည်နယ်၏ ကမ်းရိုးတန်း တလျှောက်ကို ၁၈၀၂ ခုနှစ်တွင် မက်သယူး ဖလင်ဒါးအမည်ရှိ ရေကြောင်းခရီးသည်တဦးက စတင်တွေ့ရှိလေသည်။ သို့သော် ၁၈၃၆ ခုနှစ်တွင် စတင်၍ အခြေစိုက်ရာ ဒေသအဖြစ် တည်ထောင်ခဲ့လေသည်။ ၁၈၅၀ ပြည့်နှစ်နောက်တွင် လူဦးရေမှာ တဖြည်းဖြည်း တိုးတက်လာသည်။ ၁၉၀၁ ခုနှစ်တွင် သြစတြေးလီးယား ဓနသဟာယနိုင်ငံစုတွင် ပါဝင်ခဲ့လေသည်။ လယ်ယာလုပ်ငန်း ထွန်းကားသောပြည်နယ် ဖြစ်ခဲ့သော်လည်း၊ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ စက်မှုလက်မှု လုပ်ငန်းများသည် နေ့ခြင်း ညခြင်းဆိုသလိုပင် တိုးတက်လာခဲ့လေ၏။

ထိုပြည်နယ်၏ လူဦးရေမှာ ၁၉၅၅ ခုနှစ် သန်းကောင်စာရင်းအရ ၇၁၅,၅၄၉ ယောက်ရှိသည်။ ဗြိတိသျှလူမျိုး၏ အဆက်အနွယ်တို့သာ များပြားလေသည်။ ဂျာမန်၊ စကန်ဒီနေးဗီးယန်းစသည့် ဥရောပတိုက်သားများ အနည်းငယ်မျှ ရှိသည်။ မြောက်ဖက်ပိုင်းတွင် သြစတြေးလီးယားတိုက်၏ တိုင်းဦးသားတို့ နေထိုင်ကြသည်။ တောင်သြစတြေးလီးယား ပြည်နယ်တွင် ကလေးသူငယ်တိုင်းပင် ၁၄ နှစ်သားအရွယ်အထိ ကျောင်းများသို့ အခမဲ့တက်ရောက် စာပေသင်ကြားရ၏။ အက်ဒီလိတ်မြို့တွင် တက္ကသိုလ်ကျောင်း တကျောင်းရှိသည်။ ထို့ပြင် အစိုးရ သတ္တုတူးဖေါ်ရေး အတတ်နှင့် စက်မှုလုပ်ငန်းအတတ်သင် ကျောင်း တကျောင်း လည်းရှိ၏။ ထိုပြည်နယ်တွင် အထက်အောက် လွှတ်တော်

နှစ်ရပ်ပါဝင်သော ပါလီမန်လွှတ်တော်ရှိ၍၊ ဗြိတိသျှအစိုးရ ခန့်ထားသော ဘုရင်ခံသည် အမှုဆောင်ဝန်ကြီးအဖွဲ့၏ အကူအညီဖြင့် ပြည်နယ်ကို အုပ်ချုပ်လေသည်။

**တောင်အုန်း။** ။တောင်အုန်းသည် ထန်းမျိုးဝင်သော အပင်မျိုးဖြစ်၏။ မြန်မာနိုင်ငံ အထက်ပိုင်း၊ အောက်ပိုင်း ကုန်းမြေအနိမ့်ပိုင်းရှိ သစ်တောများ၌ တောင်အုန်းကို တွေ့ရသည်။ အချို့ဒေသများ၌ ထိုအပင်မျိုးချည်း ထူထပ်စွာ ပေါက်ရောက်၏။ ရုက္ခဗေဒအလိုအားဖြင့် တောင်အုန်းကို 'အာရင်ဂါး စက်ကာရီဖားရား' ဟုခေါ်၍၊ 'ပါမီး' မျိုးရင်းတွင် ပါဝင်သည်။ တောင်အုန်းပင်သည် မြင့်မားသောအပင်မျိုး ဖြစ်၏။ အပင်၏အလယ်အူအသားကို သာဂူပြုလုပ်နိုင်၍၊ တောင်အုန်းတပင်မှ သာဂူပေါင်ချိန် ၁၅၀ ခန့်ထွက်နိုင်သည်ဟု ဆို၏။ (သာဂူ — ရှု။) ပင်စည်ကို ရေသွယ်ပိုက်များအဖြစ် အသုံးပြုနိုင်သည်။ အရွက်ရိုးတံရင်းရှိ အမည်းရောင် လျှော်မျှင်များကို ကြိုးကျစ်ရာ၌၎င်း၊ ဝက်မှင်ဘီး ပြုလုပ်ရာ၌၎င်းအသုံးပြုနိုင်လေသည်။

**တောင်း။** ။ခြင်းနှင့်တောင်းများ — ရှု။

**တိုင်တားမင်းကြီး။** ။တိုင်တားမင်းကြီးသည် သက္ကရာဇ် ၁၁၄၃ ခုနှစ် နန်းတက်သော အမရပူရ ပဌမ မြို့တည် နန်းတည် ဘိုးတော်မင်းတရား လက်ထက်မှစ၍၊ ရခိုင်ပြည်၌ အမှုထမ်းသော မှူးမတ်အမျိုးအနွယ်မှ ဆင်းသက်သည်။ အဖမှာ ရခိုင်ပြည် သံတွဲဝန် မဟာမင်းကြီးကျော်စွာ ဖြစ်သည်။

သက္ကရာဇ် ၁၂၁၄ ခုနှစ် နန်းတက်သော မန္တလေးရတနာပုံ ပဌမ မြို့တည်နန်းတည် မင်းတုန်းမင်းတရားကြီးလက်ထက်၊ နန်းတက်တော်မူဦးကပင်၊ အထူးယုံကြည်သဒ္ဓါသော မှူးမတ်သားမြေး ဖြစ်သည်နှင့်အညီ၊ နန်းတော်အတွင်း လက်ဖက်ရည်တော်ရာထူးဖြင့် အပါးတော်တွင် မြဲစွဲထမ်းရွက်ရသည်။ ထိုနောက် စလင်း၊ ကျပင်း၊ စကု၊ လယ်ကိုင်း လေးမြို့စစ်ကဲ၊ မင်းတုန်း တောင်စဉ်ခုနစ်ခရိုင်ဝန်၊ တောင်ထားဝယ် သေနတ်ဗိုလ်၊ မိုင်းလုံမြို့ဝန်အဖြစ် ရာထူးအဆင့်ဆင့် တိုးတက်ထမ်းရွက်ရသည်။

သက္ကရာဇ် ၁၂၄၀ ပြည့်နှစ်၊ မင်းတုန်းမင်းတရားကြီး အသည်းအသန် မကျန်းမမာ ဖြစ်တော်မူခိုက်၊ ထီးနန်းအမွေ အရိုက်အရာဆက်ခံမှုနှင့် စပ်လျဉ်း၍၊ နိုင်ငံတော် မငြိမ်မသက်ဖြစ်မည့်အရေး ပေါ်ပေါက်လာရာ၊ ကင်းဝန်မင်းကြီး စသော မှူးမတ်သေနာပတိတို့က ငြိမ်းချမ်းသာယာစွာဖြင့် ပြီးမြောက်စေရန် အားထုတ်ကြိုးပမ်းကြရာ၌၊ တိုင်တားမင်းကြီးသည် အရေးကြီးသည့်နေရာမှ ပါဝင်ဆောင်ရွက်သည်။ ထိုနှစ်ပင် မင်းတုန်းမင်းတရားကြီး နတ်ရွာစံတော်မူ၍၊သားတော် သီပေါမင်းတရား နန်းတက်တော်မူရာ၊ တိုင်တားမင်းကြီးအား မဟာမင်းထင်မင်းခေါင်ကျော်ဘွဲ့နှင့် ကုန်းကြောင်းရဲမက်တို့ကို ကြီးကြပ်အုပ်ချုပ်ရသော သူရဲဝန် အဖြစ် ခန့်ထားလေသည်။ ထိုနောက် မကြာမီ၊ သက္ကရာဇ် ၁၂၄၀ ပြည့်နှစ်၊ ပြာသိုလတွင် မင်းကြီးမဟာမင်းခေါင်ဘွဲ့နှင့် အတွင်းဝန်ခန့်ထားခြင်း ခံရသည်။ တိုင်တားမြို့ကိုလည်း စားရသည်။ ဤမှစ၍ တိုင်တားမင်းကြီးဟု အမည်တွင်လေသည်။



'တိုင်တားမင်းကြီး' ဦးဘိုးပုံ

ထိုနောက် မန္တလေးနေပြည်တော်တွင် ထီးရုံတရုံတည်း မလောက်၍၊ ၁၂၄၁ ခုနှစ် ကဆုန်လတွင်၊ နေပြည်တော်အရပ်ရပ်တွင် ထီးရုံတော် ၁၀ ရုံဖွင့်လှစ်ရာ၊ အဆိုပါ ၁၀ ဌာနအနက် တဌာနကို ထီးရုံတော်များကို ရုပ်သိမ်းသည်အထိ၊ တိုင်တားမင်းကြီး ကြပ်မဖွင့်လှစ်ရသည်။

၁၂၄၄ ခုနှစ်တွင်၊ တိုင်တားမင်းကြီးအား၊ သတိုးမင်းကြီး မဟာမင်းလှမင်းခေါင်ဘွဲ့နှင့်၊ နိုင်ငံတော်မှူးမတ်တို့တွင် အမြင့်ဆုံးရာထူးဖြစ်သော၊ ဝန်ရှင်တော် လယ်ကိုင်းမြို့စား သေနတ်ဝန်ကြီး၊ ဝန်ရှင်တော် တောင်ခွင်မြို့စား မင်းကြီး စသည့်ဝန်ကြီးများနှင့်တွဲဖက်၍ အဂ္ဂသေနာပတိဝန်ကြီး အရာ ခန့်ထားခြင်းခံရသည်။ လွှတ်တော်ဝန်ကြီးရာထူးနှင့်တွဲဖက်၍ သမီးတော်ဝန် တာဝန်ဝတ်တရားကိုလည်း ထမ်းရွက်ရသည်။

လွှတ်တော်ဝန်ကြီးအဖြစ် ထမ်းရွက်နေစဉ်၊ ၁၂၄၄ ခုနှစ်မှစ၍၊ နိုင်ငံတော်စီးပွားရေးအတွက် အရေးကြီးသော သစ်



၁၂၄၁ ခုနှစ် အတွင်းဝန် တိုင်တားမြို့စား မင်းကြီးမင်းခေါင်မဟာကျော်ထင်ကို သနားတော်မူသည့် အစီးအနင်း အဆောင်အရွက်ပုံ

တောလုပ်ငန်းများတွင် အခြားဝန်ကြီးများနှင့်အတူ ပါဝင်ဆောင်ရွက်ရသည်။ ၁၂၄၄ ခုနှစ်၊ ၁၂၄၅ ခုနှစ်များတွင်၊ ရန်ကုန်မြို့ သစ်သဌေး ဦးမှန်ထော်၊ ဦးပေါက်၊ ဦးဘိုးညွှန်း၊ ဦးဘိုးမြင့်တို့နှင့် ဧရာဝတီမြစ် ဝဲယာ သစ်တောအချို့ကို နှစ်စဉ် အခွန်တော်ထမ်းဆောင် ခုတ်လုပ်ခွင့်စာချုပ်ကို ချုပ်ဆိုရာ၌ တိုင်တားမင်းကြီး ပါဝင်ရသည်။

တိုင်တားမင်းကြီးသည် နိုင်ငံတော် ရာဇဝတ်တော်ရေးနှင့် စစ်မက်ရေးရာဖက်မှ သက်ဆိုင်သော လက်ရုံးရည် အမှုထမ်း ဖြစ်သော်လည်း၊ နှလုံးရည်နှင့်ဆိုင်သော သာသနာရေးဖက်တွင်လည်း ရေးကြီးခွင့်ကျယ်ကိစ္စများ၌ ပါဝင်ဆောင်ရွက်လေ့ရှိသည်။ ၁၂၄၅ ခုနှစ်၊ နယုန်လတွင်၊ သာသနာပြု ဆရာတော်ကျောင်းတွင် တံဆိပ်တော်ရ ဆရာတော် ၇၃ ပါးနှင့်အတူ၊ သာသနာရေး သာသနာမှုများကို ညှိနှိုင်းတိုင်ပင်ရေးဆွဲသော သာသနာပြုဆရာတော်အမိန့်တော်နှင့် ပညတ်ရန် အမိန့်တော် ၃၂ ချက်တို့ကို တိုင်တားမင်းကြီးက ကြပ်မ၍ နန်းတော်သို့ သွင်းရသည်။

၁၂၄၇ ခုနှစ် နင်းကြမ်းသစ်တော ဘုံဘိုင်ဘားမား သစ်မှုကြီး ပေါ်ပေါက်လာရာ၊ ယင်းသည့်နှစ် ဝါခေါင်လတွင်၊ လွှတ်တော်က စီရင်အမိန့်ချမှတ်ရာတွင်၊ တိုင်တားမင်းကြီး ပါဝင်ဆုံးဖြတ်ရသည်။ ထိုနောက် အင်္ဂလိပ်တို့နှင့် စစ်မက်ဖြစ်ပွားမည်ရှိရာ၊ မြန်မာမင်း၏ နန်းတော်လွှတ်တော်၌ အချို့က လက်နက်အင်အားချင်း မတူ၍ လျှော့ပေးသင့်သည်။ အချို့ကမူ တင်းတင်းမာမာ ခုခံတိုက်ခိုက်သင့်သည်ဟု သဘောနှစ်ခွ ကွဲလွဲကြရာ၊ တိုင်တားမင်းကြီးသည် အညံ့မခံ အရှုံးမပေး၊ မည်သို့ပင်ဖြစ်စေ၊ ခုခံတိုက်သင့်သည်ဟု သဘောရသူတို့ဖက်မှ ပါဝင်၍၊ စစ်မက်ပြင်ဆင်ရေးတွင် ပါဝင်



၁၂၄၁ ခုနှစ် အတွင်းဝန် တိုင်တားမြို့စား မင်းကြီးမင်းခေါင်မဟာကျော်ထင်ကို သနားတော်မူသည့် အစီးအနင်း အဆောင်အရွက်ပုံ



၁၂၄၁ ခုနှစ် အတွင်းဝန် တိုင်တားမြို့စား မင်းကြီးမင်းခေါင်မဟာကျော်ထင်ကို သနားတော်မူသည့် အစီးအနင်း အဆောင်အရွက်ပုံ

ဆောင်ရွက်သည်။ ထိုနောက် တန်ဆောင်မုန်း လပြည့်ကျော် ၈ ရက်နေ့၊ အင်္ဂလိပ်များ တက်ရောက်ပြီးလျှင်၊ သီပေါမင်းတရားအား နန်းမှချ၍ ဖမ်းယူ ဆောင်ကြဉ်းသွားသည်အထိ၊ ကင်းဝန်မင်းကြီးစသော မှူးမတ်သေနာပတိတို့နှင့်အတူ ဆောင်ရွက်လေသည်။

ထိုနောက် ၁၂၄၇ ခုနှစ်၊ နတ်တော် လပြည့်ကျော် ၁၁ ရက်နေ့မှစ၍၊ သီပေါမင်းပိုင် မြန်မာနိုင်ငံတော်ကို အင်္ဂလိပ်အစိုးရက သိမ်းယူကြောင်းကြေညာပြီးသော်၊ နေပြည်တော်၌ကျန်ရစ်သော မြန်မာမင်း၏ မှူးမတ်များကိုပင် လွှတ်တော်ကောင်စီဖွဲ့၍ ဆက်လက်အုပ်ချုပ်စေရာ၊ ကင်းဝန်မင်းကြီးနှင့်အတူ တိုင်တားမင်းကြီးလည်း ကောင်စီတွင် ပါဝင်ဆောင်ရွက်ရလေသည်။ သို့သော် မကြာမြင့်မီပင်၊ အင်္ဂလိပ်တို့က မယုံကြည်သဖြင့်၊ တိုင်တားမင်းကြီးအား ရုတ်တရက်ဖမ်းဆီးကာ၊ အိန္ဒိယနိုင်ငံ၊ ဩရိဿနယ်၊ ကတ်တက်မြို့သို့ ပို့ထားလေသည်။ ကတ်တက်မြို့တွင် ငါးနှစ်ခန့်မျှ နေရပြီးနောက်၊ ၁၂၅၂ ခုနှစ်လောက်တွင် အင်္ဂလိပ်အစိုးရက မြန်မာပြည်သို့ ပြန်ပို့ရာ၊ ရန်ကုန်မြို့ အလုံရပ်၊ ဂျင်မခါနာအနီး နေအိမ်တွင်၊ ၁၂၅၈ ခုနှစ် နယုန် လပြည့်ကျော် ၆ ရက်၊ တနင်္ဂနွေနေ့တွင် ကွယ်လွန်အနိစ္စရောက်သည်။

တိုင်တားမင်းကြီး၏ အမည်ရင်းမှာ ဦးဘိုးဖြစ်သည်။ မွေးဖွားသည့် သက္ကရာဇ်ကို မသိရချေ။ သို့သော် ၁၂၄၅ ခုနှစ် ပြာသိုလတွင်ကျင်းပသော မြင်းခင်းသဘင်တော်၌ မင်းညီမင်းသား မှူးမတ်သေနာပတိ တဦးမကျန် စက်သွင်းရသော်လည်း၊ ကင်းဝန်မင်းကြီး၊ တောင်ခွင်မင်းကြီးနှင့် တိုင်တားမင်းကြီးတို့မှာ သက်ရွယ်ကြီးရင့်သည်ဖြစ်၍၊ ခွင့်လွှတ်ခြင်းခံရသည်ကို ထောက်လျှင်၊ ကန်းဝန်မင်းကြီးနှင့် တသက်တရွယ်တည်းလောက်ဖြစ်သည်ဟု ယူဆဖွယ်ရှိလေသည်။

(ကင်းဝန်မင်းကြီး — လည်းရှု။) **ဦးယော**

**တိုင်တေးနီယမ်။** ။တိုင်တေးနီယမ်သတ္တုကို ၁၇၉၁ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဝီလျံဂရက်ဂါ ဆိုသူက စတင်တွေ့ရှိခဲ့သည်။ ဂျာမန်လူမျိုး အမ်၊ အိပ်၊ ကလပ်ပရုပ် ဆိုသူက ရူတီးခေါ် တိုင်တေးနီယမ်အောက်ဆိုက် တွင်းထွက်ပစ္စည်းရိုင်းမှ အောင်မြင်စွာ ထုတ်ယူရရှိ၍၊ ဂရိဒဏ္ဍာရီဥ္စပါသော ယူရေးနပ်၏သား တိုင်တန်ကို အစွဲပြုပြီးလျှင် တိုင်တေးနီယမ်ဟု အမည်ပေးခဲ့သည်။ ကမ္ဘာ့အပေါ်ယံမြေလွှာတွင် တိုင်တေးနီယမ်သည် ရာခိုင်နှုန်း ၀.၆၅ မျှ ပါဝင်သည်။ ကမ္ဘာပေါ်တွင် အတွေ့ရအများဆုံး ဒြပ်စင်စာရင်းတွင် ယင်းသည် နဝမမြောက်ဒြပ်စင်ဖြစ်သည်။ အစ်လမင်နိုက်နှင့်ရူတီး တွင်းထွက်ပစ္စည်းရိုင်း နှစ်မျိုးသည် တိုင်တေးနီယမ်သတ္တု ထုတ်ယူရရှိသော အဓိက ပစ္စည်းနှစ်မျိုးဖြစ်သည်။ သို့သော် တိုင်တေးနီဖာရပ် မက်ဂနက်တိုက်၊ တိုင်တင်းနိုက်၊ ပီရော့စကိုက်နှင့် အခြား တွင်းထွက်ပစ္စည်းရိုင်းများတွင်လည်း ဤသတ္တုပါဝင်သည်။ အမေရိကန်၊ ကနေဒါ၊ ဆွီဒင်၊ ဩစတြေးလီးယား၊ သီဟိုဠ်ကျွန်း၊ အိန္ဒိယ၊ ဗရာဇီး၊ ရုရှနှင့် နော်ဝေးနိုင်ငံများတွင် တိုင်တေးနီယမ် တွင်းထွက်ပစ္စည်းရိုင်းကို အနှံ့အပြား တွေ့ရသည်။

တိုင်တေးနီယမ်၏ သင်္ကေတမှာ Ti ဖြစ်သည်။ အက်တမ်အမှတ်စဉ်မှာ ၂၂၊ အက်တမ်အလေးဆမှာ ၄၇.၉ ဖြစ်သည်။ သိပ်သည်းဆမှာ ၃.၅ ဖြစ်သည်။ အပူချိန် ဖာရင်ဟိုက် ၃၁၄၀° ၌ အရည်ပျော်သည်။ သတ္တုသန့်သန့်သည် ပေါ့ပါး၍ အလွန်မာသည်။ အလွယ်တကူ အပြားခတ်နိုင်သည်။ နန်းလည်း ဆွဲနိုင်သည်။ ဆားငန်ရည် သို့မဟုတ် ဆားငွေ့ပါသော လေတို့၏တိုက်စားမှုကို အစွမ်းခံ သံမဏိနှင့် ကော့ပါး၊ နစ်ကယ်သတ္တုစပ်များထက် ခံနိုင်သည်။

ယခုအထိ တိုင်တေးနီယမ်သတ္တုကို အဖြူရောင် ခြယ်ဆေးများ ပြုလုပ်ရာ၌သာ အဓိကသုံးသည်။ သို့သော် လေယာဉ်ပျံ အစိတ်အပိုင်းများအတွက် ပေါ့ပါးခိုင်မာသည့် သတ္တုစပ်များကို ပြုလုပ်ယူရာ၌ အသုံးပြုလာကြလိမ့်မည်ဟု ယူဆရသည်။ ဤသတ္တု၏ အောက်ဆိုက်သည် ပါးသော စက္ကူများကို အလင်းပိတ်ဖြစ်စေရန်နှင့် ရေယွန်ပိုးတုကို ပြုပြင်ပေးရန် အသုံးဝင်သည်။ ဤသတ္တုတွေ့ရှိခဲ့သူ ဝီလျံဂရက်ဂါ လက်ထက်ကကဲ့သို့ပင် အချို့သော ပင်လယ်ကမ်းနားရှိ သဲမည်းကို တိုင်တေးနီယမ်သတ္တုထုတ်ယူရန် ပစ္စည်းရိုင်းအဖြစ်ဖြင့် ယခုအခါ အသုံးပြုလျက်ရှိကြသည်။

**တိုင်လှီလူမျိုး။** ။တိုင်လှီလူမျိုးများသည် ဗုဒ္ဓအယူဝါဒတွင် သက်ဝင်ယုံကြည်သော ဝအနွယ် လူမျိုးတမျိုး ဖြစ်သည်။ ဝကွပ်ဟူ၍လည်း ခေါ်၏။ ကျိုင်းတုံနယ်မြောက်ပိုင်းနှင့် မိုင်းလုံအရှေ့ပိုင်း တောင်ကုန်းများပေါ်တွင် နေထိုင်ကြသည်။

ရှေးအခါက ကျိုင်းတုံတနယ်လုံးသည် ဝလူမျိုးတို့ ကြီးစိုးနေထိုင်ရာ ဖြစ်ခဲ့ဘူးသည်။ ဂုံလူမျိုးတို့ ဝင်ရောက်တိုက်ခိုက်သောအခါ ထွက်မပြေးဘဲ၊ ကြွင်းကျန်ရစ်သော ဝတို့သည် ဂုံလူမျိုး အကြီးအကဲတို့ထံ အညံ့ခံ၍ စေ့စပ်ကျေအေးပြီးနောက်၊ တောင်ပေါ်တွင် အခြေစိုက် နေထိုင်လာခဲ့ကြလေသည်။ (ဂုံလူမျိုး — ရှု။)

တဖြည်းဖြည်းနှင့် ဂုံယဉ်ကျေးမှုကို လိုက်နာခံယူခဲ့ရာ၊ ဗုဒ္ဓအယူဝါဒတွင် သက်ဝင်ယုံကြည်သူများ ဖြစ်လာလေသည်။ ဤတွင် တိုင်လှီလူမျိုးဟူ၍ ထင်ရှားခဲ့ပေသည်။ ရှမ်းတို့ကမူ ဗုဒ္ဓအယူဝါဒတွင် သက်ဝင်ယုံကြည်သော အခြားတောင်တန်းသားများကိုလည်း တိုင်လှီဟူ၍ပင် ခေါ်ဝေါ်၏။

တိုင်လှီတို့သည် ဘာသာတရားကို အထူးကိုင်းရှိုင်း၏။ စေတီပုထိုးများ တည်ထားကိုးကွယ်၏။ သို့သော် ဂုံလူမျိုးတို့ကဲ့သို့ပင် နတ်များကို ပသတင်မြှောက်ခြင်းအလေ့လည်း ရှိ၏။ ထိမ်းမြားခြင်း ဓလေ့ထုံးစံများလည်း ဂုံတို့၏အလေ့နှင့် တူ၏။ လူသေလျှင် မြေမြှုပ်သင်္ဂြိုဟ်၍ ရဟန်းနှင့် သက်ကြီး ဝါကြီးများကိုမူ မီးသင်္ဂြိုဟ်၏။

အသက်မွေးဝမ်းကျောင်း လုပ်ငန်းမှာ လက်ဖက်စိုက်ပျိုးရောင်းချခြင်းဖြစ်၏။ လူဦးရေမှာ ၁၉၀၁ ခုနှစ် သန်ကောင်စာရင်းအရ ကျိုင်းတုံနယ်တွင် တိုင်လှီလူမျိုး ၁၅,၆၆၀ ယောက် ရှိလေသည်။

**တိုင်းဂရစ်မြစ်။** ။တိုင်းဂရစ်မြစ်သည် မိုင်ပေါင်း ၁၁၅၀ မျှရှည်လျားသည်။ မိုဆူမြို့မှ အောက်သို့ ၁၂ ရာသီပတ်လုံး သင်္ဘောများ ဆန်တက်သွားလာနိုင်၏။ အာရှတိုက်အနောက်ပိုင်းရှိ ကူးဒစ္စတန်တောင်တန်းများမှ မြစ်ဖျားခံ၍ စီးဆင်းခဲ့ရာ၊ မြစ်ညာတွင် အရှေ့ဖက်မှစီးဝင်သော မြစ်လက်တက်များ၏ ရေလုံး အားကြီးသဖြင့် ရေစီးသန်၏။ ထိုနောက် ကော်နာမြို့တွင် ယူဖရေးတီးမြစ်နှင့် ပေါင်းဆုံကာ ရှက်တယ်အာရပ်အမည်ဖြင့် ပါရှင်းပင်လယ်ကွေ့ထဲသို့ စီးဝင်လေသည်။ ရှေးခေတ်က ဗက်ဗီလုံးနှင့်အဆီးရီးယန်း အင်ပိုင်ယာနိုင်ငံကြီးများတွင် ထင်ရှားခဲ့သော မြစ်ဖြစ်၍၊ ရှေးဟောင်းမြို့ကြီးများမှာ ဤမြစ်ပေါ်၌ တည်ရှိခဲ့၏။

ယခုခေတ် မြို့ကြီးများဖြစ်သော၊ ဗာဆရာ၊ ဗဂ္ဂဒက်နှင့် မိုဆူစသော မြို့ကြီးများသည်လည်း ဤမြစ်ကမ်းပေါ်တွင် တည်ရှိလေသည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်းတွင် ဂျာမန်တို့က တိုင်းဂရစ်မြစ်နှင့်ယူဖရေးတီး မြစ်နှစ်သွယ်ကြားရှိ မြေသြဇာကောင်းသောနယ်ကို သိမ်းပိုက်ရန် ကြိုးစားသဖြင့် ဗြိတိသျှတို့က ဝင်ရောက်သိမ်းပိုက်ခဲ့ရလေသည်။ ရှေးခေတ်မှစ၍ ယနေ့တိုင်အောင်ပင်၊ ဤမြစ်မှရေကို တူးမြောင်းများဖြင့် သွယ်ယူ၍ ကောက်ပဲသီးနှံများကို စိုက်ပျိုးကြလေသည်။



တိုင်းပင်၏ အပွင့်အရွက်နှင့် အခက်အလက်များ

**တိုင်းပင်။** ။တိုင်းပင်သည် မွှေးကြိုင်သည့် ဥယျာဉ် သစ်နုပင်မျိုးဖြစ်သည်။ ထိုအပင်သည် ပူဒီနာအပင်မျိုးဖြစ်၏။ မျိုးစဉ်မှာ 'လာဗီယတီ' ဖြစ်သည်။ ဥယျာဉ်များတွင် ပေါက်သည့် တိုင်းပင်မှာ 'ဟိုင်းမတ်ဗာလဂါရစ်' ဖြစ်သည်။ တိုင်းပင်သည် အရွက်နှင့်ပင်စည်အတွင်း၌ရှိ ဆီကြောင့် မွှေးကြိုင်သည်။ မျိုးစိတ်တိုင်းတွင် ထိုဆီမျိုးရှိသည်။ အရွက်များသည် အလွန်သေးငယ်၏။ အပွင့်များသည်လည်း သေးငယ်၍ အများအားဖြင့် စက်ဝိုင်းပတ်ပုံဖြင့် ပွင့်ကြသည်။ ပန်းပွင့်၏ အရောင်မှာ ခရမ်းရောင်၊ အနီရောင် သို့မဟုတ် အဖြူရောင်ဖြစ်သည်။ ရိုးရိုးတိုင်းပင်သည် နွယ်၍ ပေါက်လေ့ရှိသည်။ ထိုအပင်မျိုးသည် အေးသည့်ကမ္ဘာ့လုံးခြမ်းတွင် အလွန်ပေါများစွာပေါက်သည်။ ရှောက်နံ့ထွက်သော တိုင်းပင်တမျိုးလည်း ရှိသေးသည်။ ဥယျာဉ်များတွင်ပေါက်သော တိုင်းပင်မျိုးသည် ရိုးရိုးတိုင်းပင်ထက် ပို၍မြင့်သည်။ ထိုအပင်၏ မူရင်းဒေသမှာ မြေထဲပင်လယ်ဒေသဖြစ်သည်။

တိုင်းမောခေါ် ပိုးသတ်ဆေးတမျိုးကို တိုင်းပင်၏ အရွက်နှင့် ပင်စည်တို့မှ ရသောဆီဖြင့် လုပ်ယူသည်။

**တိုင်းပြည်ပြုလွှတ်တော်။** ။တိုင်းပြည်ပြုလွှတ်တော် ဆိုသည်မှာ တိုင်းပြည်တခုအတွက်၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေတရပ်ကို ရေးဆွဲစေရန်၊ ပြည်သူတို့က ရွေးကောက်တင်မြှောက်၍ အခွင့်အာဏာ လွှဲအပ်ခြင်းခံရသည့်၊ ကိုယ်စားလှယ်တော်များပါဝင်သော လွှတ်တော်ကို ဆိုလိုသည်။

၁၇၇၇ ခုနှစ်မှ ၁၇၉၁ ခုနှစ်အထိ ကျင်းပခဲ့သော ပြင်သစ်အမျိုးသား ကိုယ်စားလှယ်ညီလာခံသဘင်ကြီးကို ပဌမဆုံးအကြိမ် တိုင်းပြည်ပြုလွှတ်တော်ဟူ၍ ခေါ်ဝေါ်ခဲ့လေသည်။ ယင်းသို့ခေါ်ဝေါ်ခဲ့သည်မှာလည်း၊ ၁၇၉၁ ခုနှစ် ဥပဒေပြုလွှတ်တော်နှင့် ကွဲပြားခြားနားစေရန်အတွက်ဖြစ်၏။ ထိုညီလာခံသဘင်ကြီးက ၁၇၉၁ ခုနှစ်တွင်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေတရပ်ကို ရေးဆွဲခဲ့လေသည်။ ပဌမ ကမ္ဘာစစ်ကြီးအပြီး၌ ဥရောပနိုင်ငံ အများအပြားတွင်၎င်း၊ ဒုတိယကမ္ဘာစစ်ကြီးအပြီး၌ ဥရောပနှင့်အာရှနိုင်ငံ အများအပြားတွင်၎င်း တိုင်းပြည်ပြုလွှတ်တော်များကို ဆင့်ခေါ်၊ အစည်းအဝေးများ ကျင်းပခဲ့ကြလေသည်။

မြန်မာနိုင်ငံတွင်၊ ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့၌ ချုပ်ဆိုလက်မှတ်ရေးထိုးခဲ့သည့်၊ အောင်ဆန်း အက်တလီ စာချုပ်အရ၊ တိုင်းသူပြည်သားများသည်၊ မိမိတို့၏ ကံကြမ္မာကို မိမိတို့ ဖန်တီးနိုင်ရန်အတွက်၊ တိုင်းပြည်ပြုလွှတ်တော်တရပ်ကို ဖွဲ့စည်းရမည်ဖြစ်သည့်အတိုင်း၊ ထိုနှစ်ဧပြီလတွင် တိုင်းပြည်ပြုလွှတ်တော်ရွေးကောက်ပွဲများ ကျင်းပရန် စီစဉ်ခဲ့လေသည်။ တိုင်းပြည်ပြုလွှတ်တော်သို့ အရွယ်ရောက်သူတိုင်း မဲပေးနိုင်သည့်စနစ်ဖြင့်၊ မြန်မာနိုင်ငံသားများကိုသာ ရွေးကောက်တင်မြှောက်ရမည်ဖြစ်ရာ၊ ပြည်မအတွက် ကိုယ်စားလှယ်များကို ၁၉၃၅ ခုနှစ် မြန်မာနိုင်ငံတော် အက်ဥပဒေအရ ပြဋ္ဌာန်းထားသည့် မဲဆန္ဒနယ်များအတိုင်း၊ တနယ်လျှင် နှစ်ဦးကျစီ ရွေးကောက်တင်မြှောက်ရန် သတ်မှတ်ပေးခဲ့၍၊ ကိုယ်စားလှယ်တော်ဦးရေမှာ၊ ကရင်လူမျိုးများအတွက် ၂၄ ဦးနှင့် အင်္ဂလိပ်မြန်မာ ကပြားများအတွက် ၄ ဦးအပါအဝင် ၂၁၀ ဖြစ်၏။ နယ်စပ်ဒေသများအတွက် ၄၅ ဦး သတ်မှတ်ပေးခဲ့ရာ၊ ရှမ်းပြည်အတွက် ၂၆ ဦး၊ ကချင်တောင်တန်းဒေသအတွက် ၇ ဦး၊ ချင်း ၈ ဦး၊ ကရင်နီ ၂ ဦးနှင့် သံလွင်ခရိုင်အတွက် ၂ ဦး ဖြစ်လေသည်။

၁၉၄၇ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင်၊ တိုင်းပြည်ပြုလွှတ်တော် ရွေးကောက်ပွဲများကို ကျင်းပခဲ့၏။ သို့သော် တိုင်းပြည်ပြုလွှတ်တော်ညီလာခံ မကျင်းပမီ၊ ပဏာမအနေဖြင့်၊ ဖဆပလအဖွဲ့ကြီးသည်၊ မေလအတွင်းဝယ်၊ ရန်ကုန်မြို့ ဂျူဗလီဟော၌ ပြည်လုံးကျွတ် ညီလာခံသဘင်ကြီးတရပ်ကို ဖိတ်ခေါ်ကျင်းပခဲ့လေသည်။ ထိုညီလာခံသဘင်ကြီး၌၊ အချက် ၁၄ ချက်ပါဝင်သော အဆိုတရပ်ကို မေလ ၂၃ ရက်နေ့တွင် ပြဋ္ဌာန်းအတည်ပြုခဲ့ရာ၊ ယင်းမှာ တိုင်းပြည်ပြုလွှတ်တော်က



ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်လျက် ဖ ဆ ပ လ အမတ်တစုဗန္ဓုလပန်းခြံ၌ လူထုစည်းဝေးပွဲ ပြုလုပ်ပြီးနောက်၊ တိုင်းပြုပြည်ပြုလွှတ်တော်သို့ ချီတက်ကြစဉ်

ရေးဆွဲအတည်ပြုရမည့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ် အတွက် အခြေခံပင် ဖြစ်လေသည်။

တိုင်းပြုပြည်ပြုလွှတ်တော် ပဌမညီလာခံကို ၁၉၄၇ ခုနှစ် ဇွန်လ ၉ ရက်နေ့တွင် စတင်ကျင်းပခဲ့၏။ ဇွန်လ ၁၁ ရက်နေ့တွင် သခင်နုအား လွှတ်တော်ဥက္ကဋ္ဌအဖြစ် ရွေးကောက်တင်မြှောက်ခဲ့ကြ၍၊ ဇွန်လ ၁၆ ရက်နေ့တွင် ဗိုလ်ချုပ် ဦးအောင်ဆန်းသည် တိုင်းပြုပြည်ပြုလွှတ်တော်က ရေးဆွဲရမည်ဖြစ်သည့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအတွက် အခြေပြုရမည့် အချက်ကြီး ၇ ချက်ပါဝင်သော ရည်ညွှန်းပြဋ္ဌာန်းချက် အဆိုတရပ်ကို တင်သွင်းခဲ့လေသည်။ ဇွန်လ ၁၈ ရက်နေ့တွင် အဖွဲ့ဝင် ၇၅ ဦးပါဝင်သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကြမ်း ကော်မီတီကြီးနှင့်ဆပ်ကော်မီတီများကို ဖွဲ့စည်းခဲ့သည်။ ထိုနောက်တွင် တိုင်းပြုပြည်ပြုလွှတ်တော် ပဌမ ညီလာခံကို ရုပ်သိမ်းလိုက်လေသည်။

ထိုအတောအတွင်း ဇူလိုင်လ ၁၉ ရက်နေ့တွင် ဗိုလ်ချုပ်အောင်ဆန်းနှင့်တကွ အပေါင်းပါဝန်ကြီးများ လုပ်ကြံသတ်ဖြတ်ခြင်း ခံခဲ့ရသဖြင့်၊ တိုင်းပြည် အုပ်ချုပ်ရေးတာဝန်ကို သခင်နုက ခေါင်းဆောင်ခံယူလိုက်ရလေသည်။ သို့ဖြစ်၍၊ တိုင်းပြုပြည်ပြုလွှတ်တော် ဒုတိယညီလာခံကို ဇူလိုင်လ ၂၉ ရက်နေ့တွင် စတင်ကျင်းပခဲ့သောအခါ၊ လစ်လပ်လျက်ရှိသော လွှတ်တော်ဥက္ကဋ္ဌကြီးနေရာတွင် ညောင်ရွှေစော်ဘွားကြီး စောရွှေသိုက်အား ရွေးကောက်တင်မြှောက်လိုက်ကြလေသည်။ ထို ဒုတိယညီလာခံတွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကြမ်း ကော်မီတီက ရေးဆွဲခဲ့သော အခြေခံဥပဒေကြမ်းကို တင်ပြကာ၊ ဂရုတစိုက် ဆွေးနွေးစဉ်းစားကြပြီး၊ အခြေခံမူများကို လက်ခံလိုက်ကြလေသည်။ ထိုနောက် တတိယညီလာခံတွင် အပြီးသတ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတရပ်ကို ရေးဆွဲတင်ပြရန်ဟူသော ရည်ညွှန်းချက်များနှင့်တကွ၊ အခြေခံဥပဒေကြမ်း အချောရေးဆွဲရေး ကော်မီတီတရပ်သို့ အခြေခံဥပဒေကြမ်းကို လွှဲအပ်လိုက်ပြန်လေသည်။

တိုင်းပြုပြည်ပြုလွှတ်တော် တတိယညီလာခံကို ၁၉၄၇ ခုနှစ် စက်တင်ဘာလ ၁၅ ရက်နေ့တွင် စတင်ကျင်းပခဲ့၏။ ထိုညီလာခံတွင် ကရင်နီကိုယ်စားလှယ်တော်များ ပဌမဆုံးအကြိမ် တက်ရောက်ခဲ့ကြလေသည်။ အခြေခံဥပဒေကြမ်း အချောရေးဆွဲရေး ကော်မီတီက တင်ပြသည့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကြမ်းကိုလည်း စက်တင်ဘာလ ၂၄ ရက်နေ့တွင် တညီတညွတ်တည်း အတည်ပြုလိုက်ကြလေသည်။



တိုင်းပြည်ပြုလွှတ်တော် အစည်းအဝေးကျင်းပနေစဉ်
(ဗိုလ်ချုပ်အောင်ဆန်းကို ဝဲဖက်ခုံတန်းအစွန်တွင် တွေ့မြင်နိုင်သည်။)

ထိုပြင် ထိုညီလာခံ မရုပ်သိမ်းမီ၊ ညောင်ရွှေစော်ဘွားကြီး စောရွှေသိုက်အား နိုင်ငံတော် ယာယီသမတအဖြစ်၎င်း၊ သခင်နုအား ပြည်ထောင်စု ယာယီအစိုးရ ဝန်ကြီးချုပ် အဖြစ်၎င်း၊ ရွေးကောက်တင်မြှောက်ခဲ့ကြလေသည်။ ယင်းသို့ဖြင့် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင်၊ အချုပ်အချာ အာဏာပိုင် သမတနိုင်ငံဖြစ်သော 'ပြည်ထောင်စု မြန်မာနိုင်ငံ' ဖြစ်ထွန်း ပေါ်ပေါက်လာခဲ့လေသည်။ တိုင်းပြည်ပြုလွှတ်တော်သည် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ပုဒ်မ ၂၃၁ အရ၊ ပါလီမန်လွှတ်တော် နည်းလမ်းကျနစွာ ဖွဲ့စည်းတည်ထောင်ပြီးသည်အထိ၊ ယာယီပါလီမန်အဖြစ် ဆက်လက်တည်မြဲကာ၊ တာဝန်ဝတ္တရားများကို ဆက်လက်ထမ်းဆောင်သွားလေသည်။ (ပါလီမန်လွှတ်တော်၊ ပြည်ထောင်စု — လည်းရှု။)

**တိုင်းဗားမြစ်။** ။တိုင်းဗားမြစ်သည် ဣတလီနိုင်ငံအလယ်ပိုင်းတွင် အရေးပါ အရာရောက်သော မြစ်ကြီးဖြစ်သည်။ တပ်စကန်နီပြည်နယ်ဖက်ရှိ အက်ပနိုင်းတောင်တွင် မြစ်ဖျားခံ၍၊ မြေထဲပင်လယ်ထဲသို့ စီးဆင်းသည်။ ၂၄၅ မိုင်ခန့်ရှည်လျား၏။ အထက်ပိုင်းတွင် ရေစီးသန်၍၊ မြစ်ဝမှ မိုင် ၁၀၀ ခန့်အထိသာ သင်္ဘောများ ကူးသန်းသွားလာနိုင်သည်။ ထိုမြစ်ကြောင်းတလျှောက်တွင် မြို့ကြီး အများရှိရာ၊ ရောမမြို့ကြီးသည် ထိုမြစ်ဝမှ ၂၁ မိုင်ခန့် အကွာတွင် တည်ရှိသည်။

ရှေးရောမနိုင်ငံသမိုင်းတွင် ထိုမြစ်ကြီးမှာ အလွန်ထင်ရှား၏။ ရှေးရောမလူမျိုးတို့သည် တိုင်းဗား မြစ်ကြီးကို မှီခိုအားထားကြရသဖြင့် 'အဖ တိုင်းဗားမြစ်ကြီး' ဟု ခေါ်ဆိုကြလေသည်။ ရှေးရောမနိုင်ငံတွင် ရောမမြို့ကြီးမှာ မြို့တော်ဖြစ်၍၊ ထိုမြို့တော်ကို ရန်သူတို့ လွယ်ကူစွာဝင်ရောက်တိုက်ခိုက်ခြင်း မပြုနိုင်အောင် တိုင်းဗားမြစ်က ကာဆီးပေးထားလေသည်။ ထိုအကြောင်းနှင့်ဆက်သွယ်၍ ရောမ အာဇာနည်တဦး ပေါ်ထွက်ခဲ့ဘူး၏။

ရောမနိုင်ငံ တည်စခေတ်တွင် အီထရပ်စကန်လူမျိုးများကို လား ပေါ်စီနားအမည်ရှိ သူတဦးက ခေါင်းဆောင်၍ ရောမနယ်များကို သိမ်းပိုက်ရန် စစ်ချီလေ၏။ ထိုအခါ ရောမလူမျိုးတို့သည် ရန်သူတို့ကို အစွမ်းကုန် ခုခံကြရလေသည်။ သို့သော် ရန်သူအင်အားသည် တဖြည်းဖြည်း ကြီးမားလာလေရာ၊ ရောမမြို့၏ တဖက်ကမ်း တိုင်းဗားမြစ်ကိုဖြတ်ကူးထားသော တန်တားကို ရန်သူတို့ စီးမိလေသည်။

ထိုအချိန်တွင် ဟိုရေးရှပ်အမည်ရှိသော ရောမလူငယ်တဦးသည် ရန်သူကို ဆီးကြိုတိုက်ခိုက်ရမည့်တာဝန်ကို ယူလေသည်။ ထိုနောက် သူနှင့်အလားတူ သတ္တိရှိသော ရဲဘက်နှစ်ဦးနှင့်အတူတကွ တန်တားကိုဖြတ်ကျော်လာသော ရန်သူများကို တန်တားပေါ်မှဆီးကြို တိုက်ခိုက်ရာ၊ ရန်သူများသည် တန်တားကို ကျော်မတက်နိုင်ဘဲ အတုံးအရုံးကျဆုံးလေ၏။ ထိုအတွင်း နောက်ပိုင်းမှ တန်တားကိုဖျက်ချနေကြရာ၊ တန်တားကြီးမှာ ပြိုကျလုနီးပါးရှိ၏။ ဟိုရေးရှပ်ကား ဒဏ်ရာရရှိနေသော်လည်း၊ ရန်သူကို သဲသဲမဲမဲတိုက်ခိုက်လေ၏။ ထိုအခါ ရောမစစ်သည်တို့က ဟိုးရေးရှပ်တို့အား ပြန်ဆုတ်လာရန် အော်ပြောကြသော်လည်း၊ ဟိုးရေးရှပ်သည် တန်တားကြီး မြစ်ထဲသို့ ကျိုးကျသွားသည်အထိ တဖက်ကမ်းတွင် ကျန်ခဲ့လေ၏။

ထိုအခါမှ ဟိုးရေးရှပ်သည် တိုင်းဗားမြစ်ကြီးအား တိုင်တည်၍ မြစ်ထဲသို့ ခုန်ချလိုက်လေသည်။ ထိုနောက် ဟိုရေးရှပ်သည် အရှိန်ပြင်းလှသောရေးစီးထဲမှ မြစ်ကမ်းသို့ တက်လာနိုင်လေရာ၊ ရောမတို့က သောင်းသောင်းဖြဖြ ဆီးကြိုကြလေသည်။

ဤသို့အားဖြင့် ရောမ၏ရန်သူများသည် ဆုတ်ခွါသွားကြရသဖြင့် ရောမမြို့တော်ကြီးမှာ ရန်သူတို့ဘေးမှ ကင်းဝေးသွားလေ၏။ ရောမအုပ်ချုပ်ရေးအဖွဲ့က ဟိုးရေးရှပ်အား ခြီးမြှင့်မြှောက်စား၍၊ ရောမမြို့ကို ကယ်တင်သူအဖြစ် ကျောက်ရုပ်ပင် ထုလုပ်ထားကြလေသည်။ နောင်တွင်လည်း ဟိုးရေးရှပ်၏စွန့်စားပုံမှာ လူကြိုက်များသောပုံပြင်တခု ဖြစ်လာလေသည်။

**တိုင်းဝမ်ကျွန်း**။ ။တရုပ်နိုင်ငံမှ အရှေ့ဖက်သို့ မိုင် ၁၀၀ ခန့်၊ ဖိလစ်ပိုင်ကျွန်းမှ မြောက်စူးစူးသို့ မိုင် ၂၀၀ ခန့်အကွာတွင် တောတောင်ရေမြေတို့ဖြင့် အလွန်လှပတင့်တယ်သော ကျွန်းတကျွန်းသည်ရှိ၏။ ထိုကျွန်းကို ၁၅၉၀ ပြည့်နှစ်လောက်တွင် ပေါ်တူဂီလူမျိုး ရေကြောင်းသွားလာသူ ခရီးသည်တစုက တွေ့မြင်ကြလေရာ၊ ကျောက်တောင် ကျောက်စွန်းများဖြင့် လှပသော ကမ်းရိုးတန်း၊ မြင့်မားလှသော တောင်တန်းကြီး၊ စိမ်းလန်းစိုပြေသော သစ်တော၊ အရောင်မျိုးစုံခြယ်သန်းနေသော တောပန်းစသည်တို့ဖြင့် အလွန်လှပတင့်တယ် ရှုချင်စဖွယ်ကောင်းလှသဖြင့်၊ ပေါ်တူဂီတို့ စကားဖြင့် ‘အစ်လာဖော်မိုးဆား’ (လှပသည့်ကျွန်း) ဟု အမည်ပေးခဲ့လေသည်။ ထိုအခါမှစ၍၊ ဖော်မိုးဆားကျွန်းဟု တွင်သည်။ တရုပ်တို့ကမူ တိုင်းဝမ်ကျွန်းဟု ခေါ်ကြသည်။ ထိုကျွန်းသည် အရှေ့မှအနောက်သို့ မိုင် ၉၀ ကျယ်၍၊ တောင်မှမြောက်သို့ ၂၃၅ မိုင် ရှည်လေသည်။ စတုရန်းမိုင်ပေါင်း ၁၃,၈၉၀ ကျယ်ဝန်း၍၊ ၁၉၅၁ ခုနှစ် သန်းခေါင်စာရင်းအရ၊ လူဦးရေကား စစ်သားများမှအပ ၈ သန်းနီးပါးရှိ၏။ ကမ္ဘာ့အရှေ့ဖျားတွင် အကျယ်အဝန်းနှင့်မလိုက်အောင် လူဦးရေအများဆုံးသော ဒေသဖြစ်၏။ သို့ရာတွင် တိုင်းရင်းသားကား ၁၄၀,၀၀၀ ခန့်သာရှိ၍၊ ကျန်လူဦးရေမှာ တရုပ်လူမျိုးများ ဖြစ်ကြသည်။

တိုင်ဝမ်ကျွန်းသည် ဂျပန်ကျွန်းတန်း၏ အဆက်ဖြစ်သော်လည်း၊ ဂျပန်နိုင်ငံကဲ့သို့ မီးတောင်များမရှိချေ။ သို့ရာတွင် ရေပူတွင်းနှင့် ရေပူစမ်းများ ပေါလှသည်။ အလယ်ပိုင်းသည်ကား တောင်ထူထပ်လှ၏။ နီအိတားကားယာမာခေါ် မော်ရီဆန်တောင်ထိပ်သည် ပေပေါင်း ၁၄,၇၂၀ ခန့်မြင့်၍၊ ဂျပန်နိုင်ငံရှိ၊ ဖူဂျီယာမာတောင်ထက်ပင် မြင့်သေးသည်။ မြင့်မားသောတောင်တန်းတို့တွင် ထင်းရှူးတောများရှိ၍၊ နိမ့်ရာအရပ်တို့တွင်ကား၊ ငှက်ပျောပင်၊ ဖော့ပင်၊ ပရုတ်ပင်၊ ကျောက်ခက်ပင်၊ နွယ်ပင်များဖြင့် ပိတ်ဖုံးနေသောကြောင့်၊ အသွားအလာ မလွယ်ကူချေ။ ထိုသို့ တောကြီးသော အရပ်တွင် တောရိုင်းတိရစ္ဆာန်တို့အပြင် အဆိပ်ပြင်းသော မြွေများ ပေါသဖြင့်၊ အထူးပင် အန္တရာယ်များလှသည်။ တိရစ္ဆာန်တို့၏ဘေးအန္တရာယ်သာမက၊ တောနက်ကြီးများတွင် နေထိုင်ကြသော အလွန်ရိုင်းစိုင်း၍၊ လူတို့ကို လိုက်လံခေါင်းဖြတ် သတ်လေ့ရှိသော လူရိုင်းများ၏ အန္တရာယ်လည်း ကြောက်မက်ဖွယ်ဖြစ်သည်။

တိုင်းဝမ်ကျွန်းသည် ခရစ် ၁၆၈၃ ခုနှစ်လောက်ကစ၍ တရုပ်ပိုင် ဖြစ်ခဲ့သော်လည်း၊ ၁၈၉၅ ခုနှစ်တွင် ဂျပန်တို့၏ လက်အောက်သို့ ကျရောက်ခဲ့သည်။ ထိုကျွန်းတွင် တရုပ်တို့ မအုပ်စိုးမီက မလေး ဖိလစ်ပိုင်နိုလူရိုင်းမျိုးတို့ နေထိုင်ကြ၏။ တရုပ်လူမျိုးနှင့် ဂျပန်လူမျိုး နယ်သစ်ရှာဖွေသူများသည် ထိုကျွန်းသို့ရောက်၍ အပြိုင်အဆိုင် သိမ်းပိုက်ရန်စီစဉ်ခဲ့သော်လည်း၊ တိုင်း ရင်းသား လူရိုင်းများ၏ အန္တရာယ်ပြုမှုကြောင့် မနေနိုင်ကြချေ။ ထိုပြင် ပေါ်တူဂီ နယ်သစ်ရှာသမားတို့သည်လည်း ကြာရှည်မနေနိုင်ကြချေ။ ၁၆၂၄ ခုနှစ်လောက်ကျမှ၊ ဒပ်ချလူမျိုးတို့သည် အနောက်ဖက်ကမ်းတွင် စခန်းချ၍နေနိုင်ကြလေသည်။ ၁၆၆၂ ခုနှစ်တွင်မူ၊ တရုပ်မျိုးချစ်ပုဂ္ဂိုလ်တဦးဖြစ်သည့် ကော့ဆင်ဂါဟုတွင်သူ ချင်းချင်းကွန်းသည် ပင်လယ်ဓားပြများကို ခေါင်းဆောင်ကာ၊ လူရိုင်းများကို နှိမ်နင်း၍ တကျွန်းလုံးကို သိမ်းပိုက်လိုက်လေသည်။ ထိုနောက် ၁၈၉၅ ခုနှစ်တွင် တရုပ်တို့လက်ထဲမှ ဂျပန်တို့က သိမ်းယူခဲ့၏။ ယခု ဒုတိယကမ္ဘာစစ် ပြီးသည့်နောက် ၁၉၄၅ ခုနှစ်တွင် ကိုင်ရို ကျေညာချက်အရ၊ ဂျပန်တို့လက်မှ တရုပ်လက်သို့ အပ်လိုက်ရလေသည်။ ထိုစဉ်က တရုပ်ပြည်မကြီးတွင် ချန်ကေရှိတ်၏ အမျိုးသားအစိုးရ အုပ်ချုပ်နေသောအခါဖြစ်သည်။ ပြည်မကြီးမှ ချန်ကေရှိတ် ဆုတ်ခွာ၍ပေးရသောအခါ၊ ၁၉၅၀ ပြည့်နှစ်

မတ်လ ၁ ရက်နေ့တွင် ချန်ကေရှိတ်သည် တိုင်းဝမ်ကျွန်း၌ တရုပ်အမျိုးသားအစိုးရကို ဆက်လက်တည်ထောင်လေသည်။ (ချန်ကေရှိတ် — ရှု။)

တိုင်းဝမ်ကျွန်းသည် ကမ္ဘာပေါ်တွင် ပရုတ်အများဆုံးထွက်သော ကျွန်းဖြစ်သည်။ ပရုတ်ပင်တို့သည် တောတောင်အလုံး၌ အလိုလိုပင် ပေါက်ရောက်၏။ ပရုတ်သည် ဆေးဖက်တွင် များစွာအသုံးဝင်သဖြင့်၊ အဖိုးတန်လှသည်။ သို့ရာတွင် ခေါင်းဖြတ် သတ်တတ်သော လူရိုင်းများကြောင့်၊ ပရုတ်ရှာသူတို့သည် တောကြီးများသို့ မသွားရဲကြချေ။ တောကြီးများ၏ အတွင်းပိုင်းသို့ လူရိုင်းများမှတပါး၊ ယနေ့တိုင် မည်သူမျှ မရောက်ဘူးကြသေးချေ။ တိုင်းရင်းသား လူရိုင်းများသည် တတောင်နှင့်တတောင်ကို ကြိုးတန်တားဖြင့်ဆက်၍ ကူးကြသည်။ သို့ရာတွင် မကျင်လျှင်သူတို့ အဖို့ကား၊ မလွယ်ကူချေ။ လူရိုင်းများသည် တောတောင်ထဲတွင် အသွားအလာ ကျင်လျှင်ပြီးဖြစ်သဖြင့်၊ အမဲသားငါးလိုက်၍စားသောက်ကာ နေထိုင်ကြ၏။

ဂျပန်တို့ အုပ်စိုးစဉ်က လူရိုင်းများ၏ဘေးရန်ကို အထူးကာကွယ်ပေး၍၊ ပရုတ်လုပ်ငန်းကို အားပေးသဖြင့်၊ အလွန်တိုးတက်လာခဲ့သည်။ ယခုအခါ လူရိုင်းများကို တစတစ ယဉ်ကျေးအောင်ပြုပြင်ပေး၍၊ လယ်ယာလုပ်ကိုင်ခြင်းများကို သင်ပေးခဲ့သဖြင့်၊ ထိုလူရိုင်းတို့သည် တစတစ ယဉ်ကျေးလာပေပြီ။ ဂျပန်အစိုးရလက်အောက်တွင် ဆား၊ ပရုတ်၊ ဆေးနှင့် ဘိန်းလုပ်ငန်းတို့ကို အစိုးရပိုင်လုပ်ငန်းများအဖြစ် လုပ်ကိုင်ကြသည်။ ဆန်စပါးနှင့် လက်ဖက်ကိုလည်း စိုက်ပျိုးကြသည်။ ကြံပင်များကိုလည်းစိုက်ပျိုးကြသဖြင့်၊ သကြားစက်ရုံပေါင်း ၁၅၀ ခန့်ရှိ၍၊ နိုင်ငံခြားသို့ တင်ပို့နိုင်သည်။ မိုင်ပေါင်း ၆၀၀ ကျော်သော အစိုးရမီးရထားလမ်းများနှင့် သကြားကုမ္ပဏီများ၏ မီးရထားလမ်း များစွာပင်ရှိသည်။ သတ္တုတွင်းလုပ်ငန်းသည် ဤခေတ်တွင်မှ အထူးတိုးတက်လျက်ရှိသည်။ ရွှေ၊ ငွေ၊ ကြေး၊ ကျောက်မီးသွေး ထုတ်လုပ်ရေးသည် အဓိက သတ္တုလုပ်ငန်းဖြစ်၏။ ဒန်၊ သံ၊ သံမဏိတို့ကိုလည်း ထုတ်လုပ်၍ရသည်။ ၁၉၃၆ ခုနှစ်က တိုင်းဝမ်ကျွန်းသည် ရေနံချေးတန်ချိန် ၇၀၀,၀၀၀ ထုတ်လုပ်နိုင်ခဲ့သည်။ တိုင်ဟိုကူးမြို့ခေါ် တိုင်ပေမြို့သည် တိုင်းဝမ်ကျွန်းမြို့တော်ဖြစ်၏။ ၁၉၂၈ ခုနှစ်က ထိုမြို့တွင် တက္ကသိုလ်ကျောင်းကြီး တကျောင်း စတင်ဖွင့်လှစ်ခဲ့လေသည်။ ကီလွန်းမြို့နှင့် တိုင်နန်မြို့တို့သည် တိုင်းဝမ်ကျွန်း၏ ကျော်ကြားသော သင်္ဘောဆိပ်မြို့များဖြစ်သည်။

**တစ်ငှက်**။ ။အင်္ဂလိပ်အခေါ်အားဖြင့် တစ် (ဝါ) တစ်မောက် (ဝါ) တွမ်တစ်ဟုခေါ်သောငှက်သည် 'ပယ်ရိဒီ' မျိုးရင်းတွင် ပါဝင်သည်။ အလွန်သေးငယ်သော ငှက်ဖြစ်



အရွယ်ငယ်လှသော တစ်ငှက်မျိုးဝင် အကြီးဆုံး တစ်ငှက်ကြီးမျိုး

သည်။ ကမ္ဘာ့အရပ်ရပ်တွင် တွေ့နိုင်သည်။ ပိုးလောင်းကောင်တို့ကို ဖမ်းဆီးစားသောက်တတ်သဖြင့်၊ လယ်သမားတို့ကို အကျိုးကျေးဇူးပြုသော ငှက်ဖြစ်သည်။

တစ်ငှက်မျိုးသည် အထူးသဖြင့် မြောက်ကမ္ဘာလုံးခြမ်းတွင် ပေါများသည်။ ဗြိတိန်နိုင်ငံ၌ အတွေ့ရများသော တစ်ငှက်မျိုးသည် အရှည် ၄ လက်မခွဲခန့်ရှိသည်။ ထိုငှက်မျိုးသည် ခေါင်း ပြာ၏။ ပါး ဖြူ၏။ ကျော၌ စိမ်းဝါရောင်ရှိ၏။ လည်ပင်း မည်းသည်။ အတောင်နှင့်အမြီး ပြာ၏။ အောက်ပိုင်း ဝါ၏။ ထိုငှက်၏ သတ္တဗေဒအမည်မှာ 'ပေးရပ် စီရူးလီယပ် အောဗစကျူးရပ်' ဖြစ်သည်။

ဗြိတိန်နိုင်ငံ၌ အတွေ့ရများသည့် အခြားတစ်ငှက်တမျိုးမှာ တစ်ငှက်ကြီးဖြစ်သည်။ ထိုငှက်သည် ၆ လက်မမျှ ရှည်သဖြင့် တစ်ငှက်မျိုးတွင် အကြီးဆုံးဖြစ်သည်။ ထိုငှက်၏ ဦးခေါင်းနှင့်လည်ပင်းတို့တွင် တောက်ပသည့် အမည်းရောင်ရှိသည်။ မျက်စိအောက်ဖက်တွင် အဖြူကွက် တခုစီရှိသည်။ အောက်ပိုင်း စိမ်းဝါသည်။ ထိုငှက်၏ သတ္တဗေဒအမည်မှာ 'မေဂျာ နျူတိုနီ' ဖြစ်သည်။ အခြားတစ်ငှက်တမျိုးသည် ခေါင်းမည်း၏။ လည်ကုပ်တွင် အဖြူကွက်ရှိ၏။ ကျန်ကိုယ်ပိုင်းတွင် မွဲပြာရောင်ရှိသည်။ ထိုငှက်၏ သတ္တဗေဒအမည်မှာ 'အေတာ ဗြိတန်နီကပ်' ဖြစ်သည်။ အခြားတစ်ငှက်တမျိုးမှာ ခေါင်းမည်း၏။ အတောင်နှင့်ကျော၌ မွဲပြာ

ရောင်ရှိ၏။ ပါး၊ လည်ချောင်းနှင့်ရင်ပတ်တို့ ဖြူ၏။ ထိုတစ်ငှက်မျိုး၏ သတ္တဗေဒအမည်မှာ 'ပယ်လပ်စတြစ် ဒြက်ဆာရီ' ဖြစ်သည်။ တစ်ငှက်များတွင် အတွေ့ရနည်းသည့်အမျိုးမှာ အမောက်ရှိသည့် တစ်ငှက်မျိုးဖြစ်သည်။ ထိုငှက်မျိုး၏ အမောက်တွင် အဖြူနှင့်အမည်းရောင် အမွေးများရှိ၍၊ အခြားအပိုင်းများတွင် နီညိုရောင်ရှိသည်။ ထိုတစ်ငှက်မျိုး၏ သတ္တဗေဒအမည်မှာ 'ကရစ်စတေးတပ် စကိုတီကပ်' ဖြစ်သည်။ နှုတ်သီးအောက်တွင် နီညိုရောင်အမွေးများရှိသည့် တစ်ငှက်တမျိုးလည်း ရှိသေးသည်။ ထိုတစ်ငှက်မျိုး၏ သတ္တဗေဒအမည်မှာ 'ပန်နူရပ် ဗိုင်အာမိကပ်' ဖြစ်သည်။ အခြား တွေ့နိုင်သေးသော တစ်ငှက်တမျိုးမှာ အမြီးရှည်တစ်ငှက်တမျိုးဖြစ်သည်။ ထိုတစ်ငှက်မျိုး၏ကျောဖက်တွင် အမည်းနှင့်နှင်းဆီရောင် ရောလျက်ရှိသည်။ အတောင်နှင့် အမြီးများသည် အမည်းရောင် ဖြစ်သော်လည်း၊ အများတွင် အဖြူရောင်ရှိသည်။ အမြီးလည်း အလွန်ရှည်သည်။ အသိုက်ကို အုံသြစဖွယ် လိုဏ်ပုံလုပ်လေ့ရှိသည်။ အသိုက်၏ ထိပ်ဖက်နားတွင် အပေါက်ရှိသည်။ ထိုတစ်ငှက်မျိုး၏ သတ္တဗေဒအမည်မှာ 'အီဂီသေးလော့ ကောဒေးတပ် ရိုဆီယပ်' ဖြစ်သည်။ အခြား တစ်ငှက်မျိုးစိတ်များသည် သစ်ပင်အခေါင်းများတွင်ဖြစ်စေ၊ တိုင်အိုကြီးများနှင့် အခြားအလားတူနေရာမျိုးတွင်ဖြစ်စေ အသိုက်လုပ်တတ်ကြသည်။ ဥများမှာ ငယ်၏။ သို့သော်လည်း၊ အလွန်များစွာအုတတ်သည်။ အမြီးရှည်တစ်ငှက်သည် တခါတရံ ၁၅ ဥအထိ အုတတ်သည်။

**တစ္ဆေ**။ ။တစ္ဆေဟူသည် အထူးထူးအပြားပြားကို ဖန်ဆင်းနိုင်သော နာနာဘာဝတမျိုး ဖြစ်သည်။ တဘဝမှ တဘဝသို့ ကူးပြောင်းမှုတွင် ယုံကြည်သောသူတို့သည် တစ္ဆေရှိသည်ကို မုချ ယုံကြည်ကြ၏။ တမလွန်ဘဝကို ယုံကြည်သူ အချို့ကလည်း၊ တစ္ဆေကို မျက်မြင် ကိုယ်တွေ့မဟုတ်သဖြင့်၊ ယုံကြည်ရန် ခက်နေကြသည်။ တစ္ဆေဟူသော နာနာဘာဝမျိုး ရှိကြောင်းကို ပေတဝတ္ထုပါဠိတော်၊ ဝိမာနဝတ္ထုပါဠိတော်စသော ကျမ်းတို့၌ အထင်အရှားရှိသည်။

ဝေသာလီပြည်၌ ဘီလူးတစ္ဆေတို့ နှောက်ယှက်သဖြင့်၊ အာနန္ဒာမထေရ်မြတ်အား မြတ်စွာဘုရားသခင်က ရတနသုတ် ပရိတ်ကို ရွတ်ဖတ်သရဇ္ဈာယ်စေမှု၊ ဘီလူး တစ္ဆေတို့၏ ဘေးရန် ကင်းသွားပုံကို ဓမ္မပဒအဋ္ဌကထာတွင်လည်း ဆိုသည်။ ဝိနည်းတော်လာ ပါရာဇိကဏ်ပါဠိတော် အဒိန္နာဒါန် ဒုတိယပါရာဇိကအပိုင်းတွင်၊ ရဟန်းတို့အား မပျက်မစီးသော အစိမ်းလတ်လတ်၌၊ ပွံသကူ မကောက်အပ်ကြောင်း၊ ပညတ်တော်မူခဲ့သည်မှာလည်း၊ လူသေ၌ကပ်သော တစ္ဆေကို အကြောင်းပြု၍၊ ဖြစ်ပေါ်ခဲ့ခြင်းဖြစ်သည်။ ရှေးသမိုင်းများ၌လည်း၊ တိုင်းပြည် ပျက်ခါနီးသော်၎င်း၊ ဘုရင် နတ်ရွာစံခါနီးသော်၎င်း တစ္ဆေဘီလူးတို့ ကိုယ်ထင်ပြကြောင်းဖြင့် ဆိုကြသည်။ အနောက်နိုင်ငံ စာပေများ၌လည်း တစ္ဆေအကြောင်း မကြာခဏ တွေ့ရှိရသည်။

တစ္ဆေ၊ မှင်စာ၊ အစိမ်း၊ သရဲ၊ သဘက်၊ ဘုတ်၊ ကျုတ်၊ ဥစ္စာစောင့်၊ ဘီလူး၊ ရက္ခ၊ နတ်ဆိုးစသည်တို့သည် အမျိုးပေါင်း များစွာရှိကုန်သည်။ သို့ရာတွင် အချို့က ခြောက်လှန့်တတ်သော အမျိုးမှန်သမျှကို တစ္ဆေဟု ယေဘုယျပြု၍ ခေါ်ဆိုကြသည်။ ခြိမ်းခြောက်တတ်သည်ဟူသော အဓိပ္ပါယ်ရသည့် တဇ္ဇေသဒ္ဒါမှ တစ္ဆေဟူသောအမည် ဖြစ်လာသည်ဟု ယူဆကြသည်။ ခြိမ်းခြောက်သည်ဟူရာ၌ ကိုယ်ထင်ပြခြင်း၊ ခြောက်လှန့်ခြင်း၊ ညည်းညူခြင်း၊ အနှံ့ပေးခြင်း၊ ပူးဝင်ခြင်းစသည်တို့ ဖြစ်သည်။ တစ္ဆေတို့သည် ကြီးအောင်၊ ငယ်အောင်၊ ဖြူအောင်၊ မည်းအောင်၊ မြင်အောင်၊ ကွယ်ပျောက်အောင် ပြုနိုင်ရုံမက၊ ခွေးယောင်၊ မြင်းယောင်၊ အိမ်သဏ္ဌာန်၊ တိုက်သဏ္ဌာန်၊ ယောကျ်ားပျိုအသွင်၊ မိန်းမပျိုအသွင် အထွေထွေအထူးထူးပြု၍ ပြနိုင်သော ကမ္မဇိဒ္ဓိတန်းခိုးရှိသဖြင့်၊ အချို့က ယင်းတို့ကို နတ်မျိုးအပါအဝင်ဖြစ်သည်ဟု ဆိုကြသည်။

တစ္ဆေခြောက်သည်ဟူရာ၌ အခါခပ်သိမ်း ကြောက်လန့်အောင် ခြောက်သည်ချည်းမဟုတ်၊ နှုတ်ဆက်လို၍ ခြောက်ခြင်း၊ စားသောက်ချင်၍ ခြောက်ခြင်း၊ သိစေမြင်စေလို၍ ခြောက်ခြင်းစသည်ဖြင့် တစ္ဆေခြောက်ခြင်း ၁၂ မျိုးခန့် တွေ့ရသည်။

များစွာသော တစ္ဆေနှင့်ပတ်သက်သည့်ကျမ်းများတွင် တစ္ဆေတို့၌ ဦးထုပ်ရှိ၏။ ယင်းဦးထုပ်သည် တစ္ဆေတို့၏ ခွန်အားပင်ဖြစ်သည်ဟု ဆိုလေသည်။

ဘီလူးတစ္ဆေတို့သည် နှမ်းမှုံ၊ ပဲဆွမ်း၊ ငါး၊ အမဲစသည့် အစာတို့ကို ကြိုက်နှစ်သက်တတ်သည်ဖြစ်၍၊ အာဋာနာဋိယသုတ်ကို ရွတ်ဖတ်အံ့သော ရဟန်းတို့သည် ယင်းအစာကို မစားအပ်ကြောင်း၊ ဝိနယသင်္ဂဟကျမ်းတွင် ဆိုထားလေသည်။

တစ္ဆေတို့တွင်လည်း အမျိုးမျိုးအစားစား ရှိသည်။ မိမိတို့အာဟာရအလို့ငှာ လူတဦးတယောက်ကို ပူးဝင်ကာ စားရသောက်ရသောအမျိုး၊ အနံ့ခံရုံနှင့် ကိစ္စပြီးသောအမျိုး၊ ချက်ပြီးကြော်ပြီးကိုသာ ကြိုက်တတ်သောအမျိုး၊ အစိမ်းလိုက်စားမှ တင်းတိမ်သောအမျိုး၊ ဇရပ်အိုကျောင်းပျက်၌နေသောအမျိုး၊ သုသာန်သင်္ချိုင်း၌ နေသောအမျိုး၊ လူနားနီးနီး နေသောအမျိုး၊ တောလမ်းတောင်ကြား နေသောအမျိုး၊ ဘုရားသံတရားသံကို မကြားချင် မကြားနိုင်သော အစား၊ ကြားချင်နာချင်သော်လည်း၊ ကြားနာခွင့်မရသော အ

စား၊ ဘုရားသံတရားသံ ကြားသဖြင့်၊ ရပ်တည်ရာမရဘဲ၊ လွင့်စင်သွားရသောအစား၊ ဘုရားသံတရားသံ ကြားနာခွင့်ကြုံခိုက် သာယာလိုက်သဖြင့် အတန်းမြင့်အဆင့်တိုးပြီး၊ တန်းခိုးကြီးနေသောအစား စသည်ဖြင့် အမျိုးမျိုးရှိသည်။

တစ္ဆေယုံကြည်သူတို့သည် ခေါစာ ပစ်ခြင်း၊ စလောင်းစာ ပစ်ခြင်းအမှုတို့ကိုပြု၍၊ မိမိတို့အား အစာအာဟာရအတွက် ပူးဝင်နှောင့်ရှက်ခြင်းမပြုရန် ကာကွယ်လေ့ရှိကြသည်။

**တစ်တီတူး။** ။တစ်တီတူးသည် ‘ကယ်ရာဒရိုင်အီဒီး’ မျိုးရင်းတွင်ပါဝင်သော ငှက်ဖြစ်သည်။ ထိုငှက်ကို ဇီဝဗေဒအလိုအားဖြင့် ‘လိုဗီဗင်နဲလပ် အင်ဒီကပ်’ ဟုခေါ်သည်။ တစ်တီတူးဟု ခေါ်ခြင်းမှာ ထိုငှက်၏အော်သံကို အစွဲပြု၍ခေါ်ခြင်းဖြစ်သည်။ အလျား ၁၃ လက်မခန့်ရှိသည်။ ခါထက် ကိုယ်ထည်အနည်းငယ် ပို၍ကြီး၏။ ခြေတံလည်တံများသည်လည်း ခါ၏ခြေတံလည်တံများထက် ရှည်သည်။

တစ်တီတူးကို လူသိများသည်။ တစ်တီတူး၏ ကိုယ်အပေါ်ပိုင်းတွင် အညိုရောင်ရှိ၍ အောက်ဖက်တွင် အဖြူရောင်ရှိသည်။ မျက်နှာ၊ ရင်အုပ်နှင့်ဦးခေါင်းတို့သည် မည်းနက်သည်။ တစ်တီတူး အဖို၊ အမတို့တွင် မျက်လုံးတဖက်စီ၏အပေါ်နှင့်ရှေ့ဖက်၌ ကြက်သွေးရောင် အသားပို တခုစီ ရှိသည်။ ငှက်ငယ်ဦးခေါင်းရှိ အမွေးများသည် အဖျားတွင်ညိုရောင်သန်းနေသည်။ မေးနှင့်စလုတ်တို့ ဖြူသည်။

တစ်တီတူးသည် အနှောင့်အရှက်ခံရလျှင် ပျံဝဲ၍ ထပ်တလဲလဲ ကျယ်လောင်စူးရှစွာ အော်နေတတ်သည်။ တစ်တီတူးကို သဲသောင်ပြင်၌၎င်း၊ စိုက်ပျိုးခင်းနှင့် သွေ့ခြောက်သောကုန်းမြင့်ရှိ မြေလပ်များ၌၎င်း တွေ့ရသည်။ ထို့ပြင် ထုံးအိုင်ဒေသများတွင်လည်း တွေ့နိုင်သည်။ ဒီရေ အတက်အကျရှိသော ဒေသများတွင်မူ တစ်တီတူးကို မတွေ့ရတတ်ချေ။ ရန်သူ အနီးအနား၌ရှိသည်ဟု မယုံသင်္ကာဖြစ်သောအခါ၊ ခေါင်းညိတ်လေ့ရှိသည်။ ထိုကဲ့သို့ ခေါင်းညိတ်သည့်အလေ့မှာ တစ်တီတူးငှက်၏ ထူးခြားချက်ပင်ဖြစ်သည်။

တစ်တီတူးသည် မြေကြီးပေါ်၌ ခုန်ဆွခုန်ဆွ သွားလာကာ ပိုးမွှားကောင်နှင့် ခရုမျိုးများကို ရှာဖွေစားသောက်သည်။ ထိုငှက်သည် နေ့အချိန်၌သာမဟုတ်၊ ညအချိန်၌လည်း ပျံသန်းအော်မြည်နေတတ်သည်။ ပျံသန်းသည့်အခါတွင် တောင်ပံများကို မှန်မှန်ရိုက်၍ နှေးနှေးပျံလေ့ရှိသည်။ ခဏပျံသန်းပြီးနောက် မြေကြီးသို့တဖန် သက်ဆင်းပြီးလျှင် အနည်းငယ် ခုန်ဆွခုန်ဆွ သွားလေ့ရှိသည်။ ထိတ်လန့်သောအခါတွင် လျင်မြန်စွာ ပျံသန်းနိုင်သည့်ပြင် ပျံသန်းနေခိုက်၌ ကိုယ်ကိုလည်း ကျင်လျင်စွာလှည့်ပတ်၍ လှုပ်ရှားနိုင်သည်။

မတ်လနှင့်ဩဂုတ်လတို့တွင် ဥအုလေ့ရှိသည်။ မြေကြီးပေါ်၌ သဘာဝအလျောက် ချိုင့်နေသည့်နေရာများတွင် အသိုက်လုပ်တတ်သည်။ မိုးဥတုကရေဝပ်ခဲ့သော ချိုင့်ခွက်များ၌၎င်း၊ ကျွဲနွားတို့၏ ခြေရာခွက်များ၌၎င်း အသိုက်လုပ်လေ့ရှိသည်။ ရေခြောက်နေသောကန်များ၌လည်း တစ်တီတူးအသိုက်များကို တွေ့ရတတ်သည်။ အသိုက်တခုတွင် ၃ ၄ ၃ တွေ့ရလေ့ရှိသည်။ ငှက်ဥ၌ အညိုရောင်တွင် အမည်းကွက်များရှိသည်။ ထိုဥအရောင်နှင့် ပေါက်စငှက်ငယ်ကလေးများ၏ အရောင်သည် ပတ်ဝန်းကျင်ရှိအရောင်နှင့် ဆင်တူလှသဖြင့် ယင်းတို့ကို ပတ်ဝန်းကျင်နှင့်ခွဲခြား၍သိရန် ခဲယဉ်းသည်။ ငှက်ဖိုနှင့်ငှက်မများသည် သူတို့၏ငှက်ငယ်ကလေးများကို အလွန်ဝီရိယကြီးစွာ စောင့်ရှောက်ကြသည်။ အကယ်၍ သူတို့၏အသိုက်အနီးသို့ အခြားတိရစ္ဆာန်များ ကျူးကျော်လာလျှင် ပြင်းထန်စွာခုခံတတ်ကြသည်။



နေ့ရောညပါ ထထကြွကြွ အစာရှာလေ့ရှိသည့် တစ်တီတူး

**တစ်ရှူး။** ။တစ်ရှူးဟူသည်မှာ ဖီဇီဩလိုဂျီအလိုင်ှာ တခုသောလုပ်ငန်းကို အတူတကွ ဆောင်ရွက်လျက်ရှိကြသော ဆဲအဖွဲ့အစည်းဖြစ်သည်။ (ဆဲ — ရှု။) ယင်းတို့၏ ဖွဲ့စည်းတည်ဆောက်ပုံနှင့် မူလဖြစ်ပေါ်လာပုံတို့မှာ တူညီကြသည်။ တစ်ရှူးကို မြန်မာလို အသားမျှင်ဟူ၍လည်း အနက်ပေးကြသည်။ တစ်ရှူးကို လေးမျိုးပိုင်းခြားထားသည်။ ပဌမအမျိုးမှာ အက်ပီသီလျမ် တစ်ရှူးခေါ် အဖုံးတစ်ရှူး ဖြစ်သည်။ အဖုံးတစ်ရှူးကား ခန္ဓာကိုယ်အဆောက်အအုံကို ဖုံးကာထားသော တစ်ရှူးဖြစ်သည်။ ပုံစံပြရလျှင်၊ ကျွန်ုပ်

တို ခန္ဓာကိုယ်၏အရေပြားသည် အဖုံးတစ်ရှူးဖြင့် ပြီးသည်။ ဒုတိယအမျိုးမှာ ခန္ဓာကိုယ်၏ ကြွက်သားအဖွဲ့တွင်ပါဝင်သော ရှုံ့နိုင်တစ်ရှူးဖြစ်သည်။ (ကြွက်သား — ရှု။) အမည်နှင့်လိုက်အောင် ထိုတစ်ရှူး၌ပါဝင်သော ဆဲတို့သည် ရှုံ့နိုင် ပွနိုင်ကြသည်။ ရှုံ့နိုင်တစ်ရှူးကြောင့်၊ ခန္ဓာကိုယ်၏ အစိတ်အပိုင်းအသီးသီးတို့ လှုပ်ရှားနိုင်ကြသည်။ တတိယအမျိုးမှာ ဆက်တစ်ရှူးဖြစ်သည်။ ဆက်တစ်ရှူး၏ သဘောမှာ ခန္ဓာကိုယ်အစိတ်အပိုင်းအသီးသီးတို့ကို ဆက်စပ်ပေး၍၊ အထောက်အပံ့ပြုသော တစ်ရှူးများဖြစ်သည်။ အမျှင်၊ ရှုန်းကန်မျှင်၊ အရိုးနု၊ ရှုန်းကန်ရိုးနု၊ အဆီစသည်တို့သည် ဆက်တစ်ရှူးများဖြစ်ကြသည်။ စတုတ္ထအမျိုးအစားမှာ နာဗ်ကြောအဖွဲ့တွင်ပါဝင်သော ဆဲအစုအဝေးတို့ဖြစ်လေရာ၊ ယင်းကို နာဗ်ကြောတစ်ရှူးဟု ခေါ်လေသည်။ (နာဗ်ကြောများ — လည်းရှု။)

**တစ်ရှန်** (ခရစ် ၁၄၇၇ ခန့်-၁၅၇၆)။ ။၁၆ ရာစုနှစ်အတွင်း ဣတလီနိုင်ငံ ဗင်းနစ်မြို့တော်၌ ပေါ်ထွန်းခဲ့သော ပန်းချီပညာကျော်ကြီး တစ်ရှန်သည် ၁၄၇၇ ခုနှစ်ခန့်တွင် ဗင်းနစ်မြို့၏မြောက်ဖက် အယ်လပိုင်းဒေသ၌ ဖွားမြင်လေသည်။ တစ်ရှန်၏အမည်ရင်းမှာ တီဆီယားနို ဗေချယ်လီယို ဖြစ်သည်။ ငယ်စဉ်က ဗင်းနစ်မြို့တော်၌ထင်ရှားခဲ့သော ပန်းချီပညာကျော်ကြီးများဖြစ်သူ ဂျိန်တီးလေ ဗေလီနီနှင့် ဂျိဗန္နီး ဗေလီနီတို့ထံတွင် ပန်းချီပညာကို သင်ကြားခဲ့ရ၏။

တစ်ရှန်သည် ပန်းချီပညာကို စတင်လေ့လာ သင်ကြားနေစဉ် နောင်အခါတွင် ပန်းချီလောက၌ ထင်ရှား ကျော်ကြားလာမည့် ဂျော်ဂျီးနေ ဆိုသူနှင့် ခင်မင် ရင်းနှီးခဲ့လေသည်။ ပန်းချီပညာကျော်ကြီးများထံ တပည့်ခံ၍ တတ်မြောက်လာသည့်အချိန်၌ တစ်ရှန်သည် ဂျော်ဂျီးနေနှင့်ပင် ပူးတွဲကာ ပန်းချီရေးဆွဲသည့်လုပ်ငန်းကို လုပ်ကိုင်ခဲ့လေသည်။ ခရစ် ၁၅၁၀ ပြည့်နှစ်တွင် ဂျော်ဂျီးနေ ကွယ်လွန်သောအခါ၊ တစ်ရှန်သည် ဂျော်ဂျီးနေ၏ နည်းနိဿယတို့ကိုမှီး၍ ထိုနည်းကို တိုးတက်အောင် ကြိုးပမ်းခဲ့သဖြင့် ကျော်စောလာသည်။

ဗင်းနစ်မြို့ကြီးတွင် တစ်ရှန်၏အမည် ကျော်ကြားလာသည်နှင့်တပြိုင်နက် ရှေးကထက် လူချစ်လူခင် ပေါများလာပြီးလျှင်၊ ပန်းချီကားများအတွက် အခကြေးငွေကောင်းကောင်းရခြင်းကြောင့်လည်း ကြွယ်ဝချမ်းသာလာခဲ့လေသည်။ ဗင်းနစ်မြို့တွင်သာမက၊ ဣတလီတပြည်လုံးသို့ပင် အချိန်အနည်းငယ်အတွင်း သူ၏ကောင်းသတင်းမှာ ပျံ့နှံ့သွားလေ၏။ ထိုသို့ထင်ရှားကျော်စောလာခြင်းကြောင့် အစိုးရက တစ်ရှန်အား အစိုးရပန်းချီဌာနတွင် ကြီးကြပ်အုပ်ချုပ်သူအဖြစ် ခန့်ထားခဲ့သဖြင့် တစ်ရှန်၏ဝင်ငွေမှာ



ဣတာလျံလူမျိုး ပန်းချီအနုပညာကျော် တစ်ရှန်

ရှေးကထက်ပိုလာခဲ့၏။ အဆိုပါ တာဝန်ခံရာထူးကို လက်ခံလိုက်သဖြင့် သူ၏ဆရာ ဗေလီနီ တပိုင်းတစ ရေးဆွဲထားခဲ့သောပုံများကိုလည်း အပြီးသတ်ရေးဆွဲပေးခဲ့ရလေသည်။ ထိုပြင် ဗင်းနစ်မြို့ကြီးကို စိုးစံခဲ့ကြသော မြို့စားမင်း အဆက်ဆက်၏ ပုံများကိုလည်း တခုပြီးတခု ရေးဆွဲခဲ့ရ၏။

ဤသို့ရေးဆွဲပေးရခြင်းကြောင့် မင်းညီမင်းသားများ၊ မှူးကြီးမတ်ကြီးများ၊ သာသနာ့ဝန်ထမ်းပုဂ္ဂိုလ်ကြီးများနှင့် ရင်းနှီးလာခဲ့ရပေသည်။ ရုပ်ဆင်း တင့်တယ် သန့်ရှင်း၍၊ ထီးမူနန်းရာ အဖြာဖြာတို့ကို တတ်သိလိမ္မာခြင်းကြောင့် တစ်ရှန်အား မြို့စား၊ ရွာစား၊ မင်းညီမင်းသားများက တန်းတူထား၍ ပေါင်းသင်းဆက်ဆံခဲ့ကြသည်။ မင်းညီမင်းသား၊ မှူးကြီးမတ်ကြီးများ၏ ပုံများကို အခါအား လျော်စွာ ရေးဆွဲခဲ့ရာ ထိုပန်းချီကားကြီးများသည် တစ်ရှန်၏ အကောင်းဆုံးသော လက်ရာများပင် ဖြစ်လေသည်။

တကြိမ်တွင်မူကား၊ သာသနာစောင့် ရောမနိုင်ငံတော် ကေရာဇ်ဘုရင် ပဉ္စမချားလ်၏ပုံတူကိုရေးဆွဲခဲ့ရာ အလွန်တူလှသဖြင့် ချားဘုရင်ကိုယ်တိုင် အထူးပင် နှစ်ခြိုက်ခဲ့လေသည်။ ချားဘုရင်သည် ပန်းချီကျော် တစ်ရှန်အား ခြီးမြှောက်သည့်အနေဖြင့် ကောင့်ဘွဲ့ ချီးမြှင့်၍ သူကောင်းပြုလေသည်။ ဤမျှတစ်ရှန်အား မြှောက်စားရသည်ကိုပင် အားရတော်မမူ

သေးဘဲ၊ တစ်ရှန်၏သားသမီးများကိုပင် မှူးမျိုးမတ်နွယ်တို့၏ အဆောင်အယောင်များ ပေးအပ်ခဲ့လေသည်။

မည်မျှပင် ဂုဏ်မြင့်လာစေကာမူ တစ်ရှန်သည် ဂုဏ်လောကတွင် ဂုဏ်အရသာယစ်မူးနေခြင်းမရှိ၊ သူ၏ပန်းချီပညာကိုသာ တနေ့တခြား တိုးတက်အောင် ကြိုးစားအားထုတ်လာခဲ့ပေသည်။ သူ့တသက်တာတွင် ပန်းချီကားပေါင်း ၆၀၀ ကျော်မျှ ရေးဆွဲခဲ့သည့်အနက် အားလုံးလိုလိုပင် လူကြိုက်များသော်လည်း၊ သူကိုယ်တိုင်ကမူ စိတ်တိုင်းမကျခဲ့ချေ။ ထပ်မံပြုပြင်ရန်ပင် စိတ်ကူးခဲ့သေးသည်။ တစ်ရှန်သည် မိန်းမချော မိန်းမလှပုံများကို ရံဖန်ရံခါသာ ရေးဆွဲလေ့ရှိသည်။ အများအားဖြင့် ဘုရင်များ၊ ပုပ်ရဟန်းမင်းကြီးများ၊ မြို့စား၊ မှူးမတ်၊ သေနာပတိကြီးများ၏ပုံကိုသာ အနေအထားအမျိုးမျိုးဖြင့် ရေးဆွဲခဲ့လေသည်။ ဘုရားရှိခိုးကျောင်းကြီးများအတွင်း သူရေးဆွဲခဲ့သော သာသနာရေးဆိုင်ရာ ပန်းချီကားကြီးများမှာလည်း ၁၆ ရာစုနှစ်က ပေါ်ပေါက်ခဲ့သောပန်းချီပညာ အဆင့်အတန်းမြင့်ပုံကို ဖော်ပြလျက်ရှိကြလေသည်။ ထို့ပြင် ထိုပန်းချီကားကြီးများကို ကြည့်ရှုဆင်ခြင်ခြင်းအားဖြင့်လည်း တစ်ရှန်သည် ရောင်စုံဆေး ရေးဆွဲခြင်း၌ လက်မြောက်လှကြောင်း သိနိုင်ပေသေးသည်။

တစ်ရှန်သည် အသက် ၉၉ နှစ်အရွယ်တွင် ၁၅၇၆ ခုနှစ် ဩဂုတ်လ ၂၇ ရက်နေ့၌ ပလိပ်ကပ်ရောဂါဖြင့် ကွယ်လွန်အနိစ္စရောက်လေသည်။

**တည်ပင်။** ။တည်ပင်သည် အက်ဗနီပင်မျိုးဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် 'ဒိုင်အော့စပိရော့' မျိုးစိတ်ဖြစ်၍ 'အက်ဗိနေစီအီး' မျိုးရင်းတွင် ပါဝင်သည်။ အဓိကအားဖြင့် တည်ပင်မျိုးပေါင်း ၃ မျိုးရှိသည်။ သို့သော် တမျိုးနှင့် တမျိုးမှာ ဆင်တူယိုးမှားဖြစ်သည်။ အရှေ့တိုင်းများတွင် စိုက်ပျိုးကြသော တည်ပင်တမျိုးကို 'ဒိုင်အော့စပိရော့ ကာကီး' ဟုခေါ်သည်။ အထူးအားဖြင့် ယင်းကို တရုပ်နိုင်ငံအလယ်ပိုင်းနှင့် မြောက်ပိုင်းဒေသများတွင် စိုက်ပျိုးကြသည်။ မြန်မာနိုင်ငံတွင်လည်း စိုက်ပျိုးကြသည်။ တည်သီးများကို အင်းဝခေတ်က တရုပ်နိုင်ငံမှ အမြောက်အမြားတင်သွင်းခဲ့သည်ဟုဆိုသည်။ ထိုတည်ပင်မျိုးကို ပြင်သစ်နိုင်ငံ တောင်ပိုင်းနှင့် အမေရိကန်ပြည်ထောင်စုတို့၌လည်း စိုက်ကြသည်။

ထိုတည်ပင်များ၏အရွက်မှာ ကြီး၍ တောက်ပသော အစိမ်းနက်ရောင်ရှိသည်။ အပွင့်အရောင်မှာ စိမ်းဝါဝါဖြစ်သည်။ အသီးသည် ခရမ်းချဉ်သီးနှင့် ပုံသဏ္ဌာန်တူသည်။ အရောင်မှာ အဝါမှအနီအထိ အမျိုးမျိုးရှိသည်။ ကောင်းစွာမှည့်မှပင် စား၍အရသာရှိသည်။ တည်သီးကို လတ်လတ်ဆတ်ဆတ်ဖြစ်စေ၊ အခြောက်လှန်း၍ဖြစ်စေ၊ ယိုထိုး၍ဖြစ်စေ စားကြသည်။

အမေရိကန်ပြည်ထောင်စုတွင် အရိုင်းပေါက်သော 'ဒိုင်အော့စပိရော့ ဗာဂျင်းနီအားနား' ခေါ် တည်ပင်တမျိုး ရှိသည်။ ထိုတည်ပင်မျိုးသည် ပေပေါင်း ၃၀ မှ ၅၀ အထိမြင့်သည်။ အရွက်မှာ ငှက်ပျောဖူးပုံသဏ္ဌာန်ရှိသည်။ အသီးများမှာ အချင်း လက်မဝက်မှ ၂ လက်မအထိရှိသည်။ အသီးထဲရှိ အသားသည် လိမ်မော်ဝါရောင်ရှိ၍၊ အစေ့များ ပါရှိသည်။ မမှည့်မီ အလွန်တရာဖန်၏။ မှည့်လာသောအခါ အနံ့အရသာ အထူးကောင်းပေသည်။ ထိုတည်ပင်၏အသားမှာ ကျစ်လစ်၍ မာသည်။ ရက်ကန်းလွန်းနှင့် ဂေါက်သီးရိုက်တံများ ပြုလုပ်ရာတွင် အသုံးပြုကြသည်။ မြန်မာနိုင်ငံ၌လည်း သစ်သားကောင်း ရနိုင်သော တည်ပင်မျိုးများရှိသည်။

'ဒိုင်အော့စပိရော့ လိုတပ်' ဟုခေါ်သော တည်ပင်တမျိုးကို ဣတလီနိုင်ငံနှင့် အရှေ့တိုင်းနိုင်ငံများတွင် စိုက်ကြသည်။ မြန်မာနိုင်ငံ၌လည်း ထိုတည်ပင်မျိုးကို တွေ့ရသည်။

**တန်ခူးလ။** ။မြန်မာဆယ့်နှစ်လတွင် အစအဦးလသည် တန်ခူးလဖြစ်သည်။ နွေဥတုအလယ်၊ နေပူရှိန် ပြင်းထန်သည့်အခါဖြစ်သည်။ တန်ခူးလကို ပုဂံခေတ် ကျောက်စာတို့၌ တန်ခူဟုရေး၏။ အင်းဝခေတ်သို့ ရောက်သောအခါ၊ တန်းခူးဟုရေးကြောင်းကို မင်းဇေယျရန္တမိတ်ဆို 'ပရစ်ဖြာစီ' ချီရတုကို ထောက်၍သိရ၏။ ထိုရတုတွင် 'တန်းခူးရာသီ တိုင်ခဲ့ပြီ၊ ဆန်းထူးဝါနီ လှိုင်ခဲ့ပြီ၊ သွန်းဖြူးဖြာစီ အိုင်ခဲ့ပြီ' ဟု စပ်ဆိုသည်။ ယခုကာလ၌မူ တန်ခူးဟု ရေးကြသည်။


မြန်မာတို့သည် နှစ်သစ်ကူးသည့် တန်ခူးလသင်္ကြန်ပွဲတွင် ဤသို့ပျော်ရွှင်စွာ ရေပက်ကစားကြသည်။

တန်းခူးဟူသော အရေးအသားကိုထောက်၍၊ တန်းဟူသည်မှာ တာလဟူသော ပါဠိမှ ပျက်၍လာသော စကားဖြစ်၍၊ ထန်းကို ဟောသည်။ ခူးဟူသည်မှာ ဆွတ်ခူးခြင်းကို ဟောသည်။ နှစ်ရပ်ပေါင်းသော် ထန်းသီးဆွတ်ခူးသော လ ဖြစ်သည်ဟု ကြံဆကြသည်။ ဝေါဟာရလိနတ္ထဒီပနီကျမ်း၌ကား၊ တန်ကူးလ၌ တနင်္ဂနွေဂြိုဟ်သည် မိန်ရာသီမှ မိဿ ရာသီသို့ သင်္ကြန်အတာ ကူးပြောင်းသောကြောင့် တာကူးလဟု အချို့သူတို့ကခေါ်ကြောင်း ဖော်ပြ၏။

တန်ခူးလကို ဗေဒင်အလိုအားဖြင့် မိဿရာသီဟုခေါ်သည်။ ထိုလတွင် စိတြနက္ခတ် စန်းနှင့်ယှဉ်၍ မွန်းတည့်သည်။ ရာသီရုပ်မှာ ဆိတ်ရုပ်ဖြစ်၍၊ ရာသီပန်းမှာ ကံ့ကော်ပန်း၊ ပိတောက်ပန်းများဖြစ်၏။ ဤလ၌ နှစ်သစ်ကူးချိန်နှင့် ကြုံကြိုက်သည်က များပေသည်။ ထိုနှစ်သစ်ကူးသင်္ကြန်အခါတွင် သင်္ကြန်ရေသဘင်ပွဲတော်ကို ဆင်နွှဲလေ့ရှိကြသည်။

တန်ခူးလတွင် နံနက်စက် ၆ နာရီတွင် နေထွက်၍၊ ညနေစက် ၆ နာရီတွင် နေဝင်သည်။ နေ့တာ ညတာ ညီမျှသောလပင်ဖြစ်သည်။ ထိုလတွင် ရက်မစုံ လကွယ်သဖြင့် ရက်ပေါင်း ၂၉ ရက်သာရှိသည်။


တန်ဂန်ယီးကနယ်တွင် အာဖရိကလူမျိုးတို့သည် ပျော်ရွှင်စွာ ဝိုင်းဖွဲ့နေလေ့ရှိကြသည်။

**တန်ဂန်ယီးကအိုင်**။ ။တန်ဂန်ယီးကအိုင်သည် အာဖရိကတိုက် အလယ်ပိုင်း၏ အရှေ့ဖက်တွင်ရှိ၍၊ ကမ္ဘာပေါ်တွင် အလျားအရှည်ဆုံးသော ရေချိုအိုင်ဖြစ်သည့်ပြင် ရေအနက်ဆုံး အိုင်ကြီးတခုလည်းဖြစ်၏။ ရေအနက်ဆုံး အပိုင်းမှာ ပေ ၄,၇၀၀ ကျော်ရှိ၍၊ ထိုရေနက်ရာနေရာတွင် ရေအိုင်၏မျက်နှာပြင်မှာ ပင်လယ်ရေပြင်ထက် ပေ ၂၀၀၀ ခန့်နိမ့်၏။ ရေအိုင်ကြီးသည် မိုင် ၄၅၀ ခန့် ရှည်လျား၍၊ ပျမ်းမျှခြင်း အားဖြင့် မိုင် ၄၀ မျှကျယ်၏။ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၂,၃၁၆ မိုင်မျှရှိလေသည်။

ထိုရေအိုင်ကြီးသည် အာဖရိကတိုက်တွင် အကြီးဆုံးဖြစ်သော ဝိတိုရိယာ နီယန်ဇာအိုင်ကြီး၏ အနောက်တောင်ဖက် ၁၇၅ မိုင်ခန့် အကွာတွင်ရှိသည်။ တန်ဂန်ယီးကနယ်နှင့် ဗဲလဂျီယန် ကွန်ဂိုနယ်ကြားတွင် တည်ရှိသည်။ ထိုရေအိုင်ကြီးအတွင်းသို့ အနီးပတ်ဝန်းကျင်ရှိ တောင်တန်းများမှ ချောင်းငယ် မြောင်းငယ်များ စီးဝင်ရေဖြည့်ပေး၏။ ထိုအိုင်ကြီးမှရေသည် တဖန် ကွန်ဂိုမြစ်အတွင်းသို့စီးဝင်သော မြစ်လက်တက်တခုဖြစ်သည့် လူကူဂါမြစ်ထဲသို့ စီးဝင်ပြန်လေသည်။

ထိုရေအိုင်တွင် သမုဒ္ဒရာထဲ၌သာ တွေ့ရသော ငါးများကို တွေ့ရသဖြင့် ပထဝီဝင်ပညာရှင်များက ထိုအိုင်သည် တခါက အိန္ဒိယသမုဒ္ဒရာနှင့် ဆက်စပ်လျက်ရှိမည်ဟု ယူဆခဲ့ကြသည်။ တန်ဂန်ယီးက ရေအိုင်အကြောင်းကို အေဒီ ၁၅၀ ခန့်က အီဂျစ်လူမျိုး ပထဝီဝင်နှင့်နက္ခတ်ပညာရှိကြီးတဦးက ထုတ်ဖော်ပြောဆိုခဲ့သဖြင့် ထိုစဉ်ကပင် ထိုအိုင် ရှိနေခဲ့ကြောင်း သိရလေသည်။ အလယ်ခေတ်တွင် မြေပုံများရေးဆွဲလာကြသောအခါ၊ ထိုရေအိုင်၏ တည်ရာဌာနကို အကြမ်းဖျင်းအားဖြင့် ထည့်သွင်းထားသည်ကို တွေ့ရလေသည်။ သို့သော် ဥရောပတိုက်သားများကမူကား ၁၈၅၈ ခုနှစ်တွင်မှ ထိုအိုင်ကို ပဌမဆုံး တွေ့ကြရလေသည်။ ထိုအိုင်ကို တွေ့ရှိသူများမှာ စပိနှင့်ဗာတန်ဆိုသူ အင်္ဂလိပ်လူမျိုး နယ်သစ်ရှာသူများ ဖြစ်ကြသည်။

စပိနှင့်ဗာတန်တို့သည် ထိုရေအိုင်ကြီး၏ အရှေ့ဖက်ကမ်းခြေ၌ရှိသော အူးဂျီးဂျီမြို့ကို မြင်တွေ့ခဲ့ခြင်းမျှသာ ဖြစ်၍၊ ထိုရေအိုင်ကြီးကို လှည့်လည်စူးစမ်းခဲ့သူမှာ အမေရိကန် သတင်းစာဆရာတဦးဖြစ်သော စတန်လေဖြစ်၏။ စတန်လေသည် ၁၈၇၁ ခုနှစ်တွင် အူးဂျီးဂျီမြို့သို့ ရောက်လာရာ၊ ပျောက်ဆုံးနေပြီဟု ယူဆနေကြသော ဗြိတိသျှ နယ်သစ်ရှာဖွေသူ ဒေးဗစ်လစ်ဗင်းစတုန်းကို တွေ့ရှိရလေသည်။ ၁၈၇၆ ခုနှစ်တွင်မှ စတန်လေသည် ထိုရေအိုင်ကြီးကို လှည့်လည်စူးစမ်းခဲ့လေသည်။ (စတန်လေ, အိပ်၊ အမ်—ရှု။)

အာဖရိကတိုက်၏ အရှေ့ဖက်ကျ၍၊ ထိုရေအိုင်ကြီးနှင့် အိန္ဒိယသမုဒ္ဒရာအကြားတွင်ရှိသော နယ်မြေကို တန်ဂန်ယီးကနယ်ဟုခေါ်သည်။ ထိုနယ်မှာ အစဦးတွင် ဂျာမန် အရှေ့အာဖရိက၌ အပါအဝင်ဖြစ်ခဲ့သည်။ သို့သော် ပဌမ ကမ္ဘာစစ်



တန်ဂန်ယီးကနယ် ပင်လယ်ကမ်းခြေမှ ရှုခင်းတရပ်

ကြီးအပြီး ၁၉၁၈ ခုနှစ်မှစ၍ ဗြိတိန်၏ ဩဇာခံနယ်တခု ဖြစ်ခဲ့သည်။ ယခုအခါမှာမူ ကုလသမဂ္ဂ ထိန်းသိမ်းခံနယ် ဖြစ်လေသည်။ နယ်၏အကျယ်အဝန်းမှာ ၃၆၂,၆၈၈ စတုရန်းမိုင်ဖြစ်၍၊ လူဦးရေ ၇,၉၉၄,၀၀၀ ယောက်ရှိသည်။

ထိုနယ်၏ ကမ်းရိုးတန်းသည် မိုင် ၅၀၀ ခန့်မျှ ရှည်လျား၍၊ ကျဉ်းမြောင်းသော ကမ်းမြောင်ဒေသသည် အတွင်းဖက်သို့ တဖြည်းဖြည်း မြင့်တက်ကာ ကုန်းပြင်မြင့်တခု ဖြစ်နေသည်။ ထိုဒေသ၌ အာဖရိကတိုက်တွင် အမြင့်ဆုံးဖြစ်၍ ဆီးနှင်းဖုံးလွှမ်းလျက်ရှိသော ပေပေါင်း ၁၉,၅၆၅ မျှမြင့်သည့် ကီလီမန်ဂျာရိုးတောင်ရှိသည်။ ထိုဒေသတွင် စိုစွတ်သော ရာသီဥတုနှင့် ခြောက်သွေ့သော ရာသီဥတုဟူ၍ နှစ်မျိုးသာရှိ၍ ပူပြင်း၏။ အချို့အရပ်ဒေသတွင် မိုးခေါင်သည်။ မြေနိမ့်ဒေသတွင် ငှက်ဖျားရောဂါ ထူပြောသည်။ လျှော်ပင်၊ ကာဖီနှင့် ဝါဂွမ်းစသည်တို့ကို စိုက်ပျိုးလုပ်ကိုင်ကြ၍၊ သစ်များကို နိုင်ငံခြားသို့ တင်ပို့၏။ သံ၊ ကျောက်မီးသွေး၊ စိန်နှင့် ရွှေများကိုလည်း တူးဖေါ်ရရှိသည်။ မြို့တော်မှာ ဒါးရက်ဆလမ်းဖြစ်၍၊ ၁၉၄၈ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၆၉,၂၂၇ ယောက်ရှိ၏။ ထိုနယ်၏ တိုင်းရင်းသားများမှာ ဗန်တူခေါ် ကပ္ပလီလူမျိုးများ ဖြစ်ကြသည်။

**တန်ဂျီးယားမြို့။** ။တန်ဂျီးယားမြို့သည် မိုရော့ကိုပြည်၏ အတ္တလန္တိတ်သမုဒ္ဒရာကမ်းဖက်တွင် တည်ရှိသည်။ တန်ဂျီးယားမြို့သည် ဂျီဗရောတားကို မျက်နှာမူ၍၊ မြေထဲပင်လယ်၏ အနောက်ဖက် ဝင်ပေါက်ဖြစ်သောကြောင့် စစ်မှုရေးရာအတွက် အရေးပါသည်။ ထိုကြောင့် ယင်းမြို့နှင့် တကွ ရစ်တောင်တန်းနှင့် ပင်လယ်အကြားရှိ နယ်မြေကို တန်ဂျီးယားဇုန်ဟုခေါ်၍၊ အပြည်ပြည်ပိုင်နယ်အဖြစ် သတ်မှတ်ထား၏။ မိုရော့ကိုပြည် ကုန်သွယ်ရေးအတွက် အချက်အခြာဖြစ်သော ဆိပ်ကမ်းမြို့ဖြစ်သည်။

၁၄ ရာစုနှစ်မှ ၁၆ ရာစုနှစ်များအတွင်း တန်ဂျီးယားမြို့ကို ပေါ်တူဂီ၊ စပိန်၊ အင်္ဂလန်နိုင်ငံတို့က သိမ်းပိုက်ခဲ့ကြသည်။ ၁၄ ရာစုနှစ်တွင် ပေါ်တူဂီတို့လက်သို့ ကျရောက်ပြီးနောက်၊ စပိန်လက်အောက်သို့ရင်း၊ ၁၆၆၂ ခုနှစ်တွင် အင်္ဂလိပ်တို့လက်အောက်သို့ရင်း ရောက်သွားပြန်သည်။ ၁၆၈၃ ခုနှစ်တွင် အင်္ဂလိပ်တို့က ထိုမြို့ကို လက်လွှတ်လိုက်ရပြန်သည်။ ထိုနောက်တွင်ကား ထိုမြို့နယ်၌ ဥရောပနိုင်ငံအသီးသီးတို့က မူးဝါးတို့၏ အုပ်ချုပ်ရေးအဖွဲ့တွင် အမျိုးမျိုး ဝင်ရောက် ချယ်လှယ်နေကြ၏။ ၁၉၂၅ ခုနှစ်တွင်မှ တန်ဂျီးယားစာတက်ကျူ (၁၉၂၃) ဥပဒေအရ ဂရိတ်ဗြိတိန်၊ ပြင်သစ်နှင့်



စစ်ရေးပါသောအရပ်တွင် တည်ရှိ၍ နိုင်ငံတကာဆိပ်ကမ်းမြို့ဖြစ်သည့် တန်ဂျီးယားမြို့

စပိန်တို့သည် ထိုမြို့နယ်ကို အပြည်ပြည်ပိုင်နယ် ပြုလုပ်ကာ တွဲဖက်အုပ်ချုပ်ကြလေသည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း ၁၉၄၀ ပြည့်နှစ်တွင် စပိန်စစ်တပ်များသည် တန်ဂျီးယားဇုန်အတွင်းသို့ ဝင်ရောက်သိမ်းပိုက်ပြီးလျှင် အပြည်ပြည်ပိုင်အုပ်ချုပ်ရေးကို ပယ်ဖျက်ပစ်လိုက်၏။ သို့သော် ၁၉၄၅ ခုနှစ်တွင် ထိုမြို့နယ်ကို အပြည်ပြည်ပိုင်နယ်အဖြစ် ပြန်၍ပြုလုပ်လိုက်သည်။ ၁၉၅၃ ခုနှစ် ဩဂုတ်လ ၃ ရက်နေ့တွင် စတက်ကျူဥပဒေအသစ်ကို အတည်ပြု၍ ပြင်သစ်၊ စပိန်၊ ဗြိတိန်၊ ဣတလီ၊ အမေရိကန်၊ ဗဲလဂျီယံ၊ နယ်သာလန်၊ ဆွီဒင်၊ ပေါ်တူဂီနိုင်ငံ ကိုယ်စားလှယ်တို့ပါဝင်သော အုပ်ချုပ်ရေးအဖွဲ့ဖြင့် တန်ဂျီးယားမြို့ကို အုပ်ချုပ်သည်။

တန်ဂျီးယားမြို့သည် အဖရိကတိုက်မြောက်ပိုင်းတွင် ရှေးအကျဆုံး မြို့တမြို့ဖြစ်၏။ မူးဝါးတို့၏ ရှေးဟောင်းမြို့တမြို့ဖြစ်သော်လည်း၊ စည်ကားတိုးတက်သော ဆိပ်ကမ်းမြို့ ဖြစ်ပေသည်။ တောင်ခါးပန်းပေါ်တွင် တည်ထားသောမြို့ဖြစ်၍၊ လမ်းများမှာ တောင်ပေါ်သို့ ရစ်ပတ်၍ တက်သွားရသဖြင့် ကျဉ်းမြောင်းသည်။ သို့သော် သန့်ရှင်းသပ်ရပ်၏။ ဥရောပတိုက်သားများ နေထိုင်သောအပိုင်းမှာ စံနစ်ကျ၍ ခေတ်မီလေသည်။

တန်ဂျီးယားဇုန်မှာ စတုရန်းမိုင် ၂၂၅ မိုင် ကျယ်ဝန်း၍၊ လူဦးရေ တသိန်းခွဲခန့်ရှိ၏။ အာရပ်လူမျိုး အများဆုံးနေထိုင်သည်။ ဥရောပတိုက်သားဦးရေ ၁၆,၅၀၀ ယောက်ခန့်ရှိသည်။ ထိုမြို့နယ်မှာ စက်မှုလုပ်ငန်း နည်းပါးသော်လည်း၊ ကုန်အတင်အချအတွက် အရေးပါသည်။ မြို့နယ်အတွက် အစားအသောက်ကို အများအားဖြင့် အခြားသောနိုင်ငံများမှ တင်သွင်းရလေသည်။

**တန်စတင်။** ။တန်စတင်ဟူသော အမည်မှာ လေးသောကျောက်ဟု အဓိပ္ပါယ်ရှိသည့် ဆွစ်စကားမှ ရအပ်သောအမည်ဖြစ်၏။ တန်စတင်သည် ဘော်အဆင်းရှိသော သတ္တုဖြစ်သည်။ အက်တမ် နံပါတ်စဉ်မှာ ၇၄ ဖြစ်၍၊ အက်တမ်အလေးဆမှာ ၁၈၄ ဖြစ်သည်။ သိပ်သည်းခြင်းမှာ ၁၈.၈ ဖြစ်၍၊ အကြမ်းအားဖြင့်ဆိုသော်၊ တန်စတင်သည် ခဲထက်နှစ်ဆလေးသည်။ သတ္တုများတွင် မီးပူ အခံနိုင်ဆုံးဖြစ်၍၊ အပူချိန် ဖါရင်ဟိုက် ၆၁၀၀ ဒီဂရီ၌သာ အရည်ပျော်သည်။ တန်စတင်၏ အခြားအမည်မှာ ဝူးဖရမ်ဖြစ်သည်။ ဓါတုသင်္ကေတမှာ W ဖြစ်၏။ တန်စတင်သတ္တုရိုင်းတွင် ယေဘုယျအားဖြင့် တန်စတင် ၅ ရာခိုင်နှုန်းမှ ၂ ရာခိုင်နှုန်းအထိ

သာ ပါရှိတတ်သည်။ တန်စတင်ထွက်သော ဒေသများမှာ တရုပ်နိုင်ငံ၊ မြန်မာနိုင်ငံ၊ ဗိုလစ်ဗီးယားနိုင်ငံနှင့် အမေရိကန် ပြည်ထောင်စုတို့ ဖြစ်ကြသည်။ တန်စတင်သတ္တုရိုင်းများကို ဝူးဖရမ်မိုက်၊ ဟပ္ပနာရိုက်၊ ရှီးလိုက်နှင့်ဖါဗာရိုက်ဟု ခေါ်သည်။ ဤသတ္တုရိုင်းများကို တွေ့ရှိခဲ့သည်မှာ နှစ်ပေါင်း ၁၅၀ ကျော်ခန့်ပင် ရှိပြီဖြစ်သော်လည်း၊ စတင်အသုံးပြုခဲ့သည်မှာ နှစ်ပေါင်း များစွာမကြာသေးချေ။ သို့သော် ယခုခေတ်တွင် အလွန်အသုံးများလာသဖြင့် တန်စတင် သတ္တုရိုင်းများသည် ရွှေသတ္တုရိုင်းနီးပါးမျှပင် အဖိုးတန်သည်။

တန်စတင်သည် အလွန်မာ၏။ ကြေးနီနန်းကြိုးထက် ဆယ်ဆမျှဆွဲအားကို ခံနိုင်၏။ အရည်ပျော်သော အပူချိန်သည် အလွန်မြင့်လွန်းသောကြောင့်၎င်း၊ နန်းဆွဲယူရန် မရနိုင်လောက်အောင် ကြွပ်ဆတ်သောကြောင့်၎င်း၊ ရှေးအခါက တန်စတင်ကို နန်းဆွဲယူရန် မတတ်နိုင်ခဲ့ကြချေ။ သို့သော် ၁၉၁၂ ခုနှစ်တွင် ဤကိစ္စကို အလွယ်တကူနှင့် ဖြစ်မြောက်အောင် ဆောင်ရွက်နိုင်ခဲ့လေသည်။ တန်စတင်ကို နန်းဆွဲပုံမှာ တန်စတင် အက်ဆစ်မှ ဟိုက်ဒရိုဂျင်ဖြင့် အောက်ဆီဂျင်ကို လျော့ပစ်၍ သတ္တုကိုထုတ်ယူပြီးလျှင် ထိုသတ္တုကို ဖိအားဖြင့် ပုံသွန်းယူသည်။ ပုံသွန်းပြီးသောသတ္တုကို တဖန် လျှပ်စစ်မီးဖိုတွင် ဖြူဝင်းလာသည့်တိုင်အောင် မီးတိုက်ပေးသည်။ ထိုနောက် အနည်းငယ် အအေးခံပြီးလျှင် နီရဲနေစဉ် စိန်ပေါက်များမှ နန်းဆွဲယူနိုင်သည့်အထိ သေးငယ်လာအောင်၊ လှိမ့်ပေးလေသည်။ (နန်းကြိုး — ရှု။)

တန်စတင်နန်းကြိုးတွင် လျှပ်စစ်ဓါတ် စီးနေသောအခါ ခုခံအား အလွန်ကြီးမားသောကြောင့် နန်းကြိုးမှာ ဖြူဝင်းလာသည်။ ဤအချက်အပြင် မီး၏အပူတွင် ပျော့ပျောင်း၍ မသွားဘဲ၊ တာရှည်ခံနိုင်ရည် ရှိသဖြင့် လျှပ်စစ်ဓာတ်မီးလုံးများတွင် မီးစာမျှင်အဖြစ်ဖြင့် အသုံးပြုသည်။ ဤမီးစာမှာ ရှေးအခါက အသုံးပြုခဲ့သည့် ကာဗွန်မီးစာများထက် ၂ ဆမှ ၅ ဆအထိ ပို၍လင်းသည်။ တန်စတင်ကို အခြားသတ္တုများဖြင့် ရောယူသောအခါ အလွန်မာ၍ စက်မှုလက်မှုပညာတွင် အသုံးဝင်သည့် သတ္တုစပ်များကိုရရှိသည်။ (သတ္တုစပ် — လည်းရှု။) သံမဏိတွင် နစ်ကယ်ရောသကဲ့သို့ တန်စတင်ရော၍ တန်စတင်သံမဏိ ပြုလုပ်ယူကြသည်။ တန်စတင်သံမဏိသည် စစ်သင်္ဘောများတွင် သံချပ်ကာများကို၎င်း၊ သံမဏိကိုဖြတ်တောက်ရန် တန်ဆာပလာများကို၎င်း၊ ထာဝရ သံလိုက်များကို၎င်း ပြုလုပ်ရန်အတွက် အလွန်ကောင်းသည်။ သံချပ်ကာ ပြုလုပ်ယူရာ၌ ဤသံမဏိကို ဖြတ်တောက်ပစ်ရန် အလွန်ခဲယဉ်းသောကြောင့် နီရဲနေစဉ် အလိုရှိသော ပုံကို ထုရိုက်၍ယူကြရလေသည်။ တန်စတင် သံမဏိဖြင့် ပြုလုပ်ထားသော တန်ဆာပလာများသည် ရိုးရိုး တန်ဆာပလာများထက် သံကို ၅ ဆမျှ လျင်မြန်စွာ ဖြတ်တောက်နိုင်သည်။

ကိုဗော့၊ ကရိုမီယမ်နှင့် တန်စတင်ပါဝင်သော စတဲလိုက်ခေါ် သတ္တုစပ်သည် ဩဂဲနစ်အက်ဆစ်နှင့် ရိုးရိုးအဆိပ်ဖြေဆေးတို့ကို ခံနိုင်ရည်ရှိသည့်ပြင် မာလည်း အလွန်မာသောကြောင့် ခွဲစိတ်ကုသရာ၌သုံးသည့် ကရိယာများကို ထိုသတ္တုစပ်ဖြင့် ပြုလုပ်ယူကြသည်။ တန်စတင်ကို အသုံးပြုသော အခြားအသုံးအဆောင်များမှာ အိပ်စရေးရောင်ခြည် ရိုက်ဟပ်ရန် ခံတုံး၊ သာမျန်နစ်ကရိယာ၊ ဂယ်လဗါနိုမီတာ နန်းကြိုး၊ လျှပ်စစ်ဓါတ်ဆက်ကရိယာ စသည်တို့ဖြစ်သည်။

၁၉၃၈ ခုနှစ်မတိုင်မီက၊ မြန်မာနိုင်ငံသည် တန်စတင်သတ္တုကို တင်သွင်းရာ အဓိကဌာနတခု ဖြစ်သည်။ ထိုစဉ်က ထားဝယ်၊ မြိတ်နှင့် မော်ချီသတ္တုတွင်းတို့မှထွက်သော တန်စတင် သတ္တုရိုင်းမှာ တနှစ်လျှင် တန်ချိန် ၅၀၀၀ မျှရှိသည်။ ယင်းတို့မှာ တန်စတင်နှင့်ခဲမဖြူ ရောစပ်နေသော သတ္တုရိုင်းဖြစ်၏။ ယခုအခါ၌မူ တရုပ်ပြည်သူ့သမတနိုင်ငံသည်လည်း တန်စတင် အကြီးအကျယ်ထွက်ရာအရပ် ဖြစ်နေပြီ။

**တန်ဆာပလာ**။ ။စက်မှုလက်မှုလုပ်ငန်းအတွက် ဆူး၊ ဆောက်၊ ဓားမ၊ ပုဆိန် စသည်တို့သည် တန်ဆာပလာများဖြစ်ကြ၏။ ယင်းတို့ကို တိုင်းတာရန်သော်၎င်း၊ ဖြတ်တောက် ခုတ်လှဲရန်သော်၎င်း၊ ချိန်သားကိုက်အောင် စစ်ဆေးရန်သော်၎င်း၊ ပစ္စည်းကရိယာတို့ကို ထိန်းပေးရန်သော်၎င်း အသုံးပြုကြရသည်။ ထိုတန်ဆာပလာအမျိုးမျိုးကို အမျိုးအစား ခွဲခြားထားသည်။ ယင်းတို့မှာ ထွင်းခြင်း၊ ဖြတ်ခြင်း၊ ရွှေပေါ်ထိုးခြင်းနှင့်ဆိုင်သော တန်ဆာပလာများ၊ ထုခြင်း၊ ဖောက်ခြင်းနှင့်ဆိုင်သော တန်ဆာပလာများ၊ ပုံသွင်းခြင်းနှင့်ဆိုင်သော တန်ဆာပလာများ ဖြစ်ကြသည်။ ယင်းတို့တွင် တဖန် လက်သုံးကရိယာနှင့် စက်သုံးကရိယာဟု ခွဲခြားထားသည်လည်း ရှိသေးသည်။ စက်သုံးကရိယာတန်ဆာပလာတို့ကို စက်ဖြင့် လှုပ်ရှားပေးကာ အသုံးပြုရသည်။ စက်သုံးကရိယာတန်ဆာပလာတို့မှာ လုပ်ငန်းအတွက် မြန်စွာပြီးလွယ်ခြင်း၊ သူ့အလိုအလျောက် လုပ်နိုင်စွမ်းရှိခြင်း၊ တိကျသေချာခြင်းတို့ကြောင့် များစွာအသုံးဝင်သည်။

တန်ဆာပလာများတွင် တူသည် ရှေးအကျဆုံး ကရိယာဖြစ်၏။ ကျောက်ခေတ်အတွင်းကပင် လူတို့သည် ကျောက်ဖြင့်ပြုလုပ်သော တူများကို သုံးစွဲခဲ့ကြသည်။ (ကျောက်ခေတ် — ရှု။) အလယ်ခေတ်ကလူတို့သည် တူကို မိမိတို့၏ လက်မှုပညာများတွင်သာ သုံးစွဲခဲ့ရုံမက၊ စစ်လက်နက်အဖြစ်ဖြင့်လည်း အသုံးပြုခဲ့ကြသည်။ ယခုခေတ်၌လည်း လက်မှုပညာဆိုင်ရာ လုပ်ငန်းတိုင်းမှာလိုပင် တူကို အသုံးပြုလျက်

ရှိကြပေသည်။ တူ၌ လုပ်ငန်းကိုလိုက်၍ ပုံအမျိုးမျိုးရှိ၏။ စုစုပေါင်းတူအမျိုး ဒါဇင်ပေါင်းများစွာရှိ၍၊ ယင်းတို့ကို အမည်အမျိုးမျိုးပေးထားကြသည်။ အရွယ်မှာ ပန်းထိမ်သည်များသုံးသည့် တူငယ်မှအစ၊ ပန်းပဲနှင့် ဗိုင်လာအလုပ်သမားများသုံးသည့် တူကြီးများအထိ၊ အမျိုးမျိုးရှိကြသည်။ အချို့ လုပ်ငန်းများတွင် သတ္တုဖြင့်ပြုလုပ်သော တူများအစားသစ်သားတူများကို အသုံးပြုကြသည်။ ဤသို့အသုံးပြုခြင်းမှာ၊ အထည်ကို မပျက်စီးစေရန်အတွက်ဖြစ်၏။ များသောအားဖြင့် တူများတွင် တူရိုးသည် မာ၏။ သို့သော် အချို့ ပန်းပဲသုံး တူများသည် ညွတ်သွားနိုင်သောသံ သို့မဟုတ် အခြားပစ္စည်းဖြင့် ပြုလုပ်ထားသည့် တူရိုးမျိုး တပ်ဆင်ထားသဖြင့်၊ တူကို တအားလွှဲ၍ထုသော်လည်း လက် ထုန်ကျင်ခြင်း မရှိချေ။

စက်တူကို ထွင်ခဲ့သူမှာ ဂျိမ်း နေးစမစ် ဆိုသူဖြစ်သည်။ ထိုတူကို သူသည် ရေနွေးငွေ့စက်တွင် တပ်ဆင်၍၊ ထိုစဉ်က သင်္ဘော၏ဝင်ရိုးကို ပြုလုပ်ရာ၌ အသုံးပြုခဲ့သည်။ စက်တူများတွင် ရေနွေးငွေ့သုံး စက်တူမျိုးလည်းရှိ၍၊ လျှပ်စစ်သုံး စက်တူမျိုးလည်းရှိသည်။ ခေတ်မှီစက်တူများသည် မည်မျှ တိကျကောင်းမွန်သနည်းဆိုလျှင် တူတလက်တည်းဖြင့် ဥကိုကွဲစေရုံမျှသော်၎င်း၊ သံတုံးကို ပြားသွားစေရန်သော်၎င်း တတ်နိုင်သည်။ သံရည်ကျိုရုံကြီးများတွင် သံထည်



ကျောက်ခေတ်သုံး တန်ဆာပလာများ



ကြေးညိုခေတ်သုံး တန်ဆာပလာများ



လူတို့တီထွင်ခဲ့သော တန်ဆာပလာများတွင် အရေးပါ အရာရောက်ဆုံးသော တွင်ခုံ

ပစ္စည်းဟောင်းများကို သံတိုမယ်န ပြုလုပ်ယူရာ၌၊ အလွန်ကြီးမားသော သံလုံးကြီးကို တူသဘော အသုံးပြုထား၏။ ထိုသံလုံးကြီးကို လျှပ်စစ်သံလိုက်ဖြင့် မ ယူပြီးနောက်၊ သံထည်များပေါ်သို့ လွှတ်ချပေးခြင်းဖြင့်၊ သံထည်များကို ကြေမွသွားစေသည်။ အဆောက်အအုံကြီးများတွင် အုတ်မြစ်သံတိုင်များကို ယခင်က နာရီပေါင်းများစွာ စိုက်ယူကြရသော်လည်း၊ ယခုမူ အုတ်မြစ်ချ စက်တူများဖြင့် မိနစ်ပိုင်းအတွင်း ပြီးစီးအောင် ဆောင်ရွက်နိုင်လေသည်။ ရေနွေးငွေ့ဖြင့်မောင်းရသော စက်တူကြီးများတွင် တူခေါင်း၌ ကြိုးတပ်ထားကာ၊ ရေနွေးငွေ့စက်များဖြင့် ဆွဲတင်ပြီးလျှင်၊ ထုရိုက်လိုသည့်နေရာပေါ်သို့ တည့်တည့်ကျအောင် လွှတ်ချပေးသည်။ ကျောက်ဖောက်စက်၊ လေဖိအားနှင့်လည်သော စိုရိုက်စက်၊ မြေတူးစက် စသည်တို့သည်လည်း တူ အမျိုးတွင် အကျုံးဝင်သည်။

လူတို့ထွင်ခဲ့သည့် ကရိယာထဲတွင် အလွန်အရေးပါ အရာရောက်သည့် တန်ဆာပလာတခုမှာ တွင်ခုံပင်ဖြစ်၏။ တွင်ခုံဆိုသည်မှာ သစ်သား၊ သတ္တုမှစ၍ ပစ္စည်းတခုခုကို ဖြတ်တောက်ရန်အတွက်ဖြစ်စေ၊ အချောကိုင်ရန်အတွက်ဖြစ်စေ၊ သို့မဟုတ် ခြစ်ပစ်ရန်အတွက်ဖြစ်စေ၊ ထိုပစ္စည်းကို ခုံတွင်ညှပ်၍ လည်အောင်လှည့်ပေးသော ကရိယာဖြစ်သည်။ ပစ္စည်းကို ခုံတွင်ညှပ်၍လှည့်ပေးပြီးနောက်၊ စူးဆောက် တို့ဖြင့်၊ လည်နေသောပစ္စည်းကို ပြောင်းလုံးပုံ၊ ကတော့ပုံများ ဖြစ်အောင် ခြစ်ပွတ်ပေးရသည်။ ဝက်အူရစ်လိုလျှင်လည်း ဝက်အူရစ်ကို ဖော်ပေးနိုင်သည်။ တွင်ခုံတွင် ပန်းထိမ်သုံး တွင်ခုံကလေးများမှ အကြီးဆုံးအမြောက်ပြောင်းပြုလုပ်သော တွင်ခုံကြီးအထိ အရွယ်အမျိုးမျိုးရှိ၏။ ခေတ်မှီတွင်ခုံများ၌ စူးဆောက်စသော တွင်စားစရာ ကရိယာများကို အလုပ်လုပ်နေစဉ်မှာပင်၊ အလိုအလျောက် ပြောင်းလဲပေးနိုင်လေသည်။ တွင်ခုံများအပြင်၊ အခြားအရေးကြီးသော ကရိယာမှာ ဖောက်စက်နှင့် လွန်စက်များဖြစ်သည်။ ပစ္စည်းတခုခုတွင် သာမန်အပေါက်ဖြစ်အောင် ဖောက်လိုသောအခါဖြစ်စေ၊ ဝါးလုံးခေါင်းကဲ့သို့ လိုဏ်ခေါင်း ဖြစ်အောင် ထွင်းဖောက်လိုသောအခါဖြစ်စေ၊ ဖောက်စက်နှင့် လွန်စက်များကို သုံးနေရာနှင့်လိုက်အောင် အသုံးပြုကြရပေသည်။ အခြားအရေးကြီးသော ကရိယာတမျိုးမှာ စက်ရွှေပေါ်ဖြစ်သည်။ လက်ရွှေပေါ်သည် အချောကိုင်ရမည့် အထည်ပစ္စည်းကို အသေထား၍ ထိုးပေးသည်။ စက်ရွှေပေါ်မှာမူ အသေတပ်ဆင်ထားသောကြောင့်၊ အထည်ပစ္စည်းကို စက်ဖြင့်ရွှေ့ရှားပေးရသည်။ ပျော့ကြောင်းထိုးစက်မှာ စက်ရွှေပေါ်နှင့် သဘောချင်းတူသော်လည်း၊ အလိုရှိသော ပျော့ကြောင်းအရွယ်ကိုလိုက်၍၊ ရွှေပေါ်သွား (ဆောက်သွား) သေးသေးကို တပ်ဆင်ပေးထားသည်။ စက်ရွှေပေါ်နှင့် ပျော့ကြောင်းထိုးစက်များတွင် ဆောက်ပြားပုံ ရွှေပေါ်သွားများကို မသုံးဘဲ၊ ထက်သောနံဘေးစောင်းများ ပါ၍၊ လည်လျက်ရှိသော ဆောက်လုံးမျိုးကိုလည်း သုံးနိုင်သည်။

သတ္တုဖြတ် ကတ်ကျေးများ၌ ရိုးရိုးကတ်ကျေးများမှာကဲ့သို့ အသွားနှစ်ခု မရှိချေ။ သို့သော် အလုပ်လုပ်ပုံမှာမူ



(ဝဲ) စက်လွှသည် ခွဲစိတ်ဖြတ်တောက်မှုတွင် အလွန်အသုံးဝင်သော တန်ဆာပလာဖြစ်ပေသည်။ (ယာ) ကျားပါးစပ်စက်ကို အသုံးပြု၍ ဝတ္ထုပစ္စည်းများကို သယ်ဆောင်ခြင်းဖြင့် အချိန်အနည်းငယ်အတွင်း လုပ်ငန်းကို တွင်ကျယ်ထိရောက်စွာပြီးစီးစေသည်။

ရိုးရိုးကတ်ကျေးကဲ့သို့ပင်ဖြစ်၏။ သံမဏိလုပ်ငန်းတွင် အသုံးပြုသော ကတ်ကျေးများသည် အလွန်အားကောင်း၏။ သာမန်အပူချိန်တွင် ၂ လက်မခန့်ထုသော သံမဏိကိုင်း၊ အထည်ကို အပူတိုက်ထားလျှင် ၂၅ လက်မခန့်ထုသောသံပြားများကိုရင်း ဖြတ်တောက်ပေးနိုင်သည်။ လုပ်ငန်း အသေးအဖွဲ့များတွင် လက်အားဖြင့်သာ ကတ်ကျေးကိုအသုံးပြု၏။ သို့သော် စက်မှုလက်မှုဆိုင်ရာလုပ်ငန်းကြီးများ၌ မော်တော်စက်၊ ရေနွေးငွေ့စက် စသည်တို့ဖြင့် ကတ်ကျေးကို သုံးသည်။ အလွန်ကြီးကျယ်သော အလုပ်ရုံများတွင်မူ လေဖိအားဖြင့် မောင်းသော စက်များဖြင့် အသုံးပြုကြသည်။

လွှစက်တွင် လုပ်ငန်းကိုလိုက်၍ လွှအမျိုးမျိုးရှိသည်။ အတွေ့ရအများဆုံးမှာ သစ်စက်များတွင်သုံးသည့် လွှမျိုးကဲ့သို့လွှဝိုင်းများဖြစ်၏။ အချို့မှာ လက်ဆွဲလွှကဲ့သို့ ရှေ့တိုးနောက်ငင် လှုပ်ရှားသည့် စက်ထိုးလွှဖြစ်၏။ လွှသွားသည် အလွန်လျင်မြန်စွာ လှုပ်ရှားလျက်ရှိ၍၊ လွှခွဲလိုသည့်ပစ္စည်းကို စက်ဖြင့် တဖြည်းဖြည်း ရွှေ့ပေးရသည်။ အလွန်ထုထယ်ကြီးမားသော ပစ္စည်းများကို ခွဲစိတ်ရန်အတွက်မူ၊ ခါးပတ်လွှသည် အကောင်းဆုံးဖြစ်၏။ ဤလွှမျိုးတွင် လွှသည် တဖက်တချက်ရှိ ဘီးများပေါ်တွင် ခါးပတ်ကွင်းပတ်၍ လည်နေသည်။ ကျောက်များကိုဖြတ်ရာ၌ သုံးသည့်လွှမှာလည်း ခါးပတ်လွှနှင့် တသဘောတည်းပင်ဖြစ်သည်။

ဖြတ်တောက်သည့် ကရိယာဟူသရွေ့မှာ သပ်များတွင် အကျုံးဝင်သည်။ သစ်သားတွင်ဖြစ်စေ၊ သတ္တုတွင်ဖြစ်စေ၊ ဆောက်ကို အသုံးပြုပုံချင်းမှာ အတူတူပင်ဖြစ်၏။ သို့သော် သစ်သားမှာ ပျော့၍ သတ္တုမှာ မာသည့်အတွက်၊ ဆောက်သွား ချွန်ပုံချင်း မတူကြပေ။ သစ်သားတွင်သုံးသော ဆောက်သွားများသည် ပါးလွှာချွန်ထက်လေ့ရှိ၍၊ သတ္တုတွင် သုံးသော ဆောက်သွားများကို တုတ်ခိုင်စေခြင်းငှာ၊ ဆောက်သွားသည် ဒီဂရီ ၃၀ မှ ၆၀ ခန့်အထိ ရွေနေရသည်။ ထိုအပြင် ထိုဆောက်မျိုးကို အလွန်ခိုင်မာသော သတ္တုမျိုးဖြင့် ပြုလုပ်ရသည်။

စက်အမျိုးမျိုး တိုးတက်လာသည်နှင့်အမျှ ကရိယာ တန်ဆာပလာများလည်း အမျိုးမျိုးပေါ်ပေါက်လာရသည်။ ယင်းတို့မှာ ပုံဆွဲကရိယာနှင့်တကွ တိုင်းတာရန်ကရိယာများဖြစ်ကြ၍၊ ဆကရူဂေ့၊ ဆလိုက်ကယ်လစ်ပါ၊ မိုက်ကရိုမီတာ စသည်တို့မှာ ယခုခေတ်ပေါ် တိုင်းတာစစ်ဆေးစရာ ကရိယာများ ဖြစ်ကြ၏။ ယခုခေတ်ပေါ် တိုင်းတာစစ်ဆေးစရာ ကရိယာများနှင့် ဆိုပါက သာမန်အားဖြင့်တလက်မ၏ တထောင်ပုံ တပုံအထိ တိုင်းတာနိုင်၍၊ အလွန်အထက်တန်းကျသော ခေတ်မှီကရိယာများနှင့်ဆိုပါက တလက်မ၏ တသန်းပုံ တပုံအထိပင် မှန်ကန်အောင် စစ်ဆေးတိုင်းတာနိုင်လေသည်။



တန်ဆောင်တိုင်ပွဲတော် မသိုးသင်္ကန်းယက်ပြိုင်ပွဲမှ ရှုခင်းတရပ်

**တန်ဆောင်တိုင်ပွဲနေ့။** ။တန်ဆောင်တိုင်ပွဲနေ့သည် ကဆုန်လပြည့်နေ့မျိုးကဲ့သို့ သာသနာရေးဆိုင်ရာ ပွဲနေ့ မဟုတ်ချေ။ ကြတ္တိကာနက္ခတ်နှင့် စန်းယှဉ်သောလ ဖြစ်သဖြင့်၊ မီးနတ်ပူဇော်ပွဲအဖြစ် ကျင်းပသည့် ပျော်ပွဲသက်သက် ဖြစ်သည်။ သီတင်းကျွတ် မီးထွန်းပွဲတွင် ရာသီဥတု မသာယာလှသဖြင့်၊ လွတ်လွတ်လပ်လပ် ပျော်ပွဲမဆင်နိုင်ရသော အပျော်အပါး ဝါသနာပါသူများအတွက် တန်ဆောင်တိုင်ပွဲ ဖြစ်ပေါ်လာရသည်ဟု ယူဆဖွယ်အကြောင်းရှိသည်။ မဟာဝိနာယက နတ်မင်းကြီးသည် ထိုလတွင်နိုးသဖြင့်၊ နတ်မင်းအား ပူဇော်သည့်ပွဲကို ဗုဒ္ဓဘာသာ မထွန်းကားမီကပင် တန်ဆောင်မုန်းလပြည့်နေ့တိုင်း ကျင်းပခဲ့သည့်အလေ့ ရှိသည်။ ယင်းသို့ မီးနက္ခတ်ပူဇော်ပွဲနှင့် နတ်မင်းကြီး ပူဇော်ပွဲ ကျင်းပခဲ့သည်မှစ၍ ယခုတိုင် တန်ဆောင်တိုင်ပွဲဟု သမုတ်ကာ မီးထွန်းပွဲများ အရပ်ရပ်တွင် ကျင်းပကြသည်။ တန်ဆောင်မုန်း လမပြည့်မီ အဖိတ်နေ့၊ လပြည့်နေ့နှင့် လပြည့်ကျော်တရက်နေ့ ၃ ရက်လုံးလုံးကို တန်ဆောင်တိုင်ပွဲနေ့ဟု သတ်မှတ်ထားကြသည်။ ယင်း ပွဲတော်နေ့များတွင်၊ ယခုအခါ မီးပုံးမီးသီးများကို အပြိုင်အဆိုင်ထွန်းညှိ၍၊ ပွဲလမ်းသဘင်များဖြင့် ပျော်ပွဲဆင်ကြသည်။

တန်ဆောင်တိုင်ပွဲနေ့ကို ဘာသာရေးနှင့် မသက်ဆိုင်သော်လည်း၊ အချို့က ဆက်၍ယူကြသည်။ ဘုရားရှင်၏ မယ်တော်မိ နတ်သားသည် သားတော်ဘုရားလောင်း တောထွက် ရဟန်းဝတ်တော့မည်ကို သိသောအခါ၊ သင်္ကန်းကပ်လိုသဖြင့်၊ ညဉ့်ချင်းပြီး သင်္ကန်းရက်ချုပ်သော အထိမ်းအမှတ်အဖြစ် တန်ဆောင်မုန်းလပြည့်နေ့တိုင်း၊ မသိုးသင်္ကန်းရက်ပွဲ ကျင်းပကြသည်။ ထို့ပြင်လည်း ဝိနည်းတော်အရ အချိန်နှင့်ကပ်ရသော အကျိုးထူးသည့် ကထိန်လျာ ညပ်သင်္ကန်း ဆက်ကပ်လှူဒါန်းနိုင်သည့် နောက်ဆုံးနေ့ ဖြစ်သဖြင့်၊ အမြို့မြို့ အရပ်ရပ်တွင် ကထိန်ခင်းပွဲများ အပြိုင်အဆိုင် ကျင်းပကြသည်။ မန္တလေး၊ ရွှေဘို၊ စစ်ကိုင်း စသော အထက်မြို့များတွင် တမြို့လုံး ငွေကြေးစုဆောင်း၍၊ လှူဖွယ်တို့ကို ပဒေသာပင်များ သီးကာ၊ မြို့ပေါ်ရှိ ကထိန်မရသေးသော ဘုန်းကြီးကျောင်းများတွင် ကပ်လှူကြရာ၊ ခြိမ့်ခြိမ့်သဲမျှ စည်ကားသိုက်မြိုက်လှသည်။

ရာသီဥတုသာယာသည့် ယင်းပွဲတော်ညများ၌၊ လူငယ်လူရွယ်တို့သည် အနီးအပါး အိမ်၊ ကျောင်းစသည်တို့မှ ပန်းအိုးခုံ၊ လုံချည်စသည်တို့ကို တိတ်တဆိတ်ယူကာ၊ လမ်းဆုံလမ်းခွတို့၌၊ အဆင့်ဆင့်ထပ်၍၊ အမျိုးမျိုး ဆင့်ထားကြကာ၊ ဝတီ သာပွဲပြုလုပ်ကြသည်။ ကြယ်တာရာ နက္ခတ်အပေါင်း စုံသောအခါဖြစ်သဖြင့်၊ တာဝတိံသာရှိ စူဠာမဏိဘုရားအား ပူဇော်ဟန် မီးပုံးပျံများလည်း လွှတ်ကြသည်။ အချို့မြို့များတွင် မီးပုံးပျံ အပြိုင်အဆိုင်လွှတ်ပွဲများပင် ရှိလေသည်။

ပျော်ပွဲရွှင်ပွဲများသာမဟုတ်၊ ရာသီဥတု ကောင်း၍၊ ပွဲသံတခြိမ့်ခြိမ့်ဖြစ်သော တန်ဆောင်တိုင်ပွဲအခါတွင်၊ လူတို့သည် ညဉ့်နက်သန်းခေါင်ပင် မအိပ်ကြသေးဘဲ၊ ဤလ ဤအခါတွင်မှ ဆေးပေါင်းခသည်ဟု ယူဆကြသော မဲဇလီအဖူးများကို နှမ်း၊ မြေပဲ၊ ကြက်သွန်ကြော်၊ ဆီချက်တို့ဖြင့် တပျော်တပါး သုတ်၍စားကြပေသည်။

အထက်ပါပွဲများအပြင်၊ တန်ဆောင်မုန်းလပြည့်နေ့တွင်၊ သျှင်မာလဲပွဲကိုလည်း၊ ကျင်းပတတ်ကြသည်။ အရိမေတ္တေယျ ဘုရားအလောင်းတော် နတ်သားက၊ သီဟိုဠ်ကျွန်းမှ ရှင်မာလဲမထေရ်အား၊ တန်ဆောင်မုန်းလပြည့်နေ့တိုင်း၊ လူအပေါင်းတို့အား၊ ဝေဿန္တရာဇာတ်တော်ကို ဟောကြားရန်၊ တောင်းပန်သည့်အတိုင်း၊ ရှင်မာလဲက ဂါထာတထောင်ဖြင့် တန်ဆာဆင်အပ်သော ဝေဿန္တရာဇာတ်တော်ကြီးကို ဟောပြောသည်ကို အထိမ်းအမှတ်ပြု၍၊ ဂါထာတထောင်ပါသော ဝေဿန္တရာဇာတ်တော်ကို ဟောပြောခြင်း၊ လှော်ကားတော်ပုံပြု၍ လှော်ကားထက်တွင် အသီး တထောင်၊ အပွင့် တထောင်၊ ထမင်းဆုပ် တထောင်၊ ဆီမီး တထောင် စသည်တို့တင်၍ လှူဒါန်းခြင်းဖြင့်၊ ရှင်မာလဲပွဲကို ဆင်ယင်ကျင်းပကြသည်။

တန်ဆောင်တိုင်ပွဲကို ယခုမှသာမဟုတ်၊ ဗုဒ္ဓဘာသာ မြန်မာရှေးမင်းအဆက်ဆက်တို့သည် ပွဲတော်အခါတွင်၊ နန်းတွင်း နန်းပြင်၊ သေနင်ဗိုလ်ထုနှင့်တကွ၊ မင်းဆွေစိုးမျိုး၊ မှူးရိုးမတ်လျာ၊ သေနာပတိ၊ မင်းညီမင်းသား၊ ထီးရံနန်းရံ၊ စော်ဘွား၊ မင်းမိဘုရားတို့ တူရိယာမျိုးအစုံ တီးမှုတ် ကျင်းပလျက်၊ မဟာအသဒိသ အတုလသဘင် ပွဲကြီးယင်၍ ထီးစဉ်နန်းဆက်မပျက် လှူဒါန်းကြသည်။

**တန်ဆောင်မုန်းလ**။ ။တန်ဆောင်မုန်း ဟူသော ဝေါဟာရကို ရှေးခေတ် ပုဂံကျောက်စာတို့တွင် တန်ဆောင်မှုန်ဟု ရေးထိုးကြ၏။ ရွတ်ဆိုခေါ်ဝေါ်ရာ၌ကား တန်ဆောင်မှုန်းဖြစ်၏။ ယင်းမှ တန်ဆောင်မုန်းသို့ ရွေ့လျော လာခြင်းဖြစ်ပေသည်။ သို့သော် ရှေးအခေါ် တန်ဆောင်မှုန်းပေါ်တွင် မူတည်၍သာ အနက်ကိုကြံဆရပေမည်။ တန်ဆောင်မှာ မီးရှူး၊ မီးတိုင်၊ ဆီမီးဟူသော အဓိပ္ပါယ်ရ၏။ မှုန်း၏အနက် ဖွင့်ဆိုချက်အမျိုးမျိုးရှိရာတွင် တောက်ပစေသည်ဟူသော အနက်ကိုယူသင့်၏။ တန်ဆောင်မှုန်းဟူရာ၌ ဆီမီးကို တောက်ပစေသော လ၊ ဆီမီးထွန်းညှိသော လဟူ၍ ကောက်ယူနိုင်ပေသည်။

တန်ဆောင်မုန်းလသည် မြန်မာလ တဆယ့်နှစ်လ ရှိသည့် အနက် အဋ္ဌမလဖြစ်၏။ ရာသီအားဖြင့် ဗြိစ္ဆာဟုခေါ်သည်။ တန်ဆောင်မုန်း လပြည့်နေ့တွင် မြတ်စွာဘုရားအား မသိုးသင်္ကန်း ဆက်ကပ်လှူဒါန်းကြသည်။ သီတင်းကျွတ်လပြည့်ကျော် ၁ ရက်နေ့မှ တန်ဆောင်မုန်း လပြည့်နေ့အထိ ရဟန်းသံဃာတော်များအား ကထိန်သင်္ကန်း ကပ်လှူကြသည်။ (ကထိန် — ရှု။) တန်ဆောင်မုန်း လဆန်း ၁၄ ရက်နေ့မှ လပြည့်ကျော် ၁ ရက်နေ့အထိ တန်ဆောင်တိုင်ပွဲတော်ကို ကျင်းပကြသည်။ (ဆဲ့နှစ်ရာသီ ပွဲတော်များ — လည်းရှု။)

ဗိဿနိုးနတ်မင်းသည် နှစ်စဉ်နှစ်တိုင်း ဝါဆိုလဆန်း ၁၂ ရက်နေ့မှစ၍ အိပ်လေရာ၊ တန်ဆောင်မုန်းလဆန်း ၁၂ ရက်နေ့တွင်မှ နိုးလာသောကြောင့် နတ်နိုးသော လဟုလည်း ခေါ်ကြသည်။ တန်ဆောင်မုန်းလတွင်ကောင်းကင်ပြင်၌ မိုးသားတိမ်လွှာ အထူးကင်းစင်နေလေ့ရှိသည်။

**တန်တလမ်**။ ။တန်တလမ်သည် တွေ့ခဲသော သတ္တုဒြပ်စင်ဖြစ်သည်။ အထူးသဖြင့် ကိုလမ်းဗီယမ် သတ္တုဒြပ်စင်နှင့်တွဲ၍ တန်တလိုက် သတ္တုကျောက်ရိုင်းတွင်၎င်း၊ ကိုလမ်ဗိုက် သတ္တုရိုင်းတွင်၎င်း တွေ့ရတတ်သည်။ ဩစတြေးလီးယားတိုက် အနောက်ပိုင်း၊ ဗရာဇီး အရှေ့မြောက်ပိုင်း၊ အာဖရိကတိုက်နှင့် အမေရိကန်ပြည်ထောင်စုရှိ ဒါကိုးတားပြည်နယ် တောင်ပိုင်းတို့မှ တန်တလိုက်ထွက်သည်။

တန်တလမ်၌ ပြာလဲ့လဲ့အရောင်ရှိ၏။ ထိုသတ္တုသည် အထု အတေနှင့် နန်းဆွဲခြင်းကို ကောင်းစွာခံနိုင်၏။ ကောင်းစွာပွတ်တိုက်ပေးလျှင် ပလက်တီနမ်နှင့် တူ၏။ လေထဲတွင် မီးတိုက်ပေးလျှင် မီးလောင်သည်။ ဟိုက်ဒရိုကလောရစ် အက်ဆစ်နှင့် နိုက်ထရစ် အက်ဆစ်တို့တွင် မပျော်ဝင်ချေ။ ဟိုက်ဒရိုဖလူအိုရစ် အက်ဆစ်တွင်မူ ပျော်ဝင်၏။ သွားနုတ် သွားစိုက်ရာတွင်၎င်း၊ ခွဲစိတ်ရာတွင်၎င်း အသုံးပြုသော ကရိယာများ ပြုလုပ်ရန်အတွက် တန်တလမ်သတ္တုကို အသုံးများသည်။ ဓာတုဗေဒစမ်းခန်းအတွက် ကရိယာတန်ဆာပလာများ ပြုလုပ်ရာတွင်လည်း ပလက်တီနမ်အစား တန်တလမ်ကို အသုံးပြုလေ့ရှိ၏။ တန်တလမ်ကို ကောင်းစွာ နန်းဆွဲယူနိုင်သောကြောင့် လျှပ်စစ်ဓာတ်မီးလုံးများတွင် ဤသတ္တုကို တန်စတင်အစား ဓာတ်မီးလုံးမီးစာနန်းကြိုး ပြုလုပ်ရန်အတွက် အသုံးပြု၏။ ဓာတ်မီးလုံးမီးစာနန်းကြိုး ပြုလုပ်ရာ၌ တခါတရံ တန်တလမ်သတ္တုချည်းကို၎င်း၊ တခါတရံ အလျူမီနီယမ် သို့မဟုတ် နစ်ကယ်နှင့်ရောစပ်ထားသော တန်တလမ် သတ္တုစပ်ကို၎င်း အသုံးပြုလေ့ရှိသည်။ ဝိုင်ယာလက်စက်ရှိ လေပြွန်များတွင်လည်း တန်တလမ်ကို များစွာ အသုံးပြုကြလေသည်။

တန်တလမ်၏ ဓာတုသင်္ကေတမှာ Ta ဖြစ်၏။ အက်တမ် အလေးဆမှာ ၁၈၀·၈၈ ဖြစ်၍ အက်တမ်နံပတ်စဉ်မှာ ၇၃ ဖြစ်သည်။ သိပ်သည်းဆမှာ ၆·၆ ဖြစ်၏။ အရည်ပျော်သည့် အပူချိန်မှာ စင်တီဂရိတ် ၂၈၅၀ ဖြစ်သည်။

# လျှိုမြောင်ဖြတ်သန်းရေပေါ်လမ်း

**ကြိုးတန်တား၊ ကြိမ်တန်တား၊ သစ်သားတန်တား၊ အုတ်တန်တား၊ သံတန်တားဟူ၍ တန်တား အမျိုးမျိုး အစားစားရှိပုံ၊ ကမ္ဘာကျော် တန်တားကြီးများနှင့် ယင်းတို့၏ အကျိုးသက်ရောက်ပုံနှင့်တကွ တိုင်ထူတန်တား၊ ခုံတန်တား၊ မောင်းကန် တန်တား၊ တန်တားရှင်၊ ဗော့တန်တား၊ ဗေလီ တန်တား အစရှိသည်တို့ကို အထူးကြံဆ တီထွင်ဆောက်လုပ်ကြသည့် ဒြီးကျူး ထိုက်သော အင်ဂျင်နီယာတို့၏ စွမ်းရည်ကို ဖော်ပြထားသည်။**

**တန်တား**။ ။ကမ္ဘာဦးသူတို့ အသုံးပြုခဲ့ကြသည့် တန်တားဟူသည်မှာ မြစ်ချောင်းများတွင် ကန့်လန့်ဖြတ်၍တည်ရှိနေသော သစ်တုံးများ၊ ကျောက်ခုံများ၊ နွယ်ပင်များစသည်တို့ ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ နောင်သောအခါ၌မူကား လူတို့သည် သစ်ပင် ဝါးပင်များဖြင့် မြစ်ကို ကန့်လန့်ဖြတ်ခင်း၍၊ တန်တား ပြုလုပ်လာတတ်ကြဟန်တူသည်။ ဤကဲ့သို့သော သစ်ဝါးနှင့်ဆောက်လုပ်သည့် တန်တားသည် လေးသော ဝန်ကို မခံနိုင်ချေ။ လူတို့၌ အလွန်လေးလံသော ဝန်ထုပ် ဝန်ပိုးကို သယ်ယူပို့ဆောင်ရန် အကြောင်းပေါ်ပေါက်လာသောအခါ ပိုမိုခိုင်ခံ့သောတန်တားကို တည်ဆောက်ရန် လိုအပ်လာသည်။ ထို့ပြင်လည်း၊ အလွန်တရာကျယ်ဝန်းလှသော မြစ်ချောင်း၊ ချိုင့်ဝှမ်းတို့ကို ကျော်ဖြတ်ရမည့်အခါ၊ တန်တားရှည်ရှည်ခင်းရန် လိုအပ်လာသည်။ ယင်းသို့လိုအပ်သော အကြောင်းများကြောင့်၊ ခိုင်ခံ့ရှည်လျားသော တန်




**လူသုံးများသည့် တန်တားသေများ**

**အထက်တွင် လူသုံးများသည့် တန်တားသေခြောက်မျိုးတို့ကို သရုပ်ပြပုံများနှင့် တကွ တွေ့မြင်နိုင်ပေသည်။ (၁) မှာ တိုင်ထူစနစ်ပေါ် မူတည်၍ ဆောက်လုပ်ထားသော ရိုးရိုးတန်တားဖြစ်သည်။ (၂) နှင့် (၃) တို့မှာ ခုံးတန်တားနှင့် ပေါင်းကူးတန်တားများ ဖြစ်ကြ၍ (၄) နှင့် (၅) မှာမူ မောင်းကန်တန်တားနှင့် ကြိုးတန်တားတို့ ဖြစ်ကြသည်။**

တား ဆောက်လုပ်ရန်အတွက်၊ တိုင်ထူ၍ တန်တားဆောက်ခြင်းစံ နစ်ကို လူတို့ တီထွင်လာကြလေသည်။

## တိုင်ထူစံနစ်

တန်တား၏ခါးလည် ညွတ်မကျအောင် အောက်မှပင့်၍ ပိုးပေးသော စံနစ်သည် တိုင်ထူစံနစ်ဖြစ်သည်။ တိုင်ထူ၍ တန်တားဆောက်ခဲ့ပါလျှင်၊ မည်မျှရှည်သောတန်တားကိုပင် ဖြစ်စေကာမူ တည်ဆောက်နိုင်သည်။ သို့သော် အခက် အခဲ တခုမှာ တန်တားတိုင်ထူရန် အောက်ခြေသည် နွံများ သဲများသာဖြစ်လျှင်၊ တိုင်ထူရန် မဖြစ်နိုင်တော့ချေ။ ထိုအခါမျိုး၌ ပေါင်းကူးတန်တားစံနစ်ဖြင့် တန်တားဆောက်လုပ်ကြရလေသည်။

## ပေါင်းကူးတန်တား

ပေါင်းကူးတန်တား ဆောက်လုပ်သောစံနစ်သည် အလေးချိန်ကို ခံနိုင်ရည်ရှိအောင်၊ ခင်းထားသော တန်တားကို ထုတ်၊ ကျောက်စသည်တို့ဖြင့် ပိုး၍တည်ဆောက်သော စံနစ်ဖြစ်သည်။ ခင်းထားသောတန်တား၏ အပေါ်၌ဖြစ်စေ၊ အောက်၌ဖြစ်စေ ပေါင်းကူးကို တည်ဆောက်ထားနိုင်သည်။

အမေရိကန်ပြည်ထောင်စုနိုင်ငံ၊ အိုင်အိုဝါပြည်နယ်ရှိ ဒူဗုတန်တားသည် အကြီးဆုံးသော ပေါင်းကူးတန်တားဖြစ်သည်။ ယင်းတန်တားကို ၁၉၄၃ ခုနှစ်က ဆောက်လုပ်သည်။ ဗဟိုပေါင်းကူးမှာ ပေပေါင်း ၇၄၅ ပေကျယ်၏။

## ခုံးတန်တား

ရှေးဟောင်း ရောမနိုင်ငံတွင် တိုင်ထူတန်တားနှင့် ပေါင်းကူးတန်တားတို့ကို မတည်ဆောက်ဘဲ၊ ခုံးတန်တားကိုသာ တည်ဆောက်လေ့ရှိသည်ကို တွေ့ရသည်။ ခုံးတန်တားစံနစ်မှာ ကျောက်တုံးများကို တခုပေါ် တခု ဆင့်၍ သပ်ရိုက်သွင်းခြင်းအားဖြင့်၊ ခုံးနေသော တန်တားကို တည်ဆောက်သည့် စံနစ်ဖြစ်၏။ ဤစံနစ်အရ တန်တားဆောက်သည့်အခါ၊ တန်တား၏ အလယ်တည့်တည့်တွင်ရှိသော ကျောက်တုံးသည် ယင်း၏အပေါ်၌ကျရောက်သော ဝန်ထုပ် ဝန်ပိုး၏ အလေးချိန်ကို ယင်း၏ဘေး တဖက်တချက် ကျောက်တုံးများအပေါ်သို့ အဆင့်အဆင့် လွှဲပေးလေရာ၊ နောက်ဆုံးတွင် အောက်ခြေ၌ရှိသော ကျောက်တုံးအထိ ဖြစ်လေသည်။ ဤနည်းဖြင့် အလေးချိန်၏ဒဏ်အားကို ခုံးတန်တား၌ရှိသော ကျောက်တုံးများအားလုံးက အညီအမျှ ခံယူကြရ

လေသည်။ ရောမတို့၏ ခုံးတန်တား ခန်းဖွင့်သည် ပေတရာ အကျယ်ရှိသည်။ သူ့ခေတ်နှင့်သူ စဉ်စားကြည့်လျှင်၊ ထို ပေတရာကျယ် ခန်းဖွင့်သည် အင်ဂျင်နီယာဆရာကြီးများ၏ လက်စွမ်း မည်မျှထက်သည်ကို ပြဆိုပေသည်။ သို့သော် ယခုခေတ်၌ကား ဂျာမနီနိုင်ငံရှိ ပလောင်ယင်တန်တားသည် ခန်းဖွင့် ၂၉၅ ပေကျယ်၍၊ ဆွီဒင်နိုင်ငံရှိ သြဂါမင်မြစ် တန်တားမှာ ၈၈၆ ပေကျယ်သည်။ နိုင်အဂ္ဂရာရေတံခွန်ရှိ သက်တန့် တန်တားမှာမူကား ခန်းဖွင့်ပေ ၉၅၀ ကျယ်လေသည်။ သို့သော် သက်တန့် တန်တားမှာ သံမဏိ ခုံးတန်တား ဖြစ်လေသည်။

ကန်ကရိ ခုံးတန်တားခေါ် ဗိလတ်မြေကိုင်သောခုံးတန် တားလည်း ရှိသေးသည်။ ဆွီဒင်နိုင်ငံရှိ ဆန်ဒို တန်တား နှင့် စပိန်နိုင်ငံရှိ အက်ဆလာတန်တားတို့မှာ ကန်ကရိ ခုံးတန်တားများ ဖြစ်ကြသည်။

သံမဏိ ခုံးတန်တားတို့တွင် အရှည်ဆုံးတန်တားမှာ အမေရိကန်ပြည်ထောင်စုနိုင်ငံ နယူးဂျာစီ ပြည်နယ်ရှိ ဗေယွန် တန်တား ဖြစ်လေသည်။

## ကြိုးတန်တား

အထက်ကပြဆိုခဲ့သော တိုင်ထူစံနစ်၊ ပေါင်းကူးစံနစ်၊ ခုံး စံနစ်တို့မှာ ယနေ့တိုင် လူသုံးများသော တန်တားတည် ဆောက်ရေး စံနစ်များဖြစ်ကြသည်။ သို့ရာတွင်၊ ချင်း တောင် ဒေသနှင့် ဝနယ်တို့တွင် တွေ့ရသော ကြိုးတန်တား စံနစ်လည်း ရှိသေးသည်။ ထိုစံနစ်မှာ ရှေးသူဟောင်းများ လက်ထက်ကစ၍ တီထွင်သုံးစွဲသော စံနစ်ဖြစ်သော် လည်း၊ ခန်းဖွင့်ကျယ်၍ ခိုင်ခံ့သော ကြိုးတန်တားရှည်များ ကို တည်ဆောက်ရာ၌မူ၊ ခရစ် ၁၇၀၀ ပြည့်နှစ်သို့ ရောက် ခါနီးမှပင်၊ သင့်လျော်သော နည်းနိဿယကို အင်ဂျင်နီယာ ဆရာကြီးများက တွေ့ရှိရလေသည်။ ထိုနည်းမှာ အခြား မဟုတ်၊ သံမဏိကြိုးငယ်များကို လိမ်ကျစ်၍ နန်းလိမ်ကြိုး တခု ပြုလုပ်ပြီးလျှင်၊ ယင်းကြိုးတန်းမှနေ၍ တန်တားခင်း ခြင်း ဖြစ်လေသည်။ အချို့သော တန်တားကြီးများတွင် ယင်းကဲ့သို့သော နန်းလိမ်ကြိုးမှာ အချင်းအားဖြင့် သုံး ပေမျှရှိလေသည်။

ကမ္ဘာပေါ်တွင် ရှိသမျှသော တန်တားအမျိုးမျိုးအနက် အရှည်ဆုံးသော တန်တားမှာ ၁၉၃၇ ခုနှစ်တွင်တည် ဆောက်ပြီးစီးသော ဂိုးလဒင်းဂိတ်ခေါ် ကြိုးတန်တားဖြစ်၍၊ ယင်းသည် အမေရိကန်ပြည်ထောင်စုနိုင်ငံ ဆန်ဖရန်စစ္စကို ပင်လယ်အော်၌ တည်ရှိသည်။ ပေပေါင်း ၄,၂၀၀ ရှည် သည်။ ဒုတိယအရှည်ဆုံးမှာ အမေရိကန်ပြည်ထောင်စုနိုင်ငံ နယူးယော့မြို့ ဟဒ်ဆန်မြစ်ကိုဖြတ်၍ ဆောက်လုပ်ထား သော ဂျော့ဝါရှင်တန် ကြိုးတန်တားဖြစ်သည်။

အထက်ပါစံနစ်တို့ကို မူတည်၍၊ ယခုခေတ်အခါ၌ တန် တား အမျိုးမျိုး ဆောက်လုပ်လာကြသည်။ ထိုတန်တား များကို အမျိုးအစားအလိုက် ပြဆိုဦးမည်။

## မောင်းကန်တန်တား

မောင်းကန်တန်တားမျိုးမှာ တဖက်ကမ်းမှ မြစ်လယ်သို့ မောင်းတံသဖွယ် တန်တားထိုး၍၊ ထိုအလားတူ အခြား တ ဖက်ကမ်းမှလည်း မြစ်လယ်သို့ မောင်းတံသဖွယ် တန်တား ထိုးပြီးလျှင်၊ ထိုမောင်းနှစ်ခုတို့ မြစ်လယ်၌ဆုံကြသော သ ဘောဖြင့် တည်ဆောက်သည့် တန်တားဖြစ်သည်။ ဤ မောင်းကန်တန်တားမျိုး၌ ကမ်းခြေ တဖက်တချက်တွင် အုပ်တိုင် (ဝါ) ကျောက်တိုင်တခုစီ စိုက်ထူထား၍ အခြေ ခံသော်လည်း၊ မြစ်လယ်၌မူကား တိုင်ထူရန် မလိုတော့ချေ။ ထို့ကြောင့် ယင်းတန်တားမျိုးကို ရေစီးသန်သောမြစ်များ ၌ တည်ဆောက်ကြသည်။ ဤမောင်းကန်တန်တားမျိုးကို ပုံစံပြရသော်၊ ခရစ် ၁၇၉၀ ပြည့်နှစ်တွင် စကော့တလန်ပြည် ၌ တည်ဆောက်သော ပေ ၁,၇၁၀ ရှည်သည့် ဖို့တန်တား၊ ခရစ် ၁၉၁၇ ခုနှစ်တွင် ကနေဒါနိုင်ငံ၌ တည်ဆောက်သော ပေ ၁,၈၀၀ ရှည်သည့် ကွီဗက်တန်တား၊ အိန္ဒိယနိုင်ငံ ကာလ ကတ္တားမြို့ရှိ ဟူဂလီမြစ်ကိုဖြတ်၍ တည်ဆောက်သော ပေ ၁,၅၀၀ ရှည်သည့် ဟောင်ရာတန်တား စသည်တို့ဖြစ်၏။ ပဌမဦးစွာ ခေတ်မှီမှီနှင့် တည်ဆောက်သော မောင်းကန်

ဩစတြေးလီးယားနိုင်ငံ ဆစ်ဒနီမြို့ရှိ ကမ္ဘာကျော် ကြိုးတန်တားကြီး



တန်တားမှာမူကား၊ ခရစ် ၁၈၆၇ ခုနှစ်တွင် တည်ဆောက်သည့် ဂျာမနီနိုင်ငံ မိန်းမြစ် တန်တားဖြစ်သည်။

## တန်တားရှင်

သင်္ဘောကြီးများ ခုတ်မောင်းသွားလာလျက်ရှိသော မြစ်ကြီးများအဖို့၊ တန်တားကို အရှင် တည်ဆောက်ကြရသည်။ သို့မှသာ ယင်းတို့အတွက် အသွားအလာ လွယ်ကူပေမည်။ တန်တားရှင်အမျိုးအစား၌ ဆုံလည်တန်တားနှင့် ဆွဲ တန်တားဟူ၍ရှိသည်။ ဆုံလည်တန်တားမှာ အုတ်တိုင်တခုပေါ်တွင် လည်၍နေသော တန်တားဖြစ်သည်။ ဆွဲတန်တားမှာကား သင်္ဘောဝင်ရာတွင် တန်တားတခုလုံးကို စက်သီးဖြင့် မတင် ဆွဲယူနိုင်သော တန်တားမျိုးဖြစ်၏။ ထိုပြင် မဲတင်းတန်တားရှင်ဟုလည်း ရှိသေး၏။ ထိုတန်တားဆောက်လုပ်ပုံမှာ ဤသို့ဖြစ်၏။ တခါတရံ ခရီးသည်တို့သည် မီးရထားသံလမ်းကို ပိတ်ထားသော မဲတင်းထားသည့် သစ်သားတန်းရှည်ကို တွေ့ဘူးကြလိမ့်မည်။ မီးရထားသံလမ်းကို ဖွင့်ပေးလိုသည့်အခါ၊ သစ်သားတန်းရှည်၏ တဖက်ကြိုးကို ဖြုတ်လိုက်သည်။ ထိုအခါ အခြားတဖက်တွင် မဲတင်းထားသောကြောင့်၊ သစ်သားတန်းသည် အပေါ်သို့ လန်သွားပြီးလျှင်၊ ခရီးသည်တို့အတွက် လမ်းပွင့်သွားသည်။ ဤသဘောကိုယူ၍၊ မဲတင်းတန်တားရှင်ကို တည်ဆောက်ရသည်။ ထိုပြင် အီရက်နိုင်ငံ ရှတ်တယ်လာရဗ်မြစ်ကို ဖြတ်ကူးသော တန်တားရှင်တခု ရှိသေးသည်။ ယင်းတန်တားကား သင်္ဘောများဝင်နိုင်အောင်၊ တန်တားခန်းဖွင့်တခုကို ရေ၌မြှုပ်ပေးသော စံနစ်ဖြင့် တည်ဆောက်သည့် တန်တားဖြစ်သည်။ တန်တားကို အပေါ်သို့ ဆွဲမတင်ဘဲ၊ ရေ၌ မြှုပ်ပေးရသည့်အကြောင်းမှာ ထိုအရပ်၌လေ အလွန်ပြင်းထန်စွာ တိုက်သဖြင့် ဆွဲတန်တားကို အသုံးပြုလျှင်၊ အန္တရာယ် ရှိနိုင်သောကြောင့်ဖြစ်သည်။

## ဖော့တန်တား

ရေပေါ်တွင်ပေါ်နေသော ဖော့များပေါ်တွင် တည်ခင်းသော ဖော့တန်တားများလည်း ရှိသေးသည်။ ဖော့တန်တားတို့ကို ဆောက်လုပ်သည့်အကြောင်းမှာ စစ်မက်အင်္ဂါဖြစ်ပွားချိန်တွင် စစ်သားများသည် မြစ်ချောင်းများကို အလွယ်တကူ ကူးဖြတ်နိုင်ရန် အမြန်ဆောက်လုပ်ကြရာမှ ပေါ်ပေါက်လာသည်။ ခရစ်မပေါ်မီ နှစ်ပေါင်း ၅၀၀ အထက်က၊ ယခုကာလအခေါ် အီရန်ဟုခေါ်သော ပါးရှားပြည်တွင် ဇာဇီဘုရင်သည် ဟဲလစပွန့်ခေါ် ရေလက်ကြားကို စစ်သည်တော်များ အလွယ်တကူ ကူးဖြတ်စေရန် ဖော့တန်တားခင်းသည့် သမိုင်းအမှတ်အသားရှိသည်။ အမေရိကန်ပြည်ထောင်စု၊ ဝါရှင်တန်ပြည်နယ်၊ ဆီအက်တယ်မြို့ရှိ ဝါရှင်တန် တန်တားမှာကမ္ဘာပေါ်တွင် အကြီးဆုံးသော ဖော့တန်တားဖြစ်သည်။

## ဗေလီတန်တား

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက များစွာသော တန်တားတို့မှာ အဖျက်အဆီးခံရလေသည်။ မြန်မာနိုင်ငံတွင် ထင်ရှား ကျော်စောသော အင်းဝတန်တားမှာ စစ်ကြောင့် အဖျက်အဆီးခံရသော တန်တားတခုဖြစ်သည်။ ထိုသို့ အဖျက်အဆီးခံရသော တန်တားများကို အလွယ်တကူ ပြန်လည်တည်ဆောက်နိုင်ရန်အတွက် ကြံဆကြလေရာ၊ ဒုတိယ ကမ္ဘာစစ်အတောအတွင်းမှာပင် ဗေလီတန်တားဆောက်သော စံနစ်တရပ် ပေါ်ပေါက်လာလေသည်။ ဗေလီ တန်တားမှာ ကုန်တင်မော်တော်ကားဖြင့် အလွယ်တကူ သယ်ယူနိုင်လောက်အောင်ငယ်သော သံမဏိအစိတ်အပိုင်းများဖြင့် တည်ဆောက်သည့် တန်တားမျိုးဖြစ်သည်။ တန်တားခင်းသည့်အခါ၊ ထိုသံမဏိအစိတ်အပိုင်းများကို စက်ကရိယာမပါဘဲ လူခြောက်ယောက်မျှဖြင့် လွယ်ကူလျင်မြန်စွာ ဆက်စပ်ဆောက်လုပ်နိုင်သည်။ ခန်းဖွင့်ပေ ၂၄၀ မျှအထိကျယ်သော ဗေလီတန်တားမျိုးကိုပင် တည်ဆောက်နိုင်လေသည်။ မြန်မာနိုင်ငံအရပ်ရပ်တွင် စစ်ဒဏ်ကြောင့် ပျက်စီးသည့် တန်တားနေရာများတွင် ဗေလီတန်တားများ ခင်းထားသည်ကို ယနေ့တိုင်အောင် တွေ့နိုင်ကြပေသည်။

## အင်းဝတန်တား

မြန်မာနိုင်ငံတွင် ထင်ရှားသော တန်တားကြီးတို့မှာ ဂုတ်ထိပ် တန်တားနှင့် အင်းဝ တန် တား တို့ဖြစ် သည်။ (ဂုတ်ထိပ် — ရှု) အင်းဝတန်တားသည် ၁၀၂ ပေ မြင့်၍၊ ၃,၉၄၈ ပေ ရှည်သည်။ တန်တားမှာ ပေါင်းကူးတန်တားဖြစ်၍၊ ရက်မကြီး ၉ ခု၊ ရက်မလတ် ၁ ခု၊ ရက်မငယ် ၆ ခုရှိသည်။ ရက်မကြီးတခုလျှင် အလျား ပေ ၃၅၀ ရှည်သည်။ ရက်မလတ်မှာ ပေ ၂၅၀ ရှည်သည်။ အပိုင်းဆက် ရက်မငယ်တို့မှာ တခုလျှင် ပေ ၆၀ စီရှည်သည်။ ထိုတန်တားကြီးကို တည်ဆောက်ပြီးစီး၍၊ ၁၉၃၄ ခုနှစ် ဇန္နဝါရီလ ၂ ရက်နေ့တွင် အခမ်းအနားဖြင့်၊ မြန်မာပြည်ဘုရင်ခံ ဆာ ဟျူး စတီဖင်ဆန် ကိုယ်တိုင် ဖွင့်လှစ်သည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း ၁၉၄၂ ခုနှစ် ဧပြီလ ၃၀ ရက်နေ့တွင် မြန်မာပြည်မှ ဆုတ်ခွာရသော ဗြိတိသျှစစ်တပ်တို့သည် ယင်းတို့၏ မြေလှန်စံနစ်အရ၊ ပေါင်းကူးအမှတ် ၇ နှင့် ၈ တို့ကို ဒိုင်းနမိုင်းဖြင့် ဖောက်ခွဲဖျက်ဆီးခဲ့လေသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးသည့်နောက်ပိုင်း၌ နှစ်ပေါင်းအတန်ကြာမျှ ထိုအင်းဝတန်တားကြီးကို မပြင်ဆင်နိုင် ရှိခဲ့သည်။ သို့သော် ၁၉၅၃ ခုနှစ် မေလလောက်တွင် နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုက



စစ်ကိုင်းတန်တား၏ သာယာဖွယ် ရှုခင်းတရပ်

အင်းဝတန့်တားကြီး ပြင်ဆင်ရေးတွင် ကိုယ်တိုင်ကိုယ်ကြပ်ကြီးဆော်သောအခါ၊ မြန်မာနိုင်ငံ အမျိုးသားအလုပ်သမားများ၏ လုံ့လဝီရိယဖြင့် မီးရထားဌာနက အပြင်းအထန်ကြိုးကြပ်ပြင်ဆင်လေသောကြောင့်၊ ၁၉၅၄ ခုနှစ် အောက်တိုဘာလ၌ပင်လျှင် ပြီးစီးလေသည်။ ၁၉၅၄ ခုနှစ် အောက်တိုဘာလ ၂၇ ရက်နေ့ နံနက် ၁၀ နာရီခွဲ အချိန်တွင် ၅၇ သိန်းကျော် အကုန်အကျခံ၍ ပြင်ဆင်ထားသော အင်းဝတန့်တားကြီးကို နိုင်ငံတော်သမတ ဒေါက်တာဘဦး ကိုယ်တိုင် ကြွရောက်ဖွင့်လှစ်ခဲ့လေသည်။ ထိုတန့်တားကြီးမှာ ၇၂၄ မိုင် ရှည်လျားသော ရန်ကုန်မှ မြစ်ကြီးနား မီးရထားလမ်းခရီးကို တောက်လျှောက်သွားနိုင်အောင် ဆက်သွယ်ပေးသော တန့်တားဖြစ်၍၊ မြန်မာနိုင်ငံ၏ လမ်းပန်း ဆက်သွယ်ရေး၌ အလွန်အရေးကြီးသော တန့်တားဖြစ်လေသည်။

**တန့်တာဦးမြို့။** ။စစ်ကိုင်းခရိုင်၊ စစ်ကိုင်းနယ်၊ တန့်တားဦး မြို့နယ် ရုံးစိုက်ရာမြို့ဖြစ်သည်။ ဘကြီးတော်ဘုရားလက်ထက် သက္ကရာဇ် ၁၁၇၂ ခုနှစ်လောက်တွင် နန်းမတော်မိဖုရား မယ်နု၏မောင်တော် စလင်းမြို့စား မင်းသားကြီး မောင်အိုသည် မြစ်သားမြစ်ကိုဖြတ်၍၊ တန့်တားဦးကို အင်းဝနှင့်ဆက်ပေးသော တန့်တားကိုဆောက်လုပ်သည်။ ယင်းဆောက်လုပ်သော တန့်တား၏အဦး၌ တည်ရှိ၍၊ တန့်တားဦး ခေါ်သည်ဟု အမှတ်အသား ပြုကြသည်။ တန့်တားဦး၏ မြောက်ဖက် သုံးမိုင်ခန့်အကွာတွင် အင်းဝမြို့ဟောင်းနေရာ တည်ရှိသည်။ အင်းဝမြို့တော်ဟောင်း၌ နန်းတော်ရာ၊ မြို့ရိုး၊ နန်းမတော်မိဖုရား၏ အုတ်ကျောင်းစသည်တို့ရှိခြင်းကြောင့် တန့်တားဦး ဒေသ တဝိုက်သည် ရာဇဝင် သမိုင်း ဗဟုသုတရှာသူတို့အတွက် လည်ပတ်ရန်ကောင်းသောဒေသဖြစ်သည်။ တန့်တားဦး၏ တောင်ဖက်၌မူ ပင်းယမြို့ဟောင်း နေရာ တည်ရှိသည်။ ဗြိတိသျှအုပ်ချုပ်ရေး တည်ထောင်စက တန့်တားဦးမြို့နယ်ကို အင်းဝမြို့နယ်ဟုခေါ်သည်။

တန့်တားဦးသည် စစ်ကိုင်းခရိုင်တွင် ကူးသန်းရောင်းဝယ်ရေး၌ အချက်အချာဌာန အလွန်စည်ကားသော မြို့ဖြစ်သည်။ ကျောက်ဆည်နှင့်မြင်းခြံသို့ ကားလမ်း အဆက်အသွယ်ရှိသည်။ တန့်တားဦးမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ ၄,၂၄၁ ယောက်ရှိသည်။

'တန့်တားဦးက ကွမ်းနုဝါ၊ ငမြာက ဆေး၊ ကွမ်းသီးတောင်ငူနှင့် ကိုင်း ထုံးဖြူ၊ ပြည် ရှားငယ်၊ သာဝါးလို့ထွေး' ဟူသော စာဆိုအရ၊ တန့်တားဦးမှကွမ်းသည် မြန်မာဘုရင်များ လက်ထက်တွင် နာမည်ကျော်ခဲ့သည်။ မြို့တွင်း၌ ဒုတိယမင်းခေါင် တည်သော မင်္ဂလာစေတီရှိသည်။

**တန်းတလပ်။** ။တန်းတလပ်သည် ဂရိ ထုံးဟောင်း ပုံပြင်တွင်ပါရှိသော ဖရစ်ဂျီးယားပြည် ဘုရင်တပါးဖြစ်၏။ သူသည် ဂရိနတ်မင်းကြီး ဇုနှင့် နတ်သမီး ပလူတိုတို့ သင့်ရာတွင် ရရှိသောသားဖြစ်သည်။

တန်းတလပ်၌ ပီးလော့နှင့် နိုင်အိုဗီအမည်ရှိ ကလေးနှစ်ယောက်ရှိသည်။ တနေ့သောအခါ သူသည် သားကလေး ပီးလော့ကိုသတ်ဖြတ်၍၊ နတ်များကို စားတော်ပွဲတည်ရန် ဆက်သ၏။ ထိုပြစ်မှုကို ဇုနတ်မင်းကြီး သိရသောအခါ တန်းတလပ်ကို ဒဏ်ခတ်၏။ ဒဏ်ခတ်ပုံမှာ တန်းတလပ်ကို ဆာလောင်မွတ်သိပ်စေ၍၊ ရေအိုင်တခုတွင် မေးဖျားသို့ ရေရောက်သည်အထိ ရပ်နေစေ၏။ ရေဆာသောအခါ တန်းတလပ်သည် ရေကိုငုံ၍ သောက်လေသော်၊ ရေသည် ခန်းခြောက်သွားသဖြင့် မသောက်ရချေ။ သူ၏ဦးခေါင်းထက်၌ သစ်သီးဝလံတို့သည် ဝဲလျက်ရှိ၏။ သို့သော် ဆာလောင်သဖြင့် ထိုသစ်သီးတို့ကို ခူးဆွတ်သည်ရှိသော်၊ သစ်သီးတို့ကို လက်လှမ်းမမှီချေ။



တန့်တားဦးမြို့ရှိ သူခိုးတောက်ပြား၏ သင်္ချိုင်းဂူ



တန်းဒြသမင်သည် ဝန်တင်စွတ်ဖားဆွဲရန်အတွက် အသုံးဝင်ပေသည်။

**တန်းဒြသမင်**။ ။သမိုင်းမတင်မီခေတ်ကပင် တန်းဒြသမင်များသည် ဥရောပတိုက် တောင်ပိုင်းတွင် လှည့်လည် ကျက်စားလျက်ရှိကြသည်ဟု ပထဝီဝင်ပညာရှင်တို့က ယူဆကြသည်။ ထိုခေတ်တွင် ဥရောပတိုက်သားတို့သည် တန်းဒြသမင်၏အသားကို စားသုံးခဲ့ကြလေသည်။ အရေထူများကို ဝတ်ဆင်ရန်အတွက် အသုံးပြုခဲ့ကြသည်။ ယခုအခါ၌မူ စကန်ဒီနေးဗီးယားနိုင်ငံ၊ ဆိုက်ဗီးရီးယား၊ နျူးဖေါင်းလန်းကျွန်း၊ ကနေဒါနိုင်ငံနှင့် မြောက်အမေရိကတိုက်တို့၌သာ ထိုသမင်မျိုးကို တွေ့နိုင်တော့သည်။ လက်ပလန်နှင့် ဆိုက်ဗီးရီးယား မြောက်ပိုင်းရှိ လူမျိုးများသည် တန်းဒြသမင်များကို ယဉ်ပါးအောင်မွေးမြူ၍ ဝန်တင် စွတ်ဖားများကို ဆွဲစေကြသည်။ ထိုသမင်မျိုး၏သားရေဖြင့် အဝတ်အစား၊ နေထိုင်ရာ တဲအိမ်များ၊ ကကြိုးတန်ဆာများ ပြုလုပ်ကြသည်။ အသားနှင့်နို့ကိုမူ အစာအဖြစ် မှီဝဲကြသည်။ ဦးချိုနှင့် အရိုးများကို လက်နက်ပစ္စည်းဖြစ်အောင် လုပ်ယူကြသည်။ တန်းဒြသမင်၏အသားကို စားသုံးနိုင်ကြောင်း သိသဖြင့် ၁၈၈၉ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသည် တန်းဒြသမင် ကောင်ရေအနည်းငယ်ခန့်ကို အလာစကာပြည်နယ်၌ မွေးမြူရန် မှာယူခဲ့သည်။ ယခုအခါ အမေရိကန် ပြည်ထောင်စုအတွင်း၌ တန်းဒြသမင် ကောင်ရေသည် အလွန်တိုးပွားလျက် ရှိပေသည်။ တန်းဒြသမင်၏အသားသည် အနံ့အရသာနှင့် ပြည့်စုံသည်ဟုဆိုသည်။ တန်းဒြသမင်နှင့် အလွန်မျိုးနီးစပ်သည့် အမေရိကန် ကဲရီးဗူးသမင်ဖိုမတို့၌ ဖြာထွက်လျက်ရှိသောဦးချိုများရှိသည်။ (ကဲရီးဗူးသမင် — ရှု။) ထိုသမင်မျိုး၏ ဦးချိုများသည် ဥရောပတိုက်နှင့် အာရှတိုက်ရှိ တန်းဒြသမင်မျိုးတို့၏ ဦးချိုများထက် အများအားဖြင့် ပိုမို၍တောင့်တင်းသည်။

တန်းဒြသမင်တို့သည် သန်မာတောင့်တင်း၏။ မြေကြီးမှ ပခုံးထိ ၄ ပေ မြင့်၏။ ကနေဒါနိုင်ငံရှိ တန်းဒြသမင်တို့မှာ ၅ ပေအထိ မြင့်ကြောင်းကို သိရသည်။ တန်းဒြသမင်မျိုး၏ ကိုယ်အနေအထားသည် အလွန်အေးသည့် မြောက်ပိုင်း ဒေသများ အတွက် အထူးသင့်လျော်သည်။ သူတို့၏ခြေများသည် တိုတုတ်၍ တောင့်တင်းသည်။ ဖိအားကြောင့် ပြန့်လျက်ရှိသော ခွာများသည် နှင်းဖုံးအုပ်လျက်ရှိသောနေရာသို့မဟုတ် စိမ့်ပေါသောနေရာများတွင် သွားလာနိုင်ရန်အတွက် အထူးသင့်တော်သည်။ ပေါင် ၃၀၀ လေးသော ဝန်ကိုဆွဲ၍ နှင်းဖုံးလွှမ်းလျက်ရှိသော နေရာများတွင် တနာရီလျှင် ၉ မိုင်၊ ၁၀ မိုင်ခန့်နှုန်းဖြင့် အချိန်ကြာမြင့်စွာ သွားနိုင်ကြသည်။ အအေးဒဏ်ကို ခံနိုင်ရန်အတွက် တန်းဒြသမင်၌ အရေထူသာမက အမွေးနှစ်ထပ်လည်းရှိသည်။ အပေါ်ယံအမွေးသည် ရှည်၍ကြမ်းသည်။ အောက်ထပ်ရှိ အမွေးသည် နူးညံ့၍ သိုးမွေးနှင့်တူသည်။ တန်းဒြသမင်၏အရောင်မှာ နွေဥတု၌ အညိုရင့်ရောင် ဖြစ်သော်လည်း၊ ဆောင်းဥတုတွင် ထိုအညိုရင့်ရောင်မှာ ဖျော့၍သွား၏။ လည်ပင်းတလျှောက်တွင် အဖြူရောင် အမွေးရှည်များရှိသည်။ ထိုအမွေးများသည် လည်ဆံမွေးကဲ့သို့ တွဲလျားကျနေသည်။ အရိုင်းဘဝတွင် တန်းဒြသမင်သည် နွေဥတု၌ မြက်ပေါ်များသည့် လျှိုအတွင်းသို့ဝင်ကာ မြက်များကိုစားသည်။

ဆောင်းဥတုတွင် တန်းဗြသမင်ရိုင်းများသည် အုပ်ကြီးဖွဲ့ကာ ပင်လယ်ကမ်းခြေသို့သွား၍ ပင်လယ်မှော်များကို စားသောက်တတ်သည်။ ဆောင်းဥတု ကျရောက်သောအခါတွင် တဖန် အတွင်းပိုင်းရှိ တောင်ပေါ်များရာဒေသသို့ ရွှေ့ပြောင်းလာကြသည်။ ထိုနေရာများတွင် တန်းဗြဒေသ၌ပေါက်သော သစ်ကပ်မှော်တမျိုးကို စားသောက်ကြသည်။ ထိုမှော်ပင်မျိုးကို ရနိုင်ရန် ခွာပြားများဖြင့် နှင်းလွှာများကို နက်ရှိုင်းစွာတူးဆွရသည်။

**တန်းနီငါး။** ။တန်းနီငါးကို တူးနားငါးဟုလည်း ခေါ်ကြသည်။ ထိုငါးမျိုးသည် မက္ကရယ်ငါး မျိုးရင်းဝင်ဖြစ်သည်။ ယင်းတို့ကို ဥရောပ၊ အာရှ၊ အာဖရိကနှင့် အမေရိကတိုက်တို့၌ နွေးသော ရေတိမ်ရာအရပ်များတွင် တွေ့ရသည်။ တန်းနီငါး အမြောက်အမြားတို့သည် မေလနှင့်ဇွန်လတွင် ဂျီဗရောတား ရေလက်ကြားကိုဖြတ်ကာ မြေထဲပင်လယ်ထဲသို့ ဝင်လေ့ရှိကြသည်။ နောက်များမကြာမီ နှစ်စုခွဲကြ၍၊ တစုက ဥရောပတိုက် ကမ်းခြေတလျှောက်နှင့် ကျန်တစုက အာဖရိကတိုက် ကမ်းခြေတလျှောက်တွင် ဥချရန် နေရာရှာကြသည်။

တန်းနီငါးသည် စီးပွားဖြစ်ဖမ်းယူသော ငါးမျိုးဖြစ်သည်။



အာရှတိုက် နွေးသော ရေတိမ်အရပ်၌ကျက်စားလေ့ရှိသည့် တန်း နီ ငါး

ထိုငါးမျိုးသည် အလွန်ကြီးမား၏။ ဗလူးဖင်း တန်းနီခေါ် တန်းနီငါးမျိုးသည် တခါတရံ ဆယ်ပေမက ရှည်၍၊ ပေါင် ၁၅၀၀ မျှပင် အလေးချိန်စီးသည်။ ထိုတန်းနီငါးမျိုးအပြင် အခြားအမျိုးအစားများလည်း ရှိသေးသည်။ တန်းနီငါး အမျိုးအစားအားလုံးတို့သည် 'သန္တီဒီး' မျိုးရင်းဝင် ဖြစ်ကြကုန်၏။

တန်းနီငါးသည် အများအားဖြင့် ကင်းမွန်ဘဲလိပ်နှင့် ငါးငယ်ကလေးများကို စားသည်။ ပေျံကို အနှစ်သက်ဆုံးဖြစ်သည်။ တန်းနီငါးသည် သာမန် မက္ကရယ်ငါးမျိုးနှင့် ဆင်တူသော်လည်း၊ ယင်း၌ ပို၍တုတ်ခိုင်သော ကိုယ်ထည်ရှိသည်။ ထိုငါး၏အမြီး ခွနေပုံမှာ စက်ဝိုင်းခြမ်းနှင့်တူသည်။ ထိုအမြီးပုံမျိုး ရှိခြင်းကြောင့်လည်း၊ တန်းနီငါးကို အမှတ်ရလွယ်သည်။

တန်းနီငါးများကို အထူးသဖြင့် ကာလီဖိုနီးယား ကမ်းလွန်နှင့် မြေထဲပင်လယ်ထဲတွင် ဖမ်းကြသည်။ ထိုငါးကို အစိမ်းလိုက်ဖြစ်စေ၊ စည်သွတ်၍ဖြစ်စေ ရောင်းချလေ့ရှိသည်။ ဣတလီနိုင်ငံတွင် ထိုငါးကို အစိတ်အပိုင်းများဖြတ်ကာ အမည်တမျိုးစီဖြင့် ရောင်းချလေ့ရှိသည်။ တန်းနီငါး၏ အရသာမှာ ကြက်ငယ်ငယ်၏အရသာနှင့် ခပ်ဆင်ဆင်တူသည်။

**တန်းန္တိုင်းဇား။** ။ဂျာမန်ထုံးဟောင်းပုံပြင် အလိုအားဖြင့်၊ တန်းန္တိုင်းဇားဟူသော ပုဂ္ဂိုလ်သည် ဂျာမန်စာပေ သမိုင်း၌ ၁၃ ရာစုနှစ်တွင် ပေါ်ပေါက်ခဲ့သော လင်္ကာဆရာ တဦး ဖြစ်လေသည်။ ထိုခေတ်တွင် အင်္ဂလန်ပြည် အပါအဝင်ဖြစ်သော ဥရောပနိုင်ငံတို့တွင် လင်္ကာဆရာတို့သည် အရပ်လေးမျက်နှာသို့ လှည့်လည်ကာ၊ ကျွန်ုပ်တို့နိုင်ငံတွင် ကွက်စိတ် ဆရာများ စာဟောသကဲ့သို့ လင်္ကာများကို ဟောပြော သီဆိုလေ့ရှိကြသည်။ တန်းန္တိုင်းဇား သည် ဤသို့ အရပ်တကာလည်၍၊ လင်္ကာများကို ရွတ်ဆိုလာခဲ့ရာ၊ တနေ့သော် မိန်းမလှတဦးနှင့် တွေ့လေ၏။ ထိုမိန်းမသည် ဗီးနပ်နတ်သမီးဖြစ်သည်ဟူသော အမှတ်ဖြင့်၊ တန်းန္တိုင်းဇားသည် ထိုနတ်သမီးနှင့် ခုနစ်နှစ်တိုင်တိုင် ပေါင်းသင်း၍နေလေ၏။ ထိုနောက် သူသည် မှားခဲ့ပြီကိုသိ၍၊ ရောမမြို့သို့ သွားလျှင်၊ ပုပ်ရဟန်းမင်းထံ အပြစ်ကို ဖြေဖျောက်ရန် တောင်းပန်လေသည်။ ထိုအခါပုပ်ရဟန်းမင်းက ငါ၏ တောင်ဝှေး အတက်ပေါက်လိုက ပေါက်မည်၊ သင်၏အပြစ် ပြေဖို့ကား ခဲယဉ်းလှသည်ဟု ဆိုလေ၏။ ထိုကြောင့် တန်းန္တိုင်းဇားလည်း စိတ်ပျက်၍ ဂျာမနီနိုင်ငံသို့ ပြန်လေ၏။ သုံးရက်မြောက်သောနေ့တွင် ပုပ်ရဟန်းမင်း၏ တောင်ဝှေးသည် အတက်ပေါက်လေ၏။ ထိုအခါမှ လူတို့သည် တန်းန္တိုင်းဇားကို ရှာကြလေကုန်၏။ သို့သော် မတွေ့ကြချေ။

တန်းနှိုင်းဇာတ်ကား ဗီးနပ် နတ်သမီးနှင့် ကာမဂုဏ်၌ နစ်မွန်း၍နေလေသတည်း။ ယင်းအကြောင်းကို ဂီတဆရာ ဗတ်ဂနာသည် လက်ာစပ်ဆိုထားလေသည်။

**တုန်မြန် လျှပ်စစ်ဓာတ်စီး။** ။အေစီ (ဝါ) အော်လတာနိတ်တင်း ကားရင့်ဟုခေါ်သော စုန်ဆန် ဓာတ်စီးကြောင်းတွင် အပြန်အလှန် တကြိမ်စီးဆင်း၍ တပတ်ပြည့်လျှင်၊ ယင်းသို့တပတ်ပြည့်ခြင်းကို 'ဆိုင်ကယ်' ဟုခေါ်သည်။ ယင်းဆိုင်ကယ်ပေါင်း တထောင်ကို ကီလိုဆိုင်ကယ်ဟုခေါ်၏။ ဆိုင်ကယ်ပေါင်း တသန်းကို မဂ္ဂဆိုင်ကယ်ဟုခေါ်၏။

တစက္ကန့်အတွင်း လျှပ်စစ်ဓာတ် စုန်ဆန်စီးဆင်းသည့် ဆိုင်ကယ်အကြိမ်ပေါင်းကို ရေတွက်၍၊ သိပ္ပံပညာစကားဖြင့် ဓာတ်စီးကြောင်းတွင် တုန်ကြိမ် ဆိုင်ကယ်ပေါင်း မည်မျှရှိသည်ဟု ပြောဆိုကြရသည်။ တုန်ကြိမ် ဆိုင်ကယ်ပေါင်း သိန်းသန်းမကများပြားသော လျှပ်စစ်ဓာတ်ကို တုန်မြန် လျှပ်စစ်ဓာတ်စီးဟု ခေါ်သည်။ အင်္ဂလိပ်ဘာသာဖြင့် 'ဟိုင်း ဖရီကွင်စီ ကားရင့်' ဟုဆိုကြသည်။

သာမန် အော်လတာနိတ်တား (ဝါ) အေစီ ဒိုင်နမိုမှ ရသော အေစီ ကားရင့်၏ တုန်ကြိမ်သည် တစက္ကန့်လျှင် ဆိုင်ကယ် ၅၀ မျှလောက်သာရှိသည်။ အထူးစီမံထားသော ဟိုင်း ဖရီကွင်စီ အော်လတာနိတ်တားများမှ ကီလိုဆိုင်ကယ် ၁၀ တုန်ကြိမ်ရှိသော ကားရင့်များအထိ ရနိုင်၏။ သို့သော် မဂ္ဂဆိုင်ကယ်နှင့် ရေတွက်နိုင်လောက်အောင် တုန်ကြိမ်များသော ကားရင့်မျိုးကိုလိုလျှင် 'သာမျှန်နစ်ဗား' များဖြင့်သာ ဖန်တီးပေးနိုင်ပေသည်။

ဟိုင်း ဖရီကွင်စီ ကားရင့်ကို ယခုအခါ ဝိုင်ယာလက်နှင့် ရေဒီယိုများတွင်၎င်း၊ ညှိဓာတ်ဖြင့် အပူပေးခြင်း၊ (ဓာတ်မလိုက်နိုင်သော) ဒိုင်အီလက်တြစ်ပစ္စည်းကို အပူတိုက်ခြင်းစသော ဟိုင်း ဖရီကွင်စီ အပူတိုက်နည်းများတွင်၎င်း အသုံးပြုလျက်ရှိကြ၏။ ထိုမှတပါး အချို့သောရောဂါများကို ကုသရာ၌လည်း၊ ဟိုင်း ဖရီကွင်စီ ကားရင့်ကို အောင်မြင်စွာ အသုံးချနိုင်နေပြီဟု သိရလေသည်။

ညှိဓာတ်ဖြင့် အပူပေးရာတွင် ပူလာစေလိုသည့်ပစ္စည်းကို ဟိုင်း ဖရီကွင်စီ ကားရင့် စီးနေသည့်ကွိုင်ဖြင့် ဝန်းရံထားသည်။ ကွိုင်သည် အသွားအပြန်ပြောင်းနေသော သံလိုက်နယ်ကို ဖြစ်စေ၍၊ ထိုသံလိုက်ဓာတ်ကတဖန် ပူစေလိုသည့် ပစ္စည်းအတွင်း၌ လျှပ်စစ်ဓာတ်ကို ဖြစ်ပေါ်စေရာ၊ ဤလျှပ်စစ်ဓာတ်ကြောင့် ပစ္စည်းအတွင်း၌ အပူဓာတ် ကိန်းအောင်းလာလေသည်။ ဤနည်းအားဖြင့် ပစ္စည်းတခုလုံးကို ဖြစ်စေ၊ လိုသောနေရာမျှကို ဖြစ်စေ၊ လျှင်မြန်စွာ အပူတိုက်ပေးနိုင်သည်။ ယခုအခါ သံမဏိအစိတ်အပိုင်းများကို အပူတိုက်ပေးရသည့် ကိစ္စများ၌ ဤနည်းကို အများအပြား အသုံးပြုလျက်ရှိလေသည်။

ဒိုင်အီလက်တြစ်ပစ္စည်း အပူတိုက်နည်းဆိုသည်မှာ သာမန်အားဖြင့် ဓာတ်လည်းမလိုက်၊ အပူလည်း ကောင်းစွာမလိုက်သော ပစ္စည်းများကို အပူတိုက်နည်းဖြစ်၏။ ပမာအားဖြင့် ကြီးမားသောသစ်တုံးတလုံးကို လျှင်မြန်စွာ ခြောက်သွေ့စေလိုသည် ဆိုပါစို့။ အကယ်၍ သာမန်ဖြစ်သော အပြင်ဖက်မှ အပူတိုက်ပေးသည့်နည်းကို သုံးပါက သစ်တုံးအပေါ်ယံက စတင်ပူလာသောအပူဓာတ်သည် နာရီပေါင်းအတော်ကြာပြီးမှ အတွင်းသို့ရောက်ပေမည်။ သို့သော် ဟိုင်း ဖရီကွင်စီ ကားရင့်ကို အသုံးပြုသောအခါ၊ အပူဓာတ်သည် သစ်တုံးအတွင်း၌ ညီညာစွာ ပျံ့နှံ့ဖြစ်ပေါ်သည့်အတွက် မိနစ်ပိုင်းအတွင်း သို့မဟုတ် တခါတရံ စက္ကန့်ပိုင်းအတွင်းမှာပင် သစ်တုံးသည် ခြောက်သွေ့သွားနိုင်လေသည်။

ယခုအခါ ရာဗာ၊ ပလပ်စတစ် စသည်တို့နှင့် ပြုလုပ်ထားသော အထည်ပစ္စည်းများကို ဟိုင်း ဖရီကွင်စီ အပူတိုက်နည်းဖြင့် ဆက်ပေးနိုင်ပြီဖြစ်၏။ အစားအစာများကိုလည်း ဤနည်းဖြင့် ချက်ပြုတ်နိုင်၏။ သို့သော် ကျက်ပြီဟုထင်ရလောက်အောင် အရောင်မပြောင်းခြင်း၊ တခါတရံ ပစ္စည်းကိုလိုက်၍ အချို့သောအပိုင်း၌ မကျက်သေးဘဲ ကျန်နေတတ်ခြင်းစသော အကြောင်းများကြောင့် အောင်မြင်စွာ အသုံးမချနိုင်သေးချေ။ ကျက်ပြီးသား အစာများကိုမူ၊ ဤနည်းဖြင့် လျှင်မြန်စွာ ပြန်နွေးပေးနိုင်လေသည်။ (လျှပ်စစ်ဓာတ် — လည်းရှု။)

**တပ်မတော်။** ။တပ်မတော်ဟူသည် စစ်ရေးစစ်ရာ အတွက် လက်နက်တပ်ဆင်ပေးကာ၊ စံနစ်တကျ ဖွဲ့စည်းထားသော လူတစုဖြစ်သည်။ တပ်မတော်သည် လက်နက်ကိုင်တပ်ပေါင်းစု အားလုံးပင်ဖြစ်၍၊ နိုင်ငံတနိုင်ငံအတွက်သော်၎င်း၊ ဘုရင်တပါး၊ သို့မဟုတ် မြို့ဝန်မြို့စား တဦးတယောက်အတွက်သော်၎င်း ပေါ်ပေါက်လာခဲ့ခြင်းဖြစ်သည်။

ရှေးမူလတပ်မတော်တွင် ခြေလျင်တပ်၊ မြင်းတပ်နှင့် အမြောက်တပ် ဟူ၍သာ၊ အဓိကအားဖြင့် ရှိခဲ့သည်။ ခြေလျင်တပ်သည် စစ်ပွဲတွင် အပြင်းထန်ဆုံးတိုက်ရသော တပ်ဖွဲ့ပင်ဖြစ်သည်။ ယင်းတပ်သားများသည် ရန်သူများအား ခြေလျင်ချီတက်ကာ၊ ယှဉ်ပြိုင်စစ်ထိုးရသည်။ မြင်းတပ်ဖွဲ့သားများသည် မြင်းများကိုစီးကာ၊ ယှဉ်ပြိုင်စစ်ထိုးရခြင်းကြောင့်၊ ချီတက်ရာတွင် ခြေလျင်တပ်သားများထက် ပိုမို၍ ခရီးပေါက်ရောက်တွင်ကျယ်သည်။ ယင်းတပ်ဖွဲ့၏ အလုပ်ကား ရန်သူ၏ပိုင်နက်ကို ဖောက်ထွင်းဝင်ရောက် တိုက်ခိုက်ကာ သတင်းထောက်လှမ်းရသည်။ ရန်သူ၏တပ် ပြိုကွဲပျက်ပြားသည့်အခါတွင် ဒလစပ်လိုက်၍ တိုက်ခိုက်ချေမှုန်း

ရသည်။ ရိုင်ဖယ်နှင့် စက်သေနတ်များ မပေါ်ပေါက်မီ ခေတ်က မြင်းတပ်သည် စစ်ပွဲတွင် အရေးပါလှသည်။ ခြေလျင်တပ်နှင့်အတူ ပူးပေါင်းတိုက်ခိုက်လေ့ရှိသည်။ ယမ်းဖော်စပ်နည်း မတွေ့မီကာလက စစ်ပွဲများတွင် လက်နက်ကရိယာများကို အဝေးသို့လွှဲ၍ ပစ်ခတ်ရသောတပ်ဖွဲ့ကို အမြောက်တပ်ဟု ခေါ်သည်။ ယင်းရှေးခေတ် အမြောက်တပ်ဖွဲ့၏ အလုပ်မှာ ရန်သူ၏စစ်ကြောင်းတွင်းသို့ ကျောက်တုံးကြီးများ၊ မီးတောက်လျက်ရှိသော ဆီပူအိုးများနှင့် အခြား ကျည်စေ့၊ အမြောက်ဆံ၊ ဗုန်းဆံတို့ကို လှမ်း၍ပစ်သွင်းရသည်။ ၁၄ ရာစုခေတ်ဦးတွင် အမြောက်များ ပေါ်ပေါက်လာသည်။ သို့ရာတွင် ယင်းအမြောက်များကို တိုက်ပွဲမဖြစ်ပွားမီ၌သာ အသုံးပြုလေ့ရှိသည်။ လူထုထပ်သော ရန်သူ၏စစ်ကြောင်းအတွင်းသို့ တကြိမ်မျှပစ်သွင်းပြီးလျှင် ယင်းအမြောက်များကို စစ်မြေပြင်မှ ဆွဲထုတ်သွားခဲ့ကြသည်။ ယင်းအမြောက်များကို သစ်သားဖြင့် အကြမ်းပြုလုပ်ထားသော စွတ်ဖားများဖြင့် ဆွဲယူသယ်ဆောင်ရခြင်းကြောင့် တနေရာမှတနေရာသို့ ရွှေ့ပြောင်းသည့်အခါတွင် များစွာ လေးလံပင်ပန်းလှပေသည်။ သို့ရာတွင် ဘီးတပ်ရထားများကို အသုံးပြုလာကြသည့်အခါတွင်ကား၊ မြေပြင်အမြောက်တပ်ဟူ၍ တိုးတက်ပေါ်ပေါက်လာလေသည်။ မြေပြင်အမြောက်တပ်သည် စစ်ရေးစစ်ရာတွင် အလွန် အရေးပါသော အပိုင်းမှ ရာစုခေတ်ပေါင်းများစွာ တစစ တိုးတက်၍ ပါဝင်ဆင်နွှဲခဲ့ခြင်းကြောင့် ခြေလျင်တပ်များအဖို့ စစ်ပွဲ၌ ယင်းမပါလျှင် လုံးဝတအားမဲ့လေသည်။

ရှေးခေတ်ခြေလျင်တပ်သားများသည် ရန်သူအား လှမ်း၍ ပစ်လွှတ်တိုက်ခိုက်ရန်အတွက် လှံတိုလှံရှည်များ၊ လောက်လွှဲများကို စွဲကိုင်ကြသည်။ တကမ်းမှီ ရင်ဆိုင်တိုက်ပွဲအတွက် ဓားလွှတ်များ၊ မှိန်းများ၊ ထိပ်တွင်လှံချွန်တပ် စစ်ပုဆိန်များ၊ စစ်တင်းပုတ်များနှင့် စစ်ရဲတင်းများကို စွဲကိုင်ကြသည်။

အထက်ပါခြေလျင်တပ်၊ မြင်းတပ်နှင့် အမြောက်တပ်တို့သည် ရှေးခေတ်တပ်မတော်တွင် အဓိက အင်အားကြီး သုံးရပ်ဖြစ်သည်။ ယင်းတို့ကို စက်မှုလက်မှုတပ်ခွဲနှင့် ထောက်ပံ့ရေးတပ်ခွဲတို့က အထောက်အကူပြုသည်။ လူတို့အသိဉာဏ်ပွင့်လင်း၍ တစစ တိုးတက် ယဉ်ကျေးလာခဲ့သည့်အခါတွင် ဆေးတပ်ခွဲဟူ၍ ပေါ်ပေါက်ခဲ့ပြန်၏။ ထို့နောက် တပ်တခုနှင့်တခု ဆက်သွယ်မိရန်အတွက် အချက်ပြတပ်ခွဲဟူ၍လည်း ပေါ်ပေါက်ခဲ့ပြန်သည်။

၂၀ ရာစုနှစ် စလျှင်စခြင်းပင် စစ်ရေးစစ်ရာအတွက် လက်နက်သစ် လက်နက်ဆန်းများသည် တရှိန်ထိုး ထွန်းကားပေါ်ပေါက်လာပြီးလျှင် နိုင်ငံကြီးတိုင်းရှိ တပ်မတော်တိုင်းတွင်လည်း တပ်စိပ်၊ တပ်ခွဲ အမျိုးမျိုးဖြစ်ပေါ်လာခဲ့ကြလေတော့သည်။ ခေတ်သစ် စစ်ယန္တရား၏ အသွင်ကား များစွာရှုပ်ထွေးလှပေသည်။

သို့သော် ယခုခေတ်တပ်မတော်ကို အဓိကအားဖြင့် ပိုင်းခြားလိုက်သည်ရှိသော် ကြည်းတပ်၊ ရေတပ်နှင့်လေတပ်ဟူ၍ အင်အားကြီးသုံးရပ်ရှိသည်။ ကြည်း၊ ရေ၊ လေ တပ်ပေါင်းစုသည် ယခုခေတ်တပ်မတော်ပင်ဖြစ်သည်။

ယခုခေတ် ကြည်းတပ်သားတို့သည် အဝေးသို့ ပစ်ခတ်တိုက်ခိုက်ရန်အတွက် လောက်လွှဲအစား ရိုင်ဖယ်သေနတ်များ၊ စက်သေနတ်များကိုင်၊ လက်တကမ်းမှီ ရင်ဆိုင်တိုက်ပွဲများအတွက် ရှေးခေတ်မှိန်းများ အစား သေနတ်ထိပ်တွင် တပ်ဆင်ရသော လှံစွပ်များကိုင် စွဲကိုင်ကြသည်။ ထို့ပြင် ဦးခေါင်းတွင်လည်း သံခမောက်များကိုဆောင်းကြသည်။ ယခုခေတ်အမြောက်တပ်၌ အမြောက်များကို သယ်ယူရွှေ့ပြောင်းရာတွင် ရှေးခေတ်ကကဲ့သို့ စွပ်ဖားများဖြင့် ဆွဲယူရွှေ့ပြောင်းခြင်း မပြုရတော့ဘဲ ထရက်တာခေါ် ဘီးတပ်ခေတ်မှီ ဆွဲယဉ်များဖြင့် အလွယ်တကူ လျင်မြန်စွာ ရွှေ့ပြောင်း သယ်ယူနိုင်ပေသည်။ ရှေးခေတ် မြင်းတပ်၏နေရာတွင်လည်း တင့်ကားတပ်ကို အစားထိုးသွင်းခဲ့၏။ ရှေးခေတ်က ရန်သူအား ဝိုင်းရံလုပ်ကြံသည့်နေရာတွင် မြင်းတပ်အရေးပါအရာရောက်သကဲ့သို့ ယခုခေတ်တင့်ကားတပ်သည်လည်း ရန်သူအား ဝိုင်းရံလုပ်ကြံသည့်နေရာတွင် များစွာ အရေးပါခဲ့ပေသည်။ တင့်ကားတပ်တွင် အပေါ့စားတင့်ကား၊ အလေးစားတင့်ကားဟူ၍ တင့်ကားအမျိုးမျိုး ပါဝင်သည်။ မြင်းတပ်နေရာတွင် တင့်ကားတပ်ကို အစားထိုးအသုံးပြုခဲ့သော်လည်း ယခုခေတ်စစ်ပွဲများ၌ မြင်းများကို ဆက်လက်အသုံးပြုလျက်ပင် ရှိသည်။ စစ်မြေပြင်သို့ မြင်းများကို သယ်ဆောင်သည့်အခါ မော်တော်ထရပ်ကားများဖြင့် သယ်ယူ ပို့ဆောင်သည်။ ယခုခေတ်ကြည်းတပ်သားများကို တနေရာမှ တနေရာသို့ သယ်ဆောင်သည့်အခါတွင် ထရပ်ကားများဖြင့်၎င်း၊ တပ်မတော်အတွက် အထူးစီမံ တည်ဆောက်ခဲ့သော ဂျစ်ကားများဖြင့်၎င်း သယ်ယူပို့ဆောင်သည်။ ယင်းတို့ကိုစုပေါင်း၍ ယခုခေတ်အခေါ်အားဖြင့် ကြည်းတပ်ဟုခေါ်သည်။ ကြည်းတပ်၌ ဆေးတပ်ခွဲ၊ သယ်ယူပို့ဆောင်ရေး တပ်ခွဲ၊ စက်မှုလက်မှု တပ်ခွဲ၊ အချက်ပြ တပ်ခွဲ၊ ရိက္ခာထောက်ပံ့ရေး တပ်ခွဲ စသည်ဖြင့် တပ်ခွဲ အမျိုးမျိုး ပါဝင်သေးသည်။

အမြောက်များ တိုးတက်ဖြစ်ထွန်းလာသည်မှ အစပြု၍ ရေတပ်၏အင်အားသည် ကြီးထွားလာသည်။ ရှေးခေတ်က အဝေးပစ်လက်နက်ကြီးများကို ကြံဆတီထွင်ခြင်း မရှိသေးသောကြောင့် ရေတပ်၏အင်အားသည် မှေးမှိန်ခဲ့သည်။ အင်ပါယာချဲ့ထွင်သည့်ခေတ်တွင် အဝေးပစ် လက်နက်ကြီးများ (အမြောက်) ပေါ်ပေါက်ခဲ့ပြီဖြစ်ရာ ထိုအခါမှအစပြု၍

ရေတပ်သည် ကြည်းတပ်၏အရိုက်အရာကို ခံယူကာ ကမ္ဘာကို စိုးမိုးသည့် စစ်အင်အားတရပ် ဖြစ်လာသည်။ နိုင်ငံတနိုင်ငံ၏ စီးပွားရေးကြွယ်ဝမှုကိုလည်း ရေတပ်ကပင် ဖန်တီးလာသည်။ ဗြိတိသျှတို့သည် ဤအချက်ကို အထူးဂရုပြုမိကာ ရေတပ်အင်အားဖြင့် အင်ပါယာ ချဲ့ထွင်ခဲ့ကြပေသည်။ ၁၅၈၈ ခုနှစ်၌ ကမ္ဘာကျော် စပိန် အာမဒါ ရေတပ်ကြီးကို ဗြိတိသျှတို့၏ရေတပ်က တိုက်ခိုက်အောင်မြင်ခဲ့သည်။ ၁၈၀၅ ခုနှစ်တွင်လည်း ဗြိတိသျှရေတပ်ဗိုလ်ချုပ် နယ်လဆင်သည် ပြင်သစ်စစ်ဘုရင် နပိုလီယန်၏ ရေတပ်ကြီးကို ထရာဖယ်လဂါတိုက်ပွဲ၌ ချေမှုန်း အောင်မြင်ခဲ့သည်။ ထိုအချိန်မှစ၍ ဗြိတိသျှတို့၏ ရေတပ်မတော်သည် ကမ္ဘာကို စိုးမိုးခဲ့ပေသည်။ တနည်းဆိုသော် ထိုအချိန်မှအစပြု၍ ရေတပ်သည် ကမ္ဘာကြီး၏ငြိမ်းချမ်းရေးကို ပထမကမ္ဘာစစ်ကြီးပြီးသည့်အထိ ထိန်းချုပ်ခဲ့ပေသည်။ ရေတပ်တွင် ၁၈၆၀ ပြည့်နှစ်မှအစပြု၍၊ သင်္ဘောများကို သံဖြင့်ပြုလုပ်ပြီးလျှင် ရေနွေးငွေ့စက်ဖြင့် ခုတ်မောင်းကာ အဝေးပစ် အမြောက်ကြီးများကိုလည်း တပ်ဆင်နိုင်ခဲ့ကြသည်။ ထိုအခါမှစ၍ ရေတပ်၏အင်အားသည် ပိုမိုတိုးတက် ကြီးမားခဲ့သည်။

ထို့နောက် ၂၀ ရာစု၏ အစပိုင်းတွင် ဂျာမနီသည် ဗြိတိသျှရေတပ်ကို ယှဉ်ပြိုင်အန်တုလာလေရာ ထိုအခါမှအစပြု၍ ရေတပ်တွင် အသစ်အဆန်းတိုးတက်မှုများ ပေါ်ပေါက်လာလေသည်။ သင်္ဘောများတွင် ရိုးရိုးသံချပ်ကာအစား သံမဏိချပ်ကာများကို အသုံးပြုလာ၏။ အမြောက်စင်များသည် လျှပ်စစ်ဓာတ်အားဖြင့် လှည့်ပတ်၍ရသော ဆိုလည် အမြောက်စင်များ ဖြစ်လာ၏။ အမြောက်ပစ် သူရဲများသည် တိုက်ရိုက်ထိမှန် ခံရခြင်းမှလွဲ၍၊ အခြား မည်သည့်နည်းနှင့်မှ ထိမှန်ခြင်း မခံရအောင် အကာအကွယ်များ ရလာ၏။ အမြောက်ဆန်များသည် ပေါက်ကွဲခြင်းမပြုမီ သိပ်သည်းသောချပ်ကာများကို ဖောက်ထွင်းနိုင်လာလေသည်။ သင်္ဘောများကို တာဗိုင်း ရေနွေးငွေ့စက်များဖြင့် ခုတ်မောင်းလာသောကြောင့် ရှေးကထက် အမြန်နှုန်း အဆမတန် တိုးတက်ကြီးမားလာ၏။ ၁၉၀၄ ခု ရုရှ ဂျပန် စစ်ပွဲတွင် ပို့အာသာ၌ ရုရှ ရေယာဉ်သင်္ဘောများကို ဂျပန်တို့က တော်ပီဒို လက်နက်ဆန်းများဖြင့် စတင်အသုံးပြုရန်အတွက် ဖျက်သင်္ဘောများကိုလည်း တည်ဆောက်ခဲ့ကြလေသည်။ ထို့နောက် တော်ပီဒိုများ မထိမှန်နိုင်အောင် ရေထဲတွင် သံမဏိနန်းခက်များ ကာကွယ်ချထားသော စစ်သင်္ဘောများကိုငင်း၊ ရန်သူသင်္ဘောများ ဝင်မလာနိုင်အောင် ရေထဲတွင် ရေမြှုပ်ဗုံးများ ချထားခြင်းနှင့် ထို ရေမြှုပ် ဗုံးများကို ရှင်းလင်းဖယ်ရှားရန်အတွက် ရေမြှုပ်ဗုံးရှင်းသင်္ဘောများကိုငင်း တိုးတက်ဖန်တီးခဲ့ကြလေသည်။ ယင်း ၂၀ ရာစု ပဌမပိုင်း၌ပင် ရေငုပ်သင်္ဘောများနှင့် ရေငုပ်သင်္ဘောရှိရာဒေသကို ရှာဖွေနိုင်စွမ်းသော ကိရိယာများ၊ ရေငုပ်သင်္ဘောဖျက် လက်နက်ဆန်းများကို တိုးတက်တီထွင်ခဲ့ကြလေသည်။ ရေတပ်မတော်၌ ဤသို့အားဖြင့် တိုက်ခိုက်မှုစွမ်းအင်သစ်များ တိုးတက်ပေါ်ပေါက်ခဲ့ရာ ထိုစွမ်းအင်သစ်များကို ၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ်ကြီး ဖြစ်သောအခါ အပြိုင်အဆိုင် အသုံးပြုခဲ့ကြလေတော့သည်။

ပဌမကမ္ဘာစစ်ကြီးခေတ်သည် လေယာဉ်ခေတ် အစပင် ဖြစ်သည်။ ဤစစ်ကြီးအတွင်း၌ လေယာဉ်များဖြင့် ဗုံးကြဲတိုက်ခိုက်ခဲ့သည်။ သို့သော် လေတပ်၏စွမ်းအင်သည် ထက်ထက်မြက်မြက် မရှိသေးချေ။ စစ်အာဏာပိုင်များသည် လေတပ်၏စွမ်းအင်ကို ယုံကြည်မှု နည်းပါးခဲ့သည်နှင့်အမျှ ပြည့်ဝစွာလည်း အသုံးမပြုနိုင်ကြသေးချေ။ ပဌမကမ္ဘာစစ်ကြီးအတွင်း၌ လေယာဉ်များကို ကင်းထောက်မှုအတွက် အများဆုံး အသုံးပြုခဲ့ကြပေသည်။ သို့ရာတွင် ပဌမကမ္ဘာစစ်ကြီး ပြီးသည်မှ အစပြု၍ လေတပ်သည် ရေတပ်၏အရိုက်အရာကို တစစခံယူခဲ့သည်။ ကြည်းတပ်ရေတပ်တို့၏ စစ်ဆင်ရေးတွင် လေတပ်၏စွမ်းအင်ကို အသုံးမပြုက အောင်မြင်မှု မရနိုင်တော့ချေ။ စစ်အင်အားဖြင့် ကမ္ဘာကို စိုးမိုး ထိန်းချုပ်ရာတွင် ကြည်းတပ်၊ ရေတပ်တို့၏စွမ်းအင်ထက် လေတပ်၏စွမ်းအင်က ပိုမိုကြီးမားလာလေသည်။ သာဓကကား ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ လေတပ်၏ ကြီးမားထက်မြက်သောစွမ်းအင်ကို အထင်အရှား တွေ့ရသည်။ စစ်ပွဲများ၏ အနိုင်အရှုံးကို လေကြောင်းစစ်ဆင်မှုများက အဆုံးအဖြတ် ပေးသည်ဟုပင် ဆိုနိုင်သည်။ ဉရောပစစ်မျက်နှာ၌ နာဇီဂျာမန်တို့ စစ်ရေးနိမ့်ခဲ့ရသည်မှာ ယင်းတို့၏လေတပ်အင်အား ပျော့ညံ့လာသည့်အချိန်တွင် မဟာမိတ်တို့၏ လေတပ်အင်အား ကြီးထွားလာမှုကြောင့် ဖြစ်သည်ဟု ဆိုနိုင်သည်။ အရှေ့ပိုင်းစစ်မျက်နှာတွင် ဖက်ဆစ်ဂျပန်တို့ အရေးနိမ့်ခဲ့သည်မှာလည်း အထက်ပါနည်းအတိုင်းပင် ဖြစ်သည်ဟု ဆိုနိုင်သည်။ ဤဒုတိယကမ္ဘာစစ်ကြီးကို ပြီးဆုံးအောင် ဖန်တီးလိုက်သည်မှာ လေတပ်၏ ထက်မြက်သောစွမ်းအင်ကြောင့် ဖြစ်သည်ဟုဆိုက မှားမည်မဟုတ်ချေ။ အဘယ်ကြောင့် ဆိုသော် အနုမြူဗုံး ရှိလင့်ကစား ထိုအချိန်က လေတပ်၏စွမ်းအင်သာလျှင် ထက်မြက်ခြင်းမရှိက အချည်းနှီးပင် ဖြစ်ပေလိမ့်မည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသည်နောက်တွင် အနုမြူဗုံးများ၊ ဟိုက်ဒရိုဂျင်ဗုံးများ၊ တုံးပျံများ၊ တုံးယဉ်များအစရှိသော လက်နက်အသစ်အဆန်းများသည် လေတပ်အင်အားစု၏ အရေးပါသော အစိပ်အပိုင်းများ ဖြစ်လာကြလေသည်။ ဂျက်လေယာဉ်တို့သည် တနာရီလျှင် မိုင်ပေါင်း ၁၄၀၀ အထိ ပျံသန်းနိုင်လာကြပြီးလျှင် ကောင်းကင်တွင် လေယာဉ်ချင်း ဓာတ်ဆီဖြည့်နိုင်ကြသည်။ ဟယ်လီကော့ပတာခေါ် ရဟတ်ယာဉ်များဖြင့်လည်း တပ်များကို ချွေ

ပြောင်းခြင်း၊ စုရုံးခြင်း၊ ထောက်ပံ့ခြင်းများ ပြုလုပ်လာနိုင်ကြလေသည်။

ယခုအခါ အထက်ပါကြည်းတပ်၊ ရေတပ်နှင့် လေတပ်တို့ကို ပေါင်းရုံး၍ တပ်မတော်ဟုခေါ်သည်။ ယင်းတို့သည် တခုနှင့်တခု ဆက်သွယ်၍နေသည်။ စစ်ရေးစစ်ရာ ရှိသည့်အခါများတွင် ယင်းတို့သည် တခုကိုတခုထောက်ကူ၍၊အပြန်အလှန် အကျိုးပြုကြလေသည်။

ကမ္ဘာပေါ်၌ နိုင်ငံအသီးသီးတို့သည် တပ်မတော်များကို ဖွဲ့စည်းတည်ထောင်ထားရှိကြသည်။ ယင်းတို့အနက် ပြင်သစ်၊ ဂျာမန်၊ ရုရှ၊ အမေရိကန်နှင့် ဗြိတိသျှတပ်မတော်များသည် ထင်ရှားသော တပ်မတော်ကြီးများဖြစ်သည်။

ပြင်သစ်တပ်မတော်သည် လူဝီ ၁၄ ဘုရင်၏ လက်ထက်နှင့် နပိုလီယံဘုရင်၏ လက်ထက်တွင် ဥရောပတိုက်ကို နှစ်ကြိမ်တိုင်တိုင် လွှမ်းမိုးခဲ့ဘူးသည်။ ပြင်သစ်ရေတပ်သည် ထရာဖယ်လဂါတိုက်ပွဲ (၁၈၀၅ ခု) တွင် အရေးနိမ့်ခဲ့သည်အထိ နှစ်ပေါင်း ၁၀၀ ကျော်မျှ ဗြိတိသျှတို့၏ ဘုရင့်ရေတပ်နှင့် ယှဉ်ပြိုင်ဖက်ဖြစ်ခဲ့သည်။ ၁၈၅၀ ခုနှစ်၌ ပြင်သစ်ရေတပ်သည် ကမ္ဘာ့ရေတပ် အင်အားများအနက် ဒုတိယတန်းလောက်သာ လိုက်တော့၏။ ပဌမကမ္ဘာစစ်ကြီးအတွင်း၌ ပြင်သစ်လေတပ်သည် အင်အားအကြီးဆုံးဖြစ်၍၊ လေကြောင်း စစ်ဆင်မှုများအတွက် လေယာဉ်နှင့် လေသူရဲများကိုလည်း အခြားနိုင်ငံတကာတို့ထက် အများဆုံး ထုတ်လုပ်နိုင်ခဲ့လေသည်။ သို့သော် ကမ္ဘာစစ်ကြီးနှစ်ခုအတွင်း၌ ပြင်သစ်လေတပ်အင်အားသည် တစစ လျော့ပါးသွားခဲ့ပေသည်။

ပြင်သစ်နိုင်ငံတွင် ၁၇၉၂ ခုနှစ်မှ အစပြု၍ မဝင်မနေရစစ်မှုထမ်းဥပဒေကို ပြဋ္ဌာန်းခဲ့၏။ သို့သော် ၁၇၉၈ ခုနှစ်ကျော်လွန်သောအခါမှပင် ပြည်လုံးကျွတ် စစ်မှုထမ်း ဥပဒေကို အတည်ပြုခဲ့လေသည်။ ယင်းပြည်လုံးကျွတ် စစ်မှုထမ်း ဥပဒေသည် ၁၈၁၅ ခုနှစ်နောက်ပိုင်း၌ ရပ်ဆိုင်း၍သွားခဲ့ရာ တတိယနပိုလီယံ၏လက်ထက် (၁၈၅၁–၇၀) သို့ ရောက်သော အခါမှပင် ပြန်လည်၍ ပြဋ္ဌာန်း အတည်ပြုခဲ့ရလေသည်။ ပြင်သစ်တပ်မတော်များသည် ပဌမနှင့် ဒုတိယ ကမ္ဘာစစ်ကြီးများတွင် အကြီးအကျယ် အရေးရှုံးနိမ့်ခဲ့ကြ၏။ ဒုတိယကမ္ဘာစစ်ကြီး၌ ပြင်သစ်တပ်မတော်များသည် ပဌမကမ္ဘာစစ်ကြီးမှာထက် ပို၍ လျင်မြန်စွာ အရေး ရှုံးနိမ့်ခဲ့ကြလေသည်။ ယနေ့အခါ ပြင်သစ်တပ်မတော်တွင် စစ်သည်အင်အား တသန်းခွဲခန့် ရှိလေသည်။

ဂျာမန်တပ်မတော်၏ မူလဘူတမှာ ပရပ်ရှင်းတပ်မတော်ဖြစ်သည်။ ဖရက်ဒရစ် သဂရိတ် ဘုရင်ကြီး၏လက်ထက်၌ ပရပ်ရှင်း တပ်မတော်ကြီးသည် အခြားသောနိုင်ငံတကာတို့၏ တပ်မတော်များနှင့် အပြိုင်အဆိုင် ထင်ရှားကြီးကျယ်ခဲ့သည်။ ပြင်သစ်ဘုရင် နပိုလီယံ၏အင်အားကို နောက်ဆုံး ဖြိုခွင်းရာ၌ ပရပ်ရှင်း တပ်မတော်များသည် အရေးကြီးသော အစိတ်အပိုင်းမှ ပါဝင်ခဲ့လေသည်။ ဗစ်စမတ်၏ လက်ထက်၌ ပရပ်ရှင်း တပ်မတော်သည် အင်အား လွန်ကဲစွာကြီးမားခဲ့ပေသည်။

၁၈၉၅ ခုနှစ်နှင့် ၁၉၁၄ ခုနှစ်များအတွင်း၌ ဂျာမန်ရေတပ်သည် ပဌမတန်းစား ရေတပ်ကြီးအဖြစ်သို့ ရောက်ရှိခဲ့သည်။ ယင်းသို့ ပဌမတန်းသို့ ရောက်ရှိခဲ့ရခြင်းမှာ အဓိကအားဖြင့် ဒုတိယ ကိုင်ဇာ ဝီလီယံဘုရင်၏ ကြိုးပမ်းမှုများကြောင့် ဖြစ်လေသည်။ ပဌမကမ္ဘာစစ်ကြီးတွင် ဂျာမန်ရေတပ်သည် စစ်သင်္ဘောကြီးများ၊ ရေငုပ်သင်္ဘောများကို အသုံးပြုကာ ဗြိတိသျှရေတပ်အင်အားကို အကြီးအကျယ် ဖက်ပြိုင်တိုက်ခိုက်ခဲ့၏။ ပဌမကမ္ဘာစစ်ပွဲအပြီး၌ ဗာဆိုင်းစာချုပ်အရ ဂျာမန်များသည် စစ်သင်္ဘောကြီးများ တည်ဆောက်ခွင့် မရခဲ့ကြတော့ချေ။ သို့သော် ဂျာမန်တို့သည် စွမ်းအားထက်မြက်သော ခါးပိုက်ဆောင် စစ်သင်္ဘောကလေးများကို တည်ဆောက်ကြသည်။ နောင်အခါ၌ ဗာဆိုင်း စာချုပ်ကိုပင် အလေးမမူတော့ဘဲ ကြီးမားသော ရေငုပ်သင်္ဘောတပ်စုကို တည်ဆောက်ဖွဲ့စည်းခဲ့ကြလေသည်။ ဒုတိယကမ္ဘာစစ်ကြီး၌ ဂျာမန်ရေတပ်သည် ရေငုပ်သင်္ဘော စစ်ဆင်ရေးကို လုံ့လစိုက် တိုက်ခိုက်ခဲ့ပေသည်။

ဂျာမန်လေတပ်သည် လပ် (ဖ) ဝပ် (ဖ) အမည်ဖြင့် ထင်ရှားကျော်ကြားခဲ့သည်။ ဂျာမန်တို့သည် အစပဌမတွင် လေတပ်ကို ကြည်းတပ်နှင့် ဆက်သွယ်ထားခဲ့ကြ၏။ ပဌမကမ္ဘာစစ်ကြီးတွင် ဂျာမန်တို့သည် ဗြိတိန်နိုင်ငံပေါ်သို့ လေသင်္ဘောအားဖြင့် ငါးဆယ့်တကြိမ်၊ လေယာဉ်အားဖြင့် ငါးဆယ့်နှစ်ကြိမ် သွားရောက်တိုက်ခိုက် ဗုံးကြဲခဲ့ကြ၏။ စစ်ပြီးဆုံးသောအခါတွင် စစ်ပြေငြိမ်းစာချုပ်အရ ဂျာမန်တို့သည် လေတပ်အင်အားကို ဖွဲ့စည်းတည်ဆောက်ခွင့် မရခဲ့ကြတော့ချေ။ သို့သော် နောင်အခါ၌ ယင်းချုပ်ချယ်ချက်များကို ချိုးဖျက်၍ လေတပ်အင်အားကို ပြန်လည် တည်ဆောက်ခဲ့ကြလေသည်။

ဒုတိယကမ္ဘာစစ်ကြီးတွင် ဂျာမန် လပ် (ဖ) ဝပ် (ဖ) လေတပ်၏ တိုက်စစ်ကြောင့် ကမ္ဘာကျော် ဗြိတိန်ကျွန်းတိုက်ပွဲကြီး ပေါ်ပေါက်ခဲ့ရ၏။ ထိုစစ်တွင် ဂျာမန်လေတပ်သည် ဒုံးပျံလက်နက်များကို ကမ္ဘာပေါ်တွင် ပထမဆုံးအကြိမ် အသုံးပြုခဲ့ပေသည်။ စစ်ကြီး ပြီးဆုံးသောအခါ လပ် (ဖ) ဝပ် (ဖ) လေတပ်သည် တဖန် ပြိုကွဲခဲ့ရပြန်ပြီးလျှင် ယနေ့ထက်တိုင်အောင် ဂျာမန်တို့သည် စစ်လေယာဉ်ကြီးများကို တည်ဆောက်ခွင့် မရရှိခဲ့ကြသေးချေ။

ပဌမကမ္ဘာစစ်ကြီး၌ ဂျာမန်တပ်မတော်တွင် စစ်သည်အင်အား လေးသန်းခွဲ (၄½ သန်း) ပါဝင်ခဲ့သည်။ ထိုစစ်

တွင် ဂျာမန်တို့ ရှုံးခဲ့သော်လည်း စိတ်ဓာတ် ကျဆင်း၍ မသွားကြဘဲ အာဏာရှင် ဟစ်တလာ၏လက်ထက်သို့ ရောက်သောအခါ ဂျာမန် လက်နက်နိုင်ငံတော်ကြီးကို လျင်မြန်စွာ တည်ထောင်နိုင်ခဲ့ကြလေသည်။ သို့သော် ဒုတိယကမ္ဘာစစ်ကြီး၌ ဂျာမန်တပ်မတော်များသည် မဟာမိတ်နိုင်ငံများ တပ်ပေါင်းစုသို့ ၁၉၄၅ ခုနှစ် မေလတွင် ချွင်းချက် မရှိ လက်နက် ချအပ်ခဲ့ကြရပေသည်။

ရုရှနိုင်ငံ၏ စစ်ရေးစစ်ရာကို တိုင်းပြည်၏ ပမာဏနှင့် ရာသီဥတု အခြေအနေတို့က များစွာ အထောက်အကူပြုလျက် ရှိခဲ့ပေသည်။ ယင်းသို့ အထောက်အကူပြုလျက်ရှိသော အချက်နှစ်ချက်ကြောင့်လည်း ဤခေတ်သစ်၌ မိမိတို့၏ နိုင်ငံသို့ လေးကြိမ်တိုင်တိုင် ဝင်ရောက် တိုက်ခိုက်ခဲ့ကြသည့် ဒဏ်ကို ရုရှတပ်မတော်များသည် ကြံ့ကြံ့ခံနိုင်ခဲ့ကြခြင်း ဖြစ်ပေသည်။

၁၇ ရာစု အစတွင် ပိုလန်နှင့် လစ်သူယန်နီးယန်း လူမျိုးများသည် ရုရှနိုင်ငံကို ပဌမဆုံးအကြိမ် ဝင်ရောက် တိုက်ခိုက်ခဲ့ကြ၏။ ထို့နောက် ၁၈ ရာစုတွင် ချား ၁၂ ဘုရင်၏ ဆွီလူမျိုးများ သည်၎င်း၊ ၁၉ ရာစုတွင် ပြင်သစ်စစ်ဘုရင် နပိုလီယံသည်၎င်း၊ ၂၀ ရာစုတွင် ဂျာမန် အာဏာရှင် ဟစ်တလာသည်၎င်း ရုရှနိုင်ငံကြီးကို ဝင်ရောက်တိုက်ခိုက်ခဲ့ကြလေသည်။ သို့သော် တိုင်းပြည်၏ပမာဏနှင့် ရာသီဥတု အခြေအနေတို့ကြောင့် ရုရှတပ်မတော်များသည် ကြံ့ကြံ့ခံကာ လေးကြိမ်စလုံး အနိုင်ယူခဲ့ကြပေသည်။

ရုရှတပ်မတော်၏ ပမာဏ၊ ဖွဲ့စည်းပုံနှင့် ခေတ်မီ တပ်မတော်၏ လေ့ကျင့်ပုံများကို အနည်းအကျဉ်းမျှသာ အသေးစိတ် သိကြရပေသည်။ သို့သော် လွန်စွာကြီးမားသော တပ်မတော်ဖြစ်မည်ကား မုချပင်။ မဝင်မနေရ စစ်မှုထမ်းရေး ရှိမည်မှာလည်း သေချာ၏။ ခေတ်မီလက်နက်များ အပြည့်အစုံ တပ်ဆင်ထားရှိမည်မှာလည်း သေချာလှပေသည်။ ရုရှတပ်မတော်သည် ဗြိတိသျှနှင့် အမေရိကန်တို့၏ တပ်မတော်များနှင့် အသွင်ခြင်းမတူပေ။ ရုရှတပ်မတော်တွင် တိုက်ခိုက်ရေးတပ်များကို လိုသည်ထက်ပိုမိုစွာ ဦးစားပေး ဖွဲ့စည်းထား၍၊ ဆေးတပ်၊ ထောက်ပံ့ရေးတပ်နှင့် ထိန်းသိမ်းရေးတပ်များကို လိုသည်ထက် လျော့နည်းစွာ ဖွဲ့စည်းထားပေသည်။

စက်မှုလက်မှု အခြေအနေ၊ နိုင်ငံရေး အခြေအနေနှင့် ပထဝီအနေအထား အခက်အခဲများကြောင့် ရှေးအခါက ရုရှရေတပ်အင်အားတွင် ကြီးကျယ်တိုးတက် ပြောင်းလဲမှုများ မရှိခဲ့ချေ။ ဒုတိယကမ္ဘာစစ်ကြီး အတွင်းကပင်လျှင် ရုရှရေတပ်သည် အင်အားပျော့ညံ့၍ နေခဲ့သေး၏။ သို့သော် ၁၉၄၅ ခုနှစ်မှ အစပြု၍၊ ရုရှရေတပ်တွင် ပြောင်းလဲမှုများ အကြီးအကျယ် တိုးတက်ပေါ်ပေါက်ခဲ့သည်။ ရုရှတို့သည် ဂျာမန်တို့၏ပုံစံကိုယူ၍ လျင်မြန်သော ခေတ်မီ ရေငုပ်သင်္ဘောတပ်စုကြီးကို ရေတပ်တွင် တိုးချဲ့ဖွဲ့စည်း တည်ထောင်ခဲ့ကြလေသည်။

ဆိုဗီယက်ပြည်ထောင်စုလေတပ် သို့မဟုတ် လေတပ်နီသည် ဂျာမန်လေတပ်ကဲ့သို့ပင် တိုက်ခိုက်ရေး အင်အား တရပ် အဖြစ်ဖြင့် ကြည်းတပ်နှင့် အမြဲတမ်း အဆက်အသွယ်ပြုထားလေသည်။ စစ်ပရိယာယ်အတွက် အသုံးပြုခြင်းထက် ကူညီတိုက်ခိုက်မှုဖက်တွင် ပိုမို၍ အားထားအသုံးပြုသည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသည့်နောက်တွင် လေတပ်နီသည် ပိုမို၍ တိုးချဲ့လာသည်။ သို့သော် အင်အား အတိအကျကို ဆိုဗီယက်အစိုးရ အာဏာပိုင်များက ထုတ်ဖော်ပြောဆိုခြင်းမပြုခဲ့ကြချေ။ သို့သော် ယနေ့အခါတွင် တိုက်ချင်းပစ် ဒုံးပျံကြီးများကိုပင် ပြုလုပ်အောင်မြင်ပြီဟူ၍ ဆိုဗီယက် အစိုးရ အာဏာပိုင်များက ထုတ်ဖော်ကြေညာခြင်း ပြုခဲ့ကြလေသည်။

အမေရိကန်တပ်မတော်သည် ကမ္ဘာ့တပ်မတော်များ အနက် သက်တမ်းအနုဆုံးသော တပ်မတော်ဖြစ်သည်။ အမေရိကန်လွတ်လပ်ရေးစစ်ပွဲ၌ တိုက်ခိုက်ခဲ့ကြသော တပ်များသည် အပျော်ထမ်း တပ်များသာ ဖြစ်သည်။ အမေရိကန်ပြည်တွင်းစစ်ကြီး၌ တိုက်ခိုက်ခဲ့ကြကုန်သော စစ်သည် လေးသန်းမှာလည်း ပဌမတွင် အပျော်ထမ်း စုဆောင်းဖွဲ့စည်းခဲ့သော တပ်သားများသာ ဖြစ်၍၊ နောက်မှ မဝင်မနေရ စစ်မှုထမ်းများ ဖြစ်လာကြသည်။ ပြည်တွင်းစစ်ကြီး အပြီး၌ အင်းဒီးယန်းများကို တိုက်ခိုက်ရန်အတွက် အဓိကရည်ရွယ်ကာ အမြဲတန်းတပ်မတော်ကို ဖွဲ့စည်းခဲ့လေသည်။ သို့သော် ပမာဏအားဖြင့် များစွာသေးငယ်သော တပ်မတော်သာလျှင် ဖြစ်ပေသည်။

ပဌမကမ္ဘာစစ်ကြီး အတွင်းက ပြည်လုံးကျွတ် စစ်မှုထမ်း ဥပဒေအရ အမေရိကန်တပ်မတော်များသည် အတ္တလန်တိတ် သမုဒ္ဒရာကို ဖြတ်ကူးကာ ပါဝင် ဆင်နွှဲခဲ့ကြသော်လည်း စစ်ကြီး ပြီးဆုံးသွားသောအခါတွင် ယင်းတပ်မတော်များကို ဖျက်သိမ်းခဲ့ပေသည်။ ထို့ကြောင့် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားလာသောအခါတွင် အမေရိကန်တို့သည် တပ်မတော်အင်အား နည်းပါးစွာဖြင့် စတင်ပါဝင်ခဲ့ကြရပေသည်။ အံ့သြဘွယ်ကောင်းလောက်အောင် တပ်မတော်အင်အားကို အဖက်ဖက်မှ လျင်မြန်စွာ တိုးချဲ့ခဲ့ကြရာ ယင်းဒုတိယကမ္ဘာစစ်ကြီး အတွင်း၌ပင် ကမ္ဘာ့ထိပ်တန်း တပ်မတော်ကြီးတခု အဖြစ်သို့ ရောက်ရှိခဲ့ပေတော့သည်။ ယင်းတပ်မတော်ကြီးကို ၁၉၄၅ ခုနှစ်တွင် ဖျက်သိမ်းလိုက်ခဲ့ပြီးလျှင် တဖန် ၁၉၅၀ ပြည့်နှစ်သို့ ရောက်သောအခါမှ နိုင်ငံတော်လုံခြုံမှုအတွက် စစ်အေးကာလ ပြည်လုံးကျွတ် စစ်မှုထမ်းများအဖြစ်ဖြင့် စတင်ဖွဲ့စည်း တည်ထောင်ခဲ့ပြန်ရာ ယနေ့အခါတွင် စစ်သည်

အင်အား သန်းပေါင်းများစွာပါဝင်သော တပ်မတော်ကြီး တခု ဖြစ်နေခဲ့လေပြီ။

အမေရိကန်ရေတပ်ကို အမေရိကန်လွတ်လပ်ရေးစစ်ပွဲ ဖြစ်စအခါကပင် စတင်ဖွဲ့စည်း တည်ထောင်ခဲ့သော်လည်း ၁၉၃၉ ခုနှစ်သို့ ရောက်သောအခါမှ ကမ္ဘာ့ရေတပ်အင်အားများတွင် အကြီးဆုံးဖြစ်သော ဗြိတိသျှ ဘုရင့်ရေတပ်နှင့် တတန်းတစားတည်း ဖြစ်လာခဲ့ပေသည်။ ၁၉၄၁ ခုနှစ်၌ ပုလဲဆိပ်ကမ်း ရေတပ်စခန်းကြီးတွင် ဂျပန်တို့၏ အငိုက်တွယ်ခြင်းကို မရှုမလှခံရသော်လည်း အမေရိကန်ရေတပ်သည် ချက်ခြင်းပင် အင်အား ပြန်လည်ဖြည့်စွက် တည်ထောင်နိုင်ခဲ့၏။ မစ်ဒဝေး တိုက်ပွဲအပြီး၌ ပစိဖိတ်ရေပြင်ကို အမေရိကန်ရေတပ်က သာလျှင် လွှမ်းမိုးခဲ့ပေသည်။ ထိုမျှမကသေး၊ အတ္တလန်တိတ် စစ်မျက်နှာနှင့် ဥရောပအနောက်ပိုင်း စစ်မျက်နှာများတွင်လည်း အမေရိကန်ရေတပ်သည် တိုက်ပွဲကြီးများကို ခင်းကျင်း ဆင်နွှဲခဲ့ရပေသည်။ ဤဒုတိယကမ္ဘာစစ်ပွဲကြီးကို အမေရိကန်ရေတပ်သည် အစမှ အဆုံးတိုင်အောင် ဗြိတိသျှ ဘုရင့်ရေတပ်ထက် အင်အား သာလွန်ကြီးကဲစွာ ပါဝင် ဆင်နွှဲခဲ့ပေသည်။ လေယာဉ်တင် သင်္ဘောကြီးများ တိုးတက်အောင်မြင်မှုနှင့် ကုန်းရေနှစ်သွယ် စစ်ဆင်ရေး အောင်မြင်မှုများအတွက် အမေရိကန်ရေတပ်ကို ချီးကျူးထိုက်ပေသည်။

အမေရိကန်လေတပ်ကို ၁၉၀၇ ခုနှစ်တွင် လေကြောင်းခရီးလွှင့် ပညာဌာနအဖြစ်ဖြင့် စတင်ဖွဲ့စည်းခဲ့သည်။ ထိုစဉ်အခါက အမေရိကန် အချက်ပြတပ်မကြီး၏ လက်အောက်ခံ ဌာနတခုသာလျှင် ဖြစ်ခဲ့သေးရာ ၁၉၄၇ ခုနှစ် စက်တင်ဘာလသို့ ရောက်သောအခါမှ သီးခြားလေတပ်ဌာန ဖြစ်လာလေသည်။ ပဌမကမ္ဘာစစ်ကြီး အတွင်းက အမေရိကန်လေတပ်အင်အားသည် အခြား ကမ္ဘာ့လေတပ်အင်အားများနှင့် နှိုင်းယှဉ်သော် များစွာ ပျော့ညံ့လှပေသေးသည်။ သို့ရာတွင် ပဌမကမ္ဘာစစ်ကြီးနှင့် ဒုတိယကမ္ဘာစစ်ကြီးတို့၏ အကြားတွင် အမေရိကန်လေတပ်ကို အမေရိကန် တပ်မတော်၏ အင်အားရပ်တခု အနေဖြင့် များစွာ တိုးချဲ့ခဲ့ပေသည်။ လေတပ်သားလောင်းများကို ၁၉၄၁ ခုနှစ်မှ အစပြု၍ တနှစ်လျှင် ၃၃,၀၀၀ အထိ အင်အားဖြည့်ခဲ့ရာ ၁၉၄၃–၄၄ ခုနှစ်တွင် အမေရိကန်လေတပ်၌ လေတပ်သားအင်အား နှစ်သန်းခွဲ (၂½ သန်း) နီးပါးအထိ ရှိလေသည်။ အရပ်ရပ် စစ်မျက်နှာများတွင်လည်း လေယာဉ်ပေါင်း ၈၀,၀၀၀ ခန့် ရှိခဲ့လေသည်။ ဒုတိယကမ္ဘာစစ်အတွင်း အနောက် ဥရောပနိုင်ငံများ၏ လေကြောင်းကာကွယ်ရေးကို အမေရိကန်လေတပ်က တာဝန်ယူရသောအခါ အင်အားပိုမိုတိုးချဲ့ခဲ့၍၊ ဗြိတိန်နိုင်ငံ၊ ဥရောပတိုက်နိုင်ငံများနှင့် မြောက်အာဖရိကနိုင်ငံများတွင် အမေရိကန်လေတပ် အခြေခံစခန်းများကို အကြီးအကျယ် တပ်ခွဲ ဖွင့်လှစ်ထားရှိခဲ့ပေသည်။ ယနေ့အခါတွင် အမေရိကန်လေတပ်သည် ကမ္ဘာ့ ထိပ်သီး လေတပ်အင်အားတခု အဖြစ်ဖြင့် တည်ရှိလျက်ရှိပေသည်။

ဗြိတိသျှတပ်မတော်သည် ရှေးရာဇဝင်အဆက်ဆက်မှ ယနေ့ထက်တိုင်အောင် ထင်ရှားခဲ့သော တပ်မတော်ဖြစ်သည်။ သို့သော် ၁၇ ရာစုခေတ် အလယ်ထိ အမြဲတမ်းတပ်မတော် မဖြစ်သေးချေ။ စစ်မက်ဖြစ်သောအခါ၊ အရေးကြုံသောအခါမှ ခေါ်ယူစုဆောင်းကာ စစ်ထွက်စေခဲ့သော တပ်မတော်သာလျှင် ဖြစ်ပေသေးသည်။ ၁၇ ရာစုခေတ် အလယ်သို့ ရောက်သောအခါမှ စစ်အေးကာလ အမြဲတမ်း တပ်မတော်ကို ဖွဲ့စည်းတည်ထောင်ခဲ့ရာ ပဌမကမ္ဘာစစ်ကြီး ဖြစ်သည့်အထိ တည်မြဲခဲ့ပေသည်။ ထို့နောက် ၁၉၁၆ ခုနှစ်၌ ပြည်လုံးကျွတ် စစ်မှုထမ်းမှုကို စတင်အသုံးပြုခဲ့လေသည်။ ပဌမ ကမ္ဘာစစ်ကြီးနှင့် ဒုတိယ ကမ္ဘာစစ်ကြီးများ၏ အကြားကာလ၌ မဝင်မနေရ စစ်မှုထမ်းကို ဖျက်သိမ်းခဲ့သည်။ သို့ရာတွင် ၁၉၃၉ ခုနှစ် နွေဦးပေါက်၌ ဂျာမန်တို့၏ ကျူးကျော်ခြင်းအန္တရာယ်နှင့် ရင်ဆိုင်ရသောအခါ ပြည်လုံးကျွတ် စစ်မှုထမ်းမှုကို ပြန်လည် အသုံးပြုကြရပေသည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသောအခါ၌ ပြည်လုံးကျွတ် စစ်မှုထမ်းမှုကို အမျိုးသားမှုထမ်းအသွင်သို့ ပြောင်းလဲ၍ ဆက်လက်တည်မြဲစေခဲ့လေသည်။ ယခုအခါ ဗြိတိသျှ အမြဲတမ်း တပ်မတော်တွင် နှစ်ပရိစ္ဆေဒ ကြာမြင့်စွာ စစ်မှုထမ်းကြရသော ကြေးစား တပ်သားများနှင့် အမြဲတမ်း တပ်မတော်တွင် ၂ နှစ်ကြာမျှ စစ်မှုထမ်းပြီးနောက် နယ်ပယ်ဆိုင်ရာ တပ်မတော်တွင် သုံးနှစ်ခွဲ (၃½ နှစ်) စစ်မှုထမ်းရသော အမျိုးသားအမှုထမ်းများဟူ၍ ပါဝင်လေသည်။

ဗြိတိသျှရေတပ်ကို ဘုရင့်ရေတပ်ဟု ခေါ်သည်။ ဘုရင့်ရေတပ်ဟူသော ဝေါဟာရကို ဒုတိယ ချားလ်စ် ဘုရင်၏ လက်ထက်တွင် စတင်၍ ခေါ်ဝေါ် အသုံးပြုခဲ့သည်။ ကမ္ဘာ့သမိုင်း ရေတပ်တိုက်ပွဲများတွင် ဗြိတိသျှရေတပ်သည် အောင်ပွဲများ များစွာ ခံယူခဲ့သည်။ ယင်းအောင်ပွဲကြီးများအနက် ၁၅၈၈ ခုနှစ် စပိန် အာမဒါရေတပ်ကြီးကို အောင်မြင်လိုက်သော အောင်ပွဲနှင့် ၁၈၀၅ ခုနှစ် ပြင်သစ်စစ်ဘုရင် နပိုလီယံ၏ ရေတပ်ကြီးကို အောင်မြင်လိုက်သော ထရာဖယ်လဂါ အောင်ပွဲတို့သည် အထင်ရှားဆုံးများ ဖြစ်ကြသည်။ အင်ပါယာ ချဲ့ထွင်ခြင်း၌လည်း များစွာ ထင်ရှားခဲ့ပေသေးသည်။ ထရာဖယ်လဂါ အောင်ပွဲကို ခံယူပြီးသည်မှ အစပြု၍ ပဌမကမ္ဘာစစ်ကြီး ပြီးသည်အထိ ဗြိတိသျှရေတပ်သည် ကမ္ဘာကို စိုးမိုးခဲ့ပေသည်။ သို့သော် ဗြိတိသျှရေတပ်သည် ၂၀ ရာစုအစပိုင်းမှ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသည်အထိ ဂျာမန်ရေတပ်နှင့် အင်အားချင်း ယှဉ်ပြိုင်ခဲ့ရလေသည်။

ဗြိတိသျှလေတပ်ကို ဘုရင့်လေတပ်ဟု ခေါ်သည်။ ထိုဘုရင့်လေတပ်ကို ပဌမကမ္ဘာစစ်ကြီး ပြီးဆုံးချိန် လောက်ကျမှ စတင်ဖွဲ့စည်းခဲ့လေသည်။ ကမ္ဘာစစ်ကြီး နှစ်ခုကြား ကာလအချိန်တွင် ဘုရင့်လေတပ်၏ အင်အားမှာ ပြယုဂ်သဘောမျှလောက်သာ ရှိခဲ့၏။ ဒုတိယကမ္ဘာစစ်ကြီး စတင်ပေါ်ပေါက်ခဲ့သည့်အခါကျမှပင် ထိုဘုရင့်လေတပ်အင်အားကို တိုးချဲ့ခဲ့ရလေသည်။ ၁၉၄၀ ပြည့်နှစ်၌ နာဇီဂျာမန်များ၏ လက်တွင်းသို့ ပြင်သစ်နိုင်ငံ သက်ဆင်းကျရောက်ခဲ့ပြီးသည့်နောက် ဗြိတိသျှ ဘုရင့်လေတပ်အင်အားမှာ ပြိုကွဲခဲ့ရလေသည်။ ယင်းသို့ လေတပ်အင်အား ပြိုကွဲခဲ့ရသည်နှင့်အမျှ ဗြိတိန်ကျွန်းသည်လည်း နာဇီဂျာမန်များ၏ ခြိမ်းချောက်မှု တိုက်ခိုက်မှုများကို အပြင်းအထန် ခံစားခဲ့ရလေသည်။ ထို့ကြောင့် ဗြိတိန်ကျွန်း ကာကွယ်ရေးအတွက် ပြိုကွဲလျက်ရှိသော ဘုရင့်လေတပ်ကို အားသစ်လောင်း၍ စုပေါင်းဖွဲ့စည်းလိုက်လေသည်။ ထိုသို့ စုပေါင်းဖွဲ့စည်းနိုင်ခဲ့ခြင်းကြောင့်ပင် ၁၉၄၀ ပြည့်နှစ် ဂျူလိုင်လ ၁၀ ရက်နေ့မှ စက်တင်ဘာလ ၂၇ ရက်နေ့အထိ အပြင်းအထန် တိုက်ခိုက်ခဲ့ရသော ဗြိတိန်ကျွန်းတိုက်ပွဲတွင် ဗြိတိသျှ ဘုရင့်လေတပ်သည် ကမ္ဘာကျော်ဂျာမန်လေတပ်ကို အနိုင်ရရှိခဲ့ခြင်းဖြစ်ပေသည်။

တပ်မတော် စတင်ပေါ်ပေါက်ခဲ့သည်မှာ အီဂျစ်ခေတ်ကဖြစ်သည်။ ထိုခေတ်က အီဂျစ်ပြည်တွင် စစ်သည်တော်များအား ကြည့်ရှုစောင့်ရှောက်ရေးအတွက် ဥပဒေများပြုလုပ်ထားကြသည်။ အီဂျစ်တပ်မတော်တွင် ခြေလျင်တပ်၊ စစ်ရထားတပ်၊ လေးသမားတပ်ဟူ၍ သုံးမျိုးရှိခဲ့လေသည်။

အက်ဆီးရီယန်းနှင့် ဗက်ဗီလိုနီးယန်း တပ်မတော်တို့မှာလည်း အီဂျစ်တပ်မတော်ကဲ့သို့ပင် ဖွဲ့စည်းထားကြသည်။ ယင်းတို့၏ ထူးခြားချက်တရပ်ကား စစ်ရထားတပ်များအပြင် မြင်းတပ်များ ပါဝင်ခြင်းဖြစ်ပေသည်။

ဂရိခေတ်တွင် တပ်မတော်များသည် ခြေလျင်တပ်များကို အထူးအားကိုးကြသည်။ ထိုခေတ်က ထင်ရှားကျော်ကြားသော စစ်သည်တော်များမှာ စပါတန်စစ်သည်တော်များဖြစ်သည်။

ရောမခေတ် အစလောက်တွင် စစ်မှုထမ်းများမှာ အထက်တန်းစားလူများသာ ဖြစ်သည်။ ယင်းတို့သည် လစာရိက္ခာမရကြသည့်အပြင် လက်နက်ကိရိယာများကို မိမိတို့၏ ကိုယ်ပိုင်ငွေများဖြင့် ဝယ်ယူစွဲကိုင်ကြရသည်။ ငွေကြေး ချမ်းသာသူများက မြင်းတပ်ဖွဲ့စည်းရန် တာဝန်ယူကြရ၍၊ ကျန်အခြားလူများမှာ ခြေလျင်တပ်တွင် ဝင်ရောက် အမှုထမ်းကြရသည်။ ဆင်းရဲသားများမူကား အရံတပ်ဖွဲ့များတွင် ဝင်ရောက်အမှုထမ်းလိုက ထမ်းဆောင်နိုင်၍၊ မထမ်းဆောင်လိုကလည်း မထမ်းဆောင်ဘဲ နေနိုင်ကြလေသည်။

ရောမတပ်မတော်တွင် ခြေလျင်တပ်များမှာ အဓိကဖြစ်သည်။ ခြေလျင်တပ်တိုင်းတွင် မြင်းတပ်များ တွဲဖက်ပါရှိသည်။ စစ်သည်ရဲမက်များသည် ကာကွယ်ရေးအတွက် သံခမောက်နှင့် ဒိုင်းလွှားများကို အသုံးပြုသည်။ တိုက်ခိုက်ရန်အတွက်မူ ဒါးရှည် လှံရှည်နှင့် ပစ်လှံများကို အသုံးပြုကြသည်။ မြို့ကို ဝိုင်းရံတိုက်ခိုက်လျှင် ဘီးတပ် မြှော်စင်ကြီးများကို အသုံးပြုသည်။ စစ်ဆင်စစ်တက်ရာ၌ မြားဦးပုံချီတက်လေ့ရှိကြလေသည်။

အလယ်ခေတ်၌ တပ်မတော်များတွင် ကြေးစား စစ်သည်တော်များဟူ၍ ပေါ်ပေါက်ခဲ့သည်။ စစ်တိုက်ကြရာဝယ် မိမိနိုင်ငံ၏ စစ်သည်အင်အားနှင့် လုံလောက်ခြင်း မရှိသောအခါ အခြားနိုင်ငံများမှ ကြေးစားစစ်သည်တော်များကို ငှားရမ်း တိုက်ခိုက်စေလေ့ရှိခဲ့ကြပေသည်။ အလယ်ခေတ်တပ်မတော်များတွင် သံကျပ်အင်္ကျီဝတ် မြင်းစီးစစ်သည်တော်တို့ ထင်ရှားကျော်ကြားသည်။ သို့သော် ၁၄ ရာစု၌ ယမ်းပေါ်ပေါက်လာပြီးလျှင် ယင်းကို စစ်လက်နက်များ အဖြစ် အသုံးပြုလာကြသောအခါ စစ်ပြင်ဆင်မှု နည်းစနစ်တို့သည် လုံးဝ ပြောင်းလဲသွားခဲ့ကြလေသည်။

တပ်မတော် ဖွဲ့စည်းပုံနှင့်စပ်လျဉ်း၍ ခြေလျင်တပ် ဖွဲ့စည်းရာတွင် ဗယ်တယ်လျံ ခေါ် တပ်ရင်းမှာ မတည်ရာ အခြေခံဖြစ်၏။ တပ်ရင်းတခုလျှင် လူ ၁၀၀၀ ခန့်ပါသည်။ တပ်ရင်းတခုတခုလျှင် ကုမ္ပဏီခေါ် တပ်ခွဲ ၄ ခု ခွဲထား၏။ ထို့နောက် တပ်ခွဲတခုလျှင် တပ်စိတ် ၃ ခုမှ ၄ ခုအထိ ပါဝင်၍၊ တပ်စိတ်တစိတ်ကိုဗိုလ် သို့မဟုတ် အရာခံဗိုလ်တယောက်က အုပ်ချုပ်ရသည်။ သာမန်အားဖြင့် တပ်စိတ်တခု၌ လူ ၅၀ မှ ၇၅ ယောက်အထိ ပါဝင်သည်။ ဥရောပနိုင်ငံအချို့တွင် အသုံးပြုလျက်ရှိသော စံနစ်အရဆိုသော် တပ်ရင်း ၃ ခု (ရုရှပြည်တွင် ၄ ခု) ပါဝင်သောတပ်ကို ရဲဂျီမင့်တပ်ကြီးဟု ခေါ်သည်။ ရဲဂျီမင့်တပ်ကြီး ၂ တပ်ပေါင်းကို တပ်မဟာဟုခေါ်၍၊ တပ်မဟာ ၂ ခု ပါဝင်သောတပ်ကို တပ်မဟု ခေါ်လေသည်။

သံချပ်ကာ ယန္တရားတပ် (မြင်းတပ်) တွင် ရဲဂျီမင့်တပ်ကြီးသည် မတည်ရာ အခြေခံဖြစ်သည်။ ရဲဂျီမင့်တပ်ကြီးတခုတွင် စကွပ်ဒရွန်ခေါ် တပ်ခွဲများ များစွာပါဝင်သည်။ ယင်းတပ်ခွဲတခုတွင် တပ်သား ၁၅၀ ခန့် ပါဝင်၏။ ထိုတပ်ခွဲတခုကို တပ်စိတ် ၄ ခု ခွဲပြန်သည်။ တပ်စိတ်တခုကို ခြေလျင်တပ်မှာကဲ့သို့ပင် ဗိုလ်၊ ဒု-ဗိုလ် သို့မဟုတ် အရာခံဗိုလ်တယောက်က အုပ်ချုပ်ရလေသည်။ သို့သော် စကွပ်ဒရွန်ခေါ် တပ်ခွဲ ဖွဲ့စည်းပုံနှင့်စပ်လျဉ်း၍ တနိုင်ငံနှင့် တနိုင်ငံသည် တူညီခြင်းမရှိကြချေ။ ထို့ကြောင့် ရဲဂျီမင့်တပ်ကြီးတခုလျှင် စကွပ်ဒရွန် တပ်ခွဲ ၃ ခုမှ ၆ ခုအထိ ပါဝင်လေသည်။ တပ်သားဦးရေမှာလည်း ၅၀၀ မှ ၁၀၀၀ အထိ ပါဝင်လေသည်။ သံချပ်ကာ ယန္တယားတပ် (မြင်းတပ်) ရဲဂျီမင့်

တပ်ကြီး ၂ တပ်ပေါင်းကို တပ်မဟာဟု ခေါ်သည်။ သို့သော် ဗြိတိသျှ စစ်တပ်များတွင်ကား ရဲဂျီမင့်တပ်ကြီး ၃ ခုပေါင်းကိုမှ တပ်မဟာဟု ခေါ်လေသည်။ တဖန် တပ်မဟာ ၂ တပ် သို့မဟုတ် ၃ တပ်ပေါင်းကို တပ်မဟု ခေါ်လေသည်။

အမြောက်တပ်၏ မ တည်ရာမှာ တပ်ခွဲဖြစ်သည်။ တပ်ခွဲတခုလျှင် သာမန်အားဖြင့် အမြောက် ၆ လက် (ပြင်သစ် ၄ လက်၊ ရုရှ ၈ လက်) ပါဝင်၏။ အမြောက်တပ်စိပ် တခုလျှင် အမြောက် ၂ လက် ပါဝင်၍ ယင်းတပ်စိပ်ကို ဗိုလ်ငယ် တယောက်က အုပ်ချုပ်ရသည်။ အမြောက်တပ်ခွဲ ၃ ခုပေါင်းကို အမြောက်တပ်စုဟု ခေါ်၍၊ တပ်စု ၂ ခု မှ ၃ ခုအထိကို ရဲဂျီမင့် အမြောက်တပ်ကြီးဟု ခေါ်လေသည်။

တပ်မတော် မှုထမ်း ရာထမ်း အဆင့်အတန်းများမှာ စစ်သေနာပတိမှ တပ်သားရိုးရိုးအထိရှိသည်။ ယင်းတို့အနက် အရာရှိမှတ်တမ်းဝင် ရာထူးများမှာ စစ်သေနာပတိ၊ ဗိုလ်ချုပ်မှူး၊ ဗိုလ်ချုပ်ကြီး၊ ဗိုလ်ချုပ်ကလေး၊ ဗိုလ်မှူးချုပ်၊ ဗိုလ်မှူးကြီး၊ ဒု-ဗိုလ်မှူးကြီး၊ ဗိုလ်မှူး၊ ဗိုလ်ကြီး၊ ဗိုလ် နှင့် ဒု-ဗိုလ်တို့ ဖြစ်ကြသည်။ အရာရှိမှတ်တမ်းဝင် မဟုတ်သော ရာထူးများမှာကား အရာခံဗိုလ် (၁)၊ အရာခံဗိုလ် (၂)၊ တပ်ကြပ်ကြီး၊ တပ်ကြပ်၊ ဒုတိယ တပ်ကြပ်နှင့် တပ်သားရိုးရိုး ဖြစ်ကြလေသည်။

**တုပ်ကွေး**။ ။တုပ်ကွေးသည် နှာနှင့်ပါးစပ်တို့မှထွက်သော နှပ်၊ သလိပ်၊ တံတွေးတို့၌ ခိုအောင်းတတ်သည့် ဗိုင်းရပ်ပိုးကြောင့် ဖြစ်ပေါ်သော ကူးစက်တတ်သည့် ကပ်ရောဂါဖြစ်သည်။ ရံဖန်ရံခါ ကမ္ဘာတဝှန်းလုံးသို့ ပျံ့နှံ့ကူးစက်တတ်သဖြင့် ကမ္ဘာ့နှာဟူ၍လည်း ခေါ်ဆိုကြသည်။ သို့ရာတွင် အခြားကပ်ရောဂါတို့နှင့် နှိုင်းစာလျှင်၊ အသေအပျောက် နည်းပါးသည်။

တုပ်ကွေးရောဂါ ဖြစ်ပေါ်စေသော ဗိုင်းရပ်ပိုးဟူ၍ အမျိုးမျိုးရှိသည်။ တုပ်ကွေးရောဂါဖြစ်ပွားခြင်း၏ လက္ခဏာတို့မှာ ခေါင်းကိုက်ခြင်း၊ ချမ်းစိမ့်စိမ့်ဖြစ်ခြင်း၊ ဖျားခြင်း၊ ကိုယ်လက် အဆစ်အမြစ် ကိုက်ခဲခြင်းတို့ဖြစ်သည်။ တုပ်ကွေးရောဂါ ဖြစ်ပွားလျှင်၊ လူနာသည် ရက်သတ္တတပတ်မျှသော်၎င်း၊ ဆယ်ရက်မျှသော်၎င်း၊ ဝေဒနာကို ခံစားရသည်။ လူနာသည် အားအင်ဆုတ်ယုတ်၍၊ ကိုယ်ခန္ဓာ လေးလံထိုင်းမှိုင်းခြင်းကို ခံစားရသည်။ လူနာ၌ အားအင် ဆုတ်ယုတ်တတ်ခြင်းကြောင့်၊ တုပ်ကွေးရောဂါ ဖြစ်ပွားပြီးသည့်နောက် အခြားရောဂါများ ဝင်ရောက်လာတတ်သည်။

တုပ်ကွေးရောဂါကို ကုရာ၌၊ ဝမ်းနုတ်ခြင်း၊ ချွေးထုတ်ခြင်း စသည်တို့ကို ပြုလုပ်ပေးရသည်။ ချွေးလိုင်လိုင်ထွက်အောင် ပူသော အဖျော်ယမကာတို့ကို သောက်ရာ၏။ သစ်သီးဖျော်ရည်တို့ကိုလည်း မှီဝဲရာ၏။ လူနာကား အိပ်ရာတွင် လဲလျောင်း၍ လုံးဝငြိမ်သက်စွာ အနားယူသင့်သည်။ တုပ်ကွေးရောဂါကို ကာကွယ်ရန်ကား၊ လူအများနှင့် ရောနှော နေထိုင်ရသော ပွဲလမ်းသဘင် စသည်တို့သို့ သွားရောက်ခြင်းမှ ရှောင်ကြဉ်ခြင်းပင်ဖြစ်သည်။

ပဌမကမ္ဘာစစ်ကြီး ပြီးစခေတ်က တုပ်ကွေးရောဂါသည် ကမ္ဘာတဝှန်းလုံးသို့ ကူးစက်သော ကပ်ရောဂါအဖြစ်ဖြင့် သုံးကြိမ်တိုင်တိုင် ပျံ့နှံ့ခဲ့သည်။ ပဌမတွင် ၁၉၁၈ ခုနှစ် မေလနှင့်ဇွန်လအတွင်း ကပ်ရောဂါ ကျရောက်လေရာ၊ ပြင်သစ်နိုင်ငံမှသော်၎င်း၊ စပိန်နိုင်ငံမှသော်၎င်း၊ အရှေ့ဥရောပနိုင်ငံတို့မှသော်၎င်း၊ စတင်ဖြစ်ပွားသည်ဟု အမျိုးမျိုးသော အဆိုများရှိခဲ့သည်။ ထိုကပ်ရောဂါဆိုက်ရာ ဒေသတို့ကား ဂျာမနီ၊ ဩစတြီးယား၊ နော်ဝေး၊ ဆွီဒင်၊ ဒိန်းမတ်၊ ဟော်လန်၊ ဆွစ်ဇာလန်၊ တောင်အမေရိက သမတနိုင်ငံများ၊ ဗြိတိသျှပိုင် အနောက်အိန္ဒိယကျွန်းစု၊ အဇိုးကျွန်း၊ ပစိဖိတ်သမုဒ္ဒရာရှိ ကျွန်းများ၊ ဩစတြေးလီးယားတိုက်အနီးရှိ ကျွန်းများ ဟူသော ဒေသတို့ဖြစ်သည်။ ထိုစဉ်က ထိုရောဂါသည် ချက်ခြင်းဖြစ်ပွား၍၊ ချက်ခြင်းပင် ပျောက်ကွယ်သွားရကား၊ အသေအပျောက်သည် မပြောပလောက်ချေ။

၁၉၁၈ ခုနှစ် စက်တင်ဘာလနှင့် အောက်တိုဘာလတို့တွင် စတင်ဖြစ်ပွားခဲ့သော တုပ်ကွေးရောဂါကပ်မှာမူ ဥရောပ၊ အမေရိက၊ အာရှ၊ အာဖရိကတည်းဟူသော တိုက်ကြီးလေးတိုက်ရှိ နိုင်ငံများတွင် ကျရောက်လေသည်။ ထိုကပ်ရောဂါသည် ပဌမကပ်ရောဂါထက် ပြင်းထန်သည်။ ရောဂါရသူတို့သည် လွန်စွာ အားအင်ဆုတ်ယုတ်ကြသည်။ အဆုတ်နှင့်စပ်လျဉ်းသော ရောဂါ အထွေအပြားတို့ ဝင်ရောက်လာခြင်းကို ခံကြရသည်။

၁၉၁၉ ခုနှစ် မတ်လတွင် တတိယအကြိမ် တုပ်ကွေးရောဂါကပ်ဆိုက်သည်။ သို့သော် ဤအကြိမ်တွင် ပဌမအကြိမ်ကဲ့သို့ပင် ရောဂါ မပြင်းထန်လှချေ။ ယင်းကဲ့သို့ ၁၉၁၈–၁၉ ခုနှစ်အတွင်း တုပ်ကွေးရောဂါသည် တကမ္ဘာလုံးသို့ ပျံ့နှံ့ကူးစက်လေရာ၊ မြန်မာနိုင်ငံသည်ပင်လျှင် မလွတ်ခဲ့ချေ။

ဒုတိယကမ္ဘာစစ်ကြီး ပြီး၍ ၁၉၄၇ ခုနှစ် အောက်တိုဘာလသို့ ရောက်သော် ဆာဒင်နီးယားကျွန်းမှ အစပြု၍ တုပ်ကွေးရောဂါ ဖြစ်ပွားခဲ့သည်။ ထိုရောဂါသည် ဣတလီ၊ ပြင်သစ်၊ ဩစတြီးယား၊ ဗူလဂေးရီးယားနှင့် နယ်သာလန်နိုင်ငံတို့သို့ ကူးစက်ခဲ့လေသည်။ ၁၉၄၉ ခုနှစ်သို့ ရောက်လာသောအခါ၊ ထိုကပ်ရောဂါသည် ဥရောပမှ အမေရိကန်သို့ ရောက်ရှိသွားလေသည်။ ဤသည်ကို အကြောင်းပြု၍ ကမ္ဘာ့ကျန်းမာရေးအဖွဲ့သည် ၁၉၄၇ ခုနှစ်တွင် လန်ဒန်မြို့၌ တုပ်ကွေးရောဂါ အခြေအမြစ်ကို သုတေသနပြုရန် ဗဟိုဌာနတခု ဖွင့်လှစ်ခဲ့လေသည်။ ထိုဌာနတွင် တုပ်ကွေးရောဂါပိုး ဖြစ်စေသော ဗိုင်းရပ်ပိုး အမျိုးအစားတို့ကို ခွဲခြားရန်အလို့

ငှာ သုတေသနလုပ်ငန်းကို လုပ်ကြသည်။ ၁၉၅၁ ခုနှစ်တွင် လည်း အိုင်ယာလန်၊ အင်္ဂလန်၊ ဥရောပအနောက်ပိုင်း၊ အာဖ ရိကမြောက်ပိုင်း၊ ဗော်လကန်နယ်များ၊ ဥရောပနှင့်နီးရာ အ ရှေ့ဒေသများ၊ အမေရိက၊ ဂျပန်စသော နေရာအနှံ့ အပြား တို့၌ တုပ်ကွေးရောဂါ ကပ်ဆိုက်ခဲ့သည်။ ၁၉၅၇ ခုနှစ် နှစ်ဦး တွင် ဂျပန်နိုင်ငံမှ စတင်ပျံ့နှံ့သည်ဟုဆိုသော တုပ်ကွေး ရောဂါသည် အရှေ့ဖျားနိုင်ငံများမှ အမေရိကန်နိုင်ငံအထိ လပေါင်း အနည်းငယ်အတွင်း ကူးစက်ပြန့်ပွားခဲ့သည်။ ဤသို့ဖြစ်ပွားသော တုပ်ကွေးရောဂါ၏ ဗိုင်းရပ်ပိုးတို့ကို ကမ္ဘာ့ကျန်းမာရေးအဖွဲ့က အမေရိကန်နိုင်ငံနှင့် အင်္ဂလန် ပြည်ရှိ သုတေသနဗဟိုဌာနတို့တွင် အမျိုးခွဲခြားကြည့်ရာ၊ ယခင်က တွေ့ရှိဘူးသော ဗိုင်းရပ်နှင့်မတူ၊ ဗိုင်းရပ် မျိုးသစ် တခုကို တွေ့ရသည်ဟုဆိုသည်။

တုပ်ကွေးရောဂါသည် ယခုခေတ်တွင် ပိုမိုထင်ရှားလာ သော ရောဂါဖြစ်သော်လည်း၊ ရောဂါဖြစ်ပွားခြင်းဆိုင်ရာ သမိုင်းကို လေ့လာကြည့်သော်၊ ထိုရောဂါသည် ခရစ် ၁၅၁၀ ပြည့်နှစ်လောက်ကစ၍ ကပ်ရောဂါတခု အဖြစ်ဖြင့် ဆိုက် ရောက်လာခဲ့သည်ကို တွေ့ရ၏။ ၁၉ ရာစုနှစ်များအထိ ရော ဂါ ဇာစ်မြစ်ကို သိပ္ပံပညာရှင်တို့ ကောင်းစွာ မသိခဲ့ကြလေ။ ခရစ် ၁၈၈၉–၉၀ ခုနှစ်အတွင်း ရောဂါပိုးကို သုတေသန ပြုလုပ်သည့်အခါကျမှသာ တုပ်ကွေး ဖြစ်ပွားစေသည်မှာ ဗိုင်းရပ်ပိုးတမျိုးဖြစ်သည်ဟု သိရှိခဲ့ကြသည်။ သို့သော် ၁၉၁၈–၁၉ ခုနှစ်တွင် တုပ်ကွေးရောဂါ ကပ်ဆိုက်ခဲ့သည့် တိုင် အောင်၊ ထိုဗိုင်းရပ်ပိုးကို ရောဂါဖြစ်ပွားနေသော တစ်ရှူး တို့မှ သီးခြားခွဲထုတ်နိုင်ခြင်း မရှိခဲ့သေး။ ၁၉၃၃ ခုနှစ် ရောက်မှသာ ထိုဗိုင်းရပ်မျိုးထဲမှ တမျိုးကို သီးခြားခွဲထုတ် နိုင်ခဲ့သည်။ ယခုမှာမူ ဗိုင်းရပ်ပိုး အမျိုးအစား အတော် များများကို ခွဲထုတ်၍ သုတေသနပြုနိုင်လာကြပြီ။

**တံခွန်တိုင်**။ ။တံခွန်တိုင်သည် ဘုရားစေတီများအနီးတွင် မြင့်မားစွာ စိုက်ထူထားလေ့ရှိသော တိုင်လုံးကြီးများဖြစ် သည်။ တိုင်ထိပ်မှ တံခွန်များကို လွှင့်ထူရာဖြစ်ခြင်းကြောင့် ထိုတိုင်ကို တံခွန်တိုင်ဟုခေါ်၏။

တံခွန်တိုင် စိုက်ထူခြင်းအကြောင်းမှာကား၊ မြတ်စွာဘုရား လက်ထက်တော်က အရှင်ပိဏ္ဍောလမထေရ်သည် ရာ ဇဂြိုဟ်သဌေးကြီး ဝါးအဆက်ဆက်တို့ဖြင့် စိုက်ထောင်၍၊ အတောင်ခြောက်ဆယ်မျှလောက်သော အမြင့်၌ ထားရှိ အပ်သော စန္ဒကူးသပိတ်ကို ဈာန်ပျံ၍ သွားရောက်ယူခဲ့ခြင်း ကို အထိမ်းအမှတ်ပြုသော သဘောပင်ဖြစ်သည်ဟုဆို၏။

တံခွန်ဟူသော စကားမှာ တံကွန်မှလာသည်။ ကွန်မှာ



မုံရွာမြို့အနီး မိုးညှင်းတောရရှိ မိုးညှင်းသမ္ဗုဒ္ဓေစေတီမှ တံခွန်တိုင်

ပျံကြွတက်သောဟူသည့် အနက်ရ၏။ တံကွန်ဟူရာ၌ ပျံတက်နေသော အတံဟု ဆိုလိုပေသည်။ တံခွန်အမျိုးမျိုး ရှိသည့်အနက် တံခွန်တိုင်တွင် တပ်ဆင်လေ့ရှိသော တံခွန်များမှာ လုံးဝန်း၍၊ ရှည်မျောမျောသဏ္ဌာန် ဝါးဖြင့်ရက်လုပ်ထား၏။ အပေါ်မှာ စက္ကူဖြင့်ကပ်ထားပြီးလျှင်၊ ဗုဒ္ဓဝင်ဖြစ်တော်စဉ်များနှင့် ဘုရားစာများကို ရေးထားလေ့ရှိ၏။ တံခွန်တိုင်၏ထိပ်တွင် ဟင်္သာရုပ် သို့မဟုတ် စေတီတော်၏ ထီးတော် သို့မဟုတ် စေတီငယ်သဏ္ဌာန် စသည်တို့ကို ပြုလုပ်ထားရှိ၏။ အချို့တိုင်ထိပ်တွင်မူ တံခွန်များကို လိုသလို တပ်ဆင်နိုင်ရန် ကွင်းအဝိုင်းတခုကိုသာ ထားရှိလေသည်။

ထို့ပြင် တံခွန်တိုင်နား၌ သိကြား၊ နဂါး ဂဠုန်စသည့် အရုပ်များကို လုပ်ဆောင်လေ့ရှိ၏။ မြတ်စွာဘုရား ပွင့်တော်မူလတ်သော်၊ သိကြားမင်းသည် ခရသင်းကိုမှုတ်၍ ပူဇော်လှာသောအကြောင်းကို ရည်၍၊ ခရသင်း ပိုက်ထားသော သိကြားရုပ်ကို တံခွန်တိုင်အနီး၌ ထားရှိသည်။ မြတ်စွာဘုရားအား မင်္ဂလာတရား သုံးဆယ့်ရှစ်ပါးကို ညွှန်ပြဟောပြောတော်မူပါဟု တောင်းပန်လျှောက်ထားလှာသော အကြောင်းကိုရည်၍ ရှိခိုးလျက် သိကြားရုပ်တုကိုလည်း ထားရှိတတ်၏။ သီလက္ခန္ဓဝဂ်၊ အမ္ဗဋ္ဌသုတ်လာ၊ အမ္ဗဋ္ဌပုဏ္ဏားမိုက်အား သိကြားမင်းက လျှံဝါရဲရဲ၊ သံချောင်းစွဲ၍၊ မလှဲဆတ်ဆတ်၊ ဖြတ်မည်ဟန်ကို ရည်သန်လျက်၊ သံချောင်းစွဲ သိကြားရုပ်ကိုလည်း ထုလုပ်ထားလေ့ရှိ၏။ ပဥ္စသိခနတ်သားသည် မြတ်ဘုရားအား သိကြားကိုယ်စား၊ ဖူးရမည်ကြောင်း၊ ဂါထာမြားမြောင်၊ စောင်းချင်းဆောင်၍၊ လျှောက်ထားလှာသည်ကို ရည်လျက်၊ သိကြားမင်း စောင်းပိုက်၍ နေဟန်ကိုလည်း ထုလုပ်ထားရှိ၏။ နဂါး ဂဠုန်ရုပ်များကို ထားရှိသော အကြောင်းရင်းမှာကား၊ မြတ်စွာဘုရားသခင်သည် မဟာသမယ သုတ္တန်တရားတော်ကို ဟောမိန့်တော်မူသောအခါဝယ် တရားနာရန် ရောက်လာကြသည့် ရှေးယခင်က တကောင်နှင့်တကောင် ရန်ဖက်များဖြစ်ကြသော နဂါးနှင့်ဂဠုန်တို့ပင်လျှင် ဘုရားမြတ်စွာ၏ ရှေ့တော်မှောက်တွင် တကောင်နှင့်တကောင် လည်ချင်းဖက်၍ နှစ်သက်ကျွမ်းဝင် ခင်မင်လာသည့်အဖြစ်ကို ရည်ရွယ်သည်ဟု ဆိုကြ၏။ အချို့ကလည်း ပဏ္ဍုရင်္ဂဇာတ်၌ ဘုရားလောင်း ဂဠုန်မင်းသည် ရသေ့စဉ်းလဲ၏ နှုတ်မလုံမှုကြောင့် နဂါးကို ထိုးသုတ်နိုင်သောအကြောင်းကို ရည်ရွယ်၍ ဂဠုန်နှင့်နဂါး ရုပ်များ ထားရှိသည်ဟု ဆိုကြလေသည်။

**တံခွန်တိုင်ပွဲတော်။** ။တံခွန်တိုင်ပွဲတော်သည် ကယားအမျိုးသားတို့၏ ရိုးရာယဉ်ကျေးမှု ဓလေ့ထုံးစံအရ ကျင်းပသော ပွဲတော်တရပ်ဖြစ်၍၊ ကယားဘာသာဖြင့် 'ကူထိုးဘိုး' ဟု ခေါ်သည်။ တံခွန်တိုင် (ကူထိုးဘိုး) ပွဲတော်ကို



ကယားပြည်နယ် တံခွန်တိုင်ပွဲတော် အခမ်းအနား၌ တံခွန်တိုင် စိုက်ထူထားပုံ

နှစ်ဟောင်းကုန်၍ နှစ်သစ်ကူးပြောင်းသည့် အထိမ်းအမှတ်အဖြစ်ဖြင့်ရင်း၊ လာမည့်နှစ်သစ်တွင် ရောဂါအန္တရာယ် ကင်းစင်ပပျောက်ရေး၊ ဆန်ရေစပါး ပေါများရေး၊ တိုင်းပြည်ချေမ်းသာယာရေးတို့ကို ရည်စူး၍ရင်း နှစ်စဉ်ကျင်းပကြသည်။

တံခွန်တိုင်ပွဲတော် ကျင်းပချိန် ကျရောက်သည့်အခါ၊ 'ကူထိုးဘိုးဗျာစယ်' ခေါ် တံခွန်တိုင်ပွဲတော် အကြီးအကဲ လူကြီး အိမ်တွင် ရွာသားများ စည်းဝေးတိုင်ပင်၍၊ ကြက်ရိုးထိုးပြီးလျှင် နေ့ကောင်းရက်မြတ်ကို ရွေးချယ်သတ်မှတ်ကြသည်။ ရွာသားများကလည်း မိမိတို့ တောလိုက်စဉ်က တွေ့ရှိမှတ်သားခဲ့သော တံခွန်တိုင်ပြုလုပ်ရန် သင့်တော်သည့် ကျွန်းပင်များရှိရာ နေရာဒေသကို ညွှန်ပြပြောဆိုကြ၍ အများ သဘောကျရာ အကောင်းဆုံးကျွန်းပင်ကို ရွေးချယ်ကြသည်။ ထိုနေ့မှ နှစ်ရက်မြောက်သော ညဥ့်သန်ကောင်ကျော်အချိန်တွင်၊ တံခွန်တိုင်အတွက် ကျွန်းပင်ခုတ်ရန် သွားကြသည်။ နွယ်များ ရစ်ပတ်ခြင်းမရှိ၊ အပြစ်အနာအဆာကင်းလွတ်၍ ဖြောင့်စင်းရှည်လျားသည့် ကျွန်းပင်ကိုသာလျှင် ရွေးချယ်၍ခုတ်ယူကြသည်။ ထိုသို့ခုတ်လှဲရာတွင် အခြားသစ်ပင်များပေါ် မတင်မငြိစေဘဲ လွတ်လွတ်ကျွတ်

ကျွတ်လဲရန် အထူးဂရုစိုက်ရသည်။ ကျွန်းသစ်ကို တံခွန်တိုင်စိုက်ထူရန် သတ်မှတ်ထားသောနေရာအရောက် သယ်ယူရာတွင်လည်း၊ မည်မျှကြီးလေးသော ကျွန်းသစ် ဖြစ်စေကာမူ၊ ဆင်နွားလှည်းများကို အသုံးမပြုရ။ မိန်းမများလည်း မပါဝင်စေရဘဲ၊ ယောကျ်ားများက မိမိတို့၏ခွန်အားဖြင့်သာ သယ်ယူရသည်။ ယင်းသည့်ကျွန်းသစ်ပေါ် သို့ မိန်းမများနှင့် ခြေလေးချောင်းတိရစ္ဆာန်များ မကျော် မဖြတ်ရပေ။ အကယ်၍ ကျော်ဖြတ်မိက၊ ထိုကျွန်းသစ်ကို အသုံးမပြုရတော့ဘဲ၊ နောက်ထပ်၍ အသစ်ခုတ်ယူရလေသည်။

တံခွန်တိုင်အတွက် ကျွန်းသစ်ကို သယ်ယူလာရာတွင်၊ အမျိုးသမီးများက လမ်းမှဆီးကြို၍ ရေနှင့် စားသောက်ဖွယ်ရာများ ပေးကမ်းကြသည်။ ရေများဖြင့် တံခွန်တိုင်ကို ပက်ဖျန်း၍၊ အချင်းချင်းလည်း ရေပက်ကစားကြသည်။ ရွာသို့ တံခွန်တိုင်ရောက်မည့်နေ့တွင်၊ ရွာရှိ လူကုန် သန့်ရှင်းကြော့မော့စွာ ဝတ်စားဆင်ယင်ပြီးလျှင်၊ စားသောက်ဖွယ်ရာများ၊ ပန်းရေချမ်းများဖြင့်၊ ရွာလမ်းခရီးတလျှောက်မှ စီတန်းကြိုဆိုကြသည်။ ထိုနေ့ ထိုအချိန်သည် တံခွန်တိုင်ထမ်းယူလာကြသော ကယားအမျိုးသားများအတွက် မျက်နှာ အပွင့်လန်းဆုံး အချိန်ဖြစ်သည်နှင့်အမျှ၊ ကယားအမျိုးသမီးများအဖို့လည်း အစွမ်းကုန် အပျိုလုပ်ကြသော အချိန် ဖြစ်ပေသည်။

တံခွန်တိုင်စိုက်ထူရန် သတ်မှတ်ထားသောနေရာသို့ ရောက်သည့်အခါ၊ ကျွန်းသစ်ကို လှဲထားပြီးလျှင်၊ အကိုင်းအခက်အခွံအခေါက်တို့ကို ရှင်းလင်း၍ သပ်ယပ်ပြေပြစ်အောင် ပြုလုပ်ကြသည်။ အနီးအနားတွင်လည်း ပူဇော်ပသရန် စင်များနှင့် နတ်စင်တခု ဆောက်လုပ်ထားသည်။ ထိုသို့ တံခွန်တိုင်စိုက်ထူရန် ပြင်ဆင်သမှု ပြုလုပ်ကြယင်း၊ စားသောက်ပျော်ပါးကာ၊ အတီးအမှုတ် အကအခုန်တို့ဖြင့် ဝိုင်းရံလှည့်ပတ်၍၊ ညဥ့်လုံးပေါက် ပျော်ရွှင်ကြသည်။ နောက်တနေ့ နံနက်တွင်၊ တံခွန်တိုင်၌ တံခွန်ပြား၊ ကုက္ကား၊ မုလေးပွားများ တပ်ဆင်၍ရင်း၊ စင်များပေါ်တွင် စားသောက်ဖွယ်ရာ ထမင်းဟင်းများ တင်၍ရင်း ပူဇော်ပသကြပြီးနောက် တံခွန်တိုင်ကို စိုက်ထူကြသည်။ တံခွန်တိုင် စိုက်ထူရာတွင် တကြိမ်တည်းနှင့် မအောင်မြင်ဘဲ၊ ယိမ်းယိုင်လဲကျသွားလျှင် အတိတ်ဆိုး နိမိတ်ဆိုးဖြစ်၍ ရွာတွင် ဘေးဥပဒ်အန္တရာယ်အကြီးအကျယ်ကျရောက်တော့မည်ဟု ယုံကြည်ကြသည့် အလျောက်၊ ရွာကို စွန့်ပစ်ကာ၊ ရွာလုံးကျွတ် ပြောင်းရွှေ့သွားလေ့ရှိကြသည်။

တံခွန်တိုင်ကို တကြိမ်တည်းနှင့် အောင်မြင်ချောမောစွာ စိုက်ထူပြီးသောအခါ၊ (ကူထိုးဘိုးဗျားစယ်) တံခွန်တိုင် အကြီးအကဲ လူကြီးက သူတပါးပစ္စည်းဥစ္စာ မခိုးဝှက်ပါ၊ သူတပါး သားမယားကို မပြစ်မှားပါ၊ အချင်းချင်း သစ္စာမဖောက်ပါ အစရှိသော သစ္စာအဓိဋ္ဌာန်ချက်များ တိုင်တည်ပေးသည်ကို လူအများက လိုက်ဆိုကြရသည်။ ထိုနောက်



ကယားပြည်နယ် တံခွန်တိုင်ပွဲတော် အခမ်းအနား၌ စားသောက်ဘွယ်ရာများ တင်မြှောက်ပသသည့် စင်များနှင့် နတ်စင်ကို မြင်တွေ့ရပုံ

အတီးအမှုတ် အကအခုန်တို့ဖြင့် တံခွန်တိုင်နှင့် နတ်စင်တို့ကို လှည့်ပတ်ဝိုင်းရံ ကခုန်ကြသည်။ လူပျို အပျိုများကလည်း တဦးနှင့်တဦး သပြေခက်ဖြင့် ရေဖျန်းပက်ကာ ပျော်ရွှင်ကြလေသည်။ (ကယားလူမျိုး — လည်းရှူ။)

ဤတံခွန်တိုင်ပွဲတော်သည် ရှေးရိုးရာ ယဉ်ကျေးမှု ဓလေ့ထုံးစံအရ ကျင်းပသည့်ပွဲတော် ဖြစ်သည်သာမက၊ တိုင်းရင်းသားအချင်းချင်း ချစ်ခင်စည်းလုံးရေး၊ တဦးနှင့်တဦး ကူညီယိုင်းပင်းရေး အစရှိသော အဖိုးတန်စိတ်ဓာတ်များကို မွေးမြူစေသော ပွဲတော်လည်းဖြစ်ပေသည်။ ထိုကြောင့် ကယားအမျိုးသား ခေါင်းဆောင်ကြီးများဖြစ်သော ကယားပြည်နယ်ဝန်ကြီး စပ်ဝဏ္ဏနှင့် မဟာသရေစည်သူ ဦးစိန်တို့သည် ရှေးအစဉ်အလာ ယဉ်ကျေးမှုတရပ်ကို ထိန်းသိမ်းစောင့်ရှောက်လို၍တကြောင်း၊ တိုင်းရင်းသားများ၌ အဖိုးတန် စိတ်ဓာတ်များ မွေးမြူကြစေလို၍တကြောင်း၊ ကန္တာရဝတီ၊ ဘောလခဲ၊ ကြယ်ဖိုးကြီးနှင့် မိုးဗြဲနယ်၊ လေးနယ်စုပေါင်းပါဝင်သော၊ တံခွန်တိုင်ပွဲတော်ကြီးကို ၁၉၅၇ ခုနှစ် ဧပြီလ ၂၂ ရက်နေ့တွင် ကယားအမျိုးသားတို့ အထွတ်အမြတ်ထားရာ ငွေတောင်ပြည်ဒေသတွင် ပဌမဦးဆုံးအကြိမ် စတင်ကျင်းပခဲ့ရာ ထိုတံခွန်တိုင်ပွဲတော်ကြီးသို့ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုသည် တရုပ်နိုင်ငံနှင့် ယိုးဒယားနိုင်ငံမှ ကိုယ်စားလှယ်တော်များနှင့်အတူ တက်ရောက်ခဲ့ဘူးသည်။

ဦးစိန် (ကယားပြည်နယ်)

# ကိုတံငါလှေယာဉ်စီးပါလို့

**ရှေးအထက်ကျော်ကာရီကပင် တံငါလုပ်ငန်းသည် လူတို့၏ စီးပွားရေးတွင် အရေးကြီးခဲ့ပေသည်။ ကုန်းကြည်းထက်တွင် ငှက်မုဆိုး၊ သားမုဆိုး ရှိသကဲ့သို့ ရေပြင်တွင်လည်း ရေမုဆိုးရှိသည်။ ရေမုဆိုးသည် ရေတွင်ကျွမ်းကျင်သည့်အလျောက် ရေဖိုးရေမှားများကို ရရှိလေအောင် ဉာဏ်ကိုသုံး၍ ရှာဖွေသည်။ ယင်းသို့ရှာဖွေသောသူ၏ အတွေ့အကြုံနှင့်ဉာဏ်ပညာကို မူတည်၍ တံငါလုပ်ငန်းသည် တစထက်တစ ဖွံ့ဖြိုးတိုးတက်လာသည်။ ထိုတွင် သိပ္ပံပညာက ဝင်၍ကူသောအခါ၊ တံငါလုပ်ငန်းသည် ပိုမိုကြီးပွားလာလေသည်။ တံငါလုပ်ငန်းနှင့် စပ်ဆိုင်သမျှသော ငပိခြောက်လုပ်ငန်း၊ ငါးစည်သွတ်လုပ်ငန်းနှင့် မြှုံး၊ ဆောင်း၊ ဇလယ်၊ ဆင်လိမ်၊ ဇရိတ်၊ ကွန်၊ ဆွဲပိုက်၊ မျှောပိုက်စသည့် ငါးဖမ်းကရိယာများပါဝင်သည့် ဗဟုသုတများကို ဤကဏ္ဍတွင် အကျဉ်းရုံး၍ ဖော်ပြထားသည်။**

**တံငါလုပ်ငန်း။** ။တံငါလုပ်ငန်းသည် ရှေးအကျဆုံးသော လုပ်ငန်းကြီးများတွင် အပါအဝင်ဖြစ်သည်။ ရှေးခေတ်လူများသည် ဝမ်းရေးအတွက် လယ်ယာစိုက်ပျိုးခြင်းကို မပြုနိုင်ကြသေးမီကပင်၊ တံငါအလုပ်ကို လုပ်ကိုင်ခဲ့ကြသည်။ တံငါလုပ်ငန်းတွင် ဗုဇွန်၊ ကနန်း၊ ခရု၊ သန္တာကောင်တို့မှ အစ ဖျံ၊ လင်းပိုင်၊ ဝေလငါးတို့အထိ ဖမ်းယူသော လုပ်ငန်းများ အားလုံးသည် အကျုံးဝင်၏။ ထိုလုပ်ငန်း အမျိုးမျိုးတို့ အနက် ငါးဖမ်းလုပ်ငန်းမှာ အကြီးအကျယ်ဆုံး ဖြစ်၍၊ ယင်းကို ပင်လယ်ကမ်းခြေရှိသော တိုင်းပြည်တိုင်းလိုလို၌ပင် အကြီးအကျယ် လုပ်ကိုင်ကြသည်။

တံငါလုပ်ငန်း၌ ရေချို တံငါလုပ်ငန်းနှင့် ရေငန် တံငါလုပ်ငန်းဟူ၍ နှစ်မျိုးရှိရာ၊ ရေငန် တံငါလုပ်ငန်းသည် ရေချို တံငါလုပ်ငန်းထက် ပို၍ကြီးကျယ်ပေသည်။ ကမ္ဘာ့မြေမျက်နှာပြင်၏ ၄ ပုံ ၃ ပုံခန့်ကို ရေထုက ဖုံးလွှမ်းလျက်ရှိသော်လည်း၊ ပင်လယ်ရေ အလံ ၁၀၀ မှ ၂၀၀ အထိနက်သော နေရာများ၌သာ တံငါလုပ်ငန်းကို ပြုလုပ်နိုင်ကြပေသည်။ တံငါလုပ်ငန်း လုပ်ကိုင်ရာ၌ ကမ္ဘာတွင်ကျော်စောထင်ရှားသော နိုင်ငံ ၁၀ နိုင်ငံမှာ ဂျပန်၊ အမေရိကန်ပြည်ထောင်စု၊ နော်ဝေး၊ ဂရိတ်ဗြိတိန်၊ ဣတလီ၊ စပိန်၊ ကနေဒါ၊ အိုက်စလန်၊ ပြင်သစ်၊ ပေါ်တူဂီနိုင်ငံတို့ ဖြစ်လေသည်။

တံငါလုပ်ငန်းသည် အခြားလုပ်ငန်း အမြောက်အမြားနှင့် ဆက်သွယ်လျက်ရှိသည်။ ယခုခေတ်မှီ တံငါလုပ်ငန်းများကြောင့် သင်္ဘောလုပ်သော လုပ်ငန်း၊ ရေခဲစက် လုပ်ငန်း၊ တံငါပိုက် လုပ်ငန်းနှင့် စက်ကရိယာပစ္စည်းထုတ်သော လုပ်ငန်းများ ပေါ်ပေါက်လာကြသည်။ အင်္ဂလန်ပြည်ထဲ၌ပင် တံငါလုပ်ငန်းအတွက် နှစ်စဉ် ကျောက်မီးသွေး တန်ချိန် ၃ သန်းမျှ အသုံးပြုသည်ဟု သိရပေသည်။

ငါးစည်သွတ် လုပ်ငန်းနှင့် ငပိခြောက် လုပ်ငန်းတို့မှာ ထင်ရှားသော ငါးလုပ်ငန်းများ ဖြစ်ကြသည်။ စားသုံး၍မရသော ငါးများနှင့် အသုံးမလို၍ စွန့်ပစ်ရသော ငါးအပိုင်းများကို ကြက်ငှက်၊ ဝက်စသော တိရစ္ဆာန်များအဖို့ အစာအဖြစ်ငှင်း၊ မြေဩဇာဓာတ်များ ထုတ်လုပ်ရန်အတွက်ငှင်း အသုံးပြုကြသည်။ ငါးများမှ အဆီထုတ်ယူသော လုပ်ငန်းလည်း ရှိသေးသည်။ ကော့ဒခေါ် ငါးမျိုး၏အသည်းထဲမှ ထုတ်ယူသောအဆီတွင် ဗီတာမင် အေ နှင့် ဒီ များပါရှိရာ၊ ထိုငါးဆီသည် ဘယဆေးလုပ်ငန်းတွင် အထူး နာမည်ကျော်ကြားပေသည်။ အချို့သော ငါးဆီများကို သားရေနယ်လုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း၊ သံမဏိလုပ်ငန်းတို့တွင် အသုံးပြုကြသည်။ စပမ်းဝေလငါးမှ ရရှိသော စပါးမာစီတီခေါ် အဆီမှာ လူသိများသော ငါးကြီးဆီဖြစ်သည်။ ငါးမှ အခြားအသုံးဝင်သော ပစ္စည်းများကို ရရှိသေး၏။ ငါးစည်ဖောင်းသည် ကော်လုပ်ရန်အတွက် အသုံးဝင်သည်။ အချို့

သော ငါးများ၏အရေပြားကို သားရေပြားကဲ့သို့ ပြုလုပ်အသုံးချရန် ကြံဆောင်လျက်ရှိကြသည်။

စီးပွားရေးအတွက် တံငါလုပ်ငန်းကို အများအားဖြင့် ပင်လယ်၌သာ လုပ်ကိုင်ကြရသည်။ ပြည်တွင်းရှိ မြစ်ချောင်း အင်းအိုင်များတွင် တံငါလုပ်ငန်း လုပ်ကိုင်ကြသော်လည်း၊ ကြီးကျယ်အောင် စီးပွားဖြစ် မလုပ်ကိုင်နိုင်ကြပေ။ ပင်လယ်ပြင်သို့ထွက်၍ တံငါလုပ်ငန်း လုပ်ကိုင်ကြရာ၌ ခေတ်မီသင်္ဘောများနှင့် ငါးဖမ်းကရိယာများကို အသုံးပြုကြရသည်။ တံငါလုပ်ငန်းအတွက် အထူးစီမံထားသော သင်္ဘောများတွင် ဓာတ်ခွဲခန်း၊ အအေးခန်း၊ ငါးအသည်းမှ အဆီထုတ်သော အခန်းများ ပါရှိသည်။ ထိုပြင် ကြိုးမဲ့ကြေးနန်းကရိယာလည်း ပါရှိသဖြင့် ကမ်းခြေသို့မပြန်ဘဲ ရက်ပေါင်း အတော်ကြာ ပင်လယ်တွင် နေနိုင်ကြပေသည်။

ယခုခေတ်တွင် ငါးဖမ်းနည်း အမျိုးမျိုးရှိသော်လည်း၊ ဖမ်းပုံမှာ ရှေးခေတ်ကကဲ့သို့ သဘောမျိုးတည်းဖြစ်သည်။ အထူးသဖြင့် ပင်လယ်ငါးများကို ဖမ်းရာ၌ ဆွဲပိုက်နှင့် ငါးများ ကြိုးတန်းများကို အသုံးပြုကြသည်။ ဆွဲပိုက်များမှာ အိတ်သဘောမျိုးရှိသော ပိုက်များဖြစ်သည်။ ထိုပိုက်များကို ရေချရာ၌ ရေအောက်သို့ကျသွားစေရန် လေးလံသော ပစ္စည်းများ တပ်ဆင်ထားရသည်။ ထိုပိုက်များကို သမ္ဗန်၊ သင်္ဘောများနှင့် ဆွဲယူကြသည်။ ဆွဲပိုက်များသည် များသောအားဖြင့် ပင်လယ်အောက် ခပ်နက်နက် ကျက်စားသောငါးများကို ဖမ်းယူရန် အသုံးပြုကြသည်။ ရေမျက်နှာပြင်နားတွင် ကျက်စားသောငါးများကို ဖမ်းယူသော ဆွဲပိုက်လည်း ရှိသေးသည်။ ထိုပိုက်များကို ချရာ၌ ငါးဖမ်းရန် သတ်မှတ်ထားသော နေရာတစိုက်တွင် ပတ်လည်ဝိုင်း၍ ချရသည်။

မျှောပိုက်ဟုခေါ်သော ပိုက်လည်းရှိသည်။ ထိုပိုက်သည် ခြည်ကြိုးနှင့် ပေါ့ပါးခိုင်ခံ့စွာ ရက်လုပ်ထားသော ပိုက်ဖြစ်သည်။ ထိုပိုက်များတွင် ဘောများတပ်၍၊ ရေကြောင်းအတိုင်း မျှောလိုက်ကြသည်။ ထိုပိုက်နှင့် တိုးမိသောငါးများသည် ပါးဟက်နှင့်ငြိ၍ မိလေသည်။ မျှောပိုက်သည် ရေမျက်နှာပြင်နားတွင် ကျက်စားသောငါးများကိုဖမ်းယူနိုင်သော ပိုက်ဖြစ်သည်။ မျှောပိုက်သည် အလျား ကိုက်ပေါင်း ၅၀ မှ ၆၀ အထိရှိ၍၊ စောက် ၁၄ ကိုက်ခန့်ရှိသည်။ ပင်လယ်၌ ထိုပိုက်များကို အသုံးပြုသောအခါ တကြိမ်လျှင် ပိုက်ပေါင်း ၇၅ ခုမျှအထိ မျှောလေ့ရှိကြသည်။ အထူးသဖြင့် ထိုပိုက်များကို ဟဲရင်းငါးနှင့် ဆယ်မန်ငါးများ ဖမ်းရာတွင် အသုံးပြုကြသည်။

ကြိုးတန်းတွင် ငါးများချိတ်များ တပ်၍ ငါးဖမ်းသောနည်းလည်း ရှိသည်။ ထိုနည်းတွင် ငါးများချိတ်တပ်ထားသော ကြိုးတန်း၌ ဘောများချည်၍၊ ကြိုးတန်းကို ရေထဲတွင် ချထားသည်။ ငါးများချိတ်ကအစာကို ဟတ်မိသောငါးများသည် ငါးများချိတ်တွင် မိကြသည်။ ထိုအခါမှာမှ ငါးများကြိုးတန်းကိုဆွဲ၍ ငါးများကို ဖြုတ်ယူကြသည်။ ငါးများကြိုးတန်းကို မြစ်ချောင်း အင်းအိုင်များတွင်လည်း အသုံးပြုကြသည်။ ပင်လယ်တွင်း၌ အသုံးပြုသော ငါးများကြိုးတန်း တတန်းလျှင် ငါးများချိတ်ပေါင်း ၁၀၀၀ မှ ၅၅၀၀ အထိ ပါလေ့ရှိသည်။ ကော့ဒငါးနှင့် ဟဲလဗတ်ငါးများ ဖမ်းရာတွင် ငါးများကြိုးတန်းကို အသုံးပြုကြသည်။ နော်ဝေးနိုင်ငံ အနောက်မြောက်ဖက်ရှိ လိုဖိုတန်ကျွန်း အနီးတဝိုက်တွင် ကော့ဒငါး အထူးပေါများသည်ဖြစ်ရာ၊ ထိုအရပ်သို့ အတိုင်းတိုင်း အပြည်ပြည်မှ တံငါသင်္ဘောများ လာရောက်၍ဖမ်းယူကြသည်။

နျူးဖောင်းလန်းကျွန်း အနီးတဝိုက်တွင်လည်း ကော့ဒငါးမျိုး ပေါများသည်။ ထိုအရပ်သို့ အမေရိကန်ပြည်



ပင်လယ်ငါးသလောက်ဖမ်းရန် တန်းပိုက်များချနေကြစဉ်



ပင်လယ်ကမ်းတွင်စိုက်ထူထားသော စန္ဒာခေါ် ငါးဖမ်းပိုက်

ထောင်စု၊ ပြင်သစ်နိုင်ငံတို့မှ တံငါသင်္ဘောများ လာရောက်ကြသည်။ ပင်လယ်သို့ထွက်၍ဖမ်းသော ငါးများတွင် ဟဲရင်းခေါ် ငါးသလောက်မျိုးမှာ ထင်ရှားပေသည်။ ယင်းကို ပစိဖိတ်သမုဒ္ဒရာ မြောက်ပိုင်းနှင့် အတ္တလန္တိတ်သမုဒ္ဒရာ မြောက်ပိုင်းဒေသများတွင် အမြောက်အမြား တွေ့ကြရသည်။ အင်္ဂလန်၊ ပြင်သစ်၊ ဆွီဒင်၊ နော်ဝေးစသော နိုင်ငံများမှ တံငါသင်္ဘောများသည် ထိုနေရာသို့လာရောက်၍ ဟဲရင်းငါးများကို ဆွဲပိုက်ဖြင့် ဖမ်းယူကြသည်။ နော်ဝေးနိုင်ငံသည် ဟဲရင်းငါးဖမ်းလုပ်ငန်းကြောင့် ကမ္ဘာကျော်သည်။ ပင်လယ်သို့ စွန့်စွန့်စားစားထွက်၍ ဖမ်းရသောငါးများကို အစိမ်းလိုက်ဖြစ်စေ၊ စည်သွတ်၍ဖြစ်စေ၊ အခြောက်လှန်း၍ဖြစ်စေ အမျိုးမျိုးစီမံ၍ အလိုရှိရာအရပ်ဒေသများသို့ တင်ပို့ရောင်းချကြသည်။ အထူးအားဖြင့် ဟဲရင်းငါးကလေးများကို စည်သွတ်၍ ရောင်းချကြသည်။ ထိုပြင် ဗုဇွန်၊ ကနန်း၊ ကမာကောင်ကဲ့သို့သော ရေသတ္တဝါများကိုလည်း ဖမ်းယူ၍ စည်သွတ်ကြသေးသည်။

မြန်မာနိုင်ငံ တံငါလုပ်ငန်းသည် အခြားနိုင်ငံ တံငါလုပ်ငန်းများနှင့်စာလျှင် မကြီးကျယ်သော်လည်း၊ ပြည်တွင်း နေ့စဉ်စားသုံးရန်အတွက်မူ အထူးပင် အရေးကြီးပေသည်။ မြန်မာနိုင်ငံ တံငါလုပ်ငန်းကို ပြည်တွင်း တံငါလုပ်ငန်းနှင့် ပင်လယ် တံငါလုပ်ငန်းဟူ၍ ခွဲခြားလုပ်ကိုင်ကြသည်။ ပြည်တွင်း တံငါလုပ်ငန်းတွင် အင်းများကို လေလံဆွဲ၍ ငါးဖမ်းသောလုပ်ငန်းမှာ အကြီးကျယ်ဆုံး ဖြစ်ပေသည်။

မြန်မာနိုင်ငံ၌ မြစ်ချောင်း အင်းအိုင် လယ်ကွင်းတို့ ရေလျှံသောလများတွင် ငါးအထူးပေါများပေသည်။ ရေအတက် ငြိမ်သောအခါ လယ်ကွက်နှင့် အင်းထဲရှိ ငါးများသည် ထွက်ပေါက်ကိုရှာကြသည်။ ဤအချိန်၌ ငါးများ ထွက်လာမည့်နေရာတွင် ဆည်ခံ၍ ငါးကိုဖမ်းယူလေ့ရှိကြသည်။ ဆည်ပြုလုပ်ရာ၌ ယင်းကို အသုံးပြုကြသည်။ ယင်းမှာ ဝါးခြမ်းကလေးများကို ကြိုးနှင့်ဆိုင်းထားသော အကာတမျိုးပင်ဖြစ်သည်။ ဆည်အမျိုးမျိုးရှိသည့်အနက် အချို့ဆည်များကို ရာသီကိုစွဲ၍ အမည်ပေးကြ၏။ အချို့ဆည်များကိုမူ လုပ်ငန်းကိုစွဲ၍ အမည်ပေးကြသည်။ ပမာအားဖြင့် တောကျဆည် သို့မဟုတ် ကျကြီးဆည်သည် မြစ်ရေကျ၍ ငါးများထွက်လာသောအခါ အသုံးပြုသောဆည်ဖြစ်သည်။ ထိုဆည်ကိုပင် ရာသီကိုစွဲ၍ မိုးနှောင်းဆည်ဟုရင်း၊ နွေဆည်ဟုရင်း၊ ရေပြန်ဆည်ဟုရင်း ခေါ်လေသည်။ မိုးနှောင်းနှင့် နွေဆည်တို့သည် မိုးနှင့်နွေရာသီကို အစွဲပြု၍ ခေါ်သည်မှာ ထင်ရှားပြီ။ ရေပြန်ဆည်ဟု ခေါ်ဝေါ်ခြင်းကား၊ တပေါင်း တန်ခူးလတို့၌ မြစ်ရေပြန်၍တက်သောအချိန်ကို အစွဲပြု၍ ရေပြန်ဆည်ဟု ခေါ်လေသည်။ ငါးဖမ်းပုံ ဖမ်းနည်းကိုစွဲ၍ ခေါ်သောဆည်များလည်း အမျိုးမျိုးရှိသည်။ တမံ ပိတ်သောအခါ၌ရင်း၊ ဆည် ဖို့သောအခါ၌ရင်း၊ ငါးများခုန်ထွက်သည်ကို ခုန်ဆင်းဆည်နှင့် ဖမ်းရသည်။ ကတစ်ဆည် သို့မဟုတ် အချုပ်ဆည်သည်ကား ငါးများကို မဖမ်းမယူမီ၊ ငါးတို့ကို စည်းရိုးအတွင်း လှောင်ထားရန်အလို့ငှာ ပြုလုပ်ထားသောဆည်ဖြစ်သည်။

မြစ်ချောင်းများကို ဖြတ်၍၊ တမံဖို့ကာ ယင်းတားပြီး

နောက်၊ ရေ အိုင့်လာသောအခါ၊ တဖန် ရေကို မူလရေမျက်နှာပြင်ထက် နိမ့်ရာသို့ စီးဆင်းစေပြီးလျှင်၊ ရေစီးနှင့်ပါလာသောငါးတို့ကို ဖမ်းယူသောဆည်မှာ မြင်းဝမ်းဆည်ဟု ခေါ်သည်။ ရှားဆည် သို့မဟုတ် သမန်းနုဆည်ဟု ခေါ်သောဆည်မှာ အချုပ်ဆည်တမျိုး ဖြစ်သည်။ မြစ်ချောင်းကို ဖြတ်၍၊ ယင်းနှစ်ချပ်ကို သဘော်ဦးသဏ္ဍာန် ကာဆီး၍ ငါးဖမ်းရသောဆည်ဖြစ်၏။ ကျေညုံးဆည်မှာ ကျေညုံးဖမ်းရာတွင် အသုံးပြုသောဆည်ဖြစ်သည်။ အဝချုပ်ဆည်သည် ရေစီးပေါက်တွင်ထား၍ ငါးဖမ်းသော ဆည်တမျိုးဖြစ်သည်။ ငါးများကို အလိုရှိရာဖက်သို့ သွားစေလိုသောအခါ အသုံးပြုသောဆည်ကို အကယ်ဆည်ဟုခေါ်သည်။ ဂျမ်းခေါ် ငါးဖမ်းကရိယာမှာ ရေထဲတွင် ဆွဲငင်၍ယူနိုင်သော ယင်းသဘောမျိုးဖြစ်သည်။ ဂျမ်းကို တည့်မတ်စေရန် အောက်ခြေ၌ ရွှံနှင့်မံထားပြီးလျှင် အသေကာထားသော ယင်းတန်းဆီသို့ ကြိုးဖြင့်ဖြစ်စေ၊ လက်ဖြင့်ဖြစ်စေ တဖြည်းဖြည်းဆွဲယူကာ ငါးများကိုပိတ်၍ ဖမ်းယူကြသည်။

ဆည်တွင်မိနေသော ငါးတို့ကို ဝမ်းနှင့်ထောင်၍ ဖမ်းရပြန်သည်။ ဝမ်းမှာ ငါးကို အလိုရှိသလောက် ဖမ်းယူရန် ထောင်သော ထောင်ချောက်ဖြစ်၏။ မြှုံးမှာ ဝါးခြမ်းနှင့် ရက်လုပ်သော ထောင်ချောက်တမျိုးပင်ဖြစ်သည်။ မြှုံးတွင် ငါးများဝင်လာလျှင် ပြန်၍မထွက်နိုင်ရန် ဝင်ပေါက်၌ ဝါးချွန်များ တပ်ထားသည်။ မြှုံးကို ဆည်အောက်၌ဖြစ်စေ၊ ယင်းစည်းရိုးရှိအပေါက်များ၌ဖြစ်စေ ထောင်ထားတတ်ကြသည်။

အထက်ဖော်ပြရာပါ မြှုံးရိုးရိုးအပြင်၊ ကတုံးမြှုံးနှင့် ရင်ကွဲမြှုံးတို့လည်း ရှိသေးသည်။ ထိုမြှုံးတို့၏ ပုံသဏ္ဍာန်မှာ ဖမ်းယူရမည့်ငါးကိုမှီ၍ အမျိုးမျိုးဖြစ်သော်လည်း၊ သဘောမှာ တမျိုးတည်းပင်ဖြစ်၏။ ရင်ကွဲ ၂ လုံး ၃ လုံးတွဲ၍ ငါးဖမ်းလျှင်၊ ထိုရင်ကွဲမြှုံးကို ဗုဇ္ဇန်ကယ်ဟုခေါ်သည်။ ကတုံးခေါ် မြှုံးသည် ငရုံကိုဖမ်းရာ၌ အသုံးပြုသော မြှုံးဖြစ်သည်။ ကတုံးကို အသုံးပြုရာ၌ ဘေးမှ ယင်းများကာ၍ တကြိမ်လျှင် မြှုံးအလုံး ၁၀ မှ ၄၀ အထိ အသုံးပြုတတ်ကြသည်။ ပုံဟုခေါ်သော ပုံသဏ္ဍာန်မြှုံး၌ ငါးများဝင်နိုင်ရန် အောက်ဖက်နားတွင် အပေါက်ကလေးများ လုပ်ထားသည်။ ပုံကို ရေတိမ်တွင် မြှုပ်၍ အထဲ၌ အစာများထည့်ထားသည်။ အထူးသဖြင့် ကျေညုံးဖမ်းရာ၌ ပုံကို အသုံးပြုလေ့ရှိသည်။

ဆောင်းဟုခေါ်သော ငါးဖမ်းကရိယာတမျိုးလည်း ရှိသေးသည်။ ဆောင်းမှာ ကတော့ပုံရှိ၍ ထိပ်၌ အပေါက်ရှိသော ခြင်းတောင်းဖြစ်သည်။ ရေတိမ်၌ ဆောင်းကို အပေါက်မှကိုင်၍ ငါးရှိရာကိုစမ်း၍ လိုက်အုပ်သည်။ ဆောင်းထဲ၌ ငါးမိနေလျှင် ငါးကို အပေါက်မှနှိုက်ယူသည်။

အခြား ငါးဖမ်းကရိယာတို့မှာ ဇလယ်၊ ဆင်လိမ်၊ ဇရိတ်၊



ကျားပစပ်ပိုက်ဖြင့် ဖမ်းမိသော ငါးများကို ငပိလုပ်ရန် ဤသို့ရွေးထုတ်ရသည်။



ပင်လယ်တွင်း ငါးပိုက်ကို ဆွဲတင်နေစဉ်

ဂုတ်၊ တုတ်၊ ဆုတ်ကပ်၊ ဘောကပ်၊ ယက်သွဲ၊ ရင်တွန်း၊ ရေကွင်းဟူ၍ ဖြစ်ကြသည်။

မြန်မာနိုင်ငံတွင်းရှိ မြစ်ချောင်းအင်းအိုင်နှင့် ပင်လယ်ကမ်းခြေ တလျှောက်တွင် ငါးကို ပိုက်နှင့်ဖမ်းယူကြသည်။ ပိုက်မှာ အမျိုးအစားအားဖြင့် ခြောက်မျိုးရှိသည်ဟု အင်္ဂလိပ်ဘာသာဖြင့် ဦးခင် စီရင်ရေးသားသော မြန်မာနိုင်ငံ ငါးလုပ်ငန်းစာအုပ်တွင် ဖော်ပြပါရှိသည်။

ပိုက်ခြောက်မျိုးမှာ (၁) ကွန်၊ (၂) ဆွဲပိုက်၊ (၃) မျှောပိုက်၊ (၄) ပိုက်အိတ်၊ (၅) ဂေါ်ပိုက်နှင့် (၆) ဝိုင်းပိုက်တို့ ဖြစ်ကြသည်။

ကွန်မှာ ကတော့ပုံ ရက်လုပ်ထားသော ပိုက်ကလေးဖြစ်သည်။ ကွန်၏ထိပ်၌ ကွန်ကိုပစ်ပြီးနောက် ဆွဲယူရန် ကြိုးတပင် ပါရှိသည်။ ကွန်၏ အနားပတ်လည်၌ကား ပစ်လိုက်သောကွန် ရေတွင်နစ်စေရန်အတွက် ခဲအလေးများကို ဆွဲထားသည်။ ရေတိမ်ရာအရပ်၌ လက်ပစ်ကွန် အငယ်စားကို သုံးသည်။ ပင်လယ်ကမ်းခြေနှင့် မြစ်ကြီးများ၌ကား၊ လက်ပစ်ကွန် အကြီးစားကို သုံးလေ့ရှိကြသည်။

ပိုက်အမျိုးမျိုးအနက် ဆွဲပိုက်သည် နေရာအနှံ့တွင် အသုံးများပေသည်။ ထိုပိုက်မျိုးကို အချို့ဒေသတို့တွင် ငင်ပိုက်ဟုလည်း ခေါ်ကြ၏။ ထိုပိုက်မှာ အလျားရှည်၍ အနံတိုသော လေးထောင့်ပိုက် ရိုးရိုးဖြစ်သည်။ ဌာနာဌာနကို လိုက်၍ အရွယ် အစားစားရှိသည်။ ယင်းတို့တွင် အသုံးများသော ပိုက်ဝမ်းပူမှာ အနံ ၇ တောင် ၈ တောင်ရှိ၍၊ အလျား အတောင် ၁၀၀၀ ရှိတတ်သည့်ပြင်၊ အလယ်လောက်တွင် ပိုက်စိပ်ဖြင့် ရက်လုပ်ထားသော ဝမ်းနှင့်တူသည့် အိတ်တလုံး ပါရှိသည်။ ထိုပိုက်ကို ရေတိမ်၌ငါးဆွဲရန် အသုံးပြုသည်။ ရေနက်ရာ ဒေသတို့၌ကား၊ မျှောပိုက်ကို အသုံးပြုရသည်။ မျှောပိုက်၏သဘောမှာ ရေထဲတွင် ပိုက်ကို တွဲရရွဲဆွဲ၍ မျှောချသောသဘော ဖြစ်ရကား၊ ပိုက်၏ ထိပ်၌ ကြိုးတန်း၌ ဘော့များတပ်၍၊ ထိုဘော့ကို ပေါ်စေရုံမျှသာဖြစ်သော ခဲအလေးတို့ကို ပိုက်၏အနားသတ်တွင် တပ်ဆင်ထားရသည်။ မြစ်ဝကျွန်းပေါ်ဒေသ မြစ်ချောင်းများ၌ ငါးလောက်ကို ဖမ်းယူရန် ငါးလောက်ပိုက် ချထားသည်ကို ခရီးသွား ခရီးလာတို့ တွေ့ဘူးကြလိမ့်မည်။ ငါးလောက်ပိုက်သည် မျှောပိုက်အမျိုးအစားတွင် ပါဝင်သည်။ အချို့ဒေသတို့၌ မျှောပိုက်အငယ်စားများကို ဗူးသီးခြောက်ဖြင့် ပြုလုပ်ထားသော ဖော့ဖြင့် တပ်ဆင်၍ ရေ၌မျှောချလေရာ၊ ဗူးပိုက်ဟု ခေါ်ကြပြန်သည်။ မျှောပိုက်တို့သည် အတောင် ၅၀ မှ ၅၀၀ အထိ ရှည်သည်။ အနံမှာ ၇ တောင် ၈ တောင်မျှ ရှိသည်။

ပိုက်အိတ်ဟူသည်မှာ တနေရာတည်းတွင် တိုင်စိုက်၍ချထားသော ပိုက်မျိုးဖြစ်သည်။ သို့သော် ကဝပိုက် (ဝါ)

တောပိုက်ဟူသော ပိုက်မျိုးတို့ကား ရွှေ့ရှားသွားလာနေသော လှေ ဖောင် စသည်တို့၌သာ ချည်နှောင်၍ ရေတွင် ချရသော ပိုက်များဖြစ်လေရာ၊ လှေ ဖောင်တို့ မျှောပါသွားသည့် ရေအယဉ်မှ ငါးများကို ဖမ်းယူနိုင်လေသည်။ ထိုပိုက်မျိုးမှာ အတောင်အစိတ်ခန့် ရှည်၍၊ အောက်ဖက်စွန်းတွင် အိတ်တခုပါရှိသည်။ အသုံးပြုသောအခါ လှေနှစ်စင်းအကြား၌ ဆွဲထားပြီးလျှင်၊ ငါးများကို ရေဆန် လှော်ခတ်ခြင်းဖြင့် ဖမ်းယူသည်။

ဂေါ်ပိုက်ဟူသည်မှာ သုံးထောင့် ပုံသဏ္ဍာန်ရှိသောပိုက်ကို လှေနှစ်စင်းကြားတွင်ချ၍၊ ရေဆန်တွင် ငါးများကို ကောက်ယူဖမ်းဆီးသည့် ပိုက်မျိုးဖြစ်၏။ ထိုပိုက်မျိုးတွင် ဆူးလေပိုက်၊ ယကွင်း၊ ရင်တွန်းစသော အမျိုးအစားတို့ ပါဝင်၏။ ဆူးလေပိုက်မှာ အတောင် နှစ်ဆယ်ရှည်သော တြိဂံပုံ ပိုက်ဖြစ်သည်။ ထိုပိုက်၏ အနားနှစ်ဖက်ကို ဝါးလုံးများတွင် ချည်နှောင်၍၊ လှေနှစ်စင်းအကြား၌ ချထားပြီးလျှင်၊ လှေကို ရေဆန်လှော်၍ ငါးဖမ်းရသည်။ လှေနှစ်စင်းပေါ်၌ ခွဆောက်ထားသော စင်ပေါ်မှ ပိုက်အတင်အချကို ပြုလုပ်ရ၏။ ယကွင်းမှာမူ လေးထောင့်ပိုက်ပင်ဖြစ်သော်လည်း၊ ယင်း၏ ထောင့်လေးထောင့်ကို ကြိမ်နှစ်ချောင်း ကြက်ခြေခတ်ဖြင့် ဆိုင်းထား၍၊ လှေ၌ မောင်းဆင်ထားသော ဝါးလုံးရှည်ဖြင့် ရေတွင် နှစ်ချည် ဖေါ်ချည်ပြုကာ၊ ငါးကိုဖမ်းဆီးရသည်။

ဝိုင်းပိုက်ဟူသည်မှာ ဆွဲပိုက်နှင့်မျှောပိုက်ကဲ့သို့သော ပိုက်များကို တခုနှင့်တခုဆက်လျက် လှေပေါ်မှနေ၍ ငါးအုပ်ရှိရာနေရာကို ပတ်လည်ဝိုင်း၍ ချရသောပိုက်ဖြစ်သည်။ မြန်မာနိုင်ငံတော် အင်းလက်စွဲ ဥပဒေအရ ယင်းပိုက်မျိုးတွင် ကြီးဒေါင်ပိုက်နှင့် သလောက်ပိုက်တို့ ပါဝင်သည့်ပြင်၊ ထိုပိုက်မျိုးကို မျှောပိုက်၌အကျုံးဝင်သည်ဟု ပြဆိုထားလေသည်။ ထိုပိုက်မျိုး၏သဘောမှာ ငါးတို့ကိုဝိုင်းမိအောင် ပိုက်ဖြင့်တား၍ ရေတွင်မျှောချရသည့် သဘောပင်ဖြစ်လေသည်။

ဦးခင် စီရင်ရေးသားသည့် မြန်မာနိုင်ငံ ငါးလုပ်ငန်းဟူသော စာအုပ်တွင် အထက်ပါအတိုင်း အမျိုးအစား ခြောက်မျိုး ခွဲခြားထားသော်လည်း၊ မြန်မာနိုင်ငံ အင်းလက်စွဲ ဥပဒေ အရမှာ အထက်ပါ အမျိုးအစားတို့အပြင်၊ တန်းပိုက်ဟူ၍ အမျိုးအစားသတ်မှတ်ထားသော ပိုက်မျိုးလည်း သတ်သတ်ရှိသေးသည်။ ယင်းပိုက်မျိုးမှာ ရေမစီးသော၊ သို့တည်းမဟုတ် ရေစီးမသန်သော မြစ်ဝ၊ ရေလျှံရာ အင်းအိုင်၊ ရေအောင်းရာ ပင်လယ်ကွေ့ ပင်လယ်တိမ် စသည့် ဒေသတို့တွင် ရေတွင်တန်း၍ အသေ ချထားသော ပိုက်မျိုးဖြစ်သည်။

သာမန် ငါးဖမ်းကရိယာတခုမှာ ငါးများတံပင်ဖြစ်၏။ ထိုငါးမျှားတံကို နည်းမျိုးစုံဖြင့် အသုံးချကြသည်။ ငါးမျှားတံများကို ကြိုးတန်းဖြင့်သီ၍၊ ထိုကြိုးတန်း၌ ဗော့တပ်ထားလျှင် ဝိုင်းထောက်ဟု ယေဘုယျအားဖြင့် ခေါ်ကြသည်။ ငရှဉ့်ကဲ့သို့သော ငါးများကို ဖမ်းယူရာတွင် ရှဉ့်ဆူးခေါ်



ငါးကြီးများကိုဆားနယ်ပြီးနောက် ငါးပုတ်ပြားကို နေလှမ်းပေးရသည်။




ပြည်ထောင်စုပန်းတိုင် သရုပ်ပေါ် နိုင်ငံတော် တံဆိပ်ခေါင်းများ

ရှစ်ခွ ငါးများချိတ်များကို အသုံးပြုကြသည်။ ငသိုင်းကဲ့သို့သော ငါးများကို ဖမ်းရာတွင် ၅ ချောင်းတပ် ငါးများချိတ်များကို အသုံးပြုကြသည်။ အထက်ဖော်ပြပါ ငါးဖမ်းကရိယာများအပြင် အခြား ငါးဖမ်းကရိယာ အမျိုးမျိုးလည်း ရှိလေသည်။

ပင်လယ် တံငါလုပ်ငန်းတွင် မြန်မာနိုင်ငံသည် အစပျိုးခါပင် ရှိသေးသည်။ မြန်မာနိုင်ငံရှိ ပင်လယ်မှာ ငါးစာပေါများ၍၊ ရာသီဥတု အပူအအေး မျှတသဖြင့် ငါးအမျိုးမျိုး ပေါများသည်။ ရခိုင်နှင့် တနင်္သာရီကမ်းရိုးတန်း၊ မြစ်ဝကျွန်းပေါ် ပင်လယ်ကမ်းရိုးတန်း ဒေသများတွင် ပင်လယ် တံငါလုပ်ငန်းကို လုပ်ကိုင်ကြသည်။ သို့သော် ခေတ်မီ သင်္ဘောနှင့် တံငါကရိယာများ မရှိသေးသောကြောင့် ကမ်းခြေမှ ၃ မိုင် ၄ မိုင်အထိသာ ပင်လယ်သို့ထွက်၍ ငါးကိုဖမ်းယူနိုင်ကြသည်။ ငမုတ်၊ ငခွေးလျှာ၊ ငတံခွန်၊ ငယုတ်၊ ကျောက်ဝက်၊ ဝဲရောင်၊ ငမေားရှည်၊ ပေလွေ၊ သလောက်၊ ကင်းမွန်များမှာ လူသိများသော ပင်လယ်ငါးများဖြစ်သည်။ တနင်္သာရီကမ်းရိုးတန်း ပင်လယ်တွင် ဗုဇွန်ဆိတ် ပေါများသဖြင့် ထိုကမ်းရိုးရှိ အရပ်ဒေသများတွင် ငပိလုပ်ကြသည်။ အထူးသဖြင့် မြိတ်၊ ထားဝယ်နယ်များတွင် ငပိ၊ ငခြောက် လုပ်ငန်းများကို လုပ်ကိုင်ကြသည်။ တနင်္သာရီကမ်းရိုးတန်းတွင် ပုလဲလုပ်ငန်း လုပ်ကိုင်သော ဒေသများရှိလေသည်။

မြန်မာနိုင်ငံတွင် ရေနက် ပင်လယ်တံငါလုပ်ငန်း လုပ်ကိုင်ရန် ပြည်တော်သာစီမံကိန်းများ ရှိသည်။ ထိုစီမံကိန်းများကို အကောင်အထည်ဖော်ရာတွင် ဂျပန် မြန်မာ တွဲဖက်လုပ်ကိုင်သောစံနစ်ဖြင့် ပင်လယ်ငါးများကို ခေတ်မီနည်းကိုသုံး၍ ဖမ်းလျက်ရှိသည်။ ထို့ပြင် တံငါလုပ်ငန်းနှင့်ဆက်စပ်သော တံငါသင်္ဘောတည် လုပ်ငန်း၊ စည်သွတ် လုပ်ငန်း၊ အအေးစိမ် လုပ်ငန်း စသောလုပ်ငန်းတို့ကို ဆောင်ရွက်ရန် စီစဉ်ချက်များလည်း ရှိပေသည်။

ပြည်တွင်းနှင့် ပင်လယ် တံငါလုပ်ငန်းကို လုပ်ကိုင်ရာ ငါးနှင့် အခြားရေသတ္တဝါများ ခေါင်းပါး၍ မျိုးပျောက် မသွားစေရန် ငါးဖမ်းကရိယာ၊ ငါးဖမ်းရာဒေသ၊ ရာသီဥတု စသည်တို့ကို အပြည်ပြည်ဆိုင်ရာ ဥပဒေများနှင့်အညီ လိုက်နာ ကျင့်သုံးလျက်ရှိပေသည်။ ထို့ပြင် ခေတ်မီတိုင်းပြည် အချို့မှ ငါးများကိုမှာယူ၍ အထူးမွေးမြူထားပြီးလျှင်၊ ငါးရှားပါးသော မြစ်ချောင်း အင်းအိုင်များတွင် မွေးပြောင်းချထားလျက်ရှိပေသည်။ ဤသို့ပြုလုပ်ပေးခြင်းမှာ ငါးနှင့် အခြားရေသတ္တဝါများ မျိုးပျောက် မသွားဘဲ၊ ကောင်းစွာ မျိုးဆက်ပွားလာနိုင်ရန်ဖြစ်သည်။ ထို့ပြင် တံငါလုပ်ငန်း တိုးတက်ရေးနှင့်စပ်ဆိုင်၍ စာရင်းအင်းများ ထားရှိခြင်း၊ ငါးများကို လိုက်လံရှာဖွေ လေ့လာခြင်း၊ ငါးစားသော အစာများကို လိုက်လံရှာဖွေလေ့လာခြင်း၊ သမုဒ္ဒရာပင်လယ် ရေထုကို လေ့လာခြင်းစသော လုပ်ငန်းများကို သုတေသနဌာနများ ဖွဲ့စည်း၍ ဆောင်ရွက်လျက်ရှိပေသည်။

**တံဆည်မြို့**။ ။တံဆည်မြို့သည် ရွှေဘိုခရိုင်၊ ရေဦးခရိုင်ခွဲနယ် အပါအဝင် တံဆည်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၍၊ ရေဦးမြို့၏မြောက်ဖက် ၁၄ မိုင်ခန့်တွင် တည်ရှိသည်။ စစ်ကိုင်း မြစ်ကြီးနား မီးရထားလမ်းပေါ်ရှိ ထန်းတပင်ဘူတာနှင့် ၁၂ မိုင်ခန့်ဝေးသည်။ တံဆည်မြို့မှာ မြို့ငယ်ဖြစ်၍၊ လူနေအိမ်ခြေ ၈၀၀ ခန့်နှင့် လူဦးရေ ၃၀၀၀ ခန့်ရှိသည်။ များသောအားဖြင့် လယ်ယာလုပ်ကိုင်စားသော သူများသာဖြစ်သည်။ မြေအိုးလုပ်ငန်း တွင်ကျယ်၍၊ မြို့နယ်တခုလုံးသို့ ဖြန့်ချိနိုင်သည်။ ရှေးဟောင်း မြို့တမြို့ဖြစ်သဖြင့် မြို့ရိုးပျက်၊ စေတီပုထိုးပျက် များစွာနှင့် ကျယ်ပြန့်သော ရေကန်ကြီးတခု ရှိသည်။ ကျောထောက်နောက်ခံဖြစ်သော ပတ်ဝန်းကျင်တွင် ဆန်စပါးနှင့်ပဲ စိုက်ပျိုးသည်။ မူးမြစ်နှင့် ၄ မိုင်ခန့်သာ ဝေးသော်လည်း၊ ရေသွင်းတူးမြောင်းများ မရှိချေ။ မြို့နယ်မှာ ၆၁၃ စတုရန်းမိုင် ကျယ်ဝန်း၍၊ လူဦးရေ ၆၀,၀၀၀ ခန့်ရှိသည်။

**တံဆိပ်ခေါင်း၊ တံဆိပ်ခေါင်းစုခြင်း**။ ။တနေရာမှ တနေရာသို့ စာပေးပို့လိုသော် စာတိုက်မှ တံဆိပ်ခေါင်း တလုံးကိုဝယ်ယူလျက် စာအိတ်ပေါ်တွင်ကပ်၍ စာဖူးအတွင်းသို့ ထည့်လျှင်၊ စာတိုက်ဌာနသည် ထိုစာကို လိုရာအရပ်သို့ရောက်အောင် တာဝန်ယူ၍ ပို့ပေးလေသည်။ ထို့သို့ တံဆိပ်ခေါင်းကပ်ကာ စာပို့ခကို ကြိုတင်၍ပေးသည့်စံနစ်သည် လူလွှတ်၍စာပို့ရသည့်ဒုက္ခနှင့် စရိတ်စကတို့ကိုင်း၊ စာရရှိသော အိမ်အသီးအသီးမှ စာပို့ခကို အလီလီ ကောက်ခံသိမ်းဆည်းရသည့် အလုပ်တာဝန်ပိုတို့ကိုင်း၊ များစွာ သက်သာစေလေသည်။ (စာတိုက် — လည်းရှု။)

ကမ္ဘာပေါ်တွင် စာပို့တံဆိပ်ခေါင်းကို ပဌမဦးစွာ စတင်သုံးစွဲသော နိုင်ငံမှာ အင်္ဂလန်ပြည်ဖြစ်၏။ ဆာ ရိုလန် ဟီး အမည်ရှိ ပုဂ္ဂိုလ်ကြီး၏ ကြံစည်တီထွင်မှုအရ စာပို့တံဆိပ်ခေါင်းကို ၁၈၄၀ ပြည့်နှစ် မေလ ၁ ရက်နေ့တွင် ထုတ်ဝေကာ မေလ ၆ ရက်နေ့တွင် စတင်သုံးစွဲခဲ့၏။ ကနဦး စတင်သုံးစွဲသော စာပို့တံဆိပ်ခေါင်းများမှာ ဝိတိုရိယဘုရင်မ၏ ဦးခေါင်းပုံ ရိုက်နှိပ်ထားသော တံဆိပ်ခေါင်းများဖြစ်သည်။ ဘုရင်မ၏ ဦးခေါင်းပုံ ရိုက်နှိပ်ထားရခြင်း၏ အဓိကရည်ရွယ်ချက်မှာ မသမာသူများက တံဆိပ်ခေါင်းအတုများ ပြုလုပ်၍ စာတိုက်ဌာနကို လိမ်လည်ခြင်း မပြုနိုင်စေရန် ကာကွယ်ခြင်းပင်ဖြစ်၏။

တံဆိပ်ခေါင်းသုံး၍ စာပို့သောစံနစ်ကို အမေရိကန်ပြည်

ထောင်စုတွင် ၁၇၉၇ ခုနှစ်၌ စတင်သုံးစွဲခဲ့၏။ ပြင်သစ်နှင့် ဂျာမနီနိုင်ငံတို့တွင်မူ ၁၇၄၉ ခုနှစ်ရောက်မှသာ ထိုစံနစ်ကို အသုံးပြုလာကြသည်။ ထိုနောက်တွင် တံဆိပ်ခေါင်း သုံးသောစံနစ်သည် ကမ္ဘာ့အရပ်ရပ်ရှိ နိုင်ငံအသီးအသီးသို့ ပျံ့နှံ့သွားပြီးလျှင်၊ ယခုအခါ၌ကား ကမ္ဘာပေါ်တွင် ယဉ်ကျေးသော နိုင်ငံတိုင်းတို့၌ စာပို့တံဆိပ်ခေါင်းကို အသုံးပြုနေကြပြီဖြစ်၏။ မြန်မာနိုင်ငံတွင် လွတ်လပ်ရေးမရမီက အသုံးပြုသော တံဆိပ်ခေါင်းများသည် ဂျော့ဘုရင်၏ ဦးခေါင်း တံဆိပ် ခတ်နှိပ်ထားသော တံဆိပ်ခေါင်းများသာ ဖြစ်ကြသည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း မြန်မာနိုင်ငံကို ဂျပန်တို့ စိုးမိုး အုပ်ချုပ်ခဲ့သည့်အချိန်က တံဆိပ်ခေါင်း ပုံစံအမျိုးမျိုးကို ရိုက်နှိပ် အသုံးပြုခဲ့ကြသေး၏။ လွတ်လပ်ရေး ရပြီးသည့်နောက်တွင်ကား၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အကြောင်းအရာတို့ကို ဖေါ်ပြထားသည့် အရုပ်ကား အမျိုးမျိုး၊ ပုံစံ အမျိုးမျိုးတို့ကို တံဆိပ်ခေါင်းများတွင် ရိုက်နှိပ် အသုံးပြုကြသည်။ ထိုပြင် မြန်မာ့လွတ်လပ်ရေးကို မိမိသွေးဖြင့် စတေးခဲ့သော မျိုးချစ်ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်းအား အမှတ်တရ ရှိစိမ့်သောငှာ၊ ထိုပုဂ္ဂိုလ်ကြီး၏ ဦးခေါင်းပုံပါရှိသော စာပို့တံဆိပ်ခေါင်းများကိုလည်း အသုံးပြုခဲ့ကြသည်။ ထိုပြင် ပြည်တော်သာလုပ်ငန်းများနှင့် ဆဋ္ဌသင်္ဂါယနာတင်ခြင်း စသည်တို့ဆိုင်ရာ အထိမ်းအမှတ် တံဆိပ်ခေါင်းများကိုလည်း ထုတ်လုပ်သုံးစွဲကြသည်။

စာပို့တံဆိပ်ခေါင်းနှင့် စပ်လျဉ်း၍ စိတ်ဝင်စားဖွယ်ကောင်းသော ဝါသနာလိုက်စားမှု လုပ်ငန်းတခုမှာ စာပို့တံဆိပ်ခေါင်း စုဆောင်းခြင်းဖြစ်၏။ ထိုအလုပ်မှာ ပျော်ရွှင်ဖွယ်ကောင်းသည့်ပြင် ငွေဝင်လမ်းရှိသော အလုပ်လည်း ဖြစ်သည်။ တံဆိပ်ခေါင်း စုဆောင်းခြင်းကို ဝါသနာပါသူများသည် မိမိတို့နိုင်ငံတွင် အသုံးပြုသည့် တံဆိပ်ခေါင်းများကိုသာမက ကမ္ဘာ့အရပ်ရပ်ရှိ နိုင်ငံအသီးအသီးတို့တွင် အသုံးပြုကြသော တံဆိပ်ခေါင်းများကိုလည်း လိုက်လံရှာဖွေ စုဆောင်းလေ့ရှိကြသည်။ တံဆိပ်ခေါင်း စုဆောင်းခြင်းကို မူလက ကျောင်းသား ကျောင်းသူကလေးများ အပျော်တမ်း ပြုလုပ်သော အလုပ်တခုဟူ၍သာ ယူဆခဲ့ကြ၏။ ယခုခေတ်တွင်ကား ထိုလုပ်ငန်းကို အားပေး ခြီးမြှင့်သော အသင်းအဖွဲ့များ ပေါ်ပေါက်လာသည့်ပြင်၊ လွန်စွာရနိုင်ခဲသော တံဆိပ်ခေါင်းများကို အဖိုးငွေ ထောင်သောင်းချီ၍ပေးကာ ဝယ်ယူတတ်ကြသဖြင့် တံဆိပ်ခေါင်း စုဆောင်းခြင်း အလုပ်မှာ လွန်စွာခေတ်စားလျက် ရှိလေသည်။

တံဆိပ်ခေါင်း စုဆောင်းခြင်းဖြင့် အကျိုးကျေးဇူး ခံစားလိုပါက စုဆောင်းမှုကို စံနစ်တကျပြုလုပ်ရန် လိုပေသည်။ မိမိစုဆောင်းသော တံဆိပ်ခေါင်းသည် လွန်စွာစုတ်ပြတ်ဆွေးမြေ့သည့် တံဆိပ်ခေါင်း မဖြစ်သင့်ပေ။ ထိုပြင် ရရှိပြီးသော တံဆိပ်ခေါင်းများကို တံဆိပ်ခေါင်းစု စာအုပ်တွင် အစီအစဉ် ကျနသေသပ်စွာ ထည့်သွင်းထားရလေသည်။ စုဆောင်းထားမည့် တံဆိပ်ခေါင်းကို စာအိတ်မှ ခွာယူသည့်အခါ အဆောတလျင် မခွာဘဲ၊ မစုတ်မပြဲရအောင် ရေစိမ်၍ဖြစ်စေ၊ ရေနွေးငွေ့ခံ၍ဖြစ်စေ သေချာစွာ ခွာယူရသည်။

တံဆိပ်ခေါင်း စုဆောင်းခြင်းကို စံနစ်တကျ ပြုလုပ်လိုသူများသည် တံဆိပ်ခေါင်းများ၏ အရောင်အသွေး အမှတ် အသား ကွဲပြားမှု၊ ရေစာ၊ ရက်စွဲတံဆိပ် စသည့်တို့ကို လေ့လာနိုင်ရန်၊ မှန်ဘီလူး ကောင်းကောင်းကို အသုံးပြုရသည်။ အမျိုးအစားချင်း တူလျှင်၊ တကြိမ်တခါမျှ အသုံးမပြုရသေးသော တံဆိပ်ခေါင်းသည် အသုံးပြုပြီးသော တံဆိပ်ခေါင်းထက် တန်ဖိုးရှိတတ်၏။ သို့ရာတွင် ဤစည်းကမ်းချက်မှာ အခါခပ်သိမ်း မှန်သည်ဟု တထစ်ချ မယူဆအပ်ချေ။ တံဆိပ်ခေါင်း အတော်များများ စုမိသည့်အခါ၊ စံနစ်တကျ တံဆိပ်ခေါင်း စုဆောင်းသည့်အထဲမှ မိမိ သဘောအကျဆုံး တံဆိပ်ခေါင်း အမျိုးအစားများကို တဖန် ရွေးချယ်စိစစ်၍ သီးသန့်စုဆောင်းရပြန်သည်။ ရက်စွဲတံဆိပ် မထင်မရှား ရိုက်နှိပ်ထားသော တံဆိပ်ခေါင်းများသည် အသစ်နှင့်များစွာ မခြားနားလှသောကြောင့် အရေအတွက်ပင် နည်းစေကာမူ၊ ညစ်ထေးစုတ်ပြတ်သော တံဆိပ်ခေါင်း အမြောက်အမြားထက် တန်ဖိုးရှိလေသည်။

သေချာကျနစွာ စုဆောင်းထားသော တံဆိပ်ခေါင်းများသည် စံနစ်တကျ ရေးမှတ်ထားသော အမှတ်အသား စာတမ်းများ ပါရှိရသည်။ တံဆိပ်ခေါင်း စုဆောင်းသူသည် မိမိစုထားသောခေါင်း၏ အကြောင်းအရာသမိုင်းကို မှတ်တမ်း မတင်နိုင်လျှင် တံဆိပ်ခေါင်း စုဆောင်းခြင်း၏ အရသာနှင့် အကျိုးကျေးဇူးတို့သည် အလဟဿသာလျှင် ဖြစ်ရချိမ့်မည်။ ယခုခေတ်၌ စာများကို လေကြောင်းဖြင့် ပို့လေ့ရှိသောကြောင့်၊ လေကြောင်း စဖွင့်ရာ၌ အဦးဆုံး အသုံးပြုသော တံဆိပ်ခေါင်းများ၊ စံချိန်ပြု ပျံသန်းရာ၌ ပေးပို့သော တံဆိပ်ခေါင်းများသည် တန်ဖိုးများစွာ ထိုက်လေသည်။

စံနစ်တကျ စုဆောင်းထားသော တံဆိပ်ခေါင်းစု စာအုပ်ကို လှန်လှော၍ကြည့်ရလျှင်၊ ကမ္ဘာ့အရပ်ရပ်သို့ လှည့်နေရဘိသကဲ့သို့ရှင်း၊ နိုင်ငံအသီးအသီး၏ သမိုင်း ပထဝီဝင်ကို ဖတ်ရှုနေရဘိသကဲ့သို့ရှင်း၊ မြင်လာထင်လာနိုင်မည် ဖြစ်ပေသည်။ တံဆိပ်ခေါင်း စုဆောင်းမှု၌ ကျော်ကြားထင်ရှားသော ပုဂ္ဂိုလ်များမှာ ဗြိတိန်နိုင်ငံမှ ဆဋ္ဌမ ဂျော့ဘုရင်၊ အမေရိကန်နိုင်ငံမှ ကာနယ် ဂရင်း၊ ဩစတြီးယားမှ ဖွန် ဖာရာရီးတို့ ဖြစ်ကြ၏။

**တံမိုး**။ ။ခရာတံပိုး ကဒိုး — ရှု။



ကော်ဇောပေါ် တံမြက်လှဲရာ၌ ဓာတ်တံမြက်စည်းသည် အကောင်းဆုံးဖြစ်၏။

**တံမြက်စည်း။** ။တံမြက်စည်းသည် အရေးပါသော အိမ်ထောင်သုံးပစ္စည်းတခု ဖြစ်သည်။ ဖုန်နှင့် အမှိုက်သရိုက်တို့သည် ရောဂါပိုး ခိုအောင်းရာနေရာ ဖြစ်သဖြင့်၊ လူတို့၏ ကျန်းမာရေးကို ထိခိုက် ပျက်ပြားစေနိုင်သည်။ ထို့ကြောင့် ကျန်းမာသန့်ရှင်း ရောဂါကင်းအောင် အမှိုက်သရိုက်များကို ရှင်းလင်းရေးအတွက် တံမြက်စည်းသည် အလွန်အသုံးဝင်သော အိမ်ထောင်သုံးပစ္စည်း ဖြစ်ရလေသည်။

မြန်မာနိုင်ငံတွင် အသုံးပြုသော တံမြက်စည်းများမှာ မြက်တံမြက်စည်း၊ အုန်းတံမြက်စည်း၊ သစ်ခက်တံမြက်စည်းနှင့် ငှက်မွေးတံမြက်စည်းများ ဖြစ်သည်။ မြက်တံမြက်စည်းကို ပေ ၂၅၀၀ မှ ၅၀၀၀ အထိမြင့်သော တောင်ကုန်းများတွင် ပေါက်သည့် နတ်များပင်ခေါ် တံမြက်စည်းပင်ခေါ် ကျူပြင်တမျိုး၏ အကိုင်းအလက်များဖြင့် ပြုလုပ်ကြသည်။ ယင်းတံမြက်စည်းပင်ကို အရိုးရှော အလက်ပါ ခုတ်၍၊ နေလှမ်းပြီးနောက်၊ ခွဲထားသောကြိမ်ဖြင့် တဖက်လဲ သို့မဟုတ် ၂ ဖက်ကားဖြစ်အောင်စည်း၍ အသုံးပြုကြသည်။

အုန်းတံမြက်စည်းကိုမူ အုန်းလက်မှ ရွက်ဖတ်များကို သတ်ချ၍၊ ရိုးတံများကို ကြိမ်ဖြင့်စည်းရသည်။ ယင်းကို သမံတလင်းနှင့် မြေကြီးပေါ်တွင် လှဲကျင်းရန် အသုံးပြုသည်။ မျက်နှာကျက်ရှိ ကြပ်ခိုးနှင့် အမှိုက်များကို လှဲရန်လည်း ယင်းကို ဝါးတံရှည်တပ်၍ သုံးကြသည်။ မြေကြီးပေါ်တွင် အကြမ်းလှဲရန် ဝက်ချေးမနဲစသည့် အရိုးမာ၍ သေးသော အပင်မျိုးကို ခုတ်၍၊ အရွက်များကြွေအောင် နေလှမ်းကာ၊ သုံးလေးပင်စည်း၍ အသုံးပြုကြသည်။

မြန်မာနိုင်ငံတွင် တံမြက်စည်းများကို ဆိုင်များ၌သာမက၊ လမ်းလျှောက်၍လည်း ရောင်းသေးသည်။ အနောက်နိုင်ငံများ၌မူ တံမြက်စည်းကို ဆိုင်၌သာလျှင် အများအားဖြင့် ဝယ်ယူနိုင်သည်။ မြန်မာနိုင်ငံ၌ အသုံးပြုသော တံမြက်စည်းများသည် လက်လုပ်တံမြက်စည်းများ ဖြစ်သော်လည်း၊ အနောက်နိုင်ငံတွင် တံမြက်စည်းကို စက်ဖြင့်ပြုလုပ်ကြသည်။

အနောက်နိုင်ငံတွင် တံမြက်စည်းများကို အများအားဖြင့် လျှော်မျှင်များဖြင့် ပြုလုပ်ကြသည်။ အပင်မှလျှော်မျှင်များကို အခြောက်ခံပြီးနောက်၊ လက်ကိုင်တုတ်တံရှည် အဖျားတွင် ပတ်လည်ကပ်၍၊ ကြေးနန်းကြိုးဖြင့် ရစ်ပတ် ချည်နှောင်ရသည်။ ထိုသို့ချည်နှောင်ရာ၌ စက်ကိုအသုံးပြုသည်။ တုတ်တံများတွင် လျှော်များကို ချည်နှောင်ပြီးသောအခါ၊ တံမြက်စည်းတံများသည် ကတော့ပုံရှိသဖြင့်၊ ယပ်တောင်ကဲ့သို့ ခပ်ပြားပြား ပုံသဏ္ဌာန်နေအောင် ပြွတ်တူနှင့်ညှပ်၍ ဖိချပေးကာ၊ ပုံကျ အသားသေအောင်၊ ကြိုးဖြင့် ထပ်ချည်ရသည်။ တံမြက်စည်းတံများ မညီမညာရှိလျှင်၊ ညှိဖြတ်ပေး၍ အမျှင်တွင် အစေ့အသီးများ ကပ်နေလျှင်လည်း စက်ဖြင့်ဖိချခါ ထုတ်ပစ်ရသည်။

တံမြက်စည်းနှင့်အလားတူ ဖုန်နှင့်အမှိုက်သရိုက်တို့ကို ခါထုတ်လှဲကျင်းရာတွင် သုံးစွဲရသော အသုံးအဆောင်တခုမှာ ဝက်မှင်ဘီးဖြစ်သည်။ ဝက်မှင်ဘီးများတွင် အနုအကြမ်းဟူ၍ ၂ မျိုးနှစ်စားရှိသည်။

ကြမ်းတိုက်ရန်ဝက်မှင်ဘီးကို အုန်းဆံလျှော်မျှင်၊ စပါးပင်အမြစ်၊ မြက်ပင်အမြစ်များဖြင့် ပြုလုပ်ကြသည်။ မက္ကဆီကိုပြည်နယ်မှ ဝက်မှင်ဘီးကြမ်းများကို တမ်ပီကိုခေါ် လျှော်မျှင်တမျိုးဖြင့် ပြုလုပ်သည်။ အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့တွင် ဝက်မှင်ဘီးအကြမ်းများ ပြုလုပ်ရာ၌ ဆီတွင်ထည့်ပြုတ်ထားသော ကစ်တူးခေါ် လျှော်မျှင်တမျိုးကို အသုံးပြုသည်။ ယင်းအမျှင်များကို တစစီစု၍ ကြိုးဖြင့်စည်းကာ၊ အရည်ပျော်နေသော ကတ္တရာစေးတွင် နှစ်ပြီးလျှင်၊ ထို အပင်စည်းများကို သစ်သားလက်ကိုင်တွင် ဖောက်ထားသည့် အပေါက်များအတွင်းသို့ လိမ်၍ ထိုးသွင်းရသည်။

ဝက်မှင်ဘီးနုများကို များသောအားဖြင့် ဝက်မွေးဖြင့် ပြုလုပ်ကြသည်။ ထိုဝက်မွေးများကို ကြေးနန်းကြိုးဖြင့် စုချည်ပြီးနောက် လက်ကိုင်တွင် ဖောက်ထားသော အပေါက်များထဲသို့ ထိုးသွင်းကာ ကြိုးဖြင့် အတိုင်အဖောက် ချည်ရသည်။ ထို့နောက် လက်ကိုင်ပေါ်တွင် သစ်သားပြား

ခပ်ပါးပါးကို ကော်ဖြင့်ကပ်ထားသည်။ အချို့ဝက်မှင်ဘီး လက်ကိုင်များကို ဆင်စွယ် သို့မဟုတ် အရိုးစသည်တို့ဖြင့် ပြုလုပ်ကြသည်။ ယခုခေတ်တွင် ဝက်မှင်ဘီးလုပ်ကိုင်ရာ၌ စက်ဖြင့် အဆင့်ဆင့်ပြုလုပ်ကြသည်။ ဆင်စွယ် အရိုးစသည့် လက်ကိုင်များကိုလည်း လက်ဖြင့် ပုံအမျိုးမျိုး ပြုလုပ်ကြသည်။

ရိုးရိုးတံမြက်စည်းများ၊ ဖုန်သုတ်အဝတ်များဖြင့် အိမ်ကိုလှဲကျင်းသုတ်သင်ရာတွင် သေသေသပ်သပ် မပြုလုပ်တတ်ပါက၊ ဖုန်များလွင့်၍ ရောဂါပိုးများ ပျံ့နှံ့တတ်သည်။ ထို့ကြောင့် လောကဓာတ်ပညာ တိုးတက်လာချိန်တွင် ကျန်းမာရေးနှင့်ညီညွတ်သော ဓာတ်တံမြက်စည်းကို အသုံးပြုကြသည်။ ယင်းဓာတ်တံမြက်စည်းမျိုးကို ၁၉၀၁ ခုနှစ်တွင် အိပ် စီ ဗု ဆိုသူ ပုဂ္ဂိုလ်တဦးက တီထွင်ခဲ့သည်။ ဓာတ်တံမြက်စည်းတွင် လေစုတ်ယူသော ပိုက်တခုပါ၍၊ ထိုပိုက်နှင့်ဆက်ကာ ရော်ဘာပိုက်တခုကို သွယ်ထားလေသည်။ ပိုက်ခေါင်းတွင် ပါးစပ်ပေါက်ကဲ့သို့ ခပ်ဝိုင်းဝိုင်းအပေါက်ရှိ၍၊ ယင်းအပေါက်ဝကို လှဲကျင်းမည့်ပစ္စည်းနှင့် ထိထားရလေသည်။ အပေါက်ဝမှ စုတ်ယူလိုက်သော ဖုန်အမှိုက်စသည်တို့သည် ပိုက်နှင့်တဆက်တည်းတပ်ထားသော အဝတ်အိတ်တွင်းသို့ ရောက်သည်။ ထိုအိတ်ကို အလွယ်တကူဖြုတ်၍ အမှိုက်များကို စွန့်ပစ်နိုင်သည်။

ဓာတ်တံမြက်စည်းကို လျှပ်စစ်ဓာတ်မီးသွယ်ပြီးသော အဆောက်အအုံ၌ အသုံးပြုနိုင်သည်။ ယင်းကိရိယာကို လျှပ်စစ်ဓာတ်အားဖြင့် လှည့်ပေးမှ လေအရှိန်ရကာ၊ ဖုန်များကို စုတ်ယူနိုင်သည်။ စတင်တီထွင်စက ယခုခေတ် ဓာတ်တံမြက်စည်းစက်မျိုးကဲ့သို့ မပေါ့ပါးသဖြင့် မော်တော်ကားဖြင့် တအိမ်မှတအိမ်သို့သယ်ကာ လှဲကျင်းမည့်အိမ်ရှေ့တွင် စက်ကိုချ၍၊ ပိုက်လုံးကို အိမ်ထဲသွင်းပြီးနောက် လှဲကျင်းရသည်။ ယခုမူ ပေါ့ပါးသော ဓာတ်တံမြက်စည်းကလေးများ ထွင်နိုင်ခဲ့သဖြင့် ယင်းကို ခေတ်မှီအိမ်တိုင်းတွင် နေ့စဉ် အသုံးပြုကြသည်။

**တံလှပ်**။ ။အပြောကျယ်သော သဲကန္တာရကို ကုလားအုပ်များဖြင့် ဖြတ်သန်း သွားလာကြရသူတို့သည် သဲကန္တာရအလယ်တွင် စိမ်းစိမ်းစိုစိုနှင့်တည်ရှိသည့် အိုအေးဆစ်များကိုသာ မှီခိုအားကိုး၍ ခရီးသွားကြရ၏။ ထိုအိုအေးဆစ်များသို့ရောက်မှ ခရီးတထောက်နား၍ စခန်းချကာ သောက်ရေသုံးရေတို့ကို ချိုးသုံးကြရသည်။ တခါတရံတွင်မူ အိုအေးဆစ်စခန်းနှင့် ကွာလှမ်းလျက်ရှိစဉ်မှာပင် ခပ်လှမ်းလှမ်း၌ တောတန်းသဖွယ် စိမ်းလန်းစိုပြည်သည့် အိုအေးဆစ်တခုကို အံ့သြစွာ တွေ့မြင်ရတတ်၏။ တွေ့လိမ့်နိုးနှင့် တိုး၍သွားသောအခါ ထိုအိုအေးဆစ်မှာ ပျောက်ကွယ်၍သွားတော့သည်။ စင်စစ်သော်ကား ယင်းမှာ တကယ့် အိုအေးဆစ် မဟုတ်ချေ။ မမြင်နိုင်လောက်အောင် ဝေးကွာသောအရပ်ရှိ အိုအေးဆစ်တခု၏ ပုံတူရိပ်ကို မြေမျက်နှာပြင်အနီးရှိ လေပူက ရောင်ပြန်ဟပ်လိုက်သည့် အရိပ်သာလျှင်ဖြစ်၏။ ဤသို့လေ၏လှည့်စားမှုကြောင့် အကယ်မရှိသည့် အရာဝတ္ထုများကို ရှိဘိသကဲ့သို့ ထင်ယောင်ထင်မှားမြင်စေသော ပုံမျိုးကို တံလှပ်ဟု ခေါ်ဆိုကြလေသည်။ တံလှပ်များကို ပင်လယ်သမုဒ္ဒရာများတွင်လည်း တွေ့မြင်ရတတ်သည်။

တံလှပ်ဖြစ်ပေါ်ပုံမှာ ဤသို့တည်း။ အရာဝတ္ထုမှ အလင်းတန်းတို့သည် သာမန်အားဖြင့် လေထဲတွင် ဖြောင့်တန်းစွာ ဖြတ်၍သွားကြရာ၊ ထိုအလင်းတန်းများ မျက်စိထဲသို့ ဝင်ရောက်လာသောအခါ၊ အလင်းတန်းများလာရာ အရပ်မျက်နှာ၌ အဆိုပါအရာဝတ္ထုကို မြင်ရလေသည်။ နေပူပြင်းသည့် နေ့များတွင်၊ မြေပြင်နှင့်ကပ်လျက်ရှိသော လေလွှာသည် ပူနေ၍၊ ထိုလေလွှာအထက်တွင် အေးနေသောလေလွှာ ရှိပြန်သည်။ ကျွန်ုပ်တို့သည် သာမန်အားဖြင့် မျက်စိတဆုံးမြင်ရာ၌ မိုးကုပ်စက်ဝိုင်း အပေါ်ဖက်ရှိ အရာဝတ္ထုများကိုသာ မြင်နိုင်သည်။ သို့သော်၊ ကျယ်ပြောသော သဲကန္တာရထဲ၌၊ အထက်ပါအတိုင်း လေပူနှင့်လေအေးတို့သည် အထပ်လိုက်ဖြစ်နေသော အခါမျိုးတွင်၊ မိုးကုပ်စက်ဝိုင်းအောက်ဖက်ရှိ အိုအေးဆစ်စခန်းမှ အလင်းတန်းတို့သည် လေပူအထပ်ကိုဖြတ်သန်းခိုက် လမ်းကြောင်းတိမ်းပြီးနောက် အောက်ဖက်သို့ယိုင်၍ ကျွန်ုပ်တို့မျက်စိထဲသို့ ဝင်ရောက်လာကြသည်။ ထိုအခါ၊ မျက်စိထဲသို့ အလင်းတန်း ဝင်ရောက်လာရာ လမ်းကြောင်းနှင့်တည့်တည့်ဖြစ်သော ကောင်းကင်၌၊ အဆိုပါ အိုအေးဆစ်စခန်းကို အကယ်ပင်ရှိဘိသကဲ့သို့ ကျွန်ုပ်တို့မြင်ရလေသည်။

သမုဒ္ဒရာအတွင်း၌၊ အထူးသဖြင့် မြောက်ပိုင်းသမုဒ္ဒရာများ အတွင်း၌၊ သင်္ဘောများ မိုးပေါ်ပျံနေဟန် မြင်ရတတ်သော တံလှပ်မျိုးမှာလည်း အထက်ဆိုခဲ့သည့်အတိုင်း အလင်းတန်းများ ယိုင်သောကြောင့်ပင်ဖြစ်၏။ သို့သော် သဲကန္တာရနှင့် ဆန့်ကျင်ပုံမှာ၊ ရေပြင်နှင့်ကပ်နေသော လေလွှာသည် အေး၍၊ လေပူလွှာက အပေါ်ဖက်တွင်ရှိပြီးလျှင်၊ ထိုလေပူလွှာက အလင်းတန်းများကို ယိုင်စေခြင်းဖြစ်လေသည်။

တခါတရံတွင်လည်း၊ အဆိုပါ လေလွှာထပ်တို့သည် သိပ်သည်းဆချင်း မတူကြသောကြောင့်၊ အပေါ်ဖက်၌ အရိပ်တခု၊ အောက်ဖက်၌ကပ်လျက် စောက်ထိုးပေါ်နေသော အရိပ်တခု၊ ပေါင်း အရိပ်နှစ်ခုတွဲနေပုံကို မြင်ရတတ်သေးသည်။ ထိုအခါမျိုး၌၊ တခါတရံ ကောင်းကင်မှ တိမ်တောင် တိမ်လိပ်တို့အရိပ်လည်း တစိတ်တဒေသ ပါဝင်နေ

တတ်ရာ၊ မြင်ရသောအရိပ်မှာ အဝေးရှိ ရေကန်တခုခုကို မြင်ရပုံနှင့် မခြားတော့ပေ။

ဂုတလီကျွန်းဆွယ်နှင့် စစ္စလီကျွန်းအကြားရှိ မက်ဆီးနား ရေလက်ကြား၌ တံလှပ်တမျိုးကို တွေ့ရတတ်သေးသည်။ ယင်းတံလှပ်တွင် မက်ဆီးနားမြို့ရှိ တိုက်တာ အဆောက် အအုံနှင့်တကွ သစ်ပင်အရိပ်၊ လူအရိပ်တို့သည် ကောင်းကင်၌ ပျံ၍နေကြသည်ကို မြင်ရသည်။ လေလွှာများက အကြီး ချဲ့ထားသည့်အတွက်လည်း အရိပ်များမှာ ကြီးသည့်နေရာ တွင် ကြီး၍နေသည်။ ရှေးအခါက လူများသည် မော်ဂါနာ အမည်ရှိ နတ်သမီးက ဖန်ဆင်းသည့်မြို့အမှတ်ဖြင့် ယုံကြည် လာခဲ့ကြသောကြောင့် ယင်းတံလှပ်သည် 'ဖါတာ မော် ဂါနာ' ဟုတွင်၏။

**တမ်းချင်း**။ ။တမ်းချင်းဟူသည်မှာ သခ်ါရမ္မကို ဆင် ခြင်၍၊ သံဝေဂ ရယူဖွယ်တို့ကို တမ်းတဖွဲ့နွဲ့သော ကဗျာ တမျိုးဖြစ်သည်။ ထိုတမ်းချင်းမျိုးကို စာပေသမိုင်းတို့၌ ၁၁၁၀ ပြည့်နှစ် ဟံသာဝတီပါမင်းတရားလက်ထက် အင်းဝ ပျက်သောအခါတွင်၎င်း၊ ၁၂၄၇ ခုနှစ် သီပေါမင်းလက်ထက် မန္တလေး ပျက်သောအခါတွင်၎င်း ခေတ်၏သဘောကို ဆင် ခြင်သုံးသပ်သည့် ပညာရှင်တို့ စပ်ဆိုထားသည်ကို တွေ့ရ၏။ တမ်းချင်း၏သဘောသည် လောကီ လောကုတ် နှစ်ဖြာစလုံး နှင့် အကျုံးဝင်သည်။ လွမ်းချင်းမှာကား လောကီကြောင်း သက်သက်ဖြစ်၍၊ ချစ်သူတို့အား လွမ်းဆွတ် အောက်မေ့ သည့် သဘောကိုသာ ပြလေ့ရှိပေသည်။ (လွမ်း ချင်း — ရှု။)

တမ်းချင်းကိုစပ်ဆိုရာ၌ အဆုံးသတ် အချပိုဒ်များသည် အခြားသော ပျို့၊ ရတုစသည့် ကဗျာများ၏ အဆုံးသတ် အချပိုဒ်များနှင့် မတူချေ။ တမ်းချင်း၏ အဆုံးသတ် အ ချပိုဒ်များမှာ ပဌမ၊ ဒုတိယဟူ၍ နှစ်ပိုဒ်ရှိသည်။ အချပိုဒ် တခုလျှင် ၇ လုံးကျစီ ရှိရ၏။ သို့ရာတွင် ကဗျာချနည်း ကြိယာ ၆၀ အတိုင်းမချမူဘဲ၊ ပဌမအချပိုဒ်၏ နောက်ဆုံး အက္ခရာကို 'လေ' ဖြင့်၎င်း၊ ဒုတိယအချပိုဒ်၏ နောက်ဆုံး အက္ခရာကို 'လေး' ဖြင့်၎င်း ချလေ့ရှိသည်။ ပုံစံပြရမည် ဆိုသော်၊ ဟံသာဝတီပါမင်းဆို အဝပျက်တမ်းချင်း အပုဒ် တိုင်း၏ အဆုံးသတ် အချပိုဒ်များ၌ 'သုံးအင်ပိဋကတ်၊ စုံညီ ညွတ်မျှ၊ ထေရ်မြတ်သံဃာ၊ အရိယာနှင့်၊ ရောင်ဝါပရွှင်း၊ တလင်းလင်းသည်၊ ထွန်းဝင်း သာသနာတည့်လေ။ ။မြန် ခန်း မင်းဝံချာတည့်လေး။ ။' ဟု၎င်း၊

'ဆည်းလည်းကျုံကျုံ၊ လူသံဆိတ်ဆိတ်၊ တိတ်တိတ်ပွေပွေ၊ လေတဟုန်းဟုန်း၊ တမှုန်းမှုန်းနှင့်၊ ချုန်းချုန်းသိမ့်သိမ့်၊ ခြိမ့် ခြိမ့်သံထင်၊ တွေ့ရမြင်သည်၊ ကြောင်းအင် ထွေတလာတည့် လေ။ ။ဖြစ်မြဲ ဓမ္မတာတည့်လေး။ ။' ဟု၎င်း၊

'ထောက်ထားဆည်ဖြေ၊ ပြေကြောင်းဖြေလည်း၊ မပြေ နိုင်ပဲ၊ တလဲလဲသည်၊ ထင်မြဲ နတ်မြောက်ရွာတည့်လေ။ ။ မြန်ခန်း ယဉ်သီတာတည့်လေး။ ။' ဟု၎င်း တမ်းတ စပ် ဆိုခဲ့၏။ ထိုနောက် သာသနာပိုင် တောင်ခွင် မဟာသံဃ ရာဇာ သာသနာပြု ဆရာတော်ဆို မန္တလေးပျက် တမ်းချင်း အပုဒ်တိုင်း၏ အဆုံးသတ် အချပိုဒ်များ၌လည်း၊

'မြစ်ရိုးရော၊ နာဝါသဘော်၊ ရေကြောစုန်ဆင်း၊ ခြေလျင် ခြင်းလျှင်၊ ခပင်းများစွာ၊ ပြေးကြရွာလည်း၊ ချမ်းသာမရ၊ ဝဋ္ဋဒုက္ခသည်၊ တွေ့ကြ ဓမ္မတာ တည့်လေ။ ။မြန် တိုင်း မန္တလာတည့်လေး။ ။' ဟု၎င်း၊

'မုဆိုးစားကြွင်း၊ ဆန်တတင်းဟု၊ ရှေးရင်းမဆွ၊ မှန် မောလှ၍၊ ဒသမနောက်၊ ပြည်ကြီးမှောက်သည်၊ ယွင်း ဖောက် ကံကြမ္မာတည့်လေ။ ။မြန်တိုင်း ရတနာတည့် လေး။ ။' ဟု၎င်း၊

'ရှေးကံပုဗ္ဗ၊ ကုန်ခါန်ကျ၍၊ ကမ္မသကာ၊ ဒေသနာနှင့်၊ ဆံလွှာမခွ၊ ညီမောလှလျက်၊ သူ့ဇာတက၊ တေဇမဖြိုး၊ စဉ်း လက်ညှိုး၍၊ ထီးကျိုးစည်ပေါက်၊ ပျက်ကိန်းရောက်သည်၊ မှတ်လောက် တိတ်အလာတည့်လေ။ ။မြန်တိုင်း တောင် သေလာတည့်လေး။ ။' ဟု၎င်း ရေးစပ် တမ်းတခဲ့ ပေသည်။

**တိန်ညင်းငှက်မျိုး**။ ။တိန်ညင်း (ဝါ) ဒိန်ညင်းဟုခေါ် သော ငှက်မျိုးကို အရပ်အခေါ် အားဖြင့် ပိန်ညင်း၊ ပီညင်း ဟုလည်း ခေါ်ကြသည်။ ထိုငှက်မျိုးသည်၊ ဗြိတိသျှကျွန်း စုမှ အာဖရိကတိုက် မြောက်ပိုင်းအထိ ပျံ့နှံ့၍၊ အာရှတိုက် တလျှောက် ဂျပန်နိုင်ငံအထိ တွေ့ရှိနိုင်သည်။ မြန်မာနိုင်ငံ၌ လည်း အတွေ့ရများသည်။ ပါဏဗေဒအားဖြင့် 'အယ်လစီ ဒင်နီဒီး' မျိုးရင်းတွင် ပါဝင်သည်။ မျိုးစိတ်၏အမည်မှာ 'အယ်လစီဒို' ဖြစ်သည်။



ပိန်ညင်းဟူ၍လည်းခေါ် သည့် တိန်ညင်းငှက်

တိန်ညင်းငှက်သည် အလျား ၇ လက်မခန့်ရှိ၏။ များသောအားဖြင့် ရေမျက်နှာပြင်နှင့် နီးကပ်စွာ ပျံသန်းလေ့ရှိ၍၊ အလွန် လျင်မြန်ဖြောင့်တန်းစွာ ပျံနိုင်သည်။ ထိုငှက်သည် ပျံသန်းနေစဉ်၊ စူးရှမာကျောသော အသံဖြင့် အော်တတ်သည်။ နားနေသောအခါတွင် အသံ ခပ်အုပ်အုပ်ဖြင့် မကြာမကြာ အော်တတ်သည်။

တိန်ညင်းငှက်သည် ရေချိုဒေသများ၌ ကျက်စားလေ့ရှိ၍၊ တောတွင်းရှိ ချောင်းမြောင်းများ၌ တွေ့ရသည်။ သစ်ကိုင်းသို့မဟုတ် သစ်ငုတ်ပေါ်တွင်နားနေ၍၊ အစာကို တွေ့သည်နှင့်တပြိုင်နက်၊ ရေထဲသို့ ရုတ်ခြည်းငုပ်လျှိုး၍ ဖမ်းတတ်သည်။ တခါတရံတွင် ပျံဝဲနေရာမှ ရေထဲသို့စိုက်ချကာ ဖမ်းဆီးတတ်သည်။ ဖမ်းဆီးရမိသော ငါးကြီးများကို သစ်ကိုင်းပေါ်တွင် ရိုက်ပြီးမှ ခေါင်းကစ၍မျိုသည်။

တိန်ညင်းသည် ရန်လိုသောငှက်မျိုးဖြစ်သည်။ အခြားတိန်ညင်းငှက်များ မိမိ၏စားကျက်သို့ လာရောက်သည်ကို မနှစ်မြို့ချေ။ နားသောအခါ တည့်တည့်နားတတ်၍၊ မကြာမကြာ ဦးခေါင်းကို ငုံ့လိုက် ဖော်လိုက်၊ အမြီးခတ်လိုက်နှင့် နေတတ်သည်။

တိန်ညင်းငှက်သည် အခြားငှက်များကဲ့သို့ အချိန်မှန် သားပေါက်ခြင်း မပြုပေ။ များသောအားဖြင့် မတ်လမှ ဇွန်လအတွင်း၌ အုတတ်၏။ အသိုက်ကို သစ်ပင်ပေါ်တွင် မဖွဲ့ဘဲ၊ ချောင်းနံပါးနှင့် မြစ်ကမ်းပါးတလျှောက်တွင် တွင်းတူး၍ပြုလုပ်တတ်သည်။ တွင်းများ၏ အလျားမှာ ၁ ပေမှ ၅ ပေအထိ ရှည်သည်။ တမြုံလျှင် ၄ ဥမှ ၇ ဥအထိ ရှိတတ်သည်။ ဥသည် ဖြူ၍ ခပ်လုံးလုံးဖြစ်သည်။ ဥခွံမှာ ချောမွတ်၍ ပြောင်လက်သည်။ တဥလျှင် ပျမ်းမျှအလျား ၀.၈ လက်မနှင့် ပြက် ၀.၇ လက်မရှိသည်။ တိန်ညင်းငှက်မှာ တိန်ညင်းကျား၊ တိန်ညင်းရင်ဖြူ၊ တိန်ညင်းခေါင်းမဲ၊ ဆင်တိန်ညင်းဟူ၍ အမျိုးများစွာ ရှိသေးသည်။

တိန်ညင်းကျားသည် အလျား ၁၂ လက်မရှိသည်။ မြန်မာနိုင်ငံ ဧရာဝတီမြစ်နှင့် အခြားမြစ်များ ချောင်းများတွင် အတွေ့ရများသည်။ တမြုံလျှင် ၄ ဥမှ ၆ ဥထိရှိ၍၊ ဥ အရွယ်မှာ ပျမ်းမျှအလျား ၁.၂ လက်မနှင့် ပြက် ၀.၉၅ လက်မ ရှိသည်။ ထိုငှက်မျိုးမှာ အီဂျစ်နိုင်ငံမှ တရုပ်နိုင်ငံအထိ ပျံ့နှံ့နေသည်။

တိန်ညင်းခေါင်းမဲသည် အလျား ၁၂ လက်မရှိ၍၊ ငှက်ကလေးများ၏ ရင်ပတ်သည် မည်းနက်နေသည်။ တိန်ညင်းခေါင်းမဲ၏ ဥအရွယ်မှာ အလျား ၁.၁၇ လက်မနှင့် ပြက် ၁.၀၄ လက်မရှိသည်။ မြန်မာနိုင်ငံ ပင်လယ်ကမ်းရိုးတန်း တလျှောက်၌ တွေ့ရသည်။

တိန်ညင်းရင်ဖြူသည် အလျား ၁၁ လက်မရှိ၍၊ ပျံသန်းရာတွင် တောင်ပံ၌ အဖြူကွက်ကို ထင်ရှားစွာ မြင်နိုင်သည်။ ကျွန်းတော၊ ကွင်းပြင်နှင့် လယ်တောများ၌လည်း တွေ့ရသည်။ ပိုးမွှား၊ အိမ်မြှောင်၊ ဖားများကို စားသည်။ နွေဥတု၌ သားပေါက်လေ့ရှိသည်။ တဥလျှင် ပျမ်းမျှအလျား ၁.၁၅ လက်မနှင့် ပြက် ၁.၀၅ လက်မရှိသည်။ ထိုငှက်မျိုးကို အာရှမိုင်းနားမှသည် အိန္ဒိယနိုင်ငံနှင့် ကမ္ဘာအရှေ့ဖျားနိုင်ငံများအထိ တွေ့နိုင်သည်။ မြန်မာနိုင်ငံတွင် တောင်ခြေနှင့် ကွင်းပြင်များ၌ ကျက်စားလေသည်။

ဆင်တိန်ညင်းမှာ အလျား ၁၄ လက်မခွဲရှိသည်။ အတောင်တွင် အစင်းအတန့်များရှိ၍၊ ရင်အုပ်ပေါ်ရှိ အစင်းအတန့်များမှာ ကျယ်ပြန့်သည်။ ကျယ်လောင်သောအသံကြောင့်ဖြင့် အော်တတ်၍၊ ဖိုသံ မသံ ပေးတတ်သည်။ ဆင်တိန်ညင်းကို ကျွန်းတောများရှိ စမ်းချောင်းများနှင့် လယ်ကွင်းများထဲတွင် တွေ့ရသည်။ လူကိုကြောက်သောငှက်မျိုးမဟုတ်ချေ။ နားနေရာမှ ငါးများကို ထိုးသုတ်တတ်သည်။

နွေဥတုတွင် ဆင်တိန်ညင်းငှက်ကလေးများ ပေါက်ကြသည်။ မြစ်ချောင်းကမ်းပါးတွင်သာမက တောင်ပို့တွင် တွင်းတူး၍ဖြစ်စေ၊ သစ်ခေါင်းထဲတွင်ဖြစ်စေ၊ အသိုက်ဖွဲ့တတ်သည်။ ဝါးရုံပင်အကြားရှိ အသိုက်ဟောင်းများကို ပြုပြင်၍လည်း နေလေ့ရှိသည်။ တဥလျှင် ပျမ်းမျှအလျား ၁.၄၃ လက်မနှင့် ပြက် ၁.၂၂ လက်မရှိသည်။

ဆင်တိန်ညင်းငှက်များကို အရှေ့နိုင်ငံများတွင် အများအပြား တွေ့ရသည်။ မြန်မာနိုင်ငံတွင် အမြဲတမ်း ပေ ၄၀၀၀ အမြင့်အထိ တွေ့ရသည်။ ရန်ကုန်မြို့ အနီးအနားရှိ ရေအိုင်များတွင်လည်း တွေ့ရတတ်သည်။

**တိမ်**။ ။ကောင်းကင်၌ ရေငွေ့များ ငွေ့ရည်ဖွဲ့နေသည်ကို တိမ်ဟုခေါ်ကြသည်။ ငွေ့ရည်ဖွဲ့ရာတွင် ရေစက်ကလေးများ အဖြစ်ဖြင့်၎င်း၊ ရေခဲတုံးကလေးများ အဖြစ်ဖြင့်၎င်း ပါရှိနိုင်သည်။ ရေစက်ကလေးများ ပါဝင်သည့် တိမ်သည် အမြင့်၌ရှိသော မြူထုများသာဖြစ်၏။ တောင်တက်သူများသည် တောင်ထိပ်ပိုင်း၌ တိမ်များဖုံးလွှမ်းလျက်ရှိသည်ကို မြင်ရပေမည်။ ထိုနောက် သူတို့ကိုယ်တိုင် မြူထုများအတွင်း၌ ရောက်နေသည်ကို တွေ့ရပေမည်။ တောင်ထိပ်နှင့် နီးလာသောအခါ သူတို့သည် မြူထုများမှ ထွက်လာကြရမည်ဖြစ်၍ အောက်သို့ကြည့်လိုက်လျှင် တိမ်များသည် သမုဒ္ဒရာအတွင်း၌ လှိုင်းတံပိုးများ ထနေသကဲ့သို့ တအိအိလှုပ်ရှားနေသည်ကို မြင်ကြရပေမည်။

တိမ်သည် ရေ၏မျက်နှာပြင်ပေါ်သို့ နေရောင်ခြည်များကျရာမှ ဖြစ်လာခြင်းဖြစ်၏။ နေရောင်ခြည်များ ရေပေါ်သို့ ကျသောအခါ၌ ရေအချို့သည် အငွေ့ပျံ၏။ တနည်းအားဖြင့်ဆိုသော်၊ လေသည် ရေငွေ့ကို စုတ်ယူလိုက်၏။



မြေမှ ၅ မိုင်ကွာ၌ တွေ့ရလေ့ရှိသည့် ဆစ်ရပ်ခေါ် တိမ်မျှင်

အပူချိန်မြင့်လျှင် လေသည် ရေငွေ့များများကို ဆောင်ထားနိုင်လေသည်။ ရေငွေ့ကို နောက်ထပ်၍ မဆောင်နိုင်သောလေကို ရေငွေ့နှင့်ပြည့်ဝနေသောလေဟု ခေါ်သည်။ ထိုနောက် လေအေးလာသောအခါ၌ ရေငွေ့အချို့သည် ငွေ့ရည်ဖွဲ့လေသည်။ ထိုအခါ တိမ်များ ဖြစ်လာပေသည်။ ထိုသို့ ငွေ့ရည်ဖွဲ့သည့်အချိန်တွင် လေ၏အပူချိန်သည် ရေခဲသည့်အမှတ်၏ အပေါ်တွင်ရှိလျှင် ရေစက်ကလေးများ ဖြစ်လာကြပေမည်။ အကယ်၍ ရေခဲသည့်အမှတ်အောက်တွင် ရှိလျှင်ကား၊ ရေခဲတုံးကလေးများ ဖြစ်လာကြပေမည်။ ထိုရေခဲတုံးကလေးများသည် ခရစ္စတယ်ခေါ် ပုံဆောင်ခဲများ ဖြစ်ကြ၏။

တိမ်များသည် အစဉ်သဖြင့် ပုံသဏ္ဌာန် ပြောင်းလဲလျက် ရှိကြ၏။ ထိုသို့ဖြစ်ရခြင်းမှာ တိမ်တို့တွင်ရှိသော အစိတ်အပိုင်းများသည် ရေငွေ့နှင့်ပြည့်ဝမနေဘဲ၊ ပို၍နွေးသည့် လေများနှင့် တွေ့သောအခါ၌ အငွေ့ပျံခြင်းကြောင့် ဖြစ်သည်။

ဖြစ်ပေါ်လာမည့် မိုးလေဝသ အခြေအနေကို အများအားဖြင့် တိမ်ကိုကြည့်ကာ ကြိုတင်မှန်းဆ သိရှိနိုင်ကြသဖြင့်၊ မိုးလေဝသခန့်မှန်းသူများသည် တိမ်ကို အသေးစိတ်လေ့လာလေ့ရှိကြသည်။ လေနွေးထုနှင့် လေအေးထု ဆုံမိသောအခါတွင် တိမ်ဖြစ်လာ၏။ ထိုတိမ်ဖွဲ့ခြင်းကို လေ့လာ၍၊ လေကြောင်းခရီး၏ ရာသီဥတုကို ခန့်မှန်းနိုင်၏။ ဤသို့ ခန့်မှန်းကြည့်ခြင်းသည် အလွန်အရေးကြီး၏။ အဘယ်ကြောင့်ဆိုသော်၊ အနိမ့်ပိုင်းရှိ တိမ်များသည် လေယာဉ်ပျံ အဆင်း၌ဖြစ်စေ၊ အတက်၌ဖြစ်စေ၊ လေကြောင်းပြအား အာကာသ၌ မည်သို့ဖြစ်နေသည်ကို မမြင်နိုင်လောက်အောင် ကွယ်ထားသဖြင့် အခက်အခဲ ကြုံတွေ့စေနိုင်သည်။ အချို့တိမ်များတွင် အထက်နှင့်အောက် ပြင်းထန်စွာ တိုက်ခတ်နေသော လေစီးကြောင်းများ ရှိတတ်သဖြင့် လေယာဉ် ပျံသန်းခြင်းကို ခက်ခဲစေသည်။

ပုံသဏ္ဌာန်ကိုလိုက်၍ တိမ်ကို အမည်အမျိုးမျိုး ပေးထား၏။ အဓိက တိမ်ပုံသဏ္ဌာန်များမှာ တိမ်မြင့် (ဝါ) တိမ်မျှင်၊ တိမ်လွှာ၊ တိမ်တောင်၊ မိုးတိမ်တို့ဖြစ်သည်။

တိမ်မြင့် (ဝါ) တိမ်မျှင်ကို အင်္ဂလိပ်လို ဆစ်ရပ်ဟုခေါ်၏။ ဆစ်ရပ်ဆိုသည်မှာ လိပ်ခွေလျက်ရှိသော ဆံပင်ဟု အဓိပ္ပါယ်ရ၍၊ လိပ်ခွေလျက်ရှိသည့် ပုံဆောင်ရေခဲတိမ်ဖြူများကို ခေါ်သည်။ ဤတိမ်မျိုးသည် အခြားတိမ်မျိုး၏ အပေါ်တွင်ရှိ၍ အချို့သည် မြေကြီးနှင့် ၅ မိုင် သို့မဟုတ် ၁၀ မိုင်အထိပင် တက်ကြလေသည်။

တိမ်လွှာကိုမူ စတြေးတပ်ဟုခေါ်၍၊ ဖြာလျက်ရှိသည်ဟု









(၁) တိမ်တောင်ကလေးများဖြင့် ဖွဲ့လျက်တည်ရှိသည့် ဆစ်ရိုကျူမူလပ်ခေါ် တိမ်မြင့်တောင်။ (၂) အဲလတိုစတြေးတပ်ခေါ် တိမ်လတ်လွှာသည် တိမ်ချပ်ထူ၍ မဲ့ပြာရောင်ရှိသည်။ (၃) အဲလတိုကျူမူလပ် တိမ်မှာ အမြင့် ပေ ၈,၀၀၀ မှ ၂၀,၀၀၀ အထိ တွေ့ရတတ်သည့် တိမ်လတ်တောင်မျိုးဖြစ်သည်။ (၄) အမြင့်တမိုင်ခန့်တွင်ရှိ၍ မြေပေါ်တွင် အရိပ်ကိုမြင်နိုင်သည့် ကျူမူလပ်ခေါ် တိမ်ဖြူထု။

အခိပ္ပါယ်ရသည်။ မြူထူနှင့်တူသော တိမ်ကြီးများ ဖြစ်သည်။ ဤတိမ်မျိုးသည် အများအားဖြင့် မြေကြီးနှင့် အလွန်နီးရာတွင် ဖြစ်ပေါ်လေ့ရှိသည်။ နံနက်စောစောနှင့် ညနေစောင်းလွန်ချိန်များတွင် လေငြိမ်သည့်အခါ၌ ဤတိမ်မျိုးကို မကြာခဏ မြင်ရတတ်သည်။

တိမ်တောင်ကို ကျူမူလပ်ဟုခေါ်၍ အစုအပုံဟု အဓိပ္ပါယ်ရသည်။ နွေဥတုတွင် ကောင်းကင်ပြင်၌ လုပစွာ စုပုံလျက်ရှိသော တိမ်ဖြူထုကိုခေါ်သည်။ ဤတိမ်မျိုးသည် မြေကြီးနှင့် တမိုင်မျှခန့်အမြင့်တွင် ရှိတတ်၍၊ လျှင်မြန်စွာ ရွေ့ရှားနေသည့်အရိပ်ကို မြေကြီးပေါ်၌ ထင်စေတတ်သည်။ လေးလံသည့် ကျူမူလပ် တိမ်မျိုးများလာလျှင် မိုးရွာမည်ဟု ခန့်မှန်းနိုင်ပေသည်။

နင်းဗတ်ခေါ် တိမ်မှာ မီးခိုးရင့်ရောင်ရှိသော မိုးတိမ်များပင်ဖြစ်သည်။ ဤတိမ်မျိုး၌ ပုံသဏ္ဍာန် အတိအကျမရှိချေ။ မိုးတိမ်၏ အောက်ဖက်တဝက်သည် ရေငွေ့များနှင့် လေးလံလျက်ရှိပြီးလျှင် ထိုရေငွေ့များက မိုးရေအဖြစ် ရွာချတတ်သည်။

တိမ်အမြောက်အမြား ရှိရာတွင် ထိုတိမ်များရှိရာ အမြင့်ကို လိုက်၍ အမျိုးခွဲခြားခြင်းလည်း ရှိသေးသည်။

အဲလတို ကျူမူလပ်တိမ်မျိုးဟု ခေါ်သော တိမ်လတ်တောင်၊ တိမ်လိပ်သည် အဖြူရောင်ဖြစ်စေ၊ မှဲ့ပြာရောင်ဖြစ်စေ ရှိသော ကျူမူလပ် တိမ်ကလေးများ သိပ်သည်းစွာ စုနေခြင်းကိုခေါ်သည်။ ဤတိမ်မျိုးကို အမြင့်ပေ ၈,၀၀၀ မှ ပေ ၂၀,၀၀၀ အထိတွင် တွေ့ရသည်။

အဲလတို စတြေးတပ်တိမ်မျိုး (ဝါ) တိမ်လတ်လွှာသည် တိမ်ချပ်ထုဖြစ်၍၊ မှဲ့ပြာရောင်ရှိသည်။ ဤတိမ်မျိုးသည် မြေကြီးနှင့်အနီးတွင် ဖြစ်ပေါ်တတ်သည်။

ဆစ်ရို စတြေးတပ်တိမ်မျိုး (ဝါ) တိမ်မြင့်လွှာသည် ပုံဆောင်ရေခဲကလေးများနှင့် ပြည့်လျက်ရှိသည့် အဖြူရောင်ရှိသော တိမ်လွှာပါးဖြစ်သည်။ ဆစ်ရို ကျူမူလပ် (ဝါ) တိမ်မြင့်တောင်သည် ကျူမူလပ်တိမ်ကလေးများ စုနေခြင်းဖြစ်သည်။ ဤတိမ်မျိုးသည် ပေ ၂၀,၀၀၀ အထက်တွင် ဖြစ်ပေါ်လေ့ရှိသည်။

**တုံးချင်း**။ ။မြန်မာစာပေလောကတွင် သီချင်းသက်ဝင်ရာပါသော ကဗျာ ၂၂ မျိုးအနက် တုံးချင်းသည် အဖွဲ့အနွဲ့ တမျိုးပင်ဖြစ်၏။ တုံးချင်းသည် ဘုရားပွဲတော်အခါများ၌ တုံးမတိုက်မီ တဖက်နှင့်တဖက် အပြိုင်သီဆိုရသော သီချင်းတမျိုးဖြစ်ရာ၊ ရေးစပ်သောအခါတွင် တီးလုံးအသွားအလာ၊ အသံကာရန်၊ အခံ အအုပ် တူအောင်လိုက်၍သော်ငင်း၊ ကြေး၊ နှဲ၊ စောင်း၊ မိကျောင်း၊ ဈည်ချောင်း၊ တရော စသည်များနှင့် တီးချက် စည်းချက် ညီညွတ်အောင် သော်ငင်း ညှိနှိုင်းကာ ရေးစပ်ရသည်။ အချို့ဆရာများက တုံးချင်းကို ဓုန်းချင်းဟုရေး၍၊ ထုန်းထုန်းမြည်သောအသံမှ သက်ဆင်းဖြစ်ပေါ်လာသည်ဟု ဆိုလေသည်။

တုံးချင်း စတင်ပေါ်ပေါက်ခဲ့သောခေတ်ကား ကုန်းဘောင်ခေတ် ဒုတိယပိုင်း (သက္ကရာဇ် ၁၁၄၄–၁၂၃၇) ဟု ယူဆရသည်။ စတင်ကာ ရေးသားစပ်ဆိုခဲ့သူမှာကား ဖိုးသူတော် ဦးမင်းဖြစ်သည်ဟု ဆိုလေသည်။ ဖိုးသူတော် ဦးမင်းသည် တုံးချင်းစပ်ဆိုမှုတွင် ကောင်းမွန်နိုင်နင်းလှပေသည်။ အပြိုင်စာဆိုဖက်ဖြစ်သော လူဦးမင်းကို တုံးချင်းများ စပ်ဆိုဖွဲ့နွဲ့ကာ မခံချင်အောင် လှောင်ပြောင်သရော်ကော်ခတ်ခဲ့လေသည်။ သူ၏ တောင်သူကြီးရုပ် တုံးချင်းတွင်

'ခက်ရင်းစွယ်စုံ စိန်တောင်ကြီးနှင့်၊ ငါးစီးဆင်ပြောင်အားပေကို။ ။ဇမ္ဗူစိုးရ နတ်ရှင်ကျွန်၊ တုလို့ချွန်ရင် ခန္ဓာစံမယ်၊ ရဲရန်ညွန့်ဖြိုး။ ။ကိုးပိသာစီး ခေါ်းမကြီး၊ ရန်မီးသတ္တရု ငေါက်လျှင်ပြို၊ ကုန်းဘောင်ရွှေဘို ဘောင်ကနက်က၊ ဘေးဘိုးစဉ်ဆက် ခုတိုင်အောင်၊ ရေးတော်မရှောင် ထမ်းတဲ့ယောကျ်ား။ ယာလယ်လုပ်လို့ တောမှာပျော်၊ စီးပွားထင်ပေါ် ပြောင်းနှင့်စပါး၊ ပဲမျိုးအပြား ဘူးသခွါး၊ ကရားမြို့မ နယ်တခွင်၊ ဝါးနှမ်းစုံလင် ချဉ်ပေါင်ခင်းနှင့်၊ မကြင်း ခရမ်း၊ သီးမျိုးလျှမ်း၊ ပိုက်တန်းစည်းဝိုက် ရွှေယုန်ထောင်ကာ၊ ချိုးနှင့်ငုံးစာငယ်ကိုလေ၊ ပဒက်မွေးကြိုင်စွာ၊ ဇွန်လုံးထိန်ထိန်ဝါ၊ ရေယဉ်စီးတဲ့၊ တောမြိုင်သာ၊ ပြောင်းပဲရောရာ ဆန်တဝက်နှင့်၊ စပျစ်ကျင်းလျက်၊ ပြည့်အနှက်၊ လူပျိုချက်တဲ့ ဟင်းပါကို၊ ရောရောစုံ ချိုလှချည့်၊ အပျို ရွှေနံကားအောင်၊ စားပါလို့ ဖုံးဘော။ ။'ဟု တောင်သူကြီး၏လုပ်ငန်းများကို သရုပ်ပေါ်လွင်အောင် ဖွဲ့ဆိုခဲ့သည်။ ဟာသဂုဏ်မြောက်သော သီချင်းကဗျာများ ဖြစ်ပေ၏။

လူဦးမင်းကလည်း အရူး မင်းကျော်ရုပ် တုံးချင်းကိုငင်း၊ လူဦးမင်း၏တပည့် ဦးမင်းခေါင်ကလည်း ဖိုးသူတော်ရုပ် တုံးချင်းကိုငင်း၊ ပြန်လှန်ရေးသားစပ်ဆိုခဲ့ကြ၏။ မြန်မာစာပေလောကတွင် အခြားတွေ့ရှိရသေးသော တုံးချင်းများမှာ ဦးပုည စပ်ဆိုသော ယောကျ်ားကလေး တုံးချင်း၊ ကင်းဝန်မင်းကြီး စပ်ဆိုသော အင်္ဂါယုတ် ၁၈ ပါးအကြောင်း တုံးချင်း၊ ဥဇ္ဇာဝဇ္ဇာဆေးနည်း တုံးချင်း၊ စာဆိုတော် ဦးအင်း စပ်ဆိုသော အဖိုးကြီးအိုရုပ် တုံးချင်းနှင့် အမည်မသိစာဆို စပ်ဆိုသော ဝိဇ္ဇာခိုရံ တုံးချင်းများဖြစ်သည်။

**တုံးပျံ**။ ။တုံးပျံလွှတ်နည်းကို ရှေးနှစ်ပေါင်း ၇၀၀ ခန့်ကပင် လူတို့သိရှိခဲ့ကြသည်ဟု အဆိုရှိသည်။ တရုပ်လူမျိုးတို့သည် ယမ်းဖော်စပ်သည့်နည်းကို စတင် တွေ့ရှိခဲ့စဉ်ကပင်လျှင်၊ ဤတုံးပျံလွှတ်နည်းကို သိလာကြသည်ဟုဆိုသည်။ တုံးပျံ


တုံးပျံကိုပစ်လွှတ်လိုက်စဉ် ဤသို့ မတ်စွာ တက်သွားသည်ကို တွေ့ရပေသည်။

သည် မီးလောင်နေသည့်ဓာတ်ငွေ့များကို နောက်ပိုင်းမှထုတ်လွှတ်၍၊ ရှေ့သို့အရှိန်ဖြင့်သွားသည်။ ဓာတ်ငွေ့များသည် မီးလောင်၍ပြန့်ထွက်သောအခါ၊ ယင်းသို့ ပြန့်ထွက်သည်နှင့်အမျှ တုံ့ပြန်အားရှိလာသည်။ ထို့ကြောင့် တုံးပျံသည်နောက်ဖက်ရှိတစုံတခုကို တွန်းကန်သွားရန် မလိုဘဲနှင့် ရှေ့သို့သွားနိုင်ခြင်းဖြစ်သည်။ အလွန်မြင့်သော လေနည်းပါးရာနေရာများ၊ လေထုလုံးဝမရှိသော နေရာများ၌ပင် တုံးပျံများကို အသုံးပြုနိုင်ပေသည်။

၁၃ ရာစုနှစ်တွင် တရုပ်လူမျိုးတို့သည် မွန်ဂိုလူမျိုးများကို တုံးပျံများဖြင့် စစ်ခင်းတိုက်ခိုက်ခဲ့လေသည်။ ထိုနောက်ဥရောပတိုက်၌ တုံးပျံများကို စစ်တိုက်ရာတွင် စမ်းသပ်သုံးစွဲခဲ့ကြသည်။ သို့သော် အမြောက်များ တိုးတက်ကောင်းမွန်လာသောအခါ တုံးပျံများကို စစ်ပွဲ၌ အချက်ပြအဖြစ်ဖြင့်သာ သုံးစွဲခဲ့ကြလေသည်။ ၁၈၃၀ ပြည့်နှစ်မှ ၁၈၃၈ ခုနှစ်များတွင် လက်နက်ဆန်းအမျိုးမျိုးကိုအနိုင်နိုင်ငံ၌အပြိုင်အဆိုင် ပြုလုပ်လာကြသောအခါ တုံးပျံများကိုသုံးစွဲရန် ပြန်လည်လေ့လာကြလေသည်။ ၁၉၃၆ ခုနှစ်တွင် ဂျိုင်ရိုစကုပ်နှင့် ထိန်းပေးသော တုံးပျံကို ဂျာမန်ပါမောက္ခတဦးက ပေ ၇၅၀၀ အမြင့်တွင် တနာရီလျှင် မိုင် ၇၀၀ နှုန်းဖြင့် ပျံသန်းစေခဲ့သည်။ (ဂျိုင်ရိုစကုပ် — လည်းရှု။)

ဒုတိယကမ္ဘာစစ်အတွင်းက ပေါက်ကွဲစေတတ်သည့်ပစ္စည်းကို တုံးပျံများထဲ၌ထည့်ကာ ရန်သူကိုပစ်ခတ်ရန် အတွက် များစွာအသုံးပြုခဲ့ကြသည်။ ဂျာမန်အာဏာရှင် ဟစ်တလာက ဗြိတိန်နိုင်ငံကို အပြင်းအထန်တိုက်ခိုက်သည့် ခုနစ်လ အတွင်းတွင် အင်္ဂလန်နိုင်ငံ၌ကျခဲ့သည့် ဗွီ တူး တုံးပျံဗုံးပေါင်းမှာ ၁၀၅၀ ဖြစ်သည်။ ထိုဗုံးများအနက် တဝက်မျှသည် လန်ဒန်မြို့နှင့်အနီးတဝိုက်တွင် ကျရောက်ခဲ့လေသည်။ အမေရိကန်ပြည်ထောင်စု လေတပ်များကလည်း ရန်သူတို့၏ စစ်နှင့်စပ်လျဉ်းသည့်ဌာနအားလုံးကို တိုက်ခိုက်နိုင်ရန် တုံးပျံများကိုအသုံးပြုခဲ့ကြသည်။ ခဲယမ်းမီးကျောက်သိုလှောင်ရာဌာနများကို ဖျက်ဆီးပစ်ရန်အတွက် မီးလောင်တုံးပျံများကိုလည်း တီထွင်ခဲ့ကြသည်။ ထို့ပြင် သင်္ဘောများရှိ သစ်သားအစိတ်အပိုင်းတွင် စိုက်ဝင်၍ပေါက်ကွဲစေနိုင်မည့် အထူးတုံးပျံများကိုလည်း တီထွင်ခဲ့ကြသည်။ ထိုတုံးပျံမျိုး၏ရှေ့ဖက်တွင် သတ္တုအချွန်တခု တပ်ဆင်ထားသည်။ တုံးပျံကိုပစ်လွှတ်ရာတွင် နောက်သို့ပြန်ကန်ခြင်းမရှိသဖြင့် လေယာဉ်ပျံများမှပင် ပစ်လွှတ်နိုင်သည်။ ထို့ကြောင့် လေယာဉ်ပျံပစ် တုံးပျံများကို တီထွင်ခဲ့ကြသည်။ ထိုတုံးပျံမျိုးကို မြေကြီးပေါ်မှ ရေဒီယိုဖြင့်လည်း ထိန်းပေးနိုင်သည်။ ထိုတုံးပျံမျိုးဖြင့် ကမ္ဘာ့မျက်နှာပြင်မှ မိုင် ၅၀ အထက် ကောင်းကင်ပြင်အတွင်းရှိ အခြေအနေအမျိုးမျိုးကို လေ့လာနိုင်ပေသည်။ တုံးပျံအားတပ် တော်ပီဒိုများကိုလည်း တိုးတက်ကြံစည်လာနိုင်ခဲ့ကြသည်။ ထိုတုံးပျံတော်ပီဒိုများကို လေယာဉ်ပျံပေါ်မှချ၍၊ ရန်သူသင်္ဘောများကို ဖျက်ဆီးကြလေသည်။

တုံးပျံများတွင် လောင်စာခြောက်ကို အသုံးပြုသည့် တုံးပျံမျိုးနှင့် လောင်စာရည်ကို အသုံးပြုသည့် တုံးပျံမျိုးဟူ၍ တုံးပျံနှစ်မျိုးရှိသည်။ လောင်စာခြောက် တုံးပျံမျိုးတွင် ယမ်း သို့မဟုတ် 'ကော်ဒိုက်' ခေါ် မီးခိုးမထွက်သည့် လောင်စာခြောက်ကို အသုံးပြုသည်။ ထိုတုံးပျံမျိုးသည်


လသို့သွားရောက်ရန် တည်ထွင်လျက်ရှိသည့် တုံးပျံအိမ်ကြီး



မပစ်လွှတ်မီ တုံးပျံကြီးကို စမ်းသပ် စစ်ဆေး ကြည့်ရှုနေစဉ်

မီးရှူးမီးပန်းများနှင့် မခြားနားလှပေ။ ထိုတုံးပျံမျိုး၌ လောင်စာကိုမီးလောင်လျှင် တုံးပျံ၏အလျင်ကို မထိန်းနိုင်သဖြင့် အခက်အခဲနှင့် တွေ့ရတတ်လေသည်။ ခရီးဝေးဝေးသွားနိုင်သောအားကို ဖြစ်စေနိုင်မည့် လောင်စာအခြောက်သို့မဟုတ် လောင်စာခဲ ဖော်စပ်နည်းကို ယခုတိုင်မတွေ့ရသေးချေ။

လောင်စာရည် တုံးပျံမျိုးတွင် လောင်စာနှစ်မျိုးကို အသုံးပြုသည်။ လောင်စာတမျိုးမှာ မီးလောင်ရာတွင် လိုအပ်သည့် အောက်ဆီဂျင်ပေါများသော ပစ္စည်းဖြစ်သည်။ နောက်တမျိုးမှာ အောက်ဆီဂျင်နှင့်တွေ့လျှင် လျင်မြန်စွာ မီးလောင်တတ်သည့် ဟိုက်ဒရို ကာဗွန် ပါဝင်သော ပစ္စည်းဖြစ်သည်။ ထိုတုံးပျံမျိုးတွင် လောင်စာရည်ကို သိုလှောင်သည့်အခန်းရှိရာ၊ ထိုအခန်းတွင်း၌ လောင်စာနှစ်မျိုးသည် ရောနှော၍ မီးလောင်သည်။ မီးလောင်ရာမှ ဖြစ်ပေါ်လာသည့် ဓာတ်ငွေ့များသည် တုံးပျံ၏အနောက်ဖက်ပြွန်မှ ကန်၍ထွက်လာပြီးလျှင် တုံးပျံကို ရှေ့သို့သွားစေသည်။ အယ်လကိုဟောနှင့် အောက်ဆီဂျင်အရည်တို့ကို လောင်စာရည်အဖြစ် တုံးပျံများတွင် အောင်မြင်စွာ အသုံးချနိုင်ခဲ့ကြသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ထိုတုံးပျံမျိုးကို ဂျာမန်တို့သည် ဗီ တူးခေါ် ဗုံးများတွင် တပ်ဆင်၍ အသုံးပြုခဲ့ကြလေသည်။ ဗဇူကာလက်နက်မှာ တုံးပျံလက်နက်ပင်ဖြစ်သည်။

ယခုခေတ် သိပ္ပံပညာရှင်တို့သည် ကမ္ဘာမြေကြီးမှ လဗိမာန်သို့ အသွားအပြန် ခရီးသွားရန် ကြံစည်အားထုတ်လျက်ရှိကြသည်။ သူတို့၏တွက်ကိန်းမှာ တနာရီလျှင် မိုင် ၁၀၀၀ နှုန်းနှင့်သွားလျှင် လဆီသို့ ၁၀ ရက်ခန့်အကြာတွင် ရောက်နိုင်လိမ့်မည်။ ဤသို့တုံးပျံသွားနိုင်ရန်အလို့ငှာ မြေဆွဲအားနှင့် လဆွဲအားတို့၏ ပြောင်းလဲချက်ကိုရင်း၊ လောင်စာနှင့် အောက်ဆီဂျင် ကုန်ဆုံး၍ အလေးချိန် လျော့သွားမည့် အချက်ကိုရင်း၊ အပူချိန် ပြောင်းလဲလျက်ရှိမည့် အချက်ကိုရင်း၊ အခြားအချက်အမျိုးမျိုးကိုရင်း ထည့်သွင်းစဉ်းစားရမည်ဟု ဆိုလေသည်။

တုံးပျံများကို လူတို့က ကြောက်မက်ဖွယ်ကောင်းသော လက်နက်အဖြစ်ဖြင့် အသုံးပြုကြသော်လည်း၊ ယင်းတို့သည် လူတို့အား စိတ်ပျော်ရွှင်စေမှုကိုလည်း ဖန်တီးပေးနိုင်ပေသည်။ တုံးပျံမီးကျည်မှာ မီးရှူးမီးပန်းလွှတ်ရာ၌ ရှုချင့်စဖွယ် ဖြစ်အောင် အမြင့်မှ မီးပန်းများကို ဖွာကျစေသည်။ မြန်မာထုံးစံအရ ဘုန်းကြီးပျံများ၌ လောင်တိုက်ပြာသာဒ်ကို တုံးပျံ လွှတ်၍ (ဒုံးလွှတ်၍) မီး ရှို့သည်။ ယင်းကို တုံးတိုက်သည်ဟုခေါ်ကြသည်။

**တျာချင်း။** ။တျာချင်းသည် ပင်းယခေတ်လောက်က စတင်ပေါ်ပေါက်ခဲ့သော ဂီတသီချင်းတမျိုးဖြစ်၏။ တျာချင်းဟု ခေါ်ဆိုရခြင်းအကြောင်းရင်းမှာ ဤသို့ဖြစ်၏။ ဂီတတွင် အသံ ၇ မျိုးရှိသည်။ ထိုအသံ ၇ မျိုးအနက်၊ ကြိုက်ရာ မည်သည့်အသံကိုမဆို မူတည်၍ သီချင်းတီးမှုတ်နိုင်သည်။ ယင်းသို့မူတည်၍ တီးမှုတ်သောအသံကို မူတည်သံ (ဝါ) တျာသံဟုခေါ်သည်။ ထိုသို့ တျာသံနှင့်စ၍၊ တျာသံနှင့်ဆုံးသောသီချင်းကို တျာချင်းဟုခေါ်လေသည်။ အောက်ပါ တျာချင်းတခု၏ပုံစံကို လေ့လာသော်၊ အခြားအဖွဲ့တို့နှင့် ကွဲပြား ခြားနားပုံကို ထင်ရှားစွာ တွေ့ရပေလိမ့်မည်။

'ဝသန်ကာလ၊ မိုးကျတည့်လျှင်၊ ပျော်ပျော်ပါးပါး၊ မယားနှင့် ဆွေငယ်လင်၊ လက်တွဲငယ်ခြေငင်၊ ကိုယ်တွင်

အဝတ်၊ ပုဆိုးအင်္ကျီ၊ စုတ်ပဲ့ပြီ၊ ချည်နီဖေါင်းတွတ်တွတ်ကယ် နှင့်လေး။

မိုးရေစွတ်လို့၊ အဝတ်ကယ်မပါ၊ သားသမီးကို၊ ကိုယ်ထီး ပွေ့လို့သာ၊ ဆေးတံတထွာ၊ ကိုက်ကာထွန်ရင်း၊ လယ်ကွက် ကယ် တခွင်၊ ထွန်ရေးငင်၊ ရေဝင် ပုဇွန်တွင်းငယ်နှင့်လေး။

ဖားပေါင်စင်းငယ်၊ ခြင်းပလိုင်းဝယ်၊ ခရုပီလော၊ ရော နှော၍သာလွယ်၊ ဟင်းရွက်ကယ် နုနယ်၊ တသွယ်ကန်ဇွန်း၊ ဆူးပုပ်ကင်းပုံ၊ အလုံးစုံ၊ ဖူးငုံသာရော၍ပြွမ်းသည်နှင့်လေး။

ချိုလည်းချိုလွန်း၊ ရည်ညွန်းများစွာ၊ ကြံဟင်းကြွက်နား ပေါင်း၊ သောင်းပြောင်းရော၍သာ၊ အိမ်သို့ရောက်ခါ၊ လျင် စွာချက်ပြုတ်၊ ထမင်းကပူ၊ ဟင်းကပူ၊ ရှူရှူသာ ရှမ်းရေတ် ကယ်နှင့်လေး။

အလုတ်ကယ် ရောသာ၊ ငုံကာ လွေးတော့သည်၊ သား မြေးငယ်မာချာ၊ ဗယ်ညာ ထွေးတော့သည်။

အထက်ပါ တျာချင်းမှာ သက္ကရာဇ် ၁၀၆၀ ပြည့်နှစ် နန်း တက်သော စနေမင်းလက်ထက် စာဆိုတော် ဝန်ကြီးပဒေ သရာဇာ ဖွဲ့ဆိုသော လယ်သမားဘွဲ့ တျာချင်းဖြစ်၏။ ဝန် ကြီးသည် တျာချင်းပေါင်းများစွာ ရေးခဲ့၏။ တောင်တက် ပိန်းဝင်ဘွဲ့၊ ထန်းတက်ဘွဲ့၊ လယ်ထွန်ဘွဲ့၊ တောင်ပိုင်တက်ဘွဲ့ တျာချင်းတို့ဖြစ်လေသည်။ ဝန်ကြီး၏တျာချင်းများမှာ တောလက်ကျေးရွာကိုမူတည်၍၊ ဆင်းရဲသားဘဝကို ထုတ်ဖေါ်ထား၏။ ရေးသားရာ၌ တောရွာကျေးလက် များတွင် ဖြစ်ပျက်သောအကြောင်းအရာများကို ဖွဲ့လေ သည်။ အထူးသဖြင့် နေ့စဉ် နေ့တိုင်း တွေ့မြင်ရသော အ လုပ်အကိုင်များကိုသာ ဖွဲ့ဆိုလေ့ရှိကြောင်း အထက်ပါ တျာ ချင်းကို ကြည့်ခြင်းဖြင့် သိနိုင်၏။ (ပဒေသရာဇာ — ရှု။)

သက္ကရာဇ် ၁၁၂၅ ခုနှစ် နန်းတက်တော်မူသော ဆင်ဖြူ ရှင် လက်ထက်လောက်တွင် အမည်မသိသူတဦးက ဆင် အောက်သူတို့ကျင့်ဝတ်ဘွဲ့ တျာချင်းကို ရေးသားခဲ့၏။ မြ ဝတီမင်းကြီး ဦးစကလည်း ပလ္လင်ရှစ်ရပ်ဘွဲ့တျာချင်းသီချင်း၊ ဘကြီးတော်လက်ထက် မြင်းခင်းသဘင် ဆင်ယင်တော်မူရာ ၌ ရေးသားသော ဘွဲ့တျာချင်း၊ ဂူလီသဘင် ဆင်ယင်တော် မူခိုက် ရေးသားသော တျာချင်း၊ ဘုန်းတော်ဘွဲ့၊ လယ်ထွန် မင်္ဂလာဘွဲ့ တျာချင်းများလည်း ထင်ရှားရှိ၏။ သို့ရာတွင် ဝန်ကြီးပဒေသရာဇာ၏ တျာချင်းများသည် အခြား တျာ ချင်းထက် ကျော်ကြားထင်ရှားခဲ့၏။

**တျာ၊ တျော၊ တျော့။** ။မြန်မာဂီတ — ရှု။

**တျူတန်လူမျိုး။** ။အင်္ဂလိပ်၊ ဂျာမန်၊ ဒပ်ချ်၊ ဖလင်မစ် လူမျိုးတို့နှင့် စကန်ဒီနေးဗီယားနိုင်ငံရှိ လူမျိုးအသီးသီးတို့ ပြောဆိုသော ဘာသာစကားကို တျူတန်ဘာသာစကားဟု ခေါ်သည်။ တျူတန်ဘာသာစကားကိုပြောသော လူမျိုး တို့သည် ယေဘုယျအားဖြင့် တျူတန်လူမျိုးများ ဖြစ်ကြ သည်။ သို့သော် အထူးသဖြင့် ဂျာမန်လူမျိုးတို့ကို တျူတန် လူမျိုးဟု ခေါ်ဝေါ်ကြသည်။ မူလဘူတအားဖြင့်ကား တျူ တိုနီဟုခေါ်သော လူမျိုးများသည် ဘီစီ ၃ ရာစုနှစ်လောက် က ဂျတ်တလန်ကျွန်းဆွယ်တွင် နေထိုင်ခဲ့သော လူမျိုးများ ဖြစ်သည်ဟု ယူဆရသည်။ တျူတန်လူမျိုးတို့သည် မူလ နေထိုင်ရာ ဥရောပမြောက်ပိုင်းမှ ဆင်းသက်လာပြီးလျှင်၊ ခရစ် ၄ ရာစုနှစ်မှ ၉ ရာစုနှစ်အထိ ဥရောပတိုက်တွင် လှည့် လည်နေထိုင်ခဲ့ကြရာ၊ ဥရောပတိုက်အနောက်ဖက်ရှိ ရောမ အင်ပိုင်ယာကြီးမှာ ယင်းတို့ကြောင့် ပြိုကွဲခဲ့ရလေသည်။ တျူတန်လူမျိုးတို့၏ ပုံပန်းသဏ္ဌာန်မှာ ကိုယ်ခန္ဓာ ထွား ကျိုင်းသန်မာ၍၊ အရပ်အမောင်း မြင့်သည်။ မျက်လုံး ပြာ သည်။ ဆံပင် နီဖျော့ဖျော့အရောင်ရှိသည်။ ရဲစွမ်းသတ္တိနှင့် ပြည့်စုံ၍၊ စစ်တိုက် ဝါသနာပါသည်။ စစ်တိုက်ရာတွင် အ လွန် ရက်စက်ကြမ်းကြုတ်ခြင်းကြောင့်၊ ရောမလူမျိုးတို့က တျူတန်လူမျိုးတို့ကို လူရိုင်းများဟု ခေါ်ဝေါ်လေ့ရှိ ကြသည်။

**တျူဒါဘုရင်များ။** ။တျူဒါဟူသောအမည်မှာ ဗြိတိန် နိုင်ငံသမိုင်းတွင် ခရစ် ၁၄၈၅ ခုနှစ်မှသည် ၁၆၀၃ ခုနှစ်အထိ စိုးစံခဲ့သော မင်းများ၏ အမည်ဖြစ်သည်။ ထိုအမည်မှာ



တျူဒါမင်းဆက်တွင် ပဌမတျူဒါမင်းဖြစ်သည့် သတ္တမ ဟင်နရီဘုရင်

အိုဝင် တျူဒါအမည်ရှိ ဝေလနယ်သား မှူးမတ်တဦးကို အစွဲပြု၍ခေါ်သော မျိုးရိုးအမည်ဖြစ်လေသည်။

အိုဝင် တျူဒါနှင့် ကက်သရင်း မိဖုရားတို့၏သားတော် အားဘွဲ့ရ ရစ်ချမွန်မြို့စား အက်ဒမန်သည် ဆန်းမားဆက် မြို့စားကြီး၏သမီးတော်နှင့် ထိမ်းမြား၏။ ထိုအခါသည်ကား အင်္ဂလိပ်ထီးနန်းကို လန်ကက်စတာ မင်းဆက်နှင့် ယော့ မင်းဆက်တို့ အပြိုင်လုနေကြသည့် 'နှင်းဆီစစ်ပွဲ' များ ဖြစ်ပွားနေသောအခါဖြစ်သည်။ မြို့စားကြီးသည် လန်ကက်စတာ မင်းဆက်မှဖြစ်သဖြင့် အက်ဒမန်၏သားတော် ဟင်နရီမှာ လန်ကက်စတာ မင်းဆက်အဖြစ်ဖြင့် ထီးနန်းကို ဆက်ခံ စိုးစံခွင့်ရှိလေသည်။ ထိုကြောင့် ဟင်နရီသည် 'နှင်းဆီစစ်ပွဲ' တွင် ဝင်ရောက်တိုက်ခိုက်၍ စစ်အောင်မြင်သောအခါ၊ သတ္တမ ဟင်နရီအမည်ဖြင့် ၁၄၈၅ ခုနှစ်တွင် နန်းတက်လေသည်။ ဤသို့ဖြင့် အိုဝင် တျူဒါ မင်းဖြစ်လာ၏။

ထိုမင်းသည် ယော့ မင်းဆက် တတိယ ရစ်ချတ်ဘုရင်၏ သမီးတော်ကို မိဖုရားမြှောက်လိုက်ခြင်းဖြင့် လန်ကက်စတာ မင်းဆက်နှင့် ယော့ မင်းဆက်တို့သည် ပူးပေါင်းမိ၍ 'နှင်းဆီစစ်ပွဲ' ပြီးဆုံးသွားလေသည်။

သတ္တမ ဟင်နရီ၏နောက် ဆက်ခံကြသော တျူဒါမင်းဆက်များမှာ အဋ္ဌမ ဟင်နရီ (ခရစ် ၁၅၀၉–၄၇ ခုနှစ်)၊ ဆဋ္ဌမ အက်ဒွပ် (ခရစ် ၁၅၄၇–၅၃ ခုနှစ်)၊ မေရီ ဘုရင်မ (ခရစ် ၁၅၅၃–၅၈ ခုနှစ်) နှင့် အယ်လစ်ဇဗက် ဘုရင်မ (ခရစ် ၁၅၅၈–၁၆၀၃ ခုနှစ်) တို့ဖြစ်ကြသည်။ အယ်လစ်ဇဗက် ဘုရင်မ ကံကုန်သောအခါ တျူဒါမင်းဆက်ပြတ်၍၊ စတူးဝပ် မင်းဆက် စလေသည်။

**တျူနစ်ဇီးယားနိုင်ငံ။** ။တျူနစ်ဇီးယားနိုင်ငံသည် အာဖရိကတိုက် မြောက်ပိုင်းတွင်ရှိသည်။ ပြင်သစ်အစောင့်အရှောက်ခံ နယ်အဖြစ်မှ မကြာမီက လွတ်မြောက်၍၊ လွတ်လပ်ရေးရခဲ့သော နိုင်ငံဖြစ်သည်။ အနောက်ဖက်တွင် အယ်လဂျီးရီးယားပြည်၊ မြောက်ဖက်နှင့်အရှေ့ဖက်တွင် မြေထဲပင်လယ်၊ အရှေ့တောင်ဖက်တွင် လစ်ဗျားပြည်နှင့် နယ်နိမိတ်ခြင်း စပ်လျက်ရှိ၏။ တောင်ဖက်တွင် ဆဟာရာ သဲကန္တာရကြီးရှိသည်။ စတုရန်းမိုင်ပေါင်း ၄၈,၁၉၅ မိုင်မျှ ကျယ်ဝန်းသည်။

တျူနစ်ဇီးယားနိုင်ငံကို သုံးပိုင်း ပိုင်းနိုင်သည်။ မြောက်ပိုင်းတွင် အက်တလတ် တောင်တန်းများရှိ၏။ ထိုတောင်တန်းများ၏ ဝန်းကျင်ဒေသတို့တွင် မိုးကောင်း၍ ထင်းရှူး၊ ဝက်သစ်ချ စသော သစ်တောကြီးများ ပေါက်ရောက်လျက်ရှိသည်။ ထိုဒေသရှိ ချိုင့်ဝှမ်းများနှင့် ပင်လယ်ကမ်းခြေဖက်သို့ လျှောဆင်းနေသော မြေနိမ့်ပိုင်းများသည် မြေဩဇာထက်သန်ကောင်းမွန်သဖြင့် ကောက်ပဲသီးနှံတို့ကို အများအပြား စိုက်ပျိုးလုပ်ကိုင်ကြ၏။ အလယ်ပိုင်းမှာ ကုန်းပြင်မြင့်ဖြစ်၍ မိုးခေါင်းပါး၏။ ယင်းဒေသ၏ အရှေ့ဖက်ကမ်းခြေတွင်မူ မိုးအသင့်အတင့် ရွာသွန်း၍ သံလွင်ပင်များကို စိုက်ပျိုးကြသည်။ တောင်ပိုင်းသည်ကား၊ ဆဟာရား သဲကန္တာရအတွင်း၌ ကျရောက်လျက်ရှိသောကြောင့် မိုး အလျှင်းမရွာသလောက်ဖြစ်သည်။ အိုအေဆစ်များ၌သာ စွန်ပလွံပင်များ ပေါက်ရောက်၏။

လူဦးရေမှာ ၁၉၅၃ ခုနှစ်တွင် ၃,၅၀၀,၀၀၀ ယောက်ရှိ၍၊ နိုင်ငံခြားသားဦးရေ ၁၂၃,၀၀၀ ယောက် ပါဝင်သည်။ အာရပ်လူမျိုးနှင့် ဗားဗားလူမျိုးတို့သည် အများဆုံးဖြစ်ကြသည်။ အခြားလူမျိုးတို့မှာ ပြင်သစ်လူမျိုး၊ ဣတာလျံလူမျိုး၊ ယဟူဒီလူမျိုးနှင့် မော်လတာကျွန်းသားများ ဖြစ်သည်။ ဗားဗားလူမျိုးတို့သည် ဦးစွာနေထိုင်သော တိုင်းရင်းသားများဖြစ်၍၊ တနေရာတည်းတွင် အခြေမစိုက်ဘဲ၊ အတွင်းကုန်းမြင့်ပိုင်း၌ လှည့်လည်၍ သိုးဆိတ်တို့ကို မွေးမြူထိန်းကျောင်းကာ နေထိုင်အသက်မွေးကြသည်။

တျူးနစ်ဇီးယားနိုင်ငံသည် လယ်ယာလုပ်ငန်းကို အားထားရသောနိုင်ငံဖြစ်၏။ အဓိကစိုက်ပျိုးသော သီးနှံပင်များမှာ ဂျုံ၊ မုယော၊ စပျစ်၊ စွန်ပလွံ၊ ဗာဒံ၊ သံလွင်၊ ပြောင်းနှင့် ပဲများဖြစ်သည်။ မြက်ခင်းဒေသတို့တွင်၊ သိုး၊ နွား၊ ဆိတ်၊ မြင်း၊ မြည်း၊ လားနှင့် ကုလားအုပ်များကို မွေးမြူကြ၏။ သံ၊ သွပ်၊ ခဲ၊ ဖော့စဖိတ် စသော သယံဇာတပစ္စည်းများလည်း အသင့်အတင့်ကြွယ်ဝ၏။ ပြည်တွင်း လက်မှုပညာလုပ်ငန်းများမှာ၊ သိုးမွေးခြည်လုပ်ခြင်း၊ ကော်ဇောရက်ခြင်း၊ ကုန်းနှီးလုပ်ခြင်း၊ မြေအိုးမြေခွက်လုပ်ခြင်း၊ ကြေးထည်လုပ်ခြင်း၊ ဖိနပ်ချုပ်ခြင်းများဖြစ်၏။ သားရေလုပ်ငန်းနှင့် ပိုးထည်ရက်လုပ်ခြင်းတို့မှာ ယခုအခါ တိမ်ကောလျက်ရှိ၏။

တျူးနစ်ဇီးယားနိုင်ငံသည်၊ အယ်လဂျီရီးယားပြည်၊ မိုရော့ကိုပြည်တို့နှင့် မီးရထားလမ်းဆက်သွယ်ထား၏။ မြို့တော်မှာ တျူးနစ်မြို့ဖြစ်၍၊ လူဦးရေမှာ ၁၉၄၆ ခုနှစ် သန်းကောင်စာရင်းအရ ၃၆၄,၅၉၂ ယောက်ရှိသည်။ တျူးနစ်မြို့သည် အရှေ့မြောက်ဖက်ကမ်းခြေတွင် တည်ရှိ၏။ ယင်းမြို့၏ အနီးတွင် ရှေးဟောင်း ကားသေ့မြို့ကြီး၏ အပျက်အစီးများ ရှိသည် ။ ထင်ရှားသော ဆိပ်ကမ်းမြို့များမှာ ဗီးဇာ့မြို့၊ စဖက်မြို့၊ ဆူးဆမြို့များဖြစ်ကြသည်။ ဗီးဇာ့မြို့မှာ ပြင်သစ်ရေတပ်စခန်းမြို့ဖြစ်သည်။

တျူနစ်ဇီးယားနိုင်ငံ၏ သမိုင်းကား ဤသို့တည်း၊ ဘီစီ ၇၅၀ ပြည့်နှစ်ခန့်တွင် ဖိနီရှန်လူမျိုးများသည် ယခု တျူးနစ်မြို့နှင့် မနီးမဝေးနေရာတွင် အခြေစိုက်ခဲ့ကြသည်။ ထိုမှ အစပြု၍ ကားသေ့မြို့ တန်ခိုးကြီးလာသည့်အခါ၊ ရောမတို့နှင့် စစ်ပြိုင်လေသည်။ ဘီစီ ၁၄၆ ခုနှစ်တွင် ရောမတို့သည်

တျူးနစ်ပြည်၊ တျူးနစ်မြို့တော်၏ ရှုခင်းတရပ်

တဖန်ပြန်၍ တော်လှန်ခြင်းမပြုနိုင်အောင် ကားသေ့မြို့ကို ချေမှုန်းလိုက်ပြီးနောက်၊ ယင်းဒေသကို အာဖရိကဟု ခေါ်တွင်စေခဲ့၏။ ထိုဒေသမှာ ရောမနိုင်ငံအတွက် ရိက္ခာထောက်ပံ့နိုင်သော ဒေသတရပ်ဖြစ်၏။ ထိုနောက် ဗိုင်ဇင်းတိုင်းနိုင်ငံတော်၏ လက်အောက်ခံနယ်အဖြစ်သို့ ကျရောက်ခဲ့လေသည်။ ၇ ရာစုနှစ်သို့ရောက်သော်၊ မွတ်စလင်တို့ စတင်ကြီးစိုးခြင်းကို ခံခဲ့ရရာ၊ ၁၈၈၁ ခုနှစ်တွင် ပြင်သစ်တို့၏ လက်သို့ကျဆင်းပြန်သည်။ ၁၈၈၃ ခုနှစ် ဩဂုတ်လ ၇ ရက်မှ ၃၁ ရက်ထိ ကျင်းပခဲ့သော ဖရန်ကို တျူနစ်ဇီးယန်း ညီလာခံသည် တျူနစ်ဇီးယားပြည်နယ်အား ပြင်သစ်အစောင့် အ



တျူးနစ်ပြည်တောင်ပိုင်းရှိ ဆဟားရား သဲကန္တာရရှုခင်း

ရွေးကောက်ခံနယ်အဖြစ် သတ်မှတ်ပေးလိုက်သည်။ 'ဖေး' ခေါ် တိုင်းရင်းသား စော်ဘွားများကို ယခုတိုင် အသိအမှတ်ပြု ထားသော်လည်း တိုင်းပြည်အုပ်ချုပ်ရာ၌ ထိုစော်ဘွားများ အရေးမပါလှချေ။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ပြင်သစ်နိုင်ငံ အရေးနိမ့် သွားစဉ်တွင် တျူနစ်ဇီးယားပြည်သည် ဂျာမန်တို့လက် အောက်သို့ ကျရောက်ခဲ့သည်။ သို့သော် ၁၉၄၃ ခုနှစ်တွင် မဟာမိတ်တပ်များက ဂျာမန်တို့ကို တိုက်ထုတ်လိုက်ကြ သောအခါ၊ တျူနစ်ဇီးယားပြည်ကို ပြင်သစ်တို့ကပင် ဆက် လက်၍အုပ်ချုပ်နေခဲ့ရာ၊ ၁၉၅၅ ခုနှစ် ဇွန်လ ၃ ရက်နေ့တွင်မူ ကား ပြင်သစ်တို့သည် တျူနစ်ဇီးယားပြည်ကို အချုပ်အချာ အာဏာပိုင် လွတ်လပ်သော နိုင်ငံအဖြစ် အသိအမှတ်ပြုခဲ့ကြ လေသည်။ သို့ဖြင့် ၁၉၅၅ ခုနှစ် စက်တင်ဘာလ ၁၇ ရက် နေ့တွင် ဝန်ကြီးချုပ် တဟား ဗင် အမ်းမားသည် ပဌမ တျူ နစ်ဇီးယားအမျိုးသားအစိုးရကို ဖွဲ့စည်းခဲ့လေသည်။ တဖန် ဗင် အမ်းမား နုတ်ထွက်ပြီးနောက်၊ ၁၉၅၆ ခုနှစ် ဧပြီလ ၁၅ ရက်နေ့၌ အမ် ဟာဗစ် ဗူးဂီဗား ဝန်ကြီးချုပ်ဖြစ်လာ လေသည်။

၁၉၅၇ ခုနှစ် ဇူလိုင်လ ၂၅ ရက်နေ့တွင် တျူနစ်ဇီးယား တိုင်းပြည်ပြုလွှတ်တော်က 'ဖေး' ခေါ် တိုင်းရင်းသား စော် ဘွားကို အရာချပြီးနောက် တျူနစ်ဇီးယား သမတနိုင်ငံ ထူ ထောင်လိုက်၏။ ဝန်ကြီးချုပ် အမ် ဟာဗစ် ဗူးဂီဗါးကိုလည်း ပဌမသမတအဖြစ် ရွေးကောက်တင်မြှောက်လိုက်လေသည်။

**တျူဗာကယ်ပိုးစွဲနာ။** ။တီဘီ ရောဂါဟုခေါ်သော တျူ ဗာကယ်ပိုးစွဲနာသည် လူနှင့်တိရစ္ဆာန်တို့ကို ကူးစက်တတ် သော ရောဂါဖြစ်သည်။ တီဘီ ရောဂါအကြောင်းကို ဘီစီ ၅၀၀၀ ခန့်က ပေါ် ပေါက်သော ဟိန္ဒူစာပေများတွင် ဖော်ပြ ထားသည်ကိုတွေ့ရသည်။ သို့သော် ထိုခေတ်ထက် ရှေးကျ သော ကျောက်ခေတ်လောက်ကပင် တီဘီ ရောဂါ ဖြစ်ပွား ခဲ့ဘူးဟန်တူသည်။ ထိုခေတ်များတွင် တီဘီ ရောဂါကို အ မည်အမျိုးမျိုးဖြင့်ခေါ် ခဲ့ကြသည်။ ယခုခေတ်၌ တီဘီ ရော ဂါကို အဆုတ် သို့မဟုတ် အသက်ရှူ ရှိုက်မှုနှင့်သက်ဆိုင် သော တီဘီ ရောဂါ၊ အဆုတ်နှင့် မည်သို့မျှမသက်ဆိုင်သော တီဘီရောဂါဟူ၍ ခွဲခြားထားသည်။ အိန္ဒိယ၊ ဂရိ၊ ရောမ တိုင်း ပြည်တို့ရှိ ရှေးဆရာဝန်များသည် ထိုရောဂါများအကြောင်း ကို အတိအကျ ရေးသားဖော်ပြခဲ့ကြလေသည်။ ထိုစဉ်က လူတို့သည် ထိုရောဂါကို မျိုးရိုးကိုလိုက်သောရောဂါဖြစ်သည် ဟု ယူဆခဲ့ကြသည်။ ရောဂါကိုကုစားရာတွင်လည်း မိရိုး ဖလာ ဓလေ့ထုံးစံအတိုင်းသာ ကုစားကြသည့်ပြင်၊ မိမိတို့၏ အယူဝါဒအလိုက် ယုံကြည်ကိုးကွယ်မှုဘာသာဖြင့်လည်း ကု စားကြသေးသည်။ ၁၅၄၆ ခုနှစ်တွင် ဖရက်ကတ် စတိုးရီး ယပ်ဆိုသူက ထိုရောဂါတွင် ကူးစက်ပြန့်ပွားစေသည့်သက်ရှိ များ ပါဝင်နေကြောင်း ပြဆိုခဲ့သည်မှအပ ၁၇ ရာစုနှစ်တွင် တီဘီ ရောဂါကြောင့် သေဆုံးသူ၏အလောင်းကို ခွဲစိတ်ကြည့် ရာ၌ အဖုငယ် သို့မဟုတ် တျူဗာကယ်တို့၏ အရေးပါ အရာ ရောက်ပုံနှင့် ထိုအဖုငယ် သို့မဟုတ် တျူဗာကယ်တို့သည် ယဉ်းနာအဖြစ်သို့ရင်း၊ ပြည်အဖြစ်သို့ရင်း ဖြစ်ပေါ် သွားနိုင် ကြောင်းကို သိလာကြသည်။ ရောဂါဖိစီးသော အခြေအ နေများသည် ဤရောဂါတခုတည်းမှဖြစ်ကြောင်းကို ၁၉ ရာစု နှစ်တွင် သိလာကြသည်။

၁၈၆၅ ခုနှစ်တွင် ဝီလမင်ဆိုသူက တီဘီရောဂါသည် သီး ခြား ရောဂါဖြစ်ကြောင်း၊ ထိုရောဂါကို တဦးမှတဦးသို့ ကူး စက်၍ စွဲကပ်စေနိုင်ကြောင်းကို လက်တွေ့စမ်းသပ်ပြ သခဲ့သည်။ ရောဗတ် ကုတ် ဆိုသူကလည်း ၁၈၈၂ ခုနှစ်တွင် သူရှာဖွေတွေ့ရှိခဲ့သော ဗက်ဆီလပ်များကို တိရစ္ဆာန်များသို့ ကူးစက်စေခြင်းဖြင့် ဝီလမင်၏ လက်တွေ့ စမ်းသပ်ချက်များ ကို ထောက်ခံသည့်အနေနှင့် သက်သေအထင်အရှား ပြခဲ့ သေးသည်။ ၁၉၁၁ ခုနှစ်တွင် ဗြိတိသျှ ရွိုင်ယယ် ကော်မစ် ရှင်က လူစွဲ တျူဗာကယ်၊ ကျွဲနွားစွဲ တျူဗာကယ်၊ ငှက်စွဲ တျူဗာကယ်ဟူ၍ တျူဗာကယ် ဗက်ဆီလပ် သုံးမျိုးရှိ ကြောင်း၊ ကျွဲနွားစွဲ တျူဗာကယ် ကပ်ငြိခြင်းကြောင့် လူ တို့တွင် တီဘီ ရောဂါဖြစ်နိုင်ကြောင်းကို အစီရင်ခံခဲ့သည်။ ၂၀ ရာစုနှစ် ပဌမပိုင်းတွင် တီဘီ ရောဂါဖြစ်ပွားခြင်းကို ကာ ကွယ်ရန် ဆင်းဆင်းရဲရဲ နေထိုင်ရခြင်း၊ အစားကောင်း မစား ရခြင်း၊ ကျန်းမာရေးနှင့်မညီညွတ်သည့်အိမ်ယာ၌ နေထိုင် ရခြင်းစသော အခြေအနေတို့ကို တိုးတက်ကောင်းမွန်လာ အောင် ပြုပြင်ပေးကြသည်။ လူနှင့်ကျွဲနွားများတွင် တီဘီ ရောဂါ စွဲကပ်သည်၊ မစွဲကပ်သည်ကို သိရှိနိုင်ရန် တျူဗာကူ လင် အရေပြားစမ်းသပ်နည်းကို အများအားဖြင့် စမ်းသပ် အသုံးပြုကြသည်။ ရောဂါရရှိနေသော လူများတွင်၎င်း၊ ကျန်းမာသည်ဟုထင်ရသော လူများတွင်၎င်း တီဘီ ရောဂါ ရှိ မရှိကို တင်ကြို၍သိရှိနိုင်ရန် အိပ်စရေးရောင်ခြည်ရိုက်ခြင်း ကို တိုးတက်လာအောင်ဆောင်ရွက်ကြသည်။ (အိပ်စရေး ရောင်ခြည် — ရှု။) ဆေးကုဌာနများတွင် ရောဂါနှင့်သင့် တော်သည့် အခြေအနေများကို ဖန်တီးထားကြသည့်ပြင်၊ ပိုမိုတိကျသော ကာကွယ်နည်းနှင့် ကုထုံးတို့ဖြင့် ရောဂါကို ကုစားကြလေသည်။

တီဘီ ရောဂါသည် တျူဗာကယ် ဗက်ဆီလပ်များ ကပ်ငြိ ခြင်းကြောင့်ဖြစ်၍၊ လူနှင့်တိရစ္ဆာန်တို့တွင် ကူးစက်ပျံ့နှံ့ တတ်သည်။ ထိုရောဂါကြောင့် တိရစ္ဆာန်နှင့် လူအများ သေကြေပျက်စီးကြသည်။ တီဘီ ရောဂါစွဲကပ်လျှင် ရောဂါ အခြေအနေသည် လျှင်မြန်စွာ ပြင်းထန်လာသည်လည်း ရှိ သည်။ ရောဂါတက်ခြင်းမှာ နှေးကွေးသည်လည်းရှိသည်။

ရောဂါ အတက်နေးလျှင် နာတာရှည်အနေနှင့် ကြာမြင့်စွာ ခံစားရတတ်သည်။ ခန္ဓာကိုယ် မည်သည့်အစိတ်အပိုင်းတွင်မဆို တီဘီ ရောဂါစွဲကပ်နိုင်သည်။ အဆုတ်တွင်၎င်း၊ အရေပြားတွင်၎င်း၊ ကျောရိုးတွင်၎င်း၊ အခြား အရိုးများတွင်၎င်း၊ တီဘီ ရောဂါဖြစ်ပွားနိုင်သောကြောင့် ရောဂါစွဲကပ်ရာဌာနကိုစွဲ၍၊ အဆုတ် တီဘီ၊ အရေပြား တီဘီ၊ ကျောရိုး တီဘီ၊ အရိုး တီဘီဟုခေါ် လေ့ရှိသည်။

တျူဗာကယ် ဗက်ဆီလပ်များသည် သေးငယ်၍ မရွေ့ရှားနိုင်ချေ။ ပုံသဏ္ဍာန်မှာ တုတ်ချောင်း ပုံသဏ္ဍာန် ဖြစ်သည်။ အနံမှာ မိုက်ကရွန် (တမီလီမီတာ၏ အပုံတထောင်ပုံ တပုံ) ဝက်ခန့်ရှိ၍၊ အလျားမှာ ၄ မိုက်ကရွန်ခန့်ရှိသည်။ ယင်းတို့ကို ဓာတ်ဆေးဖြင့် အရောင်ဆိုးလျှင် စွဲကပ်သော သဘောရှိသဖြင့် အက်ဆစ်တို့ဖြင့် ချွတ်သော်လည်း အရောင်မပျက်သည်ကိုတွေ့ရသည်။ တျူဗာကယ် ဗက်ဆီလပ်များသည် လူတို့၏ခန္ဓာကိုယ်အတွင်းသို့ အရေပြားမှဖြစ်စေ၊ အစားအစာနှင့် ရောနှော၍ဖြစ်စေ၊ အသက်ရှူရှိုက်ရာတွင် လေနှင့်အတူ ရောနှော၍ဖြစ်စေ ဝင်ရောက်သွားနိုင်သည်။ တီဘီ ရောဂါဖြစ်နေသော မိခင်ထံမှ ဗက်ဆီလပ်တို့သည် သန္ဓေသားသို့ မမွေးဖွားမီ ကူးစက်သွားခဲ့သည်။ ထို့ကြောင့် လူတို့ တီဘီ ရောဂါရရှိခြင်းမှာ များသောအားဖြင့် ထိုရောဂါစွဲကပ်နေသော အခြားသူထံမှ၎င်း၊ နွားထံမှ၎င်း၊ ရရှိခြင်းသာလျှင်ဖြစ်ပေသည်။ တျူဗာကယ် ဗက်ဆီလပ်များသည် ခန္ဓာကိုယ်တွင်းသို့ ဝင်ရောက်သွားကြသောအခါ၊ လျင်မြန်စွာ ပွားလာကြပြီးလျှင် တျူဗာကယ်ဟုခေါ်သော ဆဲစုများကို ဖြစ်ပေါ်စေသည်။ တျူဗာကယ် ဝင်ရောက်နေသော လူနာတွင် အကယ်၍ ယင်းတို့ကိုခုခံနိုင်သောအား ရှိလျှင် ခန္ဓာကိုယ်သည် ထိုရောဂါပိုးများကို မာကျောသော တစ်ရှူးတို့ဖြင့် ဝန်းရံ၍ထားလိုက်လေသည်။ ထိုအခါ ရောဂါပိုးတို့သည် ရောဂါပွားမှုကို မပြုလုပ်နိုင်တော့ချေ။ ရောဂါပြင်းထန်လာလျှင် ဆဲတို့သည် ပျက်စီး၍၊ ကိုယ်တွင်းသို့ ရောဂါကို ပျံ့နှံ့သွားစေသည်။ တျူဗာကယ်ဆဲတို့သည် တီဘီရောဂါ၏ လက္ခဏာဖြစ်သော ယင်းနာများကို ဖြစ်ပေါ်စေသည်။

ဗက်ဆီလပ်များသည် အများအားဖြင့် အဆုတ်တွင်းသို့ ဝင်ရောက်တတ်၍၊ အဆုတ်ရောင် တီဘီ ရောဂါ သို့မဟုတ် အဆုတ်တျူဗာကယ် ပိုးစွဲနာကို ဖြစ်စေသည်။ ဤရောဂါသည် လူတို့တွင် အများဆုံးပျံ့နှံ့သော ရောဂါဖြစ်သည်။ အဆုတ်ရောင် တီဘီ ရောဂါဖြစ်နေသော လူနာ၏ချွဲသလိပ်တို့မှ အများအားဖြင့် ရောဂါသည် ကူးစက်လေ့ရှိသည်။ ထိုရောဂါစွဲသောလူနာ ချောင်းဆိုးသည့်အခါတွင်ဖြစ်စေ၊ ချေဆတ်သည့်အခါတွင်ဖြစ်စေ၊ တံထွေး ထွေးသည့်အခါတွင်ဖြစ်စေ၊ ထွေးလိုက်သော ချွဲသလိပ်တို့တွင် တျူဗာကယ် ဗက်ဆီလပ်သန်းပေါင်းများစွာပါဝင်သည်။ ချွဲသလိပ် ခြောက်သွေ့သွားသောအခါ၊ ထိုဗက်ဆီလပ်များသည် မြူမှုန်နှင့်အတူ ရောနှောလျက် လေထဲတွင် လွင့်နေတတ်သည်။ ထိုမြူမှုန်တို့သည် အိမ်တွင်း၌၎င်း၊ ယာဉ်များ၌၎င်း၊ လူအများ စုဝေးရာ ခန်းမဆောင်များ၌၎င်း ပျံ့လွင့်နေသောအခါ၊ ပတ်ဝန်းကျင်ရှိလူတို့ကို အန္တရာယ်ဖြစ်စေတတ်သည်။ လဟာပြင်၌မူကား ထိုမြူမှုန်တို့သည် အန္တရာယ်မဖြစ်စေတတ်ကြချေ။ အဘယ်ကြောင့်ဆိုသော်၊ နေရောင်သည် ဗက်ဆီလပ်များကို ဖျက်ဆီးနိုင်စွမ်းရှိခြင်းကြောင့်ဖြစ်သည်။ ထိုဗက်ဆီလပ်များသည် လူတို့၏နှာခေါင်း သို့မဟုတ် ပါးစပ်မှ ပါးသိ သို့ မဟုတ် အသံအိုးသို့ ရောက်သွားကြသည်။ ထိုအင်္ဂါတို့မှ တဆင့် ရောဂါပိုးတို့သည် သွေးစီးကြောထဲသို့ပါသွား၍၊ အခြား ကိုယ်အင်္ဂါအစိတ်အပိုင်း အထူးသဖြင့် အဆုတ်ထဲသို့ ရောက်သွားကြသည်။

အပြင်းဖမ်း အဆုတ်ရောင် တီဘီ ရောဂါနှင့် အဆုတ်ရောင် တီဘီ နာတာရှည်ရောဂါဟူ၍ အဆုတ်ရောင် တီဘီ နှစ်မျိုးရှိသည်။ အပြင်းဖမ်း အဆုတ်ရောင် တီဘီ ရောဂါကို လျင်မြန်စွာ ပြန့်ပွားတတ်သည့်အဆုတ်နာ သို့မဟုတ် မြစ်ခြောက်နာဟူ၍လည်း ခေါ်သေးသည်။ ရောဂါဖြစ်စအချိန်တွင် လူနာသည် ချမ်းစိမ့်စိမ့်ဖြစ်လာပြီးလျှင် အဖျားဝင်လာတတ်သည်။ သွေးခုန်နှုန်း လျင်မြန်၍၊ ရင်ပတ်တွင် နာကျင်တတ်သည်။ ထိုပြင် ချောင်းလည်းဆိုးတတ်သည်။ အသက်ရှူရာတွင်လည်း ပင်ပန်းသည်။ အဆုတ်လည်း ကျပ်တည်းလာသည်။ ထိုရောဂါလက္ခဏာများသည် တဖြည်းဖြည်း ပိုမိုပြင်းထန်လာပြီးလျှင် လူနာသည် ရက်သတ္တ လေးပတ်မှ တဆယ့်နှစ်ပတ်အတွင်း သေဆုံးသွားနိုင်သည်။ ရောဂါ ပျောက်ကင်းသွားသည်ကိုကား မတွေ့ရချေ။

အဆုတ်ရောင် တီဘီ နာတာရှည် စွဲကပ်သောလူနာသည် ပိုမိုများပြားသည်။ ထိုရောဂါ စွဲစအချိန်တွင် လူနာသည် အစဉ်မောပန်းနေသည့်ပြင် ခံတွင်းလည်း ပျက်တတ်သည်။ ထို့သို့မဟုတ်လျှင်လည်း ပိန်ချုံးသွားတတ်သည်။ ထို့နောက် ချောင်းခြောက်ဆိုးခြင်း၊ ညနေပိုင်းတွင် အဖျား အနည်းငယ်တက်ခြင်း စသည့်လက္ခဏာများကိုတွေ့ရသည်။ ရောဂါကို မကုသဘဲ လျစ်လျူရှုထားလျှင် ချောင်းဆိုးခြင်းသည် နာတာရှည်ဖြစ်လာတတ်သည်။ လူနာသည် အဖြူရောင် သို့မဟုတ် အဝါရောင်ရှိသည့် ချွဲသလိပ်ကို ထွေးထုတ်တတ်သည်။ တခါတရံ သွေးလည်းပါလာတတ်သည်။ အခြား လက္ခဏာများမှာ ညအချိန်တွင် ချွေးထွက်ခြင်း၊ အဆုတ်တွင် နာကျင်ခြင်း၊ အဖျား အမြဲရှိခြင်းနှင့် ကိုယ်အလေးချိန် ယုတ်လျော့သွားခြင်းများဖြစ်သည်။ အထူးသဖြင့် လူနာသည် ညနေပိုင်းတွင် အဖျားတက်တတ်သည်။ ချောင်းဆက်ကာ ဆက်ကာ ဆိုးနေစဉ် အဆုတ်မှ တခါတရံ သွေး

ပါလာတတ်သည်။ အားကုန်ခန်းခြင်း သို့မဟုတ် သွေးလွန်ခြင်းကြောင့် လူနာသည် မမျှော်လင့်ဘဲနှင့် ရုတ်ခြည်း ကွယ်လွန်သွားနိုင်သည်။

အဆုတ်ရောင် တီဗီ သို့မဟုတ် အဆုတ်တျူဗာကယ် ပိုးစွဲနာကို ပျောက်အောင်ကုနိုင်သောဆေးကို ယခုတိုင်မတွေ့ရသေးချေ။ စထရက်ပတိုမိုင်ဆင်းနှင့် ပရိုမင်းတို့သည် ရောဂါကို အမြစ်ပြတ်အောင် မကုစွမ်းနိုင်သော်လည်း၊ တစိတ်တဝက်အားဖြင့်ကား ပျောက်ကင်းစေနိုင်သည်။ ကျန်းမာရေးနှင့် ညီညွတ်အောင်နေထိုင်ရေးကို အဓိကထား၍ ထိုရောဂါကိုကုစားခြင်းသည် ပို၍ခရီးရောက်စေနိုင်သည်။ ဤနည်းအရ လူနာကို အနား များများယူစေ၍၊ အာဟာရဖြစ်စေမည့်အစာကို ကျွေးရသည်။ လေကောင်းလေသန့်ရရာ အရပ်တွင် နေထိုင်စေ၍၊ လဲလျောင်းနေစေခြင်းသည် လူနာကို သက်သာရာရစေသည်။ အပူချိန် တညီတညာတည်းရှိ၍၊ နေရောင်ခြည်များစွာရရှိသည့် ခြောက်သွေ့သော ရာသီဥတုရှိရာဒေသသို့ ပြောင်းရွှေ့နေထိုင်ခြင်းဖြင့် လူနာသည် သက်သာရာရရှိကြောင်းကို တွေ့ရသည်။ ရောဂါကိုကုစားရာတွင် အချိန်ကြာသည့်ပြင်၊ လူနာများကလည်း ဆရာဝန်၏ ညွှန်ကြားချက်ကို လိုက်နာရန်လိုပေသည်။ လူနာ စိတ်ပျက်နေလျှင် ကုစားချိန်မှာ ပိုမိုကြာမြင့်သည့်ပြင် ရောဂါပျောက်ကင်းနိုင်ရန်လည်း ခဲယဉ်းသည်။ ထိုရောဂါသည် လူအရွယ်အမျိုးမျိုးတွင် ကျရောက်နိုင်သည်။ သို့သော် လူငယ်တို့တွင်ကျရောက်သောရောဂါသည် လူကြီးများ၌ ကျရောက်သောရောဂါထက် ပို၍ပြင်းထန်တတ်သည်။ မည်သို့ပင်ဖြစ်စေ ရောဂါ ရှိ မရှိကို မြန်မြန်စစ်ဆေးပြီးနောက် လျင်မြန်စွာ ကုသခြင်းသည် ရောဂါကို ပို၍ပျောက်လွယ်စေသည်။ အခြားကုနည်း တနည်းမှာ အဆုတ်တဖက်ကို မလှုပ်ရှားစေဘဲ၊ ရပ်နားခွင့် ပေးခြင်းဖြစ်သည်။ ရင်ပတ်နှင့် အဆုတ်ကြားသို့ လေသွင်းပေးခြင်းဖြင့် အဆုတ်ကို ဆိုင်ရာဝတ်တရားဆောင်ရွက်နေခြင်းမှ ရပ်စဲစေနိုင်သည်။ (အဆုတ် — လည်းရှု။) ထိုနည်းကို ရင်ခေါင်းလေသွင်းနည်းဟု ခေါ်သည်။ အဆုတ်ကိုရပ်နားစေသော အခြားတနည်းမှာ ဒိုင်ယာဖရမ်နှင့်ဆက်သွယ်နေသော ဖရင်းနစ် နဗ်ကြောကို ဖြတ်ပစ်ခြင်းဖြစ်သည်။

အိမ်တွင်မွေးမြူထားသော တိရစ္ဆာန်အားလုံးတွင် တီဗီ ရောဂါ စွဲကပ်နိုင်သည်။ ယင်းတို့တွင် ရောဂါစွဲကပ်ခြင်းကြောင့် တိရစ္ဆာန်ကောင်ရေများစွာ သေကြေပျက်စီးသွားနိုင်သည်သာမက၊ လူတို့၌လည်း အန္တရာယ်ဖြစ်စေနိုင်သည်။ အထူးသဖြင့် နို့အုံတွင် တျူဗာကယ်ပိုး စွဲကပ်နေသော နွား၏နို့ကိုမှီဝဲခြင်းဖြင့် လူအား ရောဂါကူးစက်နိုင်သည်။ အချိန်ကြာမြင့်စွာကပင် တျူဗာကယ် ဗက်ဆီလပ် စွဲကပ်နေသော နွား၏နို့သည် ထိုဗက်ဆီလပ်စွဲကပ်နေချိန်တွင် သာမန်နို့နှင့် ခွဲခြား၍မရနိုင်ဘဲ ရှိတတ်သည့်ပြင်၊ နို့အုံတစ်ရှူးများတွင်လည်း မည်သည့်ထူးခြားချက်ကိုမျှ မတွေ့ရဘဲရှိတတ်သည်။ ထိုရောဂါဖြစ်ရခြင်းမှာ မိုက်ကိုဗက်တီးရီးယမ်းတို့ကြောင့် ဖြစ်သည်။ လူစွဲ တျူဗာကယ်ကြောင့် လူတွင်သာမက ခွေး၊ ဝက်တို့တွင်လည်း တီဗီ ရောဂါဖြစ်နိုင်သည်။ သို့သော် ထိုတျူဗာကယ်ကြောင့် ကျွဲနွားတို့တွင်မူ အလွန်ဖြစ်ခဲသည်။ ကျွဲနွားစွဲ တျူဗာကယ်ကြောင့် လူ၊ ကျွဲနွား၊ မြင်း၊ ခွေး၊ ဝက်၊ ကြောင်တို့တွင် ရောဂါဖြစ်တတ်သည်ကို တွေ့ရသည်။ ငှက်စွဲ တျူဗာကယ်ကြောင့် ကြက်ငှက်တို့တွင် ရောဂါဖြစ်တတ်သော်လည်း၊ နို့တိုက်သတ္တဝါတို့တွင်မူ ပြောပလောက်အောင်ရောဂါဖြစ်သည်ကို မတွေ့ရချေ။

ကျွဲနွားတို့တွင် တီဗီ ရောဂါဖြစ်ခြင်းသည် လူတို့၏ ကျန်းမာရေးနှင့် ဆက်စပ်လျက်ရှိသဖြင့် အရေးကြီး လှသော ပြဿနာတရပ်ဖြစ်သည်။ ဂရိတ် ဗြိတိန်တွင် နို့စားနွားမ တရာလျှင် နွားမလေးဆယ်၌ ရောဂါရှိသည်ဟု ခန့်မှန်းရသည်။ ထိုနွားကောင်ရေ လေးဆယ်အနက် အချို့နွားမများတွင်သာလျှင် တျူဗာကယ် ဗက်ဆီလပ်များ စွဲကပ်နေမည်ဖြစ်သော်လည်း၊ အကယ်၍ ရောဂါပြန့်ပွားလာလျှင် ကျန်ရှိသောနွားမများတွင်လည်း တျူဗာကယ် ဗက်ဆီလပ်များ စွဲကပ်နိုင်ပေသည်။ တီဗီ ရောဂါကျရောက်သည့် နို့စားနွားမ ခြံထွက် ပစ္စည်းကို စားသုံးမိသောဝက်တို့တွင် အများအားဖြင့် တီဗီ ရောဂါဖြစ်တတ်သည့်ပြင်၊ တီဗီ ရောဂါဖြစ်နေသောလူတို့၏ ချွဲသလိပ်နှင့် တီဗီ ရောဂါစွဲကပ်နေသော ကြက်မတို့၏ အညစ်အကြေးကိုစားသုံးမိခြင်းကြောင့်လည်း ယင်းတို့တွင် ရောဂါဖြစ်နိုင်ကြောင်းကို တွေ့ရသည်။ မြင်း၌ တီဗီ ရောဂါစွဲကပ်သည်မှာ အနည်းအကျဉ်းမျှသာဖြစ်သည်။ ယင်းတို့၌ ဖြစ်ပေါ်တတ်သော တီဗီ ရောဂါမှာ နွားစွဲ တျူဗာကယ်ကြောင့်သာ ဖြစ်ပေါ်သည်ကများပေသည်။ တီဗီ ရောဂါစွဲကပ်နေသော နွားတို့၏ အညစ်အကြေးဖြင့် ပေကျံနေသည့် မြက်ကို စားသုံးခြင်းကြောင့် မြင်း၌ ရောဂါဖြစ်ရသည်။ ယင်းတို့တွင် များသောအားဖြင့် ကျောရိုး၌ တီဗီဖြစ်တတ်သည်။ ခွေးများတွင်မူ လူစွဲ သို့မဟုတ် ကျွဲနွားစွဲ တျူဗာကယ်ကြောင့် ရောဂါဖြစ်နိုင်သည်။ လူနာတို့၏ ချွဲသလိပ်နှင့် တီဗီ ရောဂါဖြစ်သည့် သက်ရှိတို့၏ အညစ်အကြေးဖြင့် ပေကျံနေသော အသားစိမ်းကို စားသောက်မိခြင်းကြောင့် ခွေးတွင် ရောဂါဖြစ်သည်ကိုကား တွေ့ရခဲသည်။ တျူဗာကယ်ပါရှိသောနို့ကို သောက်စားခြင်းကြောင့် ကြောင်တို့တွင် ရောဂါဖြစ်ကြောင်းကို တွေ့ရသည်။ ကြက်မအုပ်များတွင် တီဗီ ရောဂါကျရောက်သောအခါ၊ ယင်းတို့သည် ကြုံလှီလာကြပြီးလျှင် အသေအပျောက် များလာလေသည်။

တီဗီရောဂါ ရှိမရှိကို စောစောစမ်းသပ်ခြင်းသည် လူနာ



တျူဗာကယ်ပိုးစွဲနာခေါ် တီဗီရောဂါကိုကြိုတင်ကာကွယ်ရန် အိပ်စရေး ဓာတ်မှန်ရိုက်၍ စစ်ဆေးကြည့်ရှုသင့်ပေသည်။

အဖို့သာ ကောင်းသည်မဟုတ်၊ အခြားသူများသို့ ရောဂါကူး သက်မည့် အန္တရာယ်ကိုလည်း ကာကွယ်ရာရောက်ပေသည်။ အထူးသဖြင့် တီဗီ ရောဂါစွဲကပ်သည်ဟု ထင်ရသူသည် အစဉ်သဖြင့် မောပန်းနေလျှင် ဆရာဝန်နှင့် သေချာစွာ စမ်းသပ်သင့်သည်။ တီဗီ ရောဂါရှိသူ၏ ရင်ပတ်ကို အိပ်စရေးဖြင့် ရိုက်ကူးထားသောဓာတ်ပုံတွင် အဆုတ်၌ တျူဗာကူလပ် အစက်များကို တွေ့ရတတ်သည်။ တျူဗာကူလင် စမ်းသပ်နည်းဖြင့်လည်း တီဗီ ရောဂါကို စမ်းသပ်ကြည့်နိုင်၏။ အရေပြားတွင် တျူဗာကူလင် အနည်းငယ်ကို ထိုးသွင်းပေးလိုက်လျှင် ဆေးအထိုးခံရသူ၌ တီဗီ ရောဂါရှိနေလျှင် မကြာမီ အတွင်း ရောဂါကူးစက်သည့်နေရာတွင် သိသိသာသာ နီလာသည်ကို တွေ့ရသည်။

လူနာသည် ရောဂါစွဲကပ်ပြီးသည့်အခြေသို့ ရောက်နေလျှင် ထိုလူနာ၏ချွဲသလိပ်များကို ကျန်းမာရေးနည်းအရ သုတ်သင်ပစ်ရန်မှာ အရေးကြီးလှပေသည်။ လူနာအသုံးပြုသည့် ပစ္စည်း ဟူသမျှကို ပိုးသေအောင် ပြုတ်ပေးရသည်။ သို့မဟုတ် ဖျက်ဆီးပစ်ရသည်။ လူနာအသုံးပြုရန် ပစ္စည်းများ သီးခြားထားရှိရမည်သာမက၊ အိပ်ရာနေရာတို့တွင် တဦးတည်းခွဲ၍ အိပ်စေသင့်သည်။

ကလေးများကို ထိုရောဂါမကူးစက်စေရန် အထူးသတိပြုသင့်သည်။ တီဗီ ရောဂါ စွဲကပ်နေသူရှိသည့် အခန်းတွင်း၌ မည်သည့်ကလေးကိုမျှ မနေစေသင့်ချေ။ ကလေး သောက်စို့သည့်နို့ သည်လည်း ပိုးသတ်ပြီးဖြစ်စေရပေမည်။ ထိုပြင် နို့နှင့်လုပ်သည့် အခြားပစ္စည်းဟူသမျှကိုလည်း ပိုးသတ်ပြီး နို့နှင့်သာ ပြုလုပ်စေသင့်သည်။ တျူဗာကူလင် စမ်းသပ်နည်းနှင့်စမ်းသပ်ပြီး၍ ရောဂါကင်းစင်သည့် နွားမများမှ နို့ကိုသာ ကလေးများအား စားသုံးစေသင့်သည်။ ရောဂါပိုးများ ပါနိုင်သည့် ဖုံမှုန့် မကပ်ငြိစေရန် ကလေးများကို အထူးကာကွယ်ပေးသင့်သည်။ တီဗီ ရောဂါ စွဲကပ်သူ၏ နေအိမ်မှ ဖုံသည် အန္တရာယ် ဖြစ်စေနိုင်၏။ ထိုဖုံမှုန့်သည် လူကြီးများကိုပင် တီဗီ ရောဂါဖြစ်စေနိုင်သည်။ ကလေးများအဖို့၌မူကား ပို၍ဆိုးရွားလေသည်။ တီဗီ ရောဂါကို အကောင်းဆုံး ကာကွယ်နည်း တနည်းမှာ ရောဂါပိုးများကို ခုခံနိုင်အောင် ကိုယ်ခန္ဓာ ကျန်းမာသန်စွမ်းစေရန် ကြိုးစားခြင်းဖြစ်ပေသည်။

တီဗီ ရောဂါစွဲကပ်သည် မစွဲကပ်သည်ကို တျူဗာကူလင် စမ်းသပ်နည်းဖြင့် 'ခံနိုင်ရည်ရှိသူ' နှင့် 'ခံနိုင်ရည်မရှိသူ' တို့ကို ခွဲခြားသိနိုင်သည်။ 'ခံနိုင်ရည်ရှိသူ' ဆိုသည်မှာ ရောဂါကို ခုခံနိုင်စွမ်းရှိသူကို ဆိုလိုပေသည်။ 'ခံနိုင်ရည် မရှိသူ' များကိုသာ ဗီ၊ စီ၊ ဂျီ ထိုးဆေး ထိုးပေးရသည်။ ဗီ၊ စီ၊ ဂျီသည် တီဗီ ရောဂါကို ကာကွယ်ရာတွင် အလွန် ထက်မြက်သော ထိုးဆေးဖြစ်သည်။ ဗီ၊ စီ၊ ဂျီဟု အမည်တွင်ခြင်းမှာ ယင်းကိုတီထွင်သူ ပြင်သစ်လောကဓာတ်ပညာရှင်များ ဖြစ်ကြသော ကာလမက်နှင့်ဂေရင်တို့ကိုအစွဲပြု၍ မှည့်ခေါ်ခြင်းဖြစ်သည်။ ဗီ၊ စီ၊ ဂျီမှာ ဗက်ဆီလီ ကာလမက် ဂေရင် ကို အတိုကောက်ခေါ် ဆိုခြင်းဖြစ်သည်။

ဗီ၊ စီ၊ ဂျီ ထိုးဆေးကို ၁၉၂၄ ခုနှစ်တွင် ပြင်သစ်နိုင်ငံက စတင်တွေ့ရှိလေသည်။ ဗီ၊ စီ၊ ဂျီ ဆေးကို ထိုးရာတွင် ကိုယ်ခန္ဓာအရေပြားအတွင်းသို့ ဆေးထိုးအပ်ဖြင့် ထိုးသွင်းရသည်။ ကျောက်ဆေးထိုးသကဲ့သို့ သံခြစ်ဖြင့် ခြစ်၍လည်း ဗီ၊ စီ၊ ဂျီ ဆေး ထိုးပေးနိုင်သည်။ ဗီ၊ စီ၊ ဂျီ ဆေးသည် နွားစွဲ တျူဗာကယ်တို့ကို အာလူးနှင့် သည်းခြေဓာတ်ပါရှိသည့် အာဟာရဖြင့် မွေးမြူ၍၊ ဥပါဒ်ကင်းအောင် စီရင်ထားသော ဆေးဖြစ်သည်။ ဤဆေးနည်းကိုရရှိရန်အတွက် ၁၈ နှစ်တိုင်တိုင် ဆည်းပူးရှာဖွေခဲ့ရလေသည်။ ဗီ၊ စီ၊ ဂျီ ဆေးဖြင့် ထိုးသွင်းလိုက်သော တျူဗာကယ်များသည် ကိုယ်တွင်းသို့ ရောက်သွားသောအခါ ထိုတျူဗာကယ်များကို ခုခံနိုင်သည့် ကိုယ်တွင်းရှိ ကိုယ်ခံပိုးများသည် ပွားများလာကြသည်။ ထိုအခါ ရောဂါ ခုခံနိုင်စွမ်းမှာ ပို၍အားကောင်းလာလေသည်။ ဤနည်းသည် ကျောက်ဆေးထိုး၍ ကျောက်ရောဂါ ကာကွယ်နည်းနှင့် သဘောတမျိုးတည်းဖြစ်သည်။ ဗီ၊ စီ၊ ဂျီ

ဆေးတန်ခိုးသည် လူတယောက်တွင် ၂ နှစ်မှ ၇ နှစ်အထိ တည်နိုင်သည်ဟု အဆိုရှိသည်။ ဒိန်းမတ်နိုင်ငံတွင် ဗီ၊ စီ၊ ဂျီ ထိုးပြီးသောသူများကို ၄ နှစ်အကြာတွင် တျူဗာကူလင် စမ်းသပ်နည်းဖြင့် စစ်ဆေးကြည့်ရာ၌ ဗီ၊ စီ၊ ဂျီ ဆေးတန်ခိုး မပြယ်သေးကြောင်းကို တွေ့ရလေသည်။

တီဗီရောဂါ ကာကွယ်ရေးအတွက် ဗီ၊ စီ၊ ဂျီကို စတင်စမ်းသပ်ရာတွင် အိမ်၌ တီဗီရောဂါဖြစ်သော ကလေးသူငယ်များကိုသာ ပဌမဦးဆုံး ဆေးထိုးပေးလေသည်။ ထိုနောက်မှ လူထုအား ထိုဆေးကိုထိုးပေးသည်။ ၁၉၄၇ ခုနှစ်တွင် နော်ဝေး၊ ဆွီဒင်၊ လက်ပလန် စသော နိုင်ငံတို့၌ လူပေါင်းတသန်းမျှကို ဗီ၊ စီ၊ ဂျီ ဆေးဖြင့် တီဗီရောဂါ ကာကွယ်ပေးနိုင်ခဲ့သည်။ ၁၉၅၀ ပြည့်နှစ်တွင် ဥရောပတိုက်၊ အာဖရိကတိုက်၊ အာရှတိုက်နှင့်အမေရိကတိုက်ရှိ ကလေးသူငယ်ပေါင်း ၁၁ သန်းမျှကို တီဗီ ရောဂါ ကာကွယ်ပေးနိုင်ခဲ့လေသည်။

မြန်မာနိုင်ငံတွင် ကုလသမဂ္ဂအသင်းကြီး၏ သင်းခွဲဖြစ်သော ကမ္ဘာ့ကျန်းမာရေးအဖွဲ့ကြီးနှင့် ယူနီဆက်ခေါ် ကုလသမဂ္ဂ အပြည်ပြည်ဆိုင်ရာ ကလေးများ အရေးပေါ် ရံပုံငွေအဖွဲ့တို့က တီဗီ ရောဂါ မပြန့်ပွားရန်နှင့် တီဗီ ရောဂါ ပပျောက်ရေးအတွက် ၁၉၅၁ ခုနှစ်ခန့်ကပင် စတင်ဆောင်ရွက်လျက်ရှိသည်။ ထိုအဖွဲ့များထံမှ နိုင်ငံတော်အစိုးရသည် အကူအညီရယူကာ တီဗီ ရောဂါ စွဲကပ်သောလူနာများကို စမ်းသပ်ခြင်း၊ အိပ်စရေးရိုက်ခြင်း၊ ထိုးဆေး သောက်ဆေး ပေးခြင်း စသည်တို့ကို အခမဲ့ပြုလုပ်လျက်ရှိသည်။

ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရသည် မြန်မာနိုင်ငံ၌ တီဗီ ရောဂါ ပြဿနာ ကြီးကျယ်ကြောင်းကို သိရှိသည့်အားလျော်စွာ၊ ထိုရောဂါကို နှိမ်နင်းနိုင်သည့်အခြေသို့ ရောက်ရှိရန် ဆောင်ရွက်မည်ဟု ရည်ရွယ်ချက်ထားရှိပေသည်။ ထိုရည်ရွယ်ချက်ဖြင့် ပြဆိုပြီးသော အဖွဲ့များ၏ အကူအညီကို ယူကာ ရန်ကုန်မြို့ ပြည်သူ့ဆေးရုံကြီး၌ တီဗီ ဆေးပေးရုံကို ၁၉၅၁ ခုနှစ် ဇူလိုင်လ ၂၃ ရက်နေ့က စတင်ဖွင့်လှစ်ခဲ့သည်။ ထိုဆေးပေးရုံတွင် ၁၉၅၅ ခုနှစ်အထိ လူပေါင်း ၁၁၆,၇၁၀ ကို စမ်းသပ်ခဲ့ရာ၌၊ လူနာဟောင်းနှင့် လူနာသစ် နှစ်ရပ်ပေါင်း ၈၄၁၇ ယောက်တို့၌ တီဗီ ရောဂါ စွဲကပ်နေသည်ကို တွေ့ရှိခဲ့သည်။ နေ့စဉ်တက်ရောက်သော လူနာစာရင်းအရမှာ လူဦးရေပေါင်း ၃၂၁,၇၈၅ ယောက်ကို ဆေးဝါးပေးခဲ့သည်။ ထိုဆေးပေးရုံတွင် လူနာ ၂၅၀ ထားနိုင်သောနေရာရှိသည်။ ထိုပြင် ယင်းဆေးပေးရုံ၏ အခြားလုပ်ငန်းများမှာ အလုပ်ဝင်သူတို့အား တီဗီ ရောဂါ စမ်းသပ်ပေးခြင်း၊ လူနာများ၏ အိမ်သို့ အိမ်တိုင် ယာရောက် သွားရောက်၍ ရောဂါ မကူးစက်ရအောင် နည်းနာသွန်သင်ပေးခြင်း၊ ရောဂါ ရှိမရှိ စုံစမ်းပေးခြင်း စသည်တို့ဖြစ်လေသည်။

ထိုပြင်လည်း တီဗီ ရောဂါ ကာကွယ်ရေးအတွက် နိုင်ငံတော်အစိုးရသည် ဗီ၊ စီ၊ ဂျီ ဆေးထိုးအဖွဲ့များကို ဖွဲ့စည်း၍ နိုင်ငံတဝှန်းလုံးတွင် လူကြီး၊ လူငယ်၊ ကျောင်းသားသူငယ် မကျန် အခမဲ့ ဗီ၊ စီ၊ ဂျီ ဆေး ထိုးပေးလျက်ရှိသည်။ ဗီ၊ စီ၊ ဂျီ ဆေး ထိုးပေးသောလုပ်ငန်းကို ၁၉၅၁ ခုနှစ် ဒီဇင်ဘာလမှ စတင်၍ ဆောင်ရွက်ခဲ့ရာ ၁၉၅၅ ခုနှစ် အောက်တိုဘာလအထိ ဆိုလျှင် လူပေါင်း ၃၄,၄၁,၅၇၉ ယောက်ကို စမ်းသပ်ပေးပြီးလျှင် လူပေါင်း ၁၀,၅၈,၄၇၀ ကို ဆေးထိုးပေးနိုင်ခဲ့သည်။ ထိုလုပ်ငန်းကို မြန်မာပြည်မရှိ နယ်အသီးသီးတို့သို့သွားရောက်၍ ဆောင်ရွက်ပေးခဲ့လေသည်။ ထိုအဓိကလုပ်ငန်းအပြင်၊ ဗီ၊ စီ၊ ဂျီ ဆေးထိုးအဖွဲ့သည် ခရိုင်နယ်အသီးသီးသို့ သွားရောက်ကာ တီဗီ ရောဂါအကြောင်းကို လူထု သိနားလည်စေရန် ဟောပြောခြင်း၊ ကျန်းမာရေးနှင့်စပ်လျဉ်းသည့် ရုပ်ရှင်ကားများ ပြသခြင်း၊ လူထု၏ကျန်းမာရေးကို ထိခိုက်စေမည့် နေထိုင်စားသောက်ရေးနှင့် အလုပ်အကိုင်တို့ကို တိုးတက်ကောင်းမွန်လာအောင် စီမံပေးခြင်း စသည်တို့ကို ဆောင်ရွက်လျက်ရှိပေသည်။ ဆေးရုံနှင့် ဆေးပေးဌာနရှိသော ဒေသများ၌မူ ဗီ၊ စီ၊ ဂျီဆေး ထိုးပေးသည့်အပြင်၊ အိပ်စရေး ရိုက်ပေးခြင်း၊ လူနာများကို ကုသပေးခြင်း စသည့်လုပ်ငန်းကိုလည်း ဆောင်ရွက်ပေးလေသည်။

**တျူးနစ်ပြည်**။ ။တျူနစ်ဇီးယားနိုင်ငံ — ရှု။

**တျူးရင်းမြို့**။ ။တျူးရင်းမြို့သည် ဣတလီမြောက်ပိုင်း၊ ပိုးမြစ်ကမ်းပေါ်ရှိ မြို့ကြီးဖြစ်၍၊ ဣတာလျံလူမျိုးတို့ကမူ ယင်းမြို့ကို တိုရီနိုမြို့ဟုခေါ် သည်။

ပြင်သစ်နယ်စပ်နှင့် နီးကပ်စွာတည်ရှိသဖြင့်၊ တျူးရင်းမြို့သည် ကုန်သွယ်ရေးတွင် အရေးပါသော မြို့တမြို့ဖြစ်၏။ လူဦးရေ ၇၂၇,၀၀၀ ယောက်ခန့်ရှိ၍၊ ဣတလီ နိုင်ငံရှိ အကြီးဆုံးမြို့များတွင် စတုတ္ထမြို့ကြီးဖြစ်သည်။ ဥယျာဉ်ပန်းခြံတို့ဖြင့် မွန်းမံထားသည့်အလျောက် အထူးသာယာလှသည်။

ပညာရေးဆိုင်ရာ အဆောက်အအုံများစွာရှိကြသည့်တွင် စစ်ကျောင်းများ၊ ပြတိုက်များ၊ သိပ္ပံပညာလေ့လာရာဌာနများ၊ နက္ခတ်မျှော်စင်တိုက်ကြီးနှင့် တက္ကသိုလ်ကျောင်းတို့သည် ထင်ရှားကြ၏။ တျူးရင်းမြို့ တက္ကသိုလ်ကျောင်းကြီးကို ၁၄၀၄ ခုနှစ်ကတည်ထောင်ခဲ့၏။ တျူးရင်းမြို့ရှိ ပြတိုက်များတွင် သမိုင်းဝင် ရှေးဟောင်းပစ္စည်း အမျိုးအပြားကို သိမ်းဆည်းထားရှိ၍၊ ပန်းချီပြတိုက်ခန်းများတွင် ကမ္ဘာကျော် ပန်းချီဆရာကြီး ဗန်ဒိုက်နှင့် အခြားပန်းချီကျော်များဖြစ်သည့် မိုက်ကယ် အန်ဂျလို၊ ဒါဗင်ချီနှင့် ရက်ဖီအယ်တို့၏ လက်ရာများကို တွေ့မြင်နိုင်ပေသည်။

တျူးရင်းမြို့သည် ရှေးဟောင်း မြို့တမြို့ဖြစ်၍၊ သမိုင်းတွင်

ထင်ရှားခဲ့သည်။ ဘီစီ ၂၁၈ ခုနှစ်တွင် ကားသေ့ဂျစ်သူကြီး ဟန်နီဗောသည် အဲလပတောင်ကို ဆင်တပ်ကြီးနှင့်ဖြတ်ကျော်၍ တျူးရင်းမြို့ကို သိမ်းပိုက်ခဲ့ဘူး၏။ အော်ဂပ်စတပ် ဘုရင်လက်ထက်၌ ရောမလူမျိုးတို့သည် တျူးရင်းမြို့ပတ်လည်တွင် ၂၁ ပေမြင့်သည့် မြို့ရိုးတခုကို ဆောက်လုပ်ခဲ့ရာ၊ ထိုမြို့ရိုးကြီး၏ တစိတ်တဒေသမှာ ယခုတိုင်တည်ရှိနေသေးသည်။ ၁၄ ရာစုနှစ်အတွင်းတွင် တျူးရင်းမြို့သည် ပီးဒမွန့်နယ်၏ မြို့တော်ဖြစ်ခဲ့၏။ ထိုမှတဆင့် ဆာဒင်းနီးယား တိုင်းပြည်၏ မြို့တော်ဖြစ်လာပြီးလျှင်၊ မျက်မှောက်ခေတ်တွင် ဣတလီနိုင်ငံ ကြီးပွားထွန်းကားရေးအတွက် အချက်အခြာမြို့ ဖြစ်လာလေသည်။ ဤသို့ဖြင့် တျူးရင်းမြို့သည် ၁၈၆၀ ပြည့်နှစ်မှ ၁၈၆၅ ခုနှစ်အထိ ဣတလီဘုရင်မင်းမြတ်နိုင်ငံ၏ မြို့တော်ဖြစ်ခဲ့သည်။

မြို့၏အနီးအပါးတွင်ရှိသော တောင်ကျချောင်းများမှ ရေအားကိုအသုံးပြု၍ လျှပ်စစ်ဓာတ်အား ထုတ်ယူရရှိသဖြင့်၊ တျူးရင်းမြို့သည် စက်မှုလုပ်ငန်းတွင် အထူးတိုးတက်လျက်ရှိ၏။ မော်တော်ကား၊ လေယာဉ်ပျံနှင့် အခြား စက်ကရိယာများကို အများအပြား လုပ်ကိုင်သည့်ပြင်၊ ခြည်ထည်၊ ပိုးထည်၊ ကတ္တီပါထည်၊ ရေယွန်ပိုးထည်၊ သားရေထည်နှင့် ဓာတုဗေဒပစ္စည်းများကိုလည်း ထုတ်လုပ်ရောင်းချလေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ဂျာမန်နှင့်ဣတာလျံတို့သည် တျူးရင်းမြို့ကို လက်နက်ခဲယမ်းမီးကျောက် ထုတ်လုပ်ရာ အခြေခံစခန်းအဖြစ်ဖြင့် အသုံးပြုခဲ့ကြ၏။ ထို အတွက် မဟာမိတ်နိုင်ငံများက အပြင်းအထန် ဗုံးကြဲတိုက်ခိုက်ခဲ့လေသည်။ စက်ရုံများ၊ ရေနံချက်စက်များနှင့် တက္ကသိုလ်စာကြည့်တိုက်တို့မှာ များစွာပျက်စီး၍၊ ဘုရားရှိခိုးကျောင်းနှင့် ရှေးဟောင်း နန်းတော် အများအပြားလည်း ထိခိုက်ယိုယွင်းခဲ့လေသည်။

**တျူးလစ်ပန်းပင်။** ။တျူးလစ်ပန်းပင်သည် 'လစ်လီအေစီအီး' မျိုးရင်းဝင်ဖြစ်သည်။ ထိုပန်းပင်၏ မူရင်းပေါက်ရာဒေသမှာ ဥရောပတိုက်တောင်ပိုင်းနှင့် အာရှတိုက်တို့ဖြစ်သည်။ ယခုအခါ တျူးလစ်ပန်းပင်များကို အခြားတိုင်းပြည်များ၌လည်း စိုက်ပျိုးလျက်ရှိပေပြီ။ သို့ရာတွင် တျူးလစ် ပန်းပင်များကို အများဆုံးနှင့် အကောင်းဆုံး စိုက်ပျိုးသောတိုင်းပြည်မှာ ဟော်လန်နိုင်ငံဖြစ်သည်။ ထို့ကြောင့် တျူးလစ်ပန်းပင်နှင့် ဟော်လန်နိုင်ငံတို့မှာ လူတို့စိတ်တွင် အစဉ်တွဲလျက် သတိရရှိကြသည်။ မြန်မာနိုင်ငံ၌ပေါက်သော နှင်းပန်းကြီးသည် တျူးလစ်ပန်းမျိုးဖြစ်သည်။

တျူးလစ်၏ ပင်စည်နှင့်အရွက်တို့သည် သစ်ဥဟု ခေါ်နိုင်သော ဗဖ်အတက်များမှထွက်လာကြသည်။ ပင်စည်သည်



နွေဦးတွင်ဖူးပွင့်သည့် တျူးလစ်ပန်းပင်

အများအားဖြင့် နှစ်ပေကျော်ကျော်မြင့်သည်။ အချို့အပုမျိုးတွင် ပင်စည်သည် ၃ လက်မမျှသာမြင့်သည်။ အများအားဖြင့် ထိုပင်စည်၏ထိပ်တွင် ခေါင်းလောင်းပုံ ပန်းပွင့်ကြီး တပွင့်သာ ပွင့်တတ်သည်။ နွေကူးဥတုတွင် တျူးလစ် ပန်းပွင့်များ ပွင့်ကြသည်။

ပန်းပွင့်များတွင် ပွင့်ချပ်တခုတည်းဖြစ်စေ၊ တခုထက်ပို၍ဖြစ်စေ ရှိနိုင်သည်။ အများအားဖြင့် ပင်စည်ပေါ်တွင် ထောင်လျက်ပွင့်တတ်သည်။ ပန်းပွင့်သည် အရောင်အမျိုးမျိုး ရှိသည်။ အချို့ပန်းပွင့်များတွင် လှပသည့်အရောင်စင်းများ ပါရှိသည်။ ထိုသို့ဖြစ်ရခြင်းသည် အပင်ကိုမထိခိုက်စေဘဲ အရောင်ကိုသာ ပြောင်းလဲစေသည့် ဗိုင်းရပ်ရောဂါကြောင့် ဖြစ်သည်။

တျူးလစ်ပင်များကို အများအားဖြင့် ဆောင်းကူးဥတုတွင် ဗဖ် အတက်များမှ စိုက်ယူကြသည်။ မြေသြဇာ အသင့်အတင့်ကောင်းမွန်သည့် မြေဆီလွှာတွင် ဖြစ်ထွန်းနိုင်သည်။ ပန်းပွင့်ကို ရောင်းစားသူနှင့် စမ်းသပ်၍စိုက်ပျိုးသူများကသာ အများအားဖြင့် အစေ့မှစိုက်ယူကြသည်။ အစေ့မှစိုက်ပျိုးလျှင် အပွင့်ထွက်မည့် ဗဖ်အတက်သည် ၃ နှစ်မှ ၇ နှစ်တိုင်အောင် မထွက်ဘဲရှိတတ်သည်။

တျူးလစ်ပန်းပွင့် မျိုးစိတ်ပေါင်း ၄၀ ကျော်နှင့် မျိုးပြားပေါင်း အထောင်အသောင်းရှိသည်။ စိုက်ပျိုးယူသည့် တျူးလစ်အားလုံးလိုလိုသည် အာရှမိုင်းနားမှယူလာသည့် တျူးလစ်မှ မျိုးပွားယူကြသော ပန်းပင်မျိုးဖြစ်သည်။ တျူးလစ်ဆိုသည့်စကားသည် တူရကီစကားအရ ခေါင်းပေါင်းဟု အဓိပ္ပါယ်ရသည်။ လှပသည့် တျူးလစ်ပန်းပွင့်သည် ခေါင်းပေါင်းနှင့်ဆင်သဖြင့် ယင်းသို့ခေါ် ဆိုကြဟန်တူသည်။

ဥရောပတိုက်၌ တျူးလစ်ပန်းများကို တင်သွင်းစိုက်ပျိုးပြီးသည့်နောက် အင်္ဂလန်နှင့်ဟော်လန်နိုင်ငံတို့တွင် တျူးလစ်ပန်းကို အလွန်လူကြိုက်များလာလေသည်။ ယခုအခါ ဟော်လန်နိုင်ငံ၌ တျူးလစ်ပန်းပင်များကို အကြီးအကျယ် စိုက်ပျိုးလျက်ရှိပေသည်။ ဗဲလဂျီယမ်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတွင်လည်း အများအပြား စိုက်ပျိုးကြသည်။ ထိုမျိုးစိတ်သစ်များကို ဥရောပတိုက်သို့ တင်သွင်းယူဆောင်၍ တျူးလစ်မျိုးစုံကို ယခုအခါ ဥရောပတိုက်နှင့် အမေရိကတိုက်တို့တွင် စိုက်ပျိုးလျက်ရှိကြသည်။

**တျန်ဆင်မြို့**။ ။တျန်ဆင်မြို့သည် တရုပ်နိုင်ငံမြောက်ပိုင်းတွင် အကြီးဆုံးသော သင်္ဘောဆိပ်မြို့ဖြစ်သည်။ တရုပ်တနိုင်ငံလုံးတွင် ရှန်ဟိုင်းမြို့မှလွဲလျှင် အကြီးဆုံးသော သင်္ဘောဆိပ်မြို့လည်းဖြစ်၏။ ပဲဟိုးမြစ်နှင့် ဂရင်းတူးမြောင်းကြီးဆုံရာတွင် တည်ရှိလေသည်။ တျန်ဆင်မြို့ တည်ရှိရာ ပဲဟိုးမြစ်သည် ကွေ့ကောက်စွာ စီးဆင်းသွားရကား တျန်ဆင်မြို့မှ ပင်လယ်ကမ်းရိုးတန်းသို့ မြစ်လမ်းဖြင့် မိုင် ၇၀ ခန့်ဝေးသည်။ သို့သော် မီးရထားဖြင့်သွားသော် မိုင် ၃၀ မျှသာဝေးသည်။ ထို့ကြောင့် ပင်လယ်ကူးသင်္ဘောကြီးများသည် တျန်ဆင်မြို့သို့ ရောက်အောင် မဝင်နိုင်သော်လည်း၊ ထိုမြို့မှအရှေ့တောင်ဖက် ၄၅ မိုင်ဝေးသော ပဲဟိုးမြစ်ဝရှိ တာကူးမြို့ဆိပ်တွင် ဆိုက်ကပ်ကာ ကုန်များချရလေသည်။ တာကူးမြို့မှတဆင့် တျန်ဆင်မြို့သို့ယူဆောင်၍ ကုန်စည်များကို အရပ်ရပ်တို့သို့ ပို့ရ၏။ ဆောင်းအခါတွင် တာကူးမြို့ သင်္ဘောဆိပ်တွင် ရေများ ခဲနေသောအခါ၊ အရှေ့ဖက်ရှိ ချင်ဝမ်းတောင်မြို့တွင် သင်္ဘောများဆိုက်ကပ်၍ ထိုမြို့ကမှတဆင့် တျန်ဆင်မြို့သို့ ကုန်များကိုသယ်ယူလာရသည်။

ခရစ် ၁၈၆၀ ပြည့်နှစ်တွင် အင်္ဂလိပ်နှင့်ပြင်သစ်တို့သည် တျန်ဆင်မြို့ကိုသိမ်းပိုက်၍၊ တရုပ်အစိုးရထံမှ ကုန်သွယ်ခွင့်ကို တောင်းဆိုလေသည်။ ထိုသည့်အချိန်မှအစပြု၍ အင်္ဂလိပ်၊ ပြင်သစ်၊ အမေရိကန် စသော နိုင်ငံတို့အား တရုပ်အစိုးရက အထူးအခွင့်အရေး ပေးရလေရာ၊ တျန်ဆင်မြို့၌ အထူးအခွင့်အရေးရသူ နိုင်ငံခြားသားများရပ်ကွက်တို့သည် အချုပ်အချာ အာဏာပိုင်စနစ်ဖြင့် ပေါ်ထွန်းလာလေသည်။ ထို့နောက် တျန်ဆင်မြို့တွင် နိုင်ငံခြားသားများ တည်ထောင်အုပ်ချုပ်သော စက်ရုံ၊ အလုပ်ရုံများစွာတို့ ပေါ်ပေါက်လာလေသည်။ မြို့ကိုလည်း ရပ်ကွက်အလိုက် ခေတ်မီအောင် ကောင်းစွာပြုပြင်တည်ထောင်ခဲ့လေသည်။ သို့ရာတွင် တျန်ဆင်မြို့မှာ တရုပ်လူမျိုးများအဖို့ နိုင်ငံခြားချယ်လှယ်မှုကို အမှတ်တရဖြစ်စေသော မြို့ဖြစ်လေသည်။ ယခုအခါ တရုပ်ပြည်သူ့သမတနိုင်ငံကို တည်ထောင်လိုက်ပြီဖြစ်၍၊ ထိုမြို့ရှိ နိုင်ငံခြားသားတို့ အခွင့်အရေး အထူးယူရာရပ်ကွက်များကို တရုပ်ပြည်သူ့အစိုးရက ပြန်လည်သိမ်းယူပြီးဖြစ်လေသည်။

တျန်ဆင်မြို့သည် သင်္ဘောဆိပ်မြို့သာမကသေး၊ ကုန်ထုတ်လုပ်ရာမြို့လည်း ဖြစ်သည်။ ယခုအခါ အစိုးရပိုင် စက်မှုလက်မှုလုပ်ငန်း၊ အစိုးရနှင့်ပုဂ္ဂလိကဖက်စပ် စက်မှုလက်မှုလုပ်ငန်းတို့သည် ဈေးကထက်ပင် ထွန်းကားလျက်ရှိလာသည်။ ချည်စက်၊ အထည်စက်၊ ဆပ်ပြာစက်၊ အုတ်၊ အုတ်ကြွပ်၊ အင်္ဂတေစက်၊ စီးကရက်အလုပ်ရုံ၊ သားရေစက်ရုံ စသည်တို့သည် တျန်ဆင်မြို့၌ရှိသည်။ တျန်ဆင်မြို့တွင် ထင်ရှားသော တက္ကသိုလ်ကျောင်းကြီး နှစ်ခုရှိသည်။ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် ခန့်မှန်းခြေအရ ၁,၇၀၀,၀၀၀ မျှရှိသည်။

**တြိဂိုနိုမေတြီ**။ ။တြိဂိုနိုမေတြီ ဟူသော ဝေါဟာရသည် ဂရိဝေါဟာရဖြစ်သည်။ 'တြိဂိုနွန်' မှာ တြိဂံဖြစ်၍၊ 'မီထရွန်' မှာ တိုင်းတာခြင်းဟူသော အဓိပ္ပါယ်ရှိသည်။ ရှေးအခါက တြိဂိုနိုမေတြီသည် တြိဂံ၏အနားများနှင့် ထောင့်များကို တိုင်းသောပညာဖြစ်သည်ဟု ယူဆခဲ့ကြလေသည်။ ယခုအခါ တြိဂိုနိုမေတြီ၏အဓိပ္ပါယ်မှာ များစွာကျယ်ဝန်းလာပေသည်။ အဘယ်ကြောင့်ဆိုသော် တြိဂံရှိ ထောင့်များ အပြင် အခြားထောင့်အမျိုးမျိုးကို တိုင်းတာတွက်ချက်သောနည်းများနှင့် အက္ခရာသင်္ချာနည်းများသည်လည်း တြိဂိုနိုမေတြီတွင် အကျုံးဝင်သောကြောင့်တည်း။ သို့သော် တြိဂိုနိုမေတြီကို တြိဂံ၏ရေခါ၊ တြိဂံတို့၏အနားနှင့် ထောင့်များ တိုင်းတာရာ၌အဓိကအသုံးပြုသည်။

တြိဂံတခု၏ ထောင့်နှင့်အနား ဆက်သွယ်လျက်ရှိသည်ကို ပြသော တြိဂိုနိုမေတြီအချိုးများရှိသည်။ ထိုအချိုးများကို သိအောင် ထောင့်မှန် ခရှိသော △ ကခဂ ကို ကြည့်ရှု စဉ်းစားကြပေအံ့။ △ ကခဂ တွင် ကဂ သည် ထောင့်မှန်ခံအနားဖြစ်၍၊ ကခ နှင့် ခဂ သည် ∠ဂ၏မျက်နှာချင်းဆိုင်အနားနှင့် နီးစပ်နားအသီးသီးဖြစ်ကြသည်။ △ ကခဂ တွင် ရှိသော တြိဂိုနိုမေတြီအချိုးများမှာ၊ ဆိုင်း၊ ကိုဆိုင်း၊ ဆီးကင့်၊ ကိုဆီးကင့်၊ တန်းဂျင့်နှင့် ကိုတန်းဂျင့်တို့ ဖြစ်သည်။






$$\text{ဆိုင်း ဂ} = \frac{\text{မျက်နှာချင်းဆိုင်အနား}}{\text{ထောင့်မှန်ခံအနား}} = \frac{\text{ကခ}}{\text{ကဂ}}$$

(ဆိုင်း ဂ ဆိုသည်မှာ ထောင့် ဂ ၏ ဆိုင်းဟု အဓိပ္ပါယ်ရှိသည်။)

$$\text{ကိုဆိုင်း ဂ} = \frac{\text{နီးစပ်နား}}{\text{ထောင့်မှန်ခံအနား}} = \frac{\text{ဂခ}}{\text{ကဂ}}$$

$$\text{ဆီးကင့် ဂ} = \frac{\text{ထောင့်မှန်ခံအနား}}{\text{နီးစပ်နား}} = \frac{\text{ကဂ}}{\text{ဂခ}}$$

$$\text{ကိုဆီးကင့် ဂ} = \frac{\text{ထောင့်မှန်ခံအနား}}{\text{မျက်နှာချင်းဆိုင်အနား}} = \frac{\text{ကဂ}}{\text{ကခ}}$$

$$\text{တန်းဂျင့် ဂ} = \frac{\text{မျက်နှာချင်းဆိုင်အနား}}{\text{နီးစပ်နား}} = \frac{\text{ကခ}}{\text{ဂခ}}$$

$$\text{ကိုတန်းဂျင့် ဂ} = \frac{\text{နီးစပ်နား}}{\text{မျက်နှာချင်းဆိုင်အနား}} = \frac{\text{ဂခ}}{\text{ကခ}}$$

မြေတိုင်းရာတွင် တြိဂံအနားတခုနှင့် ထောင့်နှစ်ခုကိုသာ တိုင်းတာနိုင်၍၊ ကျန်သောအနားများနှင့် ထောင့်များကို ရုတ်တရက် မတိုင်းတာနိုင်သောအခက်အခဲများ ပေါ်ပေါက်လာတတ်သည်။ ထိုအခါမျိုးတွင် တြီဂိုနိုမေထြီ၏ ပုံသေတွက်နည်းများကိုအသုံးပြုကာ လိုသောအနားများနှင့် ထောင့်များကို လွယ်လင့်တကူ တွက်ချက်နိုင်ပေသည်။

အဆောက်အအုံများနှင့် အပင်တို့၏အမြင့်ကို တိုင်းတာလိုသောအခါ၊ အောက်တွင်ဖော်ပြသည့်နည်းဖြင့် အလွယ်တကူ တိုင်းတာနိုင်သည်။ ဥဒါဟရုဏ်အားဖြင့် ကျွန်ုပ်တို့သည် နာရီစင်ကဲ့သို့ အလွန်မြင့်သော အဆောက်အအုံ၏အမြင့်ကို တိုင်းတာလိုသည်ဟုဆိုလျှင်၊ နာရီစင်မှ ပေ ၁၀၀ ဝေးသောနေရာတွင် သီဩဒလိုက်တခုကိုထောင်၍ နာရီစဉ်၏ထိပ်ကိုတိုင်းယူပါ။ ဤထောင့်သည် ၃၀° နှင့်ညီမျှလျှင်

$$\text{တန်းဂျင့် ၃၀}^\circ = \frac{\text{မျက်နှာချင်းဆိုင်အနား}}{\text{နီးစပ်နား}}$$

$$= \frac{\text{နာရီစင်၏အမြင့်}}{\text{၁၀၀}'}$$

$$\therefore \text{နာရီစင်အမြင့်} = \text{၁၀၀} \times \text{တန်းဂျင့် ၃၀}^\circ\text{။}$$

တြီဂိုနိုမေထြီနှင့်စပ်လျဉ်းသည့် အချိုးများ၏တန်ဖိုးများကို ထောင့် ဒီဂရီနှင့် ဒီဂရီ၏ အစိတ်အပိုင်းများအထိ တွက်ပြီးလျှင် ဇယားများတွင် ဖော်ပြထားလေ့ရှိသဖြင့်၊ ကျွန်ုပ်တို့သည် ကိုယ်တိုင်တွက်ယူရန်မလိုတော့ချေ။ ဇယားတွင် တန်းဂျင့် ၃၀° ၏ တန်ဖိုးကိုရှာ၍ နာရီစင်၏ အမြင့်ကို အလွယ်တကူ တွက်ယူနိုင်ကြသည်။ တခါတရံ ကျွန်ုပ်တို့မှာ တြီဂိုနိုမေထြီ အချိုးများကို တခုနှင့်တခု မြှောက် ရ သော အခါရှိ၍၊ စားရသောအခါလည်းရှိသဖြင့်၊ တွက်ချက်ရာ၌ လွယ်ကူစိမ့်သောငှာ သင်္ချာပညာရှင်များက တြီဂိုနိုမေထြီ အချိုးများနှင့်ဆိုင်သော လော့ဂရစ်သမ်များ ဖော်ပြသော ဇယားကို ပြုလုပ်ခဲ့လေသည်။

**တွားသွားသတ္တဝါ**။ ။တွားသွားသတ္တဝါတွင် ကျောရိုးရှိ၍ သွေးအေးသောမျိုးပေါင်း တခုလုံးပါဝင်သည်။ ပမာအားဖြင့် မြွေသာမက ဖွတ်၊ ပုတတ်၊ မိကျောင်း စသည်တို့တည်း။ ထိုသတ္တဝါများသည် အဆုတ်များနှင့် အသက်ရှူကြသည်။ (ကျောရိုးရှိသတ္တဝါ — ရှု။) မျိုးပွားရာတွင် ဥများမှတဆင့် ပွားကြသည်။ အချို့သောတွားသွားသတ္တဝါတို့တွင် ဥများသည် မိခင်၏ဝမ်းတွင်း၌ ဥပေါက်ချိန်လောက်တိုင်အောင်ရှိနေတတ်ကြသည်။ တွားသွားသတ္တဝါ အမျိုးပေါင်း ၅၀၀၀ မျှရှိသည်။ တွားသွားသတ္တဝါတို့တွင် အရွယ်အမျိုးမျိုး၊ ပုံသဏ္ဌာန်အမျိုးမျိုး၊ အလေ့အကျင့် အမျိုးမျိုး ရှိကြသည်။ ထိုသို့ရှိရခြင်းမှာ ယင်းတို့၏မျိုးဆက်များသည် ရှေးနှစ် သန်းပေါင်းများစွာကပင် စတင်၍ အမျိုးမျိုး ပြောင်းလဲလာကြသောကြောင့်ဖြစ်သည်။ တိရစ္ဆာန်လောက၌ တွားသွားသတ္တဝါများ၏ အဆင့် အတန်းသည် ကုန်းရော ရေပါ နေသည့်သတ္တဝါ၊ (ဝါ) ကုန်းနေရေသတ္တဝါများနှင့် ငှက်များ၏အကြားတွင် တည်ရှိသည်။ သိပ္ပံပညာရှင်များက ငှက်များသည် ရှေးနှစ်ပေါင်း အသိန်းအသန်းက တွားသွားသတ္တဝါများမှ တိုးတက် ဖြစ်ထွန်းလာကြသည်ဟု ယုံကြည်ကြသည်။ ထိုစဉ်က တိရစ္ဆာန်များတွင် မင်းမူခဲ့ကြသော ဒိုင်နိုဆော အစရှိသော တွားသွားသတ္တဝါများသည် အလွန်ကြီးမားကြသည်။ (ဒိုင်နိုဆောကောင် — ရှု။) ထိုတွားသွားသတ္တဝါကြီးများကား ယခုအခါ ကွယ်ပျောက်ကုန်ကြပြီ။ ယခုခေတ်ရှိ တွားသွားသတ္တဝါများသည် ရှေး တွားသွားသတ္တဝါများထက် သေးငယ်ကြသည်။ ယခုခေတ်ရှိ တွားသွားသတ္တဝါများအနက် အကြီးဆုံးအကောင်တို့မှာ မိကျောင်းနှင့်စပါးကြီးမြွေများ ဖြစ်ကြသည်။ အချို့မိကျောင်းများသည် ၂၃ ပေရှည်၍၊ စပါးကြီးမြွေများသည် ပေ ၃၀ ထိရှည်ကြသည်။

တွားသွားသတ္တဝါများသည် ဖား၊ ဖားပြုပ် စသည့် ကုန်းနေ ရေသတ္တဝါနှင့် အချက်အများအပြားတွင် တူကြသည်။ (ဖား။ ဖားပြုပ် — ရှု။) ထိုသတ္တဝါ နှစ်မျိုးစလုံးသည် ကျောရိုးရှိ သွေးအေးသတ္တဝါများ ဖြစ်ကြသည်။ အဆုတ်၊ အရေပြားတို့နှင့်စပ်လျဉ်း၍သာ အထူးကွဲလွဲချက်များ ရှိကြသည်။ ကုန်းနေ ရေသတ္တဝါများသည် ငယ်စဉ်က ပါးဟက်များနှင့် အသက်ရှူကြ၏။ ကြီးပြင်းလာသောအခါ ထိုသတ္တဝါမျိုးအမြောက်အမြားတွင် အဆုတ်များဖြစ်ထွန်းလာကြသည်။ တွားသွားသတ္တဝါများကမူ တသက်တာလုံးတွင် အဆုတ်များနှင့်သာ အသက်ရှူကြသည်။ တွားသွားသတ္တဝါများတွင်ရှိသော အဆုတ်သည် ကုန်းနေ ရေသတ္တဝါများ၏ အဆုတ်ထက် ပိုမိုကောင်းမွန်သဖြင့်၊ တွားသွားသတ္တဝါများသည် နို့တိုက်သတ္တဝါများနှင့် ပို၍နီးစပ်ကြသည်။ ကုန်းနေရေသတ္တဝါတို့၏အရေပြားသည် ချောမွတ်၍ စေးထန်းထန်းရှိသည်။ ထိုအရေပြားမှ ရေသည် လွယ်ကူစွာ ခြောက်သွေ့သွားနိုင်သဖြင့် ကုန်းနေ ရေသတ္တဝါများကို ရေနှင့်ဝေးဝေးတွင် တာရှည်ထားလျှင် အရေပြားခြောက်၍ သေကုန်ကြပေမည်။ တွားသွားသတ္တဝါများတွင်မူ ကုန်းနေ ရေသတ္တဝါများမှာကဲ့သို့ အရေပြားကို စေးထန်းထန်းဖြစ်စေမည့် အထူးချွဲဂလင်းများ မရှိကြချေ။ ထိုကြောင့် ယင်းတို့၏အရေပြားသည် သွေ့ခြောက်သည်။ အကြေးခွံရှိသည့် တွားသွားသတ္တဝါများ၏အရေပြားကို ရေမထိုးဖောက်နိုင်ချေ။ ထိုကြောင့် ယင်းတို့သည် ကုန်းသက်သက်ပေါ်တွင် နေနိုင်ကြ၏။ ယခုလက်ရှိ တွားသွားသတ္တဝါများကို အဓိကအားဖြင့် လေးမျိုး ခွဲခြားနိုင်သည်။ ယင်းတို့မှာ (၁) ပင်လယ်လိပ် (၂) မိကျောင်းမျိုး (၃) ဖွတ်ပုတတ်မျိုးနှင့် မြွေများ (၄) နယူးဇီလန်ကျွန်းများတဝိုက်တွင် တွေ့ရှိရသော ဖွတ်ပုတတ်မျိုးနှင့်တူသည့် တူအားတားရားတို့ဖြစ်ကြသည်။

ပင်လယ်လိပ်နှင့်ကုန်းလိပ်တို့၏ ခန္ဓာကိုယ်တွင် အခွံမာအဖုံး ရှိသဖြင့် ယင်းတို့သည် အခြားတွားသွားသတ္တဝါများနှင့် ကွဲလွဲကြသည်။ ထိုအခွံမာအဖုံး အတွင်းသို့ ဦးခေါင်း၊ ခြေထောက်နှင့်အမြီးတို့ကို သွင်းနိုင်ကြသည်။ ယင်းတို့၌ သွားမရှိချေ။ မေးရိုးတွင် သွားကဲ့သို့မာ၍ ချွန်ထက်သော အစွန်းများရှိသည်။ ပင်လယ်လိပ်နှင့်ကုန်းလိပ်အားလုံးတို့သည် ဥ အုကြ၏။ ပင်လယ်လိပ်အမြောက်အမြားသည် ရေချို အင်းအိုင်များအနီးတွင် နေလေ့ရှိကြသည်။ အချို့တို့တွင် ဆူးတောင်နှင့်တူသော ခြေလက်အင်္ဂါများ သို့မဟုတ် ရေယက်များရှိ၍ ပင်လယ်တွင်း၌နေနိုင်ကြသည်။ ပင်လယ်လိပ်သည် ငါးနှင့် အခွံမာရေသတ္တဝါများကို စားသည်။ ကုန်းလိပ်သည် တီကောင်၊ အင်းဆက်ပိုး၊ ဟင်းသီး ဟင်းရွက်နှင့် အသီးအနှံများကိုစားသည်။

မိကျောင်း၊ မိကျောင်းခေါင်းတိုအပြင် ယင်းတို့နှင့်နီးစပ်သော သတ္တဝါများတွင် ရှည်သောကိုယ်ထည်နှင့် ခြေလက်အင်္ဂါ လေးခုရှိကြသည်။ ယင်းတို့၏ကိုယ်ခန္ဓာ၌ အကြေးခွံများ ဖုံးအုပ်လျက်ရှိသည်။ မိကျောင်းများသည် လွန်စွာဆင်တူကြသဖြင့် မိကျောင်းအကြောင်းကို ကျွမ်းကျင်သူများကသာ ခွဲခြားနိုင်ကြသည်။ မိကျောင်းနှစ်မျိုးစလုံး၌ မျက်စိနှင့် နှာခေါင်းပေါက်တို့သည် ဦးခေါင်း၏ ထိပ်ပိုင်းတွင် ရှိသည်။ ထိုကြောင့် ယင်းတို့သည် ရေထဲ၌ရှိနေစဉ် ဦးခေါင်း၏ထိပ်ပိုင်းမျှကိုသာ ဖော်ထားရုံဖြင့် မြင်နိုင်သည်။ အသက်ရှူနိုင်ကြသည်။ ရေကူးရာတွင် အမြီးကို အသုံးပြုကြသည်။ ရွေ့ရှားရန်အတွက်သာ ခြေထောက်များကို အသုံးပြုကြသည်။ အစာအဖြစ် အခြားတိရစ္ဆာန်များကို စားသည်။ မိကျောင်းနှစ်မျိုးစလုံးသည် ကြက်ဥသဏ္ဌာန်ရှိ အခွံမာဥများကို အုကြသည်။ ထိုဥများသည် အများအား



တွားသွားကောင်မျိုးတွင်ပါဝင်သော စပါးကြီးမြွေ

ဖြင့် နေ၏အပူရှိန်ကြောင့်၎င်း၊ ဆွေးမြည့်နေသော အပင်များ၏ အပူရှိန်ကြောင့်၎င်း အကောင်ပေါက်ကြသည်။ (မိကျောင်း။ မိကျောင်းခေါင်းတို — ရှု။)

ဖွတ်ပုတတ်မျိုးနှင့် မြွေများသည် တွားသွားသတ္တဝါမျိုးစဉ်တွင် ထိပ်တန်းအကျဆုံး သတ္တဝါများဖြစ်ကြသည်။ (ဖွတ်ပုတတ်မျိုး။ မြွေ — ရှု။) ဖွတ်ပုတတ်မျိုးတွင် အများအားဖြင့် ခြေလေးချောင်းနှင့် အမြီးတခုရှိကြသည်။ သို့သော် ခြေထောက်များမရှိသည့် ဖွတ်ပုတတ်မျိုးနှင့် မြွေတို့သည် မေးရိုးဖွဲ့စည်းပုံ၌သာ အဓိကအားဖြင့် ခြားနားကြသည်။ မြွေ၌ လှုပ်ရှားနိုင်သော နှုတ်ရိုးနှင့်မေးရိုး ရှိပြီး လျှာ ထက်၍ကောက်သော သွားများလည်းရှိသည်။ ထို့ကြောင့် အစာကိုမဝါးဘဲနှင့် မျိုချနိုင်သည်။ လှုပ်ရှားနိုင်သည့် နှုတ်ရိုးနှင့်မေးရိုးအပြင် ဖြန့်နိုင်သည့်အရေပြားလည်း ရှိခြင်းကြောင့် မြွေသည် မိမိလည်ပင်းထက်ကြီးသော တိရစ္ဆာန်ကိုပင် တကောင်လုံး မျိုချနိုင်လေသည်။

တွားသွားသတ္တဝါများသည် သွေးအေးသတ္တဝါများ ဖြစ်ကြသဖြင့် ယင်းတို့၏ကိုယ်အပူချိန်သည် ပတ်ဝန်းကျင်လေ၏ အပူချိန်လောက်ပင်ရှိသည်။ သမပိုင်းရာသီဥတုရှိသော အရပ်တွင်နေသည့် တွားသွားသတ္တဝါများသည် ဆောင်းဥတု၌ အများအားဖြင့် နက်ရှိုင်းသည့်ကျောက်ဆောင်များ၏ အကြား၌ဖြစ်စေ၊ မြေတွင်းများ၌ဖြစ်စေ အိပ်နေတတ်ကြသည်။ သမပိုင်းဇုန်အတွင်း၌နေသည့် တွားသွားသတ္တဝါများသည် ရေခဲသည့်အပူချိန်အမှတ်ထိ အေးသွားသော်လည်း၊ အသက်ရှင်၍နေနိုင်ကြသည်။ အပူပိုင်းဒေသရှိ တွားသွားသတ္တဝါအချို့သည် သွေ့ခြောက်သည့်ဥတုတွင် မြေတွင်းများတူး၍ အောင်းနေတတ်ကြသည်။ မိကျောင်းနှင့် မိကျောင်းခေါင်းတိုကဲ့သို့သော တွားသွားသတ္တဝါ အမြောက်အမြားသည် ဥများမှပေါက်ကြသည်။ အကောင်လိုက်ပေါက်သော တွားသွားသတ္တဝါများလည်းရှိရာ၊ ယင်းတို့တွင် အချို့သောမြွေမျိုးနှင့် အချို့သောဖွတ်ပုတတ်မျိုးတို့ ပါဝင်ကြသည်။ (တိရစ္ဆာန်လောက — ရှု။)

**တွယ်အပ်နှင့်ချိတ်များ။** ။တွယ်အပ်နှင့် ချိတ်များ မပေါ်မီခေတ်က လူတို့သည် အဝတ်အစားဝတ်ဆင်ရာ၌ တွယ်ချိတ်ရန်အတွက် အပင်မှရသောဆူးများကိုသာ အသုံးပြုခဲ့ရလေသည်။ ထိုမှတဖန် ဆူးများထက်ကောင်းမွန်သော ချွန်ထားသည့် ထုတ်ချောင်းလေးများကို အသုံးပြုလာကြပြန်သည်။ ကြေးညိုခေတ်က ပစ္စည်းဟောင်းများတွင် ကြေးညိုဖြင့် ပြုလုပ်ထားသော တွယ်အပ်များ ချိတ်များကို တွေ့ရသည်။ ၁၅ ရာစုနှစ်သို့ ရောက်သောအခါ တွယ်အပ်နှင့် ချိတ်အကောင်းစားများကို ကြေးဝါဖြင့် ပြုလုပ်လာကြ၏။ သံနန်းကြိုးများမှပြုလုပ်ထားသော တွယ်အပ်များလည်း ပေါ်ခဲ့လေသည်။ အင်္ဂလန်ပြည်တွင် ထိုစဉ်ကအသုံးပြုခဲ့ကြသော ချိတ်များ တွယ်အပ်များကို များသောအားဖြင့် ပြင်သစ်နိုင်ငံမှ တင်သွင်းရရှိခဲ့လေသည်။ ၁၆၂၆ ခုနှစ်၌ အင်္ဂလန်ပြည် ဂလောစတာရှိုင်ယာနယ်တွင် တွယ်အပ်နှင့်ချိတ်ကို အမြောက်အမြား စတင် လုပ်ကိုင်ပြီးနောက် အင်္ဂလန်ပြည် တွယ်အပ်လုပ်ငန်းသည် တဖြည်းဖြည်းတိုးတက်လာခဲ့သည်။ အမေရိကန် ပြည်ထောင်စု၌လည်း တွယ်အပ်နှင့် ချိတ်လုပ်စက်များ တခုပြီးတခု ပေါ်ပေါက်ခဲ့သော်လည်း၊ ၁၈၃၆ ခုနှစ်လောက်သို့ရောက်မှ အောင်မြင်စွာ ပြုလုပ်နိုင်ခဲ့လေသည်။ ခေတ်မှီ စက်မှုလုပ်ငန်းအခြေသို့ရောက်အောင် ပဌမဆုံး ပို့ပေးသူကား အမေရိကန်လူမျိုး လင်မျူယယ် ရိုက်ပင်ဖြစ်၍၊ သူသည် မိမိတီထွင်သော တွယ်အပ်နှင့် ချိတ်လုပ်စက်ကို ၁၈၂၄ ခုနှစ်တွင် အင်္ဂလန်ပြည်၌ မှတ်ပုံတင်ခဲ့လေသည်။ စက်မှုလက်မှုလုပ်ငန်းများ တိုးတက်လာ၍ ယခုခေတ်သုံး တွယ်အပ်နှင့်ချိတ်များကို ပြုလုပ်နိုင်လာသော်လည်း ပေါ်စအချိန်ကမူ အလွန်ရှားပါး အဖိုးကြီးလွန်းသဖြင့် ယခုအခါကဲ့သို့ လူအများမသုံးနိုင်ဘဲ၊ ချမ်းသာကြွယ်ဝသူများသာ အသုံးပြုနိုင်ခဲ့၏။

ခေတ်မှီတွယ်အပ်စက်တခုတွင် နန်းကြိုးကို စက်ထဲသို့သွင်း

လိုက်သည်မှစ၍ စက္ကူကပ်တွင် တွယ်ပြီးသားအနေနှင့် အပြင်သို့ ထွက်လာသည်အထိ စက်ဖြင့်သာ အလိုအလျောက် လုပ်ကိုင်ပြီးစီးလေသည်။ နန်းကြိုးအတွက် သံ၊ ကြေးဝါ၊ သံမဏိ တမျိုးမျိုးကိုသုံးကြသည်။ စက်တွင် နန်းကြိုးကို ရှေးဦးစွာ အနေတော်အရွယ်ဖြစ်အောင် ဖြတ်ပေးပြီးလျှင် တွယ်အပ်ခေါင်းဖြစ်အောင် ပုံရိုက်ပေးသည်။ ထိုနောက် အပ်အဖျားများကို ချွန်ပေးသည်။ ဤသို့ပြုလုပ်ပြီးသော အခါတွင် တွယ်အပ်များကို ခဲမဖြူရည်တွင် နာရီပေါင်း အတော်ကြာအောင် ပြုတ်ပေးခြင်းဖြင့် ခဲမဖြူရောင် တင်ပေးပြန်သည်။ ကြေးဝါမဟုတ်ဘဲ သံမှပြုလုပ်ထားသော အပ်များဖြစ်ပါက လျှပ်စစ်ဓါတ်ကူးနည်းဖြင့် ခဲမဖြူရောင်တင်ပေးရ၏။ ထိုအပ်များကို ဆေးကြောအခြောက်ခံပြီးသောအခါ အရောင်ထွက်လာစေရန် ဖွဲသို့မဟုတ် လွှစာ ထည့်ထားသော စည်များတွင်ထည့်၍ လှည့်ပေးပြန်သည်။ အသုံးပြုရန် အသင့်ဖြစ်သော အဆိုပါအပ်များကို စက်နှင့်ပင် တဖန် စက္ကူကပ်ကလေးများတွင် ထိုးစိုက်ပေးပြန်သည်။ ဤသို့ဖြင့် တွယ်အပ်လုပ်စက်တလုံးသည် တနာရီတွင် တွယ်အပ်ပေါင်း တသိန်းခန့်ကို ပြုလုပ်ပြီးစီးနိုင်လေသည်။

**တွင်းထွက်ပစ္စည်း။** ။ဤကမ္ဘာမြေကြီး၏မြေလွှာတွင် ကျောက်အမျိုးမျိုးတို့ ပါဝင်ကြသည်။ ထိုကျောက်အမျိုးမျိုးတို့သည် ခနိဇ (ဝါ) တွင်းထွက်ပစ္စည်းများကြောင့် ဖြစ်ပေါ်လာသည်။ ကျောက်တွင် တွင်းထွက်ပစ္စည်းတမျိုးတည်းသာ ပါဝင်သည်လည်းရှိ၏။ နှစ်မျိုးမက ပါဝင်သည်လည်းရှိ၏။ သဘာဝအလျောက် ပေါ်ပေါက်သော ဆားကျောက်များတွင် သိပ္ပံနည်းအရ ဆိုဒီယမ်ကလိုရိုက်ဟုခေါ်သော ဆားဓာတ်ချည်း သက်သက်ပါသည်။ ဂျစ်ပဆမ်ခေါ်ကျောက်၌ ကယ်လဆီယမ် ဆာလဖိတ်ဓာတ်ချည်း သက်သက်ပါသည်။ သို့ရာတွင် ဂရက်ဖိုက်ကျောက်၌မူကား လချေး၊ ဖဲလစပါး (စဉ့်ကျောက်တမျိုး) ဟူသော ပစ္စည်းသုံးခုတို့ ပါဝင်ကြသည်။ ဤကဲ့သို့ မြေလွှာရှိ ကျောက်အမျိုးမျိုးတို့ကို ဖန်တီးပေးသောပစ္စည်းတို့သည် တွင်းထွက်ပစ္စည်းများဖြစ်လေသည်။

တွင်းထွက်ပစ္စည်းတွင် ဒြပ်စင်အများ ပါဝင်သော်လည်း၊ ဓာတ်သဘောအရ ဒြပ်ပေါင်းများအဖြစ်ဖြင့် ပေါင်းစပ်နေသောကြောင့် ယင်းတို့ကို ထုချေခွဲစိတ်ရုံဖြင့် လွယ်ကူစွာ ခွဲထုတ်ရန် မဖြစ်နိုင်ချေ။ ရေနှင့်ပြဒါးမှလွဲလျှင် သဘာဝအလျောက် တွေ့ရသော တွင်းထွက်ပစ္စည်းမှန်သမျှကို အခဲအဖြစ်နှင့်သာ တွေ့ကြရသည်။ ကျောက်မီးသွေးသည် အလွန်ရှေးကျသောခေတ်က ပေါက်ရောက်ခဲ့သည့် သစ်ပင်များ၏ အကြွင်းအကျန်ဖြစ်၍ တွင်းထွက်ပစ္စည်းအစစ် မဟုတ်ချေ။ သို့သော် တွင်းထွက်ပစ္စည်းနည်းတူ ဖြစ်ပေါ်လာခြင်း၊ တွင်းထွက်ပစ္စည်း၏ ဂုဏ်အင်္ဂါများရှိခြင်းကြောင့် ယေဘုယျအားဖြင့် တွင်းထွက်ပစ္စည်းအနေနှင့်ပင် ယူဆထားကြသည်။



သတ္တုရောင်မဲ့သည့် ထုံးဂေါတ်ပုံဆောင်ခဲ

သိပ္ပံပညာရှင်တို့သည် ယနေ့အထိ တွင်းထွက်ပစ္စည်းအမျိုးပေါင်း ၂,၀၀၀ ကျော်မျှကို တွေ့ရှိခဲ့ကြလေပြီ။ ယင်းတို့အနက် အမျိုး ၂၀၀ ခန့်ကို ကျောက်များတွင် အတွေ့ရများ၍ အများဆုံးတွေ့ရသောပစ္စည်းများမှာ အမျိုး ၃၀ ခန့်ရှိသည်။ တွင်းထွက်ပစ္စည်းတို့သည် များသောအားဖြင့် ရှားပါး၍သော်၎င်း၊ အချို့မှာ လှပသောကြောင့်သော်၎င်း၊ အဖိုးတန်သည်။

ဒြပ်စင်အချို့ကို တွင်းထွက်ပစ္စည်းအနေနှင့် တွေ့ရတတ်၍၊ ထိုသို့တွေ့ရသောဒြပ်စင်များသည် ဓာတ်သဘောအားဖြင့် ထကြွမှုအနည်းဆုံးဖြစ်ကြသည်။ ပလက်တီနမ်၊ ကန့်၊ ကာဗွန်နှင့် ရွှေတို့မှာ အဆိုပါဒြပ်စင်မျိုးဖြစ်ကြ၏။ ဆိုဒီယမ်၊ ကယ်လဆီယမ်နှင့် ကလိုရင်းတို့ကဲ့သို့ ဓာတ်သဘောအားဖြင့် ထကြွသောဒြပ်စင်များကိုမူ ဒြပ်ပေါင်းများအဖြစ်ဖြင့်သာ အမြဲတမ်းတွေ့ရလေသည်။

ကမ္ဘာတွင် ဆီလီကွန် ဒြပ်ပေါင်းများပါဝင်သော တွင်းထွက်ပစ္စည်းကို အများဆုံးတွေ့ရသည်။ ဖဲလစပါး (စဉ့်ကျောက်တမျိုး) နှင့် လချေးတို့သည် ဆီလီကွန် ဒြပ်ပေါင်းများပါဝင်သော တွင်းထွက်ပစ္စည်းများဖြစ်ကြ၏။ ကာဗွန်ဒြပ်ပေါင်းများကိုလည်း အနှံ့အပြားတွေ့ရ၍၊ အတွေ့ရအများဆုံးမှာ ကယ်လဆိုက်ဟုခေါ်သော ကယ်လဆီယမ် ကာဗွန်နိတ်ဖြစ်သည်။ တွင်းထွက်ပစ္စည်း အသီးသီးတွင် အပေါများဆုံးပါဝင်သောဒြပ်စင်ကား အောက်ဆီဂျင်ဖြစ်၏။ ဟင်မတိုက်ဟုခေါ်သော တွင်းထွက်သံရိုင်းသည် သံနှင့် အောက်ဆီဂျင်တို့ပါဝင်သော ဒြပ်ပေါင်းဖြစ်၍၊ ဆီလီကာဟုခေါ်သော ကျောက်သလင်းမှာ ဆီလီကွန်နှင့်အောက်ဆီဂျင်တို့ ပေါင်းစပ်နေသော ဒြပ်ပေါင်းများ ဖြစ်ကြသည်။

## တွင်းထွက်ပစ္စည်းတို့၏ ထင်ရှားသောဂုဏ်များ

တွင်းထွက်ပစ္စည်း အသီးသီးတွင် သီးခြားထင်ရှားသော ဂုဏ်များရှိသည်။ ဥဒါဟရုဏ်အားဖြင့် ကျောက်သလင်းကို အမြဲတမ်း ပုံစံတမျိုးတည်းအနေနှင့်သာ တွေ့ရသည်။ မာ ကျောပုံ၊ သိပ်သည်းပုံ၊ တောက်ပပုံ၌၎င်း၊ အလင်းနှင့်အပူ တို့ကို ပို့ဆောင်ပေးရာ၌၎င်း၊ အမြဲပင် တပြေးညီညာရှိသည်။

တွင်းထွက်ပစ္စည်း၏ ဂုဏ်အင်္ဂါများသည် ပေါင်းစပ်ပါရှိသော ဒြပ်စင်များပေါ် တွင်တည်သည်။ တွင်းထွက်ပစ္စည်း ၏ ခရစ္စတယ်အတွင်းရှိ အက်တမ်တို့၏ဖွဲ့စည်းပုံ အနေ အထားပေါ် တွင်လည်း တည်သည်။ ဥဒါဟရုဏ်အားဖြင့် စိန် နှင့် ခဲတံတွင် ခဲဆန်ပြုလုပ်ထားသောခဲ (ဂရက်ဖိုက်) တို့ သည် နှစ်မျိုးစလုံး ကာဗွန်ချည်း ဖြစ်ကြသော်လည်း၊ စိန်မှာ အလွန်မာ၍၊ ခဲမှာ အလွန်ပျော့၏။ ခဲသည် မည်း၍ ချော ကျိကျိနေပြီးလျှင်၊ စိန်မှာ အလင်းပေါက်၍ အရောင် တောက်ပသည်။

တွင်းထွက်ပစ္စည်းတို့၏ အပျော့အမာကို တိုင်းတာရန် အ တွက် အပျော့ဆုံးဖြစ်သော ကန့်ကူမှ အမာဆုံးဖြစ်သော စိန် အထိ ပစ္စည်း ၁၀ မျိုးကို အမှတ် ၁ မှ ၁၀ အထိပေးကာ စံတင်ဇယားပြုလုပ်ထားသည်။ တွင်းထွက်ပစ္စည်းများကို ယင်းတို့၏သိပ်သည်းဆဖြင့်လည်း အမျိုးအစား ခွဲခြားနိုင်၍ အခြားနည်းများဖြင့်လည်း ခွဲခြားနိုင်သေးသည်။

## တွင်းထွက်ပစ္စည်းအမျိုးမျိုး

တွင်းထွက်ပစ္စည်းများကို သတ္တုရောင် ထွက်သောပစ္စည်း နှင့် သတ္တုရောင် မဲ့သောပစ္စည်းဟူ၍ နှစ်မျိုးခွဲခြားနိုင်သည်။



အလျူမီနီယမ်သတ္တု ထုတ်ယူရသည့် ဗောက်ဆိုက် တွင်းထွက်ပစ္စည်း

သတ္တုရောင်ထွက်သော တွင်းထွက်ပစ္စည်းသည် အလင်း ပိတ် ရှိတတ်သည်။ သတ္တုရောင်မဲ့သော တွင်းထွက်ပစ္စည်း သည် အလင်း ပေါက်တတ်ပြီးလျှင်၊ များသောအားဖြင့် ဖန် နှင့် ဆင်တူသည်။ သတ္တုရောင်ထွက်သော တွင်းထွက်ပစ္စည်း တို့သည် များသောအားဖြင့် လေး၍၊ ရွှေ၊ ငွေ၊ ခဲ၊ သံ၊ သံဖြူ နှင့် သွပ်တို့ကို ထိုပစ္စည်းမျိုးမှရရှိသည်။ သတ္တုရောင်မဲ့သော တွင်းထွက်ပစ္စည်းတို့သည် များသောအားဖြင့် ပေါ့၍၊ ကျောက်သလင်း၊ ကယ်လဆိုက်နှင့်ဖဲလစပါးတို့ ပါဝင်သည်။

## တွင်းထွက်ပစ္စည်းများ ဖြစ်ပေါ် လာပုံ

တွင်းထွက်ပစ္စည်းအားလုံးတို့သည် ရှေးဦးအခါက ရေတွင် ပျော်ဝင်နေသော ပျော်ဝင်ရည်အဖြစ်ဖြင့်၎င်း၊ အပူတိုက်၍ အရည်ကျိုထားသကဲ့သို့ ပျော်နေသော အရည်မျိုး အ ဖြစ်ဖြင့်၎င်း တည်ရှိခဲ့ကြရာမှ အောက်ပါနည်း သုံးနည်း အ နက် တနည်းနည်းဖြင့် အခဲဘဝသို့ရောက်လာကြသည်ဟု ယူ ဆရသည်။ ပဌမနည်းမှာ ဆားပြည့်ဝ ပျော်ဝင်ရည်မှ ဆား ပွင့်များဖြစ်ပေါ် လာနိုင်သကဲ့သို့ ရှေးက ပင်လယ်သမုဒ္ဒရာ၊ အင်းအိုင်များတွင် တွင်းထွက်ပစ္စည်းများ ပျော်ဝင်လျက်ရှိ သော ပျော်ဝင်ရည်တို့သည် တဖြည်းဖြည်း ခန်းခြောက်လာ ရာမှ ပျော်ဝင်နေသောပစ္စည်းများသည် တဖြည်းဖြည်း ခရစ္စတယ်ပွင့်များဖြစ်လာကြသည်။ တွင်းထွက်ဆိုဒါ၊ လက် ချားနှင့် သိန္ဓောဆား စသည်တို့မှာ ထိုနည်းအတိုင်းဖြစ်ပေါ် လာသော တွင်းထွက်ပစ္စည်းများဖြစ်ကြသည်။ သဘာဝ အ လျောက် ဆားပျော်ဝင်ရည်များတည်ရှိရာတို့အနက် အရေး အကြီးဆုံးမှာ ပင်လယ်သမုဒ္ဒရာဖြစ်၏။

တခါတရံ တွင်းထွက်ပစ္စည်းများ ပျော်ဝင်နေသော ရေသည် ရေပူစမ်းရှိရေကဲ့သို့ အလွန်ပူသည်။ ကာလကြာ ညောင်းသော်၊ ထိုရေသည် တဖြည်းဖြည်း အေးလာသော ကြောင့် ဖြစ်စေ၊ အငွေ့ပျံသွားသောကြောင့် ဖြစ်စေ၊ ပျော် ဝင်နေသောပစ္စည်းတို့သည် အနည်ထိုင်၍ အခဲအဖြစ်ဖြင့် ပေါ် ပေါက်လာကြသည်။ ဤနည်းဖြင့် မြေအောက်တွင် ကျောက်သလင်း၊ ကယ်လဆိုက်၊ ဂျပ်ပဆမ်နှင့် ရွှေ စသည် တို့ ပါဝင်သော အကြောများ ဖြစ်ထွန်းလာခဲ့ကြသည်။

ဒုတိယနည်းမှာ အငွေ့ဘဝမှ အခဲဘဝသို့ ပေါင်းစုဖြစ်ပေါ် လာခြင်းဖြစ်သည်။ တွင်းထွက်ပစ္စည်းအချို့သည် မြေ အောက်၌ ရှေးအခါက ဓာတ်ငွေ့အဖြစ်ဖြင့် တည်ရှိခဲ့ကြဟန် တူသည်။ ထိုနောက် အဆိုပါ အငွေ့တို့သည် တနည်းနည်း အားဖြင့် မြေမျက်နှာပြင်သို့ လွတ်မြောက်ထွက်လာကြရာမှ အေးလာ၍ စုခဲသွားကြသည်။ ကန့်မှာ ဤကဲ့သို့ စုခဲ ဖြစ် ပေါ် လာသော တွင်းထွက်ပစ္စည်းတမျိုးဖြစ်သည်။

အချို့တွင်းထွက်ပစ္စည်းများသည် အလွန်ကြီးမားသော အပူရှိန်ကြောင့် အရည်ပျော်နေရာမှ ခရစ္စတယ်အခဲများ



တွင်းထွက်ပစ္စည်းတူးဖော်ရာ၌ ရေအားဖြင့်မှုတ်၍ ထုခွဲစုဆောင်းရသည်။

ဖြစ်လာကြသည်။ ဤအရည်မျိုးသည် ရုတ်တရက်အေး၍ ခဲသွားလျှင် ချော်တုံး ချော်ခဲ့ကဲ့သို့ အစိုင်အခဲဖြစ်သွား၏။ သို့သော် တဖြည်းဖြည်းအေး၍ ခဲသွားပါမူ ဆားပျော်ဝင်ရည်မှ ဆားပွင့်များ ပေါ်ထွက်လာသကဲ့သို့ ပျော်ဝင်နေသောပစ္စည်းများသည် ခရစ္စတယ်များအဖြစ်ဖြင့် သီးခြားဖြစ်ထွန်းလာကြသည်။ ကျောက်သလင်းနှင့်ဖဲလစပါးတို့မှာ ဤတတိယနည်းဖြင့် ဖြစ်ပေါ်လာခဲ့ကြသော တွင်းထွက်ပစ္စည်းတို့၏ သာဓကပင် ဖြစ်ကြသည်။

### တွင်းထွက်ပစ္စည်းတို့၏ အရေးကြီးပုံ

ကျောက်မီးသွေးနှင့်ရေနံသည် အထက်ကဖော်ပြခဲ့သည့်အတိုင်း၊ စင်စစ်အားဖြင့် တွင်းထွက်ပစ္စည်းများ မဟုတ်ကြသော်လည်း၊ သာမန်အားဖြင့် တွင်းထွက်ပစ္စည်းဟုပင် ယူဆထားကြသည်။ (ကျောက်မီးသွေး။ ရေနံ — လည်းရှု။) ဤပစ္စည်းနှစ်မျိုးသည် ကမ္ဘာတွင် အရေးကြီးဆုံး လောင်စာများဖြစ်သည်။ လူတို့သည် ရေ၏လှုပ်ရှားမှုမှ လျှပ်စစ်ဓာတ်စွမ်းအင်ကို ထုတ်ယူရရှိသည်။ ထိုနည်းတူ ယခုခေတ်လုပ်ငန်းများအတွက် မရှိလျှင်မဖြစ်လောက်အောင် အသုံးဝင်သော သတ္တုမဟုတ်သည့် တွင်းထွက်ပစ္စည်းများကိုလည်း မြေအောက်မှ တူးဖော်ရရှိလေသည်။

တွင်းထွက်ပစ္စည်း အသီးသီး၏ကျေးဇူးကြောင့် ကျွန်ုပ်တို့သည် အက်ဆစ်၊ မြေသြဇာ စသည်တို့နှင့်တကွ ဓာတ်ဆားအမျိုးမျိုးကို ဖော်စပ်နိုင်ကြသည်။ ဖန်ထည်၊ ကြွေထည်၊ အိုးခွက်နှင့် အုတ်အမျိုးမျိုးကိုလည်း ပြုလုပ်နိုင်ကြသည်။ အရောင်ဆေးအမျိုးမျိုးနှင့် ခဲတံ၊ မင်တံစသော စာရေးကရိယာအမျိုးမျိုးကို ဖန်တီးနိုင်ကြသည်။ စက်ဘီး၊ မော်တော်ကား၊ သင်္ဘော၊ လေယာဉ်ပျံ၊ ကြေးနန်း၊ ဓာတ်ပုံ၊ ရေဒီယို၊ တယ်လီဗစ်ရှင်းမှစ၍ စက်အမျိုးမျိုး၊ ယာဉ်အမျိုးမျိုး၊ အသုံးအဆောင် အမျိုးမျိုးကိုလည်း တည်ဆောက်နိုင်ကြသည်။ တနည်းအားဖြင့်ဆိုလျှင် တွင်းထွက်ပစ္စည်းများသာ မရှိပါက ကျွန်ုပ်တို့သည် များပြားလှစွာသော နေ့စဉ်အသုံးအဆောင် ပစ္စည်းကရိယာများကို ပြုလုပ်ဖန်တီးနိုင်ကြမည်မဟုတ်သဖြင့် ကျွန်ုပ်တို့၏လက်ရှိအခြေအနေသည်လည်း ယခုလောက် တိုးတက်နိုင်လာစရာ အကြောင်းမရှိချေ။ (ဓာတုဗေဒ။ ဘူမိဗေဒ— လည်းရှု။)

**တွင်းထွက်ပစ္စည်းပညာ။** ။တွင်းထွက်ပစ္စည်းပညာသည် တွင်းထွက်ပစ္စည်းတို့၏ ဓာတ်သဘာဝ ဖွဲ့စည်းနေပုံနှင့် ယင်းတို့၏ သိပ်သည်းဆ၊ အပျော့အမာ၊ အရောင်အဆင်း စသော ရုပ်ဂုဏ်များအပြင်၊ ယင်းတို့၏အသုံးဝင်ပုံများကို လေ့လာသည့် သိပ္ပံပညာရပ်ဖြစ်သည်။

တွင်းထွက်ပစ္စည်းများသည် သဘာဝအလျောက်တည်ရှိ

သော အင်ဩဂဲနစ်ပစ္စည်းများဖြစ်ကြ၍၊ ဓာတ်သဘာဝ ဖွဲ့စည်းပုံ တိကျစွာရှိသော ပစ္စည်းများဖြစ်ကြသည်။ ဒြပ်စင်အဖြစ်ဖြင့် တွေ့ရှိရသော်လည်း၊ များသောအားဖြင့် ဒြပ်ပေါင်းအနေနှင့် တည်ရှိတတ်ကြသည်။ အချို့မှာ တိကျသောပုံသဏ္ဍာန်ရှိသည့် ပွင့်ပုံရှိ ပစ္စည်းများအဖြစ်ဖြင့် သော်၎င်း၊ ပွင့်ပုံမဲ့ ပစ္စည်းများအဖြစ်ဖြင့် သော်၎င်း အဖြစ်နှစ်မျိုးဖြင့် တည်ရှိနိုင်သည်။ အချို့မှာမူ ပွင့်ပုံမဲ့ ပစ္စည်းများအဖြစ်ဖြင့်သာ တည်ရှိနိုင်ပေသည်။ တွင်းထွက်ပစ္စည်းများကို လေ့လာရာတွင် များသောအားဖြင့် အပြင်သဏ္ဍာန်သည် အရေးမကြီးလှချေ။ ယင်းတို့၏ ဓာတ်ဖွဲ့စည်းပုံနှင့် ခရစ္စတယ်ပွင့်ပုံတို့သာလျှင် သိပ္ပံသဘောအားဖြင့် ပိုမိုအရေးကြီးပေသည်။

တွင်းထွက်ပစ္စည်းများတွင် ပစ္စည်းတမျိုးတည်းပါဝင်သော တွင်းထွက်ပစ္စည်းရိုးရိုးမျိုးလည်းရှိ၍၊ တမျိုးမက ရောနှောပါဝင်နေသည့် ပစ္စည်းမျိုးလည်းရှိသည်။ ဥဒါဟရုဏ်အားဖြင့် ကေအိုလင်ခေါ် ကြွေလုပ် မြေစေးဖြူနှင့် ကျောက်သလင်းများမှာ ပစ္စည်းတမျိုးတည်းပါသော တွင်းထွက်ပစ္စည်းဖြစ်၍၊ နှမ်းဖတ်ကျောက်မှာမူ ပစ္စည်းမျိုးပေါင်း များစွာပါဝင်သော တွင်းထွက်ပစ္စည်းဖြစ်သည်။ (ကျောက်သလင်း။ နှမ်းဖတ်ကျောက် — ရှု။)

တွင်းထွက်ပစ္စည်းများကို အမျိုးအစားခွဲခြားရာ၌ ဓာတ်သဘာဝနှင့် ရုပ်ဂုဏ်များအရ ခွဲခြားကြသည့်အနက် မာကျောမှုအလိုက် ခွဲခြားနည်းမှာ အသုံးအဝင်ဆုံးဖြစ်သည်။ ထိုနည်းတွင် ပစ္စည်းချင်းနှိုင်းရှည့်ရန်အတွက် တွင်းထွက်ပစ္စည်း ၁၀ မျိုးကို အမာဆုံးမှ အပျော့ဆုံးအထိ အောက်ပါအတိုင်း ခွဲခြားကာ စံတင်ထားသည်။ အမာဆုံးမှာ စိန်ဖြစ်၍၊ ကန့်ကူကို အပျော့ဆုံးထားသော်၊ မာကျောမှု အဆင့်အတန်းအတွက် စိန်ကိုအမှတ် ၁၀ ပေးထား၍ ကန့်ကူကို အမှတ် ၁ ပေးထားသည်။ (ကန့်ကူ။ စိန် — ရှု။) ဤသို့အားဖြင့် အမာဆုံးမှ အပျော့ဆုံးအထိ စံတင်အမှတ် ပေးထားပုံမှာစိန် ၁၀၊ ကုရုန္ဒ ၉၊ တိုပက်ခေါ် ဥဿဖယား ၈၊ ကွတ်ခေါ် ကျောက်သလင်း ၇၊ ဩသိုကလေ့ ၆၊ အက်ပတိုက်ခေါ် နဂါးသွဲ့ ၅၊ ဖလူအော်စပါး ၄၊ ကယ်လဆိုက် ၃၊ ဂျစ်ပဆမ် ၂၊ ကန့်ကူ ၁ ဖြစ်လေသည်။

တွင်းထွက်ပစ္စည်းများသည် ပစ္စည်းရိုင်းများဖြစ်သည်။ ထိုပစ္စည်းရိုင်းများမှ သိပ္ပံနည်းဖြင့် သတ္တုအမျိုးမျိုးကို၎င်း၊ ဩဂဲနစ် ဓာတ်ပစ္စည်းများမှလွဲ၍ အခြားသော အင်ဩဂဲနစ် ဓာတ်ပစ္စည်းများ၊ ဓာတ်ဆားများနှင့် အက်ဆစ်များကို၎င်း၊ ကျောက်မီးသွေး၊ ရေနံ၊ သဘာဝဓာတ်ငွေ့စသော တွင်းထွက်လောင်စာများကို၎င်း၊ အမြတ်တနိုး တန်ဖိုးထား၍ ဆင်မြန်းကြသော ကျောက်မျက်ရတနာများကို၎င်း၊ ဖန်၊ ကြွေ၊ မီးခံမြေအုတ် စသည်တို့ကို၎င်း၊ အရောင်ဆေးများနှင့် ကျောက်တံ၊ ခဲတံစသော စာရေးပစ္စည်းများကို၎င်း၊ မြေဩဇာအဖြစ် အသုံးပြုရသော ပိုတက်နှင့် နိုက်ထရိတ်များကို၎င်း ထုတ်ယူနိုင်ပေသည်။ (တွင်းထွက်ပစ္စည်း — လည်းရှု။)

**တွန်ဂါကျွန်းစု**။ ။တွန်ဂါကျွန်းစုသည် ဟိုးနိုလူးလူးကျွန်း၏ အနောက်တောင်ဖက် မိုင်ပေါင်း ၃၀၀၀ အကွာ တောင်ပင်လယ်ဒေသတွင် တည်ရှိသည်။ ကျွန်းငယ်ပေါင်း ၁၅၀ ခန့်ပါဝင်သည်။ ထိုကျွန်းငယ်တို့ကို အစုသုံးစု ခွဲခြားထားသည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၃၉၀ ခန့် ကျယ်ဝန်းသည်။ ထိုကျွန်း၏လူဦးရေမှာ ဥရောပအမျိုးအနွယ် ၃၀၀ ကျော်ခန့်အပါအဝင် လူပေါင်း ၃၀,၀၀၀ ကျော်ခန့်ရှိသည်။ တိုင်းရင်းသားတို့သည် များသောအားဖြင့် ရုပ်ဆင်းအင်္ဂါသင့်တင့်၍၊ လျှင်မြန်သော ပဋိဘာန်နှင့် ပြည့်စုံကြသည်။ အေးချမ်းပျော်ရွှင်စွာ နေတတ်သောလူမျိုးများဖြစ်ကြ၍၊ ယင်းတို့နေထိုင်ရာကျွန်းစုကို 'မိတ်ဆွေကျွန်းစု' ဟူ၍ပင် ဥပစာစကားဖြင့် ခေါ်ဆိုလေ့ရှိကြသည်။ အုန်း၊ ငှက်ပျော၊ ကန်စွန်းဥ၊ နာနတ်ပေါများသည်။ ထိုကြောင့် နိုင်ငံခြားသို့တင်ပို့သော ကုန်များတွင် ငှက်ပျောသီးနှင့် အုန်းဆံတို့သည် အဓိက ဖြစ်လေသည်။ တွန်ဂါကျွန်းကို ခရစ် ၁၆၁၆ ခုနှစ်ခန့်တွင် ဒပ်ချလူမျိုးတဦးက တွေ့ရှိခဲ့သည်။ အင်္ဂလိပ်လူမျိုး ကက်ပတိန် ကွတ်သည် ၁၇၇၃ ခုနှစ်တွင် တကြိမ်၊ ၁၇၇၇ ခုနှစ်တွင် တကြိမ် တွန်ဂါကျွန်းသို့ရောက်ခဲ့သည်။ (ကွတ်, ကက်ပတိန် — ရှု။) တွန်ဂါကျွန်းကို ဗြိတိသျှတို့က ၁၉၀၀ ပြည့်နှစ်ကစ၍ အစောင့်အရှောက်ခံနယ်အဖြစ်ဖြင့် သိမ်းပိုက်သည်။ သို့ရာတွင် တွန်ဂါကျွန်းစု၌ တိုင်းရင်းသားတို့၏ ပါလီမန်နှင့်ဝန်ကြီးများအဖွဲ့တို့က လွတ်လပ်စွာအုပ်ချုပ်သည်။ အုပ်ချုပ်ပုံ စံနစ်မှာ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအတွင်း၌တည်သော ဘုရင်စံနစ်ဖြစ်သည်။ ယခုစိုးမိုးလျက်ရှိသောသူမှာ တွန်ဂါဘုရင်မဖြစ်သည်။

**တို့င်း, မတ်** (ခရစ် ၁၇၃၅–၁၈၁၀)။ ။မတ်တို့င်းသည် ကမ္ဘာကျော်အမေရိကန်လူမျိုး ဟာသစာရေးဆရာကြီး ဆယ်မျူယယ် လန်ဟွန်း ကလဲမန်း၏ ကလောင်အမည်ဖြစ်၍ ယင်းအမည်ဖြင့်ပင် ထင် ရှားသည်။ ၁၇၃၅ ခုနှစ်နိုဝင်ဘာလ ၃၀ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စု မိဇူးရီပြည်နယ် ဖလော်ရီဒါမြို့၌ ဖွားမြင်၏။ သူ့ကိုဖွားမြင်ပြီး၍ မကြာမီ၊ မတ်တို့င်းသည် မိဖများ ပြောင်းရွှေ့နေထိုင်ရာ မစ်စစ်စပီမြစ်ဝှမ်းရှိ ဟန္နီဗောမြို့တွင် ကြီးပြင်းခဲ့ရလေသည်။ ထိုမြို့၌ပင် ပုံနှိပ်ပညာ၊ ရေကြောင်းပြပညာနှင့်စာပေများကို လေ့လာဆည်းပူး၏။ မစ်စစ်စပီမြစ်ရိုးတလျှောက်တွင် ရေ



အမေရိကန် ဟာသစာရေးဆရာကြီး မတ် တွိန်း

ကြောင်းပြအဖြစ် အမှုထမ်းနေခိုက်၊ စာပေရေးသားရန် ဗဟုသုတများ ရရှိခဲ့သည်။ အမေရိကန် ပြည်တွင်းစစ် ဖြစ်ပွားစဉ်က မတ်တွိန်းသည် နီဗားဒသတ္တုတွင်းများတွင် အလုပ်လုပ်ကိုင်ခြင်းဖြင့်၎င်း၊ ကာလီဖိုးနီးယားပြည်နယ်တွင် သတင်းထောက်နှင့်စာတည်းအဖြစ်ဖြင့်၎င်း အသက်မွေးခဲ့လေသည်။

မတ်တွိန်းသည် ၁၈၆၆ ခုနှစ် ဟာဝိုင်းယန်းကျွန်းသို့ အလည်သွားရာမှအပြန်တွင် စာပေများကို စတင်ရေးသားခဲ့သည်။ သူရေးသားသော စာပေတို့မှာ ဟာသနှင့်ယှဉ်သည်။ သူ၏ဟာသမှာ အပြစ်ကင်း၍ ပင်ကိုယ်ဉာဏ်မှထွက်ပေါ်လာသော ဟာသဖြစ်လေသည်။ ၁၈၆၇ ခုနှစ်တွင်ထုတ်ဝေသော 'ကာလာဗဲရတ်မြို့နယ်မှ ဖါးပျံကျော်နှင့် အခြားဝတ္ထုတိုများ' ဟူသောဝတ္ထုတိုစာအုပ်မှာ သူ၏ပဌမဦးစွာ ကျော်ကြားလာသော ဟာသစာအုပ်ဖြစ်သည်။ နောင်သောအခါ အီဂျစ်၊ ပါလက်စတိုင်းနှင့် မြေထဲပင်လယ်ဒေသများသို့ ခရီးလှည့်ယင်း ရရှိခဲ့သော ဗဟုသုတများကိုမူတည်၍ 'အဝေးရောက် ရိုးအသူကလေးများ' (၁၈၆၉) ခေါ် ကမ္ဘာကျော် စာအုပ်ကို ရေးသားခဲ့သည်။ ၁၈၇၀ ပြည့်နှစ်တွင် အော်လီဗီယာ လန်ဂဒန် အမည်ရှိ အမျိုးသမီးနှင့်လက်ထပ်ခဲ့ပြီးနောက် နိုင်ငံခြားများတွင် အတန်ကြာသွားရောက်နေထိုင်ခဲ့၏။ မိမိငယ်စဉ်ကနေထိုင်ခဲ့ရသော မစ်စစ်စပီမြစ်ရိုးရှိ လူငယ်ကလေးများ၏ဓလေ့ကို သရုပ်ဖော်သောအားဖြင့် 'တွမ် ဆောယား၏ စွန့်စားခန်း' (၁၈၇၆) ဝတ္ထုနှင့် ယင်း၏နောက်ဆက်တွဲ 'ဟပ်ကယ်ဗဲရီဖင်း၏ စွန့်စားခန်းများ' (၁၈၈၅) ဝတ္ထုတို့မှာ မတ်တွိန်း၏ ဟာသဂုဏ်အမြောက်ဆုံးဝတ္ထုများ ဖြစ်လေသည်။ ထို့ပြင် ဂျုန်း အော့ အတ်၏ အဖြစ်အပျက်ကိုမူတည်၍ ရာဇဝင်ဝတ္ထုများအပြင် လူကြိုက်များသော အခြားဝတ္ထုပေါင်း မြောက်မြားစွာကိုရေးသားခဲ့သည်။

၁၉၀၇ ခုနှစ်တွင် ယေးနှင့်မိဇူးရီးတက္ကသိုလ်များမှ ဂုဏ်ထူးဆောင် မဟာဝိဇ္ဇာနှင့် ဂုဏ်ထူးဆောင် ဥပဒေပါရဂူဘွဲ့များဖြင့် ချီးမြှင့်ခြင်းခံရပြီးနောက်၊ အင်္ဂလန်ပြည် အောက်စဖို့တက္ကသိုလ်မှ အနုစာပေ ပါရဂူဘွဲ့ကို ရရှိခဲ့၏။

၁၉၁၀ ပြည့်နှစ် ဧပြီလ ၂၁ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စု ကွန်နက်တီကတ်ပြည်နယ် ရက်ဒင်းမြို့၌ ကွယ်လွန်လေသည်။ သူကွယ်လွန်ပြီးမှ ထုတ်ဝေသော 'ထူးဆန်းသော ညွှဲ့သည်' (၁၉၁၆) 'လူဆိုတာ ဘာလဲ' (၁၉၁၇) စသောစာအုပ်တို့မှာ ၁၈၉၇ ခုနှစ်နောက်ပိုင်း၌ ရေးသားသောစာအုပ်များဖြစ်၍ အသက်ကြီးရင့်လာသောအခါ အိမ်ထောင်ရေးနှင့်စီးပွါးရေးတို့တွင် အဆင်မပြေမှုများနှင့်ကြုံတွေ့ရသဖြင့် လောကကြီးကိုငြီးငွေ့သော လေသံများ ပါလာသည်။ သို့သော် မတ် တွိန်းအား ဟာသစာရေးဆရာကြီးအဖြစ်သာ လူအများက အမှတ်တရ ဂုဏ်ပြုကြလေသည်။

**တံ့တေးမြို့။** ။တံ့တေးမြို့သည် ဟံသာဝတီခရိုင် တံ့တေးနယ်နှင့် တံ့တေးမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ ရှေး မွန်ဘုရင်များ လက်ထက်က တည်ထောင်ခဲ့သော မြို့ဖြစ်သည်။ တံ့တေးမြို့၌ ရှေးမွန်ဘုရင် နန်းတော်ဟောင်းနေရာများ၊



တံ့တေးမြို့ရှိ အိုးလုပ်ငန်း



တွံတေးမြို့ ကျက်သရေဆောင် ရွှေဆံတော်စေတီ ထီးတော်သစ်တင်စဉ်

မြို့ရိုးများမှာ ယခုထက်တိုင်ပင် တည်ရှိနေသေး၏။ တန်ခိုးကြီး ရွှေဆံတော်ဘုရားသည်လည်း မွန်ဘုရင်များ တည်ထားခဲ့သောဘုရား ဖြစ်ပေသည်။ တွံတေးမြို့နှင့်မြို့နယ်သည် ဟံသာဝတီခရိုင်တွင် လူဦးရေထူထပ်သော အရပ်ဖြစ်၏။ ရန်ကုန်မြို့နှင့် များစွာမကွာဝေးသော တွံတေးတူးမြောင်းပေါ်တွင် တည်ရှိသည်။ တွံတေးတူးမြောင်းသည် ကျိုက်ထော်မြစ်နှင့်ရန်ကုန်မြစ်တို့ကို ဆက်သွယ်ရန်ဖောက်ထားသဖြင့် အသွားအလာလွယ်ကူသည်။ ၂၂ မိုင်မျှရှည်လျားသည်။ တွံတေးမြို့၏တောင်ဖက်ရှိ တောကြီးတန်းဒေသသည် အလွန်မြေဩဇာကောင်းမွန်ခြင်းကြောင့် ရန်ကုန်မြို့သုံး ဟင်းသီးဟင်းရွက်နှင့်သီးနှံများထွက်သည်။ ကြက်ပေါင်စေးပင်များကိုလည်း ထိုနေရာ၌ စိုက်ပျိုးကြသည်။ တွံတေးမြို့မှ စဉ့်အိုးမြောက်မြားစွာထွက်၍ တွံတေးအိုးဟုထင်ရှားသည်။ တွံတေးနယ်ကို မြို့နယ် သုံးနယ်ခွဲ၍အုပ်ချုပ်ရာ တွံတေးမြို့နယ်၊ ကွမ်းခြံကုန်း တောင်ပိုင်းမြို့နယ်နှင့်ကွမ်းခြံကုန်း မြောက်ပိုင်းမြို့နယ်တို့ ပါဝင်သည်။ တွံတေးမြို့နယ် လူဦးရေသည် ၁၉၄၁ ခုနှစ်၌ ၉၇,၂၃၇ ယောက်ရှိသည်။ ယခုအခါ လူဦးရေ ၁၁၀,၀၀၀ ကျော်မျှရှိသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ထ သည် ၁၇ ခုမြောက် အက္ခရာဖြစ်သည်။ တ၊ ထ၊ ဒ၊ ဓ၊ န ဟူသော တ ဝဂ်တွင်ပါဝင်၍၊ ထ အသံ၏ဖြစ်ရာဌာနမှ ဒန္တဌာန် သွားအရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကိုလိုက်၍ ‘ ထဆင်ထူး ’ ဟု အမည်တွင်သည်။ ထ အရေးအသား၏မူလမှာ ဗြာဟ္မီ အက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီး နောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကိုတွေ့ရသည်။ ဗြာဟ္မီအရေးအသား တွင် အလယ်ရှိ အစက်ကလေးသည် စက်ဝိုင်း၏အချင်းကဲ့သို့ ခပ်စောင်းစောင်း မျဉ်းကြောင်းဖြစ်လာသည်။ ထိုမှတဆင့် အလျားလိုက်ဖြစ်စေ၊ ထောင်လိုက်ဖြစ်စေ တန်း၍ဆွဲသည်။ စက်ဝိုင်းကိုလည်း လေးထောင့် ရှည်လျားလျား ထောင်လိုက်တမျိုး အလျားလိုက်တမျိုး ရေးဖန်များသော်၊ ဆင်၏ ထူး ပုံသဏ္ဌာန်ရှိသော မြန်မာအက္ခရာ ထ ဖြစ်ပေါ်လာသည်။ ထ အက္ခရာ၏ အဆင့်ဆင့်ပြောင်းလဲပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



**ထနောင်းမျိုး။** ။အကေးရှားပင် — ရှု။

**ထမင်းနှဲ။** ။ထမင်းနှဲသည် ကောက်ညှင်းနှင့် စီမံပြုလုပ်သော မြန်မာတို့၏ ချိုဆိမ့်မွှေးသည့် စားစရာတမျိုး ဖြစ်သည်။ ကောက်ညှင်းထမင်းကို ထပ်ပြန်တလဲလဲ ကော်များ ပတ်စာများ နှဲ့ဘိအလားနှဲ့ရသောကြောင့် ထမင်းနှဲဟု ခေါ်သည်။ ယင်းကို အရပ်ဒေသလိုက်၍ ယာဂုဟုလည်း ခေါ်သည်။ ယာဂုမှာ ပါဠိစကားဖြစ်၍ မြန်မာလို ဆန်ပြုတ်ဟု အဓိပ္ပာယ်ရသည်။ ကောက်ညှင်း၊ အုန်းသီး၊ မြေပဲ၊ ဂျင်း၊ နှမ်းဆီနှင့် နှမ်းနိုင်နိုင်ထည့်ရသောကြောင့် နှမ်းမနှဲဟုလည်း ခေါ်ကြသည်။

ကောက်ဦးပေါ်ချိန်တွင် မြန်မာနိုင်ငံ အနှံ့အပြား ကျေးလက်တောရွာများအထိ၊ ထမင်းနှဲထိုးပွဲများ ဆင်ယင်ကျင်းပကြသည်။ ဆဲ့နှစ်ရာသီပွဲတော်များအနက် တပွဲအပါအဝင်ဖြစ်သော ယင်းပွဲတော်ကို တပို့တွဲလဆန်းမှစ၍ လပြည့်နေ့အထိသောကာလတွင်း၌ ရှေးမင်းအဆက်ဆက်မှဆင်းသက်၍ အမြို့မြို့ အရွာရွာတွင် ခြိမ့်ခြိမ့်သဲမျှ ကျင်းပကြသည်။ ထို့ကြောင့် ‘တပို့တွဲလ၊ ကုံသိုကျ၊ မာဃထွန်းစမြဲ၊ ပေါက်လဲပွင့်တုံ၊ ဆူးပန်းငုံ၊ မီးပုံယာဂုပွဲ’ ဟု စပ်ဆိုကြသည်။

ထည့်သောပစ္စည်းများ အချိန်အဆမှန်၍ အထိုးနိုင်က ထမင်းနှဲသည် အလွန်စားကောင်းရုံမက၊ ရက်ရှည်လည်း အထားခံသော အစာဖြစ်သည်။ ထမင်းနှဲထိုးသည့်အခါ ထည့်သည့် အချိန်အဆများကို အောက်ပါတေးထပ်မျိုးဖြင့် စပ်ဆိုထားခဲ့ကြသည်။

‘ကုံရာသီ မာသ၊ သဘာဝ ရှင်စွာ။ ထာဝရ စဉ်လာ၊ များသူငါ ချိမ့်သဲ။ ညာဇမ္ဗူ သာဓုခေါ်အောင်၊ ယာဂုတော်ကြိုဆောင်သည့်ပွဲ။ စားတော်ရ ဆန်ပေါက်ဝါ၊ လေးပြည်သာ ထည့်မြဲ။ ချိန်ပိဿာ လျှံကြည်ရှဲအောင်လို့၊ နှမ်းဆီလဲ ထည့်ပြန်။ မြေပဲဆန် အဌသုညငယ်နှင့် ဒွတ္တိံသ တိလဗီဇံ။ အုန်းသီးစိပ် ကျပ်ဝီသံငယ်၊ လောနတံ ချိန်သတ်နှင့်။ ဂျင်းနုဖတ် သိဂ်ီမျှင်ရွှေ၊ သုံးကျပ် မသွေ၊ နည်းစဉ်ဆက် သမုဆွေငယ်၊ ဥပဒေ မော်ကွန်းပလေး။’

အထက်ပါတေးထပ်အရ ထမင်းနှဲထိုးလိုမူ၊ ကောက်ညှင်းဆန်လေးပြည်ကို ရေစင်အောင်ဆေး၍၊ ဆီတပိဿာကို ဒယ်တွင်ထည့်ကာ၊ ဂျင်းသုံးကျပ်သားနှင့် ဆီသတ်၍၊ ကောက်ညှင်းထည့် နှပ်ရသည်။ ကောက်ညှင်းနပ်၍ ဆီပြန်သော်၊ ဖိုမှချ၍ ကြေအောင်နှဲ့ရသည်။ ယင်းသို့နှဲ့ရာတွင် ယောက်မနှစ်လက်နှင့်ပွတ်ခြေသဖြင့် ကြေသွားသောကောက်ညှင်းတွင် မြေပဲ ၈၀ သား၊ နှမ်း ၃၂၊ အုန်းသီးစိပ် ၂၀ သား၊ ဆား ၇ သား နှံ့အောင်ထည့်၍မွှေလျှင် ထမင်းနှဲဖြစ်သည်။

ထမင်းနှဲသည် အပူစာချည့်ပါ၍၊ ဆီနိုင်သောအစာ ဖြစ်သဖြင့် အလွန်ချမ်းသည့် တပို့တွဲလမျိုးတွင် ထိုးပွဲကျင်းပ၍ စားကြသည်ဟု ဆိုကြသည်။ အလွန်အေး၍ အသား ခြောက်ခန်းချိန် ဖြစ်သဖြင့်၊ ဆီနိုင်သော ဤထမင်းနှဲကိုစားသုံးလျှင်၊

စိုပြေလာ၍၊ အပူဓာတ်ရလာသည်ဟု အယူရှိကြသည်။ မဟာ နရိကွန်ချာဆေးကျမ်း၌မူ ပထဝီပျက်သူများ ထမင်းနှဲ စားသင့်သည်ဟု လာသည်။

**ထမန်းလူမျိုး။** ။ထမန်းလူမျိုးသည် တိဗက် မြန်မာ အစုဝင်၊ သက်အုပ်စုခွဲတွင် ပါဝင်၍၊ မြန်မာနိုင်ငံ အထက်ချင်းတွင်းခရိုင်၏မြောက်ဖက် ရှမ်း၊ ကချင်နှင့် ချင်းနယ်မြေတို့ ဆုံရာဒေသတွင် နေထိုင်ကြသည်။ လူဦးရေ ၁၀၀၀ ခန့် ရှိ၏။ ထမန်းတို့ပြောဆိုသောစကားသည် ကချင်စကား၊ နာဂ စကားတို့နှင့် အဆက်အစပ်ရှိသည်ဟု ယူဆရ၏။ သို့ရာတွင် ကဒူးစကားကဲ့သို့ပင် ရှမ်းနှင့်ချင်းတို့၏ အငွေ့အသက် မကင်းသည်ကိုတွေ့ရ၏။ လူမျိုး အဆက်အနွယ်အားဖြင့် ကဒူးတို့နှင့်ဆက်စပ်မှုရှိသည်ဟု ယူဆရ၏။ ထမန်း လူဦးရေမှာ နည်းပါးလှပေရာ ထမန်းရွာဟူ၍ နာဂတောင်တန်းခရိုင် ဟုမ္မလင်းနယ်တွင် တမန်သည် တရွာတည်းသာရှိ၏။ သို့သော် အထက်ချင်းတွင်းခရိုင်၏ မြောက်စူးစူးရှိ ရွာကလေးများ၌လည်း ထမန်းလူမျိုးအနည်းငယ်ကို တွေ့ရလေသည်။ ထမန်းတို့သည် လူစင်စစ်မှ ကျားအဖြစ်သို့ ပြောင်းလဲ၍ မိမိတို့ပိုင်ပစ္စည်းများကို ခိုးယူသူတို့အား ဒုက္ခပေးလေ့ရှိကြောင်းကို ယခင် အထက်ချင်းတွင်းခရိုင်ဝန်ဖြစ်ခဲ့ဘူးသူ မစ္စတာ ဂရန့် ဗရောင်းဆိုသူက ၁၉၀၇ ခုနှစ်၌ စာအုပ်ရေးသား ထုတ်ဝေခဲ့ဘူးလေသည်။

**ထရာဖဲလဂါ တိုက်ပွဲ။** ။ထရာဖဲလဂါ တိုက်ပွဲသည် ဗြိတိသျှ နိုင်ငံသမိုင်း၌ အကြီးအကျယ်ဆုံး ရေကြောင်းတိုက်ပွဲကြီးတခုဖြစ်သည်။

၁၈၀၄ ခုနှစ်၌ ပြင်သစ်ဧကရာဇ် နပိုလီယန်သည် ဥရောပ တိုက်တခုလုံးလိုလိုကိုပင် တိုက်ခိုက်အောင်မြင်ပြီးဖြစ်ခဲ့သည်။ (နပိုလီယန်, ပဌမ — ရှု။) သူ့ကိုဆက်လက်ဖက်ပြိုင်နေသောနိုင်ငံမှာ ရေတပ်အင်အား တောင့်တင်းသော ဗြိတိန်တနိုင်ငံတည်းသာ ရှိလေသည်။ သို့သော် အင်္ဂလန်ပြည်ကမ်းခြေသို့ တက်ရောက် တိုက်ခိုက်ရေးမှာ အင်္ဂလိပ်ရေလက်ကြားကို အင်္ဂလိပ်ရေတပ်က စောင့်ရှောက်နေသမျှ ဖြစ်မြောက်နိုင်မည်မဟုတ်သည်ကို နပိုလီယန်ကောင်းစွာသိလေသည်။ ထို့ကြောင့် တူလွန်နှင့်ဗရက်ရှိ ပြင်သစ်သင်္ဘောတပ်စုများကို ပိတ်ဆို့နေသော အင်္ဂလိပ်သင်္ဘောများအား ရှောင်တိမ်းကာ အနောက် အိန္ဒိယကျွန်းစုသို့ ထွက်ခွာစေလေသည်။ ထိုအခါ ရေကြောင်းဗိုလ်ချုပ်နယ်လဆင်အုပ်ချုပ်သော အင်္ဂလိပ်ရေတပ်မကြီးသည် အနောက်အိန္ဒိယကျွန်းစုသို့ထွက်ခွာသွားသော ပြင်သစ်ရေတပ်နောက်သို့ လိုက်သွားခဲ့သည်။ (နယ်လဆင်, ဟိုရေးရှိုး — ရှု။) ထိုသို့ဥပါယ်တမည်ဖြင့် အင်္ဂလိပ်ရေတပ်ကို အနောက် အိန္ဒိယကျွန်းစုသို့ရောက်အောင် သွေးဆောင်လာပြီးနောက်၊ ပြင်သစ်ရေတပ်သည် ကျွေ့၍ပြန်လာခဲ့လေသည်။ အနောက် အိန္ဒိယကျွန်းစုသို့ရောက်မှပင် နပိုလီယန်၏ ပရိ

ပြင်သစ်ရေတပ်နှင့် အင်္ဂလိပ်ရေတပ်တို့ ထရာဖဲလဂါအငူတွင် တွေ့ဆုံ၍ရေကြောင်းတိုက်ပွဲကြီး ဆင်နေစဉ်



ယာယ်ကို ရိပ်မိသော နယ်လဆင်သည်လည်း အပြင်းချီကာ ပြန်လာခဲ့လေသည်။ ထိုအခါမှ နယ်လဆင်သည် ပြင်သစ်နှင့် စပိန်ရေတပ်များ စပိန်နိုင်ငံ ကေးဒစ်မြို့ဆိပ်ကမ်း၌ စခန်းချလျက်ရှိသည်ကို တွေ့ရလေသည်။ သို့သော် နယ်လဆင်သည် သူ၏ရေတပ်ကို တမျိုးတဖုံ နေရာချထားကာ ပရိယာယ် ဆင်လိုက်သဖြင့် ရန်သူသင်္ဘောများသည် ကေးဒစ်ဆိပ်ကမ်းမှ ထွက်လာလေတော့၏။ ၁၈၀၅ ခုနှစ် အောက်တိုဘာလ ၂၁ ရက်နေ့၌ ကေးဒစ်နှင့်ဂျီဗရော်လ်တားအကြားရှိ ထရာဖဲလဂါအငူအနီးတွင် ရေတပ်နှစ်ခု တွေ့ဆုံတိုက်ခိုက်ကြသည်။

အင်္ဂလိပ်ရေတပ်၌ သင်္ဘောကြီး ၂၇ စင်း၊ သင်္ဘောငယ် ၄ စင်းပါဝင်၍၊ ရန်သူရေတပ်တွင် သင်္ဘောကြီး ၃၃ စင်း၊ သင်္ဘောငယ် ၇ စင်းပါဝင်သည်။ 'အင်္ဂလန်ပြည်သည် လူတိုင်းအား မိမိတာဝန်ဝတ်တရားကို ဆောင်ရွက်လိမ့်မည်ဟု မျှော်လင့်သည်' ဟူသော နယ်လဆင်၏ အမိန့်ကိုနာခံ၍၊ အင်္ဂလိပ်ရေတပ်သည် ရန်သူနှင့် အကျိတ်အနယ် ယှဉ်ပြိုင်တိုက်ခိုက်လေသည်။ ထိုတိုက်ပွဲ၌ နယ်လဆင်ကျဆုံးသော်လည်း၊ အင်္ဂလိပ်တို့ အနိုင်ရသွားလေသည်။ သူတို့၏ သင်္ဘောတစင်းမျှ မဆုံးရှုံးဘဲ၊ ရန်သူသင်္ဘောများစွာ ပျက်စီးပြီးလျှင်၊ ပြင်သစ်သုံ့ပန်းအများကို ဖမ်းဆီးရမိလိုက်သည်။ ထိုနောက် အင်္ဂလန်ကျွန်းပေါ် သို့ တက်ရောက်တိုက်ခိုက်ရန် ကြံစည်ထားသော နပိုလီယန်၏ မျှော်လင့်ချက်များမှာ အချည်းနှီး ဖြစ်သွားလေတော့၏။

**ထရူးမန်း, ဟယ်ရီ၊ အက် (၈)** (ခရစ် ၁၈၈၄ ဖွား)။ ။ အမေရိကန် ပြည်ထောင်စု၏ ၃၃ ဆက်မြောက်ဖြစ်သော သမတ ထရူးမန်းသည် လယ်သမားမျိုးရိုးဖြစ်သော ဂျွန် အန်ဒါဆင် ထရူးမန်း ဇနီးမောင်နှံတို့မှ ခရစ် ၁၈၈၄ ခုနှစ် မေလ ၈ ရက်နေ့တွင် မိဇူးရီပြည်နယ်၊ လမားမြို့၌ဖွားမြင်သည်။ သူ၏အမည်အပြည့်အစုံမှာ ဟယ်ရီ ရှစ် ထရူးမန်းဖြစ်သည်။ တောင်သူလယ်သမားသားသမီးပီပီ ငယ်စဉ်ကပင် မိဘတို့ကို ကူညီ၍ အလုပ်လုပ်ပေးယင်း၊ မိမိနယ်ရှိ အထက်တန်းကျောင်းတကျောင်းတွင် ပညာသင်ယူ၍၊ ဝက်စ ပွိုင့် စစ်တက္ကသိုလ်သို့ဝင်ရန် ရည်ရွယ်ခဲ့သည်။ သို့ရာတွင် မျက်စိမှုန်သူ ဖြစ်သောကြောင့်၊ ဝင်ခွင့်မရချေ။ ထိုကြောင့် ကျောင်းမှထွက်၍၊ ဝမ်းရေးအတွက် အလုပ်အမျိုးမျိုးလုပ်ခဲ့ရသည်။ ကန်းဆပ်မြို့တွင် ဆန်တာဖီ မီးရထားအတွက် အချိန်စောင့်လုပ်ခဲ့ဘူးသည်။ သတင်းစာခေါက်သမား၊ ဘဏ်စာရေး၊ စာရင်းကိုင်၊ စသော အလုပ်တို့မှာ သူငယ်စဉ်ကလုပ်ခဲ့သော အလုပ်များဖြစ်လေသည်။ အသက် ၂၂ အရွယ်၌ ဖခင်ကွယ်လွန်သောအခါ၊ မိခင်ထံပြန်လာပြီးလျှင်၊ ဖခင်၏လက်ငုတ်ဖြစ်သော လယ်လာလုပ်ငန်းကို လုပ်ဆောင်လေသည်။



အမေရိကန်ပြည်ထောင်စု၏ ၃၃ ဆက်မြောက် သမတထရူးမန်း

ပဌမကမ္ဘာစစ်တွင် အမေရိကန်ပြည်ထောင်စုသည် ၁၉၁၇ ခုနှစ်ရောက်မှ မဟာမိတ်တို့နှင့်အတူ စစ်ထဲဝင်သည်။ ထို အခါတွင် ထရူးမန်းလည်း စစ်မှုထမ်းဖြစ်လာလေ၏။ ပင်လယ်ရပ်ခြားဒေသတို့သို့ သွားရောက် အမှုထမ်းခဲ့ရာ၊ နောက်ဆုံး စစ်ပြေငြိမ်းသောကာလသို့ ရောက်သောအခါ၊ ဗိုလ်ကြီးအဖြစ်ဖြင့် စစ်တပ်မှထွက်၍၊ မိမိတိုင်းနိုင်ငံသို့ ပြန်လာခဲ့လေသည်။ ထိုအခါတွင် စစ်ပြန်ဟောင်းတဦးနှင့်အတူတွဲ၍ ကန်းဆပ်မြို့တွင် အထည်ဆိုင်ဖွင့်သည်။ သို့သော် နေရာ မကျ၍၊ ဆိုင်ပြုတ်လေသည်။ ထိုကဲ့သို့လျှင် ထရူးမန်းသည် အသက် ၃၇ နှစ်ပင် ရောက်ရှိလာသော်လည်း၊ အလုပ်အကိုင် အတည်အကျမရှိခဲ့ချေ။ ထိုကြောင့် သူ၏မိတ်ဆွေများထံ အကူအညီအတွက်တိုင်ပင်ရာ၊ ပင်ဒါဂတ်ခေါ် မိတ်ဆွေတဦးကြောင့် ဒီမိုကရက်တစ်အဖွဲ့သို့ဝင်ရောက်၍၊ နိုင်ငံရေးကို စတင်ဆောင်ရွက်လာခဲ့လေသည်။ နိုင်ငံရေးတွင် ပင်ဒါဂတ်သည် ထရူးမန်းကို အစဉ်တစိုက်အားပေးလာခဲ့ရာ၊ ထရူးမန်းသည် ၁၉၂၂–၂၄ ခုနှစ်အတွက် မြို့နယ်တရားသူကြီးအဖြစ်ဖြင့် ရွေးကောက်တင်မြှောက်ခြင်းခံရလေသည်။ ၁၉၂၆–၃၄ ခုနှစ်အတွင်း၌မူကား မြို့နယ်တရားရုံးတွင် တရားသူကြီးချုပ် ဖြစ်လာလေသည်။ ၁၉၃၄ ခုနှစ်၌မူ မိဇူးရီ မဲဆန္ဒနယ်မှ တင်မြှောက်ခြင်းခံရသော ဆီနေးတာခေါ် အထက်လွှတ်တော်အမတ် ဖြစ်လာခဲ့လေသည်။ သို့ရာတွင် ပင်ဒါဂတ် တည်ထောင်သောအဖွဲ့အစည်းသည် ရိုးဖြောင့်

ခြင်း မရှိသောကြောင့်၊ ထရူးမန်း အမတ်ဖြစ်လာသည့် အ တောအတွင်း၌ပင်လျှင်၊ ပင်ဒါဂတ်သည် ထောင်ကျလေသည်။ ထရူးမန်းမှာမူကား ဖြောင့်မတ်သူဖြစ်သောကြောင့်၊ နောက်တကြိမ် ရွေးကောက်ပွဲကျင်းပသော ၁၉၄၀ ပြည့်နှစ်တွင် ပင်ဒါဂတ်၏အကူအညီမရဘဲနှင့် အရွေးခံမြဲ ခံရပြန်သည်။

ထိုအကြိမ်တွင် အမေရိကန်ပြည်ထောင်စု ကာကွယ်ရေး အစီအစဉ်တို့ကို ပြည်မအစိုးရက ရေးဆွဲရသောအချိန်နှင့်ကြုံခဲ့လေသည်။ ထိုအစီအစဉ်များအရ ပြည်ထောင်စု အစိုးရသည် ဒေါ်လာငွေပေါင်း ကုဋေ ကုဋာကို သုံးစွဲရန်ခန့်ခွဲရသည်။ ထရူးမန်းသည် ပဌမကမ္ဘာစစ်အတွင်းတွင် ကာကွယ်ရေးဘဏ္ဍာငွေ ခန့်ခွဲခြင်း၌ အလဟဿဖြစ်ရသည့်အချက်တို့ကို ကောင်းစွာသတိမူခဲ့သူဖြစ်ရကား၊ ကာကွယ်ရေး အစီအစဉ်အရ ငွေသုံးစွဲရေးတွင် စစ်ဆေးရန် ကော်မီတီဖွဲ့သင့်ကြောင်း အကြံပေးခဲ့သဖြင့်၊ သူအကြံပေးသည့်အတိုင်း ကော်မီတီဖွဲ့ရသည်။ ထိုကော်မီတီသည် နောင်သောအခါ၌ ထရူးမန်းကော်မီတီဟုတွင်လေသည်။ ထိုကော်မီတီ၌ ထရူးမန်း ဆောင်ရွက်ချက်ကြောင့် ဘဏ္ဍာငွေမြောက်မြားစွာ အလဟဿ မဖြစ်ခဲ့ချေ။

၁၉၄၄ ခုနှစ်၌ သမတရူးဇဗဲ့၏ကျန်းမာရေး အခြေအနေမှာ စိုးရိမ်ဖွယ်ရှိလာခဲ့သည်။ ထိုအခါ အရေးကြီးသော သမတရာထူးကိုဆက်ခံနိုင်မည့် ဒုတိယသမတရွေးရန်ကိစ္စပေါ်လာလေသည်။ ဤကိစ္စနှင့်စပ်လျဉ်း၍ ဒီမိုကရက်တစ်ပါတီတွင် ဟင်နရီ ဝေါလေ့ကို အားပေးထောက်ခံသူတစုနှင့် ထရူးမန်းကို အားပေးထောက်ခံသူတစုဟူ၍၊ လူနှစ်စု သဘောကွဲလွဲလာခဲ့သည်။ သို့ရာတွင် ရွေးကောက်ပွဲကျင်းပသောအခါ၊ ထရူးမန်းသည်ပင် အရွေးခံခဲ့ရလေသည်။ ထိုကြောင့် ၁၉၄၅ ခုနှစ် ဧပြီလ ၁၂ ရက်နေ့တွင် သမတရူးဇဗဲ့ ရုတ်တရက်ကွယ်လွန်သွားသောအခါ၊ ထရူးမန်းသည် ရုတ်တရက်ပင်လျှင် သမတဖြစ်လာခဲ့လေ၏။ (ရူးဇဗဲ့၊ အက် (ဖ)၊ ဒီ — ရှ။)

ထိုအချိန်ကား ဒုတိယကမ္ဘာစစ်ကြီးအတွက် အလွန် အရေးကြီးနေသော အချိန်တည်း။ ထိုအချိန်၌ ဂျာမနီသည် အရေးရှုံးနိမ့်လျက်ရှိ၍၊ ဣတလီလည်း ပြိုကွဲလုနီး ရှိနေသည်။ သို့သော် ဂျပန်နှင့်စစ်တိုက်ရမည့်အချိန်သည် အဆင်မသင့်ပါက တနှစ်ကျော် နှစ်နှစ်မျှ ဆက်လက်တိုက်ရဦးမည်ဟု ယူဆနေရလေသည်။ သို့ရာတွင် ထရူးမန်းသည် သမတအနေဖြင့် တာဝန်တို့ကို ကောင်းစွာထမ်းရွက်နိုင်ခဲ့သည်။ ၁၉၄၅ ခုနှစ် မေလ ၈ ရက်နေ့၌ ဥရောပစစ်မျက်နှာဖက်တွင် စစ်သည် ပြီးဆုံးခြင်းသို့ရောက်လေသည်။ ထိုနောက် ထရူးမန်းသည် ဗြိတိန်၊ ပြင်သစ်၊ ရုရှ၊ တရုပ်နိုင်ငံတို့၏ခေါင်းဆောင်ကြီးများနှင့်အတူ ဂျာမနီနိုင်ငံ ပို့စဒမ်မြို့၌ကျင်းပသော ကွန်ဖရင့်သို့ တက်ရောက်ကာ၊ ပို့စဒမ်ကြေညာချက်ကို ကြေညာ၍၊ ဂျပန်နိုင်ငံအား ခြွင်းချက်မရှိ လက်နက်ချစေရန် အမိန့်ပေးခဲ့လေသည်။ ဂျပန်တို့သည် ခြွင်းချက်မရှိ လက်နက်ချရန်ကိစ္စတွင် သို့လောသို့လော ဖြစ်နေဆဲ၊ ဟီရိုရှီမာနှင့်နာဂါဆာကီတို့ကို အမေရိကန်လေတပ်က အဏုမြူဗုံးဖြင့် ဗုံးကျဲဖျက်ဆီးလိုက်သောအခါ၊ ချက်ချင်းပင်လျှင် လက်နက်ချရန် သဘောတူလိုက်လေသည်။

ဤသို့လျှင် ဒုတိယကမ္ဘာစစ်ကြီးလည်းပြီးခဲ့၏။ သို့သော် အမေရိကန်၏ ရေတပ်၊ လေတပ်၊ ကြည်းတပ်တို့ကို ရုပ်သိမ်းရေး၊ မဟာမိတ်နိုင်ငံတို့၏ ပြန်လည်ထူထောင်ရေး၊ စစ်ကာလ စီးပွားရေးမှ ငြိမ်းချမ်းသောကာလ စီးပွားရေးသို့ ပြောင်းလဲရေးဟူသော ခဲယဉ်းကတ်သတ်သည့်ပြဿနာများကို ထရူးမန်းသည် ရင်ဆိုင်ခဲ့ရလေသည်။ စစ်ပြီးချိန်တွင် တွေ့ကြုံရမြဲဖြစ်သော အလုပ်သမားအရေး၊ ကုန်သွယ်ရေး၊ ငွေကြေးအခက်အခဲ၊ နေထိုင်မှုစရိတ်ကြီးခြင်း စသည့် အကြောင်းရင်းတို့ကြောင့်၊ ပေါ်ပေါက်လာသော ဆူပူလှုပ်ရှားမှုတို့ကို ထရူးမန်းသည် နိုင်နင်းစွာ ထိန်းသိမ်းဖြေရှင်းနိုင်ခဲ့လေသည်။ သို့ရာတွင် စစ်အတွင်းက မဟာမိတ်ဖြစ်ခဲ့ကြသော အမေရိကန်နှင့်ဆိုဗီယက်ရုရှတို့၏ ဆက်ဆံရေးမှာမူကား ပျက်ပြားလာခဲ့သည်။ ဤအတွင်း ထရူးမန်းသည် နိုင်ငံချင်းချင်း ကျူးလွန်မှုတို့ကို ဆန့်ကျင်သောဝါဒကို လက်ကိုင်ပြုပြီးလျှင်၊ ဥရောပနိုင်ငံများ ပြန်လည်ထူထောင်ရေးအတွက် မာရှယ်စီမံကိန်းဖြင့် အမေရိကန်က စီးပွားရေး အကူအညီပေးရန်ဟူသောကိစ္စကို တီထွင်ခဲ့လေသည်။

၁၉၄၈ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု သမတရွေးကောက်ပွဲကျင်းပရန် နှစ်စေ့လာလေသည်။ ထိုစဉ်က ထရူးမန်း၏ပါတီတွင်း၌ သဘောကွဲလွဲချက်များရှိနေသဖြင့်၊ ထရူးမန်း ပြန်၍အရွေးခံလျှင် နိုင်ဘို့ရာခက်သည်ဟု အများက ထင်မြင်ချက်ပေးကြသည်။ သို့သော် ထရူးမန်းသည် အကြိတ်အနယ် ယှဉ်ပြိုင်ရမည့်အခြေသို့ ရောက်သောအခါ၊ အကယ်ပင် ဇွဲသတ္တိဖြင့် အလုပ်လုပ်တတ်သောကြောင့်၊ နောက်ဆုံးတွင် သမတအဖြစ်ဖြင့် ဒုတိယအကြိမ်ဆက်လုပ်ရန် အရွေးခံရလေသည်။

ဤအကြိမ်၌ သမတ ထရူးမန်းသည် ပြည်တွင်းရေးရာတို့တွင် အခက်အခဲတွေ့ခဲ့ရသည်။ ရီပတ်ဗလစ်ကင် အဖွဲ့ဝင်တို့သည် တောင်ပိုင်းဒီမိုကရက်တို့နှင့်ပေါင်းကာ ထရူးမန်း၏ ဒီမိုကရက်တစ်ပါတီကို အတိုက်အခံပြုလာကြသဖြင့်၊ ထရူးမန်း၏ ဆောင်ရွက်ချက်တို့သည် အောင်မြင်သင့်သလောက် မအောင်မြင်ချေ။ သို့သော် ၁၉၅၀ ပြည့်နှစ် ဇွန်လ ၂၅ ရက်နေ့က စတင်ဖြစ်ပွားခဲ့သော ကိုရီးယားစစ်ပွဲ၌ ထရူးမန်း၏ ဆောင်ရွက်ချက်တို့သည် ထင်ရှားကျော်ကြားလာခဲ့သည်။ ၁၉၅၀ ပြည့်နှစ် နိုဝင်ဘာလတွင် ထရူးမန်းသည် လူသတ်

သမားတဦး၏ လုပ်ကြံခြင်းကိုပင် ခံလိုက်ရသေးသည်။ သို့သော် ကုသိုလ်ကံကောင်းသောကြောင့်၊ အသက်မသေ ဒဏ်ရာ အနာတရမရှိ၊ ချမ်းသာခဲ့၏။ ၁၉၅၁ ခုနှစ်တွင် ထရူးမန်းသည် ကိုရီးယားစစ်အတွက် ကုလသမဂ္ဂစစ်ဦးစီးဖြစ်သူ ဂျင်နရယ် မက်အာသာနှင့်သဘောကွဲလွဲ၍၊ မက်အာသာကို ရာထူးမှထုတ်ပယ်လိုက်လေသည်။ ကိုရီးယားစစ်ပွဲ အပြီးမသတ်သေးမီ၊ ၁၉၅၃ ခုနှစ် ရွေးကောက်ပွဲအချိန်သို့ ရောက်လာသော အခါ၊ ထရူးမန်းသည် သမတအဖြစ် ဆက်လက်အရွေးမခံတော့ဘဲ၊ သူ၏မူလနေထိုင်ရာဖြစ်သော မိဇူးရီပြည်နယ် အင်ဒီပင်းဒင့်မြို့သို့သွားရောက်၍ နိုင်ငံရေးမှအနားယူကာ နေထိုင်လေသည်။

ထရူးမန်းသည် ၁၉၁၉ ခုနှစ်တွင် သူနှင့် ကလေးဘဝကပင် ကစားဖေါ် ကစားဖက်ဖြစ်သူ ဗက် ဝေါလေ့နှင့်လက်ထပ်ရာ၊ မာဂရက် ဟူသော သမီးတယောက် ထွန်း ကား လေ သည်။ ထရူးမန်းသည် ယခုအခါ သူ၏အမည်ဖြင့် စာကြည့်တိုက် တခုကို တည်ထောင်လျက်ရှိသည်။

**ထရော့စကီ, လီယွန်** (ခရစ် ၁၇၇၉–၁၉၄၀)။ ။ရုရှနိုင်ငံ အောက်တိုဘာတော်လှန်ရေးတွင် တော်လှန်ရေးခေါင်းဆောင်ကြီး လီနင်နှင့်အတူ ဆောင်ရွက်ခဲ့ပြီးနောက် စတာလင်နှင့်အတိုက်အခံဖြစ်၍၊ ရုရှနိုင်ငံမှ ပြည်နှင်ခြင်းကို ခံခဲ့ရသူမှာ လီယွန် ထရော့စကီဖြစ်လေသည်။ ထရော့စကီ၏ နာမည်ရင်းမှာ လျက် ဒဗီးဒဗျစ် ဗရမ်းရှတိုင် ဖြစ်၏။ သူ့ကို ခရစ် ၁၇၇၉ ခုနှစ်တွင် ယူကရိန်းပြည်နယ်၊ ယနဗကာမြို့၌မွေးဖွားသည်။ ငယ်စဉ်က အိုဒက်ဆာတက္ကသိုလ်တွင် ပညာသင်ယူခဲ့သည်။ ခရစ် ၁၈၉၈ ခုနှစ်တွင် တော်လှန်ရေးနှင့် စပ်လျဉ်းသော ဆောင်ရွက်ချက်တို့ကြောင့် ဇာဘုရင် အစိုးရက ဖမ်းဆီးထားပြီးနောက်၊ ၁၉၀၀ ပြည့်နှစ်တွင် ဆိုက်ဗီးရီးယားသို့ ပို့လေသည်။ သို့ရာတွင် လီယွန် ထရော့စကီဟူသောအမည်ဖြင့် ဆိုက်ဗီးရီးယားမှ ခိုး၍ထွက်လာပြီးလျှင်၊ အင်္ဂလန်နိုင်ငံ လန်ဒန်မြို့သို့ သွားရောက်၍၊ လီနင်နှင့် ပူးပေါင်းကာ၊ တော်လှန်ရေးလုပ်ငန်းတို့ကို အတူတကွ လုပ်လေသည်။ ၁၉၀၃ခုနှစ်တွင် ရုရှနိုင်ငံပြင်ပမှနေ၍၊ ရုရှ ဆိုရှယ် ဒီမိုကရက်တစ်ပါတီ ညီလာခံကို ကျင်းပပေးခဲ့၏။ ၁၉၀၅ ခုနှစ်တွင် ရုရှနိုင်ငံသို့ပြန်လာရာ၊ အဖမ်းခံရပြီးနောက်၊ ဆိုက်ဗီးရီးယားသို့ပင် တဖန် အပို့ခံရပြန်လေသည်။ သို့သော် ဆိုက်ဗီးရီးယားမှ ထွက်ပြေးပြန်၍၊ ၁၉၀၇ မှသည် ၁၉၁၄ ခုနှစ်အထိ ဗီယင်းနားမြို့တွင် နေထိုင်ပြီးလျှင်၊ ဗော်လရှီဗစ်နှင့်မင်ရှီဗစ် ဝါဒနှစ်ခုတို့၏အကြားဖြစ်သော အလယ်အလတ် ဝါဒကို အများသိအောင် ဖြန့်ချိလျက်ရှိလေသည်။

၁၉၁၄–၁၆ ခုနှစ်အတွင်း ပြင်သစ်နိုင်ငံနှင့်စပိန်နိုင်ငံတို့တွင် လှည့်လည်နေထိုင်ရာ၊ ထိုနိုင်ငံတို့က ပြည်နှင်ဒဏ်ပေးသဖြင့်၊ အမေရိကန်နိုင်ငံသို့ လာရောက်နေထိုင်ရလေသည်။ ၁၉၁၇ ခုနှစ်တွင်ကား အောက်တိုဘာလ ရုရှတော်လှန်ရေးကြီးသည် အောင်မြင်ခဲ့ပြီဖြစ်၍၊ ထရော့စကီသည် လီနင်နှင့်အတူ အာဏာသိမ်းပိုက်ရေး၌ဆောင်ရွက်ခဲ့ရာ၊ ဆိုဗီယက်ရုရှနိုင်ငံ၏ နိုင်ငံခြားရေးဝန်ကြီး ဖြစ်လာလေသည်။ သို့ရာတွင် နိုင်ငံခြားရေးဝန်ကြီးအဖြစ်ဖြင့် ဂျာမနီနိုင်ငံနှင့်စေ့စပ်သော ကိစ္စ၌ လီနင်၏အကြံပေးချက်ကို မနာယူဘဲ တင်းမာခဲ့သောကြောင့်၊ စေ့စပ်ရေး၌ အရေးရှုံးနိမ့်ရပြီးလျှင်၊ နိုင်ငံခြားရေးဝန်ကြီးရာထူးမှ နုတ်ထွက်ပေးခဲ့ရလေသည်။ ထိုနောက်၌မူကား စစ်ဝန်ကြီးရာထူးကိုယူ၍၊ ရုရှတပ်မီတော်ကြီး၏ ပြန်လည်ထူထောင်ရေးကို ဆောင်ရွက်ခဲ့လေသည်။ ဤသို့ဆောင်ရွက်ရာ၌ တော်လှန်ရေးကို သွေဖည်သောသူတို့အား နိုင်နင်းစွာ နှိပ်ကွပ်ခဲ့လေသည်။ သို့သော် ဝါဒအားဖြင့်ကား ထရော့စကီသည် လီနင်နှင့်သဘောကွဲလွဲခဲ့၏။ အထူးသဖြင့်ကား လီနင်အနီးတွင်ရှိသော စတာလင်နှင့် သဘော ကွဲလွဲခဲ့သည်။ ၁၉၂၄ ခုနှစ်တွင် စတာလင် အာဏာရသောအခါ၊ ထရော့စကီသည် ဝန်ကြီးများအဖွဲ့မှပြုတ်ကျလေသည်။ ၁၉၂၇ ခုနှစ်၌ ထရော့စကီသည် ဆိုဗီယက်တာကီစတန်ပြည်နယ်သို့ နယ်နှင်ခံရလေသည်။ သို့သော် ထိုနယ်နှင်ခံနေရသည့်အတွင်း၊ ထရော့စကီသည် စတာလင်နှင့်ဆန့်ကျင်သော လုပ်ငန်းတို့ကို လုပ်မြဲလုပ်နေသဖြင့် ၁၉၂၉ ခုနှစ်တွင် ရုရှနိုင်ငံမှ လုံးဝနှင်ထုတ်ခြင်းကို ခံရပြန်



ရုရှတော်လှန်ရေးခေါင်းဆောင် လီယွန် ထရော့စကီ

သည်။ ထိုကာလမှစ၍ ကွန်စတန်တီနိုပယ်မြို့နှင့် နေ့်ဝေး နိုင်ငံရှိ မြို့များသို့ လှည့်လည်နေထိုင်ခဲ့ပြီးလျှင်၊ ၁၉၃၇ ခုနှစ်တွင် မက္ကဆီကိုမြို့တော်၌ အခြေစိုက်ခဲ့သည်။ ၁၉၄၀ ပြည့်နှစ် ဩဂုတ်လတွင် ဗဲလဂျီယန်လူမျိုးတဦးက ချောင်းမြောင်း၍ တူနှင့်ထုကာ သတ်ဖြတ်ခြင်းခံရသဖြင့် ကွယ်လွန်လေသည်။

**ထရောလပ်, အန်တိုနီ** (ခရစ် ၁၈၁၅-၁၈၈၂)။ ။ထရောလပ်သည် အင်္ဂလိပ်ဝတ္ထုရေးဆရာဖြစ်သည်။ သူ့ကို



နာမည်ကျော်အင်္ဂလိပ်ဝတ္ထုရေးဆရာကြီး အန်တိုနီ ထရောလပ်

လန်ဒန်မြို့တွင် ခရစ် ၁၈၁၅ ခုနှစ်၌ မွေးဖွား၏။ သူ၏ဖခင်သည် မူလက ဝတ်လုံတော်ရအလုပ်ကိုလုပ်နေရာမှ လယ်ယာနှင့် ကုန်သည်လုပ်ငန်းဖက်သို့ ပြောင်းလိုက်ရာ စီးပွားပျက်သည်သာ အဖတ်တင်ခဲ့၏။ မိခင်မှာကား မူလကပင် စာရေးဆရာ၏ဇာတိ ပါလာသဖြင့်၊ ဝတ္ထုနှင့် ခရီးသွား ဆောင်းပါးကြီးများကို ရေးသားကာ၊ စီးပွားပျက်သည့်အိမ်ထောင်ကို ဖေးမပြုစုခဲ့ရသည်။ ထိုကဲ့သို့သောအခြေမျိုးကြောင့် အန်တိုနီ ထရောလပ်သည် ငယ်စဉ်က ပညာကို ဆုံးခန်းတိုင် ပေါက်မြောက်စွာ မသင်ခဲ့ရရှာချေ။ အသက် ၁၉ နှစ် အရွယ်ကပင်လျှင် ဝမ်းရေးအလို့ငှာ အိုင်ယာလန်ပြည်နယ် စာတိုက်ဌာနၤ၌ အလုပ်လုပ်ခဲ့ရသည်။ ထိုဌာနတွင် ၁၈၄၁ ခုမှ ၁၈၅၉ ခုနှစ်တိုင်တိုင် အလုပ်လုပ်ခဲ့ရာ၊ အင်စပက်တော်ရာထူးကို ရရှိခဲ့၏။ ထို့နောက် ၁၈၅၉ ခုနှစ်မှ ၁၈၆၇ ခုနှစ်အထိ အထူး အလုပ်ဝတ်တရားဖြင့် အနိုင်နိုင်ငံသို့ စေလွှတ်ခြင်းခံရ၍၊ အနောက်အိန္ဒိယကျွန်းစု၊ အီဂျစ်နိုင်ငံ၊ အမေရိကန် ပြည်ထောင်စု၊ ဩစတြေးလီးယားကျွန်း၊ နယူးဇီလန်ကျွန်း၊ တောင်အာဖရိကတိုက်ဟူသော ဒေသတို့သို့ ဝတ်တရားဖြင့် လှည့်လည်ပြီးလျှင် အင်္ဂလန်ပြည်သို့ပြန်လည်ရောက်ရှိကာ၊ တာဝန်ဝတ်တရားကို ဆက်လက်ထမ်းရွက်ရသည်။ ဤကဲ့သို့ အနိုင်နိုင်ငံတို့သို့ လှည့်လည်အမှုထမ်းခဲ့သဖြင့်၊ ရရှိသော ဗဟုသုတတို့ကို မူတည်ကာ၊ သူရောက်ရှိခဲ့သော ဒေသအကြောင်း၊ သူသွားခဲ့သော ခရီးစဉ်အကြောင်း ဟူသည်တို့ကို စာအုပ်ရေးသားထုတ်ဝေခဲ့သည်။ မူလက အိုင်ယာလန်တွင် အမှုထမ်းခဲ့သဖြင့်၊ အိုင်ရစ်လူမျိုးတို့၏ ပုန်ကန် တော်လှန်သည်တို့ကိုအခြေတည်ကာ ဝတ္ထုများရေးသားခဲ့၏။ သို့သော် သူ၏ဝတ္ထုများသည် မထူးခြားလှချေ။ နောင်အခါ၌ကား ထရောလပ်သည် ဝိတိုရိယဘုရင်မလက်ထက် အင်္ဂလန်နိုင်ငံတွင် လူလတ်တန်းစားတို့၏အထက်လွှာရှိ လူ့သဘာဝ အခြေအနေတို့ကိုဖွဲ့ဆိုသော ဝတ္ထုခြောက်အုပ် ရေးသားထုတ်ဝေလိုက်ရာ၊ နာမည်ကျော်ကြားလာခဲ့သည်။ ထရောလပ်သည် ထိုဝတ္ထုတို့တွင် သရုပ်မှန်ကို အတိအကျဖော်ပြ၍၊ လောကကို ခနဲ့သောသဘောဖြင့် ရေးသားလေရာ၊ အကြောင်းအရာတို့သည် သာမညပင်ဖြစ်စေကာမူ၊ တိကျမှန်ကန်သောအဖွဲ့အနွဲ့တို့သည် လူ၏စိတ်ကိုဆွဲဆောင်စေသည်။ ထိုဝတ္ထုများအပြင် နိုင်ငံရေးနှင့်ဆိုင်သော ဝတ္ထုပေါင်း ဆယ်အုပ်မျှကိုရေးသားသည်။ သူရေးသားသော စာအုပ်များမှာ အုပ်ပေါင်း ၅၀ မျှ ရှိလေသည်။

**ထရိုဂျန်စစ်မှု**။ ။ထရှိုင်းမြို့ပုံပြင် — ရှု။

**ထရိုပီဇင်း**။ ။အပင် သို့မဟုတ် တိရစ္ဆာန်တို့၏ကြီးထွားမှု၌၎င်း၊ အနေအထား၌၎င်း ဘာသာအလျောက် ပြောင်းလဲသွားစေရန် ပတ်ဝန်းကျင်ကပြုပြင်စေ့ဆော်ပေးခြင်းကို ထရိုပီဇင်းဟုခေါ်သည်။ ထိုပြုပြင်မှုများကို အပူကဖြစ်စေ၊ မြေဆွဲအားကဖြစ်စေ၊ လျှပ်စစ်ဓာတ်ကဖြစ်စေ၊ အလင်းကဖြစ်စေ၊ ရေကဖြစ်စေ၊ ဓာတ်ပစ္စည်းများကဖြစ်စေ၊ သို့မဟုတ် အခြားအားများကဖြစ်စေ ဖန်တီးပေးသည်။ အပူ၏ပြုပြင်မှုကို သာမို ထရိုပီဇင်းဟု၎င်း၊ မြေဆွဲအား၏ပြုပြင်မှုကို ဂျီအို ထရိုပီဇင်းဟု၎င်း၊ လျှပ်စစ်ဓာတ်၏ပြုပြင်မှုကို ဂယ်လဗာနို ထရိုပီဇင်းဟု၎င်း၊ အလင်း၏ပြုပြင်မှုကို ဖိုတို ထရိုပီဇင်းဟု၎င်း၊ နေရောင်၏ပြုပြင်မှုကို ဟီလီယို ထရိုပီဇင်းဟူ၍၎င်း၊ ဓာတ်၏ပြုပြင်မှုကို ကင်မို ထရိုပီဇင်းဟု၎င်း၊ အသီးသီးခေါ်လေသည်။ မှတ်သားစရာအချက်မှာ သာမို ထရိုပီဇင်းတွင် အပင် သို့မဟုတ် တိရစ္ဆာန်သည် လျှပ်စစ်ဓာတ်ရှိရာသို့ သွား

တတ်ခြင်း (ဝါ) လျှပ်စစ်ဓာတ်ရှိရာမှ ဖဲကြဉ်တတ်ခြင်းကို ပြု တတ်သည်။ ဖိုတို ထရိုပီဇင်း၊ ဟီလီယို ထရိုပီဇင်း၊ ကင်မို ထရိုပီဇင်း စသည်တို့တွင်လည်း ဤကဲ့သို့ပင်ဖြစ်လေသည်။

**ထရောက်ငါး။** ။ထရောက်ငါး၏အပေါ်ပိုင်းသည် အများ အားဖြင့် ညိုရှ် အောက်ပိုင်းမှာ ငွေရောင်ပေါက်နေတတ် သည်။ တကိုယ်လုံးတွင် အမည်းပြောက်များရှိသည်။ သို့ သော် မျိုးစိတ် ကွဲပြားခြားနားသည်နှင့်အမျှ ငါး၏ အ ရောင်အဆင်းတို့လည်း ကွဲလွဲတတ်သည်။ ထိုသို့ကွဲလွဲမှုများ ရှိခြင်းကြောင့် ငါးအကြောင်းကျွမ်းကျင်သူများပင်လျှင် ထို ငါးနှင့်စပ်လျဉ်း၍ သဘောကွဲလွဲကြလေသည်။

သိပ္ပံပညာရှင်များက ထရောက်ငါးကို အဓိကအားဖြင့် နှစ် မျိုး ခွဲကြသည်။ ထိုနှစ်မျိုးမှာ ထရောက်မျိုးနှင့် ချားမျိုး တို့ဖြစ်သည်။ ချားမျိုးမှာကား အလွန်အရသာရှိသော ငါး မျိုးဖြစ်သည်။ ပင်လယ်၌ကျက်စားသော ထရောက်မျိုးနှင့် ရေချိုတွင်ကျက်စားသော ထရောက်မျိုးဟု နှစ်မျိုးခွဲ၍ရှိပြန် သည်။ ထိုငါးနှစ်မျိုးစလုံးသည် အရသာရှိ၍ မျှားရန် အ တွက် ကောင်းသဖြင့် တန်ဖိုးထားကြသည်။

ထရောက်ငါးများကို ကမ္ဘာ့မြောက်ပိုင်းတွင် တွေ့ကြရ သည်။ ထိုအပိုင်းရှိ အင်းအိုင်၊ မြစ်၊ ချောင်းများအတွင်း၌ ထရောက်ငါးမျိုး မြောက်မြားစွာနေကြသည်။ ပင်လယ် တွင်း၌နေသည့် ထရောက်ငါးများသည် ဥ အုချိန်သို့ ရောက် သောအခါ မြစ်ချောင်းများရှိရာသို့ ဆန်တက်လာကြသည်။ ဥအုချိန်မှာ နွေကူးဥတု အစလောက်တွင်ဖြစ်သည်။ နွေ ကူး ဥတုသို့ရောက်၍ ရေပူလာသောအခါ ဥများပေါက်ကြ



အရသာထူးသော ထရောက်ငါး



မြစ်တခုအတွင်းမှ ထရောက်ငါးငယ်ကလေးများကို ပိုက်ဖြင့်ဖမ်းယူနေပုံ

သည်။ ရေစီးသန်၍ ကျောက်စရစ်များရှိသောရေတွင် ထ ရောက်ငါးသည် အလွန်အပွားမြန်သည်။ ဆောင်းဥတုတွင် ထိုငါးများသည် မြစ်ချောင်းကို စုန်ဆင်းလာကြပြီးလျှင် ပင် လယ်တွင်း၌ နေကြသည်။

**ထရင်းနီးဒက်ကျွန်း။** ။ဗြိတိသျှပိုင် အနောက် အိန္ဒိယ ကျွန်းစုတွင် ဂျမေးကားကျွန်းမှတပါး အခြားအကြီးဆုံး ကျွန်းမှာ ထရင်းနီးဒက်ကျွန်းဖြစ်သည်။ အရှေ့မြောက်ဖက် ၌ တိုဗေးဂိုးကျွန်းရှိ၍၊ ထိုကျွန်းသည် ထရင်းနီးဒက်နှင့် အုပ်ချုပ်ရေးသဘော၌ ရောနှောပေါင်းစပ်လျက်ရှိ လေသည်။

ထရင်းနီးဒက်ကျွန်းသည် ပူပြင်းစိုစွတ်သော ရာသီဥတုရှိ သည်။ မြေဩဇာကောင်းမွန်သည်။ သကြား၊ ကိုကိုး၊ အုန်း၊ ရှောက်၊ လိမ်မော်နှင့်ဟင်းသီးဟင်းရွက်ကို စိုက်ပျိုး ကြသည်။ ရေနံထွက်သဖြင့် ရေနံချက်သည့်လုပ်ငန်းသည် အရေးပါ၏။ ရေနံချေးအချို့ကို ဗင်နီဇွဲလားမှတင်သွင်း သည်။ ကတ္တရာစေး ထွက်သည်။ ကျွန်း၏ အကျယ်အဝန်း



ထရင်းနီးဒက်ကျွန်း၏မြို့တော် ပို့ အော့စပိန်၏ ဆိပ်ကမ်းရှုခင်းတရပ်

မှာ စတုရန်းမိုင်ပေါင်း ၁၈၆၄ မိုင်ခန့်ရှိသည်။ တိုဗေးဂိုးကျွန်းမှာ စတုရန်းမိုင် ၁၁၆ မိုင်ရှိသည်။ ၁၉၅၄ ခုနှစ်ခန့်မှန်းခြေ အရ လူဦးရေ ၆၉၇,၅၅၀ ယောက်ခန့်ရှိသည်။ တိုင်းရင်းသားလူဦးရေ ၃ ပုံ ၁ ပုံသည် အင်္ဂလိပ်၊ ပြင်သစ်နှင့်စပိန်လူမျိုးများဖြစ်ကြသည်။

ဤကျွန်းကို ရှေးဦးစွာ တွေ့ရှိသူမှာ ကိုလံဗပ် (၁၄၉၈ ခုနှစ်) ဖြစ်သည်။ (ကိုလံဗပ်, စီ — ရှု။) ၁၇၉၇ ခုနှစ်အထိ စပိန်တို့၏လက်အောက်ခံ ဖြစ်ခဲ့ပြီးနောက်၊ ဗြိတိသျှတို့က သိမ်းယူသည်။ ၁၈၀၂ ခုနှစ် အမိယန်မြို့တွင်ချုပ်ဆိုသော စာချုပ်အရ ဂရိတ်ဗြိတိန်ပိုင်ဖြစ်လာသည်။ ၁၉၄၁ ခုနှစ်တွင် ကျွန်းပေါ်ရှိ ခံတပ်စခန်းများကို အမေရိကန်သို့ ၉၉ နှစ် အငှားစာချုပ်ဖြင့် ငှားရမ်းလိုက်၏။

ကျွန်းမှာ အများအားဖြင့် တောင်ထူထပ်သည်။ သို့သော် အမြင့်ဆုံးသောတောင်မှာ ပေ ၃၁၀၀ ကျော်မျှသာ မြင့်သည်။ ကျွန်း၏အနောက်တောင်ဖက်တွင် ပစ်ချကတ္တရာ အိုင်ကြီးရှိ၍၊ ထိုအိုင်တွင်းမှ ကတ္တရာစေးများရရှိ၏။ ပို့အော့ စပိန်မှာ ထရင်းနီးဒက်ကျွန်း၏ မြို့တော်ဖြစ်သည်။

**ထရန်စ ဂျော်ဒန်ပြည်**။ ။ဂျော်ဒန်နိုင်ငံ — ရှု။

**ထရန်စဖေါ်မား**။ ။လျှပ်စစ်ဓာတ်အားပေးရုံမှလွှတ်လိုက်သော လျှပ်စစ်ဓာတ်စီးကို ကြေးနန်းကြိုးများဖြင့် မိုင်ပေါင်းများစွာ ဝေးကွာသော မြို့ကြီးပြကြီးများသို့ ဖြန့်ပေးရာ၌ လျှပ်စစ်ဖိအား ကောင်းဖို့လိုလေသည်။ ခရီး ဝေးလေလေ၊ လျှပ်စစ်ဖိအားများရန် လိုလေလေဖြစ်သည်။ လျှပ်စစ် ဖိအား များမှသာ လမ်း၌ လျှပ်စစ်စွမ်းအင် ဆုံးပါးခြင်း နည်းမည်။ ဓာတ်အားပေးစက်ရုံရှိ ဒိုင်နမိုမှ ထုတ်လိုက်သော လျှပ်စစ်ဗို့အားသည် မကြီးမားလှချေ။ ထိုကြောင့် လျှပ်စစ် အင်ဂျင်နီယာကြီးများသည် လျှပ်စစ်ဗို့အားကို တိုးမြှင့်ပေးနိုင်မည့်ကရိယာကို ကြံစည်ခဲ့ကြရလေသည်။

လျှပ်စစ်ဗို့အားဖြင့် ကရိယာပြုလုပ်ပုံမှာ သံစိမ်းတခုတွင် ဓာတ်မကူးနိုင်သည့်ပစ္စည်းဖြင့် ပတ်ထားသော ကြေးနန်းကြိုးနှစ်ခုကို တခြားစီ ရစ်ပတ်ထား သည်။ ကြေးနန်းကြိုးခွေတခုသို့ အစုန်အဆန်စီး ဓာတ်စီးကြောင်း (အေ၊ စီ) လျှပ်စစ်ဓာတ်ကို သွင်းပေးလိုက်သောအခါ အခြား ကြေးနန်း ကြိုးခွေ၌ ယင်းလျှပ်စစ်ဓာတ်စီးတခု ဓာတ်ကူးသွားသည်။ လျှပ်စစ်ဓာတ်စီး သွင်းပေးသောကြိုးခွေကို မူလနန်းခွေ (ပရိုင်မရီကွိုင်) ဟုခေါ်၍၊ ဓာတ်ကူးသွားသည့်ကြိုးခွေကို ဒုတိယနန်းခွေ (စက်ကင်ဒရီကွိုင်) ဟုခေါ်သည်။

ခါတ်စီးကို ကူးစေရသည်။ ဗို့အားနိမ့် လျှပ်စစ်ခါတ်စီးကို လမ်း၌သွယ်ယူပြီးလျှင် အိမ်ထဲသို့သွယ်ယူသောအခါ ထပ်မံ၍ ဗို့အားကို နိမ့်ချပြန်သည်။ ထိုနိမ့်ပြီး လျှပ်စစ်ဗို့အားဖြင့် သာ အိမ်တွင်းနေသူတို့သည် လျှပ်စစ်ခါတ်ကို ဘေးကင်းစွာ အသုံးချနိုင်ကြပေသည်။

ထရန်စဖေါမားသည် အစုန်အဆန်စီး ခါတ်စီးကြောင်း (အေ၊ စီ) လျှပ်စစ်ခါတ်ဖြင့်သာလျှင် အသုံးပြုနိုင်၍၊ အစုန်စီး ခါတ်စီးကြောင်း (ဒီ၊ စီ) လျှပ်စစ်ခါတ်ဖြင့် အသုံး မပြုနိုင်ပေ။ ဤအချက်ကြောင့်ပင်လျှင် အေ၊ စီ လျှပ်စစ် ခါတ်စီးကို အသုံးများကြခြင်းဖြစ်သည်။ ဒီ၊ စီ လျှပ်စစ် ခါတ်စီးကို ထရန်စဖေါမားဖြင့် အသုံးပြုလိုသောအခါ ဒီ၊ စီ လျှပ်စစ်ခါတ်စီးကို အေ၊ စီ လျှပ်စစ်ခါတ်စီးအဖြစ်သို့ ပြောင်းလဲပေးသည့် ကရိယာတမျိုးကို အသုံးပြုရသည်။ ထရန်စဖေါမား၌ လျှပ်စစ်စွမ်းအင် ၂ ရာခိုင်နှုန်း၊ ၃ ရာခိုင်နှုန်း မျှသာ အပူအဖြစ် ဆုံးရှုံး၏။ အပူဒဏ်ကိုခံနိုင်စေရန် ထိုကရိယာကို သေတ္တာတခုထဲ၌ထည့်၍၊ အထူးစိမ်ထားသည့် ဆီဖြင့် စိမ်ထားရသည်။ ဝိုင်ယာလက်စက်များ၊ မော်တော်ကားစက်များ၌ ဤကရိယာ၏သဘောကိုယူ၍ အသုံးချသည်ကို တွေ့ရပေသည်။ (လျှပ်စစ်ခါတ် — လည်းရှု။)



လျှပ်စစ် ခါတ်အားပေးရုံမှလွှတ်သည့် လျှပ်စစ် ဗို့အားကို တိုးမြှင့်ပေးသော ထရန်စဖေါမားကြီးများ

ဤနေရာ၌ တွေ့ရသောအချက်မှာ မူလနန်းခွေ၏ ကြိုး အပတ်ပေါင်းနှင့် ဒုတိယနန်းခွေ၏ ကြိုးအပတ်ပေါင်းတို့တူညီလျှင် မူလနန်းခွေသို့ သွင်းပေးသော လျှပ်စစ်ခါတ်စီး၏ ဗို့အားနှင့် ဒုတိယနန်းခွေ၌ခါတ်ကူးသော လျှပ်စစ်ခါတ်စီး ဗို့အားတို့သည် တူညီကြသည်။ မူလနန်းခွေ၌ ကြိုးတပတ်ရှိ၍ ဒုတိယနန်းခွေ၌ ကြိုး ၁၀ ပတ်ရှိလျှင် ဒုတိယနန်းခွေ၏ လျှပ်စစ်ဗို့အားသည် မူလနန်းခွေထက် ၁၀ ဆကြီးသည်။ ဒုတိယနန်းခွေ၌ ကြိုးတပတ်ရှိ၍၊ မူလနန်းခွေ၌ ကြိုး ၁၀ ပတ်ရှိလျှင် ဒုတိယနန်းခွေ၏ဗို့အားသည် မူလနန်းခွေ၏ ၁၀ ပုံ ၁ ပုံသာရှိသော အချက်ပင်ဖြစ်သည်။ အင်ဒပ်ရှင်းကွိုင်၏ သဘောသည် ဤအချက်ကို အခြေခံထားလေသည်။ (အင်ဒပ်ရှင်းကွိုင် — ရှု။)

ခါတ်အားပေးရုံမှလာသော လျှပ်စစ်ခါတ်စီး၏ဖိအားကို မြှင့်ပေးလိုသည့်အခါ ထရန်စဖေါမားကို အသုံးပြုရသည်။ ထရန်စဖေါမားမှာ သံစိမ်းတခု၌ အထက်ပါနည်းအရ ကြေးနန်းကြိုးများကို ရစ်ပတ်ထားသောကိရိယာဖြစ်သည်။ မြို့ကြီးပြကြီးများ၌ ဗို့အားများသော လျှပ်စစ်ခါတ်သည် ဘေးအန္တရာယ်ဖြစ်လွယ်သဖြင့် လျှပ်စစ်ခါတ်နိမ့် ထရန်စဖေါမားဖြင့် ကြိုးပတ်နည်းသော ဒုတိယနန်းခွေသို့ လျှပ်စစ်

**ထရန်စဗားနယ်**။ ။ထရန်စဗားနယ်သည် တောင်အာဖရိက ပြည်ထောင်စုနယ်တွင် အပါအဝင်ဖြစ်၏။ ဗားမြစ်၏ တဖက်တွင် တည်ရှိသည်ကိုအစွဲပြု၍ ထရန်စဗားဟု တွင်သည်။ ထိုနယ်၏နယ်နိမိတ်မှာ မြောက်ဖက်တွင် လင်ပိုးပိုးမြစ်၊ အရှေ့ဖက်တွင် ပေါ်တူဂီပိုင် အရှေ့အာဖရိကတိုက်နယ်၊ တောင်ဖက်တွင် ဗားမြစ်၊ အနောက်ဖက်တွင် ဗာဆူးတိုလန်နှင့် ဗက်ချူအာနာလန် နယ်တို့ဖြစ်သည်။

ထရန်စဗားနယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၁၀,၄၅၀ မိုင်ရှိသည်။ လူဦးရေမှာ ၄,၈၀၀,၀၀၀ ကျော်ရှိသည်။ နယ်တခုလုံးသည် ဗားမြစ်ဝှမ်းနှင့် လင်ပိုးပိုးမြစ်ဝှမ်း အကြားတွင် ရှိနေသော်လည်း၊ မြေပြင်မှာ အများအားဖြင့် ကုန်းမြင့်ဖြစ်လေသည်။ ထိုနယ်ရှိ ဒရက်ကင်စဗတ်တောင်တန်းမှာ ထင်ရှားသော တောင်တန်းဖြစ်သည်။

၁၈၃၄ ခုနှစ်တွင် ဗြိတိသျှတို့သည် ငွေဝယ်ကျွန်များကို လွှတ်၍၊ ကျွန်ကုန်ကူးရေးအလုပ်ကို ဖိနှိပ်ပိတ်ပင်လိုက်သောအခါ၊ ကိပ်ကိုလိုနီနယ်တွင်နေထိုင်သော ဒပ်ချ်လူမျိုး လယ်သမားများ ဖြစ်ကြသည့် ဗိုးဝါးတို့သည် မြောက်ပိုင်းသို့ တဖြည်းဖြည်း တက်လာကြပြီးနောက်၊ ဩရိန်းမြစ်ကိုဖြတ်ကာ ထရန်စဗားနယ်တွင် အိုးအိမ်စိုက်ထူနေထိုင်ခဲ့ကြလေသည်။

ထိုအခါကနယ်အတွင်း၌လည်း တိုင်းရင်းသားလူမည်းများ ရှိရာ၊ ဗိုးဝါးတို့သည် ထိုတိုင်းရင်းသားလူမျိုးထဲမှ စွမ်းလွန်းတမန်ရှိသော ဇူးလူးလူမျိုးတို့နှင့် မကြာခဏ ခိုက်



ထရန်းစဗားနယ်၊ ပရီတိုးရီးယားမြို့တော်သည် ကမ္ဘာကျော် စိန်တူးဖော်ရာဒေသ ဖြစ်ပေသည်။

ရန်ဖြစ်ပွားသည့်ပြင် ဗြိတိသျှတို့နှင့်လည်း မသင့်မမြတ် ဖြစ်ခဲ့ကြလေသည်။

၁၈၇၇ ခုနှစ်တွင် ဗြိတိသျှတို့သည် ထရန်စဗားနယ်ကို ခေတ္တသိမ်းပိုက်ထားရာ၊ ၁၈၈၁ ခုနှစ်၌ ထရန်စဗားနယ်ရှိ ဗိုးဝါးတို့နှင့် စတင်၍အချင်းများကြပြီးနောက် တိုက်ပွဲတွင် ဗြိတိသျှတို့အရေးရှုံးနိမ့်လေသည်။ ထိုနောက် ထိုနယ်သည် လွတ်လပ်ခဲ့ပြီးလျှင် ဗြိတိသျှတို့၏ ထိန်းသိမ်းစောင့်ရှောက်မှုကို လက်ခံလာလေသည်။

သို့သော် ရွှေ ကံစမ်းရှာဖွေခွင့်နှင့်စပ်လျဉ်း၍ ဗိုးဝါးစစ်ပွဲကြီးသည် ၁၈၉၉ ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် စတင်ဖြစ်ပွားလေသည်။ ထိုစစ်ပွဲမှာ ၃ နှစ်မျှကြာ၍၊ နောက်ဆုံး စစ်ပြေငြိမ်းရေးစာချုပ်အရ ထရန်စဗားနယ်မှာ ဗြိတိသျှကိုလိုနီနိုင်ငံတခု ဖြစ်လာလေသည်။

**တိရစ္ဆာန်များ။** ။ထရန်စဗားနယ်သို့ လူဖြူများ ရှေးဦးစွာ ရောက်လာစဉ်က ခြင်္သေ့၊ ဆင်၊ ကျားသစ်၊ သစ်ကုလားအုပ်၊ မြင်းကျားနှင့်ကြံ့များသည် တောကြီးတောင်ကြီးများထဲ၌ရင်း၊ ရေမြင်းနှင့်မိကျောင်းများသည် မြစ်ချောင်းအင်းအိုင်များထဲ၌ရင်း အလွန်ပေါများ၏။ သို့သော် ပစ်ခတ်သတ်ဖြတ်ခြင်းကြောင့် အတော်ပင်ယုတ်လျော့သွားကြလေသည်။

**မြို့ကြီးများ။** ။ပရီတိုးရီးယားမြို့သည် ထရန်စဗားနယ်၏ မြို့တော်ဖြစ်၍၊ တောင်အာဖရိကပြည်ထောင်စု၏ ရုံးစိုက်ရာ အချက်အခြာမြို့ဖြစ်၏။ အခြားမြို့ကြီးများမှာ ဂျိုဟန္နက်စဗတ်မြို့၊ ဗိနိုးနိုင်းမြို့၊ ကရူးဂါးစဒေါ့မြို့တို့ဖြစ်ကြသည်။

**တွင်းထွက်သတ္တုများ။** ။ထရန်စဗားနယ်သည် ကမ္ဘာပေါ်တွင် ရွှေထွက်ရာဗဟိုဌာနဖြစ်သည်။ စိန်၊ ကျောက်မီးသွေး၊ ရွှေဖြူ၊ သံ၊ ငွေ၊ ကြေးနီ၊ ခဲ၊ ယမ်းစိမ်းနှင့်ကန့်များကိုလည်း တူးဖော်ရရှိလေသည်။

၁၉၀၆ ခုနှစ်တွင် ထရန်စဗားနယ်သည် ကိုယ်ပိုင်အုပ်ချုပ်ရေးရပြီးလျှင်၊ ၁၉၁၀ ပြည့်နှစ်၌ အသစ်ဖွဲ့စည်းတည်ထောင်၍ တောင်အာဖရိကပြည်ထောင်စုတွင် ပြည်နယ်တနယ် ဖြစ်လာလေသည်။

**ထရှိုင်းမြို့ပုံပြင်။** ။အာရှမိုင်းနား၏ အနောက်မြောက်ကမ်းခြေအနီးတွင် အစ်လီယမ်မြို့ပျက်ကြီးကို ယနေ့တိုင် တွေ့မြင်နိုင်ပေသည်။ ယင်း အစ်လီယမ်မြို့ပျက်ကြီးကို ထရှိုင်းမြို့ဟုခေါ်ခဲ့ကြသည်။ ယခုမူ ထိုမြို့ကြီးကို ထရုတ်ဟုခေါ်သည်။

မကြာမီက မြို့ဟောင်းနေရာကို တူးဖေါ်ကြည့်ရှုသည့်အခါ၊ ခိုင်ခံ့သော တံတိုင်းကြီးများ၊ မျှော်စင်ကြီးများ၊ တိုင်အကျိုးအပဲ့များကို တွေ့ရသဖြင့်၊ ထိုမြို့တော်ကြီးသည် တခေတ်က ကြီးကျယ်စည်ကားသော မြို့ကြီးတမြို့ဖြစ်ခဲ့

ကြောင်း ခန့်မှန်းရလေသည်။ ယင်း မြို့ဟောင်း၏တည်ရာ အရပ်မှာ အီးဂျီးယန်းပင်လယ်နှင့်ဆက်စပ်နေသည့် ဟဲလစပွန့် (ဝါ) ဒါးဒနယ် ရေလက်ကြားအနီးဖြစ်သည်။

ထရွိုင်းမြို့၏ အရှေ့တောင်ဖက်တွင် နတ်မင်းကြီးဇုစံမြန်းရာ ဘုံဗိမာန်ရှိသော အိုင်ဒါတောင်ကိုတွေ့မြင်နိုင်သည်ဟု ကမ္ဘာကျော် ဂရိလူမျိုး ကဗျာစာဆိုကြီး ဟိုးမားက သူ၏ အစ်လယက်အမည်ရှိ လင်္ကာကြီးတွင် ရေးသားခဲ့၏။ နတ်မင်းကြီး ဇုသည် အိုင်ဒါတောင်ထိပ်ပေါ်ရှိ နတ်နန်းထက်မှ ဂရိနှင့်ထရွိုင်းလူမျိုးတို့ တိုက်ခိုက်သောစစ်ပွဲကို ရှုစားခဲ့သည်ဟု ဆိုလေသည်။ ထိုစစ်ပွဲကို ထရိုဂျန်စစ်ပွဲဟုခေါ်သည်။

ပင်လယ်ကမ်းခြေနှင့်တောင်တန်းများအကြားတွင် ပေ ၁၀၀ ခန့်မြင့်သော ကုန်းတန်းရှည်ကြီးတခုရှိသည်။ ဂရိ သမိုင်းအရ ထိုကုန်းတန်း၏အောက်၌ ထရွိုင်းမြို့တော်ကြီးသည် နှစ်ပေါင်းများစွာ နစ်မြုပ်နေခဲ့သည်။ ၁၈၇၁ ခုနှစ်နှင့် ၁၈၉၀ ပြည့်နှစ်များတွင် အဆိုပါကုန်းတန်းကို တူးဖော်ကြရာ၊ ထရိုဂျန်စစ်ပွဲ ဖြစ်ပွားသည့်အရပ်ဖြစ်ကြောင်း အထောက်အထားများကို တွေ့ရလေသည်။

ဘီစီ ၂၅၀၀ ပြည့်နှစ်ခန့်က ထရွိုင်းမြို့သည် ရွာသိမ်ရွာငယ် တခုမျှသာ ဖြစ်သော်လည်း၊ တစတစ စည်ကား တိုးတက် လာခဲ့သဖြင့်၊ နောက်ဆုံးတွင် အီးဂျီးယန်း ယဉ်ကျေးမှု၏ အချက်အခြာဒေသ ဖြစ်လာခဲ့၏။ ယခုဖော်ပြပါ ထရွိုင်းမြို့ ပုံပြင်မှာ ဆဋ္ဌမမြောက် ထရွိုင်းမြို့တော်၏သမိုင်း ဖြစ်သည်။ ယင်းဆဋ္ဌမမြောက် ထရွိုင်းမြို့တော်သည် ဘီစီ ၁၂ ရာစု သို့မဟုတ် ဘီစီ ၁၃ ရာစုတွင် ပျက်စီးခဲ့လေသည်။

ထရွိုင်းမြို့တော်ကြီး ပျက်စီးရသည့်အကြောင်းရင်းမှာ ရှေးနှစ်ပေါင်း ၃၀၀၀ ကျော်လောက်က ဂရိနှင့်ထရိုဂျန် လူမျိုးတို့ စစ်မက်ဖြစ်ပွားခဲ့သောကြောင့်ပင်တည်း။ တဖန် စစ်ဖြစ်ပွားရသည့်အကြောင်းမှာလည်း ထရွိုင်းမြို့တော်ကို စိုးစံသော ပရိုင်းယမ်ဘုရင်၏သား ပဲရစ်သည် စပါးတားမြို့ကိုစိုးစံသော မင်နီလေးအပ်ဘုရင်၏မိဖုရား ဟယ်လင်ကို ထရွိုင်းမြို့သို့ ဆောင်ကြဉ်းကာ ခိုးယူပေါင်းသင်းသောကြောင့် ဖြစ်သည်။ ယင်းသို့ ထရိုဂျန်လူမျိုးတို့၏ စော်ကားရန်စခြင်းကိုခံလိုက်ရသော ဂရိလူမျိုးတို့သည် ၁၀ နှစ်တာ ကာလပတ်လုံး အင်အားစုရုံးပြီးလျှင်၊ မိုင်စီးနီးဘုရင် အက်ဂါမံနွန်ကို ခေါင်းဆောင်အဖြစ်တင်မြှောက်၍၊ ထရိုဂျန်တို့အား လက်စားချေရန် ထရွိုင်းမြို့သို့ချီတက်ခဲ့ကြသည်။ ဂရိတို့သည် ထရွိုင်းမြို့ကို ၁၀ နှစ်ကြာမျှ ခဲယဉ်းပင်ပန်းစွာ ဝိုင်းဝန်း လုပ်ကြံပြီး၍၊ နောက်ဆုံးတွင် ဥပါယ်တံမျဉ်ဖြင့် အောင်နိုင်ခဲ့ကြ၏။

ဂရိတို့၏ ဥပါယ်တံမျဉ်ကား သစ်သားဖြင့်ပြုလုပ်သော မြင်းရုပ်ကြီး၏အတွင်း၌ စစ်သည်တော်များ ဝင်ရောက် ပုန်းအောင်း၍ နေစေကာ၊ ထိုမြင်းရုပ်ကြီးကို ထရွိုင်းမြို့၏ မြို့ရိုး



ဂရိစစ်သည်တို့ ဥပါယ်တံမျဉ်ဖြင့်ထားရစ်သော မြင်းရုပ်ကြီးကို ထရိုဂျင်တို့ သိမ်းယူ၍ မြို့တွင်းသို့ သွင်းနေပုံ

ပြင်ဖက်တွင် စွန့်ပစ်ထားခဲ့ဟန်ပြုလျက်၊ ကျန် စစ်သည်တော် အပေါင်းလည်း သင်္ဘောများစီးကာ ထွက်ခွာသွားဟန်ပြု ခဲ့ကြသည်။ ထိုအခါ ထရိုဂျန်တို့သည် ဂရိများ ပြည်တော် ပြန်ကြပြီအထင်ဖြင့် မြို့ပြင်ရှိ မြင်းရုပ်ကြီးကို မြို့တွင်းသို့ ဝမ်း ပန်းတသာ သွင်းယူခဲ့ကြလေသည်။ ညဥ့်အချိန် ရောက် သော် မြင်းရုပ်ကြီးအတွင်း၌ ပုန်းအောင်းနေခဲ့ကြသော ဂရိ စစ်သည်တော်များသည် အပြင်သို့ထွက်လာကြပြီးလျှင် မြို့ ကို စီးကြ၏။ သင်္ဘောစီးလျက် ထွက်ခွာသွားဟန်ပြုသော ဂရိစစ်သည်တော်များလည်း တိတ်တဆိတ် မြို့သို့ပြန်လာကြ ပြီးလျှင်၊ ဝိုင်းဝန်းတိုက်ခိုက်ကြသောကြောင့်၊ နောက်ဆုံး တွင် ထရှိုင်းမြို့တော်ကြီးသည် ဂရိတို့၏လက်တွင်းသို့ ကျ ဆင်း၍ ပျက်စီးသွားလေသည်။

**ထားဝယ်ခရိုင်**။ ။တနင်္သာရီကျွန်းဆွယ် ပင်လယ် ကမ်း ခြေ တလျှောက်တွင်ရှိသော ခရိုင် များ အနက်၊ ထားဝယ် ခရိုင်သည် တခုအပါအဝင်ဖြစ်၏။ ခရိုင်၏ အ ကျယ် အ ဝန်း မှာ စတုရန်းမိုင်ပေါင်း ၅၃၀၈ မိုင်မျှရှိသည်။ ခရိုင်၏ အ ရှေ့ဖက်တွင် တနင်္သာရီရိုးမတောင်တန်း၌အပါအဝင် ဖြစ် သော ဘိလောက်တောင်တန်းသည် ထားဝယ်ခရိုင်ကို ယိုး ဒယားနိုင်ငံ ကာ္ဥနပူရီနှင့် ရာဇပူရီခရိုင်နယ်တို့မှ ပိုင်းခြား ထားသည်။ အနောက်ဖက်၌ အန္ဒမန်ပင်လယ်တည်ရှိသည်။ မြောက်ဖက်တွင် ကျိုက္ခမီခရိုင်နှင့်၎င်း၊ တောင်ဖက်တွင် မြိတ် ခရိုင်နှင့်၎င်း၊ ဆက်စပ်လျက်တည်ရှိ၏။ ခရိုင်အတွင်း အမြင့် ဆုံး တောင်ထွတ်မှာ မြိတ်ခရိုင်နှင့်ဆက်စပ်နေသောနေရာ တွင် တည်ရှိသည့် မြင့်မိုရ်လက်ခပ်တောင်ဖြစ်သည်။ ထို တောင်သည် ပေပေါင်း ၆၈၀၀ မြင့်၏။ ထိုတောင်အပြင်၊ ခရိုင်တွင်းကိုဖြတ်၍တည်ရှိသော တောင်တန်း၌ နွားလပို့ တောင်ဟူ၍ ရှိရာ၊ ထိုတောင်သည် ပေပေါင်း ၆၀၀၀ ကျော် မြင့်သည်။

ထားဝယ်ခရိုင်တွင်း ရေကြောင်းသွားလာရေးအလို့ငှာ အသုံးဝင်သောမြစ်တို့မှာ မြောက်ဖက်ပိုင်း၌ ထားဝယ်မြစ် ဖြစ်၍၊ တောင်ဖက်ပိုင်း၌ တနင်္သာရီမြစ်ဖြစ်သည်။ ထား ဝယ်မြို့၏ အနောက်ဖက်တွင် ကမ်းခြေနှင့် ဆယ်မိုင် ကွာ သော အရပ်၌ ဟိန်ဇယ်၊ မောင်းမကန်နှင့်လောင်းလုံး ကျွန်း စု သုံးစုရှိသည်။ ထိုကျွန်းများမှာ ကျောက်ဆောင်ထူထပ် သဖြင့် လူနေအိမ်ခြေမရှိချေ။ သို့သော် ငှက်သိုက်လုပ်ငန်း ကြောင့် စီးပွားရေးအားဖြင့် အရေးပါသည်။

ထားဝယ်ခရိုင်ရှိ တောင်တန်းတို့မှာ များသောအားဖြင့် ကျောက်တောင်များဖြစ်သည်။ ကျောက်မှာ နှမ်းဖတ် ကျောက်မျိုးဖြစ်၏။ မြစ်ဝှမ်း၌တွေ့ရသော ကျောက်တို့ ကား မြေစေးမှဖြစ်သော သင်ပုန်းကျောက်ဖြစ်၏။ ထား ဝယ် ကမ်းခြေနှင့်နီးသော တောင် တန်း တို့ ၏ အရှေ့ဖက် မျက်နှာစာ၌ကား သံပါသောမြေစေးကျောက်များရှိသည်။ ထိုကြောင့် ထားဝယ်ခရိုင်၌ ဝူဖရမ်ထွက်သည်။ ထားဝယ် ခရိုင်မှထွက်သော ဝူဖရမ်နှင့်သံဖြူအမျိုးအစားမှာ ကမ္ဘာ ပေါ်တွင် ဒုတိယလိုက်သည်။

ထားဝယ်ခရိုင်တွင် သစ်တောပေါသည်။ သစ်တောနယ် အကျယ်အဝန်းမှာ စတုရန်းမိုင် ၅၀၀၀ မျှရှိသည်။ ထို သစ် တောများမှ ကျွန်းသစ်အပြင်၊ ဆေးဖက်ဝင်သော သစ်ကြံ ပိုး၊ ကြက်ဆူပင်၊ ဥပသကာပင်၊ ပင်လယ်အုန်းပင်တို့လည်း ထွက်သည်။ ကြက်ပေါင်ပင် ပေါက်ရောက်ခြင်းကြောင့်၊ ရာ ဗာလုပ်ငန်းလည်း အတော်အသင့်ကြီးကျယ်သည်။ သစ် သီး ဝလံ အနက်၊ ဒူးရင်း၊ မင်းကွတ်၊ နာနတ်နှင့် တညင်းသီး တို့သည် အဓိကထွက်ကုန်များဖြစ်သည်။

ပင်လယ်နှင့်ကပ်နေသော ခရိုင် ဖြစ် ခြင်း ကြောင့်၊ ငစိမ်း၊ ငခြောက် ငပိလုပ်ငန်းမှာ များစွာကြီးကျယ်သည်။ ထား ဝယ် ငပိနှင့်ငခြောက်တို့သည် မြိတ်ငပိနှင့်ငခြောက်တို့ကဲ့ သို့ပင်၊ နာမည်ကြီး၍၊ မြန်မာနိုင်ငံတွင် အနှံ့အပြား စားသုံး ကြသည်။

ထားဝယ်ခရိုင်သည် အပူပိုင်းဒေသ၌ တည်ရှိသော်လည်း၊ ပင်လယ်ကမ်းခြေနှင့်ကပ်နေသောကြောင့် အပူရှိန် မပြင်း ချေ။ မိုးရေချိန်မှာ လက်မ ၂၀၀ ကျော်သည်။ ထားဝယ် ခရိုင်မြောက်ပိုင်းသည် တောင်ပိုင်းထက် မိုးပိုများသည်။ ထားဝယ်မြို့အနောက်မြောက်ဖက်ရှိ မောင်းမကန် ပင်လယ် ကမ်းခြေသည် နွေရာသီအတွက် အနားယူရာ စခန်းကောင်း တခု ဖြစ်သည်။

ထားဝယ်ခရိုင်ရှိ တန်ခိုးကြီးဘုရားတို့မှာ ထားဝယ်မြို့ တောင်ဖက် မိုင်အနီးငယ်ကွာတွင် ရှင်မုတ်ထီးဘုရား၊ ထား ဝယ် အင်္ဂုတွင် ရှင်မော်ဘုရားနှင့် ထားဝယ်မြို့မြောက်ဖက်ရှိ ရှင်ဓာတ်ဝဲ ဘုရားများဖြစ်ကြသည်။ ယခုရှိရင်းစွဲ ထားဝယ် မြို့၏ မြောက်ဖက်တွင် ထားဝယ်မြို့ဟောင်းနေရာရှိသည်။

ထားဝယ်ခရိုင်၌ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်း ခန့်မှန်း ခြေ အရ လူဦးရေ ၂၄၇,၀၂၇ ယောက်ခန့်ရှိသည်။ ခရိုင် အ တွင်းရှိ တိုင်းရင်းသားတို့မှာ မြန်မာစကားကိုပင် ပြောဆို သုံးစွဲကြစေကာမူ၊အသံထွက်ချင်း မတူသောကြောင့် ရေမြေ ရပ်ခြားဒေသ စကားတရပ်ပမာ ရှိချေသည်။ ထားဝယ် စကားမှာ အချို့နေရာတွင် ရခိုင်စကားနှင့်ဆင်သည်။ ဤ သို့ဖြစ်ရခြင်းမှာ ရှေးဦးသမိုင်းခေတ်များ၌ ရခိုင်အမျိုးသား တို့သည် ထားဝယ်နယ်နှင့် အဆက်အသွယ်ရှိခဲ့ခြင်းကြောင့် ဖြစ်သည်ဟုဆိုသည်။

ထားဝယ်ခရိုင်၌ ထားဝယ်မြို့နယ်၊ ရေဖြူမြို့နယ်၊ လောင်း လုံး မြို့နယ်နှင့် သရက်ချောင်းမြို့နယ်ဟု မြို့နယ် လေးနယ် ရှိသည်။ ခရိုင်တွင်း သွားလာရေးမှာမူ၊ ရေလမ်းနှင့် ကုန်း လမ်းခရီးသာရှိသည်။ ကုန်းလမ်းမှာ မော်တော်ကားလမ်း



သက္ကရာဇ် ၁၂၉၃ ခုနှစ် နတ်တော်လဆုတ် ၃ ရက်နေ့တွင် ထားဝယ်မြို့၌တည်ထားတော်မူသော ဥာဏ်တော် အလျား ၁၆၂ တောင်ရှိသော လောကသရဖူ လျောင်းတော်မူဘုရားကြီး

သာ ဖြစ်သည်။ မီးရထားလမ်း မပေါက်ချေ။ သို့သော် ပင်လယ်ဆိပ်ကမ်းအဖြစ်ဖြင့် ထားဝယ်မြို့မှာ သင့်တော်ကောင်းမွန်သောကြောင့်၊ ဆန်စပါး၊ ကျွန်းသစ်၊ သတ္တုရိုင်း၊ ကြက်ပေါင်စေး၊ ထားဝယ်ပိုးလုံချည်၊ ငပိ၊ ငခြောက်၊ ဓနိ၊ သစ်သီးဝလံ စသော ခရိုင်၏ထွက်ကုန်တို့ကို ပင်လယ် ကမ်းခြေ ခရီးဖြင့် အခြားနယ်သို့ ပို့နိုင်သည်။ သယ်ယူပို့ဆောင်ရေးအတွက် ထားဝယ်နှင့်မြိတ်နယ်တို့မှ ကတ္တူ လှေသင်္ဘောတို့သည် များစွာ ထင်ရှားကျော်ကြားသည်။ ထားဝယ်မြို့ဆိပ်ကမ်းသည် စက်ာပူ၊ ပီနံ စသော မလေးကျွန်းဆွယ်ရှိ ပင်လယ်ဆိပ်ကမ်းတို့နှင့် တိုက်ရိုက်ဆက်သွယ်နိုင်သည်။ ရန်ကုန်မြို့နှင့်မူ ပင်လယ်ခရီးဖြင့်သာမက လေကြောင်းခရီးဖြင့်လည်း ဆက်သွယ်နိုင်သည်။

**ထားဝယ်မြို့။** ။ထားဝယ်မြို့သည် မြန်မာနိုင်ငံအောက်ပိုင်း၊ တနင်္သာရီတိုင်း၊ ထားဝယ်ခရိုင်၏ ခရိုင်ဝန်ရုံးစိုက်ရာမြို့ ဖြစ်သည်။ ထားဝယ်မြစ်ဝမှမိုင် ၃၀ ခန့်ကွာဝေး၍၊ ထားဝယ် မြစ်၏ လက်ဝဲဖက်ကမ်းပေါ် တွင် တည်ရှိသည်။ ထားဝယ် မြို့သည် ခရိုင်ဝန်ရုံးစိုက်ရာမြို့ ဖြစ်သည့်အားလျော်စွာ အစိုးရဌာနအသီးသီး၏ ခရိုင်ဌာနချုပ်ရုံးများ၊ မျူနီစီပယ်ရုံး၊ ဆေးရုံကြီး၊ အစိုးရတန်းမြင့်ကျောင်းနှင့် စျေးရုံများ ရှိ၍၊ စည်ကားသော မြို့ကြီးတမြို့ဖြစ်သည်။ နာမည် ကျော်ကြားသော မောင်းမကန်ကမ်းခြေစခန်းသည် ထားဝယ်မြို့၏ အနောက်မြောက်ဖက်ရှိ ပင်လယ်ကမ်းခြေတွင်တည်ရှိသည်။ ထိုစခန်းသို့ ထားဝယ်မှနေ၍ မြစ်တဖက်သို့ကူးပြီးလျှင်၊ ရှစ်မိုင် ခန့် မော်တော်ကားဖြင့်သွားရသည်။

ထားဝယ်မြို့သည် မီးရထားလမ်းနှင့်ကွာဝေးသော မြို့တမြို့ဖြစ်၍ လမ်းပန်း ဆက်သွယ်ရေးတွင် မော်တော် ကား နှင့် သင်္ဘောများကိုသာ အားထားရသည်။ မော်လမြိုင်မှ မီးရထား လမ်းဆုံးဖြစ်ခဲ့သော ရေးမြို့နှင့် ဘတ်ကားလမ်း ပေါက်သည်။ သို့သော် တောင်တက်တောင်ဆင်း ခရီးကြမ်းသဖြင့် အသွားအလာ မလွယ်ကူပေ။ ထားဝယ်ကားဆိပ်၌ ကုန်တင် မော်တော်ကား၊ လူစီး ကား များ စွာ တို့ ကို တွေ့မြင်ရသည်။ ထားဝယ်ဆိပ်ကမ်းမှာလည်း ဆိပ်ကမ်းကောင်းဖြစ်၍ အရောင်းအဝယ် စည်ကားသည်။ ထားဝယ်မြို့မှ မြန်မာ နိုင်ငံ အခြားဆိပ်ကမ်းမြို့များသို့ ရေကြောင်းအဆက် အသွယ် အလွန်ကောင်းမွန်သည်။ ထားဝယ်မြို့၌ လေဆိပ်လည်း ရှိသည်။ မြို့၏ကျောထောက်နောက်ခံဒေသများတွင် သတ္တုတွင်းများ၊ ရာဗာခြံများ၊ ကျွန်းသစ်တောများ ရှိ၍ တကြောင်း၊ မြို့ပေါ် နှင့်ကမ်းခြေများတွင် ငပိ၊ ငခြောက် လုပ်ငန်း တွင်ကျယ်သောကြောင့်တကြောင်း၊ အရောင်းအဝယ်



ထားဝယ်မြို့သက် အနှစ် ၂၀၀ ပြည့် (၁၉၅၁ ခုနှစ်)
မော်ကွန်းကျောက်တိုင်

ဗဟိုဌာနတခုဖြစ်သည်။ ထားဝယ်လုံချည်များကို မြန်မာနိုင်ငံ တဝှန်းလုံးသို့ တင်ပို့ရောင်းချရသည်။ ဆန်စက်နှင့် သစ်စက်များလည်းရှိ၏။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ၊ လူဦးရေ ၄၀,၁၁၂ ယောက်ခန့်ရှိသည်။

ထားဝယ်မြို့ကို ခရစ် ၁၇၅၁ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ မြို့တည်နေပုံမှာ လေးထောင့်ဖြစ်သည်။

**ထားဝယ်လူမျိုး**။ ။ထားဝယ်လူမျိုးသည် တိဗက်-မြန်မာ အစုမှ မြန်မာလူမျိုးအုပ်စုဝင်ဖြစ်သည်။ သို့သော် အခြား မြန်မာအုပ်စုဝင်များဖြစ်ကြသော ဓနု၊ တောင်ရိုး၊ မရူစသည်တို့ကဲ့သို့ မဟုတ်မူဘဲ၊ မြန်မာတို့နှင့် ကိုးကွယ် ယုံကြည်မှု၊ ဓလေ့ယဉ်ကျေးမှု၊ ဝတ်စားဆင်ယင်မှုတို့တွင် တူညီကြ၏။

ထားဝယ်လူမျိုးများ၏ဇာစ်မြစ်သည် မြန်မာအနွယ်ဝင် ရခိုင်လူမျိုးတို့ပင်ဖြစ်သည်။ ရခိုင်ကမ်းခြေဒေသမှ ရခိုင်များသည် တနင်္သာရီပင်လယ်ကမ်းမြောင်ဒေသသို့ သွားရောက်နေထိုင်ကြရာမှ ပေါက်ပွားလာသောအစုကို ထားဝယ်သားများ ခေါ်ဟန်ရှိ၏။ ထားဝယ်စကားသည် ရခိုင်စကား ပြောဆိုနည်းနှင့် ယိုးဒယားလေသံတို့ ပေါင်းစပ်ထားသကဲ့သို့ ဖြစ်နေခြင်းကိုထောက်၍ သိနိုင်သည်။

ထားဝယ်လူမျိုးဟူသောဝေါဟာရ ပေါ်လာရပုံ၌ အဆိုအမျိုးမျိုးရှိကြသော်လည်း ခိုင်လုံသောအကြောင်းအရာကိုမူ မတွေ့ရပေ။ အချို့ကမူ မြတ်စွာဘုရား ထက်ဝယ်ဖွဲ့နွေ့ ဆွမ်းဘုဉ်းပေးသောအရပ်အား မွန်တို့က 'ဓဝါယ်' ဟု ခေါ်ရာမှ ထားဝယ်ဖြစ်လာသည်ဟုဆို၍ အချို့ပုဂ္ဂိုလ်များကလည်း နရပတိစည်သူမင်းကြီးသည် ယခုထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ ကျောက်တွင်းရွာဒေသအနီး၊ ထောင့်ကွယ်မြို့ကို တည်ထောင်၍၊ ထိုထောင့်ကွယ်မှ ထားဝယ်ဟု ရွေ့လျားပြောင်းလဲလာသည်ဟု ဆိုကြပြန်သည်။

ထားဝယ်အရပ်သည် မြန်မာမင်းတို့ ယိုးဒယားသို့စစ်ချီရာ၌ စစ်လမ်းကျသဖြင့် ပုဂံခေတ်ကပင်လျှင်၊ အဆက်အဆံ၊ အကူးအလူး ရှိဟန်တူသည်။ ထားဝယ်လူမျိုးတို့သည် မြန်မာ အမျိုးသားအား ဂံသားဟု ပုဂံသားအဖြစ် ရည်ညွှန်းခေါ်ဝေါ်သည်ကို ထောက်ထားနိုင်လေသည်။

မြန်မာမှုကိုထုတ်ဖော်သော ရွှေဘုံနိဒါန်းစာအုပ်တွင် မြန်မာတို့၏ နန်းတွင်းဆောင်၌ ထားဝယ်ဆောင်ဟူ၍ရှိကြောင်း ဖော်ပြထားသည်။ ယင်းထားဝယ်ဆောင်မှာ ဆင်ဖြူများရှင် မင်းကြီးက ထားဝယ်မှခေါ်ဆောင်လာသော ထားဝယ်သားတို့အား ချီးမြှောက်၍ ခစားစေသော အဆောင်ဖြစ်ကြောင်း ဆိုပေသည်။ ရှေးမြန်မာခေတ် အမှုထမ်း အရာထမ်း စာရင်းတွင်လည်း တောင်ထားဝယ်ဗိုလ်၊ မြောက်ထားဝယ်ဗိုလ်ဟု မှုရည် ရွက်ရည်အလိုက် ခန့်ထားသည်ကိုလည်း တွေ့ရသည်။

ယခုအခါ တောင်ပိုင်းရှမ်းပြည်၊ အင်းလေးဒေသတွင် မှီတင်းနေထိုင်ကြသော အင်းသားတို့သည်လည်း၊ ထားဝယ်လူမျိုးဆက်ဖြစ်ကြောင်း ဆိုကြသည်။ အင်းသားစကားနှင့် ထားဝယ်စကားတို့မှာ များစွာတူကြ၏။ သို့ရာတွင် ထားဝယ်သားများ မည်သို့မည်ပုံ အင်းထဲသို့ရောက်ရှိလာသည် ဆိုသောအချက်၌ကား အယူအဆအမျိုးမျိုးရှိကြ၏။

ထားဝယ်လူမျိုးများသည် သက်မွေးဝမ်းကြောင်းမှုအတွက် ကုန်သွယ် လယ်လုပ် ယာခုတ်၊ ဥယျာဉ်စိုက်ခြင်းနှင့် သတ္တုတွင်း ရှာဖွေတူးဖော်ခြင်းအမှုတို့ကို ပြုကြသည်။ ထားဝယ် ခရိုင်သည် မြန်မာနိုင်ငံတွင်းရှိ အခြားအခြားသော ဒေသများနှင့် ကုန်းလမ်း၊ ရေလမ်း၊ လေလမ်းခရီး ဆက်သွယ် ကောင်းမွန်သဖြင့် ထားဝယ်သားများသည် မြန်မာနိုင်ငံ အနှံ့အပြား နေထိုင်လျက်ရှိကြသည်။ ထားဝယ်သားများသည် များသောအားဖြင့် ဖြောင့်မတ်ရိုးသား၍ မဟုတ်မခံသော ဇွဲသတ္တိရှိသူများ ဖြစ်ကြသည်။ ထားဝယ်သားအချင်းချင်း စည်းလုံးညီညွတ်စွာ နေတတ်ကြသည်။ ၁၉၀၁ ခုနှစ် သန်ကောင်စာရင်းအရ ထားဝယ်လူမျိုးဦးရေ ၉၄၈

ယောက် ရှိသော်လည်း ၁၉၅၁ ခုနှစ် သန်ကောင်စာရင်း အရမူ ၁၅၉၁၇၄ ယောက်ရှိသည်။ ယနေ့ထားဝယ်လူမျိုးများ ပြောဆိုနေကြသောစကားများတွင် ပေါရာဏ၊ မြန်မာ၊ ရှမ်း၊ မွန်စကားများ ရောစပ်လျက်ရှိ၏။ သို့ရာတွင် အခြားမည်သည့်လူမျိုးများနှင့်မျှ မဆက်စပ်သော ထားဝယ်စစ်စစ်စကားလုံးများလည်း ရှိသည်။

ပုံစံအားဖြင့် — ဖြန် = ပိုက်ဆံ
ခွ = တံခါး
ဟဲလော = စဥ့်အိုးကြီး
ဘုထောန့် = မီးဖိုဆောင်

စသော စကားလုံးများ ဖြစ်လေသည်။

ထားဝယ်လူမျိုးတို့သီဆိုကြသော ထားဝယ်ဒိန်းသီချင်းမှာကား ထားဝယ်တို့၏ ကျော်ကြားသော ယဥ်ကျေးမှု အနုပညာတခု ဖြစ်လေသည်။ မြန်မာတို့ အိုးစည်ဝိုင်းနှင့် အနည်းငယ်ဆင်သည်ဟု ဆိုရပေမည်။ ဒိန်းသီချင်းကို တယောက်က တိုင်၍ သံပြိုင်တွင် အများကလိုက်၍ဆိုရသည်။

ရှေးထားဝယ် အကတခုဖြစ်သော ‘ရမ်းက’ ဟူသော အကမှာ ယခုအခါတွင် တိမ်မြုပ်လျက်ရှိပေသည်။ ထားဝယ်ကျေးလက်တောရွာတို့တွင် မြန်မာတို့၏ကြက်တိုက်ပွဲပမာ ခေတ်စားသော ပျော်ရွှင်မှုတရပ်ကား ထားဝယ်လူမျိုးတို့၏ ကျွဲတိုက်ပွဲများပင်ဖြစ်၏။

**ထီ**။ ။ထီဆိုသည်မှာ ကံစမ်း မဲရွေးပွဲတမျိုးဖြစ်သည်။ စင်စစ်အားဖြင့် အစိုးရခွင့်ပြုမှ ဖွင့်ရသောကြောင့် အစိုးရအသိအမှတ်ပြု လောင်းကစားပွဲတမျိုးဖြစ်သည်။ ထီလက်မှတ်ဖြတ်ပိုင်းများကို တန်ဖိုးသတ်မှတ်ရောင်းချ၍ ရောင်းရငွေမှ သင့်လျော်ရာအချိုးအဆကို ဆုအဖြစ်ခွဲဝေကာ လက်မှတ်ပေါ်ရှိ အမှတ်အသားဂဏန်းများကို မဲဖွင့်ပြီးနောက် ကျရာဂဏန်းပါရှိသည့် လက်မှတ်ပိုင်ရှင်အား ဆုငွေချီးမြှင့်သော စံနစ်ဖြစ်သည်။

ထီဟူသောစကားရပ်မှာ မြန်မာစကားသက်သက် ဟုတ်ဟန် မတူချေ။ အင်္ဂလိပ်စကား၏ အရင်းအမြစ် သို့မဟုတ် တရုပ်စကား၏ အရင်းအမြစ်မှဖြစ်သည်ဟု ဆိုကြသည်။ အင်္ဂလိပ်ဘာသာဖြင့် ထီကို လော်ထရီဟုခေါ်ရာမှ လော်ထီ သို့မဟုတ် ထီဟူ၍ ရွေ့လျောလာသည်ဟု အယူရှိကြသည်။

များစွာသောနိုင်ငံတို့တွင် အခွန်တော် ပိုမိုရရှိရေး အတွက် ထီဖွင့်ခြင်းအလေ့ကို ပြုလျက်ရှိကြသေးသည်။ ဆေးရုံ၊ လူအိုရုံ၊ ကျောင်းစသည့် များစွာသောပြည်သူ့ အဆောက်အဦများနှင့် ဘုရားရှိခိုးကျောင်းများကိုလည်း ယင်းသို့ ထီဖွင့်ရာမှရရှိသော အခွန်ဖြင့် တည်ထောင်ဖွင့်လှစ်ကြသည်။

မြန်မာနိုင်ငံတွင် သီပေါမင်းလက်ထက်တော်မတိုင်မီက ထီဟူသောအမည်ဖြင့် ဖွင့်ခြင်းအလေ့အထရှိခဲ့သော်လည်း၊



မြန်မာနိုင်ငံတော် အောင်ဘာလေ သိန်းဆုဖွင့်ပွဲ မကျင်းပမီ ဆုမဲများကို ကြည့်ရှုစစ်ဆေးနေစဥ်



မြန်မာနိုင်ငံတော် အောင်ဘာလေ သိန်းဆုဖွင့်ပွဲကို ရန်ကုန်မြို့ရှိ မြို့တော်ခန်းမတွင် ကျင်းပနေစဉ်

ထီနှင့်အလားတူ မဲချသောစံနစ်မျိုးဖြစ်သည့် စာရေးတံမဲပွဲမှာ ရှေးနှစ်ပေါင်းများစွာကပေါ် ထွန်းခဲ့သဖြင့် ဝါခေါင်လ၏ ရာသီပွဲအဖြစ်ပင် ထင်ရှားခဲ့လေသည်။ ပင်လယ်ခရီး မြစ်ကြောင်း ခရီးများ၌၊ လှေသင်္ဘောတို့ဖြင့် သွားလာရာဝယ် လှေသင်္ဘောတို့ မငြိမ်မလျှား တန့်နေပါက၊ စာရေးတံမဲချ၍၊ မဲကျသူအား ရေသို့ချရသောအလေ့ရှိကြောင်းကို ဦးရှင်ကြီး သမိုင်း၊ ပေါင်းလောင်းရှင် မဟာကဿပ၏သမိုင်း စသည်တို့ အရ သိကြရသည်။

မြန်မာသက္ကရာဇ် ၁၁၄၄ ခုနှစ်၌ နန်းတက်သော အမရပူရ ရွှေနန်းသခင် ဘိုးတော်မင်းတရားကြီး လက်ထက်တော်တွင် နိုင်ငံခြားသား ကုလားလူမျိုးတို့နှင့် ကုန်ကူးသန်းဆက်သွယ်ခဲ့ရာမှ အင်္ဂလိပ်လူမျိုးတို့၏ထီစံနစ်ကို မြန်မာတို့သိရှိခဲ့ကြသည်။ ကုန်ရောင်းကုန်ဝယ်ကိစ္စများ၌ အငြင်းပွားသည့်အခါ မြန်မာခုံတော်များက ကုလားလူမျိုးတို့၏ အရောင်းအဝယ်ဆိုင်ရာထုံးစံဖြစ်သော ပြင်ကူ၊ ဇီတံဝတံ၊ ဖီမာ၊ လေလံ စသည့် ထုံးနှုန်းတို့ကိုဆင်ခြင်၍ အဆုံးအဖြတ်ပေးကြရကုန်ရာ ပြင်ကူဟူသောသဘောသည် ထီ၏သဘောနှင့် ဆင်တူသည်။ ကံစမ်းစက္ကူလိပ်များကိုမဲနှိုက်စေ၍ အငြင်းပွားနေသော ကုန်၏တန်ဘိုးကိုဖြတ်ကာ ခွဲဝေပေးသောစံနစ်ကို ပြင်ကူဟု ခေါ်သည်။

သီပေါမင်းလက်ထက်တွင် အင်္ဂလိပ်အစိုးရပိုင်နက်ဖြစ်သော အောက်မြန်မာနိုင်ငံတွင် ထီဖွင့်မှု ခေတ်စားနေလေသည်။ မန္တလေးနေပြည်တော်၌လည်း တရုပ်အမျိုးသားများ၏ ၃၆ ကောင်ထီများ ပေါ်ပေါက်နေပြီးဖြစ်သည်။ အခွန်တော်တိုးစေရန် သဿမေဓအခွန်တော်ကို အတင်း အကြပ် ကောက်ခံခြင်းထက် အင်္ဂလိပ်အစိုးရကဲ့သို့ ထီဖွင့်၍ ခိုင်နှုန်း ကောက်ခံခြင်းက ပို၍အကျိုးများမည်ဟု ယူဆကာ သီပေါမင်းတရားသည် ထီရုံများဖွင့်လှစ်စေသည်။ နောက်ဆုံးတွင် အကျိုးမရှိဘဲ ဆင်းရဲသားကျွန်တော်မျိုးတို့ မွဲတေခြင်း၊ ခိုးသားထားပြ အလွန်ဆူပူသောင်းကျန်းခြင်းတို့ ဖြစ်လာသဖြင့် ၁၂၄၃ ခု ပြာသိုလတွင် ထီရုံများပိတ်စေရသည်။

သီပေါမင်းလက်ထက် ထီဖွင့်ပုံဖွင့်နည်းမှာ အင်္ဂလိပ်တို့၏ ထီစံနစ်နှင့် အနည်းငယ် ကွာခြားသည်။ ၁၂၄၀ ပြည့်နှစ် တပေါင်းလတွင် ထီသဘောပေါက်သော အကွက် ၆၀ ခုံကို တီထွင်သည်။ ထိုခုံတွင် အမှတ် ၁ မှ ၆၀ အထိ ဂဏန်းများ ပါဝင်ရာ ထီထိုးသူက ကြိုက်ရာအမှတ်ကို အကန့် အသတ် မရှိ ထိုးနိုင်သည်။ တဂဏန်းလျှင် တကျပ်ဖြစ်၍ ရောင်းရငွေမှ ၂၀ ရာခိုင်နှုန်းကို နုတ်ယူပြီးလျှင် ကျန်ငွေကို အောင်ဘာလေဖွင့်သည်။ ပေသီးအလုံး ၆၀ ပေါ်တွင် တစ်ဂဏန်းမှ ခြောက်ဆယ်ဂဏန်းတိုင်အောင်ရေးထိုး၍ ငွေအိုးတလုံးတွင်ထည့်ကာ ဗလာပေသီး ၅၉ လုံးနှင့် ရွှေပေသီးတလုံးကို အခြားငွေအိုးတလုံးတွင်ထည့်ပြီးနောက်

ကလေးနှစ်ယောက်အား အိုးတလုံးစီမှ ပေသီးတလုံးစီ နှိုက်ယူစေသည်။ ရွှေပေသီးနှင့်တွဲ၍ထွက်သော ဂဏန်းသည် အောင်ဘာလေဂဏန်းဖြစ်၍ ထိုဂဏန်းထိုးသူတို့အား သတ်မှတ်ထားသော ဆုငွေကို အညီအမျှခွဲဝေပေးသည်။

ယင်းအကွက် ၆၀ ထီမျိုးကို လူကြိုက်နည်းလာသဖြင့် ၁၂၄၁ ခု သီတင်းကျွတ်လပြည့်ကျော် ၁ ရက်နေ့တွင် အောင်ဘာလေ ပေါက်ဂဏန်းကို တခုတည်းထား၍ လက်မှတ်ပေါင်း ၁၂၀၀၀ ရိုက်သည်။ တလက်မှတ်လျှင် ငါးကျပ်ကျနှင့် ရောင်းချရာ၊ ငွေပေါင်း ၆၀၀၀၀ ရရှိလေသည်။ ယင်းခြောက်သောင်းမှ အခွန်တော်အတွက် ငွေတသောင်း နုတ်ယူပြီးနောက် ကျန်ငွေငါးသောင်းကို အောင်ဘာလေမဲ ဖွင့်သည်။ အောင်ဘာလေ ရွှေပေသီးနှင့်တိုက်ဆိုင်သူ လက်မှတ်ရှင်အား ငွေငါးသောင်းအပ်နှင်းပြီးလျှင် သူဌေးအရာ ခန့်ထား သူကောင်းပြုမည်ဟုပင် စည်လည်ထားသည်။ ထီပေါက်သူထံသို့ ငွေအိတ်ကို ဆင်ပေါ် တွင်တင်၍ အိမ်တိုင်ယာရောက်ပို့လေသည်။ ထိုနောက် ထိုထီစံနစ်ကို ဘုရင်ကိုယ်တိုင် နှစ်သက်တော်မူသဖြင့် ထီရုံပေါင်း ၁၀ ရုံ ဖွင့်စေတော် မူလျက် ထီရုံတရုံတွင် လက်မှတ်ပေါင်း ၆၀၀၀ ထား၍ တလက်မှတ်လျှင် နှစ်ကျပ်ကျနှင့် ရောင်းချရာ ထီတရုံလျှင် ငွေပေါင်း ၁၂၀၀၀ ရရှိသည်။ ယင်းငွေမှ ငွေ ၂၀၀၀ ကို နုတ်၍ ကျန်ငွေ ၁၀၀၀၀ ကို အောင်ဘာလေဖွင့်စေသည်။ ဤနည်းအတိုင်း ထီရုံ ၁၀ ရုံထား၍ တလလျှင် ၁၀ ကြိမ် ထီဖွင့်စေရာ ထီတော်မှအခွန်တော်ငွေပေါင်း တလလျှင် ၂ သိန်းကျစီ ရလေသည်။

မြန်မာနိုင်ငံကို ဗြိတိသျှတို့သိမ်းပိုက်ပြီးနောက် ၁၉၃၈ ခုနှစ် ကျမှ တလက်မှတ်လျှင် ၂ ကျပ်ကျနှင့်ရောင်း၍ ပဌမသိန်းဆုအပြင် အခြားဆုငယ်များကို အောင်ဘာလေမဲ နှိုက်၍ ဖွင့်သည်။ တနှစ်လျှင် ၄ ကြိမ် ဖွင့်လှစ်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်း မြန်မာနိုင်ငံကို ဂျပန်တို့သိမ်းပိုက်ထားစဉ်ပင် ထီကို ဆက်လက်ဖွင့်လှစ်လေသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ပြည်ထောင်စုအစိုးရ လက်ထက်တွင် ၁၄ ကြိမ်မြောက် အောင်ဘာလေ သိန်းထီမှစ၍ ယနေ့တိုင်အောင် ၂ လတကြိမ် ဖွင့်လှစ်လျက်ရှိရာ ၁၉၅၉ ခု နိုဝင်ဘာလတွင် အကြိမ် ၉၀ မြောက်ခဲ့လေပြီ။

ထီကို မည်သူမဆို ဖွင့်ချင်သည့်အခါတွင် ဖွင့်၍မရချေ။ နိုင်ငံတော်အစိုးရက ခွင့်ပြုသောအဖွဲ့အစည်းနှင့် ခွင့်ပြုသူတို့သာလျှင် ခွင့်ပြုသမျှကာလအတွင်း ဖွင့်နိုင်သည်။ ပုဂ္ဂလိကစီးပွားရေးအတွက်မှအပ အခြားမည်သည့်ကိစ္စအတွက်မဆို ထီဖွင့်ရန် အစိုးရထံလျှောက်ထားနိုင်သည်။

**ထီး**။ ။ထီးသည် နေပူသည့်အခါ အပူမှကာကွယ်ရန်၊ မိုးရွာသည့်အခါ စွတ်စိုခြင်းမှ ကာကွယ်ရန်၊ ဦးခေါင်းထက်တွင် အုပ်မိုးရသော လူ့အသုံးအဆောင်ပစ္စည်းဖြစ်သည်။ သို့ရာတွင် မြန်မာမှုအနေဖြင့်ကား၊ ထီးသည် လူသုံးပစ္စည်းတရပ်မျှသာ မဟုတ်ချေ။ လူတို့၏ အပူဇော်ခံယူထိုက်ခြင်းနှင့် တန်ခိုးအာဏာရှိခြင်းတို့ကိုပြသော အထိမ်းအမှတ်ပစ္စည်းလည်း ဖြစ်သည်။ ထို့ကြောင့် ဘုရားပုထိုးတို့၌တင်ရသော ထီးတော်၊ မင်းမြောက်တန်ဆာအဖြစ်ဖြင့်သုံးသော မင်းသုံးနန်းသုံးထီး၊ မှူးကြီးမတ်ရာ သေနာပတိတို့သုံးသော ထီး၊ သာမန်လူသုံး ထီးဟူ၍ အမျိုးမျိုးရှိသည်။

အိန္ဒိယနိုင်ငံရှိ စေတီပုထိုးတို့တွင် စေတီပုထိုးတို့၏ အထွတ်၌ သစ်သားထီးရိုးတပ်၍ အရွက်အဆင့်ဆင့်ရှိသော ထီးတော်ကို တင်လေ့ရှိသည်။ ယင်းထီးကို ဆတ္တာဝလိဟု ခေါ်သည်။ ထီးရွက်သုံးဆင့်ရှိသောထီးကို ဘီစီ ၁၀၀ ခန့်က တည်သော ဆန်ချီပုထိုးတွင် တွေ့မြင်နိုင်ပေသည်။ ထီးရွက် သုံးဆင့်ထက် ပိုသော ထီးတော်တို့ကိုမူ အနုရာဓပူရရှိ ထူပါရာမ ပုထိုး (ဘီစီ ၂၄၆) ၌၎င်း၊ ဆာရနတ်ရှိ ပုထိုး (အေဒီ ၆ ရာစု) ၌၎င်း တွေ့မြင်နိုင်ပေသည်။ ထိုထီးတို့သည် အများအားဖြင့် သစ်သားထီးသော်၎င်း၊ ကျောက်ထီးသော်၎င်း ဖြစ်ကြသည်။

မြန်မာနိုင်ငံရှိ စေတီပုထိုးတို့၌တင်သော ထီးတို့ကား များသော အားဖြင့် ကြေး၊ သံ၊ သံဖြူ စသည်တို့နှင့်ပြုလုပ်သော ထီးများဖြစ်ကြသည်။ ထီးတော်ပြုလုပ်ရာ၌ ကြေးခွေ၊ သံခွေတို့ကို အောက်ခြေမှအထက်သို့ အရစ်အရစ်ဆင့်လျက်၊ မကိုဋ်သရဖူသဏ္ဌာန် ဘုံအဆင့်ဆင့်ပြုလုပ်လေ့ရှိကြသည်။ ထီးကို အများအားဖြင့် ငါးဆင့်၊ ခုနစ်ဆင့်၊ ဆယ့်တဆင့်ဟူ၍ ပြုလုပ်ကြသည်။ ထီးကို စေတီ၏ချယားသီး (ဝါ) ငှက်ပျောဖူး တွင် တပ်ဆင်၍၊ ထီးထက်၌ ငှက်မြတ်နားနှင့်စိန်ဖူးများကို တပ်ဆင်ရသည်။ ထီးဆင့်များ၌ ညောင်ရွက်များနှင့် ဆည်းလည်းများကိုလည်း တပ်ဆင်လေ့ရှိသည်။ ဆတ္တာဝလိ ထီးအဆင့်ဆင့်မျိုး၏ပုံစံကို မှော်ဇာမြို့ ခင်ဘားကုန်းမှ တူးဖော် ရရှိသော စေတီတွင် တွေ့မြင်နိုင်ပေသည်။ (ချယားသီး။ စေတီပုထိုး — ရှု။) မြန်မာနိုင်ငံရှိ စေတီပုထိုးတို့၏ ထီးနမူနာကို ပြ ရ မည် ဆိုလျှင် အထင်ရှားဆုံးဖြစ်သော ရွှေတိဂုံစေတီတော်ကြီး၏ထီးကိုပြရပေလိမ့်မည်။ သို့ရာတွင် ယခုခေတ်၌ မြန်မာ ပိသုကာ အတတ်တွင် အသစ်တီထွင်လျက်ရှိကြသည်။ ဗိုလ်တထောင် ဘုရား၏ ထီးတော်နှင့် ရွှေမော်ဓောဘုရား၏ ထီးတော်တို့မှာ အသစ်တီထွင်သော ပုံစံများဖြစ်ကြပေသည်။ ဤထီးကို သမ္မတခေတ်ထီးဟုခေါ် သည်။ ထိုထီးတွင် ထီးရွက် ငါးဆင့် ထားသည်။ ထိုထီးရွက်ငါးဆင့်ကို တီထွင်သူတို့၏ ရည်ရွယ်ချက်ကား၊ ဘဒ္ဒကမ္ဘာတွင် ဘုရား ငါးဆူပွင့်သည်ကို၎င်း၊ ပြည်ထောင်စုအလံတော်တွင် ပြည်နယ်တို့ကို ရည်ညွှန်းသော ကြယ် ငါးပွင့်ရှိသည်ကို၎င်း ရည်ရွယ်သည်ဟု ဆိုသည်။




(ဝဲဖက် မျက်နှာ ၂၀၆) ၁၊ ၂၊ ၃၊ ထီးပုံဖော်ရန် ထီးတံ၊ ခရိုင်နှင့် အဝန်းတို့တွင် ကြိုးချည်ရသည်။
(ဝဲဖက် မျက်နှာ ၂၀၆) ၄၊ ၅၊ ၆၊ ထီးရွက်ကပ်၍၊ ခရိုင်ကို ထီးပန်းထိုးပြီးလျှင်၊ ထီးရွက်များကို ချိုးရသည်။
(ယာဖက် မျက်နှာ ၂၀၇) ၇၊ ၈၊ ပန်းချီ ရေးဆွဲပြီးနောက်၊ မိုးရေခံရန် ဆီသုတ်၍ပေးရသည်။



စေတီပုထိုး၏ အထွတ်အထိပ်၌တင်သော ထီးအပြင်၊ ဘုရားပုထိုး စသည်တို့အား ကပ်လှူပူဇော်သော ထီးများလည်း ရှိသေးသည်။ ဘုရားတွင် ချိတ်ဆွဲစိုက်ထူထားသည့် ထီးများကို ထွားထီးဟုခေါ်သည်။ ထွားထီးမှာ ရွှေတွင် ဖော်ပြလတ္တံ့သော မင်းသုံးထီး၏ပုံစံအတိုင်းဖြစ်၍၊ သတောင်းလည်၊ ကြာယပ်၊ ရွှေခြည်၊ ငွေခြည်၊ ပုတီး၊ ဘော်ကြယ်ပွင့်များ စသည်တို့ဖြင့် မွမ်းမံခြယ်လှယ်ထားသည်။

မင်းမြောက်တန်ဆာငါးပါးတွင်ထီးသည်တပါးအပါအဝင်ဖြစ်သည်။ မင်းသုံး နန်းသုံး ထီး၏ သဘောမှာ မင်းတို့၏ အချုပ်အချာအာဏာပိုင်ခြင်းကို ဖော်ပြသော အထိမ်းအမှတ် အဆောင်အယောင်သဘောဖြစ်သည်။ ရွှေဘုံနိဒါန်းတွင် နန်းမနန်းဦး၌ ထီး မပြတ်စိုက်ဆောက်လျက်၊ ထီးရိပ်တွင် ကေရာဇ်မင်းမြတ်တို့ စံပယ်သည်ဟုဆိုသည်။ ထိုထီးမှာ ထီးဖြူဖြစ်သည်။ ပြူစောထီး၏ ထီးဖြူသည် လုံးပတ်သုံးထွာ၊ သန္တာအရိုး ကိုးတောင် နှစ်မိုက်၊ အထွတ် ပတ္တမြားတပ်သော ထီးဖြစ်၏ဟူ၍လည်း ရွှေဘုံနိဒါန်း၌လာသည်။ ထိုပြင် ထွက်တော်မူသောအခါ ဆောင်းမိုးရသော ဆောင်းထီးများလည်း ရှိသေးသည်။ ရာဇာဘိသေကကျမ်းလာ ထီးဖြူလေးစင်းတို့တွင် (၁) ပြာသာဒ်အဆင့်ကဲ့သို့ ထီးရွက် ၉ ဆင့်ရှိ၍၊ အရိုး ၁၀ တောင်ရှည်ပြီးလျှင်၊ ရွှေမှုတာအိုးအထွတ်တပ်သော နဝဒဏ္ဍာထီး၊ (၂) ထီးရိုး ၆ တောင်ရှည်သော မနောဟရထီး၊ (၃) ထီးရိုး ၅ တောင်ရှည်သော အာတပတြထီးတို့သည် အဆောင်အယောင်အဖြစ်ဖြင့် နန်းတော်၌ စိုက်ရသော ထီးများဖြစ်၍၊ (၄) ထီးရိုး ၄ တောင်ရှည်သော ဝိဇယပတြထီးမှာ ဘုရင်မင်းမြတ်တို့ထွက်တော်မူသောအခါ ဆောင်းရန်အတွက် အခါခပ်သိမ်းဆောင်းအပ်သော ထီးဖြစ်သည်။ (အထက်ပါ၌ နဝဒဏ္ဍာထီးကို ထီးရိုး ၁၀ တောင်ဟု အမှတ်အသားရှိသော်လည်း၊ နဝဒဏ္ဍာ၏ အဓိပ္ပါယ်အတိုင်းဆိုလျှင် ထီးရိုးသည် ၉ တောင်သာရှိသင့်၏။) ကဝိလက္ခဏာဒီပနီတွင် အထက်ဖော်ပြရာပါ ရာဇာဘိသေကဟူသော သက္ကဋကျမ်းဂန်မရောက်မီ၊ မြန်မာ နိုင်ငံ ရွှေထီးရွှေနန်း အဆက်ဆက် ဥကင်တော် သီဟာသန ရာဇပလ္လင်တွင် လက်ဝဲ ထီးဖြူလေးစင်း၊ လကျ်ာ ထီးဖြူလေးစင်း၊ နှစ်ခုပေါင်းသော် ထီးဖြူရှစ်စင်းရသည်ကို လက်မှန်ရှေးဦး ပညာရှိတို့က အမည်သညာသမုတ်ထားနှင့်သည်ဟု မှတ်ယူရမည်ဖြစ်ကြောင်း ဖော်ပြထားလေသည်။ ထိုထီးဖြူရှစ်စင်းတို့မှာ ကနကဒဏ်ထီး နှစ်စင်း၊ တမွတ်ထီး နှစ်စင်း၊ ယာဉ်ထီး လေးစင်းဖြစ်သည်ဟု လောကဗျူဟာခေါ် အင်ရုံ စာတမ်း၌ လာသည်။ ကနကဒဏ်ထီးသည် ပကတိရွှေသားကို အရိုးလုပ်သောကြောင့် ကနကဒဏ်ထီးဟုခေါ်သည်။ တမွတ်ထီးမှာ ရှေးစကားဟောင်း ကြီးမြတ်သည်ဟု အဓိပ္ပါယ်ရသော တမွတ်သဒ္ဒါကိုစွဲ၍ မှည့်ခေါ်သောထီးဖြစ်၍၊ ကြီးမြတ်သောထီးဟု အဓိပ္ပါယ်ရသည်။ ယာဉ်ထီးမှာ ကေရာဇ်မင်းမြတ်တို့ဝယ် ဆင်ယာဉ်၊ ရထားယာဉ်၊ လှေယာဉ်သုံးပါး၌ ထီးဆောက်သည်ဖြစ်၍ ယာဉ်ထီးဟု ခေါ်လေသည်။ လောကဗျူဟာစာတမ်းအလို၊ လကျ်ာ ထီးဖြူလေးစင်းဟူသည်မှာ ကမ္ဗုထီး၊ စန္ဒထီး၊ ပဒုမထီး၊ သမ္ဗုတိထီးဖြစ်သည်။ လက်ဝဲ ထီးဖြူလေးစင်းမှာ ကနကဒဏ်ထီး၊ သူရိယထီး၊ ဝိသုကမ္မထီး၊ သမုက္ခထီးဖြစ်သည်။

ထိုမင်းခမ်း မင်းနားဆိုင်ရာထီးတို့ကို ပြုလုပ်ရာ၌၊ ထီးရိုး၊ ထီးချက်၊ ထီးလက်၊ ကြိုး၊ ထီးရွက်၊ ကလန့်၊ အထွတ်မှုတာ စသည့်အစိတ်အပိုင်းတို့ကို ပြုလုပ်ရသည်။ ထီးထွတ် ငှက်မြတ်နား၌ ဟင်္သာငှက်ရုပ်ကိုင်း၊ နွားမြီးဆွဲငှက်ရုပ်ကိုင်း၊ ကျေးငှက်ရုပ်ကိုင်း၊ ကြက်ရုပ်ကိုင်း စီရင်ရသည်။ ထီးရိုးကို ရွှေဖြင့်လုပ်သော် ထူးမြတ်ကောင်းမွန်၏ဟုဆိုသည်။ ထီးခရိုင် စသည်တို့ကို ဖွဲ့သောကြိုးအား၊ ချည်ပင် သုံးလွန်းတင်၊ ခြောက်လွန်းတင်၊ ကိုးလွန်းတင် ကျစ်ရသည်။ ထီးချက် ပမာဏကိုကား ၂၈ လက်သစ်မှသည် ၁၀၀ သော လက်သစ် ပမာဏအထိ ပြုလုပ်ရသည်။ ထီး၏အချင်းမှာ အောက်ဆုံး ဆင့်၌ ငါးတောင်တမိုက်ရှိ၍၊ ထီးရွက်ကိုးဆင့်ရှိသော နဝဒဏ္ဍာထီးတွင် အထက်ရှစ်ဆင့်ကို သင့်တင့်အောင်စီရင်ရသည်။ ကြွင်းသောထီးတို့၌ တဆင့်သာရှိ၏။ နဝဒဏ္ဍာထီးတွင် ရွှေညောင်ရွက် တရာ့ရှစ်ရွက်ကို ထက်ဝန်းကျင်၌ ဆွဲရသည်။ ရွှေညောင်ရွက်တို့၏အကြားတွင် မြ ပတ္တမြား သန္တာ စသော ပန်းပွားတို့ကို ဆွဲရသည်။

ရတနာပူရစတုတ္ထမြို့တည် နန်းတည် မင်းတရားကြီး အဘိသေက စာတမ်းတွင် ထီးဖြူတော်ကို မင်းတရားကြီး လက်တော်နှင့် အချင်းလေးတောင် ခြောက်သစ်၊ စွန်သုတ်နားထောင့် တဆယ့်နှစ်ပေါက်၊ ထီးတံ သုံးဆယ့်ခြောက်၊ ကြာယပ် သုံးဆင့်၊ ညောင်ရွက် တရာ့ရှစ်ရွက်၊ ပုလဲသန္တာဆိုင်း တရာ့ရှစ်သွယ်၊ ထီးချက် အချင်းတတောင်၊ စောက် တတောင်တမိုက်၊ ထီးရိုး ထီးဝန်းနှင့်အမျှလုပ်ကြောင်းကို ဆိုသည်။

ထိုပြင် မှူးကြီးမတ်ရာ သေနာပတိတို့အတွက် အဆောင်အယောင်အဖြစ် ပေးအပ်သော ထီးနီလည်း ရှိသေးသည်။ ပုံစံအားဖြင့် ခန်းပတ်မင်းကြီး၏အဆောင်အယောင် ဖြစ်သော ထီးနီတွင် ထီးရွက် အနီနှစ်ဆင့်တက်သည်။ ထို နှစ်ရွက်ဆင့် ထီးနီ၌ ရွှေညောင်ရွက် သုံးဆင့်ရှိသည်။ ညောင်ရွက်ရေမှာ ၃၆ ရွက်ဖြစ်သည်။ အချက်၊ အထွတ်နှင့်အရိုးကို ရွှေချသည်။ ထီးရိုးမှာ ကြံဆစ်ပုံရှိသည်။

တပါးနိုင်ငံတို့တွင် ထီးကို ရာထူးအဆင့်အတန်းပြသော ပစ္စည်းအဖြစ်ဖြင့် သုံးစွဲကြသည်ရှိသည်။ အီဂျစ်နှင့်အဆီးရီးယား ပြည်တို့တွင် ထီးကို ရာထူးလိုက် အမျိုးမျိုးသုံးစွဲကြသည်။ ရှေးခေတ် ဂရိနှင့်ရောမနိုင်ငံတို့တွင် ထီးမှာ မိန်းမသုံး

ပစ္စည်းဖြစ်သည်။ အင်္ဂလန်ပြည်တွင် အန် ဘုရင်မ လက်ထက်သို့ရောက်ခါမှ ထီးကို ယောကျ်ားမိန်းမ မဟူ အများသုံးလာကြသည်။

မြန်မာနိုင်ငံတွင် အနောက်နိုင်ငံမှ မှာယူသုံးစွဲသော သံကိုင်း၊ သံရိုးနှင့်ပြုလုပ်သည့် ပိုးထီး၊ ဖဲထီး၊ ပိတ်ထီး အမျိုးမျိုး ရှိသော်လည်း၊ မြန်မာနိုင်ငံဖြစ် ပိတ်ထီး၊ ပိုးထီးတို့သည် များစွာခေတ်စားလျက်ပင်ရှိပေသည်။ ပုသိမ်မြို့တွင်လုပ်သော ပုသိမ်ထီးများသည် မြန်မာနိုင်ငံ၌သာမက နိုင်ငံခြား၌လည်း ထင်ရှားကျော်စောသည်။ မန္တလေးအိမ်တော်ရာတွင် လုပ်သောထီးကို ဒေသစွဲ၍ အိမ်တော်ရာထီးဟုခေါ်သည်။ ရန်ကုန်မြို့တွင် ရှေးက ထီးတန်းရပ်ကွက်တွင် ထီးကို မြောက်မြားစွာလုပ်သည်။ ယခုခေတ်၌မူ ရန်ကုန်မြို့တွင်း နေရာအနှံ့အပြားတွင် မြန်မာထီးများကိုပြုလုပ်ကြသည်။

အထက်ဖော်ပြရာပါ လူသုံးထီးများအပြင်၊ ရွှေထီး၊ထွားထီး၊ ရဟန်းဆောင်း ထီး၊ သီလရှင်ဆောင်း ထီး စသည်တို့ကိုလည်း လုပ်ကိုင်ကြသည်။ ရွှေထီးတွင် ထီးရွက်အဝန်း၏ ချင်းဝက် ၁၈ လက်မမှသည် လက်မ ၂၀ အထိ ရှိရသည်။ ထီးခရိုင် ၃၄ ချောင်းပါမြဲဖြစ်သည်။ ရဟန်းဆောင်း ထီး၌ ထီးရွက် ချင်းဝက် ၁၈ လက်မရှိလျှင် ထီးခရိုင်အချောင်း ၅၀ ပါရှိရသည်။ ထီးရွက် ချင်းဝက် ၂၂ လက်မရှိသော်၊ ထီးခရိုင်အချောင်း ၆၀၊ ထီးရွက် ချင်းဝက် ၂၄ လက်မရှိသော်၊ ထီးခရိုင်အချောင်း ၇၀ ပါရှိရသည်။ ယောကျ်ားဆောင်းထီး၌ ထီးရွက် ချင်းဝက် ၁၆ လက်မရှိ၍၊ ခရိုင် ၄၀၊ မိန်းမဆောင်း ထီး၌ ထီးရွက် ချင်းဝက် ၁၄ လက်မရှိ၍၊ ခရိုင် ၃၀၊ ခလေးဆောင်း ထီး၌ ထီးရွက် ချင်းဝက် ၁၀ လက်မရှိ၍၊ ခရိုင် ၂၆၊ ထွားထီး၌ ထီးရွက် ချင်းဝက် ၆ လက်မမှ ၈ လက်မအထိရှိ၍၊ ခရိုင် ၃၄ ချောင်းဟူ၍ အသီးသီးပါရှိရသည်။ သို့သော် ယခုဖော်ပြသော အချက်အလက်တို့သည် ယေဘုယျ သဘောမျှသာဖြစ်သည်။ ထီးလုပ်သူတို့သည် မိမိတို့၏အတိုင်းအတာနှင့် မိမိ အမျိုးမျိုးပြုလုပ်လေ့ရှိရာ၊ မည်သည့်ထီးမျိုး၌ အတိုင်းအတာသည် မည်သို့ပုံသေထားရမည်ဟုမရှိချေ။ ထီးတွင်ပါဝင်သော အစိတ်အပိုင်းများမှာ ထီးရွက်၊ ထီးထိပ်ဖူး၊ ထီးခေါင်း၊ ထီးအုံ၊ ထီးတံ၊ ခရိုင်၊ ထီးရိုး၊ ခလုတ်၊ လက်ကိုင်၊ အုံးပန်း၊ ထီးကွင်း စသည်တို့ဖြစ်သည်။ ထီးခလုပ်ကို ရှေးက ထီးရိုး၌အပေါက်ဖောက်၍ သစ်သားစို့ လျှိုသွင်းကာ ပြုလုပ်ကြ၏။ ယခုမူ သံစိုးနှင့်ပြုလုပ်သည်။ ထီးရိုးမှာမူ ပန်းရိုး၊ ကျားရိုး၊ ပြောင်းရိုး၊ ခြစ်ရိုးဟူ၍ အမျိုးမျိုးရှိသည်။ ခရိုင်သည် ထီးတံ၏သုံးချိုး တချိုး ရှိသည်။ ခရိုင်ကို ထီးတံ၏ သုံးချိုး တချိုး အထက်၌ ထောက်ရသည်။

**ထီးချိုင့်မြို့**။ ။ထီးချိုင့်မြို့သည် ကသာခရိုင်၊ ထီးချိုင့်မြို့နယ် ရုံးစိုက်ရာမြို့ဖြစ်၏။ ဧရာဝတီမြစ်၏ လက်ျာဖက်ကမ်းပေါ်ရှိ တောင်ကုန်းငယ်ပေါ်၌ တည်ရှိသည်။ ဗြိတိသျှတို့ မြန်မာနိုင်ငံကို သိမ်းယူစအခါက၊ ကသာခရိုင်၏ ရုံးစိုက်ရာမြို့ ဖြစ်ခဲ့ဘူး၏။ ၁၈၉၇ ခုနှစ်ခန့်ကစ၍ ဈေး၊ ဗိုလ်တဲ၊ ရဲဌာန၊ စာတိုက်များဖွင့်လှစ်ခဲ့၏။ ကျုံးနှင့် ရှေးကျောက်ခဲတပ်များမှာ စစ်စခန်းများဆောက်လုပ်သည့်အချိန်မှစ၍ ပျက်စီးကုန်သည်။ ထီးချိုင့်မြို့ကို ရန္တပစ္စည်းနှင့်နန္တပစ္စည်း ညီနောင်နှစ်ပါးက တည်ထားခဲ့သည်ဟုဆို၏။ ရန္တပစ္စည်းနှင့် နန္တပစ္စည်းတို့လက်ထက် တရုပ်တပ်များ ဝင်ရောက် တိုက်ခိုက်လာသည်ကို မြန်မာတပ်များက ချီတက်ကာ မြင်းခင်းအရပ်မှ တွန်းလှန်ဖြိုဖျက်ခဲ့၏။ ယင်းတို့၏ဆင်များ ချထားရာ အရပ်ကို ဆင်ကျုံး၊ မြင်းများချထားရာအရပ်ကို မြင်းကျုံးဟူ၍ ယခုတိုင်ခေါ်တွင်လျက်ရှိသည်။ ထီးချိုင့်မြို့တွင် ကျောက်ခဲတပ်ပျက်များကို ယခုတိုင် တွေ့မြင်နိုင်၏။ ထီးချိုင့်မြို့ တည်ရာ တောင်ကုန်းတွင် ထင်ရှားသော စေတီတဆူ ရှိသည်။ ထိုစေတီကို သီရိဓမ္မာသောကမင်းကြီး တည်ထားခဲ့သည်ဟုဆို၏။ စေတီ၏ဘွဲ့တော်မှာ မြတသိန်းတန်ဖြစ်သည်။ နရပတိစည်သူမင်းကြီးသည် ဖောင်စကြာဖြင့် လှည့်လည်လာခဲ့စဉ်၊ ထိုစေတီကို ဖူးမြင်ရသည်တွင် ကြည်ညိုလှသဖြင့် အဖိုးတသိန်းထိုက်တန်သော မြခါးပတ်ကို ထိုစေတီတွင် လှူတော်မူခဲ့လေသည်။ ယင်းသို့ တသိန်းတန် မြခါးပတ် လှူခဲ့သည်ကိုအစွဲပြု၍ မြတသိန်းဘုရားဟု ဘွဲ့မည်တွင်သည်ဟု ဆို၏။ မြို့၏အမည်မှာလည်း ထိုအရပ်တွင်လှူခဲ့သော ဘုရင်၏ ထီးနှင့်ကျိုင်းကိုအစွဲပြု၍ ထီးကျိုင်းဟု ခေါ်တွင်ရာမှ ရွှေ့လျောကာ ထီးချိုင့်ဖြစ်လာသည်ဟု ဆိုလေသည်။

မြန်မာဘုရင်မင်းမြတ်တို့လက်ထက်တွင် ထီးချိုင့်မြို့သည် မြတောင်ဝန် စီရင်အုပ်ချုပ်သော မြတောင်မြို့နယ်၌ အပါအဝင်ဖြစ်သည်။ ထို့ကြောင့် ခရစ် ၁၈၉၂ ခုနှစ်အထိ ထီးချိုင့်မြို့နယ်မှာ ကသာခရိုင် မြတောင်နယ်ထဲတွင် ပါဝင်လျက် ရှိခဲ့သည်။ ထိုနောက် ယင်းနှစ်၌ပင် ထိုမြို့နယ်ကို မြတောင်နယ်မှခွဲထုတ်၍၊ ကသာနယ်နှင့်ပူးပေါင်းပြီးသော်၊ ကသာ နယ်ပိုင်လက်အောက် ထီးချိုင့်မြို့နယ်အဖြစ်ဖြင့် ထားရှိလေသည်။

၁၉၅၆ ခုနှစ် သန်ကောင်စာရင်း ခန့်မှန်းခြေအရ လူဦးရေမှာ ထီးချိုင့်မြို့နယ် တခုလုံးအတွက် ၃၄,၅၀၀ ယောက်ခန့် ရှိမည်ဟု ခန့်မှန်းသည်။ ၁၉၄၁ ခုနှစ် သန်ကောင်စာရင်း (ယာယီ) အလိုမှာ ၂၈,၅၈၅ ယောက်ဖြစ်သည်။ ထီးချိုင့်မြို့နယ်၌ မြန်မာ၊ ရှမ်းနှင့် တရုပ်တို့ အတူတကွနေထိုင်ကြသည်။ ဂန့်ဂေါတောင်စွယ်သည် ထီးချိုင့်မြို့နယ်မြောက်ပိုင်းကို ဖြတ်၍ ထီးချိုင့်မြို့အထိ တည်ရှိနေသည်။ ထို့ကြောင့် မြို့နယ်အတွင်းတွင် ချောင်းငယ်မြောင်းငယ်၊ အင်းအိုင် အများ ရှိလေရာ၊ ထိုဒေသတို့တွင် ငါးဖမ်းခြင်းအလုပ်ကို

အတော်အသင့်လုပ်နိုင်ကြသည်။ ထို့ကြောင့် ထီးချိုင့်မြို့နယ်၏ အဓိကထွက်ကုန်သည် ငပိ ငခြောက်ဖြစ်သည်။ မြေပြန့်ဒေသတို့တွင် လယ်ယာအလုပ်ကိုလုပ်ကြသည်။

**ထီးလင်းမြို့**။ ။ထီးလင်းမြို့သည် ပခုက္ကူခရိုင် ထီးလင်းမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ထီးလင်းမြို့နယ်၏ မြေမျက်နှာပြင်သည် ကျောက်ထူထပ်၍ မညီညာသည့်ပြင် တောင်ကုန်းများလည်းရှိသဖြင့် လယ်ယာစိုက်ပျိုးခြင်းကို မြစ်များ ချောင်းများနှင့်နီးသော မြေပြန့်ပိုင်းတွင်သာ လုပ်ကိုင်နိုင်ကြသည်။ ထီးလင်းမြို့နယ်၏ အကျယ်အဝန်းမှာ ၄၉၃ စတုရန်းမိုင်ရှိသည်။ ပိုးမွေးမြူခြင်းလုပ်ငန်းလည်း အတော်အသင့်ရှိ၍ ယာတိုင်ပိုးယောလုံချည်များကို ရက်လုပ်ရောင်းချသည်။ ဗြိတိသျှအစိုးရ မအုပ်ချုပ်မီက ထီးလင်းမြို့သည် စော်ဘွားနယ်တခုဖြစ်၏။

ထီးလင်းမြို့နယ်အတွင်းရှိ ထင်ရှားသော တန်ခိုးကြီးဘုရားမှာ ရွှေကွန်အုပ်ဘုရားဖြစ်၍၊ နရပတိစည်သူမင်းကြီးက တည်ထားကိုးကွယ်သည်ဟု ဆိုလေသည်။ ထိုဘုရားကို ကဝိလက္ခဏာသတ်ပုံတွင် ထီးလင်းတမ်းခွန်၊ ဖုန်းရှိန်မွန်၊ ရွှေကွန်အုပ်မြတ်စွာဟု စပ်ဆိုထားလေသည်။ ထီးလင်းမြို့နယ်အတွင်း မှီတင်းနေထိုင်စားသောက်ကြသော လူမျိုးများသည် တောင်သာလူမျိုးနှင့် ချင်းလူမျိုးများဖြစ်၏။ ထီးလင်းမြို့သည် ပခုက္ကူမြို့နှင့် ၉၇ မိုင်ခန့်ဝေး၍၊ မော်တော်ကားလမ်းဖြင့် ဆက်သွယ်ထားလေသည်။ ထို့အပြင် ထီးလင်းမှ အထက်ချင်းတွင်းခရိုင် ကလေးဝမြို့သို့ နွေရာသီတွင် သွားလာနိုင်သော ကားလမ်းတလမ်းလည်းရှိ၍၊ အရှည် ၁၃၇ မိုင်ရှိလေသည်။ မြို့နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် သန်းကောင်စာရင်းအရ ၂၂,၀၀၀ ယောက်ဟူ၍ ခန့်မှန်းရသည်။

**ထီးလှိုင်ငှက်**။ ။ထီးလှိုင်ငှက်သည် ဘုရားဟောကျမ်းဂန်လာ ဇာတ်ဝတ္ထုတို့တွင် ဟတ္ထိလိင်ငှက်ဟူ၍ ထင်ရှား၏။ ပါဠိစကား ဟတ္ထိလိင်မှ 'ထိလိုင်ကာ' သို့ပြောင်းလဲလာပြီးလျှင်၊ ထီးလှိုင်ငှက် ဖြစ်လာဟန်တူ၏။ ဟတ္ထိ၏အနက် 'ဆင်'၊ လိင်၏အနက် 'အသွင်အပြင်' ဟူ၍ဖြစ်ရာ၊ ဤ အနက်အဓိပ္ပါယ်နှစ်ရပ်ကို ဆက်စပ်၍၊ ငှက်ဆင်ဟူ၍လည်းခေါ်ဆိုကြ၏။ ကျွန်စစ်သား မွန်ဘာသာဖြင့်ရေးထိုးသော ရွှေစည်းခုံကျောက်စာတွင် 'ဟတ္ထိလိင်ငှက်ဆင်' ဟူ၍တွေ့ရ၏။ အရွယ်နှင့်အင်အား ကြီးမားသည်ကိုအစွဲပြု၍လည်း ငှက်ဘီလူးဟု တင်စားခေါ်ဝေါ်ကြသေးသည်။

ဓမ္မပဒဝတ္ထုတွင် ထီးလှိုင်ငှက်၏အကြောင်းကို ဤသို့ပြဆိုထား၏။ ထီးလှိုင်ငှက်သည် ဆင်ပြောင်ငါးစီးအားကို ဆောင်နိုင်၏။ အစာကို ထိုးသုတ်၍ ကောင်းကင်၌ ပျံလေပြီးသော်၊ အလိုရှိရာအရပ်၌ချ၍ စားလေ့ရှိ၏။ အစာကိုမစားမီ လာခဲ့သည့်လမ်းခရီးကို ပြန်၍လှည့်ကြည့်တတ်သော အလေ့ရှိ၏။

ကောသမ္ဗီပြည်ကြီးကိုအုပ်စိုးသော ပူရန္တပမင်းကြီး၏ မိဖုရားသည် ကိုယ်ဝန်အရင့်အမာနှင့် နီမြန်းသော ကမ္ဗလာကိုဝတ်ခြုံလျက် နေစာလှုံနေစဉ်၊ ထီးလှိုင်ငှက်ကြီးသည် မိဖုရားအား သားတစ်အမှတ်ဖြင့် ထိုးသုတ်ဆောင်ယူသွားဘူးကြောင်းကို ဓမ္မပဒ၊ အပ္ပမာဒဝဂ်၊ သာမာဝတီဝတ္ထုတွင် ဖော်ပြပါရှိလေသည်။

မြန်မာနိုင်ငံသမိုင်းတွင် ပုဂံပြည်၌ သမုဒ္ဒရာဇ်မင်းကြီး စိုးစံတော်မူစဉ်အခါက၊ ပုဂံပြည်သူပြည်သားများအား၊ နှိပ်စက်ညှဉ်းပန်းနေသော ရှူးပျံ၊ ကျားကြီး၊ ဝက်ကြီး၊ ငှက်ကြီး ဟူ၍ ရှိလေရာ၊ ထိုငှက်ကြီးသည် ဟတ္ထိလိင်မည်သော ထီးလှိုင်ငှက်ပင် ဖြစ်တန်ရာသည်။ ငှက်စာအဖြစ် ခုနစ်ရက်တကြိမ်လျှင် သမီးကညာ ခုနစ်ယောက်ကို ငှက်ကြီးအား ပေးရ၏။ ထိုငှက်သည် တောင်ငယ်ခန့်ပမာဏရှိ၏။ ပြူစောထီးသည် ကျားကြီး၊ ဝက်ကြီးနှင့်ရှူးပျံတို့ကို လေးလက်နက်ဖြင့် ဦးစွာ ခွင်းသတ်ပြီးမှ ထိုငှက်ကြီးကိုလည်း ခွင်းသတ်လေ၏။ ငှက်ကြီးသေသော်၊ ငှက်တောင်တချောင်းကို နုတ်၍ မိန်းမခုနစ်ယောက်ကို ရွက်စေရာ၊ အနိုင်ပင် ရွက်ရသောဟူ၏။ ထိုနောက် ပြူစောထီးလည်း ထိုမိန်းမခုနစ်ယောက်တို့ကို ထိုငှက်တောင်နှင့်အတူ 'သင်တို့အရှင် မင်းကြီးအား ဆက်သလေတော့' ဟုဆို၍ လွှတ်လိုက်၏။ ခရီးအကြားတွင် ငှက်တောင်လေး၍ မရွက်နိုင်သဖြင့် ပစ်ခဲ့သောနေရာကို ငှက်တောင်ပစ်ဟူ၍၎င်း၊ ငှက်ကြီးအား ပစ်သတ်သော နေရာကို ငှက်ပစ်တောင်ဟူ၍၎င်း၊ ယခုတိုင် ခေါ်ဝေါ်လေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ရှေးကဗျာလင်္ကာတို့၌ 'ကြီးလှငှက်ဆင်၊ အောင်မြင်ဝက်ထီး၊ သတ်လိုက်ပြီးမှ၊' ဟူ၍၎င်း၊ 'ငှက်ဘီလူးနှင့်၊ စားကြူးဆီခဲ၊ ဝက်ထီးရဲကို၊ အောင်ပွဲခွင်းလတ်၊ အရိမဒ်ဝယ်' ဟူ၍၎င်း၊ စပ်ဆိုဖွဲ့နွဲ့ခဲ့ကြလေသည်။

**ထေးဆေး**။ ။ပတ္တီး — ရှု။

**ထယ်**။ ။ရှေးကျောက်ခေတ်မှစပြု၍၊ လူတို့သည် မြေကြီးကို ထွန်ယက်လျက်၊ သီးနှံပင်များကို စိုက်ပျိုးခဲ့ကြသည်။ သို့ရာတွင်၊ လွန်ခဲ့သော နှစ်ပေါင်းတရာအတွင်း၌သာလျှင်၊ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းတွင် အသုံးပြုကြသည့် ကရိယာတန်ဆာပလာများသည် ယခင်ကထက် တိုးတက်ကောင်းမွန်လာကြသည်။ ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၃၀၀၀ ခန့်က အီဂျစ်လူမျိုးတို့သည် သစ်သားဖြင့်ပြုလုပ်သော ထယ်နှင့်ပေါက်ပြားများကို အသုံးပြုလျက်၊ လယ်



ရိုးရိုးထယ်မျိုးတွင် တိရစ္ဆာန်က ရှေ့မှဆွဲ၍ လူက နောက်မှ လမ်းလျှောက်လိုက်လျက် ထယ်ကို ထိန်းပေးရသည်။

ယာမြေကိုပြုပြင်၍၊ ဂျုံစပါးကို စိုက်ပျိုးခဲ့ကြသည်။ ၁၇ ရာစုနှစ်များသို့တိုင်အောင် တောင်သူလယ်သမားတို့သည် သစ်သားထွန်နှင့် ထယ် စသော စိုက်ပျိုးရေးကရိယာများကိုသာ အသုံးပြုခဲ့ကြသည်။ ထယ်ဖြင့် လယ်ယာမြေကို ထွန်ယက်ပြုပြင်ရာ၌ လူတို့သည် ကျွဲနွားနှင့်မြင်းတို့၏ အကူအညီကိုယူလျက် ဆောင်ရွက်ခဲ့ကြသည်။ ယနေ့တိုင်အောင် မြန်မာ နိုင်ငံနှင့်တကွ အခြားတိုင်းနိုင်ငံတို့၌ ကျွဲနွားနှင့်မြင်းတို့ဖြင့် လယ်ယာမြေများကို ထယ်ထိုး ပြုပြင်လျက်ရှိကြသည်။ သို့ရာတွင် ယခုခေတ်၌ သုံးစွဲလျက်ရှိကြသောထယ်မှာ သစ်သားချည်းသက်သက် မဟုတ်တော့ဘဲ၊ ထယ်သွားနေရာတွင် ထက်သောသံချွန်ကို တပ်ဆင်ထားသဖြင့်၊ ယခင်ကထက် ပိုမို၍ ခရီးရောက်သည်။ ဤကဲ့သို့ ထယ်ကိုစံနစ်တကျ တီထွင်လိုက်ခြင်းဖြင့်၊ လယ်မြေကောကို တိုးချဲ့လုပ်ကိုင်နိုင်သည့်အပြင်၊ သီးနှံထွက်လည်း ပို၍ကောင်းလာသည်။ လယ်မြေကို ကျနစွာ ထွန်ယက်ပြုပြင်ပေးခြင်းသည် စိုက်ပျိုးရေးလုပ်ငန်း အောင်မြင်မှု၏ အခြေခံ အုတ်မြစ်ကြီးဖြစ်သည်။ (စိုက်ပျိုးရေး — လည်းရှု။)

ထယ်အမျိုးအစားပေါင်း များစွာရှိသည်။ ရိုးရိုးထယ်မျိုးမှာ ရှေ့ကနေ၍၊ ကျွဲနွားမြင်း စသော တိရစ္ဆာန်တို့ရုန်းရသော ထယ်မျိုးဖြစ်ရာ၊ ထယ်ထိုးသူသည် လက်ကိုင်ကို ကိုင်လျက် နောက်မှလမ်းလျှောက်လိုက်ရသည်။ အခြားတမျိုးမှာ၊ ဘီးများတပ်ဆင်ထားသော ထယ်ဖြစ်၍ ထယ်ထိုးသူသည် ထိုင်ခုံပေါ် မှလိုက်ရသည်။ ကျန်တမျိုးမှာ မြင်းဖြင့်ဆွဲ၍သော်၎င်း၊ လယ်ထွန်စက်ဖြင့် ဆွဲ၍သော်၎င်း၊ အသုံးပြုရသော ထယ်မျိုးဖြစ်သည်။ ဤထယ်မျိုးတွင် ထယ်သွားများစွာ တပ်ဆင်ထားသဖြင့်၊ တကြိမ်တည်းနှင့် ထယ်ကြောင်းများစွာ ပြုလုပ်နိုင်သည်။ ထယ်ကို စံနစ်တကျ တီထွင်ထားခြင်းအားဖြင့် မြေကြီးကို ကျနစွာ ပြုပြင်ပေးနိုင်ကြသည်။ ထယ်သွားဖြင့် မြေကြီးကိုဖေါ် ထုတ်နိုင်၏။ ထယ်သွားအထက်တွင် စောင်းရှေ့ရှေ့ရှိသော ထယ်သွား နှာယောင်ဖြင့် မြေစာကို ဘေးသို့ဖယ်ထုတ်လိုက်သည်။ ထယ်ရေး ခဲဆွဲဖြင့် ထယ်သွားကိုထိန်းထားသည်။ အချို့ထယ်တို့တွင် ထယ်သွားနှာယောင်ရှေ့၌ သံသွားတစုံကို တပ်ဆင်ထား၍၊ မြေစာကို ခုတ်ထွင်ပေးသည်။ အချို့ထယ်များ၌မူ ထယ်သွားအစား လည်နိုင်သောသံပြားဝိုင်းများကို မြေပြင်နှင့် ခပ်စောင်းစောင်း တပ်ဆင်ထား၍ မြေကြီးကိုတူးဆွကြသည်။

ရှေးအခါကပင် မြန်မာနိုင်ငံ၌ ထယ်သွားအမျိုးမျိုးကို အသုံးပြုခဲ့ကြသည်။ ယင်းတို့အနက် စုတ်ချွန်း၊ အာလောင်၊ စက၊ ဘဲ၊ ကျေးနှင့် ကိုင်းဟုခေါ် သောထယ်များမှာ အထင်



စက်ထယ်မျိုးတွင် ထယ်သွားအများ တပ်ဆင်ထားသဖြင့် တကြိမ်တည်းနှင့် ထယ်ရေးများစွာ ငင်နိုင်သည်။

ရှားဆုံးဖြစ်သည်။ စုတ်ချွန်းထယ်သွားသည် အဖျားချွန်လျက် နားရွက်ကြီးသည်။ ထိုထယ်သွားကို မြေမာ၊ မြေစေးတွင် အသုံးပြုသည်။ အာလောင်ထယ်သွားသည် အပြား ဝိုင်း၍၊ နားရွက် အနေတော်ရှိသည်။ ထိုထယ်သွားကို မြေပျော့၊ မြေနုတွင် အသုံးပြုသည်။ စကထယ်သည် မြေပျော့လည်းမဟုတ် မြေမာလည်းမဟုတ်သော စကမြေ၌ သုံးသော ထယ်မျိုးဖြစ်သည်။ ဘဲ၊ ကျေးနှင့် ကိုင်း ထယ်သွားများသည် မြေအောက်ကိုလှန်သော ထယ်သွားများ ဖြစ်သဖြင့် ယင်းတို့၌ နားရွက် ငယ်ငယ်ရှိကြ၏။

မြန်မာနိုင်ငံ၌ အသုံးများသောထယ်တို့သည် အရပ်ဒေသနှင့် မြေအမျိုးအစားကိုလိုက်၍ အကြီး၊ အလတ်၊ အငယ်ဟူ၍ သုံးမျိုးရှိသည်။ ထယ်တမျိုးကို တပင်တိုင်ထယ်ဟုခေါ်သည်။ ထိုထယ်ကိုပြုလုပ်ရာ၌ သဘာဝအလျောက်ကောက်နေသောသစ်ကိုင်းကိုခုတ်ရွေ၍၊ ထယ်သွားပုံကျအောင် ပြုပြင်ယူသည်။ ထိုနောက် ထယ်သွားတပ်၍ အသုံးပြုသည်။ ထိုထယ်၏လက်ကိုင်၌ အောက်ခြေမှ ၉ လက်မမှ ၁၂ လက်မအကွာလောက်တွင် အပေါက်ဖောက်၍ ထယ်သန်လျှိုထားသည်။ ထယ်သန် ကျွတ်မထွက်နိုင်အောင် ထယ်သန်၏အဖျားတွင် ပရစ် သပ်ကလေးတခုကို ကန့်လန့်ဖောက်၍ လျှိုသွင်းထားသည်။ ထယ်စူးသည့် အတိမ်အနက်ကို ချိန်ဆနိုင်ရန် ထယ်သန်ကို စရွေးပေါက်၌ အထက်အောက်သပ် ၂ ခုညှပ်၍ ထိန်းပေးသည်။ ထိုထယ်ကို မြေအမျိုးအစားလိုက်၍ အပေါ့အလေး ပြုလုပ်ရသည်။

ဒုတိယထယ်မျိုးသည် တပင်တိုင်ထယ်ကို ပြုပြင်ချဲ့ထွင်ထားသော ထယ်မျိုးဖြစ်သည်။ ထိုထယ်ကို ထယ်ကောက်သို့မဟုတ် ထယ်ဒူးကောက်ဟုခေါ်သည်။ ထိုထယ်၌ ထယ်လျှာတိုင်ပါ၍၊ ယင်း၏တဖက်စွန်းကို ထယ်သွား၏နားရွက်နောက်မှ ထယ်အုံး၌ရှိသောအပေါက်ထဲသို့ ထည့်သွင်း၍၎င်း၊ အခြားတဖက်စွန်းကို ထယ်သန်တွင်ဖောက်ထားသောအပေါက်ကို လျှိုသွင်း၍၎င်း တပ်ဆင်ထားသည်။

တတိယထယ်မျိုးသည် လွှတိုက်သစ်သားဖြင့်ပြုလုပ်သော ထယ်ဖြစ်သည်။ ထိုထယ်ကို တုံးလုံးထယ်ဟုခေါ်သည်။ ထိုထယ်၏လက်ကိုင်တိုင်နှင့် မုတ်တိုင်တို့ရှိ စရွေးပေါက်များတွင် ထယ်သန် လျှိုသွင်းထားသည်။ လက်ကိုင်တိုင်တဖက်သို့ စွန်းထွက်နေသောထယ်သန်အဖျားကို ပရစ်တံဖြင့် ထိန်းထားသည်။ မုတ်တိုင်၌လည်း ထယ်အစူးအရှ၏ အတိမ် အနက်ကို ပြုပြင်ပေးရန် ပရစ်တံတခု တပ်ထားသည်။ ထယ်ကို ကန့်လန့်တပ်ဆင်နိုင်ရန် ထယ်သန်၏အဖျားတွင် ထိပ်စွန်းမှ

၂ ပေခန့်အကွာ၌ အပေါက်ကလေး ၃ ပေါက်ခန့်ကို ၅ လက်မစီခြားလျက် ဖောက်ထားသည်။ အထက်ပါထယ်များသည် မြေထဲသို့စူးဝင်ရာ၌ ရင်တိုက် စူးဝင်လျက် ထယ်စာ ထယ်ခဲများကို ရှေ့သို့ပြန်ကျစေသည်။ ထိုကြောင့် ယင်းတို့ကို ရင်တိုက်ထယ်ဟု ခေါ်ကြသည်။ ထိုထယ်တို့၏ ချွတ်ယွင်းချက်များမှာ နွားယောင်မပါ၍ ဆွဲရာ၌ လေးလံခြင်း၊ ရှက်လိမ်မပါသဖြင့် ထယ်စာထယ်ခဲများ ကောင်းစွာ မလန်ခြင်း၊ ညီညာသောထယ်ကြောင်း မရနိုင်သောကြောင့် ထယ်ကြောင်းချင်းစပ်ရန် ခဲယဉ်းပြီးလျှင် မြေရိုး သို့မဟုတ် ခုံများကျန်နေတတ်ခြင်း စသည်တို့ ဖြစ်လေသည်။

ထိုချွတ်ယွင်းချက်များ မရှိစေရန် မြန်မာနိုင်ငံတော် စိုက်ပျိုးရေးဌာနတွင် ထယ်တမျိုး တီထွင်ထားသည်။ ထိုထယ်ကို သိပ္ပံထယ်ဟုခေါ်သည်။ သိပ္ပံထယ်သွားတွင် အနောက်နိုင်ငံများ၌လုပ်သော ထယ်သွားမျိုးတို့၏ ကောင်းမွန်သော အချက်အလက်များ ပါရှိသည်။ ထိုထယ်သွားကို မြန်မာတောင်သူလယ်သမားများ သုံးရင်းစွဲဖြစ်သော ထယ်ဒူး ထယ်တုံးများတွင် လွယ်လင့်တကူတပ်ဆင်၍ရသည်။ ထို့ပြင် သိပ္ပံထယ်သွားသည် အနောက်နိုင်ငံထယ်သွားများလောက် အလေးချိန်မစီးသဖြင့် အစိုစိုက်ခြင်း၊ အခြောက်စိုက်ခြင်း နှစ်မျိုးစလုံးအတွက် အသုံးပြုနိုင်သည်။

သိပ္ပံထယ်သွား အမှတ်၊ ၁၊ ၂၊ ၃၊ ၄ ဟူ၍ လေးမျိုး ရှိသည်။ အမှတ် ၁ သိပ္ပံထယ်သွားသည် ထယ်သွားအလတ်စား သို့မဟုတ် စကထယ်သွားမျိုးဖြစ်သည်။ အလေးချိန် ၃ ပိဿာနှင့် ၈၈ ကျပ်သားခန့်ရှိသည်။ ထယ်ကြောင်း အနက် ၄ လက်မမှ ၆ လက်မအထိ၊ အကျယ် ၆ လက်မမှ ၈ လက်မအထိ ထိုးနိုင်သည်။ ထိုထယ်သွားမျိုးကို မြေနု မြေလတ်များတွင် အသုံးပြုကြသည်။

အမှတ် ၂ သိပ္ပံထယ်သွားသည် ထယ်သွား အငယ်စားမျိုး ဖြစ်သည်။ အလေးချိန် ၃ ပိဿာနှင့် ၅ ကျပ်သားခန့်ရှိသည်။ ထယ်ကြောင်းအနက် ၃ လက်မမှ ၅ လက်မအထိ၊ အကျယ် ၄ လက်မမှ ၇ လက်မအထိ ထိုးနိုင်သည်။ ထိုထယ်မျိုးကို မြေစေး၊ မြေမာများ၌ သုံးရန်သင့်လျော်သည်။ အမှတ် ၃ သိပ္ပံထယ်သွားသည် အကြီးဆုံးဖြစ်၍ အလေးချိန် ၅ ပိဿာနှင့် ၅၅ ကျပ်သားခန့်ရှိသည်။ ထယ်ကြောင်း အနက် ၃ လက်မမှ ၆ လက်မအထိ၊ အကျယ် ၆ လက်မမှ ၉ လက်မအထိ ထိုးနိုင်သည်။ မြေထဲ အမြစ်နက်နက်ဆင်းသောအပင်များ စိုက်ပျိုးရာ၌ ထိုထယ်ကြီးများကို အသုံးပြုလေ့ရှိသည်။ အမှတ် ၄ သို့မဟုတ် ဝ (သုည) သိပ္ပံထယ်သွားသည် အသေးဆုံးဖြစ်သည်။ အလေးချိန် ၂ ပိဿာခွဲ ရှိသည်။ ထယ်ကြောင်းအနက် ၃ လက်မမှ ၅ လက်မအထိ၊ အကျယ် ၄ လက်မမှ ၇ လက်မအထိ ထိုးနိုင်သည်။ ထိုထယ်သွားမျိုးကို မြေနု၊ နုံးမြေများတွင် အသုံးပြုကြသည်။

**ထောပတ်**။ ။ထောပတ်သည် ရှေးနှစ်ပေါင်း လေးငါးထောင်ခန့်ကပင် ပေါ်ပေါက်နေသော အစားအစာဖြစ်သည်။ ထောပတ်လုပ်နည်းကို အရှေ့တိုင်းများမှာစတင်တွေ့ရှိသည်ဟုဆိုသည်။ အရှေ့တိုင်းများတွင် ခရီးသည်များသည် လမ်း၌ရေငတ်ပြေသောက်ရန် နွားနို့ကို နွားသားရေအိတ်များတွင်ထည့်၍၊ လားနှင့်ကုလားအုပ်များပေါ်တွင် ထမ်းဆောင်လျက် ခရီးသွားကြရာမှ၊ အိတ်ထဲတွင် နို့များ လှုပ်ရှား ယောက်ယက်ခပ်မှုကြောင့် နွားနို့မှမလိုင်များမှာ ဆီဦးထောပတ်ဖြစ်နေသည်ကို မမြော်လင့်ဘဲ ကံအားလျော်စွာ တွေ့ကြရဟန်တူသည်။ ထိုမှစ၍ နွားနို့ကိုအိတ်ထဲတွင် ထည့်၍၊ မြင်း၊ လားတို့၏ ကျောပေါ်တွင်တင်ဆောင်ကာ၊ လှုပ်ရှားစေခြင်းဖြင့် ထောပတ်ရရှိအောင် ပြုလုပ်ကြလေသည်။ ထိုမှတဆင့် တိုးတက်ကောင်းမွန်အောင် အိမ်ရှင်မတို့သည် မိမိတို့ဖါသာ အိမ်တွင်လုပ်ကိုင်နိုင်ရန် နည်းလမ်းများ ရှာဖွေစမ်းသပ်ကြပြန်သည်။ သို့စမ်းသပ်လုပ်ကိုင်ကြည့်ရာ၌ နွားနို့မှမလိုင်ကို ဇွန်းခွက်ဖြင့်ခပ်ယူ၍၊ ပန်းကန်စောက် သို့မဟုတ် ဇလုံတခုထဲထည့်လျက်၊ ခပ်သွက်သွက်မွှေပေးလျှင်ငင်း၊ ခေါက်ပေးလျှင်ငင်း၊ ထောပတ်ရရှိနိုင်သည်ကို တွေ့ရ၏။ ထိုမှတဖန် ကြံစည်ပြန်ရာ လက်ကိုင်ရှည်ရှည်တုတ်ချောင်းတွင် အဖျား၌ သစ်သားဒလက်ကလေးများ တပ်ထားပြီးနောက် မလိုင်ထည့်ထားသောစည်ထဲတွင်ထည့်၍ အပေါ်ဖက်ရော၊ အောက်ဖက်ပါ၊ လက်ဖြင့်ပွတ်လှည့်ပေးခြင်းဖြင့်လည်း ထောပတ်ပြုလုပ်ရရှိကြနိုင်သည်ကို တွေ့ရပြန်သည်။ သို့ရာတွင် ထိုတုတ်ကလေးကိုလှည့်ပေးရခြင်းမှာ အချိန်အတော်ပင် ကြာမြင့်လေသည်။

ရှေးအခါက၊ ထောပတ်လုပ်ကိုင်ရာ၌၊ အကိုင်အတွယ်၊ အထားအသို မသန့်ရှင်းဘဲ၊ စံနစ်လည်းမကျသေးသောကြောင့် ထောပတ်မှာ အနံ့ဆိုးပြီးလျှင်၊ အရသာမရှိချေ။ ထိုကြောင့် ထောပတ်များကို ဆေးဝါးအဖြစ်ငင်း၊ လိမ်းကျံရန်ငင်း၊ မီးခွက်ထွန်းရန် ဆီအဖြစ်ငင်း၊ ဟင်းထဲထည့်ချက်ရန် ဆီအဖြစ်ငင်း ထိုမျှလောက်သာ အသုံးပြုကြသည်။

သိပ္ပံပညာ ထွန်းကားလာသောအခါ၊ ထောပတ်အဆင့်အတန်းသည် တိုးတက်ကောင်းမွန်လာလေသည်။ ထောပတ်ကို တိုးတက်ကောင်းမွန်အောင် ပြုလုပ်လိုက်သူမှာ ပြင်သစ် သိပ္ပံပညာရှင် ပါးစတားဆိုသူ ပုဂ္ဂိုလ်ကြီးပင် ဖြစ်လေသည်။ ထိုပုဂ္ဂိုလ်ကြီးသည် ဗက်တီးရီးယားများရှိခြင်းကြောင့် နွားနို့ ချဉ်သွားကြောင်းကိုလည်း စတင်တွေ့ရှိလေသည်။ သူ၏စမ်းသပ်တွေ့ရှိမှုများအရ ထောပတ်ပြုလုပ်ရန် မလိုင်ကို အပူဓာတ်နှင့်အအေးဓာတ်ပေး၍၊ မလိုင်ထဲတွင်ပါသော ရောဂါပိုးမွှားများပျက်စီးအောင် ပြုလုပ်ခြင်းဖြင့် ထောပတ်တွင် ဆိုးရွားသောအနံ့များ ကင်းစေခဲ့သည်။ ထိုပုဂ္ဂိုလ်ကြီး၏ နည်းနာအတိုင်း နွားနို့ကို အပူရှိန်ပေးပြီး



နိုင်ငံခြားသို့ တင်ပို့ရန် အသင့်ဖြစ်နေသော လတ်ဆတ် သန့်ရှင်းသည့် ဒိန်းမတ် ထောပတ်စည်များ

နောက် တဖန် လွန်ကဲသောအအေးဓာတ်ပေး၍ ရောဂါပိုးများ ပျက်စီးအောင်ပြုလုပ်ခြင်းကို 'ပါးစတားရိုက်' ပြုလုပ်သည်ဟု ခေါ် ဆိုလေသည်။ ထိုပြင် မလိုင်ကို ကောင်းမွန်သော ထောပတ်မျိုး လျှင်မြန်စွာဖြစ်စေမည့် ဗက် တီး ရီးယား အမျိုးအစား ထည့်သည့်နည်းလမ်းများကိုငင်း၊ ထောပတ် ပြုလုပ်ရာတွင် အစစအရာရာ သန့်ရှင်းစေလျက်၊ ဆားအနည်းငယ် ထည့်ပေးခြင်းဖြင့် ထောပတ်မှာ ကြာရှည်ခံ၍ အရသာကောင်းနိုင်ကြောင်းကိုငင်း ယင်းပုဂ္ဂိုလ်၏ကျေးဇူးကြောင့် သိရှိလာ၏။ (ပါးစတား, လူဝီ။ ဗက်တီးရီးယား — ရှု။)

ထောပတ်လုပ်ငန်းတွင် သိပ္ပံပညာနည်းများဖြင့် စံနစ်တကျ လုပ် ကိုင် လျှင် ထောပတ်ကောင်းများ ရရှိနိုင်ကြောင်းကို သိလာကြသဖြင့် ၁၈၅၆ ခုနှစ်မှစ၍ ထောပတ်လုပ် စက်ရုံများ ပေါ် ပေါက်လာလေသည်။ ထိုခေတ်မှီ ထောပတ်လုပ်စက်ရုံများတွင် ထောပတ်ကို သန့်ရှင်းစွာ စံနစ်တကျ လုပ်ကိုင်လာသဖြင့် အနံ့အရသာပြည့်စုံ၍ ရွှေရောင်ဝင်းနေသည့် ထောပတ်ကို ရရှိလာလေသည်။ ထိုအခါ ထောပတ်စားသုံးသူ အလွန်ပေါ်များလာ၏။

ခေတ်မှီထောပတ်လုပ် စက်ရုံများကို အလွန်သန့်ပြန့်စွာထားရသည်။ နွားနို့ ညှစ်ယူမည့် နွားမများကိုလည်း ဂရုစိုက်မွေးမြူ၍၊ နို့ညှစ်ယူမည့်အခါတွင် နွားမများကိုသန့်ပြန့်စေပြီးမှ နို့ညှစ်ယူလေသည်။ ထိုကဲ့သို့သန့်ရှင်းနိုင်မှသာလျှင် ထောပတ်တွင် အနံ့ဆိုးများမထွက်ဘဲ ရှိမည်ဖြစ်၏။ ညှစ်ချလိုက်သောနွားနို့ သည် နွားနို့ထဲမှမလိုင်ကို ခွဲထုတ်ပေးသောစက်အတွင်းသို့ စီးဆင်းသွားရသည်။ ရိုးရိုး အတိုင်း ဆိုလျှင် နွားနို့ထဲမှ မလိုင်တက်လာအောင် ၂၄ နာရီမှ ၃၆ နာရီအထိ ကြာမြင့်တတ်ရာ ထိုစက်ဖြင့် မိနစ် အနည်းငယ် အတွင်း မလိုင်ရရှိနိုင်လေသည်။ ထိုမှတဖန် အအေးခံ၍၊ မီးရထားဖြင့် ဖြစ်စေ၊ ကုန်တင်ကားဖြင့် ဖြစ်စေ မလိုင်ရုံများသို့ပို့က၊ မလိုင်ကို စမ်းသပ်စစ်ဆေးပြီးလျှင် ရောဂါပိုးမွှား မပါအောင် အပူဓာတ်ပေးလေသည်။ ထိုနောက်မှ မလိုင်အမျိုးအစားအလိုက် လျှင်မြန်စွာ အသားတက်၍ အရသာကောင်းလာအောင် သင့်တော်မည့် ဗက်တီးရီးယားကို ထည့်ပေးရသည်။ ထိုမှတဖန် စည်ကြီးများ၌ထည့်က၊ စက်ဖြင့် မလိုင်များကို ထောပတ်ဖြစ်လာအောင် မွှေနှောက်လှုပ်ရှားပေးလေသည်။

ထိုသို့မွှေနှောက်ပေး၍၊ ထောပတ်ဖြစ်မည့်မလိုင်မှာ အဆီတခြား၊ အရည်တခြား ဖြစ်လာသောအခါ၊ ထောပတ်ရည်ကို စစ်ပစ်လိုက်၍ ထောပတ်ကို ရေအေးဖြင့် ဆေးပေးရလေသည်။ ထိုနောက် ဆားအနည်းငယ်ထည့်ပြီးလျှင် ရေစင်သွားအောင် နယ်ထုတ်ပစ်ရသည်။ ထောပတ်ချိုပြုလုပ်လိုလျှင် ဆားထည့်ရန်မလိုပေ။ ထောပတ်ချိုမှာ ရိုးရိုးထောပတ်ထက် ဆိမ့်အီ၍၊ ပိုမိုအဖိုးတန်သော်လည်း၊ ကြာရှည်မခံပေ။ အထူးသဖြင့် ဆောင်းအခါ၌ပြုလုပ်သော ထောပတ်များမှာ အရောင်ဖျော့လွန်း၍၊ အဝါနုပျက် အရောင်ကလေးမျှသာ ဖြစ်သဖြင့်၊ အရောင်ရောပေးရလေသည်။ ဤနည်းအားဖြင့် ရွှေရောင်ဝင်းလျက် အိ၍အရသာဆိမ့်အီသည့် ထောပတ်ကို ရရှိသည်။

ကမ္ဘာ့အရပ်ရပ်သို့ တင်ပို့ရောင်းချနိုင်လောက်အောင် ထောပတ်လုပ်သည့် တိုင်းနိုင်ငံများမှာ၊ ဒိန်းမတ်၊ နယူးဇီလန်၊ အိုင်ယာလန်၊ အာဂျင်တီးနား၊ ဆိုဗီယက်ရုရှ၊ ဖင်းလန်၊ နယ်သာလန်၊ ဆွီဒင်၊ ပြင်သစ်၊ အမေရိကန် ပြည်ထောင်စု၊ ကနေဒါနိုင်ငံနှင့် ဩစတြေးလီးယားတိုက်တို့ ဖြစ်ကြသည်။ အချို့တိုင်းပြည်များသည် မိမိတို့ပြည်၌ပြုလုပ်သောထောပတ်ကို၊ နိုင်ငံခြားသို့ တင်ပို့ရောင်းချ၍၊ အခြားတိုင်းပြည်မှပြုလုပ်သောထောပတ်ကို ဝယ်ယူစားသုံး ကြလေသည်။

မြန်မာပြည်နိုင်ငံတွင် ရှေးအစဉ်အဆက်မှစ၍ ထောပတ်ကို စားသုံးလာကြသော်လည်း၊ ဆီဦးထောပတ်ကို ဆေး အဖြစ်သာ အနည်းအကျဉ်းမျှ သုံးစွဲကြသည်။ ပြုလုပ်ပုံမှာလည်း ခေတ်မမှီဘဲ၊ ရှေးသမားရိုးကျအတိုင်း ဖြစ်၍၊ နိုင်ငံ

ခြားလုပ် ထောပတ်ကို မမှီသေးချေ။ ထို့ကြောင့် နိုင်ငံခြားလုပ် ထောပတ်ကိုသာလျှင် စားသုံးသည်ကများလေသည်။ ထောပတ်တွင် ဗီတာမင် အေ ပါရှိ၍၊ ကိုယ်ခန္ဓာ ကြီးထွားသန်စွမ်းရေးအတွက်၎င်း၊ ရောဂါအန္တရာယ်ကို တွန်းလှန်ရန်အတွက်၎င်း အရေးပါအရာရောက်ပေသည်။ အထူးသဖြင့်၊ ကြီးထွားနေသော ကလေးများအတွက် ပို၍အဖိုးတန်သည်။ ဤသို့သော အကျိုးအာနိသင်များကြောင့် ခေတ်မီနိုင်ငံပေါင်းများစွာတို့၌၊ ထောပတ်သည် အများပြည်သူတို့နေ့စဉ်စားသုံးသော အစားအစာဖြစ်ပြီးလျှင် ထောပတ်ကို အကြီးအကျယ်လုပ်ကိုင်၍ ကမ္ဘာအရပ်ရပ်သို့လည်း တင်ပို့ရောင်းချကြလေသည်။

**ထောဗာလဆင်, ဗီ** (ခရစ် ၁၇၇၀–၁၈၄၄)။ ။ဒိန်းလူမျိုး ရုပ်ထုဆရာ ဗာတယ် ထောဗာလဆင်သည် ၁၇၇၀ ပြည့်နှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင် ဒိန်းမတ်နိုင်ငံ ကိုပင်ဟားဂင်းမြို့တော်၌ ဖွားမြင်လေသည်။ ဖခင်ဖြစ်သူမှာလည်း ရုပ်ထုဆရာတဦးဖြစ်၍၊ လှေဦးပိုင်းများကို အရုပ်များထွင်းလုပ်ပေးခြင်းဖြင့် အသက်မွေးမှုသူဖြစ်သည်။ ထောဗာလဆင်သည် အသက် ၁၁ နှစ်အရွယ်ကစ၍၊ ကိုပင်ဟားဂင်းမြို့ရှိ သုခုမအနုပညာသင်ကျောင်းကြီးတွင် အနုပညာရပ်များကို ၁၂ နှစ်တိုင်တိုင် လေ့လာဆည်းပူးခဲ့သည်။ အသက် ၂၃ နှစ်အရွယ်တွင် ရွှေတံဆိပ်တခုနှင့် စကောလားရှစ်ဆုကိုရရှိသဖြင့် ဣတလီနိုင်ငံ ရောမမြို့တော်သို့ သွားရောက်ကာ ပညာများဆည်းပူးလေသည်။ ရောမမြို့တော်တွင်နေထိုင်၍ မျှားမကြာမီပင် ထောဗာလဆင်၏ဂုဏ်သတင်းမှာ ကျော်စောထင်ရှားလာခဲ့လေသည်။ ၁၈၀၉ ခုနှစ်တွင် ထုလုပ်ပြီးစီးသည့် ဂျေဆင် ကျောက်ရုပ်မှာ အထူး ထင်ရှားခဲ့သည်။ ထို့နောက် ၁၈၁၉ ခုနှစ်တွင် နေရင်းဒေသ ကိုပင်ဟားဂင်းမြို့တော်သို့ ခေတ္တပြန်လာ၍နေထိုင်ခဲ့၏။ ထိုအတွင်း ခရစ်မယ်တော် ဘုရားရှိခိုးကျောင်းကြီးကို ပန်းခက်ပန်းနွယ်တို့ဖြင့်မွမ်းမံခြယ်လှယ်၍၊ ထိုဘုရားရှိခိုးကျောင်းတွင်ရှိသည့် ခရစ်တော်နှင့် တပည့်တော် တဆယ့်နှစ်ဦးတို့၏ပုံကို ထုလုပ်လေသည်။ ထို့နောက်တဖန် ရောမမြို့သို့ပြန်လာသောအခါ၊ သူသည် စိန့်ပီတာ ဘုရားရှိခိုးကျောင်းအတွက် သတ္တမ ပိုင်းယပ် အထိမ်းအမှတ်ကျောက်ရုပ်ကို ထုထွင်းရလေသည်။ ၁၈၃၈ ခုနှစ်တွင် ဒိန်းမတ်ပြည့်ရှင် ဘုရင်မင်းမြတ်က ထောဗာလဆင်ကို ပြန်လာရန်ခေါ်သဖြင့် ကိုပင်ဟားဂင်းမြို့တော်သို့ ပြန်ရပြန်သည်။ ထို့နောက် ရောမ မြို့ သို့နောက် ဆုံး အ ခေါက် အ ဖြစ် ခေတ္တမျှ


ထောဗာလဆင် ထုလုပ်ခဲ့သော ' မျှော်လင့်ခြင်း ' အမည်ရှိ ရုပ်တု


ဒိန်းလူမျိုး ရုပ်ထုဆရာကြီး ဗာတယ် ထောဗာလဆင်

အလည်သွားခဲ့သည်မှတပါး ၁၈၄၄ ခုနှစ်အထိ မိမိဇာတိဖြစ်သော ကိုပင်ဟားဂင်းမြို့တော်၌ စွဲမြဲစွာနေထိုင်ခဲ့၏။ အနိစ္စရောက်သောအခါ ကျန်ရစ်ခဲ့သော ပစ္စည်းများနှင့် ရုပ်တု ရုပ်လုံးများကို ပြတိုက်တခုပြုလုပ်ထားရှိရန် မှာကြားခဲ့သဖြင့် ကိုပင်ဟားဂင်းမြို့တော်၌ ထောဗာလဆင်ပြတိုက်ကို ဖွင့်လှစ်ထားလေသည်။

**ထိုးကွင်းထိုးခြင်း။** ။ကမ္ဘာအရပ်ရပ်ရှိ ယဉ်ကျေးသည့် လူမျိုးများ၌ဖြစ်စေ၊ မယဉ်ကျေးသေးသည့် လူမျိုးများ၌



မြန်မာတို့ ရှေးရိုးဆန်စဉ်က ခေတ်စားခဲ့သည့် ထိုးကွင်း

ဖြစ်စေ ထိုးကွင်းထိုးခြင်း အလေ့အထ အနည်းနှင့်အများ ရှိသည်ကို တွေ့ရသည်။ အထူးသဖြင့် ထိုးကွင်းထိုးခြင်း အလေ့အထသည် ရှေးရိုးဆန်သောလူမျိုးများတွင် စွဲမြဲနေလေသည်။ ထိုးကွင်းထိုးခြင်းသည် အသားအရေပေါ်တွင် အနီ အနက် စသည့် ဆေးရောင်များကို ချွန်ထက်သော ဆေးထိုး စုတ်တံဖြင့် ထိုးနှံခြင်းဖြစ်သည်။ ယခုအခါ ထိုးကွင်းထိုးခြင်း အလေ့အထသည် တနေ့တခြား နည်းပါးသွားပေပြီ။

ထိုးကွင်းထိုးခြင်း အလေ့အထသည် ရှေးအခါက အလွန်ခေတ်စားခဲ့သည်။ တကြိမ်တခါက ဂျပန်နိုင်ငံတွင် များစွာ ခေတ်စားခဲ့သည့်နည်းတူ မြန်မာနိုင်ငံတွင်လည်း အလွန်ခေတ်စားခဲ့သော ဓလေ့တခုဖြစ်သည်။ ရှေးခေတ် ဂျပန်လူမျိုးများနှင့် ရှေးခေတ် မြန်မာလူမျိုးများသည် ကိုယ်ပေါ်တွင် ထိုးကွင်းဆေးရုပ်များကို ထိုးနှံခဲ့ကြလေသည်။ ထိုနည်းတူစွာ ပေါ်လီနီးရှင်းလူမျိုး၊ မာအိုရီလူမျိုးနှင့် မာကေ



အဆောင် မင်ကြောင်

ဆကျွန်းသားများသည်လည်း ထိုးကွင်းထိုးခြင်း အလေ့အထကို အထူးသဖြင့် ပြုလုပ်ခဲ့ကြသူများဖြစ်သည်။ ယခုခေတ်တွင် အင်္ဂလိပ် အမေရိကန်စသော အနောက်တိုင်းသားလူမျိုးများ၌ပင် ဆေးရုပ်ထိုးနှံခြင်း အလေ့အထသည် လုံးဝပျောက်ကွယ်သွားခြင်း မရှိသေးပေ။ အထူးသဖြင့် စစ်သားများတွင် ယင်းအလေ့အထကို အများအပြားတွေ့ရသည်။

ထိုးကွင်းထိုးခြင်းကို စစ်ပွဲတွင်သတ္တိရှိခြင်း အမှတ်အသား အဖြစ်ဖြင့်၎င်း၊ ရန်သူများ ကြောက်လန့်သွားစေရန်၎င်း၊ အလှအပ အဖြစ်ဖြင့်၎င်း ရည်ရွယ်၍ပြုလုပ်ကြသည်။ တခါတရံ ဘာသာရေးကြောင့် ထိုးကွင်းထိုးကြ၏။ အချို့လူမျိုးများသည်ကား ဝမ်းနည်းသည့်အထိမ်းအမှတ်အဖြစ်ဖြင့် တသက်တွင် မမေ့နိုင်အောင် ထိုးကွင်းထိုးကြသည်။

ရှေးအခါကမြန်မာလူမျိုးများသည် ခါးမှစ၍ ဒူးဆစ်အထိ ထိုးကွင်းထိုးသည့် အလေ့အထ ရှိခဲ့သည်။ ဆေး၏အရောင်မှာ အနက် သို့မဟုတ် နက်ပြာဖြစ်သည်။ ထိုသို့ ထိုးကွင်းထိုးရာတွင် မြန်မာလူမျိုးများသည် ကြောင်ရုပ်များကိုလည်း ထိုးလေ့ရှိခဲ့ကြသဖြင့် မင်ကြောင်ဟုလည်း ခေါ်ကြသည်။ ရှေးမြန်မာလူမျိုးများသည် အကြမ်းပတမ်း လုပ်ကိုင်ရာတွင်၎င်း၊ စစ်ထွက်သည့်အခါတွင်၎င်း အောက်ပိုးကျိုက်ခြင်း ပြုလုပ်လေ့ရှိကြသည်။ ယင်းသို့ အောက်ပိုးကျိုက် လုပ်သည့်အခါတွင် အမြင် လှပတင့်တယ်စေရန်၎င်း၊ ယောကျ်ားပီသခြင်းကို ပြသလို၍၎င်း၊ ခါးမှ ဒူးဆစ်အထိ ထိုးကွင်းထိုးနှံကြလေသည်။

ရှေးခေတ်က ထိုးကွင်းမရှိသော ယောကျ်ားသည် ယောကျ်ားမပီသဟု ယူဆခဲ့ကြသည်။ တောင်ငူမင်း နတ်သျှင်နောင်၏ညီတော် မင်းရဲကျော်စွာသည် ထိုးကွင်းထိုးနှံခြင်းမရှိသဖြင့် နောင်တော်နတ်သျှင်နောင်က သူ၏ရတုစာတော်အချို့တွင် ညီတော်မင်းရဲကျော်စွာအား ရည်ငံရင်းရှိသည့် မင်းသမီးက ပြက်ရယ်ပြုလေဟန် အောက်ပါအတိုင်း ရေးစပ်ဖွဲ့ဆိုခဲ့ဘူးသည်။

'ဖြိုးမောက်မသင့်၊ ပတ်မမြင့်တည့်၊ ရွှေနှင့်နောက်သာ၊ နံမှာဖူရောင်၊ သလင်းတောင်ကို၊ မည်းအောင်ဖြည့်လေ၊ ပြည့်မှစေလေ့၊ မြင်ချေသည်မူ၊ ခြောက်ပြည်သခင်၊ နေလုလင်လည်း၊ သို့စင်လွန်ကဲ၊ တင့်မည်ခဲစွ၊ မင်းရဲကျော်စွာ၊ မည်သာလှင့်ပေါ်၊ မင်သေ့သော်မူ၊ နံတော်နှစ်ဘက်၊ စွန်းမစက်သည်၊ မရှက်ပတ်လည် ဝေးသေးသည်။'

အချို့သောသူများသည် ပေါင်တွင် ကြောင်ရုပ် ငှက်ရုပ်၊ လက်ဖျံ၊ ပခုံးနှင့် လည်ကုပ်ပေါ်တွင် အိမ်မြှောင်ရုပ်၊ လူရုပ်နှင့် ဝလုံး၊ ရင်ညွန့်တွင် နယ်ကွင်းပိတ်၊ လက်ခုံတွင် ပင့်ကူရုပ် အစရှိသည်တို့ကို အဆောင်အဖြစ်ဖြင့် ထိုးနှံလေ့ရှိကြသည်။ ယင်းသို့ဆေးရုပ်များ ထိုးနှံခြင်းကို မင်ကြောင်ထိုးခြင်းဟုခေါ်သည်။ အဆောင်အဖြစ်ဖြင့် မင်ကြောင်ထိုးခြင်းကို ကုန်းဘောင်ခေတ်ပေါ် ပြဇာတ်ဆရာကြီး ဦးကြင်ဥ၏ ပါပဟိန်ပြဇာတ်တွင် 'ရှေသည်တခါ၊ ခိုင်မာစေစပ်၊ မြို့သစ်တပ်ကို၊ ကြပ်ကြပ်ခြေစုံ၊ ရပ်တဲ့လို ခုန်တော့မည်။ စက်စုံအပ်မြှုပ်၊ လည်ကုပ်က ငုံး၊ ပခုံးဆံစပ်၊ ပိုးဟပ်တသွယ်၊ ဒေါင်းလည်ပြန် ပေါင်၊ ကြောင်ရင်းဒါလီ၊ ဇော်ဂျီ လက်ယာ၊ ဝိဇ္ဇာ လက်ဝဲ၊ ဖရုံဆွဲကျား၊ တင်ပါးက မျောက်၊ ခါးကောက် ဘီလူး၊ နဖူး ပင့်ကူ၊ တက်တူ လက်ညှိုး၊ ပါးရိုး အိမ်မြှောင်၊ ဆိုခဲ့ပြီးဂုဏ်ဟိတ်၊ ဆေးကျားကြောင် အအိပ်နှင့်၊ ရိုးရိပ်မျှ မမြင်အောင်၊ ဝိုင်းဆိုတိုင်း ချုပ်ပိတ်က၊ လူခြေတိတ် သန်းခေါင်၊ ပတ်မိုးမှောင် ချတော့မှုစမ်း။' ဟု ရေးသားဖော်ပြထားသည်။

အချို့ကလည်း လက်မောင်း၊ ရင်ပတ်၊ ကျောပြင်၊ ပေါင်တံနှင့် တကိုယ်လုံး နေရာအနှံ့အပြားတွင် ဆေးနီ ဆေးနက်မင်ကြောင်ရုပ်များ၊ စာနီ စာနက် စမ အင်္ကွရာများ၊ အင်းများကို ကာယသိဒ္ဓိ အလို့ငှာ၎င်း၊ ပီယသိဒ္ဓိ အလို့ငှာ၎င်း၊ အလှအပသက်သက် အလို့ငှာ၎င်း၊ ထိုးနှံလေ့ရှိကြသည်။ ယင်းသို့ ထိုးနှံခြင်းကို ကျည်းကန်ရှင်ကြီးမေတ္တာစာတွင် 'မင်နက်မင်နီ၊ မဟာဆီတို့ဖြင့်၊ ပလီပြီပြင်စွာ၊ သာမဏေကျော် သီရိစက်၊ ကပတ်ကွက် သရေကြာ၊ ကတ္တရာနှင့်၊ စမ္မာနဝ ဘီလူးခက်၊ အင်္ကွရာလေးလုံး၊ ဝါကြိတ်လိမ်အမျက်၊ ဂဏန်းတွေ အဆင်းအတက်၊ ဂါထာမန္တာန်တွေရံလျက်၊ အင်းကွက်ပုံ အသေအချွေတွင်၊ ဆင်သွား မြင်းသွား၊ ဗိုလ်သွား ရထားတိုက်၊ အလိုက်သင့်အနေ အစုံတွင် ဖက်လက်၍၊ လက်ဝဲဘက်ကား ကျားညီနောင်၊ လက်ျာပေါင်မှာ အိမ်မြှောင်တွေ အဆင်းအတက်၊ နားရွက်မှာ လိပ်ပြာတောင်၊ ထိပ်ပြောင်မှာ ကြက်ခြေရစ်၊ အဆစ်ဟူသမျှမှာ သုညတွေ အလုံးလုံး၊ ပခုံးနှင့်လည်ကုပ်မှာ၊ အဋ္ဌမုတ် ဆယ့်နှစ်ခွင်၊ ကျောပြင်မှာ စမ္မာနဝပြာသာဒ်၊ အာစပ် နှင့် နှုတ် ရေးမှာ သောဠတ္တိအပြန်အလှန်၊ ဆံစပ်မှာ တိလောမာလောဇာ၊ မြင်ကောင်းရာဟူသမျှ တခွင်မှာ၊ အင်းစီးကျား တဟုန်းဟုန်း၊ သား လုံး နှစ် ဘက် က တက် ကြ ဟန် သက်ကြဟန်၊ မျောက်ကလေးတွေ စီရရီ၊ လက်ဖျံဆီမှာ ဆေးနီနှင့်စာကြောင်းတွေ၊ နေဝင်ကြောင် မိုးကြောင်၊ ခိုးကြောင် တိုးကြောင်၊ သဲကြောင် ဗားမဲ့ကြောင်၊ ခါးပတ်ကြောင် ခါးပြတ်ကြောင်၊ မိုးမှောင်ကျ ကြောင်ပက်လက်၊ စားခွက်နှိုက် သံလျက်ကိုက်၊ မြီးချင်းဆိုက် ခေါင်းချင်းတိုက်၊ အရွေလိုက် ကြောင်အလွန်၊ ဂဝံပုံတီး၊ ကျားဘီလူးကြီး၊ အင်းစီး ပြည်လုံးမွှေ ကေသရာဇာ တံခွန်စိုက်၊ ထိုက်ဖလို့ ကြောင်၊ သူကောင်ချီ ကြောင် ဒါလီ၊ ညောင်ဘီလာ ယဝ၊ ကိုးလုံးဝ အထွေထွေ၊ အခြည် အကွင်းတို့ကို ကိုယ်တွင်းပြည့် အထပ်ထပ်၊ ဒရစပ် တင်းကျမ်း၊ အလျှမ်းသား စိတ်ရှိနှံ၍' ဟု ရေးသားထားသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ အပါအဝင် ချင်းဝိသေသတိုင်းမှ တောင်ပိုင်းချင်းအမျိုးသမီးအချို့သည် များသောအားဖြင့် မျက်နှာတွင် ဆေးမင်များထိုးကြသည်။ ထိုသို့မျက်နှာတွင် ဆေးမင်ထိုးခြင်းကို ပယ်ထိုးခြင်းဟုခေါ်သည်။ (ချင်းလူမျိုး — ရှု။)

ထိုးကွင်းထိုးခြင်း အလေ့အထသည် ယခုခေတ်မြန်မာလူမျိုးများတွင် လုံးဝမရှိသလောက်ပင် ပျောက်ကွယ်သွား



အဆောင် မင်ကြောင်

ခဲ့ပြီဖြစ်သည်။ အသားအရေပေါ်တွင် တခါထိုးပြီးသော ထိုးကွင်းရုပ်သည် လုသော်ရှိ မလုသော်ရှိ၊ ပီသသော်ရှိ မပီသသော်ရှိ ပြန်ဖျက်၍ကားမရချေ။ ထိုကြောင့် ဆေးရုပ် လု မလု ပီ မပီမှာ ထိုးကွင်းထိုးဆရာ၏ ကျွမ်းကျင်မှုပေါ်တွင် တည်လေသည်။ ရှေးခေတ် စာဆိုကျော်တဦးသည် ထိုးကွင်းထိုးရာတွင် အချက်မပိုင်က နောင်အခါ ပြန်လည်၍ ပြင်ဆင်ရန် ခက်ခဲသည့်အကြောင်းကို ‘တက္ကသိုလ်ဆရာတဦးက၊ မှာဘူးသည့် နှုတ်ခြည်၊ အိမ်ထောင်ဦး ဘုရားတည်၊ ဆေးမင်ရည် စုတ်ထိုး၊ သည်သုံးခု ချက်မပိုင်လျှင်၊ နောင်ပြင်နိုင်ခက်သည့်အမျိုး’ ဟုပင် စာစပ်ထားခဲ့လေသည်။

မင်ကြောင်နှင့် ဆေးနီ ဆေးနက်များ ထိုး ခြင်း အလေ့အထမှာကား ယခုခေတ် မြန်မာလူမျိုးများတွင် အနည်းငယ်

ကျန်ရှိပေသေးသည်။ သို့သော် ယင်းသို့ထိုးခြင်းမှာ အလု အပ သက်သက် ထိုးခြင်းဖြစ်သည်။ အများအားဖြင့် လက်ဖျံနှင့် မောင်းအိုးတို့တွင် မင်ကြောင်နှင့် ဆေးရုပ်အမျိုးမျိုးတို့ကို ထိုးလေ့ရှိကြသည်။ ထိုးသည့်ကရိယာမှာလည်း ရှေးကအသုံးပြုခဲ့ကြသည့် နှစ်ခွစုတ်၊ လေးခွစုတ်မျိုး မဟုတ်မူဘဲ၊ ဆေးရုပ်ထိုးစက်ကလေးများဖြစ်သည်။ ယင်းသို့သော ဆေးရုပ်ထိုးစက်ကလေးများကို အသုံးပြုခြင်းဖြင့် ရှေးကထက် အချိန်ကုန်သက်သာစေ၍၊ အထိုးခံသူတွင်လည်း အနာအကျင် များစွာသက်သာစေလေသည်။

**ထောက်ကြံ့ပင်**။ ။ထောက်ကြံ့ပင်ကို မြန်မာနိုင်ငံ အရပ်ရပ်ရှိ သစ်တောများ၌ တွေ့ရသည်။ ရုက္ခဗေဒအလိုအားဖြင့် 'တာမီနဲလီးယား တိုမင်တိုဆာ' ဟုခေါ်၍၊ ဖန်ခါးပင်၊ သန်ပင်၊ လိမ်ပင်၊ ရုံးပင်တို့နှင့်အတူ 'ကွန်ဗရီတေးစီအီး' မျိုးရင်းတွင် ပါဝင်လေသည်။ ထောက်ကြံ့ပင်သည် အထူးပင် ကြီးမားသော အပင်မျိုးဖြစ်၏။ အခေါက်မှာ ကြမ်းတမ်း၍ အရောင်မည်း၏။ ကျွန်းပင်၊ ပျဉ်းကတိုးပင်များနှင့်အတူ မြေညီ သစ်တောများ၌၎င်း၊ တောင်ပေါ် သစ်တောများ၌၎င်း ပေါက်ရောက်သည်။ ပင်လယ်မျက်နှာပြင်မှ အထက် အမြင့် ပေ ၂၅၀၀ အထိ ထောက်ကြံ့ပင်များကို တွေ့ရသည်။ သစ်သားမှာ ညိုပုပ်ပုပ် အရောင်ရှိ၍၊ အစင်းကြောင်းများ ပါရှိ၏။ ကောင်းစွာရွေပေါ် ထိုး၍ ပါလစ် အရောင်တင်ပေးလျှင် အလွန်လှပသည်။ အိမ်ထောင်ပရိဘောဂ ပြုလုပ်ရာ၌ သုံးနိုင်၏။ ဂရုတစိုက် ပြုပြင်၍သုံးလျှင် တာရှည်ခံသော သစ်သားမျိုးဖြစ်သည်။ ထောက်ကြံ့သားသည် လျှင်မြန်စွာ ခြောက်သွေ့သွားလျှင် ကွဲအက်တတ်သဖြင့်၊ ယင်းကို အသားသေစေရန် စီမံရာ၌ အထူးပင်ဂရုစိုက်ရ၏။ ထောက်ကြံ့သားကို မီးရထားဇလီဖားတုံး၊ လှည်း၊ လှေ၊ သင်္ဘောနှင့် အဆောက်အအုံများဆောက်လုပ်ရာ၌ အသုံးပြုကြသည်။ ထောက်ကြံ့သားအစိုသည် ကုဗပေ တပေလျှင် အလေးချိန် ပေါင် ၇၀ စီး၍၊ အခြောက်သည် ပေါင် ၆၀ စီးသည်။

ထောက်ကြံ့သားသည် သစ်မာသားမျိုးဖြစ်သဖြင့် ထင်းအဖြစ် အသုံးပြုနိုင်၏။ ထို့ပြင် ထောက်ကြံ့သားကိုဖုတ်၍ ရသော မီးသွေးသည် ပဌမတန်းစား မီးသွေးဖြစ်၏။ ထောက်ကြံ့ပင်၏အခေါက်ထဲ၌ 'တင်နင်' ခေါ် ချုပ်ဆေးသတ္တိရှိသော ဓာတုဗေဒပစ္စည်းတမျိုး ပါရှိရာ၊ သားရေနယ်လုပ်ငန်း၌ ထောက်ကြံ့သစ်ခေါက်များကို အခေါက်လိုက်ပင် ထည့်၍သုံးလေ့ရှိကြ၏။ ဝမ်းသက်လျှင်လည်း ထောက်ကြံ့ခေါက်ကို ဆေးအဖြစ်သုံးနိုင်သည်။ ပိုးခြည်အတွက် ပိုးမွေးမြူရာ၌ ထောက်ကြံ့ရွက်များကိုလည်း ပိုးစာရွက်ကဲ့သို့ သုံးနိုင်သည်ဟုဆိုသည်။

**ထောက်ရှာပင်**။ ။ထောက်ရှာပင်ကို မြန်မာနိုင်ငံ အရပ်ရပ်၌ တွေ့ကြရသည်။ ကြီးမားသော သစ်ပင်များဖြစ်၏။ ရုက္ခဗေဒအလိုအားဖြင့် 'ဗိုင်းတက် ဂလေဗရေးတား' ဟုခေါ်၍၊ 'ဗာဗီနေစီအီး' မျိုးရင်းတွင် ပါဝင်သည်။ အခေါက်မှာ မွဲပြာရောင်ရှိ၍ ချောမွတ်၏။ ကန့်လန့်ဖြတ် အစင်းကြောင်းများလည်း ပါရှိသည်။ အကိုင်းအခက်များ၌ အမွေး အနည်းငယ်ရှိသည်။ အရွက်နုကလေးများမှာ ချောမွတ်၏။ သစ်သားမှာ အတော်အတန်မာကျော၍ ခိုင်ခံ့၏။ အရောင်မှာ မွဲပြာရောင်ရှိ၍ တောက်ပသည်။ ထောက်ရှာသား ကုဗပေ တပေလျှင် အလေးချိန် ပေါင် ၄၀ ခန့်စီးသည်။ ယင်းတို့ကို လှည်းဝင်ရိုး၊ လှည်းထမ်းပိုး၊ လှည်းဘီး၊ လှည်းသန်၊ လှော်တက်များ ပြုလုပ်ရာ၌ အသုံးပြုသည်။ ပါလစ်ရောင် ကောင်းစွာတင်ပေးနိုင်သဖြင့် အိမ်ထောင် ပရိဘောဂများ ပြုလုပ်ရာ၌လည်း အသုံးချနိုင်သည်။ ထောက်ရှာပင် အခေါက်နှင့်အမြစ်များကို ချုပ်ဆေးအဖြစ် အသုံးပြုကြသည်။

**ထင်းရှူး**။ ။ထင်းရှူးမျိုးရင်းဝင်အပင်တို့သည် ကတော့ပုံ အသီးသီးသော အမြဲစိမ်း အပင်များဖြစ်ကြသည်။ ထင်းရှူးမျိုးရင်းကို ရုက္ခဗေဒအလိုအရ 'ပိုင်နေစီအီး' ဟူ၍ခေါ်



ထင်းရှူးပင်၏ အမှတ်အသားဖြစ်သော ကတော့ပုံအသီးများ
အခိုင်လိုက်သီးနေသော ပိုင်း ထင်းရှူးပင်

သည်။ ထိုမျိုးရင်းတွင် ပိုင်း၊ လာ့ချ၊ စပရု၊ ဆီဒါ၊ ဖား၊ ယူး၊ ကွန်နီဖါးပင်တို့ ပါဝင်ကြသည်။

ပိုင်းထင်းရှူး၌ မျိုးစိတ် အလွန်များသည်။ မျိုးစိတ်ပေါင်း ၇၀ ခန့်ကို အမျိုးအစားနား ခွဲခြားပြီးဖြစ်သည်။ ပိုင်းထင်းရှူးသည်ကမ္ဘာ့မြောက်ဖက်လုံးခြမ်း တခုလုံးလိုလို၌ အနှံ့အပြား ပေါက်ရောက်သည်။ အာရှတိုက်၊ ဥရောပတိုက်နှင့် အမေရိကတိုက်တို့တွင်လည်း ပိုင်းထင်းရှူးပင် အများအပြား ပေါက်ရောက်သည်။ ပိုင်းထင်းရှူးပင်တို့သည် ပေအနည်းငယ်သာမြင့်သော အပင်များမှ ပေ ၂၃၀ သို့မဟုတ် ထိုမျှမကမြင့်သော အပင်များထိရှိသည်။ ပိုင်းထင်းရှူး၏ပင်စည်မှာ ဖြောင့်သည်။ အခြားအပင်များနှင့်အနည်းအကျဉ်းရောနှော၍ ထင်းရှူးတောကြီးဖြစ်သည် အထိ မြောက်မြားစွာ ပေါက်နိုင်သည်။ ပိုင်းထင်းရှူး၌ အပ်ပုံသဏ္ဌာန် အမြဲစိမ်းအရွက်များရှိသည်။ အသီးသည် ကတော့ပုံ ဖြစ်သည်။ အသီးများသည် သီးပြီးသည်မှ ၂ နှစ်သို့မဟုတ် ၃ နှစ်ကြာမှ မှည့်ကြသည်။ အသီးအရှည်မှာ ၁ လက်မမှ ၁၈ လက်မထိရှိသည်။ အရွက်များသည် တလက်မသာသာမှ တပေကျော်ထိ ရှိနိုင်သည်။ မျိုးစိတ်ကိုလိုက်၍ အရွက် ၂ ရွက်မှ ၅ ရွက်အထိ စုရှိထွက်ကြသည်။ အရွက်၏အရင်းပိုင်းတွင် ဖွဲကြမ်းကဲ့သို့သောအခွံပါးဖြင့် ဖုံးအုပ်လျက်ရှိသည်။ အသီးများသည် တွဲလျားကျ၍ သီးပြီးလျှင်၊ အသားများသော အကြေးခွံများသည် ထိပ်ပိုင်းတွင် ကတော့ပုံကဲ့သို့ ချွန်၍နေသည်။

ပိုင်းထင်းရှူးမျိုးစိတ်အားလုံးကို အဓိကအားဖြင့် နှစ်မျိုးခွဲခြားနိုင်သည်။ ထိုသို့ခွဲခြားသည်မှာ ထင်းရှူးသား၏ အမျိုးအစားကိုကြည့်၍ ခွဲခြားခြင်းဖြစ်၏။ အသားပျော့၍ အရောင်ဖျော့သည့် ထင်းရှူးပင်များကို ထင်းရှူးပျော့ဟုခေါ်သည်။ အသားမာ၍ အရောင်မည်းသည့် အမျိုးကို ထင်းရှူးမည်းဟုခေါ်သည်။ ထင်းရှူးပျော့မျိုးတွင် အရွက်၏ အရင်းပိုင်းရှိ အခွံပါးများသည် အရွက်ကြီးထွားလာသည်နှင့် တပြိုင်နက် ကြွေကျကုန်သည်။ ထင်းရှူးမည်းမျိုးတွင်မူ ထိုအခွံပါးများသည် အရွက်မကြွေမချင်း ရှိနေကြသည်။ ပိုင်းထင်းရှူးသည် အများအားဖြင့် မည်သည့်မြေဆီလွှာမျိုး၌မဆို ပေါက်နိုင်သည်။ သဲများသည့် ကုန်းမြင့်များတွင် အဖြစ်ထွန်းဆုံးဖြစ်သည်။ မီးခိုးထူထပ်သည့် မြို့ကြီးများတွင် ထင်းရှူးပင်များ တာရှည် အသက်မရှင်နိုင်ကြချေ။ မီးခိုးအတွင်းရှိ ဓာတ်ငွေ့များက ထိုအပင်များကို သေစေသည်ဟု ယုံကြည်ကြသည်။

လာ့ချ ထင်းရှူးသည် နှစ်စဉ်အရွက်ကြွေသော ထင်းရှူးမျိုး ဖြစ်သည်။ ဆောင်းဥတုတွင် အပင်၌ အကိုင်းများသာ ကျန်ရစ်သည်။ ဥရောပတိုက် တောင်ပေါ်များရာဒေသတွင် ပေါက်သော လာ့ချပင်တို့သည် အမြင့်ပေ ၈၀ မှပေ ၁၃၀ ထိ ရှိကြသည်။ အာရှတိုက်တွင်လည်း လာ့ချပင်များပေါက်သည်။ လာ့ချထင်းရှူးသည် လှပသောအပင်မျိုးဖြစ်သည်။ နွေကူးဥတုတွင် အရွက်များ၏အရောင်မှာ စိမ်းဖျော့ဖျော့ရောင် ဖြစ်သည်။ ပွင့်မတို့၏ အရောင်မှာ ကြက်သွေးရောင်ဖြစ်၏။ ပွင့်ဖိုတို့၏အရောင်မှာ အဝါရောင်ဖြစ်၏။ ကတော့ပုံ အသီး၏အရောင်မှာ အညိုရောင်ဖြစ်၏။ ရိုးရိုးလာ့ချ ထင်းရှူးသည် ကမ္ဘာ့ဟောင်းတွင် မူရင်းဒေသအဖြစ် ပေါက်ခဲ့သည်။ အလွန်လှပသဖြင့် ယင်းကို ထိုဒေသမှ အမေရိကတိုက်သို့ယူကာ စိုက်ပျိုးခဲ့ကြသည်။ လာ့ချထင်းရှူးအသားသည် အဆီများသော်လည်း၊ မီးမလောင်လွယ်ချေ။ အလွန်ခိုင်ခံ့သဖြင့် လာ့ချအသားကို ကြေးနန်းတိုင်၊ မီးရထားလမ်းခင်းတုံး၊ ဝင်းခြံတိုင်၊ ထင်းအတွက် အသုံးချကြသည်။ အမေရိက တိုင်းရင်းသားများသည် လှေများကို လာ့ချပင်၏ တောင့်တင်းသောအမြစ်များနှင့် ချည်လှော်ရှိကြသည်။ လာ့ချပင်၏ အခေါက်နှင့်လည်း သားရေနယ်ခြင်း၊ ဆေးဆိုးခြင်း ပြုလုပ်ကြသည်။

လာ့ချထင်းရှူးပင်၏ ကတော့ပုံအသီးသည် တလက်မခန့်ရှည်၏။ မှည့်သောအခါ ပဒုမဦးစွာ တောက်ပသည့် အနီရောင် ရှိသည်။ ထိုနောက်တွင် အညိုရောင်ဖြစ်သွားသည်။ အသီးများသည် အရွက်ကြွေပြီးသော်လည်း၊ အပင်၌ ကျန်ရစ်ကြသည်။

စပရုထင်းရှူးနှင့် အခြားထင်းရှူးမျိုး ကွဲလွဲချက်မှာ ဤထင်းရှူးမျိုး၏ ကတော့ပုံအသီးများသည် အောက်သို့ မတ်မတ် စိုက်၍ သီးကြခြင်းပင်ဖြစ်၏။ အပ်သဏ္ဌာန်အရွက်များသည် သစ်ကိုင်း၏ပတ်လည်တွင် ခရုပတ်ပုံ ထွက်ကြသည်။ စပရုထင်းရှူးမျိုးပေါင်း ၄၀ ခန့်ရှိ၏။ မြောက်ဖက်ကမ္ဘာလုံးခြမ်းသည် ထိုထင်းရှူးပေါက်ရာ မူရင်းဒေသဖြစ်သည်။ ဤထင်းရှူးမျိုးသည် ဥရောပတိုက်၊ အာရှတိုက်နှင့် မြောက်အမေရိကတိုက်တို့တွင်လည်း အနှံ့အပြားပေါက်သည်။ ဥရောပတိုက်တွင်ပေါက်သည့် စပရုထင်းရှူးမျိုးအနက် အလှပဆုံးအမျိုးမှာ နော်ဝေး စပရုထင်းရှူးမျိုးဖြစ်သည်။ ထိုထင်းရှူးမျိုးသည်ပေ ၈၀ မှ ပေ ၁၅၀ ထိမြင့်သည်။ ဗြိတိန်နိုင်ငံတွင် ထိုထင်းရှူးမျိုးကို အလှစိုက်ပျိုးသည့်အပြင် သစ်သားရလိုသည့်အတွက်လည်း စိုက်ပျိုးကြသည်။ စပရုထင်းရှူးသည် အခြားထင်းရှူးမျိုးများထက် ဖားထင်းရှူးနှင့် ပို၍နီးစပ်သည်။ သို့သော် ဖားထင်းရှူး၏ ကတော့ပုံအသီးများသည် အပေါ်သို့မတ်မတ်ထောင်၍ သီးကြသည်။ အရွယ်ရောက်သော စပရုထင်းရှူးပင်သည် အလွန်မြင့်၍ ပုံသဏ္ဌာန်မှာ အများအားဖြင့် ကတော့ကို မှောက်ထားသည့် ပုံသဏ္ဌာန်ဖြစ်သည်။ အရွယ်ကြီးရင့်သည့် စပရုထင်းရှူးပင်၏ အောက်ကိုင်းများသည် မြေကြီး၌ တရွတ်တိုက်လျက် ရှိတတ်ကြသည်။



ဖြောင့်စင်းသော ထင်းရှူးပင်များ စီတန်းပေါက်ရောက်နေသော ထင်းရှူးတော တတော

ဆီဒါထင်းရှူးပင်သည် အာဖရိကတိုက်မြောက်ပိုင်း၊ အာရှမိုင်းနားနှင့် ဟိမဝန္တာ တောင်တန်းတလျှောက်တွင် ဖြစ်ထွန်းသည်။ ဆီဒါပင်၌ အကိုင်းများသည် ဘေးဖက်သို့ဖြာထွက်လျက်ရှိသည်။ ဆီဒါသားသည် သိပ်သည်း၍ ခိုင်ခံ့သည်။ ထိုအပင်၏ အပ်ပုံသဏ္ဌာန်အရွက်သည် မာ၍ ၁ လက်မမှ ၂ လက်မထိရှည်သည်။ ထိုအရွက်၏အရောင်သည် အများအားဖြင့် စိမ်းပြာရောင်ဖြစ်သည်။ အချို့ဆီဒါပင်များ၌ ငွေရောင် သို့မဟုတ် အဝါရောင်အရွက်များရှိသည်။ အစေ့ပါသည့် ကတော့ပုံအသီးများသည် အရှည် ၃ လက်မမှ ၅ လက်မအထိ ရှိကြသည်။ ဆီဒါပင်၏အမြင့်သည် ပေ ၅၀ မှ ပေ ၈၀ ထိရှိသည်။ ပေ ၆၀၀၀ မြင့်ရာအရပ်တွင် ပေါက်လေ့ရှိသည်။ အပင်ငယ်၏ပင်စည်သည် ဖြောင့်မတ်လျက်ရှိသည်။ ပဌမဦးစွာထွက်သည့် အကိုင်းများသည် အများအားဖြင့် အခြားအကိုင်းများအပေါ်၌ စီးလျက်နေတတ်သည်။ သို့သော် အပင်ကြီးလာသောအခါ၊ အပေါ်က အကိုင်းများသည် အောက်က အကိုင်းများနှင့် ရောပြီးလျှင်၊ သစ်ပင်အုပ်ကလေးသဖွယ် ဖြစ်သွားသည်။ ဆီဒါပင်သည် မြင့်သော်လည်း၊ ဘေးသို့ရှည်ထွက်နေသော အကိုင်းများကြောင့် တပင်လုံးသည် ပုဝိုင်းဝိုင်း ဖြစ်နေတတ်သည်။ ဆီဒါပင်သည် အမြဲစိမ်းအပင်မျိုးဖြစ်သည်။ နွေကူးဥတုတိုင်းတွင် ရွက်သစ်များထွက်လာသည်။ အရွက်များသည် တဖြည်းဖြည်းသာ ကြွေကျသည်။ ဆီဒါပင်၌ ပွင့်ဖို နှင့် ပွင့်မများသည် တကိုင်းစီ၌ပွင့်သည်။ ကတော့ပုံအသီးများသည် ထိပ်ပိုင်း ပြား၍ မှည့်ရန် ၂ နှစ်ကြာသည်။ ကြီးထွားနေစဉ်အတွင်း ထင်းရှူးဆီ အမြောက်အမြားကို ထုတ်ယူရရှိနိုင်သည်။ အနီရောင် အကြေးခွံများသည် တခုနှင့် တခု ကပ်လျက်ရှိကြသည်။ အသီးမှည့်သောအခါ အကြေးခွံများ ကွာကျကုန်သည်။

ဖားထင်းရှူးပင်များကို အာရှတိုက်၊ ဥရောပတိုက်နှင့် မြောက်အာဖရိကတိုက်တို့တွင် တွေ့နိုင်သည်။ ဖား ထင်းရှူးပင်သည် မြောက်သမပိုင်းဇုန်အတွင်းရှိ အထူးသဖြင့် ပို၍ အေးသောဒေသများနှင့် မြင့်သောဒေသများတွင်ပေါက်သည်။ ထိုအပင်၏ ပုံသဏ္ဌာန်သည် မှောက်ထားသော ကတော့ပုံသဏ္ဌာန်နှင့် ခပ်ဆင်ဆင်တူသည်။ ဖားထင်းရှူး အရွက်များသည် ပိုင်းထင်းရှူးအရွက်များကဲ့သို့ စု၍မထွက်ဘဲ၊ တရွက်စီ အကိုင်းတွင်ပတ်၍ထွက်သည်။ ထိုအရွက်များသည် အများအားဖြင့် အပေါ်ပိုင်းတွင် အစိမ်းရင့်ရောင်ရှိ၍ အောက်ပိုင်းတွင် အစိမ်းနုရောင်ရှိသည်။ ကတော့ပုံအသီးများသည် အကိုင်းပေါ်တွင် ထောင်လျက်သီးကြသည်။ ဖားထင်းရှူးပင်ကို ထင်းရှူးသားနှင့်ထင်းရှူးဆီအတွက် တန်ဖိုးထားကြသည်။ ဥရောပတိုက်၊ ပြင်သစ်ကမ်းခြေတွင် ပေါက်သည့် ဖားထင်းရှူးပင်၏အမြင့်သည် ပေ ၁၅၀ ရှိ၍

လုံးပတ် ၆ ပေရှိသည်။ မြောက်အမေရိကတိုက်၊ ပစိဖိတ်ကမ်းခြေတွင်ပေါက်သည့် ဖားထင်းရှူးပင်သည် ပေ ၂၀၀ မျှပင်မြင့်လေသည်။

ကနေဒါနိုင်ငံတွင် ဖားထင်းရှူးပင်များသည် လျင်မြန်စွာ ကြီးထွားကြသော်လည်း၊ တာရှည် အသက်မရှင်ကြချေ။ ထိုထင်းရှူးပင်၏ အသားကို အသုံးနည်း၏။ သို့သော် ထိုထင်းရှူးအခေါက်မှရသည့် ဗောလဆမ်ခေါ် ထင်းရှူးဆီကို ဆေးအဖြစ်ရင်း၊ အရောင်တင်ဆီအဖြစ်ရင်း အသုံးချနိုင်သည်၊ အမေရိကန်ပြည်ထောင်စု အနောက်ပိုင်းနှင့် ကနေဒါနိုင်ငံတို့တွင်ပေါက်သည့် ဖားထင်းရှူးပင်ကြီးများမှ အဖိုးတန် သစ်ကို ရသည်။

ယူးထင်းရှူးကို ကျောက်ထင်းရှူးဟူ၍ သိကြ၏။ ထိုထင်းရှူးပင်သည် ကြီးထွားရာ၌ ကြန့်ကြာသော်လည်း အလွန်အသက်ရှည်သည်။ အင်္ဂလန်ပြည်တွင် နှစ်ပေါင်း ၁၀၀၀ ခန့်အသက်ရှည်၍၊ လုံးပတ် ပေ ၃၀ ခန့်ရှိသော ယူးထင်းရှူးပင်များ ယခုတိုင်ရှိသေးသည်။ ယူးထင်းရှူးပင်၏ အသားကို အထူးသဖြင့် လေးကိုင်းပြုလုပ်ကြသည်။ ယူးထင်းရှူးအသားမှာ ကျစ်လစ်၍ နီကြန့်ကြန့်အရောင်ရှိ၏။ အရောင်တင်လိုက်လျှင် အလွန်တောက်ပပြောင်လက်လာ၍၊ အိမ်သုံးပရိဘောဂများပြုလုပ်ရန် အထူးကောင်းမွန်သည်။ ယူးထင်းရှူးပင်များကို အင်္ဂလန်ပြည်ရှိ ဘုရားရှိခိုးကျောင်းဝင်းများအတွင်း၌ စိုက်ပျိုးထားသည်ကို တွေ့ရသည်။ အရွက်များမှာ ပြားချပ်၍၊ အလျား ½ လက်မမှ ¾ လက်မခန့် အထိ ရှည်၏။ အရွက်၏အောက်ဖက်သည် အစိမ်းနုရောင် ဖြစ်သည်။ ထိုအရွက်များတွင် အဆိပ်ရှိ၏။ အသီးမှာ ထင်းရှူးသီးမျိုးနှင့် လုံးဝမတူချေ။ ရိုးရိုးသစ်သီးများနှင့် ပုံသဏ္ဌာန်တူ၍၊ အလယ်တွင် အစေ့တခုသာ ရှိသည်။ ထိုအစေ့မှာလည်း အဆိပ်ရှိသည်။ ယူးထင်းရှူးပင်များသည် နွေကူး ဥတုဦးတွင် အပွင့်ငယ်ကလေးများ ပွင့်လေ့ရှိကြသည်။

ကွန်နီဖားထင်းရှူးပင်မျိုးသည် အများအားဖြင့် အလွန်မြင့်မား၍၊ ၁၂ ရာသီစိမ်းလန်းသော အပင်များဖြစ်၏။ ထိုထင်းရှူးပင်မျိုးသည် အေးသောအရပ်ဒေသနှင့် တောင်ကုန်းဒေသများ၌ အများအပြားပေါက်လေ့ရှိသည်။ ကမ္ဘာပေါ်တွင် ထင်းရှူးတောများသည် အရေးကြီးသောသစ်တောများဖြစ်၍၊ ကမ္ဘာလုံး၏မြောက်ဖက်ခြမ်း၌ ကနေဒါနိုင်ငံ၊ အမေရိကန်ပြည်ထောင်စု၊ ဥရောပတိုက်မြောက်ပိုင်း၊ ရုရှနိုင်ငံတို့တွင် ထူထပ်စွာပေါက်ရောက်ကြသည်။ ဂျပန်နိုင်ငံ၊ ဩစတြေးလီးယားတိုက်အပြင် အာရှတိုက်၌ ဟိမဝန္တာတောင်တန်းနှင့် အခြားဒေသများတွင်လည်း ပေါက်ရောက်ကြသည်။ မြန်မာနိုင်ငံတွင် ရှမ်းကုန်းပြင်မြင့်၌ များစွာပေါက်ရောက်သည်ကို တွေ့ရ၏။

ကွန်နီဖားထင်းရှူးပင်များသည် အများအားဖြင့် အပင်ကြီးများဖြစ်၍၊ အချို့တို့မှာ ကမ္ဘာပေါ်တွင် အကြီးဆုံး၊ အမြင့်ဆုံးနှင့် အသက်အရှည်ဆုံး အပင်များဖြစ်ကြသည်။ ဗြိတိန်နိုင်ငံတွင် ပေ ၁၇၀ အထိမြင့်သော အပင်ရှိ၍၊ ဥရောပတိုက်တွင် ပေ ၂၀၀ ထက်မြင့်သော အပင်များရှိ၏။ မြောက်အမေရိကတိုက် ကာလီဖိုးနီးယားပြည်နယ်ရှိ ထင်းရှူးတောတွင်မူ ပေပေါင်း သုံးလေးရာအထိမြင့်သော အပင်များပင် ရှိလေသည်။ အမေရိကန်ပြည်ထောင်စုရှိ ရက်ဒဝုသစ်တောတွင် ခုတ်လှဲသည့် ကွန်နီဖားထင်းရှူးပင်များ၏ အသက်ရစ်များကို ကြည့်ခြင်းအားဖြင့် အသက် ၁၁၀၀မှ ၁၅၀၀ နှစ်အထိရှည်ခဲ့သော အပင်များကိုပင် တွေ့ရသည်။ အပင်ကြီးတပင်မှာ အချင်း ၉၃ ပေမျှ ရှိလေသည်။ အခြားတပင်မှာမူ ပင်စည်အရင်းကိုဖောက်ထွင်း၍ မော်တော်ကားလမ်းမကြီးကို ဖောက်လုပ်ထားနိုင်လောက်အောင်ပင် ကြီးမားလေသည်။

ကွန်နီဖားထင်းရှူးပင်မျိုးသည် စီးပွားရေးတွင် အခြားသော အပင်များထက် ပို၍အသုံးဝင်သည်။ အသုံးဝင်ရခြင်းမှာ အထူးသဖြင့် အလွန်ရှည်လျား၍ အကြောသိမ်မွေ့သည့် သစ် အမြောက်အမြားကို ရရှိနိုင်သောကြောင့်ဖြစ်၏။ အချို့ကို စက္ကူလုပ်ငန်းတွင် သစ်ပျော့ဖတ်ပြုလုပ်၍၊ အပင်မှရသော ထင်းရှူးဆီကိုလည်း တာရပင်ဆီချက်လုပ်ရေးနှင့် တကွ အခြားကိစ္စများတွင် အများအစား အသုံးပြုကြလေသည်။ မြန်မာ စသော အရှေ့တိုင်းသားများ၏ ဗိန္ဒောကျမ်းများ၌သာမက အနောက်သိုးဆောင်းတို့၏ ဆေးကျမ်းများ၌လည်း ထင်းရှူးဆီ၏ ဆေးဖက်ဝင်ပုံများကို ဖော်ပြထားသည်။ ထင်းရှူးကို မြန်မာနိုင်ငံ အချို့ဒေသများ၌ ထင်းရှူးဟု ဟထိုးသံမပါဘဲ ခေါ်ဝေါ်ကြသည်။

**ထိုင်းနိုင်ငံ**။ ။ယိုးဒယားနိုင်ငံ — ရှု။

**ထန်း**။ ။ရုက္ခဗေဒအလိုအားဖြင့် ထန်းပင်များသည် 'ပါလမေစီအီး' သို့မဟုတ် 'ပါမီ' မျိုးရင်းတွင်ပါဝင်သည်။ ထိုမျိုးရင်း၌ အုန်းပင်၊ ထန်းပင်၊ ကွမ်းသီးပင်၊ ဓနိပင်၊ ပေပင်၊ စလူပင်၊ စွန်ပလွံပင်၊ ဆတ်သွားဖူးပင်မှစ၍ အပင်မျိုးပေါင်း ၁၅၀၀ ကျော်မျှရှိသည်။ ယင်းတို့သည် ထန်းပင်နှင့် မျိုးချင်းနီးစပ်သော ထန်းမျိုးများဖြစ်၍၊ အပူပိုင်းဒေသနှင့် အပူလျော့ပိုင်းဒေသ ဇာတိပင်မျိုး ဖြစ်သည်။ ယင်းတို့ကို အာရှတိုက်၊ အာဖရိကတိုက်၊ အမေရိကတိုက်နှင့် ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ ကျွန်းများ၌ တွေ့ကြရ၏။ သမပိုင်းဇုန်များ၌ပေါက်ရောက်သော ထန်းမျိုးလည်း ရှိသေးသည်။ ထန်းမျိုးတို့သည် မိုးများသော အပူပိုင်းဒေသများ၌ အဖြစ်ထွန်းဆုံးဖြစ်၏။ သို့သော် စွန်ပလွံပင်ကဲ့သို့သော ထန်းမျိုး



မြန်မာ့စီးပွားရေး၌ အရေးပါသော ထန်းပင်

သည် အလွန်ခြောက်သွေ့သော သဲကန္တာရများ၌သာ ပေါက်ရောက်ကြသည်။

အများအားဖြင့် ထန်းနှင့် ထန်းမျိုးဝင်အပင်များသည် ပင်စည် ရှည်မျောမျောရှိ၏။ အပင်၏အမြင့်မှာ ပေ ၁၀၀ သော်၎င်း၊ ထိုမျှမကသော်၎င်း ရှိနိုင်သည်။ အကိုင်းအခက် အလက်များ ဖြာထွက်ခြင်းမရှိဘဲ၊ အပင်ထိပ်၌သာ အကိုင်း အရွက်များ စု၍ထွက်တတ်၏။ ကြွေကျသွားသော အရွက် များ၏အရင်း၌ စက်ဝိုင်းကဲ့သို့ အရာထင် ကျန်ခဲ့၏။ ထန်း မျိုးသည် အပွင့်ပွင့်၏။ အပွင့်တို့သည် အဖိုပွင့်၊ အမပွင့် ဟူ၍ရှိ၏။

ထန်းမျိုးဝင် အပင်တို့၏အရွက်သည် အဓိကအားဖြင့် ၂ မျိုးရှိသည်။ တမျိုးမှာ ယပ်တောင်ပုံဖြစ်၍၊ ကျန်တမျိုးမှာ ငှက်မွေးပုံဖြစ်၏။ အုန်းပင်၊ ကွမ်းသီးပင်၊ စွန်ပလွံပင်များ၏ အရွက်များသည် ငှက်မွေးပုံဖြစ်၏။ ထန်းပင်၊ ပေပင်တို့၏ အရွက်မှာ ယပ်တောင်ပုံဖြစ်သည်။

ထန်းမျိုး၏ အသီး၊ ပင်စည်နှင့် အရွက်တို့သည် လူတို့အဖို့ အလွန်အသုံးဝင်သော ပစ္စည်းများဖြစ်ကြသည်။ ထန်းမျိုး ပေါက်ရောက်ရာဒေသရှိ လူတို့သည် စားစရာ၊ နေစရာ၊ ဝတ် စရာတို့အတွက် ထန်းပင်ကို လုံးဝမှီခိုကြရသည်။

ထန်းမျိုးများအနက် ထန်းလျက်၊ ထန်းရည်များရရှိသော ထန်းပင်များမှာ ထင်ရှားပေသည်။ ယင်းတို့ကို မြန်မာ နိုင်ငံအရပ်ရပ်၌ တွေ့ကြရ၏။ အချို့အရပ်များ၌ အလေ့ ကျပင် ပေါက်သည်။ တနင်္သာရီကမ်းရိုးတန်းသစ်တောများ ၌ အရိုင်းပေါက်နေသော ထန်းပင်များကို တွေ့နိုင်သည်။ ထိုထန်း၏ ရုက္ခဗေဒအမည်မှာ 'ဗိုရက်စပ် ဖလက်ဗလီဖား' ဖြစ်၏။ ပင်စည်သည် ဖြောင့်တန်း၍ မြင့်မားသည်။ အ ရွက်သည် ယပ်တောင်ပုံရှိ၏။ သာမန်အားဖြင့် အမြင့် ပေ ၄၀ မှ ပေ ၆၀ အထိရှိ၏။ သို့သော် အချို့အပင်များသည် ပင်စည် အချင်း ၂ ပေ၊ အမြင့် ပေ ၁၀၀ အထိပင် ရှိကြ သည်။ ပင်စည်၌ အရွက်ဟောင်းများကြွေကျသွားရာမှ ထင် ကျန်ခဲ့သော အရစ်များရှိ၏။ အပင်ရင်း၌ အမြစ်များ ပေါ် နေတတ်သည်။ အရွက်အချင်းမှာ ၁၀ ပေအထိပင် ရှိ သည်။ ထန်းပင်များ၌ အဖိုပင်၊ အမပင်ဟူ၍ရှိ၏။ အပွင့် များ ပွင့်သည့်အခါ၊ အပွင့်တို့သည် အရွက်များဖြင့် ဖုံး အုပ်နေတတ်၏။ အဖိုပွင့်သည် အမပွင့်ထက် အပွင့်ငယ်ပြီး လျှင် ပွင့်ခံရွက်များဖြင့် ဖုံးလျက်ရှိ၏။ ပွင့်ခံရွက်များသည် အကိုင်းများကြား၌ ဝင်နေတတ်၏။ အမပွင့်များမှ ပန်း များ ပွင့်သည်။ မတ်လ၊ ဧပြီလများ၌ ထန်းပွင့်များ ပွင့် လေ့ရှိသည်။ ဒီဇင်ဘာလလောက်တွင်လည်း တဖန် ပွင့်ကြ သေးသည်။ ထန်းသီးသည် အရွက်၏အရင်း၌ကပ်၍ အခိုင် လိုက် တွဲလျက်သီးသည်။ ထန်းသီးတလုံး၌ အထဲတွင် အ သီးမြွှာ ၃ မြွှာပါရှိ၏။ ထန်းသားသည် အတွင်းသား ပျော့ သော်လည်း၊ အပြင်သားမှာ မာကျော၏။ ထန်းသားကို တိုင်၊ ရေတန်လျှောက်၊ လှေ စသည်များ ပြု လုပ် ရာ၌ သုံး ကြသည်။ ရေထိလျှင် ပို၍ခိုင်ခံ့သော သစ်သားမျိုးဖြစ် သည်။ ထန်းရွက်များကို ယပ်တောင်၊ ဖျာ၊ တောင်း၊ ပလုံး၊ ဦးထုပ်များပြုလုပ်ကြ၏။ အိမ်မိုးရာ၌လည်း သုံးသည်။ ရွက် လယ်ကြောများနှင့် ထန်းပင်မှရရှိသောအမျှင်များကို ဝက် မှင်ဘီးနှင့် ကြိုး ပြုလုပ်ကြသည်။ ထန်းပင်မှ ထန်းရည်ကို ရ ရှိ၏။ ထန်းရည်၌ အချို အခါးဟူ၍ ၂ မျိုးရှိသည်။ အချို ထန်းရည်ကိုသောက်လျှင်၊ သကြားရည်ကဲ့သို့ချို၏။ သို့ သော် ရင်ခံတတ်သည်။ အခါးရည်ကိုသောက်လျှင် အရသာ ခါး၍၊ အရက်ကဲ့သို့ မူးယစ်စေသည်။ အချိုရည်သည် က ဇော်မပေါက်မီ ဆက်ကရင်း သကြားပါသော အရည်တမျိုး ပင်ဖြစ်၏။ ယင်းကို နေမွန်းတည့်ကျော်သည်အထိ ထား လျှင်၊ အခါးရည်ဖြစ်သွားသည်။ လတ်ဆတ်သော အချို ရည်ကိုသောက်လျှင် ဝမ်းပျော့စေသည်။

ထန်းရည်ခံယူပုံမှာ ဤသို့ဖြစ်၏။ ဦးစွာ၌ အဖိုပွင့် သို့ မဟုတ် အမပွင့် ပွင့်သော ထန်းနို့ကို ထုချေပစ်ရ၏။ ထို နောက် ထိပ်ဖျားကို ဓားဖြင့်လှီးဖြတ်ရ၏။ ဤကဲ့သို့ နေ့စဉ် လှီးပေးခြင်းဖြင့် ထန်းနို့မှ ထန်းရည်များလိုက်လာသည်။ ထန်းရည်ကို မြေအိုး သို့မဟုတ် ဝါးကျည်တောက်ဖြင့် ခံယူကြသည်။ ထန်းရည်မှ ထန်းလျက်ကိုချက်ယူကြသည်။ ထန်းဖိုပင်နှင့် အမပင် ၂ မျိုးစလုံးမှ ထန်းရည်ရနိုင်၏။ ထန်း ရည်လိုင်သောရာသီမှာ ဆောင်းတွင်းနှင့် နွေဦးပေါက်ရာသီ

ဖြစ်၏။ အမပင်များမှ မိုးတွင်း၌ပင်လျှင် ထန်းရည်ကို ရရှိနိုင်သည်။ အမပင်သည် အဖိုပင်ထက် ထန်းရည် ၁½ ဆမျှ ပိုထွက်၏။ ထန်းသီးအမှည့်များမှ အရည်ကိုညှစ်ယူ၍ ထန်းသီးမုံ့ ပြုလုပ်ကြသေးသည်။ ထန်းပင်ကို အသီးအရင့်များမှ စိုက်ယူကြ၏။ ထန်းသီးမှထွက်လာသော အစို့ကို ထန်းမြစ်ဟုခေါ်၍ မီး၌ဖုတ်၍၎င်း၊ ပြုတ်၍၎င်း စားသုံးလေ့ရှိသည်။ အထူးအားဖြင့် မြန်မာနိုင်ငံအထက်ပိုင်း၌ ထန်းတောများကို အများအပြား တွေ့ရသည်။ ထန်းပင်များမှာ မြန်မာ့စီးပွားရေး၌ အရေးပါသော အပင်တမျိုးဖြစ်ပေသည်။ (အုန်းပင်၊ ကွမ်းသီးပင်၊ ဓနိပင်၊ စလူပင်၊ တောင်အုန်း၊ ပေပင်၊ စွန်ပလွံပင်၊ ဆတ်သွားဖူးပင် — ရှု။)

**ထန်းတပင်မြို့** (တောင်ငူခရိုင်)။ ။ထန်းတပင်မြို့သည် တောင်ငူခရိုင် ထန်းတပင်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ စစ်တောင်းမြစ်၏ အရှေ့ဖက်တွင် တည်ရှိ၍၊ စစ်တောင်းမြစ် တဖက်မှ တောင်ငူမြို့သို့ မော်တော်ကားလမ်းဖောက်ထားသည်။

မြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၆၄၇ မိုင် ရှိပြီးလျှင် မြို့နယ်၏မြေမျက်နှာပြင်သည် စစ်တောင်းမြစ်မှ ကယားပြည်နယ်စပ်ရှိ တောင်ခြေများအထိ တည်ရှိလေသည်။

၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ မြို့နယ်၏ လူဦးရေမှာ ရှစ်သောင်းခန့်ရှိသည်။

**ထန်းတပင်မြို့** (အင်းစိန်ခရိုင်)။ ။အင်းစိန်ခရိုင်၏ အနောက်မြောက်တွင် မအူပင်ခရိုင်နှင့် နယ်စပ်လျက်ဖြစ်သော မြို့နယ်သည် ထန်းတပင်မြို့နယ်ဖြစ်၍၊ လှိုင်မြစ်၏ အရှေ့ဖက်ကမ်းတွင် တည်ရှိသည်။

၁၉၅၆ ခုနှစ် သန်ကောင်စာရင်း ခန့်မှန်းခြေအရ မြို့နယ်၏ လူဦးရေသည် ၇၅,၀၀၀ ယောက်ခန့်ရှိသည်။

**ထပ်ကိန်းနှင့် ကိန်းရင်းများ**။ ။က၊ $က^{၂}$၊ $က^{၃}$၊ $က^{၄}$ စသောဂဏန်း (ဝါ) ကိန်းများအနက် က သည် တထပ်ကိန်းဖြစ်သည်။ $က^{၂}$ သည် က × က နှင့်ညီမျှသဖြင့်၊ က ၏ နှစ်ထပ်ကိန်းဖြစ်သည်။ ထိုအတူ $က^{၃}$ နှင့် $က^{၄}$ တို့သည် က ၏ သုံးထပ်ကိန်းနှင့်လေးထပ်ကိန်းများဖြစ်ကြသည်။ က ၏ သုညထပ်ကိန်းသည် ၁ နှင့်ညီသည်။ အကြောင်းမှုကား $က^{ဝ} \times က^{လ} = က^{ဝ+လ} = က^{လ}$။ အကျဉ်းအားဖြင့် $က^{ဝ} \times က^{လ} = က^{လ}$။ ဤညီမျှခြင်း၏ ဝဲယာကို $က^{လ}$ နှင့် စားသော် $က^{ဝ} = \frac{က^{လ}}{က^{လ}} = ၁$ ဖြစ်သောကြောင့်တည်း။

ထပ်ကိန်းတခု၏ အထပ်ပေါင်းကိုဖေါ်ပြသည့် ဂဏန်းကို အထပ်ညွှန်းဂဏန်းဟု ခေါ်သည်။ က တွင် အထပ်ညွှန်းဂဏန်းသည် ၁ ဖြစ်၍၊ $က^{၂}$၊ $က^{၃}$၊ $က^{၄}$ တွင် အထပ်ညွှန်းဂဏန်းများသည် ၂၊ ၃၊ ၄ အသီးအသီးဖြစ်ကြသည်။ ဂဏန်းသင်္ချာတွင်လည်း ထပ်ကိန်းများကို $၂^{၂}$၊ $၃^{၂}$၊ $၉^{၂}$၊ $၁၀^{၂}$ အစရှိသဖြင့် အက္ခရာသင်္ချာမှာကဲ့သို့ ရေးသားလေ့ရှိကြသည်။ အထပ်ညွှန်းဂဏန်းရှေ့တွင် အနုတ်လက္ခဏာပါလျှင်၊ ဆိုင်ရာထပ်ကိန်းကို ပိုင်းခြေနေရာတွင် အသုံးပြုရန်ဖြစ်သည်။ ဥဒါဟရုဏ်အားဖြင့် $၄^{-၂} = \frac{၁}{၄^{၂}}$။ ဤညီမျှခြင်းဟုတ်မှန်သည်ကို သာဓကပြရန် လိုပေသည်။

$$\frac{က^{၅}}{က^{၂}} = \frac{\cancel{က}\cancel{က}ကကက}{\cancel{က}\cancel{က}} = က^{၃} \ (၁)။$$

$က^{၅} \times က^{-၂} = က^{၅-၂} = က^{၃}$ (၂)။ ညီမျှခြင်း (၁) နှင့် (၂) ကြောင့် အောက်ပါအတိုင်းဆုံးဖြတ်သည်။

$$\therefore \frac{က^{၅}}{က^{၂}} = က^{၅} \times က^{-၂}$$

တနည်းဆိုသော် $က^{၅} \times \frac{၁}{က^{၂}} = က^{၅} \times က^{-၂}$

$$\therefore \frac{၁}{က^{၂}} = က^{-၂}$$

နှစ်ထပ်ကိန်းရင်းဆိုရာ၌ ပေးထားသော ဂဏန်းရအောင် နှစ်ခါထပ်၍ မြှောက်ယူရသည့် ဆခွဲကိန်း နှစ်လုံးအနက် တလုံးကိုဆိုလိုသည်။ ၈ × ၈ သည် ၆၄ နှင့်ညီမျှသောကြောင့်၊ ၈ သည် ၆၄ ၏ နှစ်ထပ်ကိန်းရင်းဖြစ်သည်။ 'နှစ်ထပ်ကိန်းတိ' ဆိုသည်မှာ ယင်း၏ နှစ်ထပ်ကိန်းရင်းကို ကိန်းပြည့်ဖြင့် ဖြစ်စေ၊ ပိုင်းဝေ ပိုင်းခြေတို့၏ ကိန်းပြည့်ဖြစ်သော အပိုင်းဂဏန်းဖြင့် ဖြစ်စေ ပြနိုင်သောကိန်း (ဂဏန်း) ဖြစ်သည်။ ဥဒါဟရုဏ်အားဖြင့်၊ ၁၂၁ နှင့် $\frac{၉}{၄၉}$ ဟူသော ကိန်းများ၏ နှစ်ထပ်ကိန်းရင်းမှာ ၁၁ နှင့် $\frac{၃}{၇}$ အသီးသီးဖြစ်ကြ၍၊ ထိုကိန်းနှစ်ခုတို့သည် 'နှစ်ထပ်ကိန်းတိ' များ ဖြစ်ကြသည်။ အများအားဖြင့် ဂဏန်းများအနက် 'နှစ်ထပ်ကိန်းတိ' သည် အလွန်ရှားပါးလေသည်။ ၁ နှင့် ၁၀၀ အကြားတွင် နှစ်ထပ်ကိန်းတိ ၁၀ လုံးသာရှိ၍၊ ၁ နှင့် ၁၀၀၀ ကြားတွင်မူကား ၃၁ လုံးသာရှိသည်။ သို့သော် မည်သည့်ဂဏန်းကိုမဆို ထပ်တလဲလဲမြှောက်လျှင် ထပ်ကိန်းတခုခု ရရှိနိုင်သဖြင့်၊ ဂဏန်းဟူသမျှသည် ထပ်ကိန်းရင်းများ ဖြစ်နိုင်ကြသည်။

နှစ်ထပ်ကိန်းတိ၏ ကိန်းရင်းတွင် တွေ့ရှိရသည့် အချက်အလက်များ။

နှစ်ထပ်ကိန်းရင်း ၁ ၂ ၃ ၄ ၅ ၆ ၇ ၈ ၉ ၁၀ ၁၀၀ ဖြစ်လျှင်၊ နှစ်ထပ်ကိန်းတိများသည် ၁ ၄ ၉ ၁၆ ၂၅ ၃၆

၄၉ ၆၄ ၈၁ ၁၀၀ ၁၀၀၀၀ အသီးအသီးဖြစ်ကြသည်။ မည်သည့် ဂဏန်းကိုမဆို နှစ်ခါထပ်၍မြှောက်လျှင်၊ ၂ ၃ ၇ ၈ ဟူသော ခုဂဏန်းများကိုမရသဖြင့်၊ ခုဂဏန်းဖြစ်ကြသော နှစ်ထပ်ကိန်းတိများအနက် ဤဂဏန်းများကိုမတွေ့ရချေ။ နှစ်ထပ်ကိန်းတိတခု၏အဆုံးတွင် သုညပါလျှင်၊ သုညသည် ၂ လုံးသော်၎င်း၊ ၄ လုံးသော်၎င်း၊ ၆ လုံးသော်၎င်း၊ အစရှိသည်ဖြင့် 'စုံ' ဖြစ်ရမည်။ 'မ' မဖြစ်နိုင်ချေ။ နှစ်ထပ်ကိန်းတိနှင့် ယင်း၏ကိန်းရင်းတွင်ပါရှိသော ဂဏန်း၏အရေအတွက်ကို အောက်ဖော်ပြပါ ဥဒါဟရုဏ်များမှ သိရှိနိုင်သည်။

$$၁^{၂} = ၁ \qquad \sqrt{၁} = ၁$$
$$၉^{၂} = ၈၁ \qquad \sqrt{၈၁} = ၉$$
$$၁၀^{၂} = ၁၀၀ \qquad \sqrt{၁၀၀} = ၁၀$$
$$၁၀၀^{၂} = ၁၀,၀၀၀ \qquad \sqrt{၁၀,၀၀၀} = ၁၀၀$$
$$၁၀၀၀^{၂} = ၁,၀၀၀,၀၀၀ \qquad \sqrt{၁,၀၀၀,၀၀၀} = ၁၀၀၀$$

ဥပဒေများ။

နှစ်ထပ်ကိန်းတိတွင် ဂဏန်း ၁ လုံး၊ သို့မဟုတ် နှစ်လုံးပါလျှင်၊ နှစ်ထပ်ကိန်းရင်းတွင် ဂဏန်းတလုံးသာရှိသည်။

နှစ်ထပ်ကိန်းတိတွင် ဂဏန်း ၃ လုံး၊ သို့မဟုတ် ၄ လုံး ပါလျှင်၊ နှစ်ထပ်ကိန်းရင်းတွင် ဂဏန်းနှစ်လုံးပါသည်။

အားလုံးကိုခြုံလိုက်လျှင်၊ ဂဏန်းအားလုံးပေါင်း (န–၁) သို့မဟုတ် န ပါရှိသော နှစ်ထပ်ကိန်းတိတခု၏ ထပ်ကိန်းရင်းတွင် ဂဏန်းအလုံးပေါင်း $\frac{န}{၂}$ မျှပါရှိပေသည်။

နှစ်ထပ်ကိန်းရင်း ရှာနည်း။

ဤနည်းသည် အောက်ပါအက္ခရာသင်္ချာ ပုံသေတွက်နည်းမှ ဖြစ်ပေါ်လာလေသည်။

$$(က + ခ)^{၂} = က^{၂} + ၂ကခ + ခ^{၂}$$

ဤညီမျှခြင်းကို အောက်ပါအတိုင်း ပြုပြင်၍ရေးနိုင်သည်။

$$(က + ခ)^{၂} - က^{၂} = ၂ကခ + ခ^{၂}$$
$$= ခ\,(၂က + ခ)$$

ပုစ္ဆာ။

၆၀၈၄ ၏နှစ်ထပ်ကိန်းရင်းကို ရှာပါ။

တွက်နည်း။

ဤနှစ်ထပ်ကိန်းတွင် ဂဏန်းလေးလုံးရှိသဖြင့်၊ နှစ်ထပ်ကိန်းရင်းတွင် ဂဏန်းနှစ်လုံးရှိရမည်။ တနည်းဆိုသော် နှစ်ထပ်ကိန်းရင်းသည် ၁၀ နှင့် ၉၉ ကြားတွင် ရှိရပေမည်။

တဖန် $(၇၀)^{၂} = ၄၉၀၀$

$(၈၀)^{၂} = ၆၄၀၀$ အသီးသီးဖြစ်ကြ၍၊ ၆၀၈၄ ၏ နှစ်ထပ်ကိန်းရင်းသည် ၇၀ နှင့် ၈၀ ကြားတွင် ရှိရပေမည်။

အထက်ပါပုံသေတွက်နည်းတွင် က ကို ဆယ်ဂဏန်းဟု သဘောထား၍၊ ခ ကို ခုဂဏန်းဟု သဘောထားလျှင်၊ က သည် ၇၀ နှင့်ညီသည်။ ခ သည် ၁ နှင့် ၉ ဂဏန်းများအနက် တခုခုဖြစ်သည်။

$$(က + ခ)^{၂} = ၆၀၈၄$$
$$က = ၇၀$$
$$\therefore ၆၀၈၄ - (၇၀)^{၂} = ခ\,(၁၄၀ + ခ)$$
$$\therefore ခ = \frac{၁၁၈၄}{၁၄၀ + ခ}$$

ခ သည် ခုဂဏန်းဖြစ်၍၊ ၉ ထက် မကြီးကြောင်း သိရသည်။ အထက်ပါ အပိုင်းဂဏန်း၏ ပိုင်းခြေသည် ၁၄၀ နှင့် ၁၄၉ အကြားတွင် ရှိရပေမည်။ ၆၀၈၄ ၏ ခုဂဏန်းသည် ၄ ဖြစ်သောကြောင့်၊ ခ သည် ၂ သော်လည်းဖြစ်ရမည်။ ၈ သော်လည်းဖြစ်ရမည်။ ($၂ \times ၂ = ၄$ သို့မဟုတ် $၈ \times ၈ = ၆၄$)။ ခ အစား ၈ ဂဏန်းကိုထည့်ကြည့်ရာတွင် ညီမျှခြင်း ကိုက်ညီကြောင်းကို တွေ့ရသည်။

$\therefore ခ = ၈$

$\therefore$ ၆၀၈၄ ၏ နှစ်ထပ်ကိန်းရင်းသည် (၇၀ + ၈) သို့မဟုတ် ၇၈ ဖြစ်သည်။

ဒုတိယနည်း။

| | |
|---|---|
| ၇၈ | ၇၀ + ၈ |
| ၇၈ | ၇၀ + ၈ |
| ၆၂၄ | ၄၉၀၀ + ၅၆၀ |
| ၅၄၆ | + ၅၆၀ + ၆၄ |
| ၆၀၈၄ | ၄၉၀၀ + ၁၁၂၀ + ၆၄ = ၆၀၈၄ |

၇၈ ဟူသောကိန်းမှ ဆယ်ဂဏန်း၏ နှစ်ထပ်ကိန်း ($၇၀ \times ၇၀ = ၄၉၀၀$) + ဆယ်ဂဏန်းနှင့်ခုဂဏန်းတို့၏ မြှောက်ရကိန်း ၂ ဆ ($၂ \times ၇၀ \times ၈ = ၁၁၂၀$) + ခုဂဏန်း၏ နှစ်ထပ်ကိန်း ၆၄ သည် ၇၈ ၏ နှစ်ထပ်ကိန်းဖြစ်သည်။ ဤတွက်နည်းသဘောကို နားလည်လျှင် အောက်ပါ နှစ်ထပ်ကိန်းရင်းရှာယူနည်းကို နားလည်နိုင်ပေသည်။ အစဉ် နှစ်ထပ်ကိန်းရင်း ရှာရမည်ဖြစ်သော ကိန်း၏ လက်ျာဖက်အစွန်မှ စ၍ ဂဏန်းနှစ်လုံးစီ တွဲပေးပါ။ ထိုနောက် ပဌမနှစ်လုံးတွဲ ဖြစ်သော ၆၀ နှင့်အနီးဆုံးဖြစ်သည့် နှစ်ထပ်ကိန်း၏ ကိန်းရင်းကိုရှာပါ။ ယင်းကို နှစ်ထပ်ကိန်းပြုလုပ်ပြီးသော်၊ ပဌမအတွဲမှ ထိုနှစ်ထပ်ကိန်းကို နုတ်ပါ။ ထို အခါ ၁၁၈၄ ကျန်သည်။ ထိုနှစ်ထပ်ကိန်းရင်း ၇ ဆယ်ကို ၂ နှင့်မြှောက်ပါ။ ရရှိသော ၁၄ ဆယ်တွင် ၈

| | | |
|---|---|---|
| ၇ | ၆၀၈၄ | ၇၈ |
| | ၄၉၀၀ | |
| ၁၄၈ | ၁၁၈၄ | |
| | ၁၁၈၄ | |

ပေါင်းပါ။ ပေါင်းရကိန်း ၁၄၇ နှင့် ၁၁၇၄ ကိုစားသော် ပြတ်သည်။ စားလဒ်တွင် ၈ ကိုပင် ရေးနိုင်သည်။ အဘယ်ကြောင့် ၈ ကို ရေးရသနည်းဆိုသော်၊ ပေးထားကိန်း ၆၀၈၄ တွင် ခုဂဏန်းသည် ၄ ဖြစ်သည်။ ထိုကြောင့် ကျွန်ုပ်တို့သည် အစမ်းသဘောဖြင့် ၂ လီ ဖြစ်စေ၊ ၈ လီ ဖြစ်စေ ဝင်ကြည့်ကြသည်။ ၈ ကို ၁၄၀ တွင် ပေါင်းထည့်ပြီးလျှင်၊ ပေါင်းရကိန်းဖြင့် ၈ လီဝင်ကြည့်သောအခါ၊ တိတိကျကျ ဝင်နိုင်ကြောင်းကို တွေ့ရသည်။ ထိုကြောင့် ၇၈ သည် ၆၀၈၄ ၏ နှစ်ထပ်ကိန်းရင်းဖြစ်သည်။ လက်ဝဲဖက် နံဘေးကွက်လပ်တွင် ပါရှိသော တွက်ချက်ပုံကိုကြည့်ပါ။

**သုံးထပ်ကိန်းရင်း။**

ပေးထားသော ကိန်းတခုသည် န ဖြစ်၍၊ ယင်း၏သုံးထပ်ကိန်းရင်းသည် (က + ခ) ဟူသော အက္ခရာသင်္ချာ ကိန်းတန်းတခုဖြစ်လျှင်၊ ထိုကိန်းတန်းကို သုံးထပ်ကိန်းပြုလုပ်သောအခါ $န = (က^၃ + ၃ က^၂ ခ + ၃ က ခ^၂ + ခ^၃)$ ကိုရရှိသည်။ $\therefore န - က^၃ = ၃ က^၂ ခ + ၃ က ခ^၂ + ခ^၃$။ ဤညီမျှခြင်းတွင် ခ သည် က ထက်ငယ်သည်။ $\therefore$ (ကခ × ခ) သည် (ကခ × က) ထက်ငယ်သည်။ တနည်းဆိုသော် $က^၂ ခ$ သည် $ကခ^၂$ ထက်ကြီးသည်။ ထိုကြောင့် $၃ က^၂ ခ$ သည် $(န - က^၃)$ ၏ အစိတ်အပိုင်းကြီးဖြစ်သည်။ ထိုကြောင့် ခ သည် $\left(\frac{န - က^၃}{၃က^၂}\right)$ ၏ အစိတ်အပိုင်းကြီးဖြစ်သည်။

သုံးထပ်ကိန်းရင်းရှာနည်းသည်လည်း နှစ်ထပ်ကိန်းရင်းရှာနည်းကဲ့သို့ပင် အက္ခရာသင်္ချာ၏သဘောပေါ်တွင် အမှီပြုနေပေသည်။

$၁^၃ = ၁$၊ $၉^၃ = ၇၂၉$၊ $၁၀^၃ = ၁,၀၀၀$။ $\therefore$ ဂဏန်း တခုတည်းပါဝင်သော ကိန်း၏ သုံးထပ်ကိန်းတွင် ဂဏန်း ၁ လုံး၊ ၂ လုံး၊ သို့မဟုတ် ၃ လုံးရှိသည်။

$၁၀^၃ = ၁,၀၀၀$၊ $၉၉^၃ = ၉၇၀,၂၉၉$၊ $၁၀၀^၃ = ၁,၀၀၀,၀၀၀$။ $\therefore$ ဂဏန်း ၂ ခုပါဝင်သောကိန်း၏ သုံးထပ်ကိန်းတွင် ဂဏန်း ၄ လုံး၊ ၅ လုံး၊ သို့မဟုတ် ၆ လုံးရှိသည်။ $\therefore$ အထက်ပါ သာဓကများအရ၊ ဤသို့လည်း ဆိုနိုင်သေးသည်။ ဂဏန်း ၃ လုံးပါဝင်သောကိန်း၏ သုံးထပ်ကိန်းတွင် ဂဏန်း ၇ လုံး၊ သို့မဟုတ် ၈ လုံး၊ သို့မဟုတ် ၉ လုံးရှိသည်။

ပုစ္ဆာ။

၁၃,၈၂၄ ၏ သုံးထပ်ကိန်းရင်းကိုရှာပါ။

တွက်နည်း။

ပေးထားသောကိန်း၏ လက်ျာဖက်အစွန်းမှစ၍ ဂဏန်းများကို သုံးလုံးတွဲ တတွဲ တွဲပါ။ ကျန်ဂဏန်း ၂ ခု (၁၃) ကို တတွဲဟု ရေတွက်ပါ။ နောက် ဤအတွဲအောက်ရှိ အကြီးဆုံး သုံးထပ်ကိန်းရင်း (က) ကို ရှာပါ။ $(၂၀^၃ = က^၃ \therefore ၂၀ = က)$ ထိုကိန်းကို သုံးထပ်ပြုလုပ်ပြီးလျှင်၊ ပေးထားသည့်ကိန်း (န = ၁၃,၈၂၄) မှ နုတ်လိုက်သော် ၅၈၂၄ ကျန်သည်။ သုံးထပ်ကိန်းရင်းဖြစ်သော ၂၀ ကို နှစ်ထပ်ကိန်းရင်း ပြုလုပ်၍၊ ၃ နှင့်မြှောက်ပါ။ ဤသို့မြှောက်ယူ

$$\underline{၂၀^၂}|\ ၁၃,၈၂၄\ (၂၀ + ၄)$$
$$၈,၀၀၀ \quad = က^၃$$
$$၃က^၂ = \underline{(၃ \times ၂၀^၂)}\ \overline{|\ ၅,၈၂၄ \quad = (န - က^၃)}$$

$$
\begin{aligned}
၃က^၂ခ &= (၃ \times ၂၀^၂ \times ၄) = ၄,၈၀၀ \\
၃ကခ^၂ &= (၃ \times ၂၀ \times ၄^၂) = \quad ၉၆၀ \\
ခ^၃ &= (၄^၃) = \quad ၆၄ \\
\hline
\therefore ၃က^၂ခ + ၃ကခ^၂ + ခ^၃ &= ၅,၈၂၄
\end{aligned}
$$

သောအခါ၊ $၃ \times ၂၀^၂$ $(၃က^၂)$ ကိုရသည်။ ဤကိန်းကို အစမ်းစားကိန်း ပြုလုပ်၍၊ သုံးထပ်ကိန်းရင်း၏ ခ ဟူသော ခုဂဏန်း (ဒုတိယဂဏန်း) ကို ရှာသောအခါ၊ ၄ ကိုရသည်။ ၅ မဖြစ်နိုင်။ အကြောင်းမူကား $၃ \times ၂၀^၂ \times ၅ = ၆၀၀၀$ ဖြစ်၍၊ ၅၈၂၄ ထက်ကြီးနေသောကြောင့်တည်း။ ဤနည်းအားဖြင့် $၃က^၂ခ = ၃ \times ၂၀^၂ \times ၄ = ၄၈၀၀$။ ပဌမကိန်းရင်း ၂၀ (က) နှင့် $(၄^၂ \times ၃)$ ကို ဆက်မြှောက်ယူပါ။ ထိုအခါ $၃ကခ^၂ = (၃ \times ၂၀ \times ၄^၂)$။ $ခ^၃ = ၄^၃ = ၆၄$။ ထိုကြောင့် တွက်နည်းတွင် ပြထားသည့်အတိုင်း $(၃က^၂ခ + ၃ကခ^၂ + ခ^၃) = ၅၈၂၄$။ $(၃က^၂ခ + ၃ကခ^၂ + ခ^၃)$ နှင့် ပဌမအကြွင်း (၅၈၂၄) ကို တိပြတ်အောင် စားနိုင်သည့်အတွက်ကြောင့်၊ ၁၃,၈၂၄ ၏ သုံးထပ်ကိန်းရင်းသည် ၂၄ ဖြစ်သည်။ အထက်ကွက်လပ်တွင် ပြထားသော တွက်ပုံ တွက်နည်းကိုကြည့်လေ။

**လော့ဂရစ်သမ်နည်း။**

ကိန်းတခု၏ ထပ်ကိန်းနှင့်ကိန်းရင်းများကို လော့ဂရစ်သမ်ဇယားများဖြင့်လည်း အလွယ်တကူ ရှာယူနိုင်သည်။ လော့ဂရစ်သမ်နည်းဖြင့်ဆိုသော်၊ ကိန်းရင်းတခု၏ လော့ဂရစ်သမ်ကို အထပ်ညွှန်းဂဏန်းဖြင့် မြှောက်လျှင်၊ ထပ်ကိန်း၏ လော့ကို ရသည်။ ထပ်ကိန်း၏ လော့ဂရစ်သမ်ကို အထပ်ညွှန်းဂဏန်းနှင့် မြှောက်လျှင်၊ ကိန်းရင်း၏ လော့ ကိုရသည်။

ဥဒါဟရဏ်။ (၁) $\sqrt[၃]{၁၃၈၂၄}$ ကို ရှာပါ။

တွက်နည်း။

$$
\begin{aligned}
လော့\ ၁၃၈၂၄ &= ၄\cdot၁၄၀၆ \\
\therefore လော့\ ၁၃၈၂၄^{\frac{၁}{၃}} &= ၄\cdot၁၄၀၆ \div ၃ \\
&= ၁\cdot၃၈၀၂ \\
\therefore ကိန်း &= ၁၀ \times ၂\cdot၄ = ၂၄
\end{aligned}
$$

ဥဒါဟရဏ်။ (၂)
၂၄ ၏ သုံးထပ်ကိန်းကို ရှာပါ။

**တွက်နည်း။**

လော့ ၂၄ = ၁.၃၈၀၂
လော့ ၂၄³ = ၁.၃၈၀၂ × ၃ = ၄.၁၄၀၆
∴ ကိန်း = ၁.၃၈၂၄ × ၁၀⁴ = ၁၃၈၂၄

သင်သည် အထက်ပါတွက်နည်းများကို သိဖို့ရန်လိုသော်လည်း၊ ထပ်ကိန်းရင်းတို့ကိုလိုတိုင်း တွက်ချက်ရှာယူရန် မလိုချေ။ အကြောင်းမူကား အချိန်ကုန်သက်သာရန် ရေးဆွဲ ပြုလုပ်ထားပြီး ဖြစ်သော ထပ်ကိန်း ဇယားကြီးနှင့် ကိန်းရင်း ဇယားကြီးများ ရှိနေသောကြောင့်တည်း။ ဤဇယားများကို တချက်ကြည့်ခြင်းဖြင့် မည်သည့် ဂဏန်းထပ်ကိန်းနှင့် ကိန်းရင်းကိုမဆို သိရှိနိုင်ပေသည်။ (လော့ဂရစ်သမ် —ရှု)

**ထပ်တယူငှက်။** ။ထပ်တယူငှက်ကို သိသူ အလွန်နည်းပါးသည်။ တုတ္တရူဟုလည်း ခေါ်ကြသည်။ ဇီဝဗေဒ အခေါ်မှာ 'ဟာပက်တပ် အီရစ်သရိုစဲဖလပ် အီရစ်သရိုစဲဖလပ်' ဖြစ်သည်။ ထိုငှက်သည် အလျား ၁၃ လက်မရှိသည်။ ငှက်မ၏ ဦးခေါင်း၊ လည်ပင်းနှင့် ရင်အုပ်အပေါ်ပိုင်းမှာ လိမ်မော်ရင့်ရောင် ရှိသည်။ ပျံသန်းသည့်အခါတွင် အမြီးနှင့် တောင်ပံများ ဖြူဖွေးနေသည်ကို တွေ့ရသည်။ အမြီးသည် ကျယ်ပြန့်၍ လေးထောင့်စပ်စပ်ဖြစ်၏။ ငှက်ကလေးများ၏ တောင်ပံသည် မည်းနက်သည်။

ထပ်တယူငှက်သည် တခါတရံတွင် ကြောင်အော်သကဲ့သို့ တိုးတိုးအော်တတ်၍၊ သားပေါက်ချိန်၌ မကြာမကြာ ညည်းသံ ပေးလေ့ရှိသည်။ ယင်းသည် ကျွန်းတောများတွင်သာ နေလေ့ရှိ၍၊ အများအားဖြင့် ချုံဖုတ်နှင့်ဝါးတောများတွင် တကောင်ချင်းဖြစ်စေ၊ စုံတွဲဖြစ်စေ တွေ့ရတတ်သည်။ တနေ့လုံး ငြိမ်သက်စွာနေ၍၊ နံနက်ခင်းနှင့်ညနေခင်းများ၌သာ ပိုးဖလံများကို ရှာဖွေစားသောက်သည်။ အစာကို ပျံသန်းယင်း စားတတ်သည်။ တခါတရံ၌သာ မြေပေါ်တွင် အစာစားသည်။ ယင်း၏အစာမှာ ပိုးဖလံနှင့် ပိုးမွှားအမျိုးမျိုး ဖြစ်သည်။

ထပ်တယူငှက်များသည် မတ်လမှ မေလအတွင်း သားပေါက်ကြ၏။ တမြုံလျှင် ၂ ဥမှ ၄ ဥအထိရှိ၍၊ ဥများကို ဝါးပင် သို့မဟုတ် သစ်ငုတ်အခေါင်းတွင် အုလေ့ရှိကြသည်။ ထပ်တယူငှက်ဥသည် ရှည်မျောမျောဖြစ်၍၊ ဖြူဖွေးသော အရောင်ရှိ၏။ ဥ၏ပျမ်းမျှအလျားမှာ ၁.၁၃ လက်မဖြစ်၍၊ ပြက် ၀.၈၅ လက်မရှိလေသည်။

ထပ်တယူငှက်များကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြား တွေ့နိုင်၏။ ယင်းတို့သည် နီပေါနိုင်ငံမှ အာသံပြည်ကို ဖြတ်၍ မြန်မာနိုင်ငံတလျှောက် တနင်္သာရီတိုင်းအထိ ကျက်စားကြသည်။ ထပ်တယူငှက်သည် အမြင့် ပေ ၆၀၀၀ အထိ ပျံတက် ကျက်စားနေနိုင်၍၊ မြန်မာနိုင်ငံ သစ်တောများတွင် ယင်းတို့ကို အမြဲတမ်းတွေ့ရလေသည်။

**ထပ်တရာပန်းပင်။** ။ထပ်တရာပန်းပင်၏ ရုက္ခဗေဒ အမည်မှာ 'ကလင်ဒျူလာ အော့ဖီဆီနဲလစ်' ဖြစ်သည်။ ထိုအပင်သည် တနှစ်ခံ ပင်ပျော့မျိုး ဖြစ်၍၊ 'ကွန်ပေါ်ဇီတီ' မျိုးစဉ်တွင် ပါဝင်သည်။ ဥရောပတိုက်တောင်ပိုင်းတွင် မူလပေါက်ရောက်သည်။ ထိုအပင်သည် ချုံပင်ဆန်သည့် အပင်မျိုး ဖြစ်သည်။ အမြင့် ၁၂ လက်မခန့်ရှိသည်။ အရွက် ရှည်မျောမျောရှိသည်။ အပွင့်များမှာ ကြီး၍ လိမ်မော်ရောင် ဖြစ်၏။ နွေကူးဥတုမှ ဆောင်းကူးဥတုတိုင်အောင် အပွင့်မြောက်မြားစွာပွင့်သည်။ ပွင့်ဖတ်များသည် နေဝင်သည်နှင့် တပြိုင်နက် ငုံသွားကြသည်။ ထပ်တရာပင်ကို ရှရကာ ရည် ပြုလုပ်ရာ၌၎င်း၊ ဟင်းခတ်အမွှေးအကြိုင် ပြုလုပ်ရာ၌၎င်း အသုံးပြုကြသည်။

မက္ကဆီကိုတွင် မူလပေါက်ရောက်သော ပြင်သစ်ထပ်တရာပင်နှင့် အာဖရိကန်ထပ်တရာပင်တို့သည် မျိုးစုတမျိုးတွင် ပါဝင်ကြသည်။ ပြင်သစ်ထပ်တရာပန်း၏ ရုက္ခဗေဒအမည်မှာ 'တဂျီတီ ပတ်တျူလာ' ဖြစ်သည်။ ထိုထပ်တရာပန်းပင်သည် တပေမျှသာမြင့်သော ချုံပင်မျိုးဖြစ်သည်။ ပန်းပွင့်



ပြင်သစ် ထပ်တရာပန်း အဖူးနှင့် အပွင့်

အရောင်သည် ရွှေဝါရောင်ဖြစ်၍ အနီကြောင်းများ ပါရှိသည်။ အာဖရိကန်ထပ်တရာပန်း၏ ရုက္ခဗေဒအမည်မှာ 'တဂျီတီ အီရက်တာ' ဖြစ်သည်။ ထိုထပ်တရာပင်မျိုးသည် ၂ ပေမှ ၃ ပေထိ မြင့်သည်။ ပန်းပွင့်အရောင်သည် အဝါဖျော့မှ လိမ်မော်ရောင်ရင့်ထိ အရောင်အမျိုးမျိုးရှိတတ်သည်။

**ထုပ်။** ။အိမ်ဆောက်ရာတွင် တိုင်နှစ်တိုင်၏ထိပ်၌ တင်၍ထားသော သစ်သားတန်းကို ထုပ်ဟုခေါ်သည်။ ထုပ်မှာ ပိသုကာနှင့်အင်ဂျင်နီယာတို့၏ လက်သုံးပစ္စည်းဖြစ်သည်။ ထုပ်၏သဘောမှာ လေးလံသော အဆောက်အအုံ ကိုယ်ထည်တို့ကို ထမ်းပိုးထောက်မ၍ ထားနိုင်စေသောသဘောဖြစ်သည်။ အိမ်ဆောက်သည့်အခါ၊ တိုင်နှစ်တိုင်ပေါ်တွင် ထုပ်ကိုတင်၍၊ ထိုထုပ်၏အထက်၌ အိမ်ခေါင်မှဆင်းလာသော ဒိုင်းတို့ကိုငင်း၊ ပျဉ်ထရံ၊ အုတ်ထရံတို့ကိုငင်း၊ တင်၍ထားလေ့ရှိသည်။ ထိုပြင်လည်း ချောင်းကူးတန်တားတို့၌ ချောင်း၏ ဟိုဖက်ကမ်းနှင့် သည်ဖက်ကမ်းကို ဆက်ရန် အတွက် အသုံးပြုသည်။ များသောအားဖြင့် ထုပ်မှာ သစ်သားဖြစ်၏။ သို့သော် ယခုခေတ်၌ကား အားဖြည့် သံကူ ကွန်ကရိနှင့် အင်္ဂလိပ်အက္ခရာ I ပုံသဏ္ဌာန်ရှိသော သံမဏိတို့ကို ထုပ်အဖြစ်ဖြင့် အသုံးပြုကြသည်။

အင်ဂျင်နီယာပညာသုံး စကားဖြင့် ပြောရသော်၊ 'ထုပ်ဟူသည်မှာ ထောက် ၂ ခုဖြင့်သော်ငင်း၊ ၂ ခုထက်မကသော ထောက်များဖြင့်သော်ငင်း၊ ထောက်ပင့် မ တင်ထား၍၊ အထက်၌ ရှိသော အလေး၏ဒဏ်ကို စင်းလျက်ခံရသော အဆောက် အအုံ ပစ္စည်းတရပ်ဖြစ်သည်' ဟုဆိုရပေမည်။ ချောင်းတခုကိုဖြတ်၍ ချောင်းနှုတ်ခမ်း၌ တန်တားခင်းသော်၊ ထိုတန်တားသည် ရိုးရိုးထောက်ထုပ် ဖြစ်သည်။ ထိုတန်တား၏အစွန်းနှစ်ခုကို အုတ်အင်္ဂတေတို့ဖြင့် အခိုင်အမာ တည်ဆောက်လျှင်၊ ယင်းထုပ်ကို အင်္ဂတေမံထုပ်ဟု ခေါ်ကြသည်။

အကယ်၍ ထုပ်ကို တဖက်၌သာထောက်၍၊ အခြားတဖတ်တွင် မထောက်ဘဲထားလျှင်၊ ထိုထုပ်မျိုးကို တဖက်ထိန်းထုပ်ဟုခေါ်သည်။ ချောင်းသည်ကျယ်၍ တန်တားကို ကမ်းနဖူးပေါ်တွင်တင်ပြီးနောက် အလယ်မှတိုင်တလုံး သို့မဟုတ် တလုံးထက်ပို၍ထောက်ပေးလျှင်၊ ထိုထုပ်မျိုးကို တဆက်တည်းထုပ်ဟု ခေါ်သည်။

အထက်ပါထုပ်မျိုးအပြင်၊ အပိုးခံ ထုပ်တမျိုးလည်း ရှိသေးသည်။ အလွန်ကျယ်သောအပေါက်တွင် အထက်မှ တစုံတရာကိုထောက်မထားရန် သုံးသည့်ထုပ်ကို အပိုးခံထုပ်ဟု ခေါ်သည်။ ရှေးအခါက အပိုးခံထုပ်ပြုလုပ်ရန် အခြားပစ္စည်းများကို မရနိုင်သဖြင့်၊ သစ်သားကိုသာ အသုံးပြုခဲ့ကြရသည်။ ယခုခေတ်တွင်မူ အိမ်အုတ်မြစ်ကို ထောက်မထားရန် အင်္ဂတေ သို့မဟုတ် သံမဏိထုပ်ကို အသုံးပြုလေ့ရှိသည်။ စက်လှေများမပေါ်မီခေတ်က ထိုထုပ်များကို ပုဆိန်နှင့် အကြမ်း ခုတ်ထွင်း၍ သုံးစွဲခဲ့ကြရသည်။

သံထုပ်များပြုလုပ်ရာတွင် ပဌမ နီရဲနေသောသံတုံးများကို ညှပ်စက်ဖြင့် ဆင့်ပြုလုပ်ရသည်။ ထို့နောက် တဖန်ထိုဆင့်တွင် သံမဏိပြားများကို ရစ်ဗစ်ရိုက်၍ ထုပ်ပြုလုပ်ယူသည်။ သေတ္တာပုံထုပ်မျိုးပြုလုပ်ရာတွင် ထောင်လိုက်သံပြားတန်း ၂ တန်းကို အနည်းငယ်ခြားထား၍၊ သံမဏိပြားများ၌ ရစ်ဗစ်ရိုက်ယူသည်။ ဖားလေးခု၊ သံမဏိပြား ၂ ပြား၊ ထောင်လိုက်သံပြား စသည်တို့ဖြင့် ပြုလုပ်ယူသော အခြားထုပ်မျိုးများလည်း ရှိသေးသည်။

ထုပ်ပေါ်တွင် အလေးချိန်တင်လိုက်သောအခါ၊ ထိုအလေးချိန်က ထုပ်ကို ပုံပြောင်းသွားစေသည်။ အလေးချိန်ကို ဖယ်လိုက်သောအခါ၊ ထုပ်သည် မူလပုံကို ပြန်ယူလိုသော သဘောရှိသည်။ ထုပ်၏ အထက်ပိုင်းသည် အလေးကြောင့် အဖိခံရ၍၊ အောက်ပိုင်းမှာမူ ဆွဲဆန့်ခံရသည်။ ထိုအခြေ၌ ထုပ်ကိုစစ်ဆေးကြည့်လျှင်၊ ဖိအား ဆုံး၍ ဆွဲဆန့်အား စသော အချက်ကို တွေ့ရပေမည်။ ဤအချက်ကို ကြားနေဝင်ရိုးဟု ခေါ်သည်။ စတုဂံပုံ ထုပ်နှင့် ခေါက်ရိုးညီပုံ ထုပ်တို့တွင် ဤအချက်သည် အလယ်ဗဟို၌ရှိသည်။ ဤကြားနေဝင်ရိုး၌ ကျုံ့ခြင်းနှင့်ဆွဲဆန့်ခြင်း လုံးဝမရှိချေ။

ထုပ်များတွင် အထက်နှင့်အောက်ရှိ အလွှာများ၌ ဒဏ်ခံအား အများဆုံးလိုသည်။ သို့သော် စတုဂံ ပုံသဏ္ဌာန်အစား I ပုံသဏ္ဌာန်ထုပ်ကို အသုံးပြုလျှင်၊ အများဆုံးလိုနေသော ဒဏ်ခံအားကို ရမြဲရနိုင်သည်ကို တွေ့ရ၏။ I ပုံသဏ္ဌာန် သံမဏိထုပ်ကိုအသုံးပြုခြင်းအားဖြင့်၊ သံမဏိကိုခိုနိုင်သည့်အပြင် ထုပ်၏အလေးချိန်ကိုလည်း နည်းပါးစေနိုင်သည်။ ထို့ကြောင့် စတုဂံပုံသဏ္ဌာန် သစ်သားထုပ်ထက် သံမဏိထုပ်က ပို၍အရာရောက်ပုံကို နားလည်နိုင်ပေသည်။ သံမဏိထုပ်တွင် ဒဏ်ခံအားလိုသည့်နေရာ၌ သံမဏိများများရှိ၍၊ ဒဏ်ခံအားမလိုသည့်နေရာ၌ သံမဏိ နည်းနည်းရှိသည်ကို တွေ့ရပေသည်။ (အဆောက်အအုံ ဆောက်လုပ်ခြင်း — ရှု။)

**ထိမ်းမြားမင်္ဂလာ။** ။ယောကျ်ားနှင့်မိန်းမတို့ အတူပေါင်းသင်းနေထိုင်၍၊ အိုးအိမ်တည်ထောင်သည်ကို အိမ်ထောင်ပြုသည်ဟု ခေါ်သည်။ ယင်းသို့ အိမ်ထောင်ပြုခြင်းကို လူသိရှင်ကြား အခမ်းအနားဖြင့် ကျင်းပသည်ကို ထိမ်းမြားမင်္ဂလာဟု ခေါ်လေသည်။ သာမန်အားဖြင့် ယောကျ်ားနှင့်မိန်းမတို့ သင့်မြတ်သည့်အရာမှာ၊ ဇီဝဗေဒ ပညာသဘောအရ၊ မျိုးဆက်ပြန့်ပွားရေးအတွက် ဖြစ်သည်

ဟု ဆိုရပေမည်။ သို့ရာတွင် လူတို့သည် အဆင့်ဆင့် ယဉ်ကျေးမှုကို တည်ထောင်လာကြသောအခါ၊ အိမ်ထောင်မှု၌ သားသမီး ဆွေမျိုးညာတိ စသည်တို့ကို ထိန်းသိမ်း စောင့်ရှောက်ရခြင်းတည်းဟူသော တာဝန်ဝတ္တရားသည် အိမ်ထောင်မှု၏ အရေးကြီးသော တာဝန်ဝတ္တရားဖြစ်သည်ဟု အသိအမှတ် ပြုလာကြရသည်။ ထို့ကြောင့် ထိမ်းမြားမင်္ဂလာသည် လူမှုရေးတွင် ယဉ်ကျေးမှုတရပ် ဖြစ်လေသည်။ အချို့သော လူမျိုးများအဖို့ ထိမ်းမြားမင်္ဂလာပြုခြင်းသည် အယူဝါဒနှင့်ဆိုင်သော ကိစ္စရပ်ဖြစ်၍၊ အချို့သော လူမျိုးများ အဖို့မှာကား လူမှုရေးကိစ္စသက်သက် ဖြစ်လေသည်။ မြန်မာလူမျိုးများအဖို့မှာ ထိမ်းမြားမင်္ဂလာပြုခြင်းသည် လူမှုရေးသက်သက်မျှသာ ဖြစ်ချေသည်။

မြန်မာလူမျိုးတို့တွင် ယောကျ်ားနှင့်မိန်းမ အိမ်ထောင်ပြုခြင်းကို ထိမ်းမြားသည်။ လက်ထပ်သည်။ စုလျားရစ်ပတ်သည်ဟု ဝေါဟာရအမျိုးမျိုးဖြင့် ခေါ်ဆိုကြသည်။ ထိမ်းမြားသည်ဟူသည်မှာ ပေးစားသည်၊ သို့မဟုတ် အရေးတယူ ဆောက်နှင်းပေးအပ်သည်ဟူ၏။ 'နှစ်ခိုက်သာရှင်၊ သားလွန်းကြင်ကို၊ တို့ရှင်မင်းအား၊ ရည်မှတ်သား၍၊ ထိမ်းမြားဖွယ်ရာ၊ မင်္ဂလာသည်' ဟုငင်း၊ 'ဘေးဘိုးမိဖ၊ စသည်သူငါ၊ တရံခါမျှ၊ ဖွယ်ရာဆောက်နှင်း၊ ထိမ်းမြားခြင်းကို' ဟုငင်း၊ ရှင်မဟာရဋ္ဌသာရ ဆရာတော်သည် ဘူရိဒတ်လင်္ကာကြီး၌ ပြဆိုထားလေသည်။ ထို့ပြင် ဦးရွှန်းပြုစုသော ဥမ္မာဒန္တီပျို့၌ 'မိဖနှစ်ပါး၊ ပေးထိမ်းမြားလျှင်၊ ရှုစားလျက်ပင်၊ စုံမက်ခင်လျက်' ဟု ပြဆိုထားသေးသည်။ ထိမ်းမြား ဟူသော စကားကို မနုကျယ်ဓမ္မသတ်ကြီး၌ 'ယောကျ်ားငယ်နှင့်မိန်းမငယ် နှစ်ယောက်ကို ပေးစားထိမ်းမြား၍၊ အိုးအိပ်ရာယှဉ်သည်' ဟူ၍ငင်း၊ 'ပေးစားထိမ်းမြား လက်ထပ်စဉ်၊ ပေးဖွဲ့သည်မှန်သမျှ' ဟူ၍ငင်း ပြဆိုသည်။ ထိုနောက် ထိုထိမ်းမြားမင်္ဂလာပြုခြင်းကိုပင် ပါရာဇိကဏ်၊ အဋ္ဌကထာ၌ 'အာဝါဟောတိ ဒါရကဿ ပရကုလတော ဒါရိကာဃ အာဟရဏံ။ ဝိဝါဟောတိ အတ္တနော ဒါရိကာယ ပရကုလပေသနံ' ဟု အာဝါဟ ဝိဝါဟ မင်္ဂလာ နှစ်ပါးကို ခွဲခြား၍ပြဆိုလေသည်။ ထိုအဋ္ဌကထာ၌လာရှိသော ပါဠိအရ အာဝါဟမင်္ဂလာဆိုသည်မှာ သတို့သားအတွက် တပါးအိမ်မှ သတို့သမီးကို ဆောင်ယူခြင်း (သမီးယူခြင်း) ဖြစ်၍၊ ဝိဝါဟမင်္ဂလာ ဆိုသည်မှာ သတို့သမီးကို သတို့သားအိမ်သို့ပို့ခြင်း (သမီးပေးခြင်း) ဖြစ်လေသည်။

လက်ထပ်အခမ်းအနားကို မြန်မာမင်းအုပ်ချုပ်ပုံစာတမ်း တတိယပိုင်း စာမျက်နှာ ၁၃၈ ၌ 'လက်ထပ်အခမ်းအနားများတွင် မ၏လက်ကို အောက်က၊ ကျား၏လက်ကို အထက်က ထား၍၊ လက်ထပ်ရသည်' ဟု ပြဆိုထား၏။ ထိုပြဆိုထားချက်ကား မူလကပင် ရှေးသူဟောင်းတို့ လိုက်နာစမြဲ အခမ်းအနားဖြစ်သည်။ သို့ရာတွင် ဤကဲ့သို့သော ရှေးမူကို သက္ကရာဇ် ၁၁၇၁ ခုနှစ် တပို့တွဲလပြည့်ကျော် ၆ ရက်နေ့ နာခံစမြောင်မှူး ဘယကျော်ထင်ပြန်သည့်အမိန့်တော်ဖြင့်၊ နောင်းခေတ်၌ ပြန်လည်ပြုပြင်ထားသည်။ ထိုသို့ပြန်လည်ပြုပြင်ရာ၌ 'လက်ထပ်အခမ်းအနားများသည် ပုရောဟိတ်ဒရပဏ် ကျမ်းအတိုင်းလိုက်နာရမည်' ဟု ပါရှိလေသည်။ ပုရောဟိတ်ဒရပဏ် ကျမ်းဟူသည်ကား ပုရောဟိတ်၏ လက်စွဲမှန်ကျမ်းပင်ဖြစ်သည်။ ထိုပုရောဟိတ်၏ လက်စွဲမှန်ကျမ်းအရမှာမူ၊ အလှူခံ ကျား ၏လက်ကို အောက်က၊ မ ၏လက်ကို အထက်ကထား၍၊ နူးညံ့သောအဝတ်ဖြင့် လက်နှစ်ခုကို ရစ်ပတ်ပြီးနောက်၊ ရေသွန်းလောင်းရသည်။ ထို့ပြင် ကျား ကို ရှေးဦးစွာ ပန်းကုံးစွပ်ပြီးမှ၊ ကျား ၏လည်ပင်းက ပန်းကုံးကိုချွတ်၍ မ သို့ စွပ်ပေးရသည်။

စုလျားရစ်ပတ်သည်ဟူရာ၌ စုလျားမှာ တံပက်၊ သို့မဟုတ် အပေါ်တင် ပုဆိုးဖြစ်သည်။ ထိုစုလျားဖြင့် သတို့သား သတို့သမီးတို့၏ လက်ကျ်ာလက်နှစ်ဖက်ကို ရစ်ပတ်၍ လက်ထပ်ပေးခြင်းကို စုလျားရစ်ပတ်သည်ဟုခေါ်သည်။ ယင်းကို သိသာစေရန် 'သင့်ရာမှူးမတ်၊ ပရိသတ်နှင့်၊ တောင်းလတ်သော့အား၊ ကျော်ထင်ရှားအောင်၊ စုလျားပိုက်သွင်း၊ ပေးဆောင်နှင်းသည်' ဟု ဥမ္မာဒန္တီပျို့၌ ဖော်ပြထားသည်။

ထိမ်းမြားမင်္ဂလာပြုခြင်းနှင့်စပ်လျဉ်း၍ မြန်မာလူမျိုးတို့၏ ဓလေ့ထုံးစံမှာကား၊ သတ်မှတ်ထားသော နေ့ရက်တွင် ရှေးဦးစွာ သတို့သားနှင့်သတို့သမီးတို့ကို လူပျိုရံများခြံရံလျက်ပွဲထုတ်ကြပြီးလျှင်၊ ဂုဏ်သရေရှိသော လူကြီးသူမ ဇနီးမောင်နှံနှစ်ဦးက လက်ဆက်ပေး၏။ ထိုနောက် ရတနာသုံးပါးနှင့် နှစ်ဖက်သောမိဖများကို ကန်တော့စေပြီးသော်၊ ကြွရောက်ချီးမြှင့်ကြကုန်သော ဧည့်ပရိသတ်တို့ကို အကျွေး အမွေး၊ တုရိယာအတီးအမှုတ်များဖြင့် ဧည့်ခံခြင်းပြုလေသည်။ အချို့လည်း ထိုဖော်ပြခဲ့သော အခမ်းအနားကိုပင် မူတည်က၊ ဘိသိက်သွန်းခြင်း၊ ဩဘာစာဖတ်ခြင်း၊ ရတုဖတ်ခြင်း၊ ဩဝါဒစကားပြောကြားခြင်း ဟူသည်တို့ဖြင့် အကျယ်ချဲ့၍ မင်္ဂလာအခမ်းအနားပြုလုပ်ကြသည်။ ထိမ်းမြားမင်္ဂလာနှင့် စပ်လျဉ်း၍ အခြားမြန်မာထုံးစံများမှာကား သတို့သားနှင့် သတို့သမီးတို့ကို အခန်းအပ်သည့်အခါတွင်၊ ရွှေကြိုးငွေကြိုး တားခြင်း၊ ခဲဖိုးတောင်းခံခြင်း စသည်တို့ဖြစ်၏။ ခဲဖိုးတောင်းခံခြင်းဓလေ့မှာ ယခုအခါ မြို့ကြီးပြကြီးများ၌ ပပျောက်သလောက်ရှိပြီဖြစ်သည်။ အချို့လည်း မင်္ဂလာဦးဆွမ်းကျွေးလေ့ရှိကြသည်။

ထိမ်းမြားလက်ထပ်မှုစနစ်များကား အမျိုးမျိုးရှိသည်။ ယင်းတို့အနက် အသက်ရှင်စဉ် ယောကျ်ားတယောက်က မိန်းမတယောက်တည်းကိုငင်း၊ မိန်းမတယောက်က ယောကျ်ားတယောက်တည်းကိုငင်း ယူရသော တလင် တမ

ယား စံနစ်သည် အထင်ရှားဆုံးသောစံနစ်ဖြစ်သည်။ တလင်တမယားစံနစ်အပြင် အချို့သောနိုင်ငံများ၌ ယောကျ်ား တယောက်လျှင် မိန်းမတယောက်ထက်ပို၍ယူသောစံနစ်လည်း ရှိသေးသည်။ ထိုစံနစ်သည် တလင်တမယားစံနစ်လောက် နေရာအနှံ့အပြား မထွန်းကားသော်လည်း၊ ရှေးခေတ်က လွန်စွာခေတ်စားခဲ့၍၊ ယခုခေတ်တွင်လည်း အချို့သော နိုင်ငံတို့တွင် ထင်ရှားသည့်စံနစ်အဖြစ်ဖြင့် တည်ရှိနေသေးသည်။ အစ္စလမ်အယူဝါဒီများ၌ အများအားဖြင့် မယားအများယူသည့်စံနစ်ကို လက်ခံကျင့်သုံးခွင့်ရှိသည်။ အာဖရိကတိုက် အချို့သောဒေသများတွင်ကား မယားများကို လင်၏ပုဂ္ဂလိကပိုင်ပစ္စည်းများအဖြစ် သဘောထားကြ၏။ မယားကို ငွေဖြင့်ဝယ်ယူ၍ရသည်။ မယားများသည် လင်၏လယ်ယာများကို ထွန်ယက်ပေးခြင်း၊ တိရစ္ဆာန်များကို ထိန်းကျောင်းပေးခြင်း စသည်တို့ကို လုပ်ဆောင်ပေးကြရာ၊ မယားအများအပြားရှိသူ အကြီးအကဲများသာလျှင် သြဇာအာဏာကြီးမားသည်ဟု ယူဆကြလေသည်။ အခြားသော အရှေ့တိုင်းနိုင်ငံတို့တွင်လည်း မယား အများအပြား ယူသည့်စံနစ်သည် ထွန်းကားလျက်ရှိသည်။

ထိုနောက် မယားအများအပြားယူသည့်စံနစ်နှင့် ပြောင်းပြန်ဖြစ်သော မိန်းမတယောက်လျှင် ယောကျ်ား အများအပြား ယူသည့်စံနစ်သည် ရှေးခေတ်၌ထွန်းကားခဲ့သည်။ ယခုအခါ ထိုစံနစ်ကို တိဗက်နိုင်ငံ၊ အိန္ဒိယနိုင်ငံတောင်ပိုင်း အချို့သော ဒေသများနှင့် အက်စကီမိုးလူမျိုးတို့နေထိုင်ရာ အချို့သော ဒေသများတွင် တွေ့ရှိနိုင်သည်။ သို့သော် ဤစံနစ်သည် ပျောက်ကွယ်စပြုပြီ ဖြစ်လေသည်။ ဤစံနစ်အရ အိမ်ထောင်ထိန်းသိမ်းမှုတာဝန်သည် မယားဖြစ်သူအပေါ်၌ လုံးဝကျရောက်လေသည်။ လင်ယောကျ်ားများသည် မယား၏အိမ်သို့ အလှည့်ကျ လာရောက်နေထိုင်ရ၏။ သားသမီးများ ရသောအခါ၊ မည်သည့်ကလေးသည် မည်သည့် လင်ယောကျ်ားနှင့်ရသော ကလေးဖြစ်သည်ကို မယားက သတ်မှတ်ရသည်။ ကလေးများသည် ယင်းသို့ မိခင်ဖြစ်သူက ညွှန်ပြသောဖခင်ထံမှ ထောက်ပံ့ကျွေးမွေးပြုစုခြင်းတို့ကို ခံယူကြရလေသည်။ သို့သော် ဖခင်၏ထံမှ အမွေပစ္စည်းများကိုကား ဆက်ခံပိုင်ဆိုင်နိုင်ခွင့် မရှိကြချေ။

အထက်ပါစံနစ်များအပြင်၊ ယောကျ်ားတယောက်သည် တရားဝင် ထိမ်းမြားထားသော မယားတယောက်အပြင်၊ တရားဝင် ထိမ်းမြားခြင်း မပြုဘဲ၊ မယား အငယ်အနှောင်းအဖြစ် ပေါင်းသင်းယူသော အလေ့တမျိုးလည်း ရှိသေး၏။ ထိုဓလေ့အရ မယားငယ်ဟူ၍ဖြစ်ပေါ်လာရာ၊ ထိုမယားငယ်တို့၏ အခွင့်အရေးများကို မြန်မာဗုဒ္ဓဘာသာ ဓမ္မသတ်များက ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ပေးလေသည်။ ဓမ္မသတ်ကျမ်းများတွင်ကား မယားကြီး၊ တော်ပြောင်နှင့် ကျွန်မိန်းမဟူ၍ မယားသုံးမျိုးကို ခွဲခြားပြဆိုကြသည်။ ကင်းဝန်မင်းကြီး ဦးကောင်း ရေးသားပြုစုသော ဓမ္မသတ် ၃၆ စောင်တွဲ အပိုဒ် ၆ တွင် ‘တော်ပြောင်’ ဟူသည်မှာ မယားငယ်ပင်ဖြစ်ကြောင်း ပြဆိုသည်။

ယောကျ်ားတယောက်နှင့် မိန်းမတယောက် ထိမ်းမြားမင်္ဂလာပြုရာ၌ တရားဝင်ဖြစ်စေရန် များစွာအရေးကြီးပေသည်။ မြန်မာဗုဒ္ဓဘာသာ တရားဥပဒေအရ ထိမ်းမြားမင်္ဂလာပြုခြင်း တရားဝင်စေရန်အတွက်၊ စင်စစ်မှာ မည်သည့် အခမ်းအနားမျှ မလိုချေ။ လင်မယားအရာ မြောက်ရာသော အကြောင်းသုံးပါးကို မနုကျယ်ဓမ္မသတ်တွင်၊ မိဖနှစ်ပါး ပေးစားထိမ်းမြား၍ အတူနေ အတူစားကြလျှင်ရင်း၊ သူတပါးတို့အား အောင်သွယ်ထား၍ အတူနေ အတူစားကြလျှင်ရင်း၊ နှစ်ဦးသဘောတူ၍ အတူနေ အတူစားကြလျှင်ရင်း၊ လင်မယားအရာ မြောက်သည်ဟု ပြဆိုခဲ့၏။ သို့ရာတွင် ယခုခေတ်ကာလအလျောက် မြန်မာဗုဒ္ဓဘာသာ ယောကျ်ားတယောက်နှင့် မိန်းမတယောက်တို့အဖို့ တရားဝင် လင်မယားဖြစ်မြောက်ရေးအတွက် လိုအပ်သောအချက်များမှာ (၁) ယောကျ်ားသည်အိမ်ထောင်ပြုရန်အတွက် ကျန်းမာသန်စွမ်းရမည်။ (၂) မိန်းမသည် မုဆိုးမ (ဝါ) တခုလပ် တလင်ကွာမဟုတ်လျှင် အသက် ၂၀ ပြည့်ရမည်။ အသက် ၂၀ မပြည့်သေးလျှင် မိဖ သို့မဟုတ် အုပ်ထိန်းသူ၏ သဘောတူညီချက် ရရမည်။ (၃) ယခုမျက်မှောက်တွင် လင်မယားအဖြစ် အိမ်ထောင်ပြုရန် နှစ်ဦးသဘောတူညီချက် လွတ်လပ်စွာရရှိရမည်။ (၄) နှစ်ဦးစလုံးတွင် မည်သူမျှ စိတ်ပေါ့သွပ်သူ မဖြစ်စေရ။ (၅) လင်မယားအဖြစ် ပေါင်းသင်းဆက်ဆံမှုရှိရမည်။ (၆) မိန်းမတွင် မပြတ်စဲသေးသော တရားဝင် လင်ယောကျ်ားမရှိစေရဟူ၍ ဖြစ်လေသည်။

မြန်မာနိုင်ငံတော်အစိုးရသည် ၁၉၅၄ ခုနှစ်၌ လူမျိုးခြား၊ ဘာသာခြားများနှင့် ထိမ်းမြားလက်ထပ်ကြသော ဗုဒ္ဓအယူဝါဒီ မြန်မာအမျိုးသမီးများ၏ ဆိုးဝါးသော အခြေအနေကို ကာကွယ်စောင့်ရှောက်ရန်ရည်စူး၍၊ ‘ဗုဒ္ဓဘာသာဝင် အမျိုးသမီးများ အထူးထိမ်းမြားမှုနှင့် အမွေဆက်ခံမှု အက်ဥပဒေ’ ကို ပြဋ္ဌာန်းအတည်ပြုခဲ့သည်။ ထိုအက်ဥပဒေအရ ကျေးရွာသူကြီးတိုင်းကို ထိမ်းမြားမှု မှတ်ပုံတင်အရာရှိဟူ၍ ကျေညာသည်။ လူမျိုးခြား၊ ဘာသာခြား ယောကျ်ားများနှင့် ထိမ်းမြားလက်ထပ်လိုသော ဗုဒ္ဓအယူဝါဒီ အမျိုးသမီးသည် အဆိုပါ မှတ်ပုံတင်အရာရှိ (သူကြီး) ထံ၌ရင်း၊ နိုင်ငံတော် သမတက ခန့်အပ်ထားသော အခြားထိမ်းမြားမှု မှတ်ပုံတင်အရာရှိထံ၌ရင်း၊ ထိမ်းမြားခြင်းပြုနိုင်သည်။ သို့သော် (၁) မိန်းမသည် အသက် ၁၄ နှစ်ပြည့်ပြီး ဖြစ်ရမည်။ (၂) နှစ်ဦးစလုံးတွင် မည်သူမျှ စိတ်ပေါ့သွပ်သူများ မဖြစ်

စေရ။ (၃) အသက် ၂၀ မပြည့်သေးသော မိန်းမဖြစ်လျှင် မိဖ သို့မဟုတ် အုပ်ထိန်းသူ၏ သဘောတူညီမှုကို ရရှိပြီးဖြစ်ရမည်။ (၄) မိန်းမတွင် မပြတ်စဲသေးသော တရားဝင် လင်ယောကျ်ား မရှိစေရဟူ၍ စည်းကမ်းသတ်ထားလေသည်။

ဤအက်ဥပဒေအရ ထိမ်းမြားလိုသူတို့သည် မှတ်ပုံတင် အရာရှိထံသို့ ၁၄ ရက်ကြိုတင်၍ အကြောင်းကြားရ၏။ မှတ်ပုံတင်အရာရှိက ၁၄ ရက်အတွင်း ဥပဒေပါအချက်များနှင့် မညီညွတ်လျှင်၊ မည်သူမဆို ကန့်ကွက်နိုင်ကြောင်း ကျေညာ၍၊ ကန့်ကွက်သူမရှိလျှင်၊ သက်သေနှစ်ဦး၏ရှေ့မှောက်၌ ထိမ်းမြားပေးရသည်။ အကယ်၍ ကန့်ကွက်သူရှိခဲ့လျှင်၊ မှတ်ပုံတင်အရာရှိက သက်ဆိုင်ရာ တရားမရုံးသို့ စစ်ဆေးရန် ပို့၍၊ ထိုရုံး၏ အဆုံးအဖြတ်အတိုင်း မှတ်ပုံတင်အရာရှိက လိုက်နာဆောင်ရွက်ရသည်။ အကယ်၍ ဗုဒ္ဓအယူဝါဒီ အမျိုးသမီးတဦးနှင့် ဘာသာခြား အမျိုးသားတဦးတို့သည် မှတ်ပုံမတင်ဘဲ ပေါင်းသင်းနေထိုင်လျှင်၊ ထိုအမျိုးသမီး၏ မိဖ (ဝါ) အုပ်ထိန်းသူ (ဝါ) ဆွေမျိုးသားချင်းတဦးဦးက မှတ်ပုံတင်အရာရှိထံ သတင်းပေးနိုင်သည်။ ထိုအခါ မှတ်ပုံတင်အရာရှိက သက်ဆိုင်သူများကိုဆင့်ခေါ်၍၊ မှတ်ပုံတင်လိုလျှင် တင်ပေးပြီးလျှင်၊ မတင်လိုပါက တရားမရုံးသို့ အစီရင်ခံစာ တင်သွင်း၍၊ ထိုရုံး၏အဆုံးအဖြတ်ကို နာခံကြရသည်။

ထိုအက်ဥပဒေအရ ထိမ်းမြားသူတို့၏ လင်မယားကွာရှင်းမှု ကိစ္စ၊ ပစ္စည်းပိုင်ဆိုင်ခွင့် ကိစ္စ၊ သားသမီးထိန်းသိမ်းမှု ကိစ္စ၊ ပစ္စည်းခွဲဝေမှု ကိစ္စတို့သည် မြန်မာဗုဒ္ဓဘာသာ ဓမ္မသတ်အရ ဖြစ်သည်။ အကယ်၍ လူမျိုးခြား၊ ဘာသာခြား လင်ယောကျ်ားဖြစ်သူသည် အယူဝါဒနှင့်စပ်လျဉ်း၍ မိမိ၏ မယားကို ကွာရှင်းလိုလျှင်၎င်း၊ ညှဉ်းပန်းနှိပ်စက်လျှင်၎င်း၊ ထိုလင်ယောကျ်ားသည် နှစ်ဦးပိုင်ပစ္စည်းများမှ မိမိရထိုက်သောအစုကိုစွန့်၍၊ မယားအား လျော်ကြေးပေးသည်။ ထိုအခါ မယားဖြစ်သူသည် သားသမီးအားလုံးကို ထိန်းသိမ်းခွင့်ရရှိသည်။ လင်ယောကျ်ားကမူ အရွယ်မရောက်သေးသော ကလေးများအတွက် စရိတ်ပေးရသည်။

**ထုံး။** ။ထုံးသည် အဖြူရောင်ရှိသော အစိုင်အခဲဖြစ်၍ ဓာတုဗေဒအလိုအားဖြင့် ကယ်လဆီယမ် အောက်ဆိုက်ဟုခေါ်သည်။ ဓာတုသင်္ကေတမှာ ($CaO$) ဖြစ်သည်။ ထုံး ဖြစ်လာစေရန် ထုံးကျောက်ဟူ၍၎င်း၊ မြေဖြူဟူ၍၎င်း ခေါ်သော ကယ်လဆီယမ် ကာဗွန်နိတ် ($CaCO_3$) အမြောက်အမြား ပါရှိသော ကျောက်တမျိုးကို မီးဖိုတွင်ထည့်၍ အပူချိန် ဖာရင်ဟိုက် ၁၇၀၀° ထိ မီးပြင်းတိုက်ပေးရသည်။

ထိုထုံးကျောက်ကို မီးပြင်းတိုက်လိုက်သောအခါ ကာဗွန် ဒိုင်အောက်ဆိုက်များ လွတ်ထွက်သွားပြီးလျှင် မဖောက်ထုံး (ကယ်လဆီယမ် အောက်ဆိုက် $CaO$) ဖြစ်လာသည်။ ထိုအတွက် ပုံသေရေးနည်းမှာ ($CaCO_3 \rightarrow CaO + CO_2$) ဖြစ် သည်။ ထိုမဖောက်ထုံးတွင် ရေထည့်လိုက်သောအခါ အလွန်ပူလာ၍ ထုံးသည် ကြေမွသွားကာ ဖောက်ထုံး (ကယ်လဆီယမ် ဟိုက်ဒရော့ဆိုက် ($Ca(OH)_2$) ဖြစ်လာသည်။ ထိုအတွက် ပုံသေရေးနည်းမှာ ($CaO + H_2O \rightarrow Ca(OH)_2$) ဖြစ်သည်။

ထုံးအင်္ဂတေပြုလုပ်လိုသောအခါ မဖောက်ထုံးတွင် ရေထည့်ပြီးနောက် သဲနှင့် အမှုန့်ကြိတ်ထားသော ကျောက်များကို ရောပေးရသည်။ ထိုအရောသည် ခြောက်သွားသောအခါ လေထဲမှ ကာဗွန် ဒိုင်အောက်ဆိုက်ကို စုတ်ယူပြီးလျှင် ကယ်လဆီယမ် ကာဗွန်နိတ်ဖြစ်သည်။ ထို့ပြင် သဲမှ ဆီလီကာနှင့်လည်းပေါင်း၍ ကယ်လဆီယမ် ဆီလီကိတ် ဖြစ်သေးသည်။ ထိုပစ္စည်းများက အုတ် သို့မဟုတ် ကျောက်ခဲများကို ခိုင်မြဲစေသည်။ ယခုအခါ ထုံးအင်္ဂတေကို အသုံး မများလှတော့ချေ။ ယင်းအစား ဗိလတ်မြေကိုသာ အသုံး များသည်။

ထုံးသည် မီးပြင်းကိုခံနိုင်၏။ သို့သော် လျှပ်စစ်မီးဖိုတွင်မူ အရည်ပျော်လေသည်။ ထုံးသည် အယ်ကလီ သတ္တိ၌ အလွန် ထက်မြက်သောကြောင့်၊ အက်ဆစ်များကို ခေတ်ပြယ်စေနိုင်သည်။ ထို့ပြင် ကော့စတစ် ဆိုဒါနှင့် ပိုတက်တို့ကဲ့သို့ အသီးအနှံနှင့်အသားများကိုလည်း စားပစ်နိုင်သေးသည်။ ထို့ကြောင့် အညစ်အကြေးကို ရှင်းပစ်ရာတွင် ထုံးကို အသုံးပြုကြသည်။ မဖောက်ထုံး ($CaO$) ကို ရက်ပေါင်း အတော်ကြာ လေသလပ်ခံထားလျှင် ထုံးသည်လေထဲမှ ရေနှင့် ကာဗွန် ဒိုင်အောက်ဆိုက် ($CO_2$) ကို စုတ်ယူပြီးလျှင်၊ ကယ်လဆီယမ် ကာဗွန်နိတ် ($CaCO_3$) အမှုန့်အဖြစ်သို့ ပြောင်းလဲသွားလေသည်။ ရေနှင့် ဖောက်ထုံးပျော်ဝင်ရည်ကို ထုံးရေကြည်ဟုခေါ်သည်။ ထုံးနို့သည် ထုံးရေကြည်နှင့် အရည်မပျော်သော ဖောက်ထုံးအရော ဖြစ်သည်။ ထိုထုံးမျိုးများအပြင် ရေအောက်တွင် မာသွားတတ်သော ထုံးမျိုးလည်း ရှိသေးသည်။

အယ်ကလီများတွင် ထုံးသည် ဈေးအပေါဆုံးဖြစ်သည်။ ထုံးကို အဆောက်အအုံနှင့် လမ်းများ ဆောက်လုပ်ရာ၌၎င်း၊ ဆေးဖြူသုတ်ရာ၌၎င်း၊ အရောင်ချွတ်ဆေး ($CaOCl_2$) များ ပြုလုပ်ရာ၌၎င်း၊ မြေဩဇာများ ပြုလုပ်ရာ၌၎င်း အသုံးပြုကြသည်။ ထို့ပြင် သားရေနယ်လုပ်ငန်းတွင် သားရေပြားများမှ အမွေးများကျွတ်စေရန် ပြုလုပ်ရာတွင်လည်း ထုံးကို အသုံးပြုကြသည်။ ဖန်သားများပြုလုပ်ရာတွင်လည်း ထုံးကို အသုံးပြုကြသည်။ မြေဆီလွှာတွင် အချဉ်ဓာတ် ပေါက်လာသောအခါ အချဉ်ဓာတ်ပြယ်စေရန်အလို့ငှာ ထုံးကို အသုံးပြုကြသည်။ ပိုးသတ်ဆေး အများအပြားတွင်လည်း ထုံး

ကို အသုံးပြုကြသည်။ ထုံးကို သဲနှင့်ရော၍ အပူပြင်း တိုက်ပေးလျှင် အရည်ပျော်၍၊ ဖန်ရည်တမျိုး ဖြစ်လာသည်။ ထုံးသည် သတ္တုပစ္စည်းအမြောက်အမြားကို ပျော်ဝင်စေနိုင်သည်။ ထိုကြောင့် သံတွင်းထွက် ပစ္စည်းရိုင်းများမှ သံကို ထုတ်ယူရာတွင် ထုံးကျောက်များကိုထည့်၍ အသုံးပြုကြလေသည်။

မြန်မာနိုင်ငံတွင် ထုံးကျောက်ကို နေရာအနှံ့ အပြား၌ တွေ့ရပေသည်။ ထုံးကျောက်မှ ထုံးကို ထုတ်ယူသုံးစွဲရာ၌ အကြီးကျယ်ဆုံးနေရာမှာ သရက်မြို့ရှိ ဗိုလတ်မြေစက်ရုံကြီး ဖြစ်သည်။ မော်လမြိုင်မြို့အရှေ့တောင်ဘက်ရှိ ကျိုက်မရောရွာတွင်လည်း ရာသီအလိုက် ထုံးလုပ်ငန်းကို လုပ်ကိုင်ကြသည်။ မန္တလေး၊ စစ်ကိုင်း၊ မြစ်ကြီးနား၊ ကျောက်ဆည်၊ ရွှေဘိုနှင့် အောက်ချင်းတွင်းခရိုင်များတွင် ထုံးလုပ်ငန်းများကို လုပ်ကိုင်ကြသည်။

**ထုံးကျောက်။** ။ကမ္ဘာ့အပေါ်ယံမြေလွှာတွင် သယံဇာတအဖြစ်ဖြင့် အများအပြားတွေ့ရ၍ အသုံးလည်းအလွန်ဝင်သော ကျောက်တမျိုးသည်ကား ထုံးကျောက်ပင်ဖြစ်လေသည်။ မြန်မာနိုင်ငံတွင် သထုံ၊ ကျိုက္ခမိနှင့် အခြားခရိုင်အချို့တွင် ထုံးကျောက်တောင်များကို တွေ့ရ၏။ အင်္ဂလန်ပြည် ယော့ရှိုင်ယာ ခရိုင်နှင့် ဒါဗီရှိုင်ယာ ခရိုင်တို့တွင်ရှိသော တောင်တန်းများသည်လည်း အများအားဖြင့် ထုံးကျောက်တောင်များပင် ဖြစ်ကြလေသည်။

ခရု၊ ကမာ၊ သန္တာကောင်မှစ၍ မရေမတွက်နိုင်သော အပေါ်ယံ အခွံမာရှိသည့် ရေသတ္တဝါများ သေကြေပျက်စီးကြသောအခါ ပင်လယ်အောက်တွင် ထိုအခွံများသည် အထပ်ထပ် စုပုံ၍ နေကြသည်။ နှစ်ပရိစ္ဆေဒအလွန်ကြာလတ်သော် ထိုအထပ်တို့သည် ကြီးမားလာ၍ တထပ်ပေါ် တထပ် ဖိနှိပ်မှုကြောင့် နောက်ဆုံးတွင် မြေဖြူအဖြစ်သို့ ပြောင်းလဲလာသည်။ (မြေဖြူ — ရှု။) ကမ္ဘာမြေကြီး၏ ပေါက်ကွဲမှု၊ လှုပ်ရှားမှု အမျိုးမျိုးတို့ကြောင့် ပင်လယ်အောက်မှ မြေဖြူတန်းများသည် ကမ္ဘာ့မြေမျက်နှာပြင်သို့ ပေါ်ထွက်လာတတ်ကြသည်။ တခါတရံ မြေဖြူတန်းများသည် မြေကြီးအတွင်းမှာပင် အလွန်နက်စွာ နစ်မြုပ်၍နေတတ်ကြသည်။ ထိုအခါမျိုးတွင် အပူနှင့်ဖိအားတို့ကြောင့် မြေဖြူအဖြစ်မှ တဖြည်းဖြည်းမာလာပြီးလျှင် ထုံးကျောက်အဖြစ်သို့ ရောက်သွားသည်။



သဘာဝအလျောက် ဖြစ်တည်လျက်ရှိသော ထုံးကျောက်ဂူတဂူ၏ အတွင်းဖက်ရှုခင်း



အင်္ဂလန်ပြည် ဆိုမာဆက်နယ်တွင် ဤသို့ မြင့်မားမတ်စောက်သော ထုံးကျောက်တောင်များကို တွေ့မြင်နိုင်ပေသည်။

ထုံးကျောက်အဖြစ်တွင် အပူနှင့်ဖိအားကို ပိုမိုရပြန်သော အခါ အလွန်မာလာပြီးနောက် စကျင်ကျောက်အဖြစ်သို့ ပြောင်းသွားပြန်သည်။ (စကျင်ကျောက် — ရှု။) ထို့ကြောင့် မြေဖြူသည် ထုံးကျောက်အပျော့စားဖြစ်၍ စကျင်ကျောက်မှာ ထုံးကျောက်အမာစားပင်ဖြစ်၏။ မြေဖြူ၊ ထုံးကျောက်နှင့် စကျင်ကျောက်တို့၏ ဂုဏ်သတ္တိများသည် အတူတူပင် ဖြစ်ကြပေသည်။ ယင်းတို့တွင် ကယ်လဆီယမ် ကာဗွန်နိတ်ဓာတ် အများဆုံးပါရှိသဖြင့် ဓာတုဗေဒအလိုအရ ကယ်လဆီယမ် ကာဗွန်နိတ်ဟု ခေါ်လေသည်။ ရေစေးတွင်ပါဝင်သော ကယ်လဆီယမ် ကာဗွန်နိတ်များ အနည်ထိုင်ရာမှဖြစ်ပေါ်လာသော ထုံးကျောက်မျိုးလည်းရှိ၏။ ထုံးကျောက် ဟုတ်မဟုတ်ကို အက်ဆစ်အပျော့ရည်တခုနှင့် စမ်းသပ်ကြည့်နိုင်၍၊ ထုံးကျောက်ဖြစ်က ကာဗွန် ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ ထွက်လာခြင်းကို တွေ့ရပေမည်။

ထုံးကျောက်ကို အဆောက်အအုံများ ဆောက်လုပ်ရာ၌ ၎င်း၊ လမ်းများခင်းရာ၌၎င်း၊ သံနှင့်ခဲသတ္တုရိုင်းများ ကျိုသည့်အခါ အရည်ပျော်မြန်စေသော ပစ္စည်းပြုလုပ်ရာ၌ ၎င်း၊ ဗိလတ်မြေလုပ်ရာ၌၎င်း၊ အသုံးများ၍၊ အခြားစက်မှုလက်မှုလုပ်ငန်းများတွင်လည်း များစွာအသုံးပြုရလေသည်။

ကမ္ဘာ့အရပ်ရပ်ရှိ ထုံးကျောက်တောင်များတွင် ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ် ပျော်ဝင်လျက်ရှိသော ရေတို့၏ စီးဝင် စားသွားမှုကြောင့် နှစ်ပရိစ္ဆေဒကြာလတ်သော် ဂူများ ဖြစ်လာတတ်သည်။ (ဂူများ — ရှု။) ထိုထုံးကျောက်ဂူများတွင် ကယ်လဆီယမ် ကာဗွန်နိတ် ပျော်ဝင်ရည်များ တစက် တစက် ကျဆင်းရာမှဖြစ်ပေါ်လာ၍ ဂူအမိုးမှ တွဲလဲကျနေသော ဂဝံကျောက်များကို တွေ့ရတတ်သည်။ ထိုဂဝံကျောက်မျိုးကို ကျောက်စက်ပန်းဆွဲဟုခေါ်၏။ ဂူအတွင်း မြေကြီးပေါ်တွင် စုပုံနေတတ်သော ဂဝံကျောက်မျိုးကိုမူ ကျောက်စက်မိုးမျှော်ဟု ခေါ်လေသည်။ ယင်းဂဝံကျောက်မျိုးရှိရာ ဂူတို့မှာ ကျိုက္ကမီခရိုင်ရှိ ခရုံဂူနှင့် သထုံခရိုင်ရှိ ဆဒ္ဒန်ဂူတို့ဖြစ်ကြသည်။ ဒေါ်လိုမိုက်ဟုခေါ်သော ထုံးကျောက်တမျိုးမှာ ကယ်လဆီယမ် ကာဗွန်နိတ်တမျိုးတည်းမဟုတ်ဘဲ၊ မက်ဂနီဇီယမ် ကာဗွန်နိတ်လည်း ပါဝင်လျက်ရှိလေသည်။ (ဘူမိဗေဒ — လည်းရှု။)

**ထုံးကျောက်မှုန့်။** ။မြေဖြူ — ရှု။

**ထုံးသတ္တု။** ။ကယ်လဆီယမ် — ရှု။

**ထုံးဟောင်းပုံပြင်။** ။မည်သည့်လူမျိုး၌မဆို မိဖက သားသမီးတို့ကို အစဉ်အလာအတိုင်း ပြောပြလေ့ရှိသော ဝတ္ထု ပုံပြင်များ ရှိလေသည်။ ထိုဝတ္ထုပုံပြင်တို့ ဖြစ်ပေါ်လာသော မူလဘူတအကြောင်းရင်းခံတို့သည် နှစ်ပရိစ္ဆေဒကြာလတ်သော် နှောင်းလူတို့ မမှတ်မိကြသဖြင့် ကွယ်ပျောက်၍သွားလေသည်။ သို့သော် ဝတ္ထုပုံပြင်တို့ကား ဝတ္ထုပုံပြင်အနေဖြင့် ကျန်ရစ်ခဲ့သည်။ စင်စစ် ထိုဝတ္ထုပုံပြင်တို့သည် ရှေးခေတ်သမိုင်းနှင့် ဆက်စပ်နေသည်။ ကာလရွှေ့လျော၍သာလျှင် ထိုသို့ဆက်စပ်ခြင်းရှိသည်ကို လူတို့မမှတ်ကြလေ။ ယင်းသို့ပင်ဖြစ်သော်လည်း၊ ထိုဝတ္ထုပုံပြင်တို့သည် ရှေးခေတ်အယူအဆများနှင့် သဘာဝအလျောက် ဖြစ်ပျက်ခဲ့သော အခြင်းအရာများကို ဖေါ်ပြလျက်ရှိလေသည်။ ထို့ကြောင့်ပင် ယင်းတို့ကို ဖတ်ရှုကြားနာရခြင်းဖြင့်၊ ကျွန်ုပ်တို့သည် ရှေးဟောင်းခေတ်က စကြာဝဠာဖြစ်ဟန် တည်ဟန်တို့နှင့် ဆိုင်သော အတွေးအခေါ် အယူအဆများကို၎င်း၊ သဘာဝဓမ္မကို လွှန်၍ ဖြစ်ပေါ်သော အစွဲအလမ်းများကို၎င်း သိကြရသည်။ ယင်းအယူအဆ အစွဲအလမ်းများတွင် ကိုးကွယ်ပသသော နတ်များအကြောင်း၊ လူတို့မြောက်စားသော အာဇာနည် လူစွမ်းကောင်းများအကြောင်း၊ ယဉ်ကျေးမှုဆိုင်ရာ အစဉ်အလာများအကြောင်း၊ ကိုးကွယ်မှုဆိုင်ရာ အယူဝါဒများအကြောင်း၊ ရိုးရာ ဓလေ့ထုံးစံများအကြောင်း စသည်တို့ ပါဝင်ကြသည်။ ဤကဲ့သို့ မူလက လူ့သမိုင်းဆိုင်ရာ အမှတ်သညာများ ဖြစ်ခဲ့သော်လည်း၊ နှောင်းသောအခါ ကာလ

ရွှေလျော၍ ဇာစ်မြစ်ကို နှောင်းလူတို့ ကောင်းစွာမမှတ်မိကြသဖြင့် စိတ်ကူးဆန်းကြယ်သော အကြောင်းအရာများအဖြစ်ဖြင့် ကျန်ရစ်သောပုံပြင်တို့ကို ထုံးဟောင်းပုံပြင်ဟုခေါ်လေသည်။ ထုံးဟောင်းပုံပြင်သည် များသောအားဖြင့် ကိုးကွယ်သော အယူဝါဒနှင့် သက်ဆိုင်သည်။ ထိုအယူဝါဒတို့နှင့် လုံးဝမသက်ဆိုင်ဘဲ၊ သာမန် ရိုးရာဓလေ့တို့ကိုပြဆိုသော ဝတ္ထုပုံပြင်တို့ကို ဒဏ္ဍာရီဟုခေါ်လေသည်။

ထုံးဟောင်းပုံပြင်များသည် စကြာဝဠာ မူလဖြစ်ပေါ်လာပုံနှင့် လူစွမ်းကောင်းများ၊ နတ် အစရှိသည်တို့၏ အကြောင်းအရာပုံပြင်များ ဖြစ်လေသည်။ ပြယုဂ်အားဖြင့် ဂရိပုံပြင်များတွင် ဂရိနိုင်ငံရှိ နတ်များ လူစွမ်းကောင်းများ အကြောင်းနှင့် စကြာဝဠာဖြစ်ပေါ်လာပုံ ဒဏ္ဍာရီများ ပါဝင်လျက်ရှိသည်ကို ကြည့်လေ။ (ဂရိနတ်များ — ရှု။) ထုံးဟောင်း ပုံပြင် နှစ်မျိုးရှိသည်။ တမျိုးကား ဆင်ခြင်တုံတရားနှင့်ယှဉ်သော ပုံပြင်များဖြစ်၏။ ပုံစံအားဖြင့် နတ်များသည် ပညာရှိသည်၊ တန်ခိုးရှိသည်ဟူသော အကြောင်းများဖြစ်သည်။ နောက်တမျိုးမှာမူ ယုတ္တိမရှိ၊ ဆန်းကြယ်သော စိတ်ကူးမျှသာ ဖြစ်လေသည်။

ရှေးနှစ်ပေါင်း ထောင်ပေါင်းများစွာက ကမ္ဘာမြေပေါ်တွင် နေထိုင်ခဲ့ကြသော ရှေးဦးလူများသည် ကမ္ဘာ အကြောင်း၊ နေလကြယ်များအကြောင်းကို လေ့လာစုံစမ်းကြရာမှ ပုံပြင်များကို ထွင်ခဲ့ကြလေသည်။ ထိုအခါမှစ၍ ထုံးဟောင်းပုံပြင်များ စတင်ပေါ်ပေါက်လာပြီးလျှင် ယခုခေတ်အထိ ဆင်းသက်ထွန်းကားလာသည်။

ထုံးဟောင်းပုံပြင်များကို ဗက်ဗီလုံးနီးယားနှင့် အီဂျစ် ယဉ်ကျေးမှုများတွင် အများဆုံးတွေ့ရသည်။ ခေတ်နောက်ကျသော အချို့လူရိုင်းများမှာကား ယခုထက်တိုင် ထို ထုံးဟောင်းပုံပြင်များကို တကယ်အဖြစ်ကဲ့သို့ ယုံကြည်ကြသည်။ ထုံးဟောင်းပုံပြင်များနှင့်စပ်လျဉ်း၍ အထင်ရှားဆုံးမှာ ဂရိလူမျိုးတို့၏ ထုံးဟောင်းပုံပြင်များဖြစ်သည်။ ဂရိ လူမျိုးတို့သည် စာပေလိုက်စားသောသူများဖြစ်၍၊ သူတို့၏ထုံးဟောင်းပုံပြင်များမှာ စာပေတွင် အထင်အရှားကျန်ရစ်လေသည်။

ထုံးဟောင်းပုံပြင်များကို အခြား ရပ်ဝေးနိုင်ငံများတွင်လည်း တွေ့ရသည်။ ထူးခြားသည့်အချက်တခုမှာ မိုင်ပေါင်း မည်မျှပင်ဝေးကွာသော်လည်း၊ ထုံးဟောင်းပုံပြင်များမှာ အံ့သြဖွယ်ရာ ခပ်ဆင်ဆင် တူနေကြခြင်းဖြစ်လေသည်။ ထိုထက်ထူးခြားသောအချက်မှာ လူတမျိုး၏ အကျင့်စာရိတသည် ထိုလူမျိုး၏ ထုံးဟောင်းပုံပြင်များ၌ ပေါ်လွင်နေခြင်းပင်ဖြစ်သည်။ ဂရိထုံးဟောင်းပုံပြင်များသည် ဂရိလူမျိုးများ၏ အလှဂုဏ်ကို စွဲလမ်းနှစ်သက်ခြင်းကို ဖေါ်ပြလေသည်။ နော်ဝေး၊ ဒိန်းမတ် စသော ဥရောပမြောက်ပိုင်းနိုင်ငံများ၏ ထုံးဟောင်းပုံပြင်များသည် စစ်သွေး စစ်စိတ်ကို ဖေါ်ပြသည်။ ဟိန္ဒူထုံးဟောင်းပုံပြင်များမှာကား အယူဝါဒ၏ ဆန်းကြယ်နက်နဲပုံကို ပြသလေသည်။ လူရိုင်းများ၏ ထုံးဟောင်းပုံပြင်များမှာမူကား ကမ္ဘာဦးလူတို့၏ စိတ်ကူးစိတ်သန်းကို ပြသည်။ အထက်ဖေါ်ပြပါ ထုံးဟောင်းပုံပြင်များအပြင် ထူးချွန်၍ အံ့သြဖွယ်ကောင်းသော လူတို့၏အဖြစ်အပျက်များအကြောင်းနှင့် စပ်လျဉ်း၍လည်း ထုံးဟောင်းပုံပြင်များ ဖြစ်ပေါ်တတ်လေသည်။ သို့ရာတွင် သိပ္ပံပညာပြန့်ပွားလာခြင်း၊ သမိုင်းဆရာများက တိကျ မှန်ကန်သည်ကို လိုလားခြင်းတို့ကြောင့် ထုံးဟောင်းပုံပြင်များ နောက်ထပ် ရှတ်တရက်မဖြစ်ပေါ်လာတော့ဘဲ၊ ရှေးဟောင်းပုံပြင်များကိုပင် ယုံကြည်မှုနည်းပါးလာကြလေသည်။

ထုံးဟောင်းပုံပြင်များသည် ရှေးခေတ်သမိုင်းနှင့် ရှေးခေတ်လူတို့၏ ဓလေ့ထုံးစံများ၊ ရှေးခေတ်က ထွန်းကားခဲ့သော လူမှုစံနစ်နှင့်ယဉ်ကျေးမှုများ စသည်တို့ကို လေ့လာရာတွင် များစွာပင် အထောက်အပံ့ပြုပေသည်။ လူမျိုးတမျိုး၏ ထုံးဟောင်းပုံပြင်များနှင့် အခြား လူမျိုးတမျိုး၏ ထုံးဟောင်းပုံပြင်များကို နှိုင်းရှည့်လေ့လာခြင်းဖြင့်လည်း မြော်မှန်း၍မကြည့်နိုင်သော ရှေးခေတ်ကာလက လူတမျိုးနှင့် တမျိုး ပြုလုပ်ခဲ့ကြသောအဆက်အသွယ်များနှင့် ထိုသူတို့၏ဆိုင်ရာ ယဉ်ကျေးမှုများကို သိရှိနိုင်ပေသည်။

ထိုအပြင် ထုံးဟောင်းပုံပြင်များသည် စာပေပညာကို လေ့လာရာတွင်လည်း များစွာအသုံးဝင်သေး၏။ ကျွန်ုပ်တို့ သင်ကြားလေ့လာနေရသော စာပေပညာရပ်များတွင် ထုံးဟောင်းပုံပြင်များ၌ ဥပမာရပ်များ၊ အထောက်အထားများကို ရံဖန်ရံခါတွေ့ရှိတတ်၏။ သို့ဖြစ်၍ ထုံးဟောင်းပုံပြင်များကို ကောင်းစွာသိရှိမထားခဲ့လျှင် စာပေပညာ၏ တန်ဖိုးကို ကောင်းစွာနားလည် သဘောပေါက်နိုင်ရန် ခဲယဉ်းပေလိမ့်မည်။

ထုံးဟောင်းပုံပြင်များတွင် တန်ခိုးကြီးသောနတ်များ၊ ဘီလူးကြီးများ၊ လှပချောမွေ့သော နတ်သမီးများ အကြောင်း ပါရှိတတ်ရာ၊ ယုတ္တိတန်သည်လည်း ရှိ၏။ ယုတ္တိမတန်သည်လည်း ရှိလေသည်။ အချို့ပုံပြင်များမှာ ကလေးသူငယ်များ၏ ရဲစွမ်းသတ္တိကို တိုးပွားစေ၍၊ အချို့ပုံပြင်များမှာ ကြောက်စိတ်ကို ဖြစ်ပေါ်စေ၏။ အချို့ပုံပြင်များမှာ ကြေကွဲဝမ်းနည်းစရာကောင်းသော သနားဖွယ် ဝတ္ထု ဇာတ်လမ်းများဖြစ်၏။ ထိုပုံပြင်များကို သင်ခန်းစာအဖြစ် လေ့လာစေခြင်းအားဖြင့် ကလေးသူငယ်များတွင် ဆိုးသော အကျင့်စာရိတများ ပပျောက်စေ၍ တကိုယ်ကောင်းမကြံလိုခြင်း၊ သူတပါး၏အကျိုးကို ဆောင်ရွက်လိုခြင်း၊ အမျိုးကို ချစ်ခင်လေးစားခြင်း၊ အယူဝါဒကို ရိုသေကိုင်းရှိုင်းခြင်း

အစရှိသော မြင့်မြတ်သည့်စိတ်ထားများ ကိန်းအောင်းအောင်ဆောင်ရွက်နိုင်လေသည်။

မြန်မာတို့တွင် ထုံးဟောင်းပုံပြင်များရှိသည်။ ယင်း ထုံးဟောင်းပုံပြင်များတွင် နတ်၊ နဂါး၊ ဂဠုန်၊ ကိန္နရာ ကိန္နရီ စသည်တို့ပါဝင်သည်။ မြန်မာ့ထုံးဟောင်းပုံပြင်များသည် မြန်မာလူမျိုးတို့၏ ဓလေ့ထုံးတမ်းများကို ဖော်ပြလေ့ရှိကြသည်။ နတ်၊ နဂါး၊ ဂဠုန်၊ ကိန္နရာ ကိန္နရီတို့ပါဝင်သော ထုံးဟောင်း ပုံပြင်များမှာ ကလေးများအတွက် စိတ်ပျော်ရွှင်ဖွယ်ရာ ပုံဝတ္ထုများ ဖြစ်ကြသည်။ သို့ရာတွင် စင်စစ်ကား စိတ်ပျော်ရွှင်မှုအတွက်ချည်းသာ မဟုတ်ဘဲ၊ အတုယူဖွယ်၊ မှိုငြမ်းကိုးကားဖွယ် သာဓကထုံးပုံများလည်း ဖြစ်ချေသည်။ ရှေးသူဟောင်း မြန်မာလူမျိုးများသည် ယင်းသို့သော ထုံးပုံများကို အထောက်အထား သက်သေသာဓကပြု၍၊ စီရင်ထုံးများကို ဆုံးဖြတ်ရာ၌ပင်လျှင် ကိုးကားခဲ့ကြသည်။ ပမာဆောင်ရသော်၊ မိမိ၏သဘောတူညီချက်ဖြင့် လာရောက်တည်းခို အိပ်စက်သော ဧည့်သည်၏ စီးပွားဉစ္စာပါသမျှတို့ကို အိမ်ရှင်က မပျောက်ပျက်အောင် ထိန်းသိမ်းတာဝန်ယူ၏။ ပျောက်ပျက်ခဲ့သော် အိမ်ရှင်က ပေးလျော်စေဟူသော တရားဖြတ်ထုံးကို စီရင်ရာ၌၊ 'ငါးကြင်းမျိုးတွင် တင်ကျီးအမျိုး ကူးသတည်း' ဟူသော ထုံးဟောင်းပုံပြင်ကို သာဓကပြုခဲ့ကြသည်။ ထိုထုံးဟောင်းပုံပြင်၏သဘောမှာ ငါးကြင်းသည် တင်ကျီး၏အိမ်၌ စားသောက်ယစ်မူး၍ အိပ်ပျော်စဉ်၊ တင်ကျီးသည် ငါးကြင်း၏အမျိုးကိုဖြတ်၍ သစ်ပင်ထက်၌တင်ထား၏။ ငါးကြင်းနိုးလတ်သော် အမျိုးပျောက်၍၊ တင်ကျီးနှင့်ခိုက်ရန်ဖြစ်ရာ၊ မဟာသမ္မတထံ အယူခံလေသည်။ မဟာသမ္မတလည်း အိမ်ရှင်တို့နှစ်သက်၍ လက်ခံပြီးလျှက်၊ ဧည့်သည်၏ဉစ္စာ သူ့အိမ်မှာပျောက်သော်၊ ခိုးသူကိုအပ်စေ၊ မအပ်နိုင်သော် အိမ်ရှင်ကလျော်စေဟု စီရင်၏။ ထိုစီရင်ချက်အရ အိမ်ရှင်တင်ကျီးသည် သူ၏အမျိုးကိုဖြတ်၍၊ ဧည့်သည်ငါးကြင်းအား ပေးလျော်ရလေသည်။ ထိုနည်းနှင်နှင်ပင် 'သံကိုကြွက်စား၊ သားကိုစွန်ချီ' ဟူသော ထုံးဟောင်းပုံပြင်၊ 'ပိုနေမြဲ ကျားနေမြဲ' ဟူသော ထုံးဟောင်းပုံပြင် အစရှိသည်တို့သည် ရှေးသူဟောင်း မြန်မာလူမျိုးတို့၏ တရားစီရင်ဆုံးဖြတ်ရာ၌ ကိုးကားသော သက်သေသာဓက ထုံးဟောင်းပုံပြင်များ ဖြစ်ပေသည်။

ယနေ့တိုင်ထင်ရှားသော အခြားမြန်မာ့ထုံးဟောင်းပုံပြင်အချို့မှာ ကမ္ဘာတည်စအကြောင်း ပုံပြင်၊ မအိပ်မနေ အသက်ရှည်၊ မေးပါများ စကားရ၊ သွားပါများ ခရီးရောက် ဟူသော မောင်ပေါက်ကျိုင်း ပုံပြင်၊ နေနတ်သားနှင့်နဂါးမတို့မှ ပေါက်ဖွားသော ပျူစောထီး ပုံပြင်၊ နဂါး၊ ဂဠုန် စသည့် သူတော် ၇ ဦးတို့ ဝိုင်းဝန်းကူညီကာ သရေခေတ္တရာပြည်ကြီးကို စတင်တည်ထောင်ခဲ့သည်ဟူသော ပုံပြင်၊ ဟံသာဝတီပြည်ကြီးကိုဝိဇ္ဇာဓိုရ်နှင့်နဂါးမတို့မှ ဖွားမြင်သော သမလမင်းတည်ထောင်ခဲ့သည့်အကြောင်း ပုံပြင် စသည်တို့ဖြစ်သည်။

**ထွေးလေး၊ ဒေါ်။** ။ဘိုးတော်ဘုရား၏ အဆက်အနွယ်ဖြစ်သော၊ ကသည်းမင်းသားကြီး မင်းသီဟနှင့် ယင်း၏နှစ်မတော်စပ်သည့် ကြင်ယာတော် မမကြီးတို့မှ ၁၂၂၉ ခုနှစ်တွင်၊ ကျောက်ဆည်ခရိုင်၊ အိုးတုတ်ကုန်းရွာ၌၊ မထွေးလေးကို မွေးဖွားခဲ့လေသည်။ ငယ်မည် ခင်ထွေးဖြစ်၏။ အသားညိုညို အရပ်ပျပ်ပျပ်၊ ကုလားဆင်ရှိသော ခင်ထွေး ငယ်စဉ် ၁၁ နှစ်ကျော်အရွယ်ကပင် ဖခင်က မိမိ၏သမီး အဆိုအကဝါသနာပါသည်ကို သိရှိသဖြင့်၊ အဆိုအကပညာကို လေ့လာစေခဲ့ရာ၊ ရနောင်မင်းသား ကြားသိတော်မူ၍၊ အသက် ၁၂ နှစ်အရွယ်၌ စံအိမ်တော်သို့ ခေါ်ဆောင်သွားကာ၊ များမကြာမီ ထိုမင်းသားကြီး ကောက်ယူတော်မူခြင်းကို ခံရလေသည်။

ရနောင်မင်းသားသည် မှုပြစ်မကင်း၍၊ ကြေးတိုက်တွင် ဖမ်းဆီးချုပ်နှောင်ထားခြင်းကို ခံရသည်တွင်၊ မိမိကိုယ်ကို ကတ်ကျေးဖြင့်ထိုး၍ အဆုံးစီရင်ပြီးသည့်နောက်၊ ခင်ထွေးသည် ဇာတ်မင်းသား ဦးဘိုးကွန်းနှင့် တွဲဖက်ကပြနေစဉ်၊ ၁၂၄၇ ခုနှစ်လောက်တွင် ဦးဘိုးကွန်းနှင့်လက်ဆက် ထိမ်းမြားခဲ့၏။ နှစ်အနည်းငယ်အတွင်းမှာပင် ဦးဘိုးကွန်းကွယ်လွန်သွားပြန်သဖြင့်၊ ဇာတ်မင်းသား အီကင်း ဦးမောင်ကြီးနှင့် လက်ဆက်ပြန်ပြီးလျှင်၊ ယင်းနှင့်ပင် တွဲ၍ကပြကာ၊ မြန်မာပြည် တဝန်းလုံး၌ ကျော်ကြားခဲ့လေသည်။

ငယ်စဉ်ကပင် ရနောင်မင်း၏လက်ထဲသို့ ရောက်ရှိခဲ့သဖြင့်၊ မိမိ၏ခင်ပွန်းများနှင့်တကွ အသက်အရွယ်ကြီးရင့်သူများက ခင်ထွေးအား 'မင်းခလေး' ဟု ခေါ်ဝေါ်လေ့ရှိကြသည်။ ဒေါ်ထွေးလေးသည် ယင်းနှင့်မရှေးမနှောင်း နာမည် ထင်ရှားခဲ့သော ဇာတ်မင်းသမီးများဖြစ်ကြသည့် ဒေါ်ကွန်းငုံ၊ ယင်းတော်မလေး၊ ဆင်ခိုးမကလေးနှင့် ကိန္နရာပျံတို့ကို ကောင်းစွာမှီလိုက်သူ ဖြစ်လေသည်။ (ယင်းတော်မလေး — ရှု။) (ဆင်ခိုးမကလေး — လည်းရှု။)

ဒေါ်ထွေးလေးသည် စာရေးဖတ်ခြင်း လုံးဝမတတ်သဖြင့် မြေဝိုင်းခေတ်တွင် သီချင်းများကို အခြားသူက အလွတ်ရအောင် နှုတ်ဖြင့်ပို့ချပေးခဲ့ရလေရာ၊ ဉာဏ်အလွန်ထက်မြက်လှသည်ဟုဆို၏။ ဇာတ်ခုံပေါ်တွင် ကားလိပ်ဖြင့်ကပြသော ခေတ်သို့ ရောက်သောအခါ၌၊ ကားလိပ်ကြားမှ 'စာပို့' က သီချင်းစာများကို ထောက်၍ပေးရသည်ဟု ဆိုလေသည်။ အဆိုအကကိုမူကား ကျွမ်းကျင်လှသဖြင့်၊ နာမည်အလွန်ကျော်ကြားခဲ့လေသည်။ ဒေါ်ထွေးလေးသည် လက်ညှိုးကလေးကို ကိုက်၍မူကာ ကတတ်သည်ဟုဆိုလေသည်။ ဒေါ်



ကိန္နရာက ကောင်းလှသော နာမည်ကျော် ဇာတ်မင်းသမီး
ဒေါ်ထွေးလေး

ထွေးလေးငယ်စဉ်က ထူးချွန်ခဲ့သောကကြိုးမှာ၊ ကိန္နရာက နှင့် အရုပ်ကြိုးကများဖြစ်၏။ သီချင်းဆိုရာ၌ မေးဝဲ မေးရိုက်တို့တွင် ဒေါ်ထွေးလေးကို မှီအောင်လိုက်နိုင်သူ မရှိ သလောက်ပင် ဖြစ်တော့သည်။ ထိုပြင် အသံနေအသံထား၊ ဆိုပုံပြောပုံ၊ လေယူလေသိမ်းမှာ၊ မဒီကိုင် ဆရာပုနှင့် ခွဲခြားမရလောက်အောင်ပင် တူလှသည်ဟု ဆိုလေသည်။ နောက်ပေါက်ဇာတ်မင်းသမီးများထဲတွင် ဒေါ်ထွေးလေးထံမှပညာ ဆည်းပူး တပည့်ခံသူ များ၍၊ နိုင်ငံကျော် ဇာတ်မင်းသမီးများ ဖြစ်လာကြသည်။ အမေထွေးတပည့်မဟုတ်လျှင်၊ မင်းသမီးရာ မဝင်သလောက် အထင်သေးကြလေသည်။

ဒေါ်ထွေးလေး ကပြသောဇာတ်များ အနက်၊ လူကြိုက်အများဆုံးဇာတ်မှာ 'မယ်ပဋ္ဌာ မောင်ဒါသဇာတ်' ဖြစ်၏။ သားသေလင်ဆုံး၊ လူလုံးမလှ အပူလုံးကြွ၍၊ အရူးမဖြစ်သွားသော အခန်းမှာ၊ သူမတူအောင် သရုပ်ပါလှသည်။ ဒေါ်ထွေးလေး၏ လူကြိုက်များသော အခြားဇာတ်ထုပ်တခုမှာ 'သုဓနု ဒွေးမယ်နော်' သို့မဟုတ် 'မယ်ရတ္တ ငွေတောင်ပြည်ပျံခန်း' ဖြစ်ရာ ကိန္နရာကကောင်းလှသော ဒေါ်ထွေးလေး နှင့် မယ်ရတ္တ ငွေတောင်ပြည်ပျံခန်းမှာ ကြည့်မငြီးသည့်ခန်းတွင်၊ အလွမ်းနှင့် ဖိထောင်းထားပြန်လေသည်။ (ဒွေးမယ်နော် — ရှု။)

ခင်ပွန်းသည် အီကင်း ဦးမောင်ကြီးသည် ဒေါ်ထွေးလေးနှင့် ၁၅ နှစ်မျှပေါင်းသင်းရပြီးနောက်၊ ကွယ်လွန် အနိစ္စရောက်သွားပြန်သဖြင့်၊ လင်သည် အီကင်း ဦးမောင်ကြီးအား ရည်စူး၍၊ မန္တလေးတောင်ခြေရှိ မဟာခေမိကာရာမ သစ်ဆိမ့်တိုက်အတွင်း၌ သီတင်းသုံးတော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားအား ခုနစ်ဆောင်ရှိ ကျောင်းကို ဆောက်လုပ်လှူဒါန်း၍၊ ဥာဏ်တော် ၃၇ တောင်ရှိသော လောကတန်ဆောင်စေတီကို တည်ထားပူဇော်ခဲ့လေသည်။ အီကင်း ဦးမောင်ကြီးရှိစဉ်က မလွန်းမယ် အမည်ရှိ မိန်းမငယ်တဦးကို မွေးစားခဲ့ရာ၊ ငယ်ရွယ်စဉ်ကပင် အနိစ္စရောက်ခဲ့လေသည်။

အီကင်း ဦးမောင်ကြီး ကွယ်လွန်အနိစ္စရောက်သွားသည့်နောက် ဒေါ်ထွေးလေးသည် အင်းဝ၊ ဇီးကန် — တောင်ပြုံး သူကြီး ဦးကြာညိုနှင့် လက်ဆက်ပေါင်းသင်းပြန်ရာ၊ အသက် ၆၁ နှစ်အရွယ်လောက်တွင်၊ ဦးကြာညို၏ လက်တွင်း၌ပင် အနိစ္စရောက်သွားလေသည်။

ဒေါ်ထွေးလေးသည် အဆိုအကတွင်သာ အထူး ကျွမ်းကျင်သည်မဟုတ်၊ တူရိယာအတီးအမှုတ်၌လည်း၊ ပတ္တလား၊ စောင်း၊ မိကျောင်းနှင့် ဘာဂျာတို့ကို အနည်းငယ်စီတီးနိုင်သည်ဟု ဆိုလေသည်။ ယင်းနှင့်တွဲခဲ့သော ဆိုင်းအဖွဲ့များမှာ ဆရာညိုနှင့်ဆရာစိမ့်တို့ ဖြစ်ပြီးလျှင်၊ လူရွှင်တော်များမှာ၊ ဦးစကဝါ၊ ဦးပိန်ညွှာနှင့် ကျားဦးတုတ်တို့ဖြစ်ကြလေသည်။ ဒေါ်ထွေးလေးနှင့်တခေတ်တည်း ပေါ်ထွက်ခဲ့သော ဇာတ်မင်းသမီးများမှာ မစိန်ဝေ၊ မစံရွှား၊ မပိုးယုနှင့် မဇော်ရိုက်တို့ ဖြစ်ကြလေသည်။

မြေဝိုင်းခေတ်မှကူးပြောင်း၍ ဇာတ်ခုံနှင့်ကပြခြင်းကို ဦးဘိုးကွန်းနှင့်ဒေါ်ထွေးလေးတို့ပင် ရှေးဦးပဌမ ဇာတ်ပွဲကို ရုံတင်သွင်း ကပြခဲ့ကြလေသည်။

**ထွင်ခြင်း။** ။ကနဦးက မရှိသေးသော ဝတ္ထုပစ္စည်းတို့ကို စတင်ဖန်တီးပြုလုပ်ခြင်းသည် ထွင်ခြင်းဖြစ်၏။ ယခုခေတ်တွင် လူ့အသုံးအဆောင် ပစ္စည်းအရပ်ရပ်တို့ကို လျင်မြန်လွယ်ကူစွာ ပြုလုပ်ပေးနိုင်သော စက်ကရိယာများကို အဓိကထား၍ တီထွင်ပြုလုပ်ကြသည်။

အသစ်အဆန်းကို ထွင်ခဲ့ကြသည့် ပုဂ္ဂိုလ်ကြီးများ၏ ဇွဲရှိပုံ၊ အဆင်းရဲခံရပုံ၊ အကဲ့ရဲ့ခံရပုံနှင့် နောက်ဆုံးတွင် ဆင်းရဲဒုက္ခများနှင့်တွေ့ကာ သေဆုံးကြရပုံများကိုသာလျှင် သိကြရပါမူ၊ ထိုပုဂ္ဂိုလ်ကြီးများ၏ စိတ်ထားမြင့်မြတ်မှုတို့ကို ခြီးကျူး၍ပင် ဆုံးနိုင်တော့မည်မဟုတ်ချေ။

သမိုင်းမတင်မီခေတ်တွင် လူတို့သည် မီးအသုံးချပုံများကို ထွင်ခဲ့ကြလေသည်။ ပုဆိန်၊ ဓား၊ ထယ် အစရှိသည့် အသုံးအဆောင် ကရိယာများကိုလည်း ထွင်ခဲ့ကြလေသည်။ လေး၊ မြား၊ ဓား၊ လှံ စသည့်လက်နက်များကိုလည်း ထွင်ခဲ့ကြလေသည်။ ထို့ပြင် လေနှင့် လှေကို လိုရာသို့သွားစေနိုင်သည့် ရွက်များကိုလည်း ကမ္ဘာအနှံ့အပြား၌ ထွင်ခဲ့ကြလေသည်။ အချို့ဒေသများ၌ သတ္တုကိုကျိုချ၍ လိုသောကရိယာများ ပြုလုပ်ခဲ့ကြလေသည်။ ရေကို လိုသည့်နေရာသို့ရောက်အောင် သွင်းယူနိုင်သည့် တူးမြောင်းများကိုလည်း ထွင်ခဲ့ကြလေသည်။ ဘီစီ ၃၀၀ ခန့်က ဂရိပညာရှိ အားခီးမီးဒီးသည် စက်သီးနှင့် ဝက်အူရစ်စံနစ်ဖြင့် ရေသွယ်နည်းကို ထွင်ခဲ့သည်။ ထို့နောက် စက္ကူ၊ ဖန်၊ အုတ်၊ ရေရဟတ်များကို ထွင်နိုင်ခဲ့ကြပြီးလျှင်၊ စာရေးခြင်းကိုလည်း ထွင်ခဲ့ကြလေသည်။ စက္ကူကို ခရစ် ၁၀၅ ခုနှစ်တွင် တရုပ်နိုင်ငံ၌ ဆိုင်လွန်ဆိုသူက တီထွင်ခဲ့သည်။ စာရေးသားခြင်းကို ထွင်ခဲ့ကြသည်မှ အစပြု၍ သမိုင်းတင်သော လုပ်ငန်းများလည်း စတင် ပေါ်ပေါက်လာတော့၏။

ဤသို့ အစဉ်အတိုင်း ထွင်လာခဲ့ကြပြီးနောက်၊ စာဟူ၍ ပေါ်လာသောအခါ၊ လူ့အသုံးအဆောင်အတွက် အရေးပါသော တီထွင်မှုများမှာ နည်းပါးသွားလေသည်။ သို့ရာတွင် ထွင်ခဲ့ပြီးဖြစ်သောပစ္စည်းများကိုသာ တိုးတက်ကောင်းမွန်အောင် ပြုပြင်ပေးခဲ့ကြလေသည်။ ယခင်သင်္ဘောများထက် ပို၍ကြီးသောသင်္ဘောများကို ဆောက်လုပ်ကြသည်။ ပိုမိုကောင်းမွန်သော အဝတ်အစားများကိုလည်း ရက်လုပ်ကြသည်။ ဤသို့ဖြစ်ရသည်မှာ စာရေးတတ်လာကြ၍၊ လူတို့၏ အာရုံသည် လူမှုရေးရာများ၊ စာပေများ၊ သမိုင်းများ၊ သိပ္ပံပညာရပ်များ၊ သဘာဝတ္ထဗေဒများသို့သာ ယိမ်းယိုင်လာဟန် လက္ခဏာရှိ၏။

ထူးခြားသော တီထွင်မှုများ မပေါ်ပေါက်ဘဲ၊ နှစ်ပေါင်း ၅၀၀ မျှကြာရှိခဲ့ပြီးနောက်၊ တဖန် ထွင်မှုများ ရှိလာပြန်သည်။ ခရစ် ၁၂၀၀ ပြည့်နှစ်ခန့်မှစ၍ သံလိုက်ဓာတ်ရှိသည့် အိမ်မြှောင်ကို ထွင်ကြသည်။ ထိုနှစ်လောက်မှာပင် ယမ်းကို ထွင်ကြပြီးလျှင်၊ ခရစ် ၁၄၅၀ ပြည့်နှစ်ခန့်တွင် ပုံနှိပ်စက်ကို ထွင်ကြလေသည်။ အချို့က ထိုပစ္စည်းကို တရုပ်နိုင်ငံ၌ ဦးစွာထွင်ခဲ့သည်ဟု ဆိုကြသည်။ အချို့ကမူ အနောက်နိုင်ငံများ၌ ပုံနှိပ်စက်ကို သီးခြားထွင်ယူကြသည်ဟု ဆိုကြသည်။ ထိုအချိန်လောက်မှစ၍ ထွင်မှုများ ပေါ်များလာပြန်ရာ၊ ၁၆၀၈ ခုနှစ်ခန့်တွင် ဒပ်ချလူမျိုး လစ်ပါဟိုင်းဆိုသူက အဝေးကြည့် မှန်ပြောင်းကို ထွင်၍၊ ၁၆၅၇ ခုနှစ်လောက်တွင် ဒပ်ချ လူမျိုး ဟိုင်ဂင်းဆိုသူက ချိန်သီးပါသည့်နာရီကို ထွင်လေသည်။ ၁၆၆၀ ပြည့်နှစ်ခန့်တွင် ဒပ်ချလူမျိုး လေးဗင်ဟုဆိုသူသည် မိုက္ကရိုစကုပ်ခေါ် အနီးကြည့် မှန်ဘီလူးကို၎င်း၊ ၁၇၆၉ ခုနှစ်တွင် စကော့လူမျိုး ဝပ်ဆိုသူက ရေနွေးငွေ့ အင်ဂျင်စက်ကို၎င်း၊ ၁၇၆၃–၇၉ ခုနှစ်များတွင် အင်္ဂလိပ်လူမျိုး ဖြစ်သော ဟားဂရီး၊ အတ်ကရိုက်နှင့် ကရွမ်တန်ဆိုသူတို့က စက်ရက်ကန်းကို၎င်း၊ ၁၇၈၅ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ကတ္တရိုက်ဆိုသူက လွန်းစက်ကို၎င်း၊ ၁၇၉၂ ခုနှစ်တွင် စကော့ လူမျိုး မားဒေါ့ဆိုသူက ဓာတ်ငွေ့ဖြင့် မီးထွန်းခြင်းကို၎င်း၊ ၁၈၀၁ ခုနှစ်တွင် ဆိုင်မင်တန်ဆိုသူက မီးသင်္ဘောကို၎င်း၊ ၁၈၁၄ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး စတီဖင်ဆန်ဆိုသူက မီးရထားကို၎င်း၊ ၁၈၃၁ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဖားရဒေးဆိုသူက လျှပ်စစ်မော်တော်နှင့်ဒိုင်နမိုကို၎င်း၊ ၁၈၃၂ ခုနှစ်တွင် အမေရိကန်လူမျိုး မကော့မစ်ဆိုသူက ကောက်ရိတ်စက်ကို၎င်း၊ ၁၈၃၇ ခုနှစ်တွင် ပြင်သစ်လူမျိုး ဒါဂဲဆိုသူက ဓာတ်ပုံရိုက်ခြင်းကို၎င်း၊ ၁၈၄၄ ခုနှစ်တွင် အမေရိကန်လူမျိုး မော့ဆိုသူက ကြေးနန်းရိုက်ခြင်းကို၎င်း၊ ၁၈၄၆ ခုနှစ်တွင် အမေရိကန်လူမျိုး ဟောင်းဆိုသူက အပ်ချုပ်စက်ကို၎င်း၊ ၁၈၇၆ ခုနှစ်တွင် စကော့လူမျိုး ဗဲဆိုသူက စကားပြောကြေးနန်းကို၎င်း၊ ၁၈၈၄ ခုနှစ်တွင် ဂျာမန်လူမျိုး မာဂင်တားလာဆိုသူက လက်နှိပ်စက်ကဲ့သို့ ရိုက်နှိပ်နိုင်သော လိုင်နိုတိုက်ခေါ် သည့် စာစီစက်ကို၎င်း၊ ၁၈၇၈ ခုနှစ်တွင် ဂျာမန် လူမျိုး အော့တိုးဆိုသူက ဓာတ်ငွေ့ အင်ဂျင်စက်ကို၎င်း၊ ၁၈၈၅ ခုနှစ်တွင် စပါလေဆိုသူက စက်ဘီးကို၎င်း၊ ၁၈၉၅ ခုနှစ်တွင် ဣတာလျံလူမျိုး မာကိုနီဆိုသူက ဝိုင်ယာလက်ခေါ် ကြိုးမဲ့ကြေးနန်းကို၎င်း အသီးအသီး ထွင်ခဲ့ကြလေသည်။

ခေတ်သစ် စက်ကရိယာအမျိုးမျိုးများနှင့် ထွင်ခဲ့ကြသည့် ပစ္စည်းများ၏စာရင်းကို ကောက်ယူမည်ဆိုလျှင် ဆုံးနိုင်မည်ပင် မဟုတ်ချေ။ ယင်းသို့ ထွင်ကြရာတွင် သိပ္ပံကဝိကြီးများသည် မည်သည့်အကျိုးကျေးဇူးကိုမျှ မမြော်လင့်ခဲ့ကြဘဲ၊ ကမ္ဘာသူ ကမ္ဘာသားများ၏ ဗဟုသုတတိုးပွားမှုကိုသာ ရည်ရွယ်ရင်း ရှိကြလေသည်။ တီထွင်မှုများကို မတရား အသုံးမပြုနိုင်ကြစေရန် တီထွင်သူများသည် မူပိုင်ခွင့်ကို . မှတ်ပုံတင်ထားကြရလေသည်။ ထိုသို့မှတ်ပုံတင်ရာတွင် တီထွင်မှုများ၏ အကြောင်းရင်းများကို အသေးစိတ်အားဖြင့် ဖော်ပြကြရလေသည်။

ထို့နောက် မော်တော်ကားများ၊ ရေငုပ်သင်္ဘောများ၊ လေယာဉ်ပျံများနှင့် ဓာတုဗေဒနည်းဖြင့် ခွဲစိတ်ကြည့်ရှုနိုင်သောကရိယာများကိုလည်း ထွင်လာခဲ့ကြပြီးလျှင်၊ တိကျမှန်ကန်စွာ တိုင်းတာနိုင်သည့် နည်းများကိုလည်း ထွင်ခဲ့ကြလေသည်။ ထို့ပြင် သာမျှန်နစ်ဗားခေါ် လေဟာပြွန်ကိုလည်း ထွင်ခဲ့ကြသေး၏။ ထိုလေဟာပြွန်ကိုသာ မထွင်နိုင်ကြလျှင်၊ ဝိုင်ယာလက်နည်း (ကြိုးမဲ့ကြေးနန်း) ဖြင့် ပေးပို့ကြသည့် သတင်းများသည် ယခုကဲ့သို့ တိကျမှန်ကန်နိုင်ကြမည်

မဟုတ်ချေ။ ယခုအခါ လိုလေသေးမရှိ ခေတ်မီစွာ နေထိုင်နိုင်ကြခြင်းမှာလည်း၊ အထက်ဖေါ်ပြပါ အရင်းခံ တီထွင်မှုများကို ပို၍ကောင်းမွန်အောင် ပြုပြင်နိုင်ခဲ့ခြင်းကြောင့်ပင် ဖြစ်လေသည်။

ပဌမအစတွင် လူများသည် ထိုတီထွင်မှုတို့၏ အကျိုးများကို မသိခဲ့ကြချေ။ အထည်ရက် စက်များ၊ ခြည်မျှင်ငင် စက်များကို တီထွင်လိုက်သောအခါ၊ လက်ဖြင့် ပင်ပန်းကြီးစွာ လုပ်ကိုင်ရသူတို့က ငါတို့၏ထမင်းအိုးကို ခွဲမည့်ကရိယာများ ဖြစ်သည်ဟု အထင်မှားကာ၊ ထိုတီထွင်လိုက်သည့် ကရိယာများကို ရိုက်ချိုးခဲ့ဘူးလေသည်။ စက်မှုကရိယာများကို တီထွင်လိုက်သည့်အတွက် ရရှိသောအကျိုးကို လူတို့ကောင်းစွာသိအပ်လှပေသည်။ ရှေးက လူအများ လုပ်ကိုင်လာခဲ့ရသော အလုပ်တခုကို ယခုအခါ လူအနည်းငယ်လောက်နှင့် ပစ္စည်းမြောက်မြားစွာထွက်အောင် လုပ်ကိုင်နိုင်ကြသည်။ အလုပ်လက်မဲ့များ ရှိနိုင်သည်မှန်သော်လည်း၊ ကမ္ဘာ့လူဦးရေသည် အမြဲတည်နေသည်မဟုတ်၊ တိုးတက် များပြားလျက်ရှိသည်ကိုလည်း သတိမူအပ်လှပေသည်။ ယခုကမ္ဘာ့လူဦးရေသည် လွန်ခဲ့သော နှစ်ပေါင်း သုံးရာလောက်က လူဦးရေထက် လေးဆမျှ များပြားလာ၏။ ခရစ် ၁၆၅၀ ပြည့်နှစ်တွင် ကမ္ဘာ့လူဦးရေသည် ၅၄၅ သန်းမျှသာ ရှိ၍၊ ၁၉၃၃ ခုနှစ်တွင် ၂၀၅၇ သန်းအထိ တိုးတက်လာပြီးလျှင်၊ ၁၉၄၀ ပြည့်နှစ်တွင်ကား ၂၁၇၄ သန်းအထိ ရှိလာလေသည်။ ထိုသို့တိုးတက်လျက်ရှိသည့် လူဦးရေများသည် လွယ်လင့်တကူ စားသောက်နေထိုင်သွားနိုင်ရန်မှာ အထက်ဖေါ်ပြပါ ကရိယာများရှိရန် လိုအပ်လှပေသည်။ ထိုပစ္စည်းများကိုသာ မထွင်နိုင်ခဲ့လျှင်၊ လူများ၏ နေမှု ထိုင်မှု ဝတ်မှု စားမှု၊ သွားမှု လာမှု၊ ဆက်ဆံမှုများမှာ ယခုအခြေ၌ ရှိသကဲ့သို့ ရှိနိုင်ကြမည်မဟုတ်တော့ပေ။

ခြည်များကို ငင်ပေးနိုင်သည့် စက်များနှင့် ထိုခြည်မျှင်များကို အထည်ဖြစ်အောင်ရက်ပေးကြသော စက်များသာ မရှိခဲ့ပါမူ၊ ယခုကဲ့သို့တိုးတက်လျက်ရှိသည့် လူဦးရေသည် အဝတ်အစားများအတွက် များစွာပင် ဒုက္ခရောက်ကြရမည်မှာ မလွဲနိုင်တော့ချေ။ ယခုအခါ မိုင်ပေါင်းများစွာ ဝေးကွာသော ခရီးကို ကိုယ်တိုင်သွားလာရန် မလိုတော့ဘဲ၊ တီထွင်မှုများ၏ အကျိုးများကြောင့် နေရာမထ လိုရာသို့ စကားပြော ကြေးနန်းများဖြင့်၊ လိုအပ်သည့်ကိစ္စများကို ဆောင်ရွက်လုပ်ကိုင်နိုင်ကြလေပြီ။ ရှေးအခါက ရန်ကုန်မှ မန္တလေးမြို့သို့ သွားလိုသူတဦးသည် တလနီးပါးမျှကြာအောင် သွားခဲ့ရသည်။ ယခုအခါတွင်ကား နေ့ချင်းပေါက် သွားနိုင်လေပြီ။ တောင်အမေရိကတိုက်နှင့် နယူးဇီလန်ကျွန်းမှ အမဲသားနှင့်သိုးသားကို အင်္ဂလန်ပြည်ရှိ လူများသည် ပကတိ လတ်လတ်ဆတ်ဆတ် စားသုံးနိုင်ကြခြင်းမှာလည်း၊ တင်ဆောင်ယူသွားသည့်သင်္ဘောကြီးများတွင် စက်ဖြင့် အအေးခန်းများထားရှိနိုင်ခြင်းကြောင့်သာ ဖြစ်ပေသည်။ ဝိုင်ယာလက်ခေါ် ကြိုးမဲ့ကြေးနန်းများကို တီထွင်လိုက်ခြင်းကြောင့်၊ ကမ္ဘာအရပ်ရပ်ရှိ သတင်းမျိုးစုံကို ကြားသိလာနိုင်လေသည်။ ဓာတ်ငွေ့မီးနှင့် လျှပ်စစ်ဓာတ်မီးကိုသာ မတီထွင်ခဲ့လျှင်၊ ညအခါ မြို့ကြီးများတွင် ယခုလောက် ဓာတ်မီးလင်းလျက် ရှိလိမ့်မည် မဟုတ်ချေ။

ယခုခေတ်အလျောက် လူတို့နေထိုင်စားသောက်နိုင်ကြခြင်းမှာ ပညာရှင်ကြီးများ၏ တီထွင်မှုများကြောင့်သာလျှင် ဖြစ်သည်ဟု ဆိုနိုင်ပေသည်။ ထိုပညာရှင်ကြီးများကို ကျေးဇူးများစွာ တင်ထိုက်ပေသည်။ လူအများ ချမ်းသာမှု ရှိရေးအတွက် စက်မှုကရိယာများကို တီထွင်ခဲ့သော်လည်း၊ နောက်ဆုံးတွင် မိတ်သင်္ဂဟမရှိ၊ ဆင်းရဲကြီးစွာဖြင့် သေသွားရှာရသော ပညာရှင်ကြီးများလည်း အများပင် ရှိခဲ့လေသည်။ အချို့သောပညာရှင်ကြီးများသည် မိမိတို့ကြံစည်တီထွင်ခဲ့သော ကရိယာများကြောင့် ချမ်းသာကြွယ်ဝခဲ့ကြလေသည်။

ကျောက်မီးသွေးဓာတ်ငွေ့ဖြင့် ပဌမဦးဆုံး မီးထွန်းခဲ့သော စကော့လူမျိုး ဝီလျံ မားဒေါ့ဆိုသူသည် မိမိကြံစည် အားထုတ်မှုအတွက် အကျိုးကျေးဇူးကို မခံစားရသည်သာမက၊ အပြစ်တင် ကဲ့ရဲ့ခြင်းကိုပင် ခံရလေသည်။ လူအများက ထိုဓာတ်ငွေ့သည် လူကိုသေစေလိမ့်မည်ဟူ၍ အကြောင်းပြကာ ကန့်ကွက်ကြလေသည်။ အပ်ချုပ်စက်ကို တီထွင်ခဲ့သူသည်လည်း ထိုနည်းတူစွာ အပြစ်တင် ကဲ့ရဲ့ခြင်းကို ခံခဲ့ရလေသည်။ သို့သော် နောက်ဆုံးတွင် သူ၏စက်သည် အသုံးဝင်လာသဖြင့်၊ ကံကောင်းထောက်မသောကြောင့်၊ ပိုက်ဆံကြေးငွေ များစွာ ရရှိခဲ့လေသည်။ ဓာတ်ငွေ့မီး စတင်ထွန်းခဲ့သော မားဒေါ့သည် မော်တော်ကားကိုလည်း တီထွင်ခဲ့သေး၏။ ထိုအခါက မော်တော်ကားသည် ရေနွေးငွေ့ဖြင့် သွားသည့် ကစားစရာစက်လောက်သာ ဖြစ်သေးသည်။

၂၀ ရာစုနှစ်သည်ကား အလွန်ပင် အံ့ဩဖွယ်ကောင်းလှသည့် တီထွင်မှုများ တိုးတက်လျက်ရှိသောခေတ်ပင် ဖြစ်၏။ ယခုအချိန်တွင် ရေဒီယိုနှင့်တယ်လီဗစ်ရှင်း (ရုပ်လှင့်ရုပ်ဖမ်းစက်) များ ပေါ်ပေါက်လျက်ရှိရာ၊ ကမ္ဘာအရပ်ရပ်မှ သတင်းထူးများနှင့် ဖြစ်ပျက်ပုံများကို တခဏခြင်း မျက်ဝါးထင်ထင် ကြားရမြင်ရနိုင်လေသည်။ ရှေ့အဖို့ မည်သည့် တီထွင်မှုများ ပေါ်ပေါက်လာဦးမည်ကို မတွေးတောနိုင်အောင်ပင် ရှိလေသည်။ အနုမြူ၏ အင်အားကို ရှာဖွေတွေ့ရှိထားသော ဤခေတ်၌ အနုမြူအင်အားကို လူ့အကျိုးအတွက် အသုံးချရန်အလို့ငှာ တီထွင်မှုအမျိုးမျိုးတို့သည် ပေါ်ပေါက်လျက်ရှိနေသည်။

**ထွင့်ခေါင်ဆရာတော်။** ။ထွင့်ခေါင်ဆရာတော်သည် ဟင်္သာတ ခရိုင်၊ လေးမျက်နှာမြို့အနီး၊ မြင်းကုန်းရွာ၌၊ လယ်ရှင် ဖြစ်သော ဦးလူကြီး၊ ဒေါ်မေတို့မှ သက္ကရာဇ် ၁၁၆၀ ပြည့်နှစ် တပေါင်းလပြည့် အင်္ဂါနေ့ နံနက်တွင် ဖွားမြင်သည်။ ငယ်မည် မောင်စိုဟုတွင်၏။ သက္ကရာဇ် ၁၁၇၃ ခုနှစ် မောင်စို၏အသက် ၁၃ နှစ်အရွယ်တွင်၊ အင်းဝမြို့မှ မန်ကျည်းတောဆရာတော် ကြွတော်မူလာ၍၊ လေးမျက်နှာမြို့နယ်ငါးတရော်ကျွဲခေါင်းကျောင်း၌ ခေတ္တ သီတင်းသုံးနေတော်မူခိုက်ဝယ်၊ ထိုဆရာတော်ကြီးအထံ၌ သာမဏေရ ပဗ္ဗဇ္ဇမင်္ဂလာကို ခံယူလေသည်။ ရှင် သာမဏေဘွဲ့မှာ ဉာဏ ဝံသ ဖြစ်သည်။

မန်ကျည်းတောဆရာတော် အင်းဝသို့ ပြန်ကြွတော်မူသောအခါ၊ ရှင် ဉာဏ ဝံသသည် ဥပဇ္ဈာယ်ဆရာမြတ်နှင့် အတူ စာပေသင်ကြားလိုသောကြောင့်၊ အင်းဝသို့ လိုက်ပါသွားလေသည်။ ရှင် ဉာဏ ဝံသသည် စာပေကို အထူး ကြိုးစား သင်ကြားရာ၊ ရှင်သာမဏေဖြစ်လျက် သင်ရိုးစာပေများကို ပေါက်ရောက်၍၊ ကြည်ညိုဖွယ်ရှိလောက်အောင် ကိုယ်နှုတ်တည်ငြိမ် ဣန္ဒြိယ သံဝရ သီလနှင့် ပြည့်စုံလေသည်။ ထိုကြောင့် နောင်အခါတွင် ဘကြီးတော်မင်းဟု ထင်ရှားလတ္တံ့သော ဘိုးတော် ဗဒုံမင်းတရား၏မြေးတော်၊ အိမ်ရှေ့မင်း၏ မိဖုရားက ပစ္စည်း ၄ ပါးတို့ဖြင့် ထောက်ပင့်ချီးမြှင့်ခြင်းကို ခံယူရလေသည်။

ထိုနောက် ဘကြီးတော်မင်းတရားလက်ထက် သက္ကရာဇ် ၁၁၈၀ ပြည့်နှစ်၌ ရှင် ဉာဏ ဝံသသည် သာမဏေအဖြစ်နှင့်ပင်လျှင်၊ သုဓမ္မာ ပဌမပြန် ပွဲကြီး၌ ပဌမကျော် အောင်မြင်လေသည်။ ထိုအခါတွင် မိဖုရားခေါင်ကြီးက ရှင်ဉာဏဝံသ၏ ဆွေမျိုးသားချင်းတို့ကို နေပြည်တော်သို့ခေါ် ယူကာ၊ ချမ်းသာအောင် ချီးမြှောက်ထောက်မထားခဲ့လေသည်။

မိဖုရားခေါင်ကြီးသည်ပင် ပဥ္စင်းဒါယိကာမပြု၍ ပစ္စည်း ပရိက္ခရာတို့ဖြင့် လှူဒါန်းကာ၊ မန်ကျည်းတောဆရာတော်က ဥပဇ္ဈာယ်ဆရာအဖြစ်ဖြင့် ချီးမြှောက်တော်မူအပ်သောကြောင့်၊ မန်ကျည်းတောကျောင်းတိုက်၌ပင်လျှင် ရှင် ဉာဏ ဝံသသည် ၁၁၈၁ ခုနှစ်၌ ရဟန်းမြတ်အဖြစ်သို့ ကူးမြောက်လေသည်။ ရဟန်းအဖြစ်သို့ ရောက်ပြီးသည့်နောက်၊ ရှစ်ဝါ ပတ်လုံး ပရိယတ္တိသာသနာ ဂန္ထ ဓုရကို ဆက်လက် အားသွန် ဆောင်ရွက်တော်မူ၍၊ မန်ကျည်းတောဆရာတော်ကြီးထံမှ နည်းနိသျယူတော်မူပြီးလျှင်၊ ၁၁၈၈ ခုနှစ်တွင်၊ မင်းဝံတောင်၏ အနောက်တောင်ခြေ၌တည်ရှိသော စည်းခုံစေတီတော်ကြီး၏ အနီးသို့ ကြွရောက် တောရဆောက်တည်တော်မူသည်။ ထိုနောက် မကြာမီ မင်းဝံတောင်ရိုးပေါ်၌တည်ရှိသော ရတနာထွင့်ခေါင်စေတီတော်မြတ်အနီးသို့ ကြွရောက်ရွှေ့ပြောင်း သီတင်းသုံးတော်မူလေသည်။ ထိုသို့ ရတနာထွင့်ခေါင်စေတီတော်အနီး၌ သီတင်းသုံး နေတော်မူသည်မှ စ၍၊ ရတနာထွင့်ခေါင်ဆရာတော်၊ အလွယ်အားဖြင့် ထွင့်ခေါင် ဆရာတော်ဟူ၍ ခေါ်ဝေါ်ကြလေသည်။

ထွင့်ခေါင် ဆ ရာ တော် သည် ထွင့်ခေါင်တောရကျောင်းမှ အနောက်မြောက် မြန်မာ ၂ တိုင်ခန့်ကွာသော မြင်းမွေးတောရကျောင်း၌၎င်း၊ လက်လုပ် တောရ၊ ပေါက်တောကန်တောရ၊ ပဲကတိုး တောရကျောင်းများ၌၎င်း လှည့်၍ သီတင်းသုံးတော်မူလေသည်။ ယင်းသို့လျှင် ထွင့်ခေါင်ဆရာတော်သည် ရဟန်းသိက္ခာတော်ရှစ်ဝါမှစ၍၊ အရညကင်တောခိုဝင်အောင်းလျက်၊ ဧကစာရီသီတင်းသုံးတော်မူခဲ့ရာ၊ ပုဂံမင်းလက်ထက် သက္ကရာဇ် ၁၂၀၀ ခုနှစ်၌ ပုဂံမင်းညီတော်များဖြစ်သော မင်းတုန်းမြို့စား၊ ကနောင်မြို့စား မင်းညီ မင်းသား ညီနောင်တို့သည် ရွှေဘိုသို့ထွက်ကြရာတွင်၊ ထွင့်ခေါင်ဆရာတော်ကို ဖူးမြော် တရားတော်ကို နာကြားရသဖြင့်၊ သဒ္ဓါတရားဖြစ်ပေါ်ကာ၊ တောချုံပုပ္ပေါင်းထူထပ်၍ လူသွားလူလာနည်းပါးသော ဆင်မချောင်ရွာနှ၌ ညီနောင်နှစ်ဦးတို့သည် ကျောက်တုံးကျောက်ခဲများကို ကိုယ်တိုင်ထမ်းပိုး ရှင်းလင်းသုတ်သင်ပြီးလျှင်၊ နောင်တော်က ဘုံသုံးဆင့်နှင့် ကျောင်းမကိုရှင်း၊ ညီတော်က စကြံန်ကျောင်းကိုရှင်း ဆောက်လုပ်လှူဒါန်းကြ၏။ ဆင်မချောင်ခေါ်သည်မှာ ထိုရွာနှ၌ တောင်ကြီးနှစ်ခုတို့အကြားရှိ၊ တောချုံသစ်ပင်များ ထူထပ်စွာ ပေါက်ရောက်လျက်ရှိသော ရှိုမြောင်ကြီးအတွင်း ဘုရင့်ဆင်မများကို လွှတ်ကျောင်းသောကြောင့် ဖြစ်သည်ဟု ဆိုလေသည်။

၁၂၁၄ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီး အထွတ်အမြတ်သို့ ရောက်တော်မူပြီးသောအခါ၊ ထွင့်ခေါင်ဆရာတော်အားရွှေနန်းတော်သို့ပင့်၍၊ ရာဇဂုရုခတ်နှိပ်သော မင်းဆရာ တံဆိပ်တော်ကို လှူဒါန်းရာ၊ 'ဤတံဆိပ်တုံးသည် အသုံးမကျချေ။ ငါသေလျှင် တံဆိပ်တုံးကြီးကို ခေါင်းအုံးနံဘေး ချထားမည်ကို ငါရှက်နိုးလှသည်' ဟု ပယ်တော်မူ၍၊ ကျောင်းသို့ ပြန်ကြွလာခဲ့သည်ဟူ၏။ သို့လင့်ကစား မင်းတုန်းမင်းတရားကြီးသည် သဒ္ဓါဟုန်တိုးကြွ၊ အလွန်လျှင်မြတ်နိုး ကြည်ညိုတော်မူလှသည်နှင့် ပစ္စည်းလေးပါးအလိုငှာ ဝတ်မိုး ဝတ်မြေများကို လှူတော်မူသည်။ ဆင်မချောင်ကိုလည်း ဓမ္မိကချောင်ဟု ကျောက်စာကမ္ပည်း စိုက်ထူပြီးလျှင်၊ အခိုင်အမာ ပြုပြင်လှူဒါန်းလေသည်။ ဘုရင်မင်းမြတ်သာလျှင်မဟုတ်၊ မင်းမိဖုရား၊ မှူးမတ်ကြီးငယ်တို့သည်လည်း ကြည်ညို ဆည်းကပ်၍၊ ဆောက်လုပ်လှူဒါန်းအပ်သော အဆောက်အဦတို့ကား များလှစွာ၏။

ဓမ္မိကချောင်၌ ဝိပဿနာ ဓုရာဝဟဖြစ်ကုန်သော ပဋိပတ္တိသာသနဝန်ထမ်း ရဟန်းသံဃာတော် သုံးရာကျော်ရှိသည့်ပြင်၊ လူသူလေးပါးတို့နှင့် ရောပြွမ်းထွေးရှက် ဝင်ထွက် သွား

လာခြင်းတို့ဖြင့် ဝိဝေက မရလောက်အောင် စည်ကား ပြည့်သိပ်လာသည်ဖြစ်၍၊ ထွဋ်ခေါင်ဆရာတော်သည် ဝါလနီးတိုင်း ဓမ္မိကချောင်မှ မြောက် မြန်မာ ၆ တိုင်ဝေးကွာသော မင်းကွန်း ရွှေမြင်တင်တောင်သို့ ကြွရောက်၍ ဝါကပ်တော်မူလေသည်။

ယင်းသို့လျှင် မင်းတရားကြီးနှင့်တကွ နန်းသူနန်းသားတို့မှ စ၍ တိုင်းသူပြည်သား ဒါယကာ၊ ဒါယိကာမတို့သည် ပစ္စည်းလေးပါးဖြင့် ထောက်ပံ့လှူဒါန်းလျက်၊ ရှန်းရှန်းတောက် ပြည့်ဝချမ်းသာ ဘုန်းကံကြီးမားတော်မူစွာနှင့် ဝိပဿနာဓူရကို ထမ်းဆောင်တော်မူခဲ့ရာ၊ သက်တော် ဂ၁ နှစ် ရဟန်းသိက္ခာဝါတော် ၆၁ ဝါရ၊ သက္ကရာဇ် ၁၂၄၂ ခုနှစ် ပဉ္စမဝါဆိုလဆန်း ၁ ရက်နေ့ နံနက် မြန်မာတချက်တီး အချိန်တွင် ခန္ဓာကမ္မဇရုပ် ချုပ်ငြိမ်းကာ ဘဝပြောင်းတော်မူလေသည်။

ထွဋ်ခေါင်ဆရာတော်သည် ပါမောဇ္ဇကျမ်းပေါင်း ၁၃ ကျမ်း ရေးသားတော်မူခဲ့သော်လည်း၊ ပြန်လွန်တော်မူသောအခါ အချို့ကျမ်းများ ပျောက်ဆုံးကုန်သဖြင့်၊ (၁) ရာဇပါမောဇ္ဇကျမ်း (မင်းတုန်းမင်းတရားကြီး တောင်းပန်လျှောက်ထား၍ ရေးသားစီရင်သည်။) (၂) ဓမ္မ ပါမောဇ္ဇကျမ်း၊ (၃) ပကိဏ္ဏက ပါမောဇ္ဇကျမ်း၊ (၄) ပီတိ ပါမောဇ္ဇကျမ်း၊ (၅) သံဝေဂ ပါမောဇ္ဇကျမ်း၊ (၆) အဇ္ဈာသယ ပါမောဇ္ဇကျမ်း၊ (၇) သမန္တ ပါမောဇ္ဇကျမ်း၊ (၈) သာဓုဇန ပါမောဇ္ဇကျမ်းတို့သာ ယခုထင်ရှားရှိတော့၏။ ရှင်လူ အများတို့သည်ကား ကမ္မဋ္ဌာန်းလင်္ကာမျှလောက်ကိုသာ သိကြလေသည်။ (ဆရာတော်များ — ရှု။)

**ထွန်းညို၊ ဦး၊ တွင်းသင်းတိုက်ဝန် မဟာစည်သူ။** ။ ဦးထွန်းညိုသည် ၁၀ဂဂ ခုနှစ်တွင် မောင်းထောင်ကြီးရွာ၌ ဖွားမြင်သည်။ စိန္တကျော်သူဦးညြိ၏မိခင် ဒေါ်ပုနှင့် မောင်နှစ်မတော်သည်။ ဟံသာဝတီပါ မင်းတရားကြီးလက်ထက်တွင် သာသနာ့ဘောင်၌ ရဟန်းအဖြစ်ဖြင့် ထမ်းရွက်နေခဲ့ရာ၊ ရတနာသိင်္ဃကုန်းဘောင်မြို့ကို အလောင်းမင်းတရား တည်ထောင်သောအခါ၌ ရဟန်းဝါ များစွာရင့်လျက်ရှိလေပြီ။ သို့သော် အလောင်းမင်းတရားထံ ဝင်ရောက်အမှုထမ်းရန် အတွက် ရဟန်းဘောင်မှထွက်ခဲ့သည်။ အလောင်းမင်းတရားလည်း ဦးထွန်းညိုကို သားတော် ဗဒုံမြို့စားထံတွင် ဆရာ အဖြစ်ဖြင့် ထမ်းရွက်စေသည်။ ဗဒုံမြို့စား ဘိုးတော်မင်းတရားကြီး အထွတ်အမြတ်သို့ရောက်သောအခါ ဦးထွန်းညိုကို မဟာ သိင်္ခယာဘွဲ့ ပေးအပ်၍၊ ကျီဝန်ရာထူးဖြင့် ချီးမြှောက်တော်မူသည်။ ထိုကာခါ၌ ငရဲ မင်းပျို့၊ မုဒုလက္ခဏပျို့၊ မဟော် ကျေးစေခန်းပျို့၊ ဥမင်ခန်းပျို့၊ ဇယဒိသပျို့၊ ဝိဓူရပျို့၊ ဝေဿန္တရာပျို့၊ ဘလ္လာတိယပျို့နှင့် ဇနကပျို့ ဟူသော



တွင်းသင်းတိုက်ဝန် မဟာစည်သူ ဦးထွန်းညို
(ရွှေနန်းလက်သုံးပုံ ပုရပိုက်မှ)

ပျို့အစောင်စောင်ကို ရေးသားလေသည်။ မနုဝဏ္ဏနာ ဓမ္မသတ် လင်္ကာ၊ ပုဏ္ဏရိက ဆင်တော်မော်ကွန်း၊ မင်းကွန်းဖွဲ့ မော်ကွန်း၊ အမရပူရမြို့ဖွဲ့ မော်ကွန်းများကိုလည်းရေးသည်။ မျှားမကြာမီပင် မဟာစည်သူဘွဲ့နှင့် တွင်းသင်းတိုက်ဝန် ခန့်ထားခြင်းခံရလေသည်။ ပုခန်းမင်းကြီး မရှိသောအခါ ပုခန်းမင်းကြီးနေရာကိုရ၍၊ ပတ္တမြားသုံးရစ်စီသော တောင်ဝှေးများကို ပေးသနားတော်မူခြင်း ခံရ၏။

အထက်ပါပျို့လင်္ကာမော်ကွန်းများအပြင် မဟာရာဇဝင်သစ်ကြီး၊ သတ်ညွှန်းကြီး၊ ဝိဘဇ္ဇ ဥပိတ ခွဲထားသတ်ပုံ၊ လူးတားများ၊ ရတုများကိုလည်း ရေးသားလေသည်။ ဝိဓူရပျို့မှာ စာဆိုတော်ဝန်ကြီးရေးသားသော ပျို့များတွင် ထင်ရှားကျော်စောသော ပျို့တစောင်ဖြစ်သည်။ ထိုပျို့တွင် မှူးကြီး မတ်ရာ သေနာပတိတည်းဟူသော မင်းမှုထမ်းတို့၏ ကျင့်ဝတ်တို့ကို ရာဇဝသတီခန်းဖြင့် ဖွင့်ဆိုပြခဲ့လေသည်။ ထိုပျို့ကို ၁၁၅၄ ခုနှစ်တွင် အပြီးရေးသားသည်။ ထိုနှစ်တွင်ပင် အမတ်ကြီးသည် သမီးတော် အိမ်ရှေ့မိဖုရားကြီး တောင်းပန်သဖြင့် ဘလ္လာတိယပျို့ကိုရေးသားသည်။ ထိုပျို့သည် ဝိဓူရပျို့ကဲ့သို့ ရာဇကြောင်းဖက်ကို မနွယ်ဘဲ၊ လောကကြောင်းဖက်ကို နွယ်၍ ရေးသားထား၏။ ဝန်ကြီးသည် ဆိုလိုသည့် အကြောင်းအရာများကို အနက်အဓိပ္ပါယ်ပေါ်အောင် စပ်

ဆိုနိုင်သဖြင့်၊ သူရေးသားသော စာများသည် အတ္ထုပ္ပတ္တိဂုဏ် မြောက်ပေသည်။

ဘလ္လာတိယပျို့ကို စပ်ဆိုပြီးနောက် ၁၁၆၀ ပြည့်နှစ်တွင် ဝေဿန္တရာပျို့ကို စပ်ဆိုပြန်သည်။ ထိုအချိန်၌ကား ဝန်ကြီးသည် အသက် ၇၂ နှစ်ရှိနေလေပြီ။ အသက်အရွယ် ကြီးရင့်မှ ရေးသားသောပျို့ဖြစ်၍၊ ဗဟုသုတ စုံလင်ပြည့်ဝသည့်ပြင်၊ ဓမ္မကြောင်းဖက်ကို များစွာနွှယ်၍ ရေးလေသည်။ ၁၁၆၇ ခု အသက် ၈၀ ပြည့်သည့်နှစ်တွင် မဟာဇနကပျို့ကို ရေးသားလေသည်။ ထိုပျို့သည် ဝိဓူရပျို့ထက်ပင် ဗဟုသုတ ပြည့်ဝစုံလင်သည့်ပြင် လောက၊ ဓမ္မ၊ ရာဇ သုံးကြောင်းစလုံး ပါအောင် ဖွဲ့ဆိုထား၏။ တရားခန်းကို အမှန်းတင်၍ ရေးသားထားသဖြင့်၊ ဤပျို့မှာ ဝန်ကြီးရေးသားသောပျို့များတွင် အကောင်းဆုံးပျို့ဟု မှတ်တမ်းတင်ကြ၏။ တွင်းသင်းတိုက်ဝန် မဟာစည်သူသည် သက်ရွယ်အိုမင်း၍ မစွမ်းမသန်ဖြစ်သောအခါ၊ ဘိုးတော်မင်းတရားကြီးသည် ယင်းပုဂ္ဂိုလ်ကြီးအား နန်းတော်ရာအတွင်း တံခါးနီးအထိ ပေါင်းယာဉ်စီး၍ ဝင်နိုင်ရန် အခွင့်ပေးတော်မူလေသည်။

**ထွန်းရှိန်၊ ဦး**။ (မြန်မာ ၁၂၅၂-၁၂၈၂)။ ။တခေတ်က မြန်မာနိုင်ငံလွှတ်လပ်ရေးကြိုးပမ်းမှုတွင် ဖေ၊ ပု၊ ရှိန် ဟူသော အမည်သည် လွန်စွာထင်ရှားခဲ့သည်။ ဖေနှင့်ပုမှာ ဦးဘဖေနှင့် ဦးပုတို့ဖြစ်၍၊ ရှိန်ကား ဦးထွန်းရှိန်ဖြစ်သည်။

ဦးထွန်းရှိန်ကို မြန်မာသက္ကရာဇ် ၁၂၅၂ ခုနှစ် ပြာသိုလဆန်း ၄ ရက်နေ့တွင် ပုသိမ်မြို့၌ဖွားမြင်သည်။ မိဘများမှာ ဦးမောင်ကြီး၊ ဒေါ်ခင်ဖြစ်၏။ မွေးချင်းပေါက်ဖော် ၇ ယောက်ရှိသည့်အနက်၊ ဦးထွန်းရှိန်သည် စတုတ္ထမြောက်သားဖြစ်သည်။ ငယ်ရွယ်စဉ် သုံးလေးနှစ်သားအရွယ်တွင် မောင်တာရဲဟူသော အမည် တွင်ခဲ့လေသည်။ ထိုစဉ်က မိဘများလည်း သေိုင်းချောင်းမြို့သို့ ပြောင်းရွှေ့နေထိုင်ခဲ့ကြ၏။ ဦးထွန်းရှိန် အသက် ၇ နှစ်သားအရွယ်တွင် သေိုင်းချောင်းမြို့၌ အဖဦးမောင်ကြီးကွယ်လွန်ခဲ့သည်။ ထိုအခါ အမိဖြစ်သူသည် သားသမီးများကိုအုပ်ထိန်းလျက်၊ ပုသိမ်မြို့သို့ ပြန်လည် ပြောင်းရွှေ့နေထိုင်ခဲ့၏။ ဦးထွန်းရှိန်သည် ပုသိမ်မြို့ အစိုးရအထက်တန်းကျောင်း၌ ပညာဆက်လက်သင်ယူခဲ့ရ၏။ အစိုးရအထက်တန်းကျောင်းမှ သတ္တမတန်း စာမေးပွဲကို အောင်မြင်သောအခါ၊ ဦးထွန်းရှိန်သည် ပညာသင်ဆုကိုရရှိခဲ့သည်။ ထိုနောက် အဋ္ဌမတန်းနှင့်နဝမတန်းတို့ကို တနှစ်တည်းဖြင့် ဖြေဆိုအောင်မြင်ခဲ့လေသည်။

အသက် ၁၇ နှစ်အရွယ် (၁၂၆၉ ခုနှစ်ခန့်) ၌ ဦးထွန်းရှိန်သည် ရန်ကုန်ကောလိပ်ကျောင်းတွင် ဆက်လက် ပညာသင်ခဲ့ရာ၊ အသက် ၂၀ နှစ်အရွယ်တွင် ဝိဇ္ဇာတန်းအောင်လေသည်။ ဦးထွန်းရှိန်သည် ကောလိပ်ကျောင်း၌ ပညာသင်စဉ်၊ ရန်ကုန်မြို့ အပျော်တမ်းလက်နက်ကိုင်စစ်တပ်သို့လည်း ဝင်ခဲ့သည်။ ဦးထွန်းရှိန်အမှုထမ်းခဲ့သောတပ်စုမှာ ဂျီ တပ်စုဖြစ်၍၊ ဥရောပတိုက်သားများသာ ဝင်ခွင့်ရ၏။ ထိုကြောင့် ဦးထွန်းရှိန်သည် တီ၊ အိုု၊ ရှိန်းဟူသော ဥရောပတိုက်သား အမည်ကိုခံယူ၍ ဝင်ခဲ့လေသည်။

ကောလိပ်၌စာသင်နေစဉ်အတွင်း၌ပင် ဦးထွန်းရှိန်သည် ကိုယ်လက်ကြံ့ခိုင်ရေးကို လိုက်စားခဲ့၏။ ကစားခုန်စား အမျိုးမျိုးတွင် အလွန်ဝါသနာပါသည့်အပြင်၊ လက်ဝှေ့ထိုးခြင်းကိုလည်း အတော်အတန်ကျွမ်းကျင်၏။ ဝိဇ္ဇာတန်း နောက်ဆုံးနှစ်တွင် ဦးထွန်းရှိန်သည် နိုင်ငံရေးကိုစတင်လိုက်စားလာခဲ့၏။ ရန်ကုန်ကောလိပ် ဗုဒ္ဓဘာသာအသင်း၌လည်း ဦးထွန်းရှိန်သည် အမျိုးသားဆိုင်ရာတရားတို့ကို ဟောပြောလေ့ရှိသဖြင့်၊ ထင်ရှားလာလေသည်။

ကောလိပ်ကျောင်းမှထွက်ပြီးနောက်၊ ဦးထွန်းရှိန်သည် ရန်ကုန်မြို့ အစိုးရအထက်တန်းကျောင်း၌ တနှစ်ကျော်ကျော်မျှ ကျောင်းဆရာ ဝင်လုပ်လေသည်။ ထိုနောက် မန္တလေးသို့ ဗုဒ္ဓသာသနာ့နုဂ္ဂဟ ကျောင်းကြီး၏ ကျောင်းအုပ်ဆရာကြီးအဖြစ်နှင့် ပြောင်းရွှေ့ရ၏။

မန္တလေး၌နေထိုင်စဉ် ဦးထွန်းရှိန်သည် ဗုဒ္ဓသာသနာ့နုဂ္ဂဟကျောင်းကို ကြီးပွားအောင်ဆောင်ရွက်ခဲ့၏။ ထိုပြင် ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်း၏ အထွေထွေအတွင်းရေးမှူးအဖြစ်ငင်း၊ မန္တလေးကျောင်းဆရာများအသင်း၏ အထွေထွေ အတွင်းရေးမှူးအဖြစ်ငင်း၊ မြန်မာလူငယ်များ ပေါင်းသင်းဆက်ဆံရေးအသင်း၏ ဒုတိယဥက္ကဋ္ဌအဖြစ်ငင်း၊ ဗုဒ္ဓသာသနာ့ နုဂ္ဂဟကျောင်းသားဟောင်းအသင်း၏ တည်ထောင်ကြည့်ရှုသူအဖြစ်ငင်း၊ မြန်မာပြည် လက်မှုပညာအသင်း၏ အတွင်းရေးမှူးအဖြစ်ငင်း၊ သုစရိတယုဝအသင်း၏ အားပေး ကြည့်ရှုသူအဖြစ်ငင်း ဆောင်ရွက်ခဲ့လေသည်။

ဦးထွန်းရှိန်သည် ၁၂၇၇ ခုနှစ် တပို့တွဲလ၌ သံတော်ဆင့်မင်း ဦးဘိုးကြွယ်၊ ဒေါ်ခင်ခင်နှစ်တို့၏သမီး ခင်ခင်ညွန့်နှင့် ထိမ်းမြားလက်ထပ်သည်။ ဇနီးဖြစ်သူ ခင်ခင်ညွန့်နှင့် လေးနှစ်ကျော်မျှသာ ပေါင်းသင်းရပြီးနောက်၊ အိမ်ထောင်ကွဲသွားလေသည်။ ထိုနောက် ၁၂၈၂ ခုနှစ် နယုန်လတွင် မြန်မာညွန့်ကုမ္ပဏီပိုင်ရှင် ဦးသန့်၊ ဒေါ်ပွင့်တို့၏သမီး မသန်းညွန့်နှင့် ဒုတိယအကြိမ် ထိမ်းမြားလက်ထပ်သည်။ ထိမ်းမြားလက်ထပ်ပြီး၍ တလမပြည့်မီတွင်ပင်၊ ဦးထွန်းရှိန် ကွယ်လွန်၏။ ပဌမဇနီးဖြင့် သားသမီးလေးယောက် ထွန်းကားခဲ့သော်လည်း၊ တယောက်မျှ အဖတ်မတင်ခဲ့ချေ။ ဒုတိယဇနီးနှင့်ကား သားသမီးတယောက်မျှ ထွန်းကားခြင်း မရှိခဲ့ပေ။

၁၉၁၈ ခုနှစ် (၁၂၈၀ ပြည့်နှစ်) တွင် အိန္ဒိယပြည် အုပ်ချုပ်ရေးပြုပြင်ပြောင်းလဲရန် မွန်တေဂူ ချမ်းစဖို့ စီမံကိန်း

ရေးဆွဲသောအခါ၊ မြန်မာပြည်အတွက် ဘာမျှ မပါရှိချေ။ သို့သော် မြန်မာပြည်အတွက်စီမံကိန်းကို မြန်မာပြည်ဘုရင်ခံ ဆာ ရယ်ဂျီနယ် ကရက်ဒေါ့က ရေးဆွဲခဲ့လေသည်။ ထိုစီမံကိန်းကို မြန်မာတို့ကမနှစ်သက်၍၊ တနိုင်ငံလုံး ဆူပူကန့်ကွက်ကြ၏။ ထို့ကြောင့် ၁၉၁၉ ခုနှစ် (၁၂၈၁ ခုနှစ်) မေလ ၁၈ ရက်နေ့တွင် ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းကြီးသည် ဦးဘဖေ၊ ဦးပုနှင့် ဦးထွန်းရှိန်တို့ကို အင်္ဂလန်သို့စေလွှတ်ကာ အရေးဆိုရန် ဆုံးဖြတ်သဖြင့်၊ ၁၉၁၉ ခုနှစ် ဇူလိုင်လ ၇ ရက် (၁၂၈၁ ခု၊ ဝါဆိုလဆန်း ၁၁ ရက်) နေ့တွင် အင်္ဂလန်သို့



မြန်မာအမျိုးသား ခေါင်းဆောင်ကြီးတဦးဖြစ်သူ ဦးထွန်းရှိန်

ထွက်ခွာသွားကြသည်။ (ဂျီ၊ စီ၊ ဘီ၊ အေ။ ဗုဒ္ဓဘာသာကလျာဏယုဝအသင်း — လည်းရှု။) ဖေ၊ ပု၊ ရှိန် ဟူသောအမည်လည်း ထိုအချိန်မှစ၍ မြန်မာနိုင်ငံရေးလောကတွင် ကျော်ကြားလာခဲ့သည်။

ဦးထွန်းရှိန်အင်္ဂလန်ပြည်၌ရှိနေစဉ် ပညာမင်းကြီး မတ်ဟန်းတားက နိုင်ငံရေးကိုစွန့်လျှင်စွန့်၊ မစွန့်လျှင် ကျောင်းဆရာကြီးအဖြစ်မှနုတ်ထွက်ရမည်ဟု ဆိုသဖြင့်၊ ဦးထွန်းရှိန်လည်း ကျောင်းဆရာကြီးအဖြစ်မှ နုတ်ထွက်လိုက်လေသည်။

ဦးထွန်းရှိန်သည် ဇွဲဝီရိယကောင်း၏။ အလုပ်တခုကို ဖြစ်မြောက် ပြီးပြတ်အောင် လုပ်လိုသောသဘောရှိ၏။ စကားပြောလည်း ကောင်း၏။ မည်သည့်အရာကိုမဆို ပွင့်လင်းစွာပြောတတ်၏။ သူတပါး၏အတင်းအဖျင်းတို့ကို ပြောလည်းမပြော၊ နားလည်းထောင်လေ့ မရှိချေ။ အပေါင်းအသင်းကောင်းသည်နှင့်အမျှ သဒ္ဓါတရားလည်း ထက်သန်၏။ ရွှေဆောင်ရွှေရွက်ပြုကာ စီမံခန့်ခွဲနိုင်သောသတ္တိထူးလည်း ရှိလေသည်။

ဦးထွန်းရှိန်ပါဝင်သော ဖေ၊ ပု၊ ရှိန် မြန်မာကိုယ်စားလှယ်အဖွဲ့သည် အင်္ဂလန်ပြည်၌ ၇ လမျှကြာခဲ့၏။ သွားရောက်သော ကိစ္စ မပြီးပြတ်သေးမီ၊ တိုင်းပြည်၏အကြံဉာဏ်များကို ရယူဆွေးနွေးရန်အတွက်၊ ထိုအဖွဲ့သားများသည် မြန်မာပြည်သို့ပြန်လာခဲ့ကြရာ၊ ၁၉၂၀ ပြည့်နှစ် ဖေဖွာရီလ ၆ ရက် (၁၂၈၁ ခု တပို့တွဲလဆုတ် ၃ ရက်) နေ့တွင် ပြန်လည်ဆိုက်ရောက်ခဲ့ကြလေသည်။ ဦးထွန်းရှိန်တို့အား မြန်မာနိုင်ငံတဝှမ်းလုံးက ကြိုးကျယ်ခမ်းနားစွာကြိုဆိုကြလေသည်။

အင်္ဂလန် ပြည်မှပြန်ရောက်လာသောအခါတွင် ဦးထွန်းရှိန်သည် အလုပ်အကိုင်မရှိတော့သဖြင့်၊ မြန်မာအသင်းချုပ်ကြီးက တလလျှင် ၃၀၀ ကျပ်ပေး၍ထား၏။ ထိုအခါ ဦးထွန်းရှိန်သည် မြန်မာနိုင်ငံတဝှမ်းလုံးသို့လှည့်လည်၍၊ နိုင်ငံရေးတရားများ ဟောကြားလေသည်။ ဦးထွန်းရှိန်၏ နောက်ဆုံး တရားပွဲကား ၁၂၈၂ ခုနှစ် နယုန်လဆန်း ၆ ရက်နေ့တွင် ကညွတ်ကွင်းမြို့၌ဟောသောတရားပွဲဖြစ်သည်။ နယုန်လဆန်း ၇ ရက်နေ့တွင် ဦးထွန်းရှိန် အပြင်းအထန်ဖျားလေတော့သည်။ ဆရာဝန် ဆူဇူကီးဆေးတိုက်သို့တင်ကာ ကုသပါသော်လည်း၊ သက်သာခြင်းမရှိဘဲ၊ ယင်းနယုန်လထဲ၌ပင် ကွယ်လွန်လေသည်။ ထိုသို့ကွယ်လွန်သောအခါ ဦးထွန်းရှိန်သည် အသက် ၃၀ အရွယ်မျှသာ ရှိသေးသည်။ အသုဘအခမ်းအနားကို ၁၂၈၂ ခုနှစ် နယုန်လဆုတ် ၅ ရက်နေ့တွင် မြန်မာအသင်းချုပ်ကြီးက ကမကထပြု၍ဆောင်ရွက်ခဲ့၏။ ဦးထွန်းရှိန်၏ဈာပနတွင် လိုက်ပို့ကြသောလူထုပရိသတ်မှာ အလွန်များပြားလှပေသည်။

ဦးထွန်းရှိန် ကွယ်လွန်သောအခါ ထိုစဉ်က မစ္စတာ မောင်မှိုင်းအမည်ခံ ဆရာကြီးဦးလွန်းသည် အမိမြန်မာပြည် အနေနှင့် အောက်ပါလေးချိုးကို ကျောက်ခွဲဖွယ် ဖွဲ့ဆိုခဲ့လေသည်။

'ခေါင်းအမေ ဆွေတမိမှာဖြင့်၊ မကောင်းစေ ဖြေမချိနိုင်ဘု၊ နေမထိ ထိုင်မသာ။ ။သားတယောက်ကယ်နှင့် တအားမြောက်ပြီလို့၊ ခါးထောက်ကာ ဟန်ပန်ယူသမို့၊ မြန်ဇမ္ဗူ အမေ့ဘက်တော်သားတွေနှင့်၊ အလျှံတလူလူ အရှေ့ဖက်မနော် ကြွားမဟဲ့လို့၊ ထားမိစိတ်မှာ။ ။ဖြူဟွံစိုရ်တကယ် ရှယ်ရည် ဟိတ်တွေကြောင့်၊ ကိုယ်စားလှယ် 'ဒယ်လီဂိတ်' ကယ်လို့၊ နယ်ပြည်မိတ်တကွ ကြည်သာတယ်၊ သမတတည်ပါတဲ့ ဇာနည်ဘွား။ ။တွေးကြည့်လျှင်၊ မွေးမိခင် ငါအမေမှာဖြင့်၊ ကြာလေလေ စိတ်မကောင်းအောင်လို့၊ ခပ်မြန်မြန် နတ်ဌာန် ပြောင်းရေ့သလား၊ သေမင့်တမန်ကို အမေခွင့်ပန်လို့ တောင်းချင်ရဲ့၊ ခေါင်းမြေပြေဘွားပေပါ့၊ ကောင်းပေ့မေ့သား။'



မြန်မာဗျည်း ၃၃ လုံးတွင် ဒ သည် ၁၈ ခုမြောက် အက္ခရာဖြစ်သည်။ တ၊ ထ၊ ဒ၊ ဓ၊ န ဟူသော တ ဝဂ်တွင်ပါဝင်၍ ဒ အသံ၏ဖြစ်ရာဌာနမှာ ဒန္တဌာန် သွားအရပ်ဖြစ်သည်။ ‘ဒဒွေး’ ဟူရာ၌ ‘ ဒ ’ အက္ခရာသည် အထက်အဖို့ အောက်အဖို့ အကွေးအငယ်နှစ်ခုဆင့်၍တည်၏။ သို့ နှစ်ဆင့်တည်ဟန်အသွင်ကိုလိုက်၍ ‘ ဒဒွေး ’ ဆိုသကဲ့သို့ ရှိ၏ဟု ဝေါဟာရတ္ထပကာသနီကျမ်းပြုသော ဒုတိယကျော်အောင်စံထားဆရာတော်က မိန့်ဆိုရေးသား၏။

‘ဒ’ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီအရေးအသား သည် မူလကလက်ျာဖက်အလယ်တွင် ချိုင့်ဝင်နေရာမှ တဖန်လက်ဝဲဖက်အလယ်တွင် ချိုင့်နေသောပုံသဏ္ဌာန်ဖြစ်လာသည်။ ထောင်မတ်နေသောထိပ်နှင့် အောက်ခြေဖက်အစတို့ကို လက်ဝဲဖက်သို့ဆွဲယူ၍ အတွင်းသို့ ခပ်ကွေးကွေး ရေးဖန်များသောအခါ မြန်မာအက္ခရာ ဒ ဖြစ်ပေါ်လာသည်။ ဒ အက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



**ဒကိုးတားပြည်နယ်များ။**   ။အမေရိကန်ပြည်ထောင်စုအလယ်ပိုင်း၏ အနောက်မြောက်ဒေသဖြစ်သော မိဇူးရီ မြစ်ဝှမ်းကို မြောက်ဒကိုးတားနှင့် တောင်ဒကိုးတားဟူ၍ ပြည်နယ် နှစ်နယ် ခွဲခြားထားသည်။ မြောက်ဒကိုးတားပြည်နယ်မှာ အကျယ်အဝန်း စတုရန်းမိုင်ပေါင်း ၇၀,၆၆၅ ကျော်ရှိ၍၊ ၁၉၅၀ ပြည့်နှစ်တွင် လူဦးရေ ၆၁၉,၆၃၆ ယောက် ရှိသည်။ ထိုနယ်သည် မြေဩဇာကောင်းမွန်သဖြင့်၊ စိမ်းစိုသော မြက်ခင်းပြင်ကြီးများနှင့် ဂျုံခင်းများရှိသည်။ မြောက်ဒကိုးတားပြည်နယ်၏ မြို့တော်မှာ ဗစ်ဇမတ်မြို့ဖြစ်၍ လူဦးရေ ၁၈,၆၄၀ ရှိသည်။

တောင်ဒကိုးတားပြည်နယ်မှာ အကျယ်အဝန်း ၇၇,၀၄၇ စတုရန်းမိုင်ရှိ၍၊ မြောက်ဒကိုးတားပြည်နယ်ထက် ပိုမို ကျယ်ဝန်းလေသည်။ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ်တွင် ၆၅၂,၇၄၀ ခန့် ဖြစ်သည်။ မြောက်ဒကိုးတားနယ်မှ ဂျုံခင်း မြက်ခင်းကြီးများသည် တောင်ဖက်နယ်အထိ ဆက်လက်ကျယ်ပြန့်တည်ရှိကြ၏။ ထိုနယ်တွင် လယ်ယာစိုက်ပျိုးရေး လုပ်ငန်းအပြင်၊ သတ္တုတူးဖော်သော လုပ်ငန်းများကိုလည်း လုပ်ကိုင်ကြ၏။ ရွှေတွင်းလုပ်ငန်းမှာ အရေးပါအရာရောက်ဆုံးသော လုပ်ငန်းဖြစ်သည်။ တောင်ဒကိုးတားပြည်နယ်၏ မြို့တော်မှာ ပီးယာဖြစ်၍၊ လူဦးရေ ၄၃၂၂ ယောက်ရှိသည်။ ထိုနယ်



မြောက် ဒကိုးတားပြည်နယ် မြို့တော် ဗစ်ဇမတ်မြို့ရှိ ကက်ပီတော အဆောက်အအုံ (ရှေ့ပိုင်းတွင် လွှတ်လပ်ရေး အထိမ်းအမှတ် အဆောက်အအုံကို တွေ့မြင်နိုင်သည်။)

တွင် အကြီးဆုံးမြို့မှာ ဆူးဖောဖြစ်၍၊ လူဦးရေ ၅၂,၆၉၆ ရှိလေသည်။

ဒဂိုးတားနယ်ကို ဦးစွာရှာဖွေရောက်ရှိသော ဥရောပ တိုက်သားတို့ကား၊ ပြင်သစ်လူမျိုး သားအဖသုံးဦးဖြစ် သည်။ ယင်းတို့သည် မြောက်အမေရိကမှ ပစိဖိတ်သမုဒ္ဒရာ သို့ သွားရာလမ်းကြောင်းကို ရှာဖွေရန်အလို့ငှာ ခရီး ထွက်ခဲ့ရာ၊ ဒဂိုးတားမြောက်ပိုင်းနယ်သို့ ရောက်ရှိခဲ့ကြ သည်။ ထိုနယ်သို့ ရောက်သောအခါ၊ အဖဖြစ်သူသည် သား နှစ်ဦးအား ခရီးဆက်လက်၍ နယ်သစ်ရှာဖွေစေရာ၊ သားနှစ် ဦးသည် တောင်ဒဂိုးတားနယ်သို့ရောက်ခဲ့၍၊ ထိုနယ်ကို ပြင် သစ်တို့ပိုင်ကြောင်းဖြင့် ခဲပြားပေါ်တွင် စာတမ်းထိုးကာ ထားရစ်ခဲ့ကြသည်။ ထိုစာတမ်းကို ၁၉၁၃ ခုနှစ်ကျမှ တွေ့ ရှိ၍၊ ဒဂိုးတားနယ်သမိုင်းကို ကောင်းစွာသိကြရသည်။ ထို နယ်တွင် မူလကမှီတင်းနေထိုင်ကြသူတို့မှာ ဆူး လူမျိုးဖြစ် ကြသည်။ နယ်သစ်ရှာသူတို့သည် ထိုလူမျိုးတို့နှင့် အကြိမ် ကြိမ် စစ်ခင်းပြီးမှသာ၊ နောက်ဆုံး ၁၈၆၁ ခုနှစ်တွင် ဒဂိုး တား နယ်ကြီးကို ဖွဲ့စည်းနိုင်ခဲ့သည်။ ၁၈၈၉ ခုနှစ်တွင် ထို နယ်ကြီးကို တောင်ဒဂိုးတားပြည်နယ်နှင့် မြောက်ဒဂိုး တား ပြည်နယ်ဟူ၍ ခွဲခြားပြီးလျှင်၊ အမေရိကန်ပြည်ထောင် စုထဲသို့ သွတ်သွင်းခဲ့ကြလေသည်။ ဒုတိယကမ္ဘာစစ်အတွင်း တွင် ဒဂိုးတား နှစ်နယ်စလုံးသည် စိုက်ပျိုးရေးနှင့် သတ္တု ထုတ်လုပ်ခြင်း လုပ်ငန်းတို့ကို စစ်အတွက် ပိုမိုလုပ်ကိုင် ခဲ့ကြသည်။

**ဒကွင်းစီး, သောမတ်** (ခရစ် ၁၇၈၅–၁၈၅၉)။ ။သော မတ် ဒကွင်းစီးသည် စာမွန်များကို ရေးသားရာတွင် စံနမူနာ ပြုလောက်အောင် ကောင်းမွန်သော နာမည်ကျော် အင်္ဂလိပ် စာရေးဆရာတဦးဖြစ်သည်။ စိတ်ကူးဆန်းကြယ်၍၊ ဝါစာ သိလိဋ္ဌဖြစ်သော စကားပြေအရေးအသားကို သူရေးသော ‘ဘိန်းစားတဦး၏ ဝန်ခံချက်’ စာအုပ်တွင် ဖတ်ရှုနိုင်သည်။

ဒကွင်းစီးသည် မန်ချက်စတာမြို့တွင် မွေးဖွား၏။ အသက် ၇ နှစ်အရွယ်တွင် ချမ်းသာသော အထည်ကုန်သည်ဖြစ်သူ ဖခင်သည် သေဆုံး၏။ ငယ်စဉ်က ဒကွင်းစီးသည် ဗသမြို့နှင့် မန်ချက်စတာမြို့ရှိ သဒ္ဒါကျောင်းများတွင် ပညာသင်ကြား ခဲ့သော်လည်း၊ မပျော်ပိုက်ရကား၊ အိမ်မှထွက်ပြေးလေ သည်။ ထိုစဉ်အတွင်း ဒကွင်းစီးသည် ဝေလနယ်၌လှည့်လည် နေထိုင်၍၊ လန်ဒန်မြို့ပေါ်တွင် အငတ်ငတ် အပြတ်ပြတ်နှင့် ခြေသလုံးအိပ်တိုင် နေထိုင်ခဲ့သည်။ ထိုနောက် သူ့ကို သူ၏ အိမ်သူအိမ်သားတို့က ပြန်တွေ့၍၊ အောက်စဖို့တက္ကသိုလ် ဝူး စတာ ကောလိပ်ကျောင်း၌ ဆက်လက်ပညာသင်ကြား စေ၏။ ကောလိပ်ကျောင်း၌ ပညာသင်ကြားချိန်ဝယ်၊ အာရုံကြော၌ဖြစ်သော ရောဂါကြောင့်၊ ကိုက်ခဲသည့်ဝေဒ



နာမည်ကျော် အင်္ဂလိပ်စာမွန်ရေးဆရာကြီး သောမတ် ဒကွင်းစီး

နာကို သက်သာရာရစေရန် ဘိန်းကိုမှီဝဲခဲ့၏။ ဤသည်မှစ၍ ဘိန်းကိုစွဲသွားလေသည်။ ကောလိပ်ကျောင်း၌ ပညာသင် ရာတွင် မည်သည့်ဘွဲ့ကိုမျှမရဘဲ၊ ခရစ် ၁၈၀၈ ခုနှစ်တွင် ကျောင်းထွက်လိုက်ရသည်။ ကျောင်းသားဘဝ၌ ကဗျာ ဆရာများဖြစ်သော ဝပ်ဇဝပ်၊ ကိုးလရစ်၊ ဆောက်သီ စသော ပုဂ္ဂိုလ်တို့နှင့် ချစ်ကျွမ်းတဝင် မိတ်ဆွေဖြစ်ခဲ့ဘူးသည်။ ထို ကြောင့် ကျောင်းမှထွက်သော်၊ ဝပ်ဇဝပ်နှင့်ဆောက်သီတို့ ရှိရာ အိုင်ဒေသတွင် နေထိုင်ခဲ့သည်။ ထိုနောက် အိမ်ထောင် ပြုပြီးလျှင်၊ ခရစ် ၁၈၂၀ ပြည့်နှစ်၌ လန်ဒန်မြို့သို့ ပြောင်း ရွှေ့နေထိုင်ကာ၊ လန်ဒန်မဂ္ဂဇင်းနှင့် ဗလက်ဝုမဂ္ဂဇင်းတို့တွင် ဆောင်းပါးများကို စတင်ရေးသားခြင်းဖြင့် ကျော်စောထင် ရှားလာလေသည်။ ဤသည်တွင် ‘ဘိန်းစားတဦး၏ ဝန်ခံ ချက်’ ဟူသော ဆောင်းပါးများ ပေါ်ထွက်လာလေသည်။ ထိုနောက်တဖန် ၁၈၂၈ ခုနှစ်တွင် အက်ဒင်ဗရာမြို့သို့ ရွှေ့ ပြောင်းနေထိုင်သည်။ ၁၈၃၇ ခုနှစ်တွင် ဇနီး ကွယ်လွန်ပြီး နောက်၊ အိုးအိမ် အတည်အကျမရှိ နေထိုင်၍၊ ၁၈၅၉ ခုနှစ် တွင် ကွယ်လွန်လေသည်။

**ဒဂိုး, ရှား** (ခရစ် ၁၈၉၀ ဖွား)။ ။ရှား ဒဂိုးသည် ပြင် သစ် စစ်သူရဲကောင်းနှင့် နိုင်ငံပြုသူခမိန်တဦးဖြစ်သည်။ ဒုတိ ယ ကမ္ဘာစစ်အတွင်း၌ ဒဂိုးသည် ‘လွတ်လပ်သောပြင်သစ်

နိုင်ငံ ' အဖွဲ့အစည်း၏ ခေါင်းဆောင် ဖြစ်လာသည်။ ထို လွတ်လပ်သော ပြင်သစ်လူမျိုးတို့၏ ခေါင်းဆောင်အနေဖြင့် ကျူးကျော်လာသောဂျာမန်စစ်တပ်ကို ခုခံတိုက်ခိုက်ခဲ့သည်။ ၁၉၄၀ ပြည့်နှစ်တွင် ဒဂိုးသည် အင်္ဂလန်နိုင်ငံသို့ ဆုတ်ခွာရပြီးသော်၊ ထိုနိုင်ငံမှနေ၍ ပြင်သစ်တို့၏ လွတ်မြောက်ရေးလုပ်ငန်းကို လုပ်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီးပြီး၍၊ စစ်ပြေငြိမ်းသောအခါ၊ ဒဂိုးသည် သမတ ဖြစ်လာခဲ့သည်။ သမတအဖြစ်ဖြင့် တနှစ်ကျော်မျှ တာဝန်တို့ကို ထမ်းရွက်ခဲ့ပြီးလျှင်၊ သမတရာထူးမှနုတ်ထွက်၍ အနားယူခဲ့လေသည်။

ဒဂိုးသည် ၁၈၉၀ ပြည့်နှစ်တွင် မွေးဖွား၍၊ စန် ဆီယာ စစ်ကျောင်းတွင် ပညာသင်ခဲ့သည်။ ပဌမကမ္ဘာစစ်အတွင်း၌ ဒဂိုးသည် ဗိုလ်ကြီးရာထူးဖြင့် စစ်မှုထမ်းရွက်သည်။ ၁၉၂၈ ခုနှစ်တွင် ပြင်သစ်တပ်မတော်၌ တင့်ကားများထားရှိရန် နှိုးဆော်ခဲ့သည်။ ယင်းနှိုးဆော်ချက်များအပြင်၊ ၁၉၃၄ ခုနှစ်၌ ပြင်သစ်တပ်မတော်၌ 'ယာဉ်တင်တပ်များ' ဖွဲ့စည်းပေးသင့်သည် ဟူသော အချက်ကို မူတည်က၊ စာအုပ်ရေးသား ထုတ်ဝေ၍ အကြံပေးခဲ့၏။ ၁၉၃၉ ခုနှစ်တွင် ဒုတိယကမ္ဘာစစ် ဖြစ်ပွားသောအခါ ဒဂိုးသည် တပ်မဟာတခုကိုဦးစီးရသော ဗိုလ်ချုပ်အဖြစ်ဖြင့် ထမ်းရွက်ရာ၊ မကြာမြင့်မီပင် တပ်မ၏ဗိုလ်ချုပ် ဖြစ်လာလေသည်။ ဒုတိယကမ္ဘာစစ်



ပြင်သစ်နိုင်ငံ သမတ ရှား ဒဂိုး

အတွင်း ပြင်သစ်အမျိုးသားတို့၏ ခေါင်းဆောင် ဖြစ်ခဲ့ခြင်းကြောင့်၊ အထက်ကဖော်ပြခဲ့သည့်အတိုင်း၊ ပြင်သစ်နိုင်ငံတော် သမတ ဖြစ်လာခဲ့လေသည်။

၁၉၄၆ ခုနှစ် ဇန္နဝါရီလတွင် ရာထူးမှနုတ်ထွက်ကာ အနားယူနေခဲ့သောဒဂိုးသည် ပြင်သစ်နိုင်ငံရေး အကြပ်အတည်းအရှုပ်တော်ပုံ ဖြေရှင်းရန်အတွက်၊ သမတ ရီနီ ကိုတီ၏ ဖိတ်ခေါ်ချက်အရ၊ နိုင်ငံရေးနယ်ထဲသို့ ပြန်လည် ဝင်ရောက်လာခဲ့ပြီးလျှင်၊ ၁၉၅၈ ခုနှစ် ဇွန်လအတွင်းဝယ် ဝန်ကြီးချုပ် ရာထူးကို လက်ခံဆောင်ရွက်ခဲ့ရလေသည်။ ဒီဇင်ဘာလ ၂၁ ရက်နေ့၌ ကျင်းပခဲ့သော ပြင်သစ်နိုင်ငံ သမတရွေးပွဲတွင်၊ ဒဂိုးသည် သမတအဖြစ် အရွေးခံရသဖြင့်၊ ၁၉၅၉ ခုနှစ် ဇန္နဝါရီလ ၈ ရက်နေ့မှအစပြု၍ ပြင်သစ်နိုင်ငံ သမတအဖြစ် ဆောင်ရွက်ခဲ့ရပြန်လေသည်။

**ဒမက်စကပ်မြို့။** ။ဒမက်စကပ်မြို့သည် ဆီးရီးယားနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ကမ္ဘာ့သမိုင်းတွင် ရှေးအကျဆုံးသော မြို့ကြီး တမြို့ဖြစ်၍၊ လွန်ခဲ့သော အနှစ်၄၀၀၀ ကျော်ကစ၍ တည်ရှိခဲ့ကြောင်း အထောက်အထားများတွေ့ရသည်။ ကမ္ဘာအရပ်ရပ်မှ ထောင်ပေါင်းများစွာသော မွတ်စလင်ဘုရားဖူးတို့သည် မက္ကာမြို့သို့ဘုရားဖူးသွားရန်အလို့ငှာ ဤမြို့တွင် စုရုံးလေ့ရှိ၏။ ထိုမြို့တွင် ပလီပေါင်း ၂၅၀ ခန့်မျှရှိ၍၊ ထိုပလီများအနက် အွမ်မီအက်ဘုရင်တို့၏ ပလီကြီးသည် ကျောက်ဖြူများ၊ မှန်စီကွက်များဖြင့် ဆောက်လုပ်ထားသောကြောင့် အထူးပင်ထင်ရှား၏။

ဒမက်စကပ်မြို့သည် ရဒါမြစ်ပေါ်တွင်တည်ရှိသည်။ ထိုမြစ်၏ မြစ်ဝှမ်းတလျှောက်တွင် ရှောက်၊ လိမ်မော်၊ သစ်တော်၊ သဖန်း၊ ပန်းသီး၊ သလဲသီး၊ ဖရဲသီး စသော အသီးမျိုးစုံထွက်ရာ ဥယျာဉ်များရှိသည်။ ဆီးရီးယားသဲကန္တာရကြီး၏ အစွန်းဖြစ်သော စိမ်းလဲ့သည့်လွင်ပြင်တွင် လှပစွာ တည်ရှိသည့်အလျောက် သဲကန္တာရအတွင်း ဖြတ်သန်းလာကြရသော အာရပ်လူမျိုး ခရီးသည်တို့အတွက် ထိုမြို့သည် လောကနိဗ္ဗာန်ဟုပင် အောက်မေ့ထင်မှတ်ကြရ၏။ ထို့ကြောင့် ထိုမြို့ကို 'ကန္တာရ၏ ပုလဲ' ဟု အမည်ပေးထားကြသည်။ ရှေးနှစ်ပေါင်း ၄၀၀၀ ခန့်ကစ၍ တည်ခဲ့သော်လည်း ဒမက်စကပ်မြို့၏အခြေအနေမှာ ယနေ့တိုင် ထူးခြားပြောင်းလဲခြင်း မရှိသေးပေ။ ရက်ကန်းစင်များမှာ ရှေးခေတ်ဟောင်းအတိုင်းပင် ရက်လုပ်လျက်ရှိသည်။ ဤ လက်ရက်ကန်းစင်များမှ ကမ္ဘာကျော်ရောင်စုံပိုးထည်များ ရရှိခဲ့လေသည်။

ဘီစီ ၁၂၀၀ ပြည့်နှစ်ခန့်က အာရမ်နိုင်ငံများတွင် ဒမက်စကပ်မြို့သည် အထင်ရှားဆုံးဖြစ်ခဲ့၏။ သို့ရာတွင် ထိုမြို့သည် ဘီစီ ၃၃၃ ခုနှစ်၌ အယ်လက်ဇန္ဒာ-သ-ဂရိတ် ဘုရင်ကြီး လက်

အောက်သို့ ကျရောက်ခဲ့၍၊ အေဒီ ၆၃ ခုနှစ်တွင် ရောမ အင်ပိုင်ယာကြီး၏ လက်အောက်သို့ တဖန် ရောက်ခဲ့ပြန်သည်။ ထိုနောက် အေဒီ ၆၃၅ ခုနှစ်ကစ၍ ပဌမ ကမ္ဘာစစ်ကြီး ဖြစ်သည့်တိုင် အောင် အာရပ်နှင့်တူရကီတို့ပိုင် ဖြစ်ခဲ့သော်လည်း၊ ပဌမကမ္ဘာစစ်ကြီးပြီးသောအခါ၌မူ ပြင်သစ်တို့သည် ဒမက်စကပ်နယ်ကို ဆီးရီးယားပြည်နှင့်အတူပေါင်း၍ အုပ်ချုပ်ခဲ့လေသည်။ ထိုအချိန်အတွင်း၌ တော်လှန်ရေးတိုက်ပွဲများကြောင့် မြို့မှာ အတော်ပင် ပျက်စီးခဲ့ရသည်။

ဒုတိယကမ္ဘာစစ်တွင် ပြင်သစ်တပ်မတော်နှင့် မဟာမိတ်တပ်များက သိမ်းပိုက်၍၊ လွတ်လပ်သော ဆီးရီးယားနိုင်ငံ၏မြို့တော်အဖြစ် ကျေညာခဲ့၏။ အလွန်ရှေးကျသော မြို့ကြီးဖြစ်သည့်အလျောက် လမ်းများသည် အချို့နေရာ၌ ကျဉ်းမြောင်း၍ ညစ်ညမ်းလှ၏။ သို့ရာတွင် တမန်တော် စိန်ပေါဖြတ်သွားခဲ့ဘူးသည်ဟုဆိုသော လမ်းမကြီးကား အလွန်ရှည်လျားဖြောင့်တန်းပြီးလျှင် ဆိုင်ကနားများဖြင့် ပြည့်နှက်လျက်ရှိသည်။ ထိုလမ်းတွင် ပိုးထည်၊ စောင်နှင့်သတ္တုကုန်ပစ္စည်းများကို ရောင်းချကြသည်။ ဒမက်စကပ်မြို့ကြီးကား၊ ရှေးအခါမှစ၍ ယခုတိုင်အောင် ကုန်သွယ်ရေးတွင် ဗဟိုအချက်အခြာ မြို့ကြီး ဖြစ်လေသည်။ ထိုမြို့၏လူဦးရေမှာ ၃၇၃,၀၀၀ ခန့်ရှိသည်ဟု ခန့်မှန်းကြသည်။



ဆီးရီးယားနိုင်ငံ မြို့တော် ဒမက်စကပ်မြို့

**ဒယယ်လူမျိုး။** ။ဒယယ်လူမျိုးတို့သည် ရှမ်းပြည်နယ် မြေလတ်ဒေသ၌နေထိုင်ကြသော လူမျိုးတမျိုးဖြစ်သည်။ ယင်းတို့ကို ရှမ်းဒယယ်ဟုလည်း ခေါ်သည်။ ထိုင်း အုပ်စု၌ ပါဝင်၏။ လူဦးရေ ၇၀၀ ခန့်ရှိသည်။ ဒယယ်လူမျိုးတို့၏ ဇာစ်မြစ်ကို သေချာစွာမသိရချေ။ ယင်းတို့သည် တရုပ်နိုင်ငံရှိ ကောလိယခေါ် ဒေသမှ ရွှေ့ပြောင်းလာကြသော ရှမ်းတရုပ်လူမျိုးများမှ ဆင်းသက်လာသည်ဟုဆို၏။ ဒယယ်လူမျိုးတို့ကိုယ်တိုင်ကမူ သူတို့သည် မြေလတ်ဒေသရှိ သမခန်းခေါ် ပြည်နယ်အတွင်းတွင်ပါဝင်သော သူရဲရွာခေါ် ဒယယ်ရွာကလေးမှအစပြု၍ ပေါက်ဖွားခဲ့သည်ဟု ယုံကြည်ကြ၏။ ထိုသူရဲရွာကလေးမှာ ထွန်ချီဆိုသူ တည်ထောင်ခဲ့သောရွာများတွင် အပါအဝင်ဖြစ်သော ရွာကလေးပင် ဖြစ်သည်ဟု ဆို၏။

ဒယယ်လူမျိုးတို့သည် ရှေးခေတ်အခါက စစ်သုံ့ပန်းများမှ ဆင်းသက်ပေါက်ဖွားလာသူများ ဖြစ်သည်ဟူ၍၎င်း၊ မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက်လာကြသော လူမျိုးအုပ်စု တစု၏ အဆက်အနွယ်များ ဖြစ်သည်ဟူ၍၎င်း၊ ထိုဒေသ၌ အခြေစိုက် နေထိုင်ခဲ့ဘူးသော ကုန်သည်များ၏ သားစဉ်မြေးဆက်များ ဖြစ်သည်ဟူ၍၎င်း အမျိုးမျိုးယူဆနိုင်ဖွယ်ရာ ရှိသည်။ မြေလတ်ဒေသရှိ အခြားလူမျိုးများသည် မိမိတို့ရိုးရာ ဘာသာစကားကိုသာ သုံးစွဲပြောဆိုလေ့ရှိကြသော်လည်း၊ ဒယယ်လူမျိုးများမှာကား ရှမ်းစကားကိုသာ ပြောဆိုကြ၏။ ရှမ်းစကားနှင့်ဆင်တူသော စကားမျိုးကိုလည်း ပြောလေ့ရှိ၏။ မဝေးသောကာလတွင် ဒယယ်လူမျိုးတို့ တိမ်ကော၍ အမည်သာလျှင်ကျန်ရစ်ခဲ့တော့မည်ဟု အချို့က ယူဆကြလေသည်။

**ဒရူးလူမျိုး။** ။ဒရူးလူမျိုးတို့သည် တိဗက် မြန်မာ အစုဝင်၊ လိုလို မိုဆို အစုခွဲတွင် ပါဝင်၍၊ နုံလူမျိုးတို့နှင့် အမျိုးအနွယ်တူသည်။ မြန်မာနိုင်ငံ အထက်ပိုင်းရှိ တရုန်မြစ်ဝှမ်းနှင့် အထက် နမ့်တမိုင်မြစ်ဝှမ်းတို့တွင် နေထိုင်သည်။ ဒရူးလူမျိုးတို့သည် နုံတို့ကဲ့သို့ ကိုယ်လက်အင်္ဂါ ထွားကြိုင်းခြင်းမရှိချေ။ မယဉ်ကျေးသေးသော လူမျိုးတမျိုးဖြစ်သည့် အလျောက် အဝတ်အစားဟူ၍လည်း ဝတ်ဆင်ခြင်းမရှိချေ။ ဒရူးလူမျိုး အစုငယ်များ ကွဲပြားလျက်ရှိသေးရာ ယင်းတို့မှာ မယစ်၊ ဆန်နဲ၊ တဇုဝန်၊ ကာပိုင်၊ အနမ်ဖိုင်၊ ထလန်နှင့် တလုန်ဖြစ်၏။



ဒရူးအစ် ခင်ကြီးသည် တရားစီရင်ရာ၌လည်း ပါဝင်ရသည်။

**ဒရူးအစ်။** ။လွန်ခဲ့သော နှစ်ပေါင်း ၂၀၀၀ ခန့်က ဗြိတိန်နှင့် ဂေါလနယ်တို့တွင် ကဲ့ လူမျိုးတို့နေထိုင်ကြသည်။ ထိုကဲ့ လူမျိုးတို့သည် ဒရူးအစ်ခေါ် ခင်ကြီးတို့ကို ကိုးကွယ်ကြသည်။ ထိုဒရူးအစ်ခင်ကြီးတို့သည် ကဲ့ လူမျိုးတို့အတွက် တရားစီရင်ဆုံးဖြတ်ပေးသော တရားသူကြီးများလည်း ဟူ၏။ ကိုးကွယ်ရာ အယူဝါဒနှင့်ဆိုင်သော လူ့ကျင့်စဉ်တို့ကို ညွှန်ကြားပြသသည့် ဆရာဘုန်းတော်ကြီးများလည်း ဟူ၏။ ထိုဒရူးအစ်ခင်ကြီးတို့ကိုးကွယ်သောနတ်တို့သည် ဂရိနှင့် ရောမနတ်တို့နှင့် အတူတူပင်ဖြစ်သော်လည်း၊ အမည်အားဖြင့် ကွဲပြား၏။ ထိုခင်ကြီးတို့သည် ရာဇဝတ်ကောင်တို့ကို နတ်တို့အားပသ၍ ယဇ်ပူဇော်လေ့ရှိသည်။ အနာဂတ်တွင်ဖြစ်လတ္တံ့သော အခြင်းအရာတို့ကို ငှက်ပျံသန်းပုံကို ကြည့်ခြင်းအားဖြင့်၎င်း၊ ယဇ်ပူဇော်ပြီးငှက်တို့၏ အူစုံ သည်းစုံ အခြေအနေကို ကြည့်၍၎င်း ဟောနိုင်သည်ဟုဆို၏။

ရောမစစ်သူကြီး ဂျူးလယပ် ဆီဇာသည် ဗြိတိန်နှင့်ဂေါလနယ်ကို ချင်းနင်းတိုက်ခိုက်သိမ်းပိုက်သောအခါ၊ ဒရူးအစ် ခင်ကြီးတို့သည် ယင်းတို့၏ဇာတိဌာနေကို တိုင်းတပါးသားလက်သို့ မကျရောက်ရအောင် ခုခံကာကွယ်ခဲ့ကြသည်။ ဂျူးလယပ် ဆီဇာသည် ထိုနယ်တို့ကိုသိမ်းပိုက်ပြီးသောအခါ၊ ဒရူးအစ်ခင်ကြီးတို့၏ အကြောင်းကို ရေးသား၍ မှတ်တမ်းတင်ခဲ့၏။ ခရစ် ၇၈ ခုနှစ်တွင်၊ ဂျူးလယပ် ဆီဇာကိုဆက်ခံသော ရောမဘုရင်တို့လက်ထက်၌ ရောမစစ်သူကြီးတဦးသည် ဒရူးအစ်တို့ကို အကြွင်းမဲ့ သုတ်သင်ရှင်းလင်းလိုက်လေရာ၊ ဒရူးအစ်ခင်ကြီးတို့၏ အယူဝါဒသည် ပျောက်ကွယ်သွားလေသည်။

**ဒရေးဖပ်, အဲလဖရက်** (ခရစ် ၁၈၅၉–၁၉၃၅)။ ။အဲလဖရက် ဒရေးဖပ်သည် ယဟူဒီမျိုးနွယ်ဖြစ်၍၊ ၁၈၅၉ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့တွင် ဖွားမြင်သည်။ လက်မှုပညာ သင်ကြားခဲ့ပြီးနောက်၊ ပြင်သစ် အမြောက်တပ်တွင် ဗိုလ်အဖြစ် ဝင်ရောက်အမှုထမ်းရွက်သည်။ ၁၈၈၉ ခုနှစ်၌ ဗိုလ်ကြီးအဆင့်အတန်းသို့ရောက်ခဲ့၍၊ စစ်ဝန်ကြီးရုံး၌ အမှုထမ်းရသည်။ ထိုသို့အမှုထမ်းရွက်နေစဉ်၊ ၁၈၉၄ ခုနှစ်၌ ပြင်သစ် စစ်ဌာနမှ လျှို့ဝှက်သောကိစ္စများကို ဂျာမန်စစ်ဖက်ဆိုင်ရာ အာဏာပိုင်တို့သို့ ပေါက်ကြားစေရန် ကြံစည်မှုကြီးတခု ပေါ်ပေါက်ခဲ့သည်။ ထိုအမှုတွင် ဒရေးဖပ်မှာ သစ္စာဖောက် တရားခံအဖြစ် မှားယွင်းစွာ စွပ်စွဲ အပြစ်ပေးခြင်းခံရ၍၊ ထောင်တသက် ကျခံခဲ့ရ၏။ သို့ရာတွင် ထိုသို့ ရုံးတော်မှ မှားယွင်း ဆုံးဖြတ်လိုက်သော အမှုကြီးမှာ ပျောက်ပျက်၍မသွားဘဲ၊ တနိုင်ငံလုံး အရေးတယူ ဝေဖန်ပြောဆိုလာကြရာ၊ တဖြည်းဖြည်းနှင့် တကမ္ဘာလုံးက နားစွင့်နေသော သတင်းတရပ်ဖြစ်လာသဖြင့် ဒရေးဖပ်ကို လူသိများလာခဲ့လေသည်။

အမှုဖြစ်ပွားပုံမှာ ဤသို့တည်း။ ပြင်သစ်စစ်ဌာနမှ လျှို

ဝှက်သော စာရွက်စာတမ်းများကို ဂျာမန်သံရုံး စစ်ဖက်ဆိုင်ရာ အရာရှိထံသို့ပေးပို့ရန် စာရင်းပြုလုပ်ထားသော စာတစောင်ကို ဖမ်းမိရာတွင်၊ ထိုစာမှ လက်ရေးသည် ဗိုလ်ကြီး ဒရေးဖပ်၏ လက်ရေးဖြစ်သည်ဟုဆိုကာ၊ ဒရေးဖပ်အား သစ္စာဖောက်မှုဖြင့် ဖမ်းဆီး၍၊ ရုံးတင်စစ်ဆေးသည်။ လက်ရေးတူသည့်အချက်မှတပါး၊ ဒရေးဖပ်၏အပေါ် တွင် အမှုထင်ရှားစေမည့် သက်သေ အထောက်အထားကား မရှိချေ။ သို့သော် ပြင်သစ်စစ်ခုံရုံးက ဒရေးဖပ်တွင် အပြစ်ရှိသည်ဟု ယူဆသဖြင့်၊ ထောင်တသက် လွတ်ရက်မရှိ ဟူသော စီရင်ချက်ကို ချမှတ်ခြင်းခံရလေသည်။ ထိုစီရင်ချက်ကို တိုင်းပြည်က မကျေနပ်ချေ။ တရားခံ ဒရေးဖပ်၏ညီ မက်သယူး ဒရေးဖပ်သည် စီရင်ချက်မှားယွင်းနေသည်ဟု ယုံကြည်သဖြင့်၊ ပြန်လည်စစ်ဆေးစေရန် ကြိုးစားခဲ့သော်လည်း၊ အထောက်အထား အခိုင်အမာမရနိုင်သောကြောင့်၊ အချည်းနှီးသာ ဖြစ်ခဲ့၏။

ဒရေးဖပ်တွင် အပြစ်မရှိဟု ယုံကြည်သူများတွင် ဒရေးဖပ်နှင့် ဘာမျှမတော်စပ်သော စစ်ဖက်ပြန်ကြားရေးဌာန ဦးစီး ဗိုလ်မှူးကြီး ပီကာလည်းပါ၏။ စစ်ဖက်ပြန်ကြားရေး ဌာနသည် ဂျာမန်ဖက်သို့လွှတ်ထားသော သူလျှိုများထံမှ သတင်းများကိုလည်း ယူရ၏။ ၁၈၉၆ ခုနှစ် မတ်လတွင် ဂျာမန်သံရုံး စစ်ဖက်ဆိုင်ရာအရာရှိ ဗိုလ်မှူးကြီး၏အမှိုက်ခြင်းထဲမှ ပြင်သစ် အထောက်တော်တယောက် တွေ့လာခဲ့သော စာတစောင်သည် ဗိုလ်မှူးကြီးပီကာထံ ရောက်လာလေသည်။ ထိုစာမှာ ဂျာမန်စစ်ဗိုလ်မှူးကြီးက ပြင်သစ် စစ်တပ်မှ ဗိုလ်မှူး အက်စတာ အဇီးထံသို့ ပေးပို့ရန်ရေးသားပြီးမှ မပို့ဖြစ်သောစာဖြစ်၏။ ထိုစာကိုအကြောင်းပြု၍ စုံစမ်းရာတွင်၊ အက်စတာ အဇီးမှာ စည်းမဲ့ကမ်းမဲ့သုံးဖြုန်း၍၊ ကြွေးထူနေသော လူတယောက်ဖြစ်ကြောင်း သိရရုံသာမက၊ ဒရေးဖပ် အမှုတွင် တခုတည်းသော သက်သေခံပစ္စည်းဖြစ်သည့်စာမှ လက်ရေးသည် ဗိုလ်မှူး အက်စတာ အဇီး၏လက်ရေး ဖြစ်ကြောင်းကိုပါ တွေ့ရှိရလေသည်။ သို့ဖြစ်၍ ဒရေးဖပ်မှာ အပြစ်မရှိဘဲ၊ ဗိုလ်မှူး အက်စတာ အဇီးသာလျှင် ထိုပြစ်မှုကို ကျူးလွန်သူဖြစ်ကြောင်း သိရှိလာပြီးလျှင်၊ သူသိသမျှ အကြောင်းစုံကို အထက်အရာရှိကြီးများသို့ အစီရင်ခံလေသည်။ သို့သော် မည်သို့မျှအကြောင်းမထူးသည့်ပြင် သူ့အားလည်း ထိုကိစ္စတွင် ဆက်လက်မဆောင်ရွက်ရန် တားမြစ်ပိတ်ပင်ခဲ့သည်။ ပီကာကမူ သူသိရသမျှ ထုတ် မပြောရလျှင် မနေနိုင်ဟုဆိုသဖြင့်၊ သူ့အား တျူနစ်ဇီးယားနယ်သို့ ပြောင်းရွှေ့လိုက်လေသည်။

ပီကာသည် တျူနစ်ဇီးယားသို့ သူမသွားမီကလေးတွင် သူ၏မိတ်ဆွေ ရှေ့နေကြီးတဦးနှင့် ဒရေးဖပ်တို့အမှုအကြောင်းကို တိုင်ပင်ဆွေးနွေးခဲ့သေး၏။ ထိုရှေ့နေကြီးကလည်း သူ့မိတ်ဆွေ ဆီးနိတ်လွှတ်တော် ဒုတိယဥက္ကဋ္ဌကို တဆင့် ပြောပြခဲ့ရာ၊ ထို ဒုဥက္ကဋ္ဌသည် ဒရေးဖပ်တွင် အပြစ်မရှိကြောင်း ယုံကြည်လာ၍၊ ဒရေးဖပ် လွတ်မြောက်ရေးကို ကြိုးပမ်းလေသည်။ ထိုအချိန်တွင် မက်သယူး ဒရေးဖပ်လည်း သူ့အစ်ကိုရေးသည်ဟု ဆိုသောစာကို ရေးသူမှာ ဗိုလ်မှူး အက်စတာ အဇီးဖြစ်ကြောင်း သိရှိသွား၍၊ စစ်ရုံးသို့ သူ့အစ်ကိုကျူးလွန်သည်ဆိုသောပြစ်မှုကို ကျူးလွန်သူ အစစ်မှာ အက်စတာ အဇီးဖြစ်ကြောင်း စွပ်စွဲကာ စာတင်ခဲ့၏။

စစ်ရုံးမှ ထိုအမှုကို ဝတ်ကြေဝတ်ကုန် ပြန်လည်ဖွင့်လှစ် စစ်ဆေးခဲ့သော်လည်း၊ သူတို့၏အမှားကို ဝန်မခံလိုရကား၊ ဗိုလ်မှူး အက်စတာ အဇီးတွင် အပြစ်မရှိဟု စီရင်ချက် ချမှတ်လိုက်သဖြင့်၊ ဒရေးဖပ်အဖို့ အကြောင်းမထူးခဲ့တော့ချေ။ ထိုမျှမကသေး၊ ဒရေးဖပ်၏အမှုကို ပြန်လည်စစ်ဆေးရန် ကြိုးပမ်းသူများပင်လျှင် သစ္စာဖောက်များဖြစ်လေဟန် သတင်းစာများက ရေးသားကြသည့်ပြင်၊ ပီကာမှာလည်း စစ်ဖက်ဆိုင်ရာ လျှို့ဝှက်ချက်များကို ပေါက်ကြားစေမှုဖြင့်၊ ထောင်ဒဏ်အပြစ်ပေးခြင်း ခံရလေသည်။ သို့သော်လည်း လူကုံထံ ပညာရှိပိုင်းကမူ ဒရေးဖပ်တွင် အပြစ်မရှိကြောင်း ယုံကြည်လာကြ၏။

ဒရေးဖပ်အမှုကို အစမှနေ၍ စောင့်ကြည့်လာခဲ့သော ပြင်သစ် စာရေးဆရာကြီး အေမီး ဇိုလာသည် ၁၈၉၈ ခုနှစ်တွင် ဒရေးဖပ်၌အပြစ်ကင်းလျက် မတရားသက်သက် အပြစ်ဒဏ်



သစ္စာဖောက်အဖြစ် အပြစ်ပေးမှုခံရသူ ဗိုလ်ကြီး ဒရေးဖပ်

ခံရခြင်း ဖြစ်ကြောင်း၊ ဤအမှုအတွက် တကယ်အပြစ်ရှိသူများမှာ ဒရေးဖပ်အား စွပ်စွဲသူများသာဖြစ်ကြောင်း၊ သတင်းစာမှနေ၍ အတိအလင်း ဖွင့်ဟရေးသားလေသည်။ ထိုကြောင့် ဇိုလာအား စစ်ဖက်ဆိုင်ရာ အာဏာပိုင်တို့က အကြည်ညို ပျက်စေမှုဖြင့် တရားစွဲကာ ထောင်ဒဏ်အပြစ် ပေးလိုက်၏။ သို့သော် အင်္ဂလန်ပြည်သို့ ထွက်ပြေးတိမ်းရှောင်နေခဲ့သည်။ နောက်မှ အယူခံတွင် လွတ်သွားလေသည်။ ဇိုလာ ရေးသားလှုံ့ဆော်ပေးချက်ကြောင့်၊ လှုပ်လှုပ် ရှားရှား ဖြစ်နေသော တိုင်းသူပြည်သားတို့ကို ငြိမ်သက်သွားစေရန်၊ စစ်ဝန်ကြီးသည် ဥပဒေပြုလွှတ်တော်တွင် စာတစောင်ကို ဖတ်ပြခဲ့လေသည်။ (ဇိုလာ, အေမီး — ရှု။) ထိုစာကို စစ်ဖက်ပြန်ကြားရေးဌာန ဒုတိယညွှန်ကြားရေးမှူး ဗိုလ်မှူး ဟင်နရီသည် ဣတလီသံရုံး စစ်ဖက်ဆိုင်ရာအရာရှိထံမှ ရရှိသည်ဟုဆိုသည်။ စာအရ ဆိုသော် ဒရေးဖပ်တွင် အပြစ် ရှိသည်မှာ ယုံမှားစရာမရှိချေ။ သို့သော် ထိုစာမှာ ဣတလီ သံရုံး စစ်ဖက်ဆိုင်ရာအရာရှိ၏ လက်ရေးအစစ် မဟုတ်ရုံမက၊ ထိုသို့မဟုတ်ကြောင်းကိုပါ တိုင်းပြည်က သိသွားပြန်လေရာ၊ အမှုအခြေအနေမှာ ပို၍လှုပ်ရှားဖွယ်ရာ ဖြစ်လာ၏။ ထိုစာကိုရေးသူ အမှန်မှာ ဗိုလ်မှူး ဟင်နရီပင် ဖြစ်နေသဖြင့်၊ သူ့ကို ဖမ်းဆီးခဲ့ရလေသည်။ ဟင်နရီလည်း အချုပ်ခန်းတွင် မိမိကိုယ်ကို မိမိ အဆုံးစီရင်လိုက်လေ၏။ ထိုအခါမှ မလွဲမရှောင်သာ ဖြစ်လာသောကြောင့်၊ စစ်ခုံရုံးက ဒရေးဖပ်၏အမှုကို ပြန်လည်ဖွင့်လှစ် စစ်ဆေးရတော့၏။ သို့ရာတွင် ဒရေးဖပ်အား အပြစ်မရှိဟု အလျှင်း လွှတ်မပေးသေးဘဲ၊ တသက်တကျွန်းမှ ထောင်ဒဏ် ၁၀ နှစ်သို့ ပြင်ဆင် စီရင်ချက်ချလိုက်လေသည်။ မည်သို့ပင်ဖြစ်စေ တိုင်းပြည်ကမူ ဒရေးဖပ်တွင် လုံးဝအပြစ်မရှိဟု ယုံကြည်လာကြပြီ ဖြစ်သည့်ပြင်၊ အပြစ်မရှိကြောင်း အထောက်အထားများ အခိုင်အမာ ထပ်မံရရှိလာသဖြင့်၊ စစ်ခုံရုံးမှာလည်း မရှောင်သာတော့ဘဲ၊ ၁၉၀၆ ခုနှစ် ဇူလိုင်လ ၁၂ ရက်နေ့တွင် တဖန် ပြန်လည်စစ်ဆေးရပြန်၍၊ ဒရေးဖပ်၌ အပြစ်မရှိဟု ဝန်ခံရကား၊ ၁၇၉၄ ခုနှစ်က စီရင်ချက်ကို ပယ်ဖျက်လိုက်ရ၏။ ထိုအခါတွင် ပြင်သစ်အစိုးရကလည်း ဒရေးဖပ်အား ဗိုလ်မှူး အဆင့်အတန်းဖြင့် စစ်တပ်၌ ပြန်၍အမှုထမ်းစေသည်။

ဒရေးဖပ်သည် ၁၉၀၇ ခုနှစ်တွင် စစ်တပ်မှထွက်လိုက်လေသည်။ ၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ် ဖြစ်ပွားသောအခါ၊ စစ်ထဲသို့ ပြန်၍ ဝင်ရောက်အမှုထမ်းခဲ့၏။ ၁၉၁၈ ခုနှစ်တွင် ဒုတိယဗိုလ်မှူးကြီးအဖြစ် တိုးမြှင့်ခန့်ထားခြင်း ခံရသည်။ စစ်ကြီးအပြီးတွင် (လီဂျန်အော့အော်နာ) ဂုဏ်ထူးဆောင် သူရဲကောင်း ဘွဲ့တံဆိပ် ချီးမြှင့်ခြင်းခံရလေသည်။ ၁၉၃၅ ခုနှစ် ဇူလိုင်လ ၁၂ ရက်နေ့တွင် ပါရစ်မြို့၌ ကွယ်လွန်သည်။

**ဒရက်ဇဒင်မြို့။** ။ကြွေထည်ပစ္စည်း ထုတ်လုပ်ရေးကြောင့် ကမ္ဘာတွင်ကျော်ကြားသော ဒရက်ဇဒင်မြို့သည် ဂျာမနီ နိုင်ငံ ဆက္ကဆိုနီနယ်၏ မြို့တော်ဖြစ်၍၊ အဲလဗမြစ်ကွေ့ ကမ်းခြေနှစ်ဖက်စလုံးပေါ်တွင် တည်ရှိသည်။ ထိုမြို့ကို ၁၃ ရာစုနှစ်အတွင်း တည်ထောင်သည်။ ဒရက်ဇဒင်မြို့သည် အလွန်လှပသော ဘုရားရှိခိုးကျောင်းနှင့် အဆောက်အအုံများ၊ ပန်းချီကားများ၊ ရုပ်တုများ၊ ဇာတ်ရုံများ၊ စာကြည့်တိုက်များ၊ သိပ္ပံပညာရပ်ဆိုင်ရာပစ္စည်း ပြတိုက်များ ပေါများသဖြင့်လည်း ထင်ရှားကျော်စောသည်။ ခရစ် ၁၇၁၁–၂၂ ခုနှစ်အတွင်း တည်ထောင်သော ဇွင်းဂါးပြတိုက်တွင် ရက်ဖီအယ်နှင့် ရူးဗင်းတို့၏ ကမ္ဘာကျော်ပန်းချီကားများ ရှိသည်။



ဒရက်ဇဒင်မြို့

ကြွေထည်လုပ်ငန်းနှင့် အိုးဖုတ်လုပ်ငန်းတို့ကို ဒရက်ဇဒင်မြို့ ပတ်ဝန်းကျင်၌ လုပ်ကိုင်ကြသည်။ ဒရက်ဇဒင် ကြွေထည် လုပ်ငန်းကို ဒရက်ဇဒင်နှင့် ၁၄ မိုင်ကွာဝေးသော မိုင်ဆင်မြို့တွင် လုပ်သည်။ ထိုမြို့တွင် အလွန်အမျိုးအစား ကောင်းသော ကေအိုလင် မြေစေးဖြူထွက်သည်။ ထိုမြေစေးမျိုးကို ခရစ် ၁၇၀၉ ခုနှစ်က ဆက္ကဆိုနီနယ်သား ဗတ်ဂါသည် စတင်တွေ့ရှိ၍၊ ထိုမြေစေးဖြင့် ကြွေထည်လုပ်ရာ၊ ဒရက်ဇဒင်မြို့မှထုတ်လုပ်သော ကြွေထည်သည် နာမည်ကျော်လာလေသည်။

ဒရက်ဇဒင်မြို့၏ လူဦးရေကို ၁၉၅၃ ခုနှစ်က ၅၀၀,၀၀၀ ဟု ခန့်မှန်းခဲ့သည်။ သာမန်အားဖြင့် ထိုမြို့သည် သမိုင်း တလျှောက်၌ အေးအေးချမ်းချမ်းတည်ရှိခဲ့သော မြို့ဖြစ်သည်။ သို့ရာတွင် ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌မူ အတော်အတန်မျှ ဗုံးဒဏ်ကြောင့် ပျက်စီးခဲ့ရသည်။ ထိုမြို့ကို ဆိုဗီယက်ရုရှတို့က ၁၉၄၅ ခုနှစ် မေလ ၇ ရက်နေ့တွင် သိမ်းပိုက်လိုက်လေသည်။

**ဒရိုင်ဒင်, ဂျွန်** (ခရစ် ၁၆၃၁–၁၇၀၀)။ ။ဂျွန် ဒရိုင်ဒင်သည် အင်္ဂလိပ်စာပေသမိုင်းတွင် ထင်ရှားသော ကဗျာဆရာကြီး ဖြစ်၏။ စာပေ ဝေဖန်သူလည်း ဖြစ်၏။ စကားပြေအရေးအသား၌ စံနမူနာယူထိုက်သူလည်းဖြစ်၏။ ကဗျာနှင့်စပ်လျဉ်း၍မူ၊ အဖွဲ့အနွဲ့ အသစ်တရပ်ကို တီထွင်ခဲ့သူ ဖြစ်သည်။ ကဗျာနှင့် စကားပြေအရေးအသားတို့တွင် စောင်းချိတ်၍ ပြက်ရယ်ပြုသောသဘောများ ပါရှိသည်။ အထူးသဖြင့် ထိုခေတ်၏အယူဝါဒနှင့် နိုင်ငံရေးတို့ကို ပြက်ရယ်ပြုခဲ့သည်။

ဒရိုင်ဒင်သည် အင်္ဂလန်ပြည်၊ နော့သမ္ပတန်ရှိုင်ယာနယ်ရှိ အော်လဒွင်ကယ်ရှာငယ်၌၊ ၁၆၃၁ ခုနှစ် ဩဂုတ်လ ၉ ရက်နေ့တွင် မွေးဖွားခဲ့၏။ ဖခင်သည် ပျူရီတန်ဂိုဏ်းဝင် ဗဲရွန်ဘွဲ့ရ မှူးမတ်ငယ်တဦးဖြစ်သည်။ သို့သော် ထိုခေတ်က နိုင်ငံရေးအခြေ အနေများကြောင့်၊ ဘုရင်၏ခြီးမြှင့်မြှောက်စားခြင်း မခံရဘဲ၊ ဆင်းရဲနွမ်းပါးစွာ နေခဲ့ရလေသည်။ ဘုရင်နှင့် ပါလီမန်တို့ ပြည်တွင်းစစ် ဖြစ်ပွားခဲ့စဉ်က၊ ဒရိုင်ဒင်၏ ဖခင်နှင့်ဆွေမျိုးများသည် ပါလီမန်ဖက်မှ ဝင်ရောက်တိုက်ခိုက်ခဲ့သည်။ သို့ဖြစ်၍ ကရွမ်းဝဲ တန်ခိုးကြီးလာသောအခါ၊ ဒရိုင်ဒင်၏ဖခင်သည်လည်း ကောင်းစားလာလေ၏။

ဒရိုင်ဒင်သည် ဝက်စမင်စတာ ကျောင်းတွင် ပညာ သင်ကြားခဲ့ပြီးနောက်၊ ကိမ်းဗရစ်တက္ကသိုလ် ထရင်နီတီ ကောလိပ်တွင် ပညာ ဆက်လက်ဆည်းပူးခဲ့လေသည်။ ကျောင်းမှထွက်သောအခါ၊ ရရှိသည့်အမွေများမှာ နည်းပါးလှသဖြင့်၊ ချောင်ချောင်လည်လည်နေထိုင်နိုင်ရန် လန်ဒန်မြို့သို့ ပြောင်းရွှေ့ပြီးသော်၊ စာပေများရေးသား၏။ ၁၆၅၈ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့၍၊ ကရွမ်းဝဲ၏ သူရသတ္တိနှင့် ဂုဏ်ပုဒ်များကို ခြီးကျူးဖွဲ့နွဲ့ထားသောကဗျာသည် သူ့အား ဦးဦးဖျားဖျား နာမည်ထင်ရှားလာစေသော ကဗျာဖြစ်၏။ (ကရွမ်းဝဲ, အို — လည်းရှု။) ဒရိုင်ဒင်သည် ကရွမ်းဝဲအား သစ္စာစောင့်သိသော ပျူရီတန်ဂိုဏ်းဝင်တဦး ဖြစ်သော်လည်း၊ ၁၆၆၀ ပြည့်နှစ်တွင် ဒုတိယ ချားလ်စ် နန်းတက်လာသောအခါ၌မူ၊ ဘုရင့်ဖက်တော်သား ဂိုဏ်းဝင် ဖြစ်လာပြန်လေ၏။ ကရွမ်းဝဲအကြောင်းကို ကဗျာဖွဲ့ဆိုသည့်အတိုင်း၊ ချားလ်စ် ဘုရင်သည် ဘုရင့်စံနစ်အရ အင်္ဂလန်ကို ပြန်လည် အုပ်ချုပ်သည့်အခါ၌၊ ချားလ်စ် ဘုရင်အကြောင်းကို ကဗျာဖွဲ့ဆိုခဲ့လေသည်။



အင်္ဂလိပ်စာပေသမိုင်း၌ ထင်ရှားသော ကဗျာဆရာကြီး ဂျွန် ဒရိုင်ဒင်

ဒရိုင်ဒင်သည် နှစ်အနည်းငယ်ခန့်အတွင်း ပြဇာတ်တို့ကို ရေးခဲ့သည်။ သူ၏ပြဇာတ်တို့မှာ သူ၏ခေတ် ပတ်ဝန်းကျင်၌ လူ့ကျင့်စဉ်တို့ လျော့ကျပျက်စီးနေသည်ကို ထင်ရှားစေသော ခမ်းနားကြီးကျယ် မြင့်မြတ်သည့် သဘာဝတို့ကို ထုတ်ဖော်သည့် ပြဇာတ်များဖြစ်သည်။ ၁၆၇၀ ပြည့်နှစ်တွင် ဒရိုင်ဒင်ကို ဘုရင့်စာဆိုတော်အဖြစ်ဖြင့် ခန့်အပ်သည်တွင် နာမည်ကျော်ကြားသည်ထက် ကျော်ကြား လာလေသည်။ သို့သော် နှောင်းအခါ၌ သူ၏ပြဇာတ်များကို အချို့က ဝေဖန်လေရာ၊ ဒရိုင်ဒင်သည် သူနှင့်မသင့်သူတို့ကို စောင်းပါးရိပ်ခြည် ဝေဖန်သော ကဗျာလင်္ကာများနှင့်

စကားပြေများကို ရေးသားလေသည်။ မကွယ်လွန်မီ နှစ်များအတွင်းတွင်မူ၊ ရှေးဟောင်း ဂရိ၊ လတ္တင်နှင့် အင်္ဂလိပ် စာပေများကို ပြန်ဆိုရေးသားပြုစုခဲ့သည်။ ဒရိုင်ဒင်သည် ၁၇၀၀ ပြည့်နှစ် မေလ ၁ ရက်နေ့၌ ကွယ်လွန်ရာ၊ ဝက်စမင်စတာ အက်ဗေးတွင် သူ၏ရုပ်ကလာပ်ကို မြှုပ်နှံသင်္ဂြိုဟ်ကြလေသည်။

**ဒရိတ်, ဆာ ဖရန်းစစ်** (ခရစ် ၁၅၄၅-၁၅၉၆)။ ။ အင်္ဂလိပ်ဘုရင်မကြီး ပဌမ အယ်လစ်ဇဗက် လက်ထက်၌ နာမည် ကျော်ကြားသော ဆာ ဖရန်းစစ် ဒရိတ်သည် အင်္ဂလိပ် လူမျိုးထဲတွင် ပဌမဦးဆုံး ကမ္ဘာကို တပတ်ပတ်ခဲ့သူ ဖြစ်သည်။ သူသည် အင်္ဂလန်ပြည် ဒက်ဗွန်ရှိုင်ယာနယ် တယ်ဗစ်စတော့မြို့အနီးတွင် မွေးဖွားခဲ့၍၊ ပင်လယ်သို့ သွားလာကျက်စားသူများအကြားတွင် ကြီးပြင်းခဲ့ရ၏။ ထိုနောက် ဆွေမျိုးရင်းချာတဦးဖြစ်သူ နာမည်ထင်ရှားကျော်ကြားသော ဗြိတိသျှရေကြောင်းဗိုလ်ချုပ်ကြီး ဆာ ဂျွန် ဟောကင်းသည် သူ့ကိုတာဝန်ယူကာ၊ ကြည့်ရှုစောင့်ရှောက်လေသည်။ သို့ဖြင့် သူသည် ကမ်းရိုးတန်းတလျှောက် သွားလာသော သင်္ဘောတစင်းတွင်၊ ရေကြောင်းအတတ်များကို လေ့လာဆည်းပူးခဲ့ရ၏။

ဒရိတ်သည် ပင်လယ်ရေကြောင်းတွင် စွန့်စားသွားလာလိုသူ ဖြစ်ရာ၊ အသက် ၂၀ အရွယ်တွင် ဆာ ဂျွန် ဟောကင်းနှင့် အတူ၊ အာဖရိက အနောက်ဖက်ကမ်းရိုးတန်းရှိ၊ ဂင်းနီပြည်နယ်ဒေသသို့ ပင်လယ်ခရီး စတင်ထွက်လေသည်။ အသက် ၂၂ နှစ်အရွယ်တွင်ကား 'ဂျူးဒစ်' အမည်ရှိ သင်္ဘောတစင်းကို ကိုယ်တိုင် ကပ္ပိတန်အဖြစ် ကွပ်ကဲဦးစီးကာ ပင်လယ်သို့ ခရီးထွက်ခဲ့ပြန်၏။ ဒရိတ်တို့၏သင်္ဘောသည် ဗေရကရူ့ သင်္ဘောဆိပ်တွင်ရှိစဉ်၊ စပိန်လူမျိုးတို့၏တိုက်ခိုက်ခြင်းကို ခံရသဖြင့်၊ ဒရိတ်မှာ ပါသမျှပစ္စည်းဥစ္စာ အကုန် ဆုံးရှုံးခဲ့၏။ ထို့ပြင် စပိန်အာဏာပိုင်တို့က ဖမ်းဆီးရမိသောသုံ့ပန်းတို့ကို နှိပ်စက်ညှဉ်းပန်းသည်ကို တွေ့မြင်ရလေရာ၊ ဒရိတ်သည် စပိန်တို့အပေါ် အခဲမကြေအောင်ဖြစ်၍၊ တိုက်ခိုက်ခြေမှုန်းမည်ဟု သန္နိဋ္ဌာန်ချလိုက်လေသည်။

ထို့ကြောင့် ၁၅၇၀ ပြည့်နှစ်တွင်၊ အယ်လစ်ဇဗက်ဘုရင်မကြီး ထံမှ ပင်လယ်ပြင်၌၊ ရန်သူကုန်သင်္ဘောများအား တိုက်ခိုက်ခွင့်ကို တောင်းယူခဲ့လေသည်။ ၁၅၇၂ ခုနှစ်တွင် သင်္ဘောငယ်နှစ်စင်းဖြင့် အနောက်အိန္ဒိယကျွန်းစုရှိ စပိန်တို့၏ စခန်းများကို တိုက်ခိုက်လုယက်ရန် ခရီးထွက်ခဲ့ရာ၊ လမ်းတွင် အခြားသင်္ဘောတစင်းက လာရောက်ပူးပေါင်းလေသည်။ ဒရိတ်တို့၏ သင်္ဘောတပ်စုကလေးသည် ပနားမား ကျွန်းဆက်ပေါ်ရှိ စပိန်ပိုင် မြို့တမြို့ကို ဝင်ရောက် တိုက်ခိုက်၍၊ ပစ္စည်းများ လုယက်သိမ်းယူခဲ့၏။ ထိုမျှမကသေး၊ စပိန်တို့၏ အခြားစခန်းများကိုလည်း ဝင်ရောက်တိုက်ခိုက်၍၊ ပစ္စည်းများ လုယက်သိမ်းပိုက်ခဲ့သည်။ သင်္ဘောများကိုလည်း ဖျက်ဆီးနှစ်မြှုပ်ခဲ့၏။ ထိုနောက်တွင် သူသည် ပနားမား ကျွန်းဆက်ကို ကုန်းကြောင်းဖြင့် ဖြတ်သန်းခဲ့စဉ်၊ သစ်ပင်ကြီးတပင်ပေါ်မှနေ၍၊ တဖက်မှ ပစိဖိတ်သမုဒ္ဒရာကြီးကို မြင်တွေ့ခဲ့လေရာ၊ တနေ့နေ့တွင် ထိုသမုဒ္ဒရာရေပြင်တွင်၊ အင်္ဂလိပ်သင်္ဘောများ လွှင့်နိုင်စေရမည်ဟု ဒရိတ်သည် ကြုံးဝါးခဲ့လေသည်။ ထိုနောက် ဒရိတ်သည် တိုက်ရာပါပစ္စည်းများနှင့် အင်္ဂလန်ပြည်သို့ ၁၅၇၃ ခုနှစ် ဩဂုတ်လတွင် ပြန်



အင်္ဂလိပ်လူမျိုးထဲတွင် ပဌမဆုံးကမ္ဘာကိုပတ်ခဲ့သူ ဆာ ဖရန်းစစ် ဒရိတ်

ရောက်ခဲ့လေသည်။ ယင်းသို့ စပိန်တို့၏စခန်းများကို ဝင်ရောက်မွှေနှောက် တိုက်ခိုက် လုယက်သွားခဲ့သော ဒရိတ်ကို စပိန်တို့သည် အတော်ပင်ကြောက်ရွံ့ခန့်ညားလာလေသည်။

ဒရိတ်သည် တဖန် ပစိဖိတ်သမုဒ္ဒရာဖက်တွင် စွန့်စား ရှာဖွေရန် ကြံစည်လျက်ရှိလေသည်။ ဒရိတ်၏ ကြိုးပမ်းမှုကြောင့်၊ အယ်လစ်ဇဗက်ဘုရင်မကြီးသည် ဒရိတ်အား လိုအပ်သော ပစ္စည်းများကို ထုတ်ပေးခဲ့သည်။ ဒရိတ်၏အစွမ်းကို ယုံကြည်ကြသူများကလည်း၊ ဒရိတ်နှင့်အတူ လိုက်ပါရန် ပြောဆိုလာကြသည့်ပြင်၊ တတ်စွမ်းသမျှ အားပေးကူညီကြလေသည်။ ထို့ကြောင့် ၁၅၇၇ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်နေ့မှစ၍၊ ယခင်က မည်သည့်အင်္ဂလိပ်လူမျိုးမျှ ဖြတ်ကျော်ခြင်းမပြုခဲ့သေးသော မဂျဲလင်ရေလက်ကြားကို ဖြတ်

ကျော်ပြီးနောက်၊ ပစိဖိတ်သမုဒ္ဒရာဖက်သို့ ခရီးထွက်ခဲ့လေ၏။

ထိုခရီးတွင် သင်္ဘော ၅ စင်းဖြင့် ထွက်ခဲ့ရာ၊ ဒရိတ် စီးနင်းလိုက်ပါခဲ့သော သင်္ဘောတစင်းသာလျှင် မဂျဲလင် ရေလက်ကြားကို ဖြတ်ကျော်နိုင်၍၊ ပစိဖိတ်သမုဒ္ဒရာဖက်သို့ ရောက်ရှိခဲ့၏။ ကျန်သင်္ဘောများအနက် ၃ စင်းမှာ ပျက်စီးသွား၍၊ တစင်းမှာ ပြန်သွားလေသည်။ ထိုနောက် ဒရိတ်သည် တောင်အမေရိကတိုက် အနောက်ဖက်ကမ်းရိုးတန်းတလျှောက် သင်္ဘောလွှင့်ကာ၊ ချီလီနှင့် ပီးရူးနယ်များရှိ စပိန်တို့၏ စခန်းများကိုငင်း၊ သင်္ဘောများကိုငင်း၊ တိုက်ခိုက် လုယက်ခဲ့လေရာ၊ ရွှေငွေကျောက်သံပတ္တမြား စသည့် အဖိုးတန် ပစ္စည်း မြောက်မြားစွာရရှိခဲ့၏။

ဒရိတ်သည် ထိုဒေသမှ မြောက်ဖက်သို့ ဆက်လက်ခရီးထွက်ခဲ့ရာ၊ ယခု ကာလီဖိုးနီးယားဟုခေါ်သော ဒေသသို့ ရောက်သောအခါ၊ ထိုဒေသကို အင်္ဂလန်ပြည်ပိုင်ဒေသအဖြစ် သိမ်းပိုက်၍၊ နယူး အယ်လဗီယွန်ဟု အမည်ပေးခဲ့၏။ ထိုနောက်တွင် အင်္ဂလန်သို့ပြန်ရန်အတွက် လာလမ်းအတိုင်း မပြန်ဘဲ၊ ပစိဖိတ်သမုဒ္ဒရာကို ဖြတ်ကျော်၍၊ သင်္ဘောလွှင့်ခဲ့လေသည်။ ယင်းသို့ဖြင့် ဒရိတ်သည် ကမ္ဘာကို တပတ် ပတ်နိုင်ခဲ့လေရာ၊ အင်္ဂလန်ပြည်သို့ရောက်သည်အထိ၊ ၃ နှစ်ကျော်ကြာလေသည်။ ဒရိတ်၏ စွမ်းဆောင်မှုကား၊ အံ့မခန်းဖွယ်ရာ ဖြစ်ခဲ့၏။

ထိုကြောင့် အယ်လစ်ဇဗက်ဘုရင်မကြီးကိုယ်တိုင် ကမ္ဘာကို လှည့်၍ပြန်ခဲ့သော ဒရိတ်အား၊ ဆာဘွဲ့ဖြင့် သူကောင်းပြုလေသည်။ ဆာ ဖရန်းစစ် ဒရိတ်က အင်္ဂလန်သည် စပိန်တို့ ရေတပ်နှင့် အင်အားချင်းယှဉ်ပြိုင်နိုင်ကြောင်းကို ပြခဲ့သည်။ အယ်လစ်ဇဗက်ဘုရင်မကလည်း အင်္ဂလန်နှင့်စပိန်မှာ တည့်တည့်လင်းလင်း စစ်ဖြစ်နေကြသည် မဟုတ်သေးသော်လည်း၊ စပိန်သင်္ဘောများအား တိုက်ခိုက်လုယက်ရန် အတွက် ဒရိတ်တို့၏လုပ်ငန်းကဲ့သို့ ပင်လယ်ဓားပြလုပ်ငန်းများကို တိတ်တဆိတ် အားပေးခဲ့လေသည်။

ကမ္ဘာကိုလှည့်၍ပြန်ခဲ့သော ဒရိတ်သည် မကြာမီ ပင်လယ်သို့ထွက်၍ စွန့်စားသွားလာလိုပြန်လေ၏။ သို့သော် ဘုရင်မကြီးက ခွင့်မပြုသဖြင့်၊ စိတ်သွားတိုင်း ကိုယ်မပါ ဖြစ်ခဲ့ရရှာလေသည်။ ထိုအတောအတွင်း ပါလီမန်တွင် အမတ်အဖြစ် ဆောင်ရွက်ခဲ့ရသဖြင့်၊ ပလင်းမတ်မြို့၏မြို့တော်ဝန် အဖြစ်ဖြင့်လည်း အမှုထမ်းရသေးသည်။ သို့သော် မကြာမီ ဒရိတ်သည် သူနှစ်သက်သည့်ပင်လယ်ပြင်တွင် စွန့်စားမှုမျိုး ပြုလုပ်နိုင်ရန် အကြောင်းပေါ်လာလေ၏။ ထိုအကြောင်းကား ၁၅၈၅ ခုနှစ်တွင် စပိန်နှင့်အင်္ဂလန်တို့ စစ်မက် စတင်ဖြစ်ပွားခြင်း ဖြစ်လေသည်။

ထိုအခါတွင် ဒရိတ်သည် ရေတပ်တတပ်ကိုအုပ်ချုပ်ကာ အနောက်အိန္ဒိယကျွန်းစုများသို့ သွားရောက်ပြီးသော်၊ စပိန်တို့၏ မြို့များကို တိုက်ခိုက်လုယက် ဖျက်ဆီးခဲ့လေသည်။ ၁၅၈၇ ခုနှစ်တွင်၊ ကေးဒစ် သင်္ဘောဆိပ်တွင်၊ အင်္ဂလန်ပြည်ကို ချီတက်တိုက်ခိုက်ရန် စပိန်သင်္ဘောများ စုရုံးနေသည်ဟူသော သတင်း ကြားရသဖြင့်၊ ထိုသင်္ဘောဆိပ်သို့ သင်္ဘော ၃၀ ပါသောရေတပ်ဖြင့် ချီတက်၍၊ တန်ချိန် ၁၀,၀၀၀ ခန့်ရှိ စပိန်သင်္ဘောများကို တိုက်ခိုက်မီးရှို့ ဖျက်ဆီးခဲ့လေသည်။ ထိုကြောင့်၊ စပိန်ရေတပ်ကြီးမှာ အင်္ဂလန်ပြည်သို့ ချီတက်တိုက်ခိုက်ရေး တွင်၊ နှောင့်နှေးသွားလေသည်။ (စပိန်ရေတပ်ကြီး — ရှု။)

၁၅၈၈ ခုနှစ်တွင် စပိန်ရေတပ်ကြီး ချီတက်လာသော အခါ၊ ဒရိတ်သည် လော့ ဟောင်းဝပ်၏လက်အောက်တွင် ဒုတိယ ရေကြောင်းဗိုလ်ချုပ်အဖြစ် ခန့်ထားခြင်းခံရ၍၊ စပိန် ရေတပ်ကြီးအား အောင်မြင်စွာ တွန်းလှန်တိုက်ခိုက်ရာတွင် ပါဝင်ကာ၊ အစွမ်းကုန် ဆောင်ရွက်ခဲ့လေသည်။ ယင်းသည့်နောက်၊ အနောက်အိန္ဒိယကျွန်းစုများရှိ စပိန်တို့၏စခန်းများကို တိုက် ခိုက် ရန် အ သွား တွင်၊ ပင်လယ်ခရီးလွှင့်နေစဉ်ပင် သင်္ဘောပေါ်၌ နာမကျန်းဖြစ်၍၊ ၁၅၉၆ ခုနှစ် ဇန္နဝါရီလ ၂၈ ရက်နေ့တွင် အနိစ္စရောက်လေသည်။

**ဒလပန်း**။ ။ဒလပန်းသည် သက္ကရာဇ် ၁၁၀၉ ခုနှစ်တွင် မင်းဖြစ်သော ဟံသာဝတီမင်း ဗညားဒလ၏လက်ထက်၌ သေနာပတိအရာ ခန့်ထားခြင်းခံရသော စစ်သူကြီးဖြစ်သည်။ (ဗညားဒလ — လည်းရှု။) သက္ကရာဇ် ၁၁၁၃ ခုနှစ်၌ ဗညားဒလတိုက်၍ အင်းဝပျက်သော်၊ ဟံသာဝတီ ဥပရာဇာသည် စစ်သူကြီး ဒလပန်းအား တပ်ပေါင်း တဆယ့်ငါးတပ်၊ သူရဲ လေးသောင်း ငါးထောင်၊ ဆင်လုံးမြင်းရင်းနှင့် တကွ ဗိုလ်ချုပ်ခန့်ပြီးလျှင်၊ အင်းဝမြို့ကို အစောင့်ထားသည်။ အင်းဝတွင် အစောင့်ကျန်ရစ်သော ဗိုလ်ချုပ်ဒလပန်းသည် သစ္စာမပေးရသေးသော မြောက်ဖက် မုဆိုးဘိုမြို့မှစ၍ အရှေ့ဖက်၊ အနောက်ဖက်၊ တောင်ဖက် မြို့ကျေးရွာများကို သစ္စာပေးရန် တာဝန်ယူရသည်။ ထိုသို့တာဝန်ယူရသည့်အတိုင်း၊ ဒလပန်းသည် တပ်များစေလွှတ်၍၊ မုဆိုးဘိုကို အကြိမ်ကြိမ် သွားရောက်တိုက်ခိုက်စေရာ၊ အလောင်းဘုရား (ဦးအောင်ဇေယျ) ၏ အစီအမံကောင်းခြင်းကြောင့်၊ အကြိမ်ကြိမ်ပင် အရေးနိမ့်ရပြီးလျှင်၊ နောက်ဆုံးတွင် အင်းဝ၌ အခိုင်အလုံ နေရလေသည်။ အလောင်းဘုရားလည်း ချင်းတွင်းမြစ်ညာတလျှောက်ရှိ မြို့ကျေးရွာများကို တိုက်ခိုက် သိမ်း ယူ ၍၊ အင် အား ဖြည့် သည်။ (အလောင်းဘုရား — လည်းရှု။)

မုဆိုးဘိုတိုက်ပွဲတိုင်းလိုလို ဒလပန်း၏တပ်များ အရေးနိမ့်၍၊ အင်းဝသို့ချည်း ဆုတ်ခွာရသည့်အကြောင်းကို ကြားသိ

လေသော်၊ ဗညားဒလသည် ဒလပန်းအား အစိအမံညံ့သည်ဟူ၍ ပဲခူးသို့ပြန်ခေါ်ပြီးလျှင်၊ ယင်း၏နေရာတွင် တောင်ငူငွေခွန်မှူးအား ပြောင်းလဲခန့်ထားလေသည်။

၁၁၁၅ ခုနှစ်၌ အလောင်းဘုရားသည် အင်းဝကိုတိုက်ခိုက်အောင်မြင်၍၊ ဒလပန်းတပ်သည် အောက်မြန်မာနိုင်ငံသို့ ဆုတ်ခွာခဲ့ရ၏။ သို့ရာတွင် မကြာမီပင် ဗညားဒလသည် အင်းဝသို့ချီတက်၍ ပြန်လည်တိုက်ခိုက်၏။ ယင်းတိုက်ပွဲတွင် ဒလပန်းသည် လှေတပ်ကိုကွပ်ကဲ၍၊ ကျောက်မြောင်းအရောက် ချီတက်သည်။ ကျောက်မြောင်းတွင် အလောင်းဘုရားနှင့် အလောင်းဘုရား၏ညီတော်တို့က ဒလပန်း၏ လှေတပ်ကို စွန့်စွန့်စားစား တိုက်ခိုက်ကြရာ၊ ဒလပန်း၏လှေတပ်ပျက်၍ အပြင်းအထန် စုန်ပြေးရလေသည်။ ၁၁၁၆ ခုနှစ်၌ ဟံသာဝတီဥပရာဇာလည်း အင်းဝကိုရဲထားရာမှ ခွာ၍၊ အောက်သို့ စုန်ဆင်းပြီးလျှင်၊ ပြည်မြို့၌ ဒလပန်းကို အစောင့်အရှောက် ထားခဲ့လေသည်။ သို့ရာတွင် မြန်မာအချို့သည် ပဲခူးမှထွက်ပြေးပြီးလျှင်၊ရွှေတောင်၊ပန်းတောင်း၊မြန်အောင်စသည့် ဒေသတို့တွင် အင်အားစု၍၊ ပြည်မြို့ကို အလုံးအရင်းနှင့် အပြန်အလှန်တိုက်ခိုက်ကြရာ၊ ထိုတိုက်ပွဲတွင် ဒလပန်းလည်း ပါဝင်ခဲ့သည်။

ထိုနောက် ဒလပန်းသည် သံလျင်မြို့ကို ပြန်လည်အုပ်ချုပ်နေလေသည်။ ၁၁၁၇ ခုနှစ်၌ ဒဂုံမြို့ကို အလောင်းဘုရားက တိုက်ခိုက်သိမ်းပိုက်လိုက်ပြီးသည့်နောက်၊ ဗညားဒလသည် ဒဂုံမြို့ကို အကြိမ်ကြိမ် အဖန်ဖန် လာရောက်တိုက်ခိုက်သည်။ ယင်းသို့ အကြိမ်ကြိမ် လာရောက်တိုက်ခိုက်သည့်အထဲတွင် စစ်သူကြီး ဒလပန်းလည်း ပါဝင်လေသည်။ အလောင်းဘုရားဖက်မှ ဒလပန်းနှင့် အများဆုံး ယှဉ်ပြိုင်တိုက်ခိုက်ရသူမှာ မင်းလှမင်းခေါင် ဖြစ်ပေသည်။ တကြိမ်တွင် ဒလပန်းနှင့် မင်းလှမင်းခေါင်တို့သည် တာမွေဖောင်းနင်းမလစ်အရပ်၌ မြင်းစီးချင်း ထိုးခဲ့ကြသည်။ မင်းလှ မင်းခေါင် ထိုးလွှတ်လိုက်သောလှံသည် ဒလပန်း၏မြင်းနှင့်တကွ မြင်းက ကုန်းခံကို ထိုးမိ၍ ထုတ်ချင်းခတ်လေရာ၊ ဒလပန်းသည် မြင်းက ကုန်းခံကဆင်း၍ ထွက်ပြေး လွတ်မြောက်လေသည်။ တကြိမ်တွင်လည်း ဒဂုံမြို့ ရေတပ်တိုက်ပွဲ၌ လှေထက်မှ ကွပ်ကဲလျက်ရှိသောဒလပန်းအား မင်းလှမင်းခေါင်က 'ဒလပန်း စစ်သူကြီး သူရဲကောင်းဆိုသည်၊ မခွာလွယ်နှင့်၊ ခံနိုင်အောင် လှလှခံ' ဟုဆိုပြီးလျှင် ဒလပန်းကိုအရယူမည်ဟု လိုက်ရာ၊ ဒလပန်းလည်း အပြင်းခွာသဖြင့် လွတ်မြောက်ခဲ့သည်။ တကြိမ်တွင်လည်း ဗညားဒလ၏ဒေါပုံခံတပ်ကို ရဲလျက်ရှိသော မင်းလှမင်းခေါင်၏တပ်ကို ဖြုတ်ရန် ဒလပန်းသည် မြင်း တထောင်ကျော်နှင့်လာရာ၊ မအူမြို့အနောက်သို့ ရောက်လျှင်၊ မင်းလှမင်းခေါင် ဆီးကြိုတိုက်ခိုက်နှင့်၍၊ ဒလပန်း၏တပ်လည်း ညတွင်းချင်း ဆုတ်ခွာပြေးရလေသည်။

သက္ကရာဇ် ၁၁၁၈–၁၁၁၉ ခုနှစ်၌ အလောင်းဘုရားသည် ဟံသာဝတီကိုဝိုင်းရံလျက် လုပ်ကြံရာ၊ ကြာသော် မြို့တွင်းသားတို့ ငတ်မွတ်ခေါင်းပါးလာကြသဖြင့်၊ ဗညားဒလသည် လက်နက်ချမည့်အကြောင်း အရေးတောင်းခဲ့၏။ မိမိ၏သမီးတော်ကိုလည်း အလောင်းဘုရားသို့ ဆက်သ၏။ ယင်းသို့ အညံ့ခံသည်ကို သမီးတော်နှင့်ရည်ငံနေသော စစ်သူကြီး ဒလပန်းသည် မကျေမနပ်ဖြစ်သဖြင့်၊ မိမိ၏အိမ်သားများနှင့်တကွ လက်ရွေးစင် တပ်သားများကိုပါ အတူခေါ်ဆောင်ပြီးလျှင်၊ ရံလျက်ရှိသော မြန်မာတပ်များကို ဖောက်ထွင်း၍၊ စစ်တောင်းသို့ ထွက်ခွာသွားလေသည်။ ထိုနောက် ဒလပန်းသည် စစ်တောင်းမှ ကော့ဂွန်းဖက်သို့ကူးကာ၊ နှစ်ပေါင်း အတန်ကြာမျှ ပုန်းအောင်း၍၊ အနှောင့်အရှက်ပေးနေခဲ့လေသည်။

နောင်တော်ကြီးမင်း (မြန်မာ ၁၁၂၂–၁၁၂၅)၏ လက်ထက် သက္ကရာဇ် ၁၁၂၃ ခုနှစ် တွင် ဘထွေးတော် တောင်ငူဘုရင်ခံ ပုန်ကန်ခြားနားသောကြောင့်၊ နောင်တော်ကြီးမင်း ကိုယ်တိုင် တောင်ငူသို့ ချီတက်တိုက်ခိုက်လေသည်။ ယင်းသို့ တောင်ငူကို ဝန်းရံလုပ်ကြံနေသည့် ကာလအတွင်း၊ စစ်ပြေး ဒလပန်းသည် မုတ္တမမြို့သို့ လာရောက်တိုက်ခိုက်လေသည်။ သို့ရာတွင် ကော့ဂွန်း၌ကျန်ရစ်သော ဒလပန်း၏ သားမယားများကို နောင်တော်ကြီးမင်းက ဖမ်းဆီးရမိခဲ့သဖြင့်၊ နောက်ဆုံး၌ ဒလပန်းသည် မိမိကိုယ်ကို အညံ့ခံ ဝင်ရောက်၍၊ နောင်တော်ကြီးမင်းထံ မိမိ၏သားမယားများ၏အသက်ကို မိမိ၏အသက်နှင့်လဲ၍ ချမ်းသာပေးရန် အသနားခံ ပန်ကြားလေသည်။ နောင်တော်ကြီးမင်းလည်း ဒလပန်း၏ရဲစွမ်း သတ္တိဂုဏ်ကို ထောက်ထားငဲ့ညှာ၍၊ ဖမ်းမိသည့်အားလုံးသော သူများနှင့် တကွ ဒလပန်းကိုပါ အသက်ချမ်းသာခွင့် ပေးသည်။ ဒလပန်းကိုလည်း မိမိ၏အမှုတော်ထမ်းရွက်စေလေသည်။

**ဒသမ**။ ။၅၅၅ (ငါးရာငါးဆယ့်ငါး) သည် ခု ဂဏန်း၊ ဆယ် ဂဏန်း၊ ရာ ဂဏန်းဟူသော ဂဏန်းသုံးမျိုးပါသည့် ကိန်းတခုဖြစ်သည်။ ဤကိန်းကို လကျာမှ လက်ဝဲသို့ အစီအစဉ် အတိုင်း ရေတွက်သော်၊ တတိယနေရာ၌ရှိသော ၅ သည် ၅ ရာ ဖြစ်သည်။ ဒုတိယနေရာရှိ ၅ သည် ၅ ဆယ်ဖြစ်၍၊ ပဌမနေရာရှိ ၅ သည် ၅ ခု ဖြစ်သည်။ တနည်းအားဖြင့် ဆိုသော် အထက်ပါ ၅ ဂဏန်း သုံးလုံးသည် နေရာအသီးသီး အလိုက် တန်ဖိုးအမျိုးမျိုးရှိကြသည်။ အကယ်၍ တတိယ နေရာရှိ ၅ ကို ဒုတိယနေရာသို့ရွှေ့ပြောင်းလိုက်လျှင်၊ တန်ဖိုးသည် ၅၀၀ မှ ၅၀ (သို့မဟုတ် ဆယ်ပုံတပုံ) အထိ ကျဆင်းသွားမည်။ ထို့အတူ ဒုတိယနေရာရှိ ၅ ကို ပဌမနေရာသို့ ရွှေ့ပြောင်းလိုက်လျှင် ၅ ၏ တန်ဖိုးသည် ရှိရင်းစွဲတန်ဖိုး၏

၁၀ ပုံ ၁ ပုံမျှသာ ဖြစ်လာသည်။ ဤနည်းအားဖြင့်

| ရာ | ဆယ် | ခု |
|---|---|---|
| ၅ | ၅ | ၅ |

ဟူသော ကိန်းတွင် ခု ဂဏန်းနေရာမှ ၅ ကို လက်ျာဘက်သို့ တနေရာရွှေလိုက်သောအခါ နေရာသစ်တွင် ထို ၅ ဂဏန်းသည် ဆယ်ပုံ တပုံသာ တန်ဖိုးရှိလာသည်။ တနည်းအားဖြင့် ဆိုသော် ခု နေရာမှရွှေပြောင်းလိုက်သော ၅ သည် မူလတန်ဖိုး၏ ၁၀ ပုံ ပုံ ၁ ပုံဖြစ်လာသည်။ တဖန် ၅ ကို နောက်တနေရာသို့ ဆက်လက် ရွှေလိုက်သောအခါ၊ မူလတန်ဖိုး၏ ၁၀၀ ပုံ ပုံ ၁ ပုံ၊ ထိုနောက် ၁၀၀၀ ပုံ ပုံ ၁ ပုံ စသည်တို့ဖြစ်လာကြသည်။ ဤနည်းအားဖြင့် အောက်ပါကိန်းတန်းမျိုးကို ရရှိလာသည်။

| ရာ | ဆယ် | ခု | ဆယ်စိတ် | ရာစိတ် | ထောင်စိတ် |
|---|---|---|---|---|---|
| ၅ | ၅ | ၅ | ၅ | ၅ | ၅ |

**ဒသမအမှတ်**

ပဌမဂဏန်းသုံးလုံးသည် ကိန်းပြည့်ကိုပြ၍ ကျန်ဂဏန်းသုံးလုံးမှာ ခု ထက်ငယ်သော ဂဏန်းများကို ပြသည်။ ထိုကြောင့် ဤဂဏန်းနှစ်မျိုးကို ခွဲခြားပြသရန် သင့်လျော်သော အမှတ်အသားတခုကို လိုလားအပ်သည်အလျောက် ကျွန်ုပ်တို့သည် ဒသမအမှတ် (·) ကို အသုံးပြုကြသည်။ မှတ်ချက်။ ဒသမအမှတ်ကို ရေးသားသုံးစွဲရာ၌ အမြှောက်ဟူသော အဓိပ္ပါယ်မသက်ရောက်လေအောင်၊ (·) အမှတ်ကို မျဉ်း၏အထက်တွင် (·) ဤသို့ ရေးသားလေ့ရှိသည်။ ဥဒါဟရဏ်အားဖြင့် ၅.၅ မှာ '၅ ကို ၅ နှင့်မြှောက်ပါ' ဟူသော အဓိပ္ပါယ်ရှိသည်။ ၅·၅ ဟု ရေးသားမှသာလျှင်၊ ဒသမ ဂဏန်း ဖြစ်သပေသည်။

အထက်ပါ အချက်အလက်များအရ ဒသမပိုင်းဆိုရာ၌ လက်ဝဲဘက်တွင် (·) အမှတ်ခံ၍ သာမန်ကိန်း ရေးနည်းစံနစ်အတိုင်း ရေးသားထားသော ၁ ထက်ငယ်သည့် ဂဏန်းများကို ဆိုလိုသည်။

**ဒသမပိုင်းကို ဖတ်နည်း။**

ဒသမပိုင်းဖတ်ရာတွင် အောက်ပါနည်းအတိုင်း ဖတ်ရသည်။ ဥဒါဟရဏ်အားဖြင့် ·၁၂၃ ကို ဒသမ တစ်၊ နှစ်၊ သုံးဟု ဖတ်ရသည်။ ဤသို့မဖတ်ဘဲ၊ ဒသမတရာနှစ်ဆယ့်သုံးဟု ဖတ်လျှင် မှားသည်။ အဘယ်ကြောင့်နည်း။

**ဒသမပိုင်းတွင် ပါလာသော သုည၏တန်ဖိုး။**

ပုစ္ဆာ (၁) ·၄၅ ၏ တန်ဖိုးနှင့် ·၄၅၀ ၏ တန်ဖိုးကို နှိုင်းယှဉ်ပြပါ။

တွက်နည်း။ $\cdot ၄၅ = \frac{၄}{၁၀} + \frac{၅}{၁၀၀} = \frac{၄၅}{၁၀၀}$

$\cdot ၄၅၀ = \frac{၄}{၁၀} + \frac{၅}{၁၀၀} + \frac{၀}{၁၀၀၀} = \frac{၄၅}{၁၀၀}$ (အထက်ပါ ဒသမပိုင်းနှင့် အတူတူပင်ဖြစ်သည်။) အထက်ပါပုစ္ဆာမှ သိရှိရသည်မှာ ဒသမလက်ျာဖက်၌ရှိသော သုည၏လက်ျာဖက်တွင် သုညမှအပဖြစ်သော ဂဏန်း ဆက်၍မပါရှိလျှင်၊ ထိုသုညသည် မူလဂဏန်း၏တန်ဖိုးကို မပြောင်းလဲစေတတ်ချေ။

ပုစ္ဆာ (၂) ·၂၄ ၏တန်ဖိုးနှင့် ·၀၂၄ ၏တန်ဖိုးကို နှိုင်းယှဉ်ပြပါ။

တွက်နည်း။ $\cdot ၂၄ = \frac{၂}{၁၀} + \frac{၄}{၁၀၀} = \frac{၂၄}{၁၀၀}$

$\cdot ၀၂၄ = \frac{၀}{၁၀} + \frac{၂}{၁၀၀} + \frac{၄}{၁၀၀၀} = \frac{၂၄}{၁၀၀၀}$

ထို့ကြောင့် ·၀၂၄ သည် ·၂၄ ၏ ၁၀ ပုံတပုံဖြစ်သည်။

သို့ဖြစ်၍ ဒသမပိုင်းတွင်ပါဝင်နေသော ဂဏန်းများ၏ရှေ့၌ သုညကိုထည့်ပေးလျှင်၊ ရရှိအပ်သောကိန်းသစ်သည် မူလတန်ဖိုး၏ ၁၀ ပုံ ၁ ပုံသို့ လျော့ကျသွားသည်။ ထို့အတူ သုညနှစ်လုံးရှေ့၌ ထည့်ပေးလျှင် မူလတန်ဖိုး၏ ၁၀၀ ပုံ ၁ ပုံ ဖြစ်လာသည်။

ဥဒါဟရဏ်ကား ·၀၀၂၄ သည် ·၂၄ ၏ ၁၀၀ ပုံ ၁ ပုံဖြစ်သည်။

**ဒသမအမှတ်ကို ရွှေပေးခြင်းကြောင့် တန်ဖိုးပြောင်းလဲသွားပုံ။**

၃၇၈·၄၆ ဟူသော ကိန်းတွင် ဒသမအမှတ်ကို လက်ျာဖက်သို့ တနေရာ ရွှေပေးလိုက်သောအခါ ၃၇၈၄·၆ ဟူသော ကိန်းကို ရရှိသည်။ ဤကိန်းသည် မူလကိန်း၏ ၁၀ ဆဖြစ်သည်။ အကယ်၍ နှစ်နေရာပြောင်းလိုက်လျှင်၊ မူလကိန်း၏ အဆ တရာဖြစ်သော ကိန်းသစ်ကို ရရှိသည်။ ထို့အတူ ဒသမ အမှတ်ကို လက်ဝဲဖက်သို့ တနေရာရွှေလိုက်လျှင်၊ ရရှိလာသောကိန်းသစ်သည် မူလကိန်း၏ ဆယ်ပုံ တပုံဖြစ်၍၊ နှစ်နေရာရွှေလိုက်လျှင် ရာပုံတပုံ၊ သုံးနေရာရွှေလိုက်လျှင် ထောင်ပုံတပုံ တန်ဖိုးရှိသောကိန်းသစ် အသီးအသီးဖြစ်လာကြသည်။ အထက်ပါအချက်များကို အခြေပြုကာ ဒသမပါသောကိန်းတခုကို ၁၀ နှင့် မြှောက်လိုသောအခါ၌ဖြစ်စေ၊ စားလိုသောအခါ၌ဖြစ်စေ၊ ဒသမအမှတ်ကို လက်ျာဖက်သို့မဟုတ် လက်ဝဲဖက်သို့ တနေရာရွှေပေးကြသည်။ တနည်း

ဆိုသော် ပေးထားသောကိန်းတခုကို ၁၀ နှင့် မြှောက်လိုလျှင် ထိုကိန်းတွင်ပါသော (·) အမှတ်ကို လက်ျာဘက်သို့ တနေရာရွှေပေး၍၊ ၁၀၀ နှင့် မြှောက်လိုလျှင် နှစ်နေရာရွှေပေးရသည်။ ထို့အတူ ၁၀ နှင့် စားလိုလျှင် လက်ဝဲဖက်သို့ တနေရာရွှေပေး၍၊ ၁၀၀ နှင့် စားလိုလျှင် နှစ်နေရာရွှေပေးရသည်။ ဥဒါဟရဏ်ကား

၁၂၃·၄၅ ÷ ၁၀ = ၁၂·၃၄၅

၁၂၃·၄၅ ÷ ၁၀၀ = ၁·၂၃၄၅ ဖြစ်သည်။

အပေါင်းနှင့်အနုတ်။

ဒသမပါသည့်ကိန်းများနှင့် စပ်လျဉ်းသော အပေါင်းနှင့်အနုတ် ပုစ္ဆာများကို တွက်ကြသောအခါ၊ ရိုးရိုးဂဏန်းများကို ပေါင်းသည့်အခါမှာကဲ့သို့ ဆယ်စိတ်ဂဏန်းများကို တခုအောက် တခုထား၍၊ ရာစိတ်ဂဏန်းများကို တခုအောက် တခုထားရသည်။ ထောင်စိတ်၊ သောင်းစိတ် စသည်တို့ကိုလည်း ဤသို့ပင်ထား၍ ရိုးရိုး အပေါင်းနှင့်အနုတ် ပုစ္ဆာများကဲ့သို့ တွက်ချက်ရသည်။ ဤသို့ ဂဏန်းကို အစီအစဉ် အတိုင်း ရေးသားထားသောအခါ ဒသမအမှတ်များသည် တတန်းတည်းဖြစ်နေသည်ကို တွေ့မြင်ရပေမည်။

ပုစ္ဆာ (၁) ကုန်တထုပ်၏ အလေးချိန်သည် ၁၁·၆ ပေါင်ဖြစ်၍၊ အခြားကုန်တထုပ်၏ အလေးချိန်သည် ၆·၃ ပေါင်ဖြစ်လျှင်၊ ထိုကုန်နှစ်ထုပ်၏အလေးချိန် စုစုပေါင်းကိုရှာပါ။

တွက်နည်း။ ၁၁·၆
၆·၃
၁၇·၉ ပေါင်ဖြစ်သည်။

ပုစ္ဆာ (၂) ရေအပြည့်ပါရှိသော ပုလင်းကြီးသည် ၁၈·၉ ပေါင် လေး၍၊ ပုလင်းသက်သက်သည် ၁၂·၄ ပေါင် လေးလျှင်၊ ရေ၏အလေးကိုရှာပါ။

တွက်နည်း။ ၁၈·၉
၁၂·၄
၆·၅ ပေါင်ဖြစ်သည်။

ပုစ္ဆာ (၃) ၁၆·၇၃ နှင့် ၁၂·၆၄ ကိုပေါင်းပါ။

တွက်နည်း။ ၁၆·၇၃
၁၂·၆၄
၂၉·၃၇ ဖြစ်သည်။ ဤနေရာ၌ ရာစိတ် ၃ သည် ·၀၃ ဖြစ်၍၊ ရာစိတ် ၄ သည် ·၀၄ ဖြစ်သည်။ ထို့ကြောင့် ရာစိတ် ၃ နှင့်ရာစိတ် ၄ တို့၏ ပေါင်းရကိန်းစိတ် ၇ ကို ရာစိတ်နေရာတွင် ရေးမှတ်ထား၏။ ·၇ နှင့် ·၆ ပေါင်းသောအခါ ဆယ်စိတ် ၁၃ ကိုရရှိသည်။ ဆယ်စိတ် ၁၀ သည် ၁ ခုဖြစ်သောကြောင့် ၁ ကို ခုဂဏန်းနေရာသို့ ပို့ပြီးနောက် ကျန် ၃ ကိုသာလျှင် ဆယ်စိတ်နေရာတွင် ရေးချထားရသည်။

ပုစ္ဆာ (၄) ၁၂၇·၃၄ မှ ၈၄·၇၆ ကိုနုတ်ပါ။

တွက်နည်း။ ၁၂၇·၃၄
၈၄·၇၆
၄၂·၅၈ ဤနေရာ၌ ရာစိတ် ၄ သည် ယင်း၍ယင်းမှ ရာစိတ် ၆ ကိုမနုတ်နိုင်သဖြင့်၊ ဆယ်စိတ် ၃ ထဲမှ ဆယ်စိတ် ၁ ကိုယူပြီးလျှင်၊ ယင်းကို ရာစိတ် ၁၀ ဟု ပြောင်းယူသည်။ ထိုအခါ ရာစိတ် ၁၄ ရှိလာသဖြင့် ယင်းထဲမှ ရာစိတ် ၆ နုတ်ရာ၊ ရာစိတ် ၈ ကျန်သည်။ ထိုနည်းတူ ဆယ်စိတ် ၂ မှ ဆယ်စိတ် ၇ ကို မနုတ်နိုင်သဖြင့်၊ ၇ ခုမှ ၁ ခုကိုယူ၍ ထို ၁ ခုကို ဆယ်စိတ် ၁၀ ဟု ပြောင်းလဲယူသည်။ ထိုအခါ ဆယ်စိတ် ၁၂ မှ ဆယ်စိတ် ၇ ကို နုတ်ယူနိုင်သည်။

အမြှောက်။ ဒသမပါသောကိန်းများကို မြှောက်ရာတွင် မြှောက်ကိန်းတွင် ပါရှိသော ခုဂဏန်းကို တည်ကိန်း၏ လက်ျာဘက်အစွန်းရှိ ဂဏန်း၏ အောက်တည့်တည့်တွင် ရေးပြီးလျှင်၊ အခြားဂဏန်းများကို အစဉ်အတိုင်းရေးပါ။ ထိုနောက် မြှောက်ကိန်းတွင်ပါဝင်သော ဂဏန်းတလုံးစီဖြင့် မြှောက်၍ရသော ကိန်းတန်းကို အောက်ပါပုံစံအတိုင်း ရေးပါ။

ပုစ္ဆာ (၁) တလက်မတွင် ၂·၅၄ စင်တီမီတာရှိသော်၊ ၉ လက်မတွင် စင်တီမီတာ မည်မျှရှိမည်နည်း။

တွက်နည်း။ ၂·၅၄
၉
၂၂·၈၆ စင်တီမီတာ

၄ × ၉ = ၃၆ ရာစိတ် = ၃ ဆယ်စိတ်
+ ၆ ရာစိတ်

၅ × ၉ = ၄၅ ဆယ်စိတ်

၄၅ + ၃ = ၄၈ ဆယ်စိတ်
= ၄ ခု + ၈ ဆယ်စိတ်

၂ × ၉ = ၁၈။ ၁၈ + ၄ = ၂၂ ခု

ပုစ္ဆာ (၂) ဘီးတပ်၍ ဆွဲယူရသော ကြိုးတချောင်းသည် ဘီးတပတ်လည်လျှင် ၂၄·၃၅ လက်မ တက်လာသော်၊ ဘီး ၁၈ ပတ်လည်သော် လက်မပေါင်း မည်မျှတက်လာမည်နည်း။ တွက်နည်းကား အောက်ပါအတိုင်းဖြစ်သည်။

၂၄·၃၅ × ၁၈ = ၂၄·၃၅ × ၁၈ × (၁၀ ÷ ၁၀)
(မြှောက်ရန်ရှိသော မူလကိန်း ၂ ခုကို ၁၀ နှင့် မြှောက်၍ ၁၀ နှင့် စားခြင်းအားဖြင့် ယင်းတို့၏တန်ဖိုး မပြောင်းလဲချေ။)

= (၂၄·၃၅ × ၁၀) × (၁၈ ÷ ၁၀)
= ၂၄၃·၅ × ၁·၈

အဘယ်ကြောင့် မူလကိန်း ၂ ခုကို ဤသို့သဏ္ဍာန်ပြောင်းပေးပါသနည်းဟု မေးသော်၊ မြှောက်ကိန်းတွင် ခုဂဏန်း တခုသာ ပါစေလိုသောကြောင့်ဟု ဖြေဆိုရပေမည်။ ဤသို့ ပြောင်းလဲခြင်းအားဖြင့် အဖြေကို စိတ်တွင်မှန်းဆနိုင်သည်။ ၁·၈ သည် ၂ နီးနီးရှိသည်။ ထို့ကြောင့် တည်ကိန်း ၂၀၀ ကျော်ကို ၂ နှင့် မြှောက်လျှင် မြှောက်ရကိန်းသည် ၄၀၀ ကျော် ဖြစ်ရမည်ဟု လက်ဖြင့်မတွက်မီ စိတ်ဖြင့်မှန်းဆနိုင်ပါသည်။

```
 ၂၄၃·၅
    ၁·၈
 ------
 ၂၄၃·၅
 ၁၉၄·၈၀
 ------
 ၄၃၈·၃၀
```

ပုစ္ဆာ (၃) ၁၄·၂၃၄ ကို ၁၃·၇ ဖြင့်မြှောက်ပါ။

တွက်နည်း။ ၁၄·၂၃၄ × ၁၃·၇ = ၁၄၂·၃၄ × ၁·၃၇

```
 ၁၄၂·၃၄
    ၁·၃၇
 --------
 ၁၄၂·၃၄
  ၄၂·၇၀၂
   ၉·၉၆၃၈
 --------
 ၁၉၅·၀၀၅၈
```

**အစား။** ပုစ္ဆာ (၁) လူတယောက်သည် ၂၀·၃ မိုင်ခရီးကို ၇ နာရီကြာအောင် လမ်းလျှောက် ရသော်၊ ထိုသူ၏ အသွားနှုန်းကိုရှာပါ။

တွက်နည်း။ (၁)

```
    ၂·၉
 ၇)၂၀·၃
   ၁၄
   ---
    ၆·၃
    ၆·၃
```

၂·၉ မိုင်

တွက်နည်း။ (၂)

```
 ၇)၂၀·၃
    ၂·၉
```

မှတ်ချက်။ စားကိန်းသည် ခုဂဏန်း တလုံးတည်းဖြစ်လျှင် တွက်နည်း(၂) ဖြင့် အတိုစား စားရသည်။

ပုစ္ဆာ (၂) ၈၇·၅၆၁ ကို ၂·၃ နှင့်စားပါ။

```
              ၃၈·၀၇
            --------
တွက်နည်း။ ၂·၃)  ၈၇·၅၆၁
               ၆၉
               ---
               ၁၈·၅
               ၁၈·၄
               ----
                 ·၁၆၁
                 ·၁၆၁
                 ----
```

ဤပုစ္ဆာတွင် စားကိန်းသည် ၂ ကျော်ကျော်ရှိ၍ တည်ကိန်းသည် ၈၀ ကျော်ကျော်ရှိသည်။ ထို့ကြောင့် စိတ်တွင်မှန်းဆတွက်ချက်ခြင်းအားဖြင့် စားလဒ်သည် ၄၀ ထက် အနည်းငယ်ပို အနည်းငယ်လျော့ ဖြစ်ပေမည်ဟု လက်ဖြင့် မတွက်မီက တင်ကြိုသိရှိနိုင်သည်။

ပုစ္ဆာ (၃) ·၀၀၀၃၂၄ ကို ·၀၁၈ နှင့်စားပါ။

တွက်နည်း။ ပုစ္ဆာကို ဤသို့ ပြုပြင်ရေးသားသင့်သည်။

$$\frac{·၀၀၀၃၂၄}{·၀၁၈} = \frac{·၀၀၀၃၂၄ \times ၁၀၀}{·၀၁၈ \times ၁၀၀} = \frac{·၀၃၂၄}{၁·၈}$$ ။ ဤသို့

ပြုပြင်ရေးသားခြင်းဖြင့် စားကိန်းတွင် ခုဂဏန်းပေါ်လာသည်။ ရာစိတ် ၃ ကျော်ကျော်ကို စားကိန်း ၂ နီးနီးနှင့် စားလျှင် စားလဒ်တွင် ရာစိတ် ၁ ပါမည်ကို တင်ကြိုသိရှိနိုင်သည်။

·၀၀၀၃၂၄ ÷ ·၀၁၈ = ·၀၃၂၄ ÷ ၁·၈

```
     ·၀၁၈
    ------
၁·၈)·၀၃၂၄
    ·၀၁၈
    -----
    ·၀၁၄၄
    ·၀၁၄၄
```

ဤတွက်နည်းတွင် ဦးစွာ ရာစိတ် ၁ ကို စားလဒ်နေရာတွင် ရေးချ၍၊ စားကိန်းရှိ ဆယ်စိတ် ၈ နှင့် ရာစိတ် ၁ ကို ရာစိတ် ၁ နှင့်မြှောက်ပါ။ ရရှိသော ထောင်စိတ် ၈ ကို တည်ကိန်း၏ထောင်စိတ် ၂ အောက်တွင် ရေးပါ။ ထို့နောက် စားကိန်းရှိ ၁ ခုနှင့် ရာစိတ် ၁ ကို မြှောက်ပါ။ ပြီးသော် မြှောက်လဒ် ရာစိတ် ၁ ကို ရာစိတ် ၃ အောက်တွင် ရေးပါ။ ဤနည်းအတိုင်း ဆက်စားပါ။

**အပိုင်းဂဏန်းများကို ဒသမဖွဲ့ယူနည်း။**

ပုစ္ဆာ။ အောက်ပါ အပိုင်းဂဏန်းများကို ဒသမဖွဲ့ပေးပါ။

(က) $\frac{၁}{၄}$ (ခ) $\frac{၃}{၈}$ (ဂ) $\frac{၆}{၃၀}$ (ဃ) $\frac{၅}{၁၆}$

```
(က) ၄)၁·၀၀          (ခ) ၈)၃·၀၀၀
      ·၂၅                ၀·၃၇၅
```

(ဂ) $\frac{၆}{၃၀} = \frac{၆ \div ၁၀}{၃၀ \div ၁၀} = \frac{·၆}{၃}$

$၃)\,·၆$

$·၂$

(ဃ) $\frac{၅}{၁၆} = \frac{၅ \times ၅}{၁၆ \times ၅}$

$= \frac{၂၅}{၈၀}$

$= \frac{၂၅ \div ၁၀}{၈၀ \div ၁၀}$

$= \frac{၂·၅}{၈}$

$၈)\,၂·၅၀၀၀$

$·၃၁၂၅$

အထက်ပါတွက်နည်းတွင်၊ ၁ ကို ၄ နှင့် မစားနိုင်သဖြင့်၊ ၁ ကိုဆယ်စိတ်ဖွဲ့ပြီးလျှင်၊ ရရှိသော ဆယ်စိတ် ၁၀ ကို ၄ နှင့်စားရသည်။ ထိုအခါ စားလဒ် ဆယ်စိတ် ၂ ကို ရရှိသည်။ ကျန်ဆယ်စိတ် ၂ ကို ၄ နှင့် မစားနိုင်သဖြင့်၊ ရာစိတ်ဖွဲ့ရာ၊ ရာစိတ် ၂၀ ကို ရရှိသည်။ ယင်းကို ၄ နှင့် စားသော် စားလဒ် ရာစိတ် ၅ ကို ရရှိသည်။

ဒသမဂဏန်းကို အပိုင်းဂဏန်းသို့ ပြောင်းလိုသောအခါ အောက်ပါနည်းအတိုင်း ပြုလုပ်ယူရသည်။

$$·၇၅ = \frac{၇၅}{၁၀၀} = \frac{၇၅ \div ၂၅}{၁၀၀ \div ၂၅} = \frac{၃}{၄}$$

## ပြန်ထပ် ဒသမ

$\frac{၁}{၃}$ ကို ဒသမဖွဲ့သောအခါ ·၃၃၃ . . . . . ဟူသော အဆုံးမရှိသည့် ဒသမပိုင်းကို ရတတ်သည်။ ဤဒသမပိုင်းမျိုးကို ပြန်ထပ်ဒသမဟု ခေါ်၍ $·\dot{၃}$ ဟု ရေးလေ့ရှိကြသည်။ ထိုအတူ ပိုင်းခြေတွင် ၃၊ ၇၊ ၁၁ နှင့် ယင်းတို့၏ ဆတိုးကိန်းများပါရှိသော် ပြန်ထပ် ဒသမများကိုရသည်။

$\frac{၁}{၃} = ·\dot{၃}$ $\frac{၂}{၁၁} = ·\dot{၁}\dot{၈}$

$\frac{၁}{၆} = ·၁\dot{၆}$ $\frac{၁}{၇} = ·\dot{၁}၄၂၈၅\dot{၇}$

$\frac{၂}{၃} = ·\dot{၆}$ $\frac{၂}{၇} = ·\dot{၂}၈၅၇၁\dot{၄}$

$\frac{၁}{၁၁} = ·\dot{၀}\dot{၉}$ $\frac{၃}{၇} = ·\dot{၄}၂၈၅၇\dot{၁}$

ဒသမတွက်ရာ၌ အောက်ပါ ညီမျှခြင်းများကို အတွေ့ရများသဖြင့် ထိုညီမျှခြင်းများကို မှတ်သားထားနိုင်ပါက များစွာအကျိုးရှိနိုင်ပါသည်။

$\frac{၁}{၁၀} = ·၁$ $\frac{၁}{၅} = ·၂$

$\frac{၁}{၁၀၀} = ·၀၁$ $\frac{၂}{၅} = ·၄$

$\frac{၁}{၁၀၀၀} = ·၀၀၁$ $\frac{၃}{၅} = ·၆$

$\frac{၁}{၂} = ·၅$ $\frac{၄}{၅} = ·၈$

$\frac{၁}{၄} = ·၂၅$ $\frac{၁}{၁၆} = ·၀၆၂၅$

$\frac{၃}{၄} = ·၇၅$

$\frac{၁}{၈} = ·၁၂၅$ $\frac{၃}{၈} = ·၃၇၅$

$\frac{၅}{၈} = ·၆၂၅$ $\frac{၇}{၈} = ·၈၇၅$

**ဒါဗီမြင်းပွဲ**။ ။ခရစ် ၁၇၈၀ ပြည့်နှစ်တွင် ၁၂ ဆက်မြောက် အားဘွဲ့ရ ဒါဗီစားသည် အင်္ဂလန်ပြည် ဆာရီနယ်၊ အက်ပဆမ်မြင်းပြိုင်ကွင်း၌ သုံးနှစ်သားမြင်းများကို ၁ မိုင်ခွဲမျှ ရှည်သော တာတွင် ပြိုင်စေ၍၊ ဒါဗီမြင်းပွဲ အစဉ်အလာကို စတင်ခဲ့သည်။ ထိုအခါမှစ၍ နှစ်စဉ် မေလ သို့မဟုတ် ဇွန်လ အတွင်း 'ဒါဗီ' နေ့ခေါ် မြင်းပြိုင်ပွဲကို ခမ်းနားကြီးကျယ်စွာ ကျင်းပမြဲဖြစ်၏။ ထိုမြင်းပြိုင်ပွဲမှာ မြန်မာနိုင်ငံတွင် ကျင်းပမြဲဖြစ်သော ၁၂ ရာသီ ပွဲတော်များကဲ့သို့ပင် အင်္ဂလန် ပြည်သူပြည်သားတို့၏ ပွဲတော်ကြီးဖြစ်ပေသည်။ ထိုပွဲအခါများတွင် ဘုရင်မှအစ ဆင်းရဲသားအထိ လူမျိုးပေါင်းစုံ လာရောက်စုဝေး၍ ပါဝင်ဆင်နွှဲကြသည်။ မြင်းပြိုင်ပွဲတွင် ထီလည်းဖွင့်သည်။ (ဒါဗီမြင်းပြိုင်ပွဲပုံကို ယာဖက် မျက်နှာ ၂၅၉ တွင် ဖော်ပြထားသည်။)

**ဒါလဟိုဇီ၊ လော့** (ခရစ် ၁၈၁၂–၁၈၆၀)။ ။လော့ ဒါလဟိုဇီ၏ နာမည်ရင်းမှာ ဂျိမ်း အင်ဒရူး ဗရောင်း ရမ့်ဆေး ဖြစ်၍၊ ဖခင်ဖြစ်သူ နဝမ လော့ ဒါလဟိုဇီ၏ အရိုက်အရာကို ဆက်ခံသော တတိယသားဖြစ်သည်။ ၁၈၁၂ ခုနှစ် ဧပြီလ

၂၂ ရက်နေ့တွင် စကော့တလန်ပြည်၌ မွေးဖွားသည်။ ဟယ်ရီကျောင်းနှင့် အောက်စဖို့တက္ကသိုလ်၌ ပညာသင်ကြားပြီးနောက်၊ ၁၈၃၇ ခုနှစ်တွင် ပါလီမန်အမတ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရသည်။ ၁၈၄၅ ခုနှစ်တွင် ကုန်သွယ်ရောင်းဝယ်ရေးဘုတ်အဖွဲ့ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့၍၊ ကောက်သီးနှံဥပဒေ ဖျက်သိမ်းရေးကို ထိုစဉ်က နန်းရင်းဝန်ဆာ ရောဗတ် ပီးနှင့်အတူ ကြိုးပမ်းခဲ့သည်။ ၁၈၄၇ ခုနှစ်တွင် အိန္ဒိယဘုရင်ခံချုပ်ရာထူးကို လက်ခံဆောင်ရွက်သည်။

လော့ ဒါလဟိုဇီသည် အိန္ဒိယဘုရင်ခံချုပ်အဖြစ် အမှုထမ်းစဉ် ဥဓနယ်နှင့် ပန်ဂျပ်နယ်တို့ကိုင်း၊ ပုဂံမင်းလက်ထက် ဖြစ်ပွားခဲ့သော အင်္ဂလိပ် မြန်မာ ဒုတိယစစ်ပွဲအပြီး၌ ရန်ကုန်၊ ပဲခူး၊ ပုသိမ်နှင့်မုတ္တမမြို့များ အပါအဝင်ဖြစ်သော ပဲခူးနယ်အလုံးကိုင်း၊ ဗြိတိသျှပိုင်နယ်အဖြစ် သိမ်းပိုက်လေသည်။

လော့ ဒါလဟိုဇီသည် အုပ်ချုပ်ရေးဖက်၌ ကျွမ်းကျင်လိမ္မာသော ပုဂ္ဂိုလ်တဦးဖြစ်သည်။ ၁၈၅၂ ခုနှစ်၊ ၁၈၅၄ ခုနှစ်နှင့် ၁၈၅၅ ခုနှစ်တို့တွင် မြန်မာနိုင်ငံသို့ တိုင်းခမ်းလှည့်လည် ရောက်ရှိလာခဲ့ပြီးလျှင်၊ ရန်ကုန်မြို့ကို သာယာတင့်တယ် ခေတ်မီသော ဆိပ်ကမ်းမြို့တော်အဖြစ် တည်ဆောက်ရန်အတွက် မြို့ကွက်ပုံစံကို အတည်ပြုညွှန်ကြားခဲ့သည်။ ရန်ကုန်မြို့၌ ယခုတိုင် အင်္ဂလိပ်အမည်နှင့် တည်လျက်ရှိသော လမ်းများမှာ လော့ ဒါလဟိုဇီ ရွေးချယ်ပေးခဲ့သော လမ်းအမည်များဖြစ်သည်ဟု ဆိုလေသည်။ ယခုအခါ မဟာဗန္ဓုလလမ်းဟု အမည်တွင်သော လမ်းသည် ယခင်က ဒါလဟိုဇီလမ်းဟု တွင်ခဲ့သည်။ ယင်းကား လော့ ဒါလဟိုဇီ၏ အမည်ကိုစွဲ၍ မှည့်ခေါ်ခြင်းဖြစ်သည်။ ထို့ပြင် ယခုကန်တော်ကြီး၌ ရှိသော ပန်းခြံကို လော့ ဒါလဟိုဇီကိုပင်အစွဲပြု၍ ဒါလဟိုဇီပန်းခြံဟု မှည့်ခေါ်ခဲ့ဘူးသည်။ သို့သော် ယနေ့တိုင် ကန်တော်ကြီးဟူသော အမည်သာလျှင် ပို၍ထင်ရှားသည်။


အိန္ဒိယနိုင်ငံကို အုပ်ချုပ်ခဲ့သည့် လော့ ဒါလဟိုဇီ

သိမ်းပိုက်ထားသောနယ်များတွင် စံနစ်တကျ အုပ်ချုပ်


အင်္ဂလန်ပြည် ဆာရီနယ် အက်ပဆမ်မြင်းပြိုင်ကွင်း၌ ကျင်းပလေ့ရှိသည့် ဒါဗီမြင်းပွဲ

နိုင်ရန်ငှင်း၊ နယ်ချင်းဆက်သွယ်မှု ပြေပြစ်စေရန်ငှင်း၊ မီးရထားလမ်း ဖောက်လုပ်ခြင်း၊ ကြေးနန်းကြိုးများ သွယ်တန်းခြင်း၊ စာပို့စံနစ်ကို အသုံးပြုစေခြင်း စသည့် ပြုပြင်မှုများကို ဆောင်ရွက်ခဲ့ရုံမျှမက၊ ပေတရာလမ်းများ ဖောက်ကာ တန်တားများ တည်ဆောက်ပေးခဲ့သည်။ နိုင်ငံတော်ဝန်ထမ်း အရာရှိတို့၏ အခွင့်အရေးများ တိုးတက်ကောင်းမွန်အောင် ဆောင်ရွက်ပေးခဲ့သည်။ သို့ရာတွင် နိုင်ငံတော်ဝန်ထမ်း အရာရှိတို့က ကုန်သွယ်မှုလုပ်ငန်းတို့တွင် အစုပါဝင်ခြင်းကိုမူ အုပ်ချုပ်ရေးစည်းကမ်းအရ နည်းလမ်းမကျသဖြင့် ပိတ်ပင်တားမြစ်ခဲ့သည်။ အကျဉ်းထောင်များ စံနစ်တကျ ထားရှိရေးကိုလည်း ဆောင်ရွက်ခဲ့သည်။ ထို့ပြင် အုပ်ချုပ်ရေးဆိုင်ရာ အခြားသောပြုပြင်ပြောင်းလဲမှု အများအပြားကိုလည်း ပြုလုပ်ခဲ့သည်။ လော့ ဒါလဟိုဇီသည် မြို့ပြအုပ်ချုပ်ရေးလုပ်ငန်းကို စစ်ရေးထက် ဦးစားပေး၍ ဆောင်ရွက်ခဲ့လေသည်။

လော့ ဒါလဟိုဇီသည် ၁၈၆၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် အင်္ဂလန်ပြည်၌ ကွယ်လွန်လေသည်။

**ဒါလီယာပန်း။** ။ဒါလီယာပန်းပင်၏ ရုက္ခဗေဒအမည်မှာ 'ဒါလီယာ ဗေရီယေးဗီလစ်' ဖြစ်သည်။ ထိုပန်းပင်သည် ဥယျာဉ်စိုက် ပန်းမျိုးဖြစ်သည်။ 'ကွန်ပေါ်ဇီတီ' မျိုးရင်းတွင် ပါဝင်သည်။ မက္ကဆီကိုနိုင်ငံတွင် မူလပေါက်ရောက်သည်။ ရှေးနှစ်ပေါင်းများစွာကပင် မက္ကဆီကိုနိုင်ငံမှ စပိန်နိုင်ငံသို့ ရောက်လာသည်။ သို့သော် လွန်ခဲ့သော ရာစုနှစ်သို့ရောက်မှ ဥရောပတိုက်တွင် ထိုပန်းမျိုးကို အနှံ့အပြား စိုက်ပျိုးကြလေသည်။


စင်ကြယ်တင့်တယ်လှသည့် ကက္ကတပ် ဒါလီယာပန်း

မူလက ပေါက်ခဲ့စ ဒါလီယာပန်းပွင့်၏ ပုံသဏ္ဍာန်မှာ ပြားချပ်ချပ်ဖြစ်၍၊ အလယ်တွင် အဝါရောင် ပန်းခေါင်းရှိသည်။ ကြက်သွေးရောင် အတန့်ကလေးများမှာလည်း အလယ်မှ နေ၍ ဘေးသို့ ဖြာထွက်လျက်ရှိသည်။ သို့သော် တဖြည်းဖြည်း စိုက်ပျိုးလာခဲ့ရာမှ ယခုအခါ ထိုပန်းပွင့်၏ ပုံသဏ္ဍာန်နှင့် အရောင်ပါ ပြောင်းလဲလာတော့သည်။ ပန်းပွင့် ပုံသဏ္ဍာန်မှာ ခပ်လုံးလုံးဖြစ်လာသည်။ အရွယ်သည်လည်း ပို၍ကြီးလာသည်။ အဖြူရောင်မှ အဝါနှင့် အနီရင့်အထိ အရောင်ကွဲ အမျိုးမျိုးရှိလာသည်။

ဒါလီယာပန်းမျိုးကွဲများကို တမျိုးလျှင် အမည်တခုကျ လောက် ပေးထားသည်။ ပမာအားဖြင့် ပွမ်ပွမ် ဒါလီယာ၊ ကက္ကတပ် ဒါလီယာ၊ ပျိုနီ ဒါလီယာဟူ၍ အမည်အမျိုးမျိုး ပေးကြသည်။ ဒါလီယာပန်းမျိုး အားလုံးသည် ဇွန်လ အလယ်ခန့်မှစ၍ ဆောင်းဦးပေါက်ရာသီခန့်အထိ ပွင့်ကြသည်။ ယင်းတို့ကိုစိုက်ပျိုးရန် အကောင်းဆုံးမြေမှာ သဲမြေနု ရောလျက်ရှိသော မြေဖြစ်သည်။ အစေ့များကို ပျိုးယူကလည်း အပင်ပေါက်နိုင်သည်။ ဥကို တူးယူ၍သော်ငှင်း၊ အမြစ်ပါအောင် ပင်စည်ကိုဖြတ်ယူ၍သော်ငှင်း စိုက်ပျိုးကလည်း အပင် ပေါက်လာနိုင်သည်။

ဒါလီယာဆိုသောအမည်မှာ ဆွီဒင်အမျိုးသား ရုက္ခဗေဒဆရာကြီး ဒါး အားစွဲ၍ ခေါ်ဝေါ်ခြင်းဖြစ်ပေသည်။

**ဒါဝင်၊ ချားလ်၊ ရောဗတ်** (ခရစ် ၁၈၀၉–၁၈၈၂)။ ။ချားလ်ရောဗတ်၊ ဒါဝင်သည် အင်္ဂလိပ်လူမျိုး သဘာဝတ္ထုပညာရှင်တဦး ဖြစ်သည်။ အင်္ဂလန်ပြည် ရှရူးစဗာရီမြို့၌ ၁၈၀၉ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့တွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူ ရောဗတ် ဝဲရင်း ဒါဝင်မှာ ထင်ရှားသည့် ဆရာဝန်တဦးဖြစ်၏။ ဒါဝင်သည် ငယ်စဉ်က ရှရူးစဗာရီကျောင်း၌ ပညာသင်ကြားခဲ့ပြီးနောက်၊ အီဒင်ဗာရာတက္ကသိုလ်နှင့် ကိန်းဗရစ်တက္ကသိုလ်တို့တွင် ဆက်လက်၍၊ ပညာဆည်းပူးခဲ့၏။ ဖခင်ဖြစ်သူက မိမိသားအား၊ ဆရာဝန် သို့မဟုတ် ခရစ်ယန် သာသနာ့ဝန်ထမ်း ဖြစ်စေလိုခဲ့သော်လည်း၊ ဒါဝင်သည် သဘာဝတ္ထုဗေဒ၌သာ စိတ်ပါဝင်စားပြီးလျှင်၊ ယင်းဘာသာရပ်ကို အထူးလေ့လာခဲ့သည်။ တက္ကသိုလ်၌ ရုက္ခဗေဒပါမောက္ခ ဟင်ဆလိုး ဆိုသူနှင့် အကျွမ်းတဝင်ရှိခဲ့ရာ၊ ထိုပုဂ္ဂိုလ်ကြောင့်ပင် သဘာဝတ္ထုဗေဒ ပညာရှင်တဦးအဖြစ် ဗြိတိသျှ စူးစမ်းရှာဖွေရေးအဖွဲ့နှင့် အတူ၊ ဗီးဂယ်အမည်ရှိသော သင်္ဘောတွင်



တင့်ဆန်း ပွင့်လန်းလျက်ရှိကြသည့် ဒါလီယာပန်းများ

လိုက်ပါရကာ၊ ကမ္ဘာတပတ် လှည့်လည်ခဲ့ရလေသည်။ ၅ နှစ်ကြာမျှ ခရီးထွက်ခဲ့ပြီးနောက်၊ ၁၈၃၆ ခုနှစ်တွင်၊ အင်္ဂလန်ပြည်သို့ ပြန်လည်ရောက်ရှိခဲ့၏။ ဤကဲ့သို့ ကမ္ဘာကို လှည့်ပတ်ခဲ့ရာ၌ ဒါဝင်သည် ရောက်လေရာ အရပ်ဒေသအသီးသီးမှ အပင်နှင့် တိရစ္ဆာန်များအကြောင်းကို သေချာကျနစွာ လေ့လာခွင့်ရခဲ့၏။ အင်္ဂလန်သို့ ပြန်ရောက်သည်နှင့် ဒါဝင်သည် မိမိတွေ့မြင်လေ့လာမှတ်သားခဲ့သည့် အချက်အလက်တို့ကို အကိုးအကားပြု၍၊ သဘာဝတ္တဗေဒ သဘောတရား တရပ်ဖြစ်သည့် ဆင့်ကဲလာခြင်း သီအိုရီကို အထောက်အပံ့ဖြစ်စေမည့် စာရွက်စာတမ်းများကို စတင်ပြုစုခဲ့၏။ ၁၈၅၉ ခုနှစ်တွင် 'မျိုးစိတ်တို့၏အစ' ခေါ် စာအုပ်ကို ပဌမဦးဆုံးအကြိမ် ထုတ်ဝေခဲ့သည်။ ယင်းစာအုပ်ကြောင့် ဒါဝင်သည် သဘာဝတ္တ သိပ္ပံပါရဂူတဦးအနေနှင့် ကမ္ဘာတဝှန်း နာမည်ကျော်ကြားခဲ့၏။

ယင်းစာအုပ်၌ ဒါဝင်သည် ကမ္ဘာပေါ်ရှိ အပင်နှင့် တိရစ္ဆာန်တို့သည် တစတစ၊ တဆင့်တဆင့် အသွင်ပြောင်းလဲပုံကို အကိုးအကားများနှင့် ဖော်ပြထား၏။ ယင်းအပင်နှင့် တိရစ္ဆာန်များသည် ယင်းတို့၏ မူလအစမျိုးနွယ်များမှ တစတစ အနည်းငယ်စီ ခြားနားကွဲပြားလာပြီးလျှင်၊ တဖန်ယင်းတို့မှပေါက်ဖွားသည့် မျိုးနွယ်များသည်လည်း ယင်းတို့နှင့်အနည်းငယ်စီ ကွာခြားသွားကြောင်း ဖော်ပြထားလေသည်။ ဤကဲ့သို့ တဖြည်းဖြည်း အသွင်ကွဲပြားခဲ့ရာမှ၊ နောက်ဆုံး၌ ဘဝတည်မြဲမှုအတွက် ကြံ့ကြံ့ခိုင်ခိုင် ခံနိုင်ရည်ရှိသည့် အပင်နှင့်တိရစ္ဆာန်မျိုးများသာ၊ ယနေ့အထိ ဆက်လက်တည်ရှိနေရသည်။ ချို့တဲ့မှုရှိသည့် အပင်နှင့် တိရစ္ဆာန်များမှာမူ သေကြေပျက်စီး၍၊ မျိုးပျောက်သွားရသည်ဟု ဆိုလေသည်။ ယနေ့ ကမ္ဘာ၌တွေ့နေကြရသည့် ခွေးနှင့်ကြောင်ကဲ့သို့သော တိရစ္ဆာန်များမှာ၊ မိမိတို့နှင့် အသွင်အပြင်ချင်းတူသည့် မူလအစက ဖန်ဆင်းထားသည့် ခွေးနှင့်ကြောင်ကဲ့သို့သော တိရစ္ဆာန်များမှ တိုက်ရိုက် ဆင်းသက်ပေါက်ဖွားလာသည်မဟုတ်ဟု ဒါဝင်ကဆို၏။ ဒါဝင်၏အလိုအရ ယင်းသည့်တိရစ္ဆာန်များသည် ရှေးကျ၍ မိမိတို့ထက် ဘဝအဆင့်အတန်းအားဖြင့် ပို၍နိမ့်ကျပြီးလျှင်၊ မိမိတို့နှင့် အသွင်အပြင် ကွဲပြားသည့် တိရစ္ဆာန်များမှ ဆင်းသက်သည့်တိရစ္ဆာန်များသာ ဖြစ်လေသည်။ တချိန်တည်း၌လိုပင် အယ်လဖရက်၊ ရပ်ဆဲ၊ ဝေါလေ့ (စ) ဆိုသူ အင်္ဂလိပ် သိပ္ပံပညာရှင်တဦးကလည်း ဒါဝင်၏သီအိုရီနှင့် ထပ်တူ ထပ်မျှ တူညီသည့် သီအိုရီတခုကို တသီးတခြား သုတေသနပြုကာ၊ ထုတ်ဖော်ပြသခဲ့၏။ သို့သော် သီအိုရီ အော့ (ဖ) အီဗလူရှင်းနှင့် စပ်လျဉ်း၍ကား၊ ဒါဝင်သည် နာမည် အကျော်ကြားဆုံး ဖြစ်ခဲ့လေသည်။

ဒါဝင်၏ တိုးတက်ဆန်းသစ်သည့် သီအိုရီသည် အင်္ဂလန်



အင်္ဂလိပ်သိပ္ပံပညာကျော် ချားလ် ဒါဝင်

ပြည်နှင့်ကမ္ဘာတဝှန်းလုံးတွင်၊ အငြင်းပွားမှုများ ဖြစ်ပေါ်စေခဲ့၏။ လူအများက ဒါဝင်အား ဘုရားတရားမယုံကြည်သူဟူ၍ စွပ်စွဲခဲ့ကြ၏။ သို့သော် ဒါဝင်သည် လူအများ၏ ဝေဖန်မှုကို လုံးဝဂရုမစိုက်ဘဲ၊ မိမိ၏လုပ်ငန်းကိုသာ ဆက်လက်၍ ကြိုးစားလုပ်ကိုင်ခဲ့၏။ မိမိရေးသားခဲ့ခြင်းသည် အမှန်တရားကိုသာ ထုတ်ဖော်ခြင်းဖြစ်သည်ဟုလည်း စွဲမြဲစွာ ယုံကြည်ခဲ့၏။ ၁၈၇၁ ခုနှစ်တွင် 'လူတို့ဆင်းသက်ပေါက်ဖွားလာပုံ' ဟူသော စာအုပ်ကို ထုတ်ဝေပြန်၏။ ဤစာအုပ်ကြောင့် ပို၍ပင်ပြင်းထန်သည့် ဝေဖန်မှုများနှင့် အငြင်းပွားမှုများ ဖြစ်ပေါ်ခဲ့ရ၏။ ယင်းစာအုပ်၌ ရှေး နှစ်ပေါင်းများစွာ ကြာမြင့်ခဲ့သည့်အချိန်က၊ ကမ္ဘာပေါ်၌ရှိခဲ့ဖူးသည့် မျောက်နှင့်တူသည့် သတ္တဝါမျိုးမှ လူနှင့်မျောက်တို့ ဆင်းသက်လာရသည်ဟု ဖော်ပြခဲ့လေသည်။ ဤကဲ့သို့ဖော်ပြခဲ့ခြင်းကြောင့် လူအများက ဒါဝင်အား ပြင်းထန်စွာ အမျက်သိုခဲ့ကြ၏။ သို့သော် သိပ္ပံပညာရှင်ကြီးများကမူ၊ ဒါဝင်အား ချီးကျူးထောပနာ ပြုခဲ့ကြလေသည်။

ယခုအခါ၌၊ ဒါဝင်၏ ဆင့်ကဲဖြစ်လာခြင်းသီအိုရီ၏ ယေဘုယျသဘောကို၊ သိပ္ပံပညာရှင်အများက လက်ခံလာကြ၏။ သို့သော် ယခုထက်တိုင်အောင်ပင် ဒါဝင်၏သီအိုရီနှင့် စပ်လျဉ်း၍ ငြင်းခုံနေကြသေးသည်။ ဒါဝင်၏သီအိုရီ၏ အချို့အပိုင်းများကို ပယ်ပစ်ပြီးလျှင်၊ သီအိုရီအသစ်များ အစားထိုးကာ ထည့်ထားသည်လည်း ရှိ၏။ သို့သော် အခြေခံ

သဘောတရားများကိုကား သိပ္ပံပညာရှင်များက လက်ခံကြလေသည်။

ဒါဝင်သည် ၁၈၈၂ ခုနှစ် ဧပြီလ ၁၉ ရက်နေ့တွင် ကွယ်လွန်၍၊ 'ဝက်စမင်တာ အက်ဗေး' ဘုရားရှိခိုးကျောင်း၌ သင်္ဂြိုဟ်လေသည်။

**ဒါးဒနဲ ရေလက်ကြား။** ။ဒါးဒနဲ ရေလက်ကြားသည် အီးဂျီးယန်းပင်လယ်နှင့် မားမရာပင်လယ်နှစ်ခုကို ဆက်ထားသော ရေလက်ကြားဖြစ်၏။ ထိုရေလက်ကြားမှ အရှေ့သို့လားသော်၊ မားမရာပင်လယ်ကို ပင်လယ်နက်နှင့်ဆက်စပ်ထားသော ဗော့စပရပ်ရေလက်ကြားလည်း ရှိသေးသည်။ ထိုရေလက်ကြားနှစ်ခုသည် ပင်လယ်နက်မှ မားမရာနှင့် အီးဂျီးယန်းပင်လယ်ကိုဖြတ်၍ မြေထဲပင်လယ်နှင့်ဆက်ပေးသော ရေလက်ကြားဖြစ်သောကြောင့် အာရှတိုက်ကို ဥရောပတိုက်နှင့်ပိုင်းခြားထားသော ရေလက်ကြားဖြစ်သည်။ အလျားအားဖြင့် မိုင် ၄၀ မျှ ရှည်သော်လည်း၊ အကျယ်မှာ အချိုနေရာတွင် ၆ ဖာလုံမျှသာ ကျယ်ဝန်း၍၊ အချို့အကျယ်ဆုံးနေရာမှာမူ ၅ မိုင်မျှကျယ်သည်။ ဥရောပနှင့်အာရှနိုင်ငံတို့၏ တခုတည်းသော ထွက်ပေါက် ဝင်ပေါက် တံခါးမကြီးနှင့်တူလေရာ၊ သမိုင်းတလျှောက်တွင် စစ်ဖြစ်တိုင်း အရေးပါအရာရောက်သော ရေလက်ကြားဖြစ်ရကား၊ ဂလစ်ပိုလီနှင့်အစ္စတန်ဗူ စစ်စခန်းမြို့နှစ်မြို့တွင် ခိုင်ခံ့သောခံတပ်များကို တည်ဆောက်ထားရသည်။

ဘီစီ ၄၈၀ ပြည့်နှစ်လောက်က ပါးရှားဘုရင် ဇာဇီး၏စစ်တပ်သည် ဤရေလက်ကြားကို လှေဆက်တန်တားဖြင့် ဖြတ်ကူး၍ ဂရိပြည်ကို ချီတက်တိုက်ခိုက်ခဲ့ဘူးသည်။ ထို့နောက်တဖန် ဘီစီ ၃၃၄ ခုနှစ်တွင် အယ်လက်ဇန္ဒြာဘုရင်ကြီးသည် ဤရေလက်ကြားကိုဖြတ်ကူး၍ အာရှတိုက်ဖက်သို့ စစ်ချီတက်ခဲ့သည်။ ထို့နောက်၌ကား ဒါးဒနဲ ရေလက်ကြားရှိရာဒေသသည် ဗိုင်ဇင်းတိုင် ဘုရင်တို့ ပိုင်ဆိုင်သောဒေသ ဖြစ်ခဲ့၏။ သို့သော်ခရစ် ၁၄၅၃ ခုနှစ်တွင်မူ ထိုဒေသကို တူရကီဘုရင်တို့က သိမ်းပိုက်လိုက်လေသည်။ ၁၈၄၁ ခုနှစ်တွင် ဗြိတိန်၊ ပြင်သစ်၊ ပရပ်ရှား၊ ဩစတြီးယား ဟူသော နိုင်ငံတို့သည် တူရကီနိုင်ငံ၏ခွင့်ပြုချက် မရရှိပါက မည်သည့် စစ်သင်္ဘောမျှ ဒါးဒနဲ ရေလက်ကြားကို ဖြတ်သန်းသွားလာခြင်း မပြုစေရ ဟူသောအချက်ကို မူတည်၍ တူရကီနိုင်ငံနှင့် စာချုပ် ချုပ်ခဲ့သည်။ ၁၈၇၁ နှင့် ၁၈၇၈ ခုနှစ်တို့တွင် ထိုစာချုပ်သက်တမ်းကို ထပ်မံဆက်လက်၍ အတည်ပြုခဲ့ကြပြန်သည်။

သို့ရာတွင် ပဌမကမ္ဘာစစ်တွင် အင်္ဂလိပ်နှင့် တူရကီတို့ တိုက်ကြရ၏။ ထိုအခါ ၁၉၁၅ ခုနှစ်တွင် အင်္ဂလိပ်စစ်တပ်များသည် ဂလစ်ပိုလီ ကျွန်းဆွယ်ဖက်မှ တက်၍ တိုက်ခိုက်သော်လည်း၊ အကျအရှုံး များစွာ ခံရပြီးနောက် ဆုတ်ခွာခဲ့ရလေသည်။ ၁၉၂၃ ခုနှစ်တွင် ရေလက်ကြားမြေကို တူရကီအား ပြန်လည်စောင့်ရှောက်စေခဲ့သည်။ သို့သော် ရေလက်ကြားကမ်းရိုးတန်းတလျှောက်ကို စစ်တပ်များ အုပ်ချုပ်စောင့်ရှောက်ခြင်း မရှိစေရဘဲ၊ ဥရောပနိုင်ငံများအား လမ်းဖွင့်ပေးခဲ့ရ၏။ ၁၉၃၆ ခုနှစ်တွင်မူ ဥရောပနိုင်ငံတို့က တူရကီအား ဒါးဒနဲခံတပ်များကို ပြန်လည်ထားရှိစေခဲ့သည်။

ဒုတိယကမ္ဘာစစ်အတွင်း၌ တူရကီနိုင်ငံက အထူးအခွင့်အရေး ပေးထားသော သင်္ဘောမှတပါး အခြား မည်သည့်သင်္ဘောမျှ ဒါးဒနဲ ရေလက်ကြားကို ဖြတ်သန်းသွားလာခြင်း မပြုရချေ။ ယခုအခါ ဒါးဒနဲ ရေလက်ကြားကို အုပ်ချုပ်မှု၌ ဆိုဗီယက်ရုရှနိုင်ငံက စောဒနာတက်နေသဖြင့်၊ ကုလသမဂ္ဂတွင် ဤကိစ္စကို ဆောင်ရွက်လျက်ရှိလေသည်။

**ဒိသာပြာမုက်၊ သျှင်** ။ဒိသာပြာမုက်သည် သက္ကဋဆံဆံရေးထားသော ပါဠိဘာသာ ဒိသာပါမောက္ခဖြစ်၍၊ မြန်မာဘာသာအားဖြင့် 'အရပ်မျက်နှာတို့၏ အကြီးအမှူး ကမ္ဘာကျော်ဆရာ' ဟု အနက်ရလေသည်။ ရှင်ဒိသာပါမောက္ခ (သျှင် (ဗုဒ္ဓဝါဒီရဟန်း) ဒိသာပြာမုက်) အမည်ကို ဦးစွာတွေ့ရသည်ကား (မြန်မာကျောက်စာ အထုပ် ၃ ဓာတ်ပုံ ၂၅၁) ပုဂံကျောက်စာ၊ ပုဂံပြတိုက် ကျောက်နံပါတ် ၃၃ တွင် တရုပ်ရန်ကို ရှောင်ရရှာသည့် တရုပ်ပြေးမင်း (တရုက်ပ္လိယ်) ဆည်းကပ်သော (ရာဇဂုရု) မင်းဆရာ (မင်ဆိရှာ) ဟုဆို၏။ ကျောက်စာ၏ယာဖက်မျက်နှာသည် ပျောက်ဆုံးခဲ့ပြီ။ သို့သော် ယင်းဆရာတော်သည် သက္ကရာဇ် ၆၃၈–၄၀ (အေဒီ ၁၂၇၆–၇၈) တွင် မင်းဘူးစသည်တို့၌ မြေအလှူခံ ရရှိသူဖြစ်ကြောင်း အထင်အရှားပါသည်။ ကျောက်စာ၏မူလအရပ်ကို မသိရပေ။

မြန်မာပြည်၏ရာဇဝင်ဆိုင်ရာ အရေးအပါဆုံး ကျောက်စာတခု (ဓာတ်ပုံ ၂၇၁၊ စာရင်း ၃၇၆၊ ပုဂံကျောက်စာညွှန်ပေါင်း အမှတ် ၄၇၊ မျက်နှာ ၁၂၆–၃၀) ကိုလည်း ယင်းဆရာတော်ပင် ရေးထိုးခဲ့၏။ ထိုကျောက်စာသည် မင်္ဂလာစေတီ အနီး ကုလားကျောင်းအတွင်းမှရသော ကျောက်ချပ်၏ ကျောဖက် (မြန်မာနိုင်ငံ ရှေးဟောင်းသုတေသနဝန်၏ နှစ်လည် အစီရင်ခံစာ၊ ၁၉၁၇၊ စာမျက်နှာ ၃၈၊ မှတ်ချက်ကို ကြည့်) ဖြစ်၍၊ ယခုပုဂံပြတိုက် ကျောက်နံပါတ် ၁၁၀ ၏ အရှေ့မျက်နှာဖြစ်သည်။ ကနဦးရက်စွဲကား ပြည်အနောက်ဖက် လှည်းကျွဲ၌ မင်းကြီးနေတော်မူစဉ် (ပြည်အနောက်ဖက် လှည်ကွ္လနိုက် မင်ကြီနိယ်တဝ်မူ၏) သက္ကရာဇ် ၆၄၇ (အေဒီ ၁၂၈၅) ဖြစ်၏။ ဖြစ်ပျက်ပုံမှာ အောက်ပါအတိုင်းတည်း။ အရေးနိမ့်ခဲ့ရသော ငဆောင်ချမ်း (ငါဆောင်ချံ)

တိုက်ပွဲအပြီး၊ ၆၄၅ ခုနှစ် (၁၂၈၃ ခု ဒီဇင်ဘာလ) ၌ ကျူး ကျော်သူ မွန်ဂို (မြန်မာအခေါ် တရုက်၊ တာ့ခ်) တို့သည် ယခု ဗန်းမော်တောင်ဖက်အနီးရှိ မြောက်ပိုင်း မြန်မာ အုပ်ချုပ်ရေး ဌာနချုပ်ဖြစ်သော ကောင်းစင် (ကောင်စင်) ကို သိမ်းယူကြ၏။ ၆၄၆ ခုနှစ် (၁၂၈၄ ခု ဖေဖွာရီလ ၅ ရက်နေ့) တွင် ကန္တူမြို့တော်ဖြစ်သော သင်းတွဲ (သင်ထွယ်) ပြည်ဟု တွင်သည့် တကောင်း (တကောင်) ကို ဆက်လက်၍ သိမ်းယူကြပြန်သည်။ တရုပ် (တရုက်) တို့က သံစေ၍ (မြန်မာ) မင်းကို ဆင့်ဆိုသော်လည်း ပြန်ကြားခြင်းမပြု။ အကြေမြစ်ဝကျွန်းပေါ် အရပ်သို့ စုန်ပြေးဟန်ရှိ၏။ (တိဘက်၊ မဟာယာနဝါဒီ ဖြစ်စရာအကြောင်းရှိသော) ရဟန်းတော်တို့ကို ပြည်သူတို့အား ဖြောင်းဖြစေရန်လွှတ်ပြန်သောအခါတွင်လည်း ကွပ်မျက်ခြင်း ခံရကုန်၏။

ရန်သူတို့ ဆက်လက် ကျူးကျော်လာတန်ရာ၏ဟု မျှော်မှန်းမိသဖြင့်၊ သက္ကရာဇ် ၆၄၇ ခုနှစ်တွင် မင်း (ကိုယ်တိုင်) အညံ့ခံရန် ဆုံးဖြတ်ရ၏။ ဆားတွင်းဝန် အနန္တပစ္စည်း (အနန္တပိစည်) အမတ်နှင့် မဟာဗိုလ် (မဟာပိုဝ်) အမတ်တို့ကို တရုပ်နှင့်ဆက်သွယ်ရန် မိန့်တော်မူသည်။ ယင်းတို့က အောင်သွယ် (တုံတပဲ) အဖြစ်ငှင်း၊ သုဝဏ္ဏလိပ် ရွှေစာတော် ရေးသားဆက်သွင်းပေးနိုင်ရန်ငှင်း၊ ရှင်ဒိသာပါမောက္ခကို အတူထည့်လိုက်ရန် ပန်ကြားကြသည်။ ယင်းတို့ သွားရောက်ရပုံနှင့် အရေးဆိုရပုံများကို ဤကျောက်စာ၌ငှင်း၊ (ယွမ်ရှေ အခန်း ၂၁၀ စသည့်) တရုပ်အမှတ်အသားများ၌ငှင်း ဖေါ်ပြထားသည်။ သစ်ဆိမ့် (သစ္စိမ်) နှင့် ဟန်လင်း (ဟန်လင်) မှ ဆက်လက်သွားကြရာတွင် တကောင်းအနီး မိုင်းနဲ (မိုးမတ်) နယ်မှ ရှမ်းများက ဟန့်တား ဖမ်းဆီးခြင်း ခံရ၏။ တကောင်းကို ဝင်ခွင့် မရမီ မြန်မာဘုရင်၏ရာဇသံစာနှင့် ယူနန်ရှိ မွန်ဂိုတို့၏နိုင်ငံကူးခွင့်ကို ပဌမတောင်းယူကြရသည်။ အားလုံးပြီးစီးချိန်တွင် မိုးကျလာတော့၏။ တောင်ထူထပ်သည့် မြန်မာပြည်မြောက်ပိုင်းသည် ထိုအခါ၌ ခြင်မြင် (မြန်မာပြည်သို့ ချီတက်ရေး) ဟုခေါ်သော တရုပ်ပြည်နယ် ဖြစ်နေလေပြီ။ ထိုပြင် ကေရာဇ် ကူဗလိုင်ခန်သည် မြေပြန့်ဒေသ၌ မြင်ချူ (မြန်မာအလယ်ပိုင်း) ခေါ်သည့် နောက်ထပ်ပြည်နယ်တခုကိုလည်း ဖွဲ့စည်းတော့မည်ဆဲဆဲဖြစ်သည်။ ကောင်ချန် (တာဖန်) မင်းသား သုသုတ္တကီ ဦးစီး၍ သူ့ရဲနှစ်သောင်းနှင့် မဟာထေရ် ပုညဓမ္မိကာ၊ သံဃထေရ် သီရိဓမ္မိကာ ဦးစီးသော ကျောင်း ၇၀ မှ သံဃာတို့ပါဝင်သည့် စစ်ရေး၊ သာသနာရေးအဖွဲ့ကို လွှတ်ခဲ့၏။ ယင်းတို့ကို မိုးကုန်သည့်အထိ တကောင်း၌စောင့်ဆိုင်းရန် မိန့်မှာလိုက်သည်။ ထိုသံဃာများသည် မြေပြန့်ရပ် နေပူရှိန်နှင့်ငှက်ဖျားရောဂါကို ကြောက်လန့်ကြသောကြောင့် ရှင်ဒိသာပါမောက္ခအား လှူဘွယ်ဝတ္ထုတို့ကို ပေးလှူပူဇော်၍ မိမိတို့ကို ပုဂံသို့ စေလွှတ်ခြင်း မပြုရန် (ဗုဒ္ဓသာသနာ၌ ကိုယ်တိုင်သက်ဝင်ယုံကြည်သူ) ကူဗလိုင်ခန် မင်းအား အကျိုးသင့်အကြောင်းသင့် ပြောဟောပါဟု တောင်းပန်ကြ၏။

အနန္တပစ္စည်းနှင့် ယူနန်အာဏာပိုင်တို့သည် ယူနန်နယ် အတွင်းရှိ တပိန်မြစ်၏မြောက်ဖက်ကမ်း ပြောင်တင်အရပ်၌ အရေးဆိုကြပြီးမှ၊ ဒိသာပါမောက္ခသည် တယ်တူ (မြို့တော်ကြီး) ခေါ် ပီကင်းမြို့တော်ရှိ မင်းထံသို့ တကိုယ်တည်း ဆက်လက်သွားရဟန်တူသည်။ ဆရာတော်သည် ပဌမ ယူနန်ဖူ (ယဆည်) ၌ ဝါဆိုရသည်။ တန်ဆောင်မုန်းလ၌ မြောက်သို့ ဆက်လက်ထွက်ခွာခဲ့ရာ ပီကင်းသို့ပြာသိုလ၌ ရောက်သည်။ ကူဗလိုင်ခန်သည် ရှင်ဒိသာပါမောက္ခကို ကောင်းစွာလက်ခံ၍ အထက်ကဆိုခဲ့သောအဖွဲ့ကို စေလွှတ်ရခြင်းသည် စစ်ရေးအတွက် မဟုတ်ဘဲ သာသနာရေးအတွက်သာ ဖြစ်ကြောင်း ရှင်ဒိသာပါမောက္ခအား ရှင်းလင်းပြောပြ၏။ ထိုအခါ ဆရာတော်က စစ်သည်သူရဲနှင့် ရဟန်းတို့သည် မြန်မာပြည်အလယ်ပိုင်း၌ ဆန်စားရမှသာလျှင် အသက်ရှည်နိုင်မည်။ ယခုအခါ၌ ပုဂံကို ရဟန်းသံဃာများကပင်လျှင် စွန့်လွှတ်ခဲ့ကြပြီ။ ဆန်လည်း မရှိပါ၊ ထန်းကိုသာစား၍ နေနိုင်အောင်ကြိုးစားမှု ဝမ်းသွား၍ သေကြကုန်အံ့ဟု ပြန်ပြော၏။ ထိုနောက် မင်းကြီး၏ရည်ရွယ်ရင်း မပြည့်ရှိချေမည်လောဟူ၍လည်း မေးတော်မူသည်။

ဥယန်စိုက်သော ယောကျာကာ။ ရိယ်သွန်
ရယ် သစ်ပင်ကိုဝ် ကြီစိယ်၏။ အညွန် မဆိတ်တ
ကာ။ သစ်ပင်သီပြီသောတေ အသီစာ၏။ တံပြ
တိတ်ပြည်ကိုဝ်လေ ရိယ်သွန်ဦလတ်သိယ်။ ငါယ်
မူလေ သာသနာမ္လတ်စွာ၊ မင်ကြီကာ ဖုရှာဆု
တောင်သောသူ မလော။ အဖ ကောတမ သာ
သနာကိုဝ် မပျက်စိယ်လတ်ပိယ်။

မင်ကြီနိုင်သောပြည်ကာ မျာလေမျာစွ ကြီ
လေ ကြီစွ။ တံပြတိတ်ပြည်ကာ အငါယ်တွယ်။
သာသနာဟိသောကြောင်ရကာ။ ဖုရှာလောင်
တိုဝ်ကာ ပြည်မ္လတ်၏။ သုရယ် မဝင်စိယ်လတ်
ပိယ်။ ငါကာ ကောက်ပဲစိုက်လိယ်ဦအံ ကောက်
ပယ် ပြီပီသောကာဝင်။

ဟု မိန့်ဆိုသည်။ ကူဗလိုင်လည်း ဆရာတော်၏စကားကို အကြည်အသာ လိုက်လျောလိုသဖြင့် ဆရာတော်စကားတွင် ဆရာတော်၏ အကျိုးသာမက မိမိ၏အကျိုးလည်း ပါကြောင်းကို အောက်ပါအတိုင်းဆို၏။

ဤစကာတွင် ငါဖိုဝ်လေပါ၏။ ပဏ္ဍိတ်လာရယ်
ပ္လိယ်ပ္လိယ်သသျှင်တိုဝ်ကိုဝ် ခဝ်လိယ် ကောက်ပယ်
လေ စိုက်လိယ် ပြီပီသော ငါကိုဝ် လွှတ်လတ်တုံ။

တနည်းဆိုရသော် အဆိုပါအဖွဲ့စေလွှတ်ခြင်းကို ဆိုင်းထား စေလိုလျှင် လက်ဆောင်ပဏ္ဏာပေး လွှတ်ပါမည်ဟု ဆရာ တော်အား ကတိပြုစေခြင်းဖြစ်သည်။

ဤတွင် ကူဗလိုင်နှင့် ရှင် ဒိသာပါမောက္ခတို့ အရေးဆိုခြင်း ပြီးဆုံး၏။ ထိုနောက် ဆရာတော်သည် ၆၄၇ ခုနှစ် နွေရာ သီတွင် မြန်မာပြည်သို့ ပြန်၍ကြွခဲ့သည်။ တရုပ်ပြေးမင်း နှစ်လိုရကား ကျေးဇူးတော်ရှိပေသည်ဟု ဟန်လင်း (ဟန် လင်) တွင် သန်လယ်ပယ် ၄၀၀၊ ကြံမ်တူ (အမြင့်၊ အနိမ့်) တွင် ပယ် ၄၀၀ ကျွန်နွားနှင့်တကွ ဆရာတော်အား လှူ တော်မူ၏။ ယင်းအလှူအရပ်ရပ်ကို ပုဂံတောင်ဖက် ပန် ပွတ်ရပ် မင်္ဂလာစေတီမည်သော ပန်ပွတ်ရပ်စေတီတွင် ရတနာသုံးပါးအား ဆရာတော်က တဖန် လှူပြန်သည်။ ကျောက်စာရေးထိုးစဉ်က တန်ဆောင်းကြီးကားပြီး၏။ စာ သင်တိုက်မူ မပြီးသေး။ မိဖုရားစော (စဝ်) ဟု ယူဆရသော မိဖုရားက သစ်ဝါးစသည်တို့ကို ပေးလှူသည်ဟု ရေး ထိုးခဲ့သည်။

ထိုနှစ်ကုန်၍ ပုဂံသို့ မင်းကြီး ဆန်တက်လာသောအခါ၊ သားတော်ပြည်စား လုပ်ကြံသဖြင့် မင်းကြီး ကံတော် ကုန်သည်။

ဂျီ၊ အိပ်၊ လု (၁)




လ၏ ဆွဲအားသတ္တိကို သရုပ်ဖော်ထားပုံ

**ဒီ။** ။ပင်လယ်အနီးနှင့် မြစ်ဝကျွန်းပေါ်ဒေသတွင် နေထိုင် သူတိုင်းသည် ပင်လယ်ရေ တက်ခြင်း ကျခြင်းကို သိရှိကြ ပေလိမ့်မည်။ ယင်းသို့ပင်လယ်ရေ အတက်အကျကို ဒီဟု ခေါ်သည်။ ပင်လယ်ရေသည် တနေ့လျှင် နှစ်ကြိမ်တက်၍၊ တနေ့လျှင် နှစ်ကြိမ်ကျ၏။ ရေတက်ချိန် နှစ်ချိန်သည် ၁၂ နာရီ ၂၄½ မိနစ် ကွာပြီးလျှင်၊ ရေကျချိန်သည်လည်း ၁၂ နာရီ ၂၄½ မိနစ် ကွာခြား၏။

ဤသို့ ဒီဖြစ်ပေါ်လာခြင်းမှာ ကမ္ဘာမြေကြီးကို လ၏ အာကဗ္ဗနသတ္တိက ဆွဲယူသဖြင့် ဖြစ်ပေါ်လာခြင်း တည်း။ (အာကဗ္ဗနသတ္တိ — ရှု။) လသည် ကမ္ဘာမြေကြီးနှင့်ရင်း၊ နေနှင့်ရင်း မျဉ်းတပြေးတည်း ရှိသည့်အခါ၊ မြေကြီးကို ဆွဲငင် သော လ၏ အာကဗ္ဗနသတ္တိသည် အားကြီး၏။ သို့သော် ထောင့်မှန်ကျ၍နေသော အခိုက်အတန့်၌ကား ထိုသတ္တိ သည် အင်အားယုတ်လျော့လေသည်။




ရေထရက် ဖြစ်ပေါ်ပုံ

နေနှင့်လတို့၏ ဒီဖြစ်ပေါ်လာစေသော ဆွဲအားသတ္တိနှစ်ခု ကို နှိုင်းစာသော် လမှာ နေထက် သေးငယ်သော်လည်း၊ နေထက်ပို၍ ကမ္ဘာမြေကြီးနှင့် နီးကပ်လျက်ရှိသဖြင့် နေထက် ဆွဲအားနှစ်ဆ ပိုလေသည်။




ရေသေရက် ဖြစ်ပေါ်ပုံ

မှန်းတည့်သောအခါ အောက်တည့်တည့်၌ရှိသော ရေထု သည် တက်ကြွလာပြီးလျှင် ရေတက်ခြင်းကို ဖြစ်ပေါ်စေ လေသည်။ ထိုအချိန်၌ ကမ္ဘာ၏အခြားတဖက်ရှိ ပင်လယ်

ရေသည် လ၏ဆွဲအားသတ္တိကို မခံစားရသဖြင့် အောက်၌ ကျန်ရစ်ပြီးလျှင် ထိုနေရာ၌လည်း ဒီတက်ခြင်းဖြစ်ပေါ်လာ၏။ ထိုသို့ ကမ္ဘာလုံး၏ တဖက်တချက်၌ ဒီတက်လာသောအခါ၊ ယင်းတို့၏အကြားရှိ နှစ်ဖက်သောနေရာများ၌ ရေကျသွား၏။

လပြည့် လကွယ် နေ့များ၌ နေ၊ လနှင့် ကမ္ဘာမြေကြီးတို့သည် သုံးခုတန်းလျက် မျဉ်းတပြေးတည်း တည်ရှိကြသည်။ ထိုကဲ့သို့တည်ရှိသော ရက်အတွင်းတွင် နေနှင့်လတို့၏ ဆွဲအားသတ္တိသည် ကမ္ဘာမြေကြီးအပေါ်၌ တပြိုင်တည်း တသမတ်တည်း သက်ရောက်သည်။ ထိုအခါ ရေတက်လျှင် ခါတိုင်းထက် ပို၍တက်၏။ ရေကျလျှင်လည်း ခါတိုင်းထက် ပို၍ကျ၏။ ယင်းရက်များကို ရေထရက်ဟု ခေါ်သည်။

လဆန်း ၈ ရက်၊ လဆုတ် ၈ ရက်နေ့များတွင် နေနှင့်လတို့သည် ကမ္ဘာမြေကြီးနှင့် ထောင့်မှန်ကျသောအရပ်၌ တည်၏။ ထိုအခါ နေ၏ဆွဲအားသတ္တိသည် လ၏ဆွဲအားသတ္တိနှင့် ထောင့်မှန်ကျလျက် ရှိခြင်းကြောင့်၊ တခုနှင့်တခု ဆန့်ကျင်ပြီးလျှင်၊ ဆွဲအားနည်း၍သွားလေသည်။ ထိုအခါမျိုး၌ ရေတက် ရေကျ သည့် အရှိန် နည်းပါးသည်။ ထိုသို့ ရေအတက် အကျ အရှိန်နည်းသောရက်ကို ရေသေရက်ဟု ခေါ်လေသည်။

ရေအတက် အကျသည် တနေရာနှင့်တနေရာ မတူချေ။ သမုဒ္ဒရာအလယ်၌ ရေအတက် အကျသည် ၂ ပေမှ ၃ ပေ အထိ ကွာခြား၍၊ ကမ်းရိုးတန်းရှည်သော ပင်လယ်ကမ်းခြေနှင့် တဖြည်းဖြည်းကျဉ်းသွားသော ပင်လယ်ကွေ့များ၌ကား ရေသည် အလွန်မြင့်စွာ တက်တတ်၏။ စစ်တောင်းမြစ်ဝကဲ့သို့ အဝကျယ်ပြောပြီးလျှင်၊ ခေါင်းလောင်းပုံသဏ္ဌာန်ပမာ အထက်သို့ရှူး၍ ကျဉ်းမြောင်းသွားသော မြစ်ဝများနှင့် ယင်းမြစ်ဝများနှင့် တဆက်တည်းဖြစ်သော မြစ်ဆုံးပိုင်းများတွင် ဒီရေတက်သောအခါ အလွန်အရှိန်ပြင်းစွာနှင့် ရေမို့မောက်စွာ တက်သည်။ ရေထရက်များတွင် ယင်းနေရာများ၌ လှိုင်းလုံး လှိုင်းလိပ်ကြီးများအဖြစ်ဖြင့် ဒီတက်သည်။ ဤသို့ ရေလုံးအားကြီးစွာဖြင့် မြစ်နဖူး ရောက်လုနီးပါး ဒီတက်လာသည့်အခါ၊ ကြောက်မက်ဖွယ် ဟိန်းသောအသံလည်း ဖြစ်လာသည်။ ယင်းနေရာမျိုး၌ မြစ်ကမ်းပေါ် တနေရာမှနေ၍၊ ဒီမရောက်ခင် ဒီတက်လာသည်ကိုကြည့်လျှင် ရေတံတိုင်းကြီး ရွေ့လာသည့်ပမာ တွေ့ရမည်။ ဤသို့ အရှိန်ပြင်းစွာ ရွေ့လာသော ရေတံတိုင်း၏ အမြင့်မှာ အချို့ဒေသများ၌ ပေပေါင်းများစွာပင် မြင့်၏။ ရေလုံးကြီးများ ရိုက်ခတ်၍ ယင်းဒီတက်နည်းမျိုးကို အချို့က ဒီလုံးရိုက်သည်ဟု ခေါ်ကြသည်။ ကမ္ဘာပေါ်၌ အရှိန်ပြင်းစွာနှင့် မြင့်မားစွာ တက်လာသော ဒီလုံးကြီးများကို တောင်အမေရိကတိုက်ရှိ အမ္ဗဇုန်မြစ်ဝ၊ တရုပ်နိုင်ငံရှိ ယန်စီကျိုင်မြစ်ဝ၊ အင်္ဂလန်ပြည်ရှိ ဆဲဗန်းမြစ်ဝ၊ ပြင်သစ်ပြည်ရှိ စိန်းမြစ်ဝ၊ အိန္ဒိယနိုင်ငံရှိ ဟူဂလီမြစ်ဝနှင့် ကျွန်ုပ်တို့နိုင်ငံရှိ စစ်တောင်းမြစ်ဝများတွင် တွေ့ရှိရသည်။

သင်္ဘောသားများသည် ရေတက် ရေကျ အကြောင်းကို သိအပ်၏။ မြစ်များ၏အဝတွင် သောင်တန်း ထွန်းတတ်သဖြင့် ရေအတက်တွင် သင်္ဘောများသည် ဆိပ်ကမ်းထဲသို့ ဝင်လာခြင်း၊ ပင်လယ်ပြင်သို့ ပြန်ထွက်သွားခြင်း ပြုနိုင်၏။ ရေကျချိန်တွင် ရေတိမ်သောနေရာ၌ ရောက်နေပါက သင်္ဘောနစ်မြုပ်တတ်၏။ သို့ဖြစ်၍ ဆိပ်ကမ်းအရာရှိတို့က ဆိပ်ကမ်းကြီးများ၏ ရေတက် ရေကျကို အမြဲကြိုတင်၍ တွက်ချက် ခန့်မှန်း ထားကြရ၏။

ရေတက် ရေကျကို ဆိပ်ကမ်းဝင်သော သင်္ဘောကြီးများ သာမဟုတ်၊ မြစ်ဝကျွန်းပေါ် ရှိ မြစ်ချောင်းတို့တွင် ကူးလူးသွားလာရသော လှေသမ္ဗန်သမားတို့ကလည်း ဂရုစိုက်ရပေသည်။ ရေတက် ရေကျကို ဂရုမစိုက်ပါက၊ ရေဆန်မိပြီးလျှင် ခရီးမတွင်ရှိတတ်၏။ ရန်ကုန်မြစ်နှင့် တဆက်တည်းဖြစ်သော ပန်းလှိုင်မြစ်နှင့် ဧရာဝတီမြစ်တို့ ဆုံရာဖြစ်သော ညောင်တုန်းမြို့အထိ ဒီရေ အတက်အကျရှိသည်။ ညောင်တုန်းမြို့မှအထက်တွင် ဧရာဝတီမြစ်၌ ရေတက် ရေကျ မရှိချေ။

**ဒီဇယ် အင်ဂျင်။** ။ဒီဇယ် အင်ဂျင်သည် ဆီကို လောင်စာအဖြစ် အသုံးပြုသော အတွင်းမီးအား အင်ဂျင်စက်ဖြစ်သည်။ ထိုစက်ကို ထွင်သော ဂျာမန်လူမျိုး အင်ဂျင်နီယာ ရုဒေါ့ ဒီဇယ်၏အမည်ကို အစွဲပြု၍၊ ဒီဇယ်အင်ဂျင်ဟု ခေါ်ဝေါ်ခြင်းဖြစ်သည်။ ဒီဇယ်အင်ဂျင်သည် လောင်စာ အတွက် အကုန်အကျ သက်သာသည့်ပြင်၊ စက်အားလည်း အထူးကောင်းမွန်သည်။ အခြား အတွင်းမီးအား အင်ဂျင်စက်များကဲ့သို့ပင်၊ လောင်စာဆီမီး တောက်လောင်ရာမှ ဖြစ်ပေါ်သော ဓာတ်ငွေ့တို့၏ ပြန့်ကားမှုကြောင့်၊ ပစ်စတန်ကို တွန်းကန်ရွေ့ရှားစေသည်။ သို့သော် အခြား အတွင်းမီးအား အင်ဂျင်စက်များနှင့်မတူသော ဒီဇယ်အင်ဂျင်၏ ထူးခြားချက်မှာ ဆီကို မီးဖွားဖြင့် မလောင်စေဘဲ၊ ဖိသိပ်ထားသော လေဖြင့်သာ လောင်စေခြင်းဖြစ်သည်။

ဒီဇယ်အင်ဂျင်၏သဘောမှာ စက်ကို စတင်မောင်းလိုက်လျှင်၊ ဆလင်ဒါအထဲရှိ ပစ်စတန်သည် အပေါ်နှင့်အောက်သို့ ရွေ့ရှားသွားသည်။ အောက်သို့ ပစ်စတန် ဆင်းလာသော ထိုးချက်၌၊ ပစ်စတန်သည် ဆလင်ဒါထဲသို့ ဖိအားအနည်းငယ်နှင့် လေကို ဆွဲယူသည်။ အချို့စက်များတွင် ဆူပါ ချာဂျာခေါ် လေမှုတ်စက်ဖြင့် ဆလင်ဒါအတွင်းသို့ လေကို မှုတ်သွင်းပေးသည်။ ပစ်စတန် အပေါ်သို့ပြန်၍တက်သော ထိုးချက်၌၊ ပစ်စတန်သည် လေကို သဘာဝအလျောက်ရှိမည့်



ဒီဇယ်အင်ဂျင်ကို စတင် တီထွင်ခဲ့သူ ရုဒေါ့ ဒီဇယ်

ထုထယ်၏ ၁၄ ပုံ ၁ ပုံမျှအထိ ဖိသိပ်ပေးလိုက်သည်။ ဤသို့ လေကို ဖိသိပ်ပေးလိုက်ခြင်းကြောင့်၊ လေ၏ဖိအားသည် စတုရန်းတလက်မလျှင် ပေါင် ၅၀၀ မျှအထိ ရှိလာသည်။ ထို့ပြင် ထိုဖိအားက ဆလင်ဒါအတွင်းရှိ လေ၏အပူချိန်ကို ဖာရင်ဟိုက် ဒီဂရီ ၈၀၀ မှ ၁၀၀၀ အထိ တိုးသွားစေသည်။ ထိုအချိန်၌ ဆလင်ဒါအတွင်းသို့ ဂျက်နှုတ်သီးမှဆီကို အမှုန့်ကလေးများအဖြစ် မှုတ်ထည့်ပေးသည်။ လေ၏အပူချိန်သည် တက်နေသဖြင့်၊ ဆီကို မီးတောက်စေပြီးလျှင်၊ ဖြစ်ပေါ်လာသည့် ဓာတ်ငွေ့များကို ပြန့်ထွက်စေသည်။ ထိုဓာတ်ငွေ့များသည် ပစ်စတန်ကို အောက်သို့တွန်းချသည်။ ထိုသို့ ပစ်စတန်ကိုတွန်းချသော ထိုးချက်ကို 'ပါဝါ ထိုးချက်' ဟုခေါ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုထိုးချက်တွင် စက်က အလုပ်လုပ်နိုင်သောကြောင့်ဖြစ်သည်။ ပစ်စတန် အောက်သို့ဆင်းလာရာ၌ အဆုံးသို့ ရောက်ချိန်နီးတွင်၊ ဆလင်ဒါအတွင်းသို့ လေထပ်၍ထည့်ပေးပြန်သည်။ ပစ်စတန်သည် အောက်ဖက်အဆုံးသို့ ရောက်သည်နှင့်တပြိုင်နက်၊ ဆလင်ဒါ၏ထိပ်ဖက်ရှိ အိပ်ဇော့အဆို့ရှင် ၂ ခုသည် ပွင့်သွားပြီးလျှင် လောင်ကျွမ်းမှုကြောင့် ဖြစ်ပေါ်လာသော သုံးပြီးဓာတ်ငွေ့များသည် ဆလင်ဒါအတွင်းမှ ထွက်သွားသည်။ ဤသို့ဖြစ်သည်မှာ စက္ကန့်အနည်းငယ်ခန့်သာကြာ၏။ ထိုစက်မျိုးကို နှစ်ချက်ခုတ် အင်ဂျင်ဟု ခေါ်သည်။ အဘယ်ကြောင့်ဆိုသော် ပစ်စတန်သည် ပေါက်ကွဲမှု တကြိမ်ဖြစ်စေရန် အထက်သို့တကြိမ်၊ အောက်သို့တကြိမ် ထိုးရခြင်းကြောင့်ဖြစ်သည်။

အခြား ဒီဇယ်အင်ဂျင်တမျိုးမှာ လေးချက်ခုတ်ခေါ် စက်မျိုးဖြစ်သည်။ ထိုစက်မျိုး၌ ပစ်စတန်သည် အထက်သို့ ၂ ကြိမ်၊ အောက်သို့ ၂ ကြိမ်၊ ပေါင်း ၄ ကြိမ် ထိုးရသည်။ ပစ်စတန်သည် ပဌမအကြိမ် အောက်သို့ဆင်းသောအခါ၊ ဆလင်ဒါအတွင်းသို့ လေကို စုတ်ယူသည်။ ထိုနောက် အထက်သို့တက်သွားသောအခါ၊ လေကို ဖိသိပ်ပေးသည်။ ထို အချိန်၌ ဆီကို ဆလင်ဒါအတွင်းသို့ မှုတ်ပေးလိုက်ရာ၊ မီးတောက်ပြီးလျှင် ဒုတိယအကြိမ် ပစ်စတန်သည် အောက်သို့ဆင်းလာသည်။ ထိုနောက် အထက်သို့ ဒုတိယအကြိမ် တက်လာပြန်၍၊ သုံးပြီးဓာတ်ငွေ့များကို အပြင်သို့ ထွက်သွားစေသည်။

ဒီဇယ် အင်ဂျင်သည် မီးလောင်သောဆီငွေ့မှ ထွက်လာသည့် အပူကို ကောင်းစွာအသုံးပြုခြင်းဖြင့် အား ရရှိသည်။ ဒီဇယ် အင်ဂျင်တွင် ပစ်စတန်နှင့် ဆလင်ဒါထိပ်ပိုင်းကို အထူးစီမံထားသဖြင့် ဆီငွေ့များသည် လေနှင့် ကောင်းစွာရောသွားပြီးလျှင်၊ ဆလင်ဒါအတွင်း၌ ကောင်းစွာမီးလောင်နိုင်သည်။ လောင်စာဆီ မီးလောင်ချိန်၌ ဖိအားသည် တသမတ်တည်းလိုပင် ရှိသည်။ ဖိအား ကို ထိန်း ပေး ရန် အ တွက် ဆလင်ဒါအတွင်းသို့ ဆီကို တတ်နိုင်သမျှ လျင်မြန်စွာ ထည့်ပေးရသည်။ ပစ်စတန် အောက်သို့ဆင်းလာသော အချိန်၏ ၁၀ ပိုင်း ၁ ပိုင်းအချိန်အတွင်း၌ ဆလင်ဒါအတွင်းသို့ ဆီထည့်သွင်း၍ ပြီးစီးရသည်။

ဒီဇယ် အင်ဂျင်သည် ထုထယ်ကြီးမား၍ အလေးချိန်များသော်လည်း၊ ယင်း၌ ကောင်းမွန်ထူးခြားသော အချက်များ ရှိပေသည်။ ထိုစက်မျိုးတွင် အသုံးပြုသော လောင်စာ၏ တန်ဖိုးသည် ဓာတ်ဆီ၏တန်ဖိုးလောက် မများချေ။ ဒီဇယ် အင်ဂျင်စက်ကြီးများသည် ဖြည်းဖြည်းသာ လည်နိုင်သည်။ အများအားဖြင့် တမိနစ်လျှင် အပတ်ပေါင်း ၁၀၀ မှ ၄၀၀ အထိသာ လည်နိုင်သည်။ သို့သော် အထူးပင် စက်အားကောင်း၍ အလုပ်လုပ်နိုင်စွမ်း ရှိပေသည်။ အဘယ်ကြောင့်ဆိုသော် ဆလင်ဒါအတွင်းမှ ထွက်လာသော အပူ အားလုံးလိုလိုကို တွင်ကျယ်စွာ အသုံးပြုနိုင်ခြင်းကြောင့် ဖြစ်သည်။

ယခုအခါ ဒီဇယ် အင်ဂျင်စက်ပုံများသည် ရိုးရိုးပုံများပင် ဖြစ်သည်။ ဒီဇယ် အင်ဂျင်တွင် လိုအပ်သမျှမှာ ဆလင်ဒါ၊ ပစ်စတန်၊ ဆက်တံ၊ လက်တံဝင်ရိုး၊ အားဘီး၊ ဆလင်ဒါ



မားစီးဒီးဗင် မော်တော်ကားများ၌ တပ်ဆင်လေ့ရှိသော ဒီဇယ်အင်ဂျင်စက်

အတွင်းသို့ ဆီးမှုတ်သွင်းရန် ဖုံပိုင်နှင့် နှုတ်သီးတို့အပြင်၊ အဆို ရှင်များကို အလုပ်လုပ်စေသော ကရိယာတို့သာလျှင်ဖြစ် သည်။ နှစ်ပေါင်းများစွာပင် ဒီဇယ် အင်ဂျင်များကို လျှပ် စစ်ဓာတ်အားပေး စက်ရုံများ၊ ရေပေး လုပ်ငန်းများ၊ သင်္ဘောများတွင် အသုံးပြုခဲ့ကြသည်။ ဒီဇယ် အင်ဂျင်နှင့် မောင်းနှင်သော အချို့မီးရထားများသည် တနာရီလျှင် မိုင် ၁၂၀ ပြေးနိုင်ကြသည်။ အချို့မော်တော်ကားနှင့်ယာဉ် များ၌လည်း ဒီဇယ် အင်ဂျင်ကို အသုံးပြုကြသည်။ ဒီဇယ် အင်ဂျင်ကို ပို၍ကောင်းမွန်စေရန် ကြိုးစားကြရာ၊ ယခုအခါ လေယာဉ်ပျံ၊ သင်္ဘော၊ မော်တော်ဘုတ်နှင့် ခရီးသည်တင် ဘတ်ကားကြီးများ၌ အသုံးပြုနိုင်သော ဒီဇယ် အင်ဂျင်များ ကို လုပ်နိုင်ကြပေပြီ။ ထိုပြင် ဒီဇယ် အင်ဂျင်ကို လေဖိအား စက်၊ ရေစုတ်စက်၊ အဆောက်အအုံ ဆောက်လုပ်စက်၊ လယ် ယာမြေ ထွန်စက်များ၌လည်း အသုံးပြုနိုင်ကြပေပြီ။

မြန်မာနိုင်ငံတော် ပြည်တွင်း ရေကြောင်းသယ်ယူပို့ ဆောင်ရေး ဘုတ်အဖွဲ့မှ ကြီးမှူး၍၊ ရေကြောင်း ဒီဇယ် အင် ဂျင်ဆရာများ ထွန်းကားလာရေးအတွက်၊ ဒီဇယ် အင်ဂျင် သင်တန်းကျောင်းတခုကို ဒလမြို့၊ သင်္ဘောကျင်း၌ ၁၉၅၅ ခုနှစ် ဇူလိုင်လ တရက်နေ့တွင် တည်ထောင်ခဲ့သည်။ ထို နောက် များမကြာမီ ယင်းသင်တန်းကျောင်းကို ကမ္ဘာ့ အ လုပ်သမားအဖွဲ့ချုပ်နှင့် အာရှနှင့် အရှေ့ဖျားနိုင်ငံများ ဆိုင်ရာ စီးပွားရေးကော်မစ်ရှင်အဖွဲ့များ၏ အကူအညီကို ယူ၍ ထပ်မံတိုးချဲ့လိုက်လေသည်။ ထိုဒီဇယ် အင်ဂျင် သင် တန်းကျောင်း၏ရည်ရွယ်ချက်မှာ ဒီဇယ် အင်ဂျင်များ ထိန်း သိမ်းရေး၊ ပြုပြင်ရေးနှင့်ပတ်သက်သော ပညာရပ်များကို မြန်မာနိုင်ငံမှ ကျောင်းသားများကိုသာမက၊ အခြား အာ ရှတိုက်နိုင်ငံများမှ ကျောင်းသားများကိုပါ သင်ကြားပေး ရန်ပင်ဖြစ်သည်။ မြန်မာနိုင်ငံ ပြည်တွင်း ရေကြောင်းသယ် ယူပို့ဆောင်ရေး ဘုတ်အဖွဲ့သည် အခြား အာရှနှင့် အရှေ့ ဖျားနိုင်ငံများနှင့် စာလျှင်၊ ဒီဇယ် အင်ဂျင်ဖြင့် မောင်း သော ရေယာဉ်များကို အများဆုံး အသုံးပြုသည်။ မြန်မာ နိုင်ငံ ပြည်တွင်း ရေကြောင်းသယ်ယူပို့ဆောင်ရေးတွင် အ သုံးပြုလျက်ရှိသော ရေယာဉ်တို့တွင် ၇၃ ရာခိုင်နှုန်းသည် ဒီ ဇယ် အင်ဂျင်နှင့်မောင်းသော ရေယာဉ်များဖြစ်သည်။

ဒီတားရျင့် ဆပ်ပြာ။ ။ချေးချွတ်စရာ — ရှ။



အိမ်ခန်းအတွင်း ဒီ ဒီ တီ ဆေးရည်ဖြန်းခြင်းဖြင့် တိုက်ဖတ်ရောဂါကို ကြိုတင် ကာကွယ်နိုင်သည်။

**ဒီ၊ ဒီ၊ တီ။** ။ဒီ ဒီ တီသည် လူသိများသော ပိုးသတ်ဆေးဖြစ်သည်။ အမည်ရင်းမှာ 'ဒိုင်ကလိုရို ဒိုင်ဖီနီ ထရိုင်ကလိုရိုအီသိန်း' ဖြစ်သော်လည်း၊ အမည် အခေါ် ရှည်သောကြောင့် အတိုနည်းဖြင့် ဒီ ဒီ တီဟု ခေါ် ဆိုသည်။ ဒီ ဒီ တီကို အမှုန့်အဖြစ်ဝ,င်း၊ အရည်အဖြစ်ဝ,င်း၊ အငွေ့အဖြစ်ဝ,င်း ဖော်စပ်ယူနိုင်သည်။ ဒီ ဒီ တီကို ကလိုရိုဟိုက်ဒရိတ်၊ မိုနိုကလော်ဗင်ဇင်းနှင့် ဆာ လ ဖျူ ရစ် အက် ဆစ် ခေါ် ဓာတ် သုံး မျိုး မှ ဖော်စပ်ယူခြင်းဖြစ်သည်။

၁၉၄၄ ခုနှစ် ဖေဖွာရီလတွင် အမေရိကန်ပြည်ထောင်စုတပ်မတော်သည် ဒီ ဒီ တီကို တိုက်ဖတ်ဖျား ရောဂါ တားမြစ်ရန်အတွက် ဣတလီနိုင်ငံ၊ နေပယ်မြို့၌ စတင်၍အသုံးပြုသည်။ ဒီ ဒီ တီ အမှုန့်ကို နေပယ်မြို့ရှိ လူအားလုံးအားဖြူးပေး၍၊ ကိုယ်၌ရှိသော တိုက်ဖတ် ရောဂါပိုးများကို သတ်ပစ်သည်။ ဒီ ဒီ တီ အရည်ဖြင့် အင်္ကျီ အဝတ်အစားများကို ဖြန်းထားလျှင် နှစ်လခန့် တိုက်ဖတ် ရောဂါပိုး မစွဲကပ်နိုင်ပေ။ အင်္ကျီကို ခဝါပေးသော်လည်း၊ ထိုဆေးရည်သတ္တိမှာ မပြယ်ဘဲရှိသည်။ ဒီ ဒီ တီသည် အင်းဆက်ပိုး အမျိုးများစွာကို သေကြေပျက်စီးစေနိုင်သည်။ အမေရိကန်ပြည်ထောင်စု စိုက်ပျိုးရေးဌာနက ဒီ ဒီ တီသည် ဂျပန်ပိုးတောင်မာ၊ ကြမ်းပိုး၊ ကျွဲနွားစွဲ သန်း၊ ခြတို့အပါအဝင်ဖြစ်သော ပိုးကောင်မျိုး ၄၀၊ ၅၀ လောက်ကို နှိမ်နင်းနိုင်စွမ်းသည်ဟုဆိုသည်။ နံရံ၌ ဒီ ဒီ တီ ဖြန်းထားသော အခန်းအတွင်း၌ သုံးလတိုင်မျှ ယင်ကောင်များ မနေနိုင်ပေ။ ဒီ ဒီ တီပါသောဆေးဖြင့် နံရံကိုသုတ်ထားလျှင်လည်း ယင်ကောင်များ သေကုန်ကြသည်။

ငှက်ဖျားရောဂါ ခြင်များ ဖျက်ဆီးပစ်ရန် ဒီ ဒီ တီကို လေယာဉ်ပျံဖြင့် နေရာကျယ်ပြန့်စွာ ဖြန်းပေးနိုင်သည်။ သို့ရာတွင် အများအပြား အသုံးပြုလျှင် ဒီ ဒီ တီသည် လူ့အတွက် အသုံးဝင်သည့် ပျားကဲ့သို့သော အင်းဆက်ပိုးများကို ဖျက်ဆီးပစ်တတ်သည်။ ဒီ ဒီ တီသည် ငါးများကိုလည်း အဆိပ်သင့်စေရုံမက၊ သွေးအေးသတ္တဝါ အချို့ကိုလည်း သေစေတတ်သည်။ သွေးနွေးသတ္တဝါများပင် ယင်းကို အများအပြားစားမိလျှင် သေနိုင်ကြသည်။ ကျွဲနွားစားရန် အသီးအနှံများကို ဒီ ဒီ တီ မဖြန်းမိရန် သတိမူရာ၏။ လူ့ခန္ဓာကိုယ်ထဲသို့ ဒီ ဒီ တီ အများအပြား ဝင်ရောက်သွားလျှင် လူကို အန္တရာယ်ဖြစ်စေနိုင်သည်။ ထို့ကြောင့် ဒီ ဒီ တီကို များစွာသတိထား၍ သုံးစွဲရသည်။

ဒီ ဒီ တီကို ဂျာမန် ဓာတုဗေဒပညာရှင် တဦးက စတင်ဖော်စပ်ယူ၍၊ ၁၉၃၉ ခုနှစ်တွင် ဂျေ၊ အာ၊ ဂိုက်ဂီ ကုမ္ပဏီခေါ် ဆွစ် ဓာတုဗေဒကုမ္ပဏီက မှတ်ပုံတင်လေသည်။

**ဒီပဲရင်းမြို့**။ ။ဒီပဲရင်းမြို့သည် ရေဦးမြို့မှ အနောက်ဖက် ၉ မိုင်ကွာဝေး၍၊ ရေဦး-မုံရွာ မီးရထားလမ်းပေါ်တွင် တည်ရှိသော ရှေးဟောင်းမြို့တမြို့ ဖြစ်သည်။ ပုဂံခေတ်ကပင် ဒီပဲရင်းမည်သော အရပ်ရှိကြောင်းကို ပုဂံမြို့ သမထီး အရပ် သမထီးကျောက်စာ၌ တွေ့ရသည်။ ယင်းကျောက်စာတွင် ဒီပဲရင်းကို 'ထိပေအ်သျင်' ဟု ရေးထိုးသည်။ ထိုအရေးအသားကို ယခုခေတ်သုံး အရေးအသားဖြင့် ရေးပြရလျှင်၊ ထိပေ့သျှင်ဟု ရေးပြရမည်ဖြစ်သည်။ ထိုမြို့သည် ရွှေဘိုခရိုင် ရေဦးနယ်အပါအဝင်၊ ဒီပဲရင်းမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ရှေးမြန်မာမင်းများလက်ထက်က မြို့ဝန် နေထိုင်ခဲ့သည်။ မြို့ရိုးနှင့် ကျုံးဟောင်းများလည်း ရှိသည်။ ယခုအခါ မြို့ပိုင်ရုံး၊ ရဲဌာနနှင့် စာပို့တိုက်များရှိ၏။ ရေဦးမြို့နှင့် ကတ္တရာစေးလမ်းဖြင့် ဆက်သွယ်ထားသည်။ အခြားလမ်းများကား၊ ဖို့မြေ ပေတရာလမ်းများသာဖြစ်၍၊ မိုးရာသီတွင် အသွားအလာ ခက်ခဲ၏။ ရေဦးတူးမြောင်းမကို အမှီပြုရသည့် ကျောထောက်နောက်ခံနယ်မြေတွင် ရေသွင်း၍ စပါးစိုက်ပျိုးကြသည်။ ထိုအရပ်တွင် အုန်းပုတီး ကြိမ်ပုတီးထွက်၏။

ဒီပဲရင်းမြို့နယ်မှာ စတုရန်းမိုင် ၆၁၅ မိုင် ကျယ်ဝန်း၍၊ ကျေးရွာပေါင်း ၂၃၁ ရွာ ပါဝင်၏။ လူဦးရေခန့်မှန်းခြေ ၆၀,၀၀၀ ကျော်ရှိသည်။ မြို့နယ်အရှေ့ပိုင်းမှာ ရေဦး တူးမြောင်းမဖြင့် မူးမြစ်မှရေသွယ်၍ စိုက်ပျိုးလုပ်ကိုင်ရာ၊ လယ်ယာများ အထူးအောင်မြင်သည်။ အနောက်ပိုင်းမှာမူ၊ တောတောင်ထူထပ်သည်။ မြေဩဇာ ထက်သန် ကောင်းမွန်သော အရပ်ဖြစ်၍၊ ယင်းနယ်တဝိုက်တွင် ပယ်ကိုးသန်း ရှိခဲ့ဘူးကြောင်းကို ကဝိလက္ခဏာသတ်ပုံတွင် 'ဒီပဲရင်းဝယ်၊ ကိုးသန်းပယ်၊ ထိုနယ်လေးမျက်နှာ' ဟု တွေ့ရသည်။ ဒီပဲရင်း မြို့နယ်သည် မြန်မာဘုရင်များလက်ထက်၌ စစ်မှုထမ်း သူရဲကောင်းများ ထွက်ပေါ်ရာအရပ်ဖြစ်သည်။ စစ်သူကြီး မဟာဗန္ဓုလသည်လည်း ဒီပဲရင်းဇာတိဖြစ်၏။

**ဒီဖိုး, ဒီ** (ခရစ် ၁၆၆၁–၁၇၃၁)။ ။ဒန်းနယဲ ဒီဖိုးကား အင်္ဂလိပ်ဂန္ထဝင်၌သာမက ကမ္ဘာ့ဂန္ထဝင်၌လည်း ကျော်ကြားသော 'ရော်ဗင်ဆန် ကရူးဆိုး' ဝတ္ထုကြီးကို ရေးသားခဲ့သူဖြစ်သည်။ ကရူးဆိုး၏သင်္ဘော ပျက်ပုံ၊ ကျွန်းကြီး တကျွန်းကို တွေ့ရှိပုံ၊ ကျွန်းကြီး၌ တယောက်ထီးတည်း နေထိုင်ပုံ၊ တို့မှစ၍ ကရူးဆိုး၏ တပည့် ဖရိုင်းဒေးခေါ် ဖိုးသောကြာနှင့်တွေ့ပုံ စသည်တို့သည် စာဖတ်ပရိသတ်၏စိတ်ကို များစွာ ဆွဲဆောင်နိုင်လေသည်။ (ကရူးဆိုး၊ ရော်ဗင်ဆန် — ရှု။)

ဒီဖိုးသည် လန်ဒန်မြို့ သားသတ်တဦး၏ သားဖြစ်သည်။ ပညာသင်ချိန်အရွယ်သို့ ရောက်သောအခါ၊ သူ၏ဖခင်သည် သားဖြစ်သူအား မိမိကဲ့သို့ အသက်မွေးခြင်း မပြုစေလိုသည့်အတွက်၊ ခရစ်ယန်ဘုန်းကြီးကျောင်းတွင် ပညာဆည်းပူးစေခဲ့သည်။ ဒီဖိုးကား ပျူရီတန် ဂိုဏ်းဝင်တဦး ဖြစ်သည့် အလျောက်၊ ရေဖျန်းဂိုဏ်း၏ အယူအဆများကို အယုံအကြည်မရှိချေ။ ၁၇၀၂ ခုနှစ် ခရစ်ယန်သာသနာရေးဆိုင်ရာ စာအုပ်ငယ်တအုပ်ကို ရေးသားထုတ်ဝေခဲ့ရာ၊ ယင်းစာအုပ်တွင် ဒီဖိုးသည် ရေဖျန်းဂိုဏ်းကြီးအား ထောက်ခံသယောင် ရေးသားထားသဖြင့်၊ တိုရီအစိုးရသည် ဦးစွာ၌ များစွာ သ



ကမ္ဘာကျော် ရော်ဗင်ဆန် ကရူးဆိုး ဝတ္ထုရေးဆရာ ဒန်းနယဲ ဒီဖိုး

ဘောကျခဲ့၏။ နောက်၌သော်ကား ထိုစာအုပ်မှာ လက်ရှိအစိုးရကို ပြက်ရယ်ပြုကာ ရေးသားထားကြောင်း သိရှိရသဖြင့်၊ တိုရီအစိုးရသည် ဒီဖိုးအား ဖမ်းဆီးရန် အမိန့်ထုတ်ခဲ့သည်။ အစိုးရ၏ လူဖမ်းအမိန့်တွင် ဒီဖိုး၏ ပုံပန်းသဏ္ဌာန်ကို ဖော်ပြထားသဖြင့်၊ နှောင်းလူတို့သည် ဒီဖိုး၏အသွင်အပြင်ကို မှန်းဆကြည့်နိုင်လေသည်။ ထိုအခါက ဒီဖိုးသည် အသက် ၄၀ ကျော်ကျော်၊ အရပ် မနိမ့်မမြင့်၊ အသား ညိုညို၊ ဆံပင် နက်နက်၊ နှာခေါင်း ကောက်ကောက်၊ မေး ချွန်ချွန်၊ မျက်လုံး ညိုညို၊ ပါးစပ်အနီးတွင် ထင်ရှားသော မှည့်ကြီး တလုံး ရှိသည့်အပြင်၊ ဆံပင်အတုကို အမြဲစွပ်ထားလေ့ရှိသည် ဟု အစိုးရ၏ ကြေညာချက်တွင် ဖော်ပြထားသည်။ ထိုနောက် ဒီဖိုးကိုမိလာသောအခါ၊ တိုရီအစိုးရသည် ဒီဖိုးအား

ရက်အကန့်အသတ်မရှိ ထောင်သွင်းအကျဉ်းချထားလိုက်၏။

ဒီဖိုးသည် ထောင်မကျခင်က စီးပွားရေးလုပ်ငန်းတခုကို လုပ်ကိုင်ခဲ့သည်။ ထိုလုပ်ငန်းမှာ သူထောင်ကျသဖြင့် ပျက်စီးသွားရာ၊ အကြွေးအမြောက်အမြား တင်ခဲ့လေသည်။ သို့ရာတွင် ဒီဖိုးသည် ၁၇၀၃ ခုနှစ်၌ အောက်လွှတ်တော်ဥက္ကဋ္ဌဖြစ်သူ ရောဗတ် ဟာလေ၏ ဆောင်ရွက်မှုကြောင့် ထောင်မှ လွတ်လာခဲ့၏။ ဟာလေသည် သတင်းစာ၏ တန်ခိုးသတ္တိနှင့် ထက်မြက်သော ကလောင်၏အစွမ်း ကြီးမားပုံကို သိရှိသဖြင့်၊ ဒီဖိုးအား ယင်းသို့ ကူညီခဲ့ခြင်းဖြစ်သည်။ ဒီဖိုးကလည်း ဟာလေအတွက် အစီရင်ခံစာများ၊ စာရွက်စာတမ်းများ ရေးပေးခြင်း၊ ရွေးကောက်ပွဲတွင် မဲဆွယ်ပေးခြင်း၊ စကော့တလန်ပြည်တွင် အစိုးရ၏ အထောက်တော်အဖြစ် ဆောင်ရွက်ပေးခြင်းဖြင့် ဟာလေအား ကျေးဇူးပြန်ဆပ်လေသည်။

၁၇၀၄ ခုနှစ်တွင် ဒီဖိုးသည် 'ရီဗျူး' စာစောင်တခုကို ထုတ်ဝေခဲ့၏။ ထိုစာစောင်တွင် လက်ရှိပြဿနာများအား ဝေဖန်ချက်များ ပါရှိသည်။ 'ရီဗျူး' စာစောင်ကို ၁၇၁၃ ခုနှစ်အထိထုတ်ဝေခဲ့ရာ၊ ဒီဖိုး၏ 'ရီဗျူး' မှာ နောက်ပေါ် စာနယ်ဇင်းတို့၏ ရှေ့တော်ပြေးစာစောင်ဟု ဆိုနိုင်ပေသည်။

ဒီဖိုး၏ခေတ်တွင် စာဖတ်ပရိသတ်သည် စိတ်ကူးဉာဏ်သက်သက်ဖြင့် ရေးသားသောဝတ္ထုများကို မနှစ်သက်ကြသဖြင့်၊ ဒီဖိုးသည် သူ့စိတ်ကူးဖြင့် ထွင်ထားသော မှန်ကန်သည့် ရာဇဝင်ဝတ္ထုများကို ရေးသားလေသည်။ အဆိုပါဝတ္ထုများကို ရေးသားရာ၌ ဒီဖိုးသည် ထိုအခါက လွန်စွာခေတ်စားနေသော ပယ်လယ်ဓားပြများ၊ စွန့်စားရှာဖွေသူများ စသည်တို့၏အကြောင်းများကို ရနိုင်သ၍ စုဆောင်းရှာဖွေပြီးလျှင်၊ ဇာတ်လမ်း ဇာတ်ကွက်နှင့် ဇာတ်လိုက်ဇာတ်ဆောင်များကို သူ၏စိတ်ကူးဉာဏ်ဖြင့် ဖြည့်စွက်တီထွင်ကာ၊ တကယ့်အဖြစ်အပျက်များသဖွယ် ရေးသားခဲ့လေသည်။ ၁၇၁၉ ခုနှစ်တွင် ဒီဖိုးသည် အယ်လက်ဇန္ဒာ ဆဲလကတ် ဆိုသူ သင်္ဘောသားတဦး၏ ကိုယ်တွေ့အဖြစ်အပျက်အမှန်ကို မူတည်ကာ၊ 'ရော်ဗင်ဆန် ကရူးဆိုး' ဝတ္ထုကို ရေးသားခဲ့သည်။ ထိုဝတ္ထုမှာ ဖတ်၍မရိုးနိုင်လောက်အောင် ကောင်းမွန်သော ဝတ္ထုတပုဒ်ဖြစ်၍၊ ကမ္ဘာ့စာပေတွင် ယနေ့တိုင် ကျော်ကြားလျက်ရှိသည်။ ဝတ္ထုရေးဆရာ ဒီဖိုးသည်လည်း ထိုဝတ္ထုတအုပ်တည်းနှင့်ပင် နာမည်ကျော်ကြားသွားလေသည်။

**ဒီဗရစ်တို**။ ။ဖိလစ် ဒီဗရစ်တိုသည် မြန်မာနိုင်ငံသမိုင်းတွင် ကုလားငစင်္ကာဟု ထင်ရှားသော ပေါ်တူဂီလူမျိုးတဦးဖြစ်သည်။ ငစင်္ကာဟူသောအမည်မှာ လူကောင်း သူကောင်းဟု အဓိပ္ပါယ်ရလေသည်။ ဒီဗရစ်တိုသည် သင်္ဘောအစေခံအဖြစ်ဖြင့် ရခိုင်ဘုရင် မင်းရာဇာကြီး (မြန်မာ ၉၅၅–၉၇၄) ၏ လက်ထက်တွင် ရခိုင်ပြည်သို့ စတင်ရောက်ရှိခဲ့သည်ဟု ယူဆရသည်။ ထိုနောက် ရခိုင်ဘုရင် မင်းရာဇာကြီးထံတွင် ဝင်ရောက်အမှုထမ်းရာမှ တဆင့်တဆင့် ရာထူးတိုးတက် ထင်ရှားလာသည်။

သက္ကရာဇ် ၉၆၀ ပြည့်နှစ်၌ ငါးဆူဒါယကာ နန္ဒဘုရင်၏ ဟံသာဝတီ (ပဲခူး) ပြည်ကို ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့ ပူးပေါင်းတိုက်ခိုက် ဖျက်ဆီးကြသည်။ ဟံသာဝတီ ပျက်ပြီးသည့်နောက်တွင် ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့လည်း တပြည်နှင့်တပြည် ရွှေလမ်းငွေလမ်းဖောက်ကာ သံတမန်ဆက်သွယ်ကြ၏။ ယင်းသို့ အချစ်အကြည် ဆက်သွယ်ရာတွင် ဓညဝတီနှင့် ကေတုမတီအကြား၌ လူပြေးလူပုန်းတို့၏ ရန်မာန်အန္တရာယ်ကြောင့် သံတမန်အစေအပါ မရောက်နိုင်ရှိလေရာ၊ ရခိုင်ဘုရင်က တောင်ငူဘုရင်ထံသို့ မိမိသည် သံလျင်မြို့တွင် အလုံးအရင်းနှင့် နေရသည်ဖြစ်မှ နှစ်ပြည်ထောင် သံတမန် အရောင်းအဝယ် ရောက်ပေါက်လွယ်၍ ရွှေတပြားတည်းကဲ့သို့ဖြစ်မည်ဟု စေလွှတ်ပြောဆို၏။ တောင်ငူဘုရင်လည်း ရခိုင်ဘုရင်က စေလာသောစကားကို ကြားလျှင် ရခိုင်ဘုရင်၏ ဆန္ဒသဘော လိုက်လျောတူညီလေသည်။ ထိုကြောင့် ရခိုင်ဘုရင်လည်း ငစင်္ကာခေါ် ဒီဗရစ်တိုအား သင်းဘော သုံးစင်း၊ လွန်းကြင် တရာကျော်၊ လူ နှစ်ထောင်ခန့်နှင့် သံလျင်တွင် အခိုင်အလုံ တပ်စွဲနေထိုင်ခွင့်ပေးသည်။

ဒီဗရစ်တိုလည်း သံလျင်သို့ရောက်၍၊ မြို့ပြ ကျုံးမြောင်းတို့ကို ခိုင်လုံအောင် လုပ်ဆောင်ပြင်ဆင်ပြီးလျှင်၊ သင်္ဘောသား ကုန်သည်များနှင့် မသင့် သင့်အောင် ဖြားယောင်း ခေါ်ငင်၍ ရောင်းဝယ်သည်။ ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့ထံလည်း ပဏ္ဏာလက်ဆောင် မပြတ် ဆက်သည်။ အရှေ့ဖက် မုတ္တမကို မင်းပြုသော ဗညားဒလနှင့်လည်း သင့်မြတ်အောင် အရောင်းအဝယ် လက်ဆောင်ပဏ္ဏာပို့သ၍ အဆွေခင်ပွန်းပြုသည်။ ထိုနောက် ဗညားဒလ၏ သား ဗညားနွယ်ကို မိမိ၏သမီးနှင့်ထိမ်းမြားပေး၍၊ မုတ္တမကို အလုံးအရင်း အခိုင်အမာနှင့် ဖွဲ့စည်းလေသည်။

ထိုနောက် အခွင့်ကောင်း ရရှိလာသည့်အလျောက် ဒီဗရစ်တိုလည်း သံလျင်တွင်ရှိနှင့်ပြီးဖြစ်သော ပေါ်တူဂီတို့နှင့် ပူးပေါင်းကာ ခံတပ်နှင့်အကောက်တိုက်တို့ကို သိမ်းယူသည်။ အစောင့်ချထားသော ရခိုင်သားတို့ကိုလည်း သံလျင်မှ မောင်းထုတ်သည်။ တောင်ငူနှင့်ရခိုင် အပြန်အလှန် အစေအပါ အရောင်းအဝယ်သွားသူများကိုလည်း ဖမ်းဆီးချုပ်နှောင်သည်။ ဆက်သမြဲဖြစ်သော လက်ဆောင်ပဏ္ဏာတို့ကို

ရက်အကန့်အသတ်မရှိ ထောင်သွင်းအကျဉ်းချထားလိုက်၏။

ဒီဖိုးသည် ထောင်မကျခင်က စီးပွားရေးလုပ်ငန်းတခုကို လုပ်ကိုင်ခဲ့သည်။ ထိုလုပ်ငန်းမှာ သူထောင်ကျသဖြင့် ပျက်စီးသွားရာ၊ အကြွေးအမြောက်အမြား တင်ခဲ့လေသည်။ သို့ရာတွင် ဒီဖိုးသည် ၁၇၀၃ ခုနှစ်၌ အောက်လွှတ်တော်ဥက္ကဋ္ဌဖြစ်သူ ရောဗတ် ဟာလေ၏ ဆောင်ရွက်မှုကြောင့် ထောင်မှလွတ်လာခဲ့၏။ ဟာလေသည် သတင်းစာ၏ တန်ခိုးသတ္တိနှင့် ထက်မြက်သော ကလောင်၏အစွမ်း ကြီးမားပုံကို သိရှိသဖြင့်၊ ဒီဖိုးအား ယင်းသို့ ကူညီခဲ့ခြင်းဖြစ်သည်။ ဒီဖိုးကလည်း ဟာလေအတွက် အစီရင်ခံစာများ၊ စာရွက်စာတမ်းများ ရေးပေးခြင်း၊ ရွေးကောက်ပွဲတွင် မဲဆွယ်ပေးခြင်း၊ စကော့တလန်ပြည်တွင် အစိုးရ၏ အထောက်တော်အဖြစ် ဆောင်ရွက်ပေးခြင်းဖြင့် ဟာလေအား ကျေးဇူးပြန်ဆပ်လေသည်။

၁၇၀၄ ခုနှစ်တွင် ဒီဖိုးသည် 'ရီဗျူး' စာစောင်တခုကို ထုတ်ဝေခဲ့၏။ ထိုစာစောင်တွင် လက်ရှိပြဿနာများအား ဝေဖန်ချက်များ ပါရှိသည်။ 'ရီဗျူး' စာစောင်ကို ၁၇၁၃ ခုနှစ်အထိထုတ်ဝေခဲ့ရာ၊ ဒီဖိုး၏ 'ရီဗျူး' မှာ နောက်ပေါ် စာနယ်ဇင်းတို့၏ ရှေ့တော်ပြေးစာစောင်ဟု ဆိုနိုင်ပေသည်။

ဒီဖိုး၏ခေတ်တွင် စာဖတ်ပရိသတ်သည် စိတ်ကူးဉာဏ်သက်သက်ဖြင့် ရေးသားသောဝတ္ထုများကို မနှစ်သက်ကြသဖြင့်၊ ဒီဖိုးသည် သူ့စိတ်ကူးဖြင့် ထွင်ထားသော မှန်ကန်သည့် ရာဇဝင်ဝတ္ထုများကို ရေးသားလေသည်။ အဆိုပါဝတ္ထုများကို ရေးသားရာ၌ ဒီဖိုးသည် ထိုအခါက လွန်စွာခေတ်စားနေသော ပယ်လယ်ခရီးပြများ၊ စွန့်စားရှာဖွေသူများ စသည်တို့၏အကြောင်းများကို ရနိုင်သ၍ စုဆောင်းရှာဖွေပြီးလျှင်၊ ဇာတ်လမ်း ဇာတ်ကွက်နှင့် ဇာတ်လိုက်ဇာတ်ဆောင်များကို သူ၏စိတ်ကူးဉာဏ်ဖြင့် ဖြည့်စွက်တီထွင်ကာ၊ တကယ့်အဖြစ်အပျက်များသဖွယ် ရေးသားခဲ့လေသည်။ ၁၇၁၉ ခုနှစ်တွင် ဒီဖိုးသည် အယ်လက်ဇန္ဒာဆဲလကတ် ဆိုသူ သင်္ဘောသားတဦး၏ ကိုယ်တွေ့အဖြစ်အပျက်အမှန်ကို မူတည်ကာ၊ 'ရော်ဗင်ဆန် ကရူးဆိုး' ဝတ္ထုကို ရေးသားခဲ့သည်။ ထိုဝတ္ထုမှာ ဖတ်၍မရိုးနိုင်လောက်အောင် ကောင်းမွန်သော ဝတ္ထုတပုဒ်ဖြစ်၍၊ ကမ္ဘာ့စာပေတွင် ယနေ့တိုင် ကျော်ကြားလျက်ရှိသည်။ ဝတ္ထုရေးဆရာ ဒီဖိုးသည်လည်း ထိုဝတ္ထုတအုပ်တည်းနှင့်ပင် နာမည် ကျော်ကြားသွားလေသည်။

**ဒီဗရစ်တို။** ။ဖိလစ် ဒီဗရစ်တိုသည် မြန်မာနိုင်ငံသမိုင်းတွင် ကုလားစေကာ်ဟု ထင်ရှားသော ပေါ်တူဂီလူမျိုးတဦးဖြစ်သည်။ စေကာ်ဟူသောအမည်မှာ လူကောင်း သူကောင်းဟု အဓိပ္ပါယ်ရလေသည်။ ဒီဗရစ်တိုသည် သင်္ဘောအစေခံအဖြစ်ဖြင့် ရခိုင်ဘုရင် မင်းရာဇာကြီး (မြန်မာ ၉၅၅–၉၇၄) ၏ လက်ထက်တွင် ရခိုင်ပြည်သို့ စတင်ရောက်ရှိခဲ့သည်ဟု ယူဆရသည်။ ထိုနောက် ရခိုင်ဘုရင် မင်းရာဇာကြီးထံတွင် ဝင်ရောက်အမှုထမ်းရာမှ တဆင့်တဆင့် ရာထူးတိုးတက် ထင်ရှားလာသည်။

သက္ကရာဇ် ၉၆၀ ပြည့်နှစ်၌ ငါးဆုဒါယကာ နန္ဒဘုရင်၏ ဟံသာဝတီ (ပဲခူး) ပြည်ကို ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့ ပူးပေါင်းတိုက်ခိုက် ဖျက်ဆီးကြသည်။ ဟံသာဝတီ ပျက်ပြီးသည့်နောက်တွင် ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့လည်း တပြည်နှင့်တပြည် ရွှေလမ်းငွေလမ်းဖောက်ကာ သံတမန်ဆက်သွယ်ကြ၏။ ယင်းသို့ အချစ်အကြည် ဆက်သွယ်ရာတွင် မညဝတီနှင့် ကေတုမတီအကြား၌ လူပြေးလူပုန်းတို့၏ ရန်မာန်အန္တရာယ်ကြောင့် သံတမန်အစေအပါ မရောက်နိုင်ရှိလေရာ၊ ရခိုင်ဘုရင်က တောင်ငူဘုရင်ထံသို့ မိမိသည် သံလျင်မြို့တွင် အလုံးအရင်းနှင့် နေရသည်ဖြစ်မှ နှစ်ပြည်ထောင် သံတမန် အရောင်းအဝယ် ရောက်ပေါက်လွယ်၍ ရွှေတပြားတည်းကဲ့သို့ဖြစ်မည်ဟု စေလွှတ်ပြောဆို၏။ တောင်ငူဘုရင်လည်း ရခိုင်ဘုရင်က စေလာသောစကားကို ကြားလျှင် ရခိုင်ဘုရင်၏ ဆန္ဒသဘော လိုက်လျောတူညီလေသည်။ ထိုကြောင့် ရခိုင်ဘုရင်လည်း စေကာ်ခေါ် ဒီဗရစ်တိုအား သင်းဘော သုံးစင်း၊ လွန်းကြင် တရာကျော်၊ လူ နှစ်ထောင်ခန့်နှင့် သံလျင်တွင် အခိုင်အလုံ တပ်စွဲနေထိုင်ခွင့်ပေးသည်။

ဒီဗရစ်တိုလည်း သံလျင်သို့ရောက်၍၊ မြို့ပြ ကျုံးမြောင်းတို့ကို ခိုင်လုံအောင် လုပ်ဆောင်ပြင်ဆင်ပြီးလျှင်၊ သင်းဘောသား ကုန်သည်များနှင့် မသင့် သင့်အောင် ဖြားယောင်း ခေါ်ငင်၍ ရောင်းဝယ်သည်။ ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့ထံလည်း ပဏ္ဍာလက်ဆောင် မပြတ် ဆက်သည်။ အရှေ့ဖက် မုတ္တမကို မင်းပြုသော ဗညားဒလနှင့်လည်း သင့်မြတ်အောင် အရောင်းအဝယ် လက်ဆောင်ပဏ္ဍာပို့သ၍ အဆွေခင်ပွန်းပြုသည်။ ထိုနောက် ဗညားဒလ၏သား ဗညားနွယ်ကို မိမိ၏သမီးနှင့်ထိမ်းမြားပေး၍ မုတ္တမကို အလုံးအရင်း အခိုင်အမာနှင့် ဖွဲ့စည်းလေသည်။

ထိုနောက် အခွင့်ကောင်း ရရှိလာသည့်အလျောက် ဒီဗရစ်တိုလည်း သံလျင်တွင်ရှိနှင့်ပြီးဖြစ်သော ပေါ်တူဂီတို့နှင့် ပူးပေါင်းကာ ခံတပ်နှင့်အကောက်တိုက်တို့ကို သိမ်းယူသည်။ အစောင့်ချထားသော ရခိုင်သားတို့ကိုလည်း သံလျင်မှ မောင်းထုတ်သည်။ တောင်ငူနှင့်ရခိုင် အပြန်အလှန် အစေအပါ အရောင်းအဝယ်သွားသူများကိုလည်း ဖမ်းဆီးချုပ်နှောင်သည်။ ဆက်သမြဲဖြစ်သော လက်ဆောင်ပဏ္ဍာတို့ကို

ရစ်သော ပစ္စည်း အမြောက်အမြားကို ရင်းချသော ဆွေမျိုးနှစ်ဦးက ဒီမော့စသီးနီး၏ အမွေထိန်းများအဖြစ် အုပ်ထိန်း ခဲ့ကြ၏။ ထိုဆွေမျိုး နှစ်ဦး သည် ပစ္စည်းများကို မသမာသောနည်းဖြင့် ချယ်လှယ် သုံးဖြုန်းပစ်ကြ၍၊ ဒီမော့စသီးနီးကိုမူ ဆင်းရဲငြိုငြင်စွာ ထား၏။ အကြောင်းမှန်သိလာသောအခါ၊ ဒီမော့စသီးနီးသည် ထိုဆွေမျိုးနှစ်ဦးကို တရားစွဲဆိုနိုင်ရန်၊ စကားပြောကောင်းရမည့် ရှေ့နေတဦး အဖြစ် ရောက်အောင် အတော်ပင်ခဲ့ယဉ်းပင်ပန်းစွာ ကြိုးပန်းရလေသည်။ ထိုကြောင့် တနေ့တွင် ရည်မှန်းချက်အတိုင်း စကားပြောကောင်းလှသော ရှေ့နေတဦးအဖြစ် ရောက်ရှိလာပြီးလျှင်၊ ဆွေမျိုးများကို တရားစွဲဆိုကာ အနိုင်ယူခဲ့၏။ သို့သော် ပစ္စည်းများမှာ ကုန်လုနီးပါး ဖြစ်နေပြီဖြစ်၍၊ ဒီမော့စသီးနီးသည် သူ၏ပစ္စည်း အနည်းငယ်မျှကိုသာ ပြန်ရသည်။ ထိုအခါမှစ၍ ရှေ့နေကြီးတဦးအဖြစ် အသက်မွေးလေရာ၊ ထင်ရှား ကျော်ကြားလာလေသည်။

ထိုအလုပ်အကိုင်ဖြင့် ငွေဝင်လမ်းဖြောင့်သောကြောင့်၊ ပစ္စည်းဥစ္စာ အတော်ပင် စုဆောင်းမိ၏။ အသက် ၄၀ ခန့်တွင် နိုင်ငံရေး၌ ပါဝင်ဆောင်ရွက်လေသည်။ ထိုအချိန်၌ မြောက်ဖက်မှ မက်ဆီဒုန်ပြည်သည် အက်သင်း အစရှိသော ဂရိပြည်နယ်များကို ခြိမ်းခြောက်လာရာ၊ ဒီမော့စသီးနီးသည် မက်ဆီဒုန်ပြည့်ရှင် ဘုရင်ဖိလစ်၏ ကျူးကျော်လာမည့် အရေးကို ကြိုတင် ကာကွယ်တွန်းလှန်၍၊ မိမိတို့၏လွတ်လပ်ရေးကို စီမံဆောင်ရွက်သင့်ကြောင်းများကို အကြိမ်ကြိမ်ပင် လှုံ့ဆော် သတိပေး တိုက်တွန်းလေသည်။ ဒီမော့စသီးနီးက ဖိလစ်ဘုရင်ကိုခုခံရန် လှုံ့ဆော်သောစကားရပ်တို့သည် ယနေ့တိုင် စကားပြောကောင်းသူတို့ စံနမူနာယူထိုက်သော စကားများ ဖြစ်လေသည်။

ပဌမတွင် အက်သင်းနိုင်ငံသားတို့သည် ဒီမော့စသီးနီး၏ ဟောပြောချက်များကို ဂရုမထားကြချေ။ ထိုနောက်မှ ဒီမော့စသီးနီး၏စကားများ မှန်ကန်ကြောင်း သိလာကြကာ၊ ဒီမော့စသီးနီး၏ အကြံပေးချက်အတိုင်း လိုက်နာဆောင်ရွက်ကြသော်လည်း၊ နောက်ကျခဲ့ချေပြီ။ ထိုကြောင့် အက်သင်းနိုင်ငံယ်နှင့် အခြား ဂရိပြည်နယ်များမှာ ဖိလစ်၏လက်အောက်သို့ ကျရောက်ရလေတော့၏။ သို့သော် ဒီမော့စသီးနီး၏ ဆောင်ရွက်မှုကြောင့်၊ အက်သင်းနိုင်ငံယ်မှာ တန်ခိုးမှေးမှိန်ခြင်း မရှိခဲ့ချေ။

ဒီမော့စသီးနီးသည် အက်သင်းနိုင်ငံယ် အကျိုးကို ဆက်လက်ထမ်းဆောင်လေရာ၊ အက်သင်းနိုင်ငံယ်က သူ့အား ခေါင်းဆောင်အဖြစ်ဖြင့် အားကိုးအားထား ပြုလေသည်။ ထိုကဲ့သို့ ဆောင်ရွက်နေစဉ်၊ ဘီစီ ၃၃၀ ပြည့်နှစ်တွင် ရန်သူများက ဒီမော့စသီးနီး၏ ဂုဏ်သိက္ခာနှင့် နိုင်ငံရေးဆောင်ရွက်မှုများကို ထိခိုက်ပျက်ပြားအောင်၊ ဝေဖန်ပြောဆိုလာကြသည်။ ထိုကိစ္စများအတွက် ဖြေရှင်းချက်များ ပါရှိသော ဟောပြောချက်တို့သည် ယခုခေတ်အထိ အကောင်းဆုံး ဟောပြောချက်တခုအဖြစ်ဖြင့် စံတင်ထားရလေသည်။



ဂရိမျိုးချစ်ပုဂ္ဂိုလ်ကြီး ဒီမော့စသီးနီး

ဒီမော့စသီးနီး၏ ကံကြမ္မာသည် မှေးမှိန်သည်ထက် မှေးမှိန်လာလေရာ၊ မက်ဆီဒုန်ပြည့်ရှင် ဖိလစ်ဘုရင် ကွယ်လွန်သောအခါ၊ သားတော် အယ်လက်ဇန္ဒာဘုရင်၏လက်ထက်တွင်၊ လာတ်ယူမှုဖြင့် စွပ်စွဲဖမ်းဆီးခြင်း ခံရလေသည်။ သို့သော် ဒီမော့စသီးနီးသည် ထောင်မှထွက်ပြေး လွတ်မြောက်၍၊ တိုင်းတပါးတွင် ရှောင်တိမ်းနေရလေ၏။

ဘီစီ ၃၂၃ ခုနှစ်တွင် အယ်လက်ဇန္ဒာဘုရင် ကွယ်လွန်သောအခါ၊ ဂရိပြည်နယ်များသည် မက်ဆီဒုန်၏စိုးမိုးမှုကို ပုန်ကန်ခြားနားရန်၊ ဒီမော့စသီးနီးအား အက်သင်းသို့ ပြန်လာစေ၍၊ ခေါင်းဆောင်စေသည်။ သို့ရာတွင် ဂရိတို့သည် အရေးနိမ့်၍၊ ဒီမော့စသီးနီးသည်လည်း အသက်ဘေး အတွက် ထွက်ပြေးရပြန်သည်။ နောက်ဆုံးတွင် ရန်သူလက်ချက်ဖြင့် အသေမခံဘဲ၊ ကလောင်တံထဲတွင် အသင့်ထည့်ထားသော အဆိပ်များကို မျိုချကာ၊ မိမိကိုယ်ကို အဆုံးစီရင်လိုက်လေသည်။

**ဒီမိုကရေစီ**။ ။အမေရိကန်ပြည်ထောင်စု သမတ အေဗရာဟမ် လင်ကွန်းသည် ၁၈၆၃ ခုနှစ်၌၊ ဂက်တစ်စဗတ်မြို့တွင် အမေရိကန် ပြည်တွင်းစစ်ပွဲ၌ ကျဆုံးသော သူရဲကောင်းများအား ခြီးကျူးစကား မြွက်ကြား ရာတွင် ဒီမိုကရေစီနှင့် စပ်လျဉ်း၍ 'လူအများ၏ အကျိုးငှာ၊ လူအများ၏ အလိုဆန္ဒအတိုင်း၊ လူအများ၏ အုပ်ချုပ်ခြင်း' ဟူသော စကားစဉ်ဖြင့် သရုပ်ဖေါ် ပြောဆိုခဲ့ဘူးလေသည်။ အင်္ဂလိပ်စကားကို မြန်မာစကားဖြင့် တိုက်ရိုက်အသံလှယ် ရေးသားထားသော 'ဒီမိုကရေစီ' ဟူသော ဝေါဟာရသည် ဂရိဘာသာမှ ဆင်းသက်လာသော ဝေါဟာရဖြစ်၏။ ဒီမိုကရေစီ၏ အဓိပ္ပါယ်မှာ လူအများ၏အုပ်ချုပ်ခြင်းဟု ဆိုလိုပေသည်။ လူအများ၏အလိုဆန္ဒအတိုင်း အုပ်ချုပ်ရာတွင်၊ လူအများကိုယ်တိုင် အုပ်ချုပ်ခြင်းနှင့် လူအများထံမှ အာဏာကို ခံယူ အုပ်ချုပ်ခြင်းဟူ၍၊ နှစ်မျိုးနှစ်စားရှိသည်။ သို့သော် အချုပ်အချာအာဏာသည် လူထု၌သာ တည်သည်ဟူသော သဘောမှာ၊ နှစ်မျိုးစလုံးတွင် သက်ရောက်ပေသည်။ လူအများ ကိုယ်တိုင် အုပ်ချုပ်ခြင်းသည် တိုက်ရိုက်ဒီမိုကရေစီဖြစ်၍၊ လူအများထံမှ အာဏာကို ခံယူအုပ်ချုပ်ခြင်းသည် တဆင့်ခံ ဒီမိုကရေစီ ဖြစ်လေသည်။

ဘီစီ ၅၁၀ ခန့်ကပေါ် ပေါက်ခဲ့သော ဂရိနိုင်ငံငယ်များတွင် တိုက်ရိုက် ဒီမိုကရေစီ ထွန်းကားခဲ့ရာ၊ ရှေးရာဇဝင်သမိုင်းတွင် အက်သင်းနိုင်ငံငယ်သည် ဒီမိုကရေစီစံနစ်ကို သာမကပြသောနိုင်ငံဖြစ်၏။ ထိုနိုင်ငံငယ်များသည် အချုပ်အချာအာဏာကို ရရှိနေသော မြို့ကြီးများသာဖြစ်သည်။ မြို့သူမြို့သားအားလုံးသည် တနေရာရာတွင် စုရုံးစည်းဝေးကာ၊ ခေါင်းဆောင်များက မိမိတို့နိုင်ငံဆိုင်ရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ရှင်းလင်းပြောပြချက်တို့ကို မှတ်သားလေ့လာပြီးနောက် မဲဆန္ဒပေး၍ဆုံးဖြတ်ကြရာ။ မြို့သူမြို့သားတိုင်း အုပ်ချုပ်ရေးတွင် ပါဝင်ဆွေးနွေး ပြောဆို ဆောင်ရွက်ခွင့်ရ၏။ ထိုသို့ပြုလုပ်နိုင်ခြင်းမှာ နိုင်ငံသည် ငယ်သောကြောင့်ပင် ဖြစ်သည်။ အဆမတန် ကျယ်ဝန်းသော နိုင်ငံများတွင်ကား၊ ထိုသို့ပြုလုပ်၍ မဖြစ်နိုင်ချေ။ ဂရိ ဒီမိုကရေစီတွင် မြို့သူမြို့သားများသာလျှင်၊ အုပ်ချုပ်ရေးကိစ္စများ အလို့ငှာ ဆန္ဒပြနိုင်ခွင့်ရှိသည်။ မြို့သူ မြို့သား မဟုတ်သော လူ့အခွင့်အရေးဆုံးသည့် ကျွန်များသည်ကား၊ ထိုသို့ ဆန္ဒပြနိုင်ခွင့် မရှိချေ။ သို့သော် မြို့သူ မြို့သားတို့ အချိန်မရွေး မြို့ရွာကိစ္စရပ်များကို ဆွေးနွေးနိုင်သည်မှာ၊ ကျွန်များက အသက်မွေးဝမ်းကျောင်း ကိစ္စရပ်များကို ယင်းတို့အတွက် ဆောင်ရွက်ပေးနေသောကြောင့် ဖြစ်သည်။ (ဂရိနိုင်ငံ — ရှု။)

တဆင့်ခံဒီမိုကရေစီတွင် လူထုထံမှ အာဏာကိုခံယူ၍ အုပ်ချုပ်ခြင်း၌၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ အာဏာကို လူထုထံမှ အတိအကျ လွှဲအပ်ခံယူလေသည်။ ထို့ကြောင့် ဒီမိုကရေစီနိုင်ငံတိုင်းတွင် အခြေခံဥပဒေတမျိုးမျိုး ရှိသည်။ အခြေခံဥပဒေတွင် လူထုသည် မည်ကဲ့သို့သောနိုင်ငံ တည်ထောင်လိုသည်။ မည်ကဲ့သို့သောအစိုးရ ဖွဲ့စည်းသည်။ မည်ကဲ့သို့သော အာဏာများကို အစိုးရသို့အပ်နှင်းသည် စသည့် အချက်ကြီး ၃ ချက် ပါဝင်၏။ ဖွဲ့စည်းမည့်အစိုးရတွင်လည်း ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တရားစီရင်ရေးဟူ၍ လုပ်ငန်း ၃ မျိုး ထားရှိရ၍၊ အုပ်ချုပ်ရေးနှင့် ဥပဒေပြုရေးမှာ ဆက်သွယ်နေရသည်။ တရားစီရင်ရေးကား တသီးတခြားရှိရ၏။ တဆင့်ခံ ဒီမိုကရေစီသည် ကိုယ်စားလှယ်စံနစ်ပေါ်တွင် တည်နေသည်။ လူထုသည် ကိုယ်စားလှယ်များမှ တဆင့်၊ အုပ်ချုပ်ရာတွင် ပါဝင်ဆောင်ရွက်ခွင့် ရလေသည်။ ထိုကိုယ်စားလှယ်များကို လူထုသဘောကျ မဲဆန္ဒဖြင့် တင်မြှောက်၍၊ သူတို့သည် နိုင်ငံအတွက် ဥပဒေပြုစုပေးသည်။ ထို့မှတပါး အုပ်ချုပ်ရေးဆိုင်ရာ ဌာနနှင့် တရားစီရင်ရေးဆိုင်ရာ ဌာနတို့သည်လည်း၊ လူထုက အာဏာအပ်နှင်းထားခြင်း ခံရသော ဌာနကြီးများဖြစ်၍၊ လူထုကိုယ်စား နိုင်ငံကို အုပ်ချုပ်လေသည်။

ဒီမိုကရေစီ၏ အချုပ်သဘောမှာ လူတို့၏ မူလ အခွင့်အရေးကို အသိအမှတ်ပြုခြင်းဖြစ်၏။ ဒီမိုကရေစီသည် လူအဖြစ်ချင်း တူညီသည်ဟူသောသဘောကိုလည်း လက်ခံသဖြင့်၊ လူတိုင်းသည် တရားဥပဒေအမြင်တွင် တူညီသည်ဟူသောသဘောကိုလက်ခံသဖြင့်၊ လူတိုင်းသည် တရားဥပဒေ



ဒီမိုကရေစီ၏ ထူးခြားသောဂုဏ်အင်္ဂါတခုမှာ လွတ်လပ်စွာ ပြောဆိုစည်းရုံးနိုင်ခွင့် ရရှိခြင်းဖြစ်သည်။



ဒီမိုကရေစီသည် ကိုယ်စားလှယ်စနစ်ပေါ်တွင် အခြေပြုသည်။ လူထု ကိုယ်စားလှယ်များကို လူထုသဘောကျ လွတ်လပ်စွာ လျှို့ဝှက် မဲဆန္ဒ စနစ်ဖြင့် တင်မြှောက်ကြရသည်။

အမြင်တွင် တူညီသည်သာဖြစ်သည်။ ထို့ကြောင့်လည်း တူညီသောအခွင့်အရေးကို ရကြသည်။ ထို့ပြင် ဒီမိုကရေစီ၏ ထူးခြားသောဂုဏ်အင်္ဂါမှာ မျှတခြင်းဖြစ်၏။ ဒီမိုကရေစီ၏ ထူးခြားသည့် ရည်ရွယ်ချက်များကား၊ လွတ်လပ်စွာ စဉ်းစားနိုင်ခွင့်၊ လွတ်လပ်စွာ ပြောဆိုနိုင်ခွင့်၊ လွတ်လပ်စွာ ရေးသားနိုင်ခွင့်နှင့် လွတ်လပ်စွာ ပြုလုပ်နိုင်ခွင့်ဖြစ်သည်။

ဒီမိုကရေစီသည် အသွင်သဏ္ဌာန် အမျိုးမျိုးရှိသော အစိုးရတို့တွင်၊ လူတိုင်း အသိဉာဏ်ပညာရှိလျှင်၊ အကောင်းဆုံးဟု ဆိုရပေမည်။ ဒီမိုကရေစီသည် လူတဦး သို့မဟုတ် လူတစု အုပ်ချုပ်ရေးမျိုးမဟုတ်ဘဲ၊ လူထု၏အုပ်ချုပ်ရေးပင်ဖြစ်သည်။ ဥပဒေပြုရာတွင် တနည်းတဖုံ လူထုက ပါဝင်ဆောင်ရွက်ခွင့်ရသဖြင့်၊ လူထုသည် မိမိတို့၏ တိုင်းပြည်အကြောင်းကို အမြဲ စိတ်ဝင်စားနေစရာ အကြောင်းရှိ၏။ လူတိုင်း လူတိုင်းကိုလည်း မိမိတို့၏တာဝန်ကို သိတတ်အောင် ဆောင်ကြဉ်းသည်။ ထို့ပြင် ဒီမိုကရေစီဟူသည်မှာ လူထု၏ဆန္ဒဖြင့် လူထုသဘောကျ ဖွဲ့စည်းသောသဘော ဖြစ်လေရာ၊ အခြားနည်းဖြင့် ဖွဲ့စည်းမှု၌ကဲ့သို့၊ တော်လှန်မှုများ ပေါ်ပေါက်စရာအကြောင်း နည်းပါးသည်။ ဒီမိုကရေစီသည် ကိုယ်စားလှယ်စနစ်အပေါ်တွင် တည်နေရာ၊ ယခုထက်တိုင် လူထုဆန္ဒ အစစ်အမှန် အတိအကျကို ပေါ်ပြသော ကိုယ်စားလှယ်စနစ် မရှိသေးသဖြင့်၊ လူထုတွင် အများစု၏ဆန္ဒကိုသာ ပေါ်ပြသော ကိုယ်စားလှယ်စနစ်နှင့်သာတင်းတိမ်ကာစခန်း သွားနေရ၏။ ထို့ပြင် လူအများ၏ အုပ်ချုပ်ခြင်းစနစ်သည် များရာ အနိုင်ရစတမ်း သဘောမျိုး သက်ရောက်တတ်ပြီးလျှင်၊ အဓမ္မစနစ် လွှမ်းမိုးသော လူထုအုပ်ချုပ်ခြင်းသို့ ပြောင်းလဲသွားတတ်ပြန်သည်။ ဒီမိုကရေစီသည် အရည်အခြင်းထက် အရေအတွက်ကို လိုလားသည်ဟု ဆိုကြ၏။ ထိုအချက်ကိုထောက်၍ အာဏာရှင်စနစ်ကို လိုလားသူတို့က ဒီမိုကရေစီဟူသည် သာမန်လူတန်းစားများသာ ပါဝင်သော လူအများအုပ်ချုပ်ရေးဟု ဆိုကြသည်။ ဒီမိုကရေစီသည် စနစ်တကျရှိသော ပညာရေးအပေါ်တွင်လည်း တည်နေပြန်သည်။ လူတိုင်း မိမိ၏အခွင့်အရေးနှင့် တာဝန်ဝတ်တရားများကို သိတတ်လာအောင်ဖန်တီးပေးသော ပညာရေးစနစ်လို၏။ ထိုသို့သော ပညာရေးစနစ်မျိုး မရှိလျှင်၊ ပညာမဲ့လွှမ်းမိုးသော အုပ်ချုပ်ရေးမျိုး ဖြစ်သွားစရာ အကြောင်းရှိသည်။ ထို့မှတပါး အများ၏ဆန္ဒကို ရယူပြုလုပ်ရသဖြင့်၊ ကိစ္စရပ်များကို အမြဲတစေ ထိထိရောက်ရောက်ပြုလုပ်ရန် ခဲယဉ်းတတ်လေသည်။

ယခုအခါ ဗြိတိန်နိုင်ငံ၊ ပြင်သစ်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံတို့တွင် လက်ခံထားသော အနောက်ဒီမိုကရေစီနှင့် ရုရှနိုင်ငံနှင့် ဥရောပအရှေ့ပိုင်းနိုင်ငံများမှ အရှေ့ဒီမိုကရေစီ (ဝါ) ဒီမိုကရေစီသစ်ဟူ၍ နှစ်မျိုးကွဲပြားလျက်ရှိနေသည်ကို တွေ့ရ၏။ အနောက်ဒီမိုကရေစီနိုင်ငံများတွင် မဲဆန္ဒရှင်များက အုပ်ချုပ်ရေးကိုကြိုးကိုင်ထား၍၊ လွတ်လပ်စွာ ဟောပြောခွင့်၊ လွတ်လပ်စွာ ရေးသားထုတ်ဝေခွင့်ရှိ၏။ ဒီမိုကရေစီသစ်နိုင်ငံများ၏ အယူအဆ၌မူ နိုင်ငံရေးချည်းသက်သက်ကို မူတည်သော ဒီမိုကရေစီမျိုး မရှိနိုင်ချေ။ ပါတီစနစ်တခုကိုအခြေပြုကာ ကုန်ထုတ်လုပ်ရေးစနစ်ကို လူထုကကြိုးကိုင်၍၊ ကုန်ထုတ်လုပ်မှုကရိယာတို့ကို ပြည်သူပိုင်ပြုလုပ်ခြင်းဖြင့် ရရှိသော စီးပွားရေးစနစ်ကို ဒီမိုကရေစီစနစ်နှင့် ပူးတွဲ၍ လုပ်ဆောင်ရမည်ဟု ယူဆကြသည်။

**ဒီလုံးကောင်။** ။ဒီလုံးကောင်သည် 'ကယ်ရာဒရိုင်အီဒီး' မျိုးရင်းတွင်ပါဝင်သော ငှက်တလိုင်းမျိုးဖြစ်သည်။ ဇီဝဗေဒအလိုအားဖြင့် ယင်းကို 'ကာရက်ဒရီယပ် မွန်ဂိုလပ်' ဟု ခေါ်သည်။

အလျား ၇ လက်မခွဲခန့်ရှိသည်။ သားပေါက်ချိန်၌ ရင်အုပ်နှင့်ဦးခေါင်းတို့တွင် နီမြန်းသောအရောင်ရှိ၏။ အခြား အချိန်တွင် အညိုဖျော့ရောင်ရှိသည်။ ကိုယ်အောက်ပိုင်းတွင် အဖြူရောင်ရှိ၍၊ လည်တိုင်ဘေးနှစ်ဖက်တွင် မီးခိုးရောင် အကွက်များရှိသည်။ မျက်စိ၌ အညိုစင်းနှင့် အတောင်၌ အဖြူစင်းများ မထင်မရှားရှိသည်။

ပျံသန်းနေစဉ် ပြတ်သားစွာ အော်မြည်တတ်သည်။ ရွှံ့ထူသော ကမ်းခြေတွင် ဒီလုံးကောင်များကို ထောင်

သောင်းချီ၍ တွေ့ရလေ့ရှိသည်။ ဆောင်းရာသီတွင် အာဖရိကတိုက်နှင့် အာရှတိုက် တောင်ပိုင်းဒေသများတွင် အမြောက်အမြား တွေ့ရသည်။ ထိုငှက်သည် မြန်မာနိုင်ငံ၌ သားပေါက်ပုံမပေါ်ချေ။ သို့သော် မြန်မာနိုင်ငံ ပင်လယ်ကမ်းခြေများ၌ ဇူလိုင်လလောက်ထိ တွေ့ရသည်။ မြစ်များ၊ ထုံးအိုင်များ၌လည်း မကြာခဏ တွေ့ရတတ်သည်။ မြန်မာနိုင်ငံ မြောက်ပိုင်း၌မူ ထိုငှက်ကို မတွေ့ရချေ။

**ဒီးထရွိုက်မြို့။** ။ဒီးထရွိုက်မြို့သည် အမေရိကန်ပြည်ထောင်စု မက်ရှီဂန်ပြည်နယ်၏ မြို့တော်ဖြစ်သည့်ပြင် အမေရိကန်ပြည်ထောင်စု မြို့ကြီးများအနက် ပဥ္စမမြို့ကြီးဖြစ်သည်။ ထိုမြို့ရှိ မော်တော်ကားလုပ်ငန်းသည် ကမ္ဘာပေါ်တွင် အကြီးဆုံးဖြစ်သည်။ ထိုမြို့သည် အမေရိကန် ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံ နှစ်နိုင်ငံကို ဒီးထရွိုက်မြစ်က ပိုင်းခြားထားသောနေရာတွင် တည်ရှိသည်။ ဒီးထရွိုက်မြို့မကြီးသည် ကောင်တီခေါ် ခရိုင်သုံးခရိုင်ကို ပေါင်းစပ်ဖွဲ့စည်းထားသည်ဖြစ်ရာ၊ လူဦးရေအားဖြင့် ၃၁,၃၂,၆၂၈ ယောက်ရှိသည်။ သို့သော် ဗဟိုမြို့တော်၌မူ လူဦးရေ ၁၈,၄၉,၅၆၈ ယောက်ရှိသည်။



ဒီးထရွိုက်မြို့ရှိ မော်တော်ကား လုပ်ငန်းသည် ကမ္ဘာပေါ်တွင် အကြီးဆုံးဖြစ်၍ နေ့စဉ် မော်တော်ကား အမြောက်အမြား ထုတ်လုပ်လျက်ရှိသည်။

ဒီးထရွိုက်မြို့မကြီးတွင် နေထိုင်ကြသောသူတို့သည် လူသုံးဦးလျှင် တဦးမှာ မော်တော်အလုပ်ရုံ အလုပ်သမားဖြစ်သည်။ မော်တော်ကားလုပ်ငန်းဆိုင်ရာ အလုပ်ရုံကြီးတို့သည်ကား ဂျင်နရယ် မော်တော် ကော်ပိုရေးရှင်း၊ ခရိုက်ဆလာ ကော်ပိုရေးရှင်း၊ ပက်ကာ့ မော်တော် ကော်ပိုရေးရှင်း၊ ဟဒ်ဆင် မော်တော်ကားကုမ္ပဏီ၊ ကိုင်ဇာ မော်တော် ကော်ပိုရေးရှင်းနှင့် ဖို့ မော်တော်ကုမ္ပဏီတို့ဖြစ်သည်။ စင်စစ်မှာ ထိုမြို့တွင် မော်တော်ကား လုပ်ငန်းသာလျှင် အဓိကမဟုတ်၊ အခြား စက်မှုလက်မှုလုပ်ငန်းတို့လည်း များစွာ ရှိသည်။ ယင်းတို့မှာ ဓာတုဗေဒ လုပ်ငန်း၊ သံမဏိ စက်ရုံ၊ တွင်ခုံနှင့်စက်ကရိယာ အလုပ်ရုံ၊ ကြက်ပေါင်စေးထုတ်လုပ်သောလုပ်ငန်း၊ ဒန်နှင့်ကြေး လုပ်ငန်း၊ ဘယဆေး လုပ်ငန်း၊ လေမီးဖို လုပ်ငန်း၊ အိမ်သုတ်ဆေးနှင့် အရောင်တင်ဆီ လုပ်ငန်းစသည်တို့ဖြစ်သည်။ နယူးယော့မြို့မှလွဲလျှင်၊ ဒီးထရွိုက်မြို့သည် ကုန်စည်ကူးသန်းရောင်းဝယ်ရေး၌ အချုပ်အချာဖြစ်သည်။

ခရစ် ၁၇၀၂ ခုနှစ်တွင် နယ်သစ်ရှာသူ ပြင်သစ်တို့က ဒီးထရွိုက်မြို့နေရာအနီးတွင် ခံတပ်ဆောက်လုပ်သည်။ ၁၇၇၈ ခုနှစ်၌ အမေရိကန်တော်လှန်ရေးကိုစိုးရိမ်၍ အင်္ဂလိပ်တို့က ထိုအနီးအနားတွင် ခံတပ်ဆောက်လုပ်ပြန်သည်။ ထိုနောက်၌ကား ထိုဒေသကို အင်္ဂလိပ်တို့သည် ၁၇၉၆ ခုနှစ်အထိ သိမ်းပိုက်ထားရာ၊ ထိုနှစ်တွင် အင်္ဂလိပ်လက်မှ အမေရိကန်တို့က သိမ်းယူလိုက်ပြီးလျှင်၊ ၁၈၀၂ ခုနှစ်တွင် ဒီးထရွိုက်ရွာကို တည်ထောင်ကြသည်။ ထိုမှစ၍ တဖြည်းဖြည်းနှင့် မြို့ဖြစ်လာရာ၊ ယခုအခြေသို့ ရောက်ရှိလေသည်။

**ဒီးဒလပ်။** ။ဒီးဒလပ်သည် ဂရိရှေးဟောင်းပုံပြင်တွင် ထင်ရှားသော ရုပ်တုနှင့် ပိသုကာဆရာကြီးဖြစ်သည်။ ဒီးဒလပ်ဟူသော အမည်၏အဓိပ္ပါယ်သည် လက်မြောက်သောသူ ဟူလေသည်။ ရုပ်တုနှင့် ပိသုကာတို့၌သာမက စက်ကရိယာတန်ဆာပလာတို့ကို အစအဦးတီထွင်ရာ၌လည်း လက်မြောက်သောကြောင့် သူ၏အမည်သည် ဥဒါန်းတွင်ခဲ့သည်။ ထိုပြင်လည်း ရှေးဦးစွာ ကောင်းကင်၌ပျံသန်းနိုင်သူ အဖြစ်ဖြင့်လည်း ဂရိလူမျိုးတို့တွင် ထင်ရှားသည်။ ဂရိထုံးဟောင်းပုံပြင်အရမှာ၊ ဒီးဒလပ်သည် စက်မှုလက်မှုအတတ်တွင် သူ၏တပည့်၏လက်ရာသည် အလွန်ကောင်းမွန်လာသည်ကို မနာလိုမရှုစိမ့်ဖြစ်၍၊ သတ်ဖြတ်မိလေသည်။ ထိုအခါ မင်းဒဏ်သင့်သောကြောင့်၊ ဒီးဒလပ်သည် အက်သင်းမြို့မှ ကရိကျွန်းသို့ ထွက်ပြေးရလေသည်။ ကရိကျွန်း၌ မိနိုဘုရင်မင်းမြတ်ထံတွင် ခိုလှုံခစား၍၊ ထိုမင်း၏အလိုကျ ဝင်္ကပါကဲ့သို့သော ဥမင်လိုဏ်ခေါင်းတခုကို တည်ဆောက်ပေးရသည်။ သို့ရာတွင် ထိုဥမင်လိုဏ်ခေါင်း ပြီးစီးသွားသောအခါ၊ မိနိုဘုရင်

သည် ဒီးဒလပ်အပေါ်တွင် မျက်မာန်ရှိသောကြောင့်၊ ဒီးဒလပ်လည်းသူ၏သားဖြစ်သူအစ်ကရပ်ကိုခေါ်၍၊ ကရိကျွန်းမှပြေးရန်စီစဉ်ရလေသည်။ ဒီးဒလပ်သည် ကောင်းကင်သို့ပျံသန်းနိုင်သောအတောင်နှစ်စုံကိုပြုလုပ်၍၊ တစုံကို သူကိုယ်တိုင်တပ်ဆင်ပြီးလျှင်၊ ကျန်တစုံကို အစ်ကရပ်အား တပ်ဆင်စေလျက် အီးဂျီးယန်း ပင်လယ်ကိုဖြတ်ကာ ပျံသန်းလေ၏။ အစ်ကရပ်သည် နေမင်းနှင့်နီးစွာကပ်၍ ပျံသန်းလေရာ၊ အတောင်ကိုဖွဲ့စည်းထားသော ဖယောင်းတို့ အရည်ပျော်သည်နှင့်ကောင်းကင်မှ လျှောကျသေဆုံးရလေသည်။ ဒီးဒလပ်ကား စစ္စလီကျွန်းသို့ ချောမောစွာရောက်ရှိ၍၊ ထိုကျွန်း၌ သက်ထက်ဆုံး နေထိုင်လေသည်။ အသက်ထင်ရှားရှိစဉ်က ဒီးဒလပ်သည် စစ္စလီကျွန်းရှိ အဆောက်အအုံအများကို တည်ဆောက်ပေးခဲ့သည်ဟု ဆိုလေသည်။



ဂရိ ရှေးဟောင်းပုံပြင်လာ ကောင်းကင်၌ပျံသန်းရန် ကြိုးစားခဲ့သည့်ဒီးဒလပ်

**ဒီးခုတ်**။ ။တီးတုတ် — ရှု။

**ဒီးအတ်, ဗာတူးလူးမေယု** (ခရစ် ၁၄၅၀–၁၅၀၀)။ ။ ပေါ်တူဂီလူမျိုး ရေကြောင်းခရီးသည် ဗာတူးလူးမေယု ဒီးအတ်သည် ခရစ် ၁၄၅၀ ပြည့်နှစ်ခန့်တွင် မွေးဖွားလေသည်။ ထိုပုဂ္ဂိုလ်သည် ယခု ဂါနာဟုခေါ်သော အာဖရိကတိုက် အနောက်ပိုင်းဒေသသို့ အခေါက်ခေါက် အခါခါ ရောက်လာ၍၊ ဒေသန္တရဗဟုသုတ ရှာဖွေခဲ့ဘူးလေသည်။ ၁၄၈၆ ခုနှစ်တွင် ပေါ်တူဂီဘုရင် ဒုတိယ ဂျွန်သည် ဒီးအတ်အား၊ အာဖရိက ကမ်းခြေတလျှောက် စူးစမ်းရှာဖွေရန် တာဝန်ပေးအပ်ခဲ့သည်။ ဒီးအတ်သည် ထိုတာဝန်ကိုယူ၍ စူးစမ်းရှာဖွေရာ၊ အင်းဂရာ ပီကွီးနာ (ဝါ) လျူးဒါရစ် ပင်လယ်အော် တောင်ဖက်ရှိ နေရာသို့ ပဌမဦးစွာ ရောက်ရှိခဲ့သည်။ ထိုနေရာကို ဒီးအတ်အားအစွဲပြု၍ 'ဒီးအတ် အငူ' ဟု ခေါ်တွင်ခဲ့သည်။

ဒီးအတ်သည် ယင်းအရပ်မှ တောင်ဖက်သို့ ၁၃ ရက် တိုင်တိုင် ရွက်လွှင့်ရှာဖွေခဲ့ပြန်၏။ ကမ်းခြေကိုမူကား မတွေ့ခဲ့ရပေ။ တဖန် အရှေ့ဖက်သို့ ဆက်လက်ရှာပြန်၏။ နောက်ဆုံး မြောက်ဖက်သို့ခရီးလှည့်ခဲ့ရာတွင် ဂွတ်ဒဟုပ် အငူကို မမြင်တွေ့မိဘဲ ကျော်ဖြတ်ခဲ့ကာ၊ ယခု မော်ဆယ် ပင်လယ်အော် နေရာသို့တိုင် ရောက်ခဲ့လေသည်။ ဒီးအတ်သည် ရှေ့သို့ ဆက်လက် ရှာဖွေလိုသောဆန္ဒရှိသော်လည်း၊ အတူပါသင်္ဘောသားများက ဒီးအတ်၏ဆန္ဒကို ငြင်းဆန်ကာ၊ အတင်းအကြပ် နောက်သို့ပြန်စေသဖြင့်၊ မလွှဲသာဘဲ ပြန်လာခဲ့ရသည်။ အပြန်ခရီးတွင် ဒီးအတ်သည် အငူတခုကို တွေ့ရှိခဲ့၏။ ထိုအငူကို ဒီးအတ်က 'လေမုန်တိုင်း အငူ' ဟု အမည်ပေးခဲ့လေသည်။ နောင်တွင် ပေါ်တူဂီဘုရင်က ဂွတ်ဒဟုပ် အငူဟု ပြောင်းလဲခေါ်ဝေါ်သည်။ အချို့ကမူ ဒီးအတ်ကိုယ်တိုင်ပင် ဂွတ်ဒဟုပ် အငူဟု အမည်ပေးခဲ့ကြောင်း ဆိုကြလေသည်။

၁၄၈၈ ခုနှစ်တွင် ရေကြောင်းခရီးသည်ကြီး ဒီးအတ်သည် လစ္စဗွန်းမြို့သို့ ချောမောစွာ ပြန်လည်ရောက်ရှိခဲ့၏။ ဒီးအတ်က စွမ်းပကားနှင့် ရှာဖွေတွေ့ရှိခဲ့သော ခရီးစဉ်ကြောင့်၊ ပေါ်တူဂီနိုင်ငံသည် အာရှနိုင်ငံများနှင့် ခရီးလမ်း ဆက်သွယ်နိုင်လာသည်။

၁၄၉၇ ခုနှစ်တွင် ဒီးအတ်သည် ဗတ်ရှကူး ဒဂါမ ဦးဆောင်သော နယ်သစ်ရှာအဖွဲ့နှင့်အတူ လိုက်ပါသွားခဲ့ရပြန်၏။ သို့ရာတွင် ခရီးဆုံးတိုင် မလိုက်ဘဲ၊ အာဖရိက အနောက်ပိုင်းတွင် ဝင်ရောက်ကာ၊ ကုန်သွယ်ရောင်းဝယ်ယင်း ချန်နေရစ်ခဲ့၏။ ၁၅၀၀ ပြည့်နှစ်တွင်မူ ဒီးအတ်သည် ဗရာဇီးပြည်ကို ရှာဖွေတွေ့ရှိခဲ့သည့် ကဗရား ဦးဆောင်သောအဖွဲ့နှင့်အတူ သင်္ဘောတစင်းကို ဦးစီးလိုက်ပါသွားခဲ့သည်။ ဗရာဇီးပြည်မှအပြန်တွင် ဒီးအတ်သည် ၁၄၈၈ ခုနှစ်က သူရှာဖွေတွေ့ရှိခဲ့၍၊ လေမုန်တိုင်း အငူဟု အမည်ပေးခဲ့သော ဂွတ်ဒဟုပ် အငူအနီး၌ ၁၅၀၀ ပြည့်နှစ် မေလ ၂၉ ရက်နေ့တွင် မုန်တိုင်းမိကာ၊ ပျက်စီးပျောက်ဆုံးသွားခဲ့ရရှာလေသည်။ (ဂွတ်ဒဟုပ် အငူ — ရှု။)

**ဒုယင်။** ။ဒုယင် သို့မဟုတ် တုယင်သည် အထက်တန်းကျ၍ မင်းနှင့်စပ်ဆိုင်ရာ၌ အသုံးအစွဲပြုသော အင်္ကျီမျိုးပင်တည်း။ တနည်းဆိုရသော်၊ မင်းခမ်းမင်းနားဝင် အင်္ကျီဟူလို။ ထိုကြောင့် အထက်တန်းကျလျှင် 'ဒုယင်' အောက်တန်းကျလျှင် 'ဖျင်' ဟူ၍ ရှေးသူဟောင်းတို့ ဆိုရိုးစကားရှိသည်။ ပုဂံမြို့ လက်သည်းရှည်ဘုရားကျောက်စာ၌ သခင်က ဝံ ကို ပူဇော်သည့်အခမ်းအနားတွင် 'တုယင်လေည် တထေည်လှံ့တ်မှု၏' ဟုတွေ့ရလေသည်။

ပုဂံရာဇဝင်၌ 'အလောင်းစည်သူမင်းကြီး အထိန်းတော်သား အနန္တသူရိယကို မင်းကြီးသနားတော်မူ၍၊ မင်းသားတို့သာ ဝတ်ထိုက်သော တုယင်အခြေတပ်သော ဝတ်လုံကို ပေးတော်မူ၏။ ထိုဝတ်လုံကို သဘင်ရှိသောအခါ အနန္တသူရိယဝတ်၍ သဘင်တက်သည်ကို သားတော် မင်းရှင်စောမြင်လေသော်၊ ဤဖျင်ကား မင်းထိန်းမင်းယတို့ ဝတ်ထိုက်သော အဝတ်မဟုတ်၊ မင်းညီမင်းသားတို့သာ ဝတ်ထိုက်သော အဝတ်ဖြစ်သည်။ ဤကဲ့သို့ အရောရော မဝတ်စေနှင့်

ရှေနန်းလက်သုံးပုံ ပုရပိုက်မှ ဒုရင်တော်ပုံများ



ရှေးမင်းတို့လက်ထက်ချုပ်လုပ်ရင်း၊ အသျှင်ကေရာဇ်မင်းမြတ်ဆင်တော်မူမြဲ၊ ဗြဟ္မာမင်းတန်ဆာ ဒုရင်တော်ကြီးပုံ



ရှေးမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် သိကြားမင်းတန်ဆာ ဒုရင်တော်ကြီးပုံ




ရွှေမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် ရတနာဒုရင်တော်ပုံ



ရွှေမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် ရတနာဒုရင်တော်ပုံတရပ်




ရွှေမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် ရတနာမျည်းတို မျည်းရှည် ဒုရင်တော်ပုံ




ရွှေမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် မျည်းဒုရင်တော်စုံ၊ ဒုတိယပုံ



ရှေးမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် မျည်းဒုရင်တော်စုံ၊ တတိယပုံ



ရှေးမင်းတို့လက်ထက်၊ ချုပ်လုပ်ဆင်တော်မူသည့် မျည်းဒုရင်တော်စုံ၊ စတုတ္ထပုံ



နောက်မင်းတို့လက်ထက်၊ ပြင်ဆင်ချုပ်လုပ်၍၊ စိန္တာမဏိ၊ မဟာမဏိ၊ ဝိသုကြုံ အမည်တပ်ပြီး၊ ဆင်တော်မူသည့် ရတနာဒုရင်တော်ကြီးပုံ



နောက်မင်းတို့လက်ထက်၊ ပြင်ဆင်ချုပ်လုပ်၍၊ ဆင်တော်မူသည့် ရတနာမျည်းဒုရင်တော်ကြီးပုံ

ဟူ၍ အနန္တသူရိယနှင့်ထိုက်သော ဝတ်လုံကိုပေး၍ တုယင်တပ်သောဝတ်လုံကိုချုတ်၍လဲစေ၏။ ' ဟုပါရှိသည်။ သို့ဖြစ်၍ ဒုယင်အသုံးသည် အထက်တန်းကျ၍ မင်းနှင့်ဆိုင်ကြောင်း သိသာလေသည်။

ပုဂံမြို့ 'ပုထိုးသမြားလိုဏ်' အတွင်းရှိ ပန်းချီကားတချပ်ဝယ် ဒုယင်ဝတ်လုံပုံကို တွေ့ရ၏။ အာနန္ဒာလိုဏ်အတွင်းရှိ ကျန်စစ်သားမင်းပုံ၌လည်း ဒုယင်ဝတ်လုံကိုပင် ဝတ်ဆင်ထားခြင်းဖြစ်သည်ဟု ဆိုလေသည်။

ဒုယင်ဝတ်လုံနှင့် ဖျင်ဝတ်လုံ ခြားနားပုံမှာ လက်ဖျားစွန်း၊ အနားပတ်စွန်း၊ ထောင့်ဖျားအဆက်များတွင် အကော့အညွတ်ပါရှိက ဒုယင်ဝတ်လုံဟု ခေါ်လေသည်။ ဒုယင်ကဲ့သို့ အကော့အညွတ်မပါသော အဆင်တန်ဆာကို ဖျင်ဝတ်လုံဟူ၍ ခေါ်လေသည်။ ဒုယင်၌ ဝတ်လုံ၏လက်ရင်းသည် ကျဉ်း၏။ လက်ဖျားသည် ပွင့်၍နေသည်။ လက်ဖျားနှင့် ဝတ်လုံ၏ထောင့်အစွန်းဖျား၌ အကော့အညွတ်ပါသည်။ ထိုအကော့အညွတ်ကိုစွဲ၍ ဒုယင်ဟုခေါ်သည်။

**ဒူးရင်းပင်။** ။မြန်မာနိုင်ငံထွက် အသီးအနှံများအနက် ဒူးရင်းသီးသည် ထူးကဲသောအရသာရှိသဖြင့် ထင်ရှားသော အသီးတမျိုးဖြစ်သည်။ ယင်းဒူးရင်းသီး၊ ဒူးရင်းယိုတို့ကို နှစ်သက်စွာစားသုံးကြသူ များပြားသော်လည်း၊ ဒူးရင်းပင်ကိုကား၊ မြန်မာနိုင်ငံအောက်ပိုင်း၊ တနင်္သာရီတိုင်းမှတပါး၊ အခြားဒေသတို့တွင် တွေ့ရခဲသည်။ ဒူးရင်းပင်သည် မာလာယာကျွန်းဆွယ်၌ မူလပေါက်ရောက်သော အပင်မျိုးဖြစ်သည်ဟူ၍၊ အများယူဆကြသည်။ တနင်္သာရီတိုင်းတွင် အနှံ့အပြားစိုက်ပျိုးသော်လည်း၊ ထားဝယ်ခရိုင်တွင် တနင်္သာရီရိုးမတောင်ခြေတလျှောက်နှင့် ချိုင့်ဝှမ်းဒေသများ၌ အမြောက်အမြား စိုက်ပျိုး၍ ဖြစ်ထွန်းလေသည်။ ဒူးရင်းပင်သည် မိုးများ၍ စမ်း မဆွဲ၊ ရေ မဝပ်သည့်ဒေသ၌ လွတ်လပ်စွာပေါက်ရမှ ဖြစ်ထွန်းသော အပင်မျိုးဖြစ်သည်။ တနင်္သာရီတိုင်းကဲ့သို့ပင် မိုးများ၍၊ တောင်ကုန်း တောင်တန်းဒေသဖြစ်သော ရခိုင်တိုင်း၌ စမ်းသပ်စိုက်ပျိုးကြည့်ရာ၊ အပင်ပေါက်သော်လည်း၊ အသီးမသီးချေ။ ထိုကြောင့် သထုံခရိုင်ထက်ပို၍ မြောက်ဖက်ကျသော ဒေသများ၌ ဒူးရင်းပင် မဖြစ်ထွန်းဟု ယူဆရလေသည်။

ဒူးရင်းပင်၏ ရုက္ခဗေဒအမည်မှာ ဒူးရီးယို ဇီဗဲသီးနပ် ဖြစ်၍၊ ဗွမ်ဗာစီအီးမျိုးစဉ်တွင် ပါဝင်လေသည်။ ဒူးရင်းပင်သည် အပင်ကြီးမျိုးဖြစ်၍၊ အရွက်များသည် အရှည် ၆–၇ လက်မရှိပြီးလျှင်၊ ဗျက် ၂–၂½ လက်မရှိသည်။ အရွက်၏ အပေါ်ဖက်သည် ပြောင်ချော၍နေ၍၊ အောက်ဖက်သည် ကြမ်းသည်။

ဒူးရင်းပင်များသည် မတ်လနှင့်ဧပြီလများတွင် စတင်အပွင့်ပွင့်၍၊ ဇွန်လမှ အောက်တိုဘာလ တိုင်အောင် အသီးများမှည့်ကြသည်။ ပေါ်ဦးစအသီးများထက် နောက်ပိုင်းကျသောအသီးများက ပို၍ ကောင်းသည်။ ဒူးရင်းသီးသည် ယေဘူယျအားဖြင့် ကြီးမားသောအသီးများဖြစ်၍၊ အကြီးအငယ်၊ အရွယ်အလတ် အစားစားရှိသည်။ ဒူးရင်းသီးမှည့်အငယ်စားသည်ပင် အချင်း ထွာဆိုင်ခန့် ပမာဏ ရှိသည်။ များသောအားဖြင့် ဘဲဥပုံ လုံးလျားလျား ပုံသဏ္ဌာန်ရှိ၍၊ အညာဖက်အရင်းပိုင်းနှင့် ထိပ်ပိုင်းသည် ခပ်ချွန်ချွန်ရှိတတ်သည်။ အခွံသည် မိကျောင်းခေါင်းဟု ခေါ်သော အဖုအထစ်များဖြင့် လုံးလျားလျား ပုံသဏ္ဌာန်လည်း ရှိတတ်သည်။ ချွန်ထက်သော ဆူးကြဲကြီးများ အပြည့်ဖြစ်သည့် အခွံမာရှိ၍၊ အရောင်မှာ စိမ်းညိုညို၊ စိမ်းဝါဝါ ဖြစ်လေသည်။

အသီး၏အပြင်ပ အသွင်အပြင်အားဖြင့် စားသချင့်ဖွယ်မဟုတ်သည့်အပြင်၊ ဒူးရင်းသီးမှည့်၏ အနံ့သည် စူးစူးဝါးဝါး မွှေးလွန်းလှ၍၊ ဒူးရင်းသီးကို မစားဘူးသူများ (အထူးသဖြင့် နိုင်ငံခြားသားများ) သည် ဒူးရင်းသီးကို မြင်လျှင်၊ နှာခေါင်းရှုံ့တတ်ကြသည်။ သို့သော် ဒူးရင်းသီးမှည့် မျိုးကောင်းကောင်းကို စားဘူးထားသူသည် ဒူးရင်းသီးမှည့်၏ စူးဝါးသောအနံ့ကို သည်းခံနိုင်လောက်အောင် အသီး၏ အတွင်းသားအမြွှာများ၏ ထူးကဲသောအရသာကြောင့်၊ ဒူးရင်းသီးကို တပ်မက်စွဲလန်းကြရလေသည်။

ဒူးရင်းသီးမှည့်၏ အခွံအိမ်ကို ယင်း၏ အကြောအလိုက် အသာအယာ ဓားဦးနှင့် ကလန့်၍၊ ခွဲချလိုက်ရုံမျှနှင့် အခြမ်းလိုက် အမြောင်းလိုက် ကွဲကျကာ၊ အတွင်း၌ အကန့်လိုက်တည်နေသော နူးညံ့ပျော့အိသော အသားရှိသည့် အမြွှာများကို တွေ့ကြရသည်။ အကန့်တကန့်အတွင်း၌ အမြွှာများသည် ကြီးလျှင် နှစ်မြွှာ၊ ငယ်လျှင် သုံးမြွှာမှ လေးမြွှာအထိ ရှိတတ်သည်။ အမျိုးအစားကိုလိုက်၍ အချို့သည် နို့နှစ်ရောင်ရှိသည်။ အချို့သည် ရွှေဒင်္ဂါးရောင်ကဲ့သို့ ဝင်းဝါနေသည်။ မျိုးကောင်းသည့် အမြွှာများသည် အသားများ၍၊ အစေ့ငယ်သည်။ အချို့ ဒင်္ဂါးမြုပ်သည်ဟု ဆိုကြသည်။ မျိုးမကောင်းလျှင် အစေ့ကြီး၍ အသား နည်းတတ်သည်။ ဒူးရင်းပင်စိုက်သူများ၏ အလိုအရ ပင်စည်နှင့် နီးကပ်သည့် အရင်းကိုင်း၌သီးသော အသီးသည် အဖျားကိုင်း၌သီးသော အသီးထက် ပိုကောင်းသည်ဟူသတည်း။

ဒူးရင်းသီးများသည် မှည့်လျှင်၊ မြေပေါ် သို့ ကြွေကျတတ်၍၊ ကွဲအက်ပျက်စီးတတ်ရာ၊ မမှည့်မီ၊ အသီးရင့်များကို ဆွတ်ခူး တင်ပို့ ရောင်းချရသည်။ ဒူးရင်းသီးများ၏ ထူးခြားချက်တရပ်မှာ ယင်းတို့သည် ညအချိန်များတွင်သာ ကြွေလေ့ရှိသည်။ ဒူးရင်းသီးများကို ရပ်ဝေးနယ်များသို့ အများအပြား တင်ပို့နိုင်သော ဒေသတို့မှာ လမ်းပန်းဆက်သွယ်ရေး လွယ်ကူသည့် သထုံမြို့နယ်နှင့် မော်လမြိုင်မြို့နယ်တို့သာ ဖြစ်

ပေသည်။ ထားဝယ်မြို့နယ်နှင့် မြိတ်မြို့နယ်တို့သည် ဒူးရင်းယိုအတွက် ကျော်ကြားသည်။

ဒူးရင်းသီးအမှည့်၏အသားကို ယိုထိုးပြီးလျှင်၊ မြန်မာနိုင်ငံအရပ်ရပ်သို့ တင်ပို့ ရောင်းချရသည်။ ထားဝယ်မြို့နယ်နှင့် မြိတ်မြို့နယ်တို့သည် ဒူးရင်းယိုလုပ်ငန်း၏ အချက်အချာဒေသများ ဖြစ်သည်။ ယခုအခါ ဒူးရင်းယိုကို ကြာရှည်ခံအောင် စည်သွတ် ဘူး၌ ထည့်သွင်း ရောင်းချ လျက် ရှိရာ၊ အတော်အသင့် အောင်မြင်လျက် ရှိလေပြီ။

ဒူးရင်းသီးသည် အပူဓာတ် လွန်ကဲသဖြင့်၊ ယင်းကိုစားပြီးနောက်၊ အအေးဓာတ်ဖြစ်သော မင်းကွတ်သီးကို စားသုံးလျှင်၊ အပူဓာတ်ကို ဖြေနိုင်သည်ဟု ဆိုသည်။ ထို့ပြင် ဒူးရင်းသီးမှည့်၏ စူးဝါးသောအနံ့လည်း ပျောက်ရုံမက၊ အသီးနှစ်မျိုး၏ အရသာထူးကိုလည်း ပိုမိုခံစားနိုင်သည်ဟု ဆိုကြသည်။ ဒူးရင်းသီးမှည့်၏ အနံ့သည် အထဲမှအသားထက် အခွံက ပို၍ နံလေသည်။

ဒူးရင်းပင်ကို အသီးအလို့ငှာ စိုက်ပျိုးကြသည်။ မှည့်သောအသီး၏အစေ့ကို စိုက်ပျိုးခြင်းဖြင့် အပင်ပွားအောင် ပြုရသည်။ အမြွာမှအသားကို ဖယ်ပြီး ပြီးချင်း စိုက်ပျိုးရသည်။ အပင်ပျိုး၍ တပတ်ခန့်ကြာလျှင်၊ အညှောက်ထွက်သည်။ သုံးလေးလအတွင်း၌ အပင်ပေါက်များကို ရွှေ့ပြောင်းစိုက်နိုင်သည်။ အပင်ပေါက်၍ ရှစ်နှစ် ကိုးနှစ်မျှကြာလျှင်၊ ငှက်စာဆော်၍ အသီးသီးလေသည်။

ဒူးရင်းခြံများသည် ကေပေါင်းများစွာ ကျယ်ဝန်းသော်လည်း၊ စနစ်တကျ စိုက်ပျိုးထားသည်ဟူ၍ကား မဆိုနိုင်ချေ။ စင်စစ် ဒူးရင်းပင်များကို တပင်နှင့်တပင် ပေ ၄၀ ခန့်စီခွာ၍၊ စတုရန်းကွက် ချပြီးလျှင်၊ စိုက်ပျိုးသင့်ပေသည်။

**ဒူးလင်းလူမျိုး**။ ။ဒူးလင်းလူမျိုးတို့သည် ဂျင်းဖောလူမျိုးတို့နှင့် အမျိုးတူ အနွယ်တူပင် ဖြစ်သည်။ တိဗက်-မြန်မာ အစုဝင် ကချင်အစုခွဲတွင် ပါဝင်၏။ ယင်းတို့နေထိုင်ရာ ဒေသမှာ မိုင်ခနှင့်မလိခ မြစ်နှစ်သွယ်ဆုံရာ တရိဂံနယ်၏ မြောက်ဖက်စွန်းတွင်ဖြစ်၏။ မလိခမြစ်လက်တက်ဖြစ်သော ရှမ်းခခေါ် နမ့်တဆန် မြစ်ဝှမ်းတလျှောက်၌၎င်း၊ မလိခမြစ်ဝဲဖက်ကမ်းမှ ကုန်းလူစခန်းသို့တိုင်အောင်၎င်း ဒူးလင်းရွာကလေးများ အနှံ့ အပြားတည်ရှိလေသည်။ ရွာဟုဆိုရငြားသော်လည်း၊ အချို့ရွာကလေးများ၌ အိမ်ခြေပေါင်း ၃ အိမ် ၄ အိမ်မျှသာရှိသည်။ များသောအားဖြင့် ၁၀ အိမ်ခန့်မျှရှိသော ရွာကလေးများဖြစ်သည်။ အကြီးဆုံးရွာတွင် အိမ်ခြေ ၂၅ အိမ်ခန့်ရှိသည်။ ဤသို့ဖြင့် ဒူးလင်းရွာပေါင်း ၁၀၀ ခန့်ရှိ၍၊ အိမ်ခြေပေါင်း ၇၀၀ ကျော် ရှိလေသည်။ လူဦးရေမှာကား ၃၀၀၀ ခန့်ဖြစ်၏။ ယခုအခါ တဖြည်းဖြည်းနှင့် လူဦးရေ လျော့ပါးလာပြီဖြစ်၏။



ဒူးလင်း အမျိုးသား

ဒူးလင်းလူမျိုးတို့၏ အသွင်အပြင်၊ ဝတ်စားပုံ၊ အိမ်ဆောက်ပုံ၊ ဓလေ့ထုံးစံ စသည်တို့မှာ ကချင်လူမျိုးတို့ကဲ့သို့ပင်ဖြစ်သည်။ ယင်းတို့ကို ခခူးဂျင်းဖော သို့မဟုတ် မြစ်ဖျား ဒေသနေ ဂျင်းဖော၊ အညာသား ကချင်များဟု ခေါ်တွင်ကြသည်။ ဂျင်းဖောစကားကိုပင် ပြောဆိုကြသည်။ သို့သော် အောက်ပိုင်းရှိ မြစ်ကြီးနား ဂျင်းဖောတို့နှင့် လေယူလေသိမ်း မတူ။ စကားဝဲသည်။ ဒူးလင်းလူမျိုးတို့၏ ဝတ်ပုံဆင်ယင်ပုံသည်လည်း ကချင်လူမျိုးတို့၏ ဝတ်စားဆင်ယင်ပုံနှင့် အတန်ငယ်တူ၏။

ဒူးလင်းတို့သည် တောင်ယာလုပ်ငန်းကို လုပ်ကိုင်ကြသည်။ အချို့အိမ်များ၌ ပဲ၊ မုန်ညင်း၊ မုန်လာ၊ ဆေးရွက်ကြီးနှင့် ဘိန်းပင်များကို ခြံခတ်၍ စိုက်ပျိုးကြသည်။ ရှေး အခါကမူ ဒူးလင်းတို့သည် ပန်းပဲလုပ်ငန်း၌ နာမည်ကျော်၏။ ရှမ်းခမြစ်ဖျား၏ တောင်ခြေတွင် သံရိုင်းထွက်သည်။ ဒူးလင်းတို့သည် ထိုသံရိုင်းကိုကျို၍ ကျောက်တူနှင့်ထုကာ ဓားလုပ်လေ့ရှိသည်။ ထိုဓားများသည် ရှေးအခါက အတော်ပင် နာမည်ကြီးခဲ့သည်။ သို့ရာတွင် နောင်အခါ၌ကား မိုင်းသာ ဓားများ ဈေးပေါခြင်းကြောင့် ဒူးလင်းဓားသည် ခေတ်မှိန်ခဲ့၏။



ဒူးလင်း အမျိုးသမီး

ဒူးလင်းလူမျိုးအချို့မှာ ခရစ်ယန်အယူဝါဒ သက်ဝင်သူများ ဖြစ်သည်။ နတ်ကိုးကွယ်မှုလည်း ရှိသည်။ ကချင်လူမျိုးထုံးစံအရ အသုဘကို အခမ်းအနားပွဲပေး၍ သင်္ဂြိုဟ်ဘိသကဲ့သို့၊ ဒူးလင်းလူမျိုးတို့လည်း ပွဲပေး၍ သင်္ဂြိုဟ်လေ့ရှိ၏။ တခါတရံ၌ ရပ်ဝေးမှ ဆွေမျိုးမိတ်သင်္ဂဟများကို စောင့်၍ လူစုံမှ ပွဲပေးကြလေရာ၊ အသုဘကို နှစ်လ သုံးလ ကြာ ထားပြီးမှ သင်္ဂြိုဟ်ခြင်း ပြုကြလေသည်။ (ကချင်လူမျိုး — လည်းရှု။)

**ဒေဆီပန်းပင်။** ။ဒေဆီပန်းပင်သည် 'ကွန်ပေါ်ဇီတီ' မျိုးရင်းတွင် ပါဝင်သည်။ ဒေဆီ ဟူသောစကားသည် အင်္ဂလိပ်အလိုအရ 'ဒေးစ အိုင်' (နေ့မျက်စိ) ဟူ၍ အနက်ရသည်။ ဒေဆီပန်းအလယ်က အဝါရောင်အဝိုင်းသည် နေ၏ပုံသဏ္ဌာန်ရှိ၍၊ ပွင့်ချပ်များမှာ နေရောင်ခြည်များ ဖြာထွက်ပုံနှင့် တူသောကြောင့်၊ ဤအမည်ကို ပေးခဲ့ခြင်းဖြစ်သည်ဟု ဆိုသည်။ ဒေဆီပန်း၏ ပွင့်ချပ်များသည် ညအခါတွင် ငုံ၍၊ နံနက်အခါတွင် ပွင့်တတ်သည်။

ဒေဆီပန်းတပွင့်ကို စစ်ဆေးကြည့်ရှုလျှင်၊ ဆန်းကြယ်သောအချက်ကို တွေ့ရပေမည်။ ဤအချက်ကား အလွန်သေးငယ်သော ပန်းကလေးပေါင်း မြောက်မြားစွာသည် ပွင့်ချပ်များအလယ်တွင် ပန်းခေါင်းသဖွယ် စု၍ နေခြင်းပင်ဖြစ်သည်။ ထိုပန်းကလေးများကို ဗဟိုပွင့်စုဟု ခေါ်သည်။ ထိုပန်းကလေးများ၏ အရေအတွက်မှာ ၂၅၀ ထက်မနည်းရှိ၏။ ထိုပန်းကလေးများသည် ပြွန်ကလေးများ သဏ္ဌာန်ရှိကြ၏။ ထိုဗဟိုပွင့်စုမှ ပန်းကလေးတခုကို မှန်ဘီလူးနှင့်ကြည့်ရှုလျှင်၊ အဖျားတွင် အရာကလေး ၅ ခုရှိသည်ကို တွေ့ရမည်။ ထိုအရာကလေးများသည် ယခင်က ပွင့်ချပ် ၅ ခုရှိခဲ့ကြောင်းကို ပြသည်။

ဗဟိုပွင့်စု၏ ဘေးပတ်လည်တွင် ဖြာထွက်နေသော ပွင့်ချပ်များမှာလည်း ပန်းများပင် ဖြစ်ကြသည်။ ယင်းတို့ကို အရံပွင့်စုဟုခေါ်သည်။ ထိုအရံပွင့်စုသည် အလွန်လှပသော အရောင်များဖြင့် ပိုးမွှားများကို လာရောက်ရပ်နားအောင် မြူခေါ်နိုင်သည်။ ဗဟိုပွင့်စုပေါ်တွင် ပိုးမွှားများ လာရောက်ရပ်နားခြင်းဖြင့်၊ ဝတ်မှုန် ကူးရှက်ခြင်းဖြစ်၍၊ မကြာမီ မျိုးစေ့များ ဖြစ်ထွန်းလာသည်။

ဒေဆီပန်းရိုးရိုး၏ ရုက္ခဗေဒအမည်မှာ 'ဗဲလစ် ပဲရင်းနစ်' ဖြစ်သည်။ 'ခရစ်ဆန်သီမမ် လျူကန်သီမမ်' အမည်ရှိသော ဒေဆီပန်းမျိုးလည်း ရှိသေးသည်။



ညတွင်ငုံ၍ နေ့၌သာပွင့်သော 'နေ့မျက်စိ' သဏ္ဌာန် ဒေဆီပန်းများ



သတ္တုတွင်း ပေါက်ကွဲမှုဘေးမှ ကာကွယ်ပေးသည့် ဒေဗီ မီးအိမ်ကို တီထွင်သူ ဆာ ဟန်ဖရီ ဒေဗီ

**ဒေဗီ, ဆာ ဟန်ဖရီ** (ခရစ် ၁၇၇၈–၁၈၂၉)။ ။ဆာ ဟန်ဖရီ ဒေဗီသည် အင်္ဂလိပ်လူမျိုး ဓာတုဗေဒပညာရှင်တဦး ဖြစ်သည်။ အင်္ဂလန်ပြည် ကွန်းဝေါနယ်၊ ပင်းဇင်းမြို့တွင် ၁၇၇၈ ခုနှစ်၌ မွေးဖွားသည်။ ဒေဗီသည် ဓာတုဗေဒပညာတွင် အထုံဝါသနာပါသူ ဖြစ်၏။ ဤသို့ဝါသနာပါသည့်အလျောက် ပင်လယ်ကျောက်ပွင့်မျိုးတွင် ပါဝင်သည့်လေကို ဓာတုဗေဒနည်းဖြင့် လက်တွေ့စမ်းသပ် လေ့လာကြည့်ခဲ့ခြင်းကြောင့်၊ သူ့ကို တော်ဝင်အသင်းဥက္ကဋ္ဌ ဒေဗီ ဂီးလဗတ်နှင့် ဒေါက်တာ ထောမတ် ဗက်ဒိုးတို့က သဘောကျခဲ့သည်။ သို့ဖြင့် သူသည် ဒေါက်တာ ဗက်ဒိုး၏ စမ်းသပ်ခန်းတွင် လက်ထောက်အဖြစ် ထမ်းရွက်ခွင့်ရခဲ့သည်။ ဒေါက်တာ ဗက်ဒိုး၏ စမ်းသပ်ခန်းတွင် ထိုသို့လုပ်ကိုင်ခဲ့စဉ် ဒေဗီသည် နိုက်ထရပ် အောက်ဆိုက်ကို ရှူရှိုက်နိုင်ကြောင်းကိုင်း၊ ယင်းသည် လူကိုရယ်အောင် လုပ်တတ်သည်ကိုင်း၊ စမ်းသပ်တွေ့ရှိခဲ့လေ၏။ ထိုနောက်တွင် သူသည် 'ဓာတုဗေဒနှင့်ယထာဘူတ သုတေသနလုပ်ငန်းများ' အမည်ဖြင့် သူ၏လက်တွေ့စမ်းသပ်ချက်များကို ရေးသားထုတ်ဝေခဲ့သည်။ ဤသို့ ရေးသားထုတ်ဝေခဲ့သောကြောင့် ဒေဗီသည် အသက် ၂၂ နှစ်အရွယ်တွင် လန်ဒန်မြို့ရှိ တော်ဝင်ပညာဌာန၌ ဓာတုဗေဒပါမောက္ခရာထူးကို ရခဲ့လေသည်။ ပညာဗဟုသုတပြည့်စုံသူတို့သည် သူ၏ဟောပြောပွဲကို များစွာနှစ်သက်ကြသည်။ ထို့ပြင် သူ၏ လက်တွေ့စမ်းသပ် တွေ့ရှိချက်များကြောင့် ဥရောပတခွင်မှာပင် ထင်ပေါ် ကျော်ကြားခဲ့သည်။ သူသည် ၁၈၀၈ခုနှစ်တွင် ပြင်သစ်ပညာဌာန၏ နပိုလီယန်ဆုကို ဆွတ်ခူးရရှိခဲ့သည်။ ၁၈၁၂ ခုနှစ်တွင် ဆာဘွဲ့ချီးမြှင့် သူကောင်းပြုခြင်း ခံရသည်။ ၁၈၁၃ ခုနှစ်တွင် 'စိုက်ပျိုးရေး ဓာတုဗေဒ သိမှတ်စရာများ' စာအုပ်ကို ထုတ်ဝေခဲ့လေသည်။

ဆာ ဟန်ဖရီ ဒေဗီသည် ဒေဗီမီးအိမ်ကို တီထွင်ခဲ့သူလည်းဖြစ်သည်။ ထိုမီးအိမ်ကြောင့် သတ္တုတွင်းများ၌ ပေါက်ကွဲမှုဘေးအန္တရာယ်ကို သိသိသာသာ ဖယ်ရှားနိုင်ခဲ့သည်။ ဒေဗီသည် သတ္တုတွင်းများတွင် ပေါက်ကွဲမှုများ ပေါ်ပေါက်ခဲ့ရသည့်အကြောင်းရင်းတို့ကို လေ့လာပြီးမှ ဒေဗီမီးအိမ်ခေါ် ဘေးကင်းမီးအိမ်ကို တီထွင်ခဲ့ခြင်းဖြစ်လေသည်။ ထို့ပြင် ဒေဗီသည် ပဌမဦးဆုံးအကြိမ်အဖြစ် ဆိုဒီယမ်၊ ပိုတက်ဆီယမ်နှင့် စထရွန်ရှီယမ် ဟူသော ဒြပ်စင်တို့ကို အရည်ပျော်အောင်ပြုထားသော ဆိုဒါ၊ ပိုတက်နှင့် စထရွန်တီးယားတို့၌ လျှပ်စစ်ဓာတ်စီးကြောင်း လွှတ်ပေးခြင်းဖြင့် ခွဲခြားထုတ်ယူနိုင်ခဲ့၏။

၁၈၄၂ ခုနှစ်တွင် ကျန်းမာရေးချို့တဲ့လာသဖြင့်၊ အနားယူရလေသည်။ ထိုနောက်တွင် နိုင်ငံခြားသို့ သွားရောက်လည်ပတ်က ာနေခဲ့၏။ ယင်းသို့ ခရီးထွက်လျက်ရှိစဉ်၊ ၁၈၂၉ ခုနှစ် မေလ ၂၉ ရက်နေ့တွင် ဆွစ်ဇာလန်နိုင်ငံ၊ ဂျီနီးဗားမြို့၌ ကွယ်လွန်လေသည်။

**ဒေလီမြို့**။ ။ဒေလီမြို့သည် အိန္ဒိယသမိုင်းတွင် ရှေးခေတ် မဂိုဘုရင်မင်းအဆက်ဆက်တို့ ထီးနန်းစိုက်ခဲ့ရာ မြို့တော်ဖြစ်၍၊ အထူးထင်ရှားသော မြို့ဖြစ်၏။ ယမုနာမြစ်၏ လကျာ်ဖက်ကမ်းပေါ် တွင် တည်ရှိ၍၊ အရပ်ရပ်သို့ သင်္ဘောလမ်းခရီးပေါက်သည့်အပြင် ကာလကတ္တား၊ ဘုံဘိုင်၊ ကရာချိမြို့များသို့ရင်း၊ ကသ္မီရပြည်နယ်သို့ရင်း၊ မီးရထားလမ်းများဖြင့် ဆက်သွယ်နိုင်၏။ အိန္ဒိယအစိုးရအဖွဲ့သည် မူလမြို့တော် ကာလကတ္တားမြို့မှပြောင်းရွှေ့၍၊ ဒေလီမြို့၌ ရုံးစိုက်ခဲ့သဖြင့် ယခုအခါ ဒေလီမြို့သည် အိန္ဒိယနိုင်ငံ၏မြို့တော်ကြီးဖြစ်သည်။ မြို့၏ပတ်ဝန်းကျင်တွင် ရှေးဟောင်းနန်းတော်ရာ၊ မြို့ရိုးဟောင်း စသည်တို့ရှိ၏။ ရှေးဟောင်း မင်းအဆက်ဆက်တို့ နန်းစိုက်ခဲ့သည့်အတိုင်း ဒေလီမြို့နယ်တခုလုံးတွင် သမိုင်းဝင် ရှေးဟောင်းအဆောက်အအုံနှင့် ပစ္စည်းအမျိုးမျိုးတို့ ရှိကြ၏။ မြို့တော်အတွင်း၌ ရှေးအခါက တန်ခိုးအာဏာကြီးမားခဲ့သော ရှား ဂျဟန်း ဘုရင်၏ နန်းတော်နှင့် အိန္ဒိယနိုင်ငံတွင် အကြီးအကျယ်အခမ်းနားဆုံးဖြစ်သည့် 'ဂျမားမပ်စဂျစ်' ခေါ် ပလီဘုရားရှိခိုးကျောင်းကြီးရှိ၏။

မြို့တော်ဟောင်းကို အလျား ၅ မိုင်ခွဲခန့်ရှည်သော မြို့ရိုးဟောင်းကြီးက ဝန်းရံလျက်ရှိသည်။ မြို့ရိုးအတွင်းတွင် ဟိန္ဒူ

တို့နေထိုင်ရာ ရပ်ကွက်၊ မဟာမေဒင် ရပ်ကွက်နှင့် ဥရောပ တိုက်သား ရပ်ကွက်ဟူ၍ ရပ်ကွက်သီးခြားရှိသည်။ မြို့တော် ဟောင်း သည် ထို သို့ မြို့ ရိုး ဟောင်း ကြီး ဖြင့် ဝန်းရံလျက် ရှိသဖြင့်လည်း ခံတပ်မြို့ဟုတွင်၏။ ယင်းဒေသတွင် အိန္ဒိယ နိုင်ငံ၏ ရှေးအခါက ခမ်းနားကြီးကျယ်ပုံများကို တွေ့မြင်နိုင် လေသည်။

'ဒီဝမ်အီအမ်' ခေါ် ကောင်စီခန်းမ အဆောက်အအုံ သည် အလွန်ခမ်းနားသည်။ ထိုခန်းမကြီး၌ ကျောက်ဖြူနှ ဖြင့် ပြုလုပ်ထားသော မျက်နှာကြက်ရှိသည်။ ထိုမျက်နှာ ကြက်ကို ကျောက်သားတိုင်ကြီး ၄ တိုင်ဖြင့် ထောက်ထား ၏။ ရှေးအခါက ထိုအောက်၌ ရွှေသားအစစ်ဖြင့် ပြုလုပ် ထားသည့် ဒေါင်းရုပ် ပလ္လင်တခု ရှိခဲ့ဘူးသည်။ ထိုပလ္လင် သည် ရွှေအစစ်ဖြစ်၍၊ ကျောက်သံပတ္တမြားတို့ဖြင့် မွမ်းမံ ခြယ်လယ်ထားလေသည်။ ပလ္လင်၏နောက်တွင် ဖြန့်၍ထား သော ဒေါင်းရုပ်နှစ်ခု၏အမြီးရှိ ဒေါင်းမြီးကွက်များပေါ်တွင် ပတ္တမြား၊ နီလာ၊ မြ၊ ပုလဲများဖြင့် အရောင်တဖျပ်ဖျပ်ထွက် အောင် လှပစွာ စီခြယ်ထားသည်ဟုဆိုသည်။ သို့သော် ထို ပလ္လင်ကား ယခုမရှိတော့ပြီ။ ပါးရှင်းလူမျိုး နဒါရှား ဆိုသူ သည် ၁၇၃၉ ခုနှစ်တွင် ဒေလီမြို့ကို တိုက်ခိုက်အောင်မြင်၍၊ ထိုအဖိုးထိုက်တန်လှသော ပလ္လင်ကြီးကို ပါးရှားပြည်သို့ ယူ ဆောင်သွားလေသည်။

ရှား ဂျဟန်း ဘုရင်ကြီး ဆောက်လုပ်ခဲ့သောပလီကြီးမှာ ခံတပ်မြို့အပြင်ဖက် ကျောက်တောင်ကုန်းကလေးတခုပေါ်၌ ရှိ၍၊ ခုံး၊ မုတ်ပေါက်၊ ပေါင်းကူး၊ တိုင်၊ မျက်နှာကြက် စသည် တို့သည် ကျောက်ဖြူဖြင့်ပြီးလေရာ၊ အထူးလှပသည်။ ထိုပြင် ကမ္ဘာပေါ်တွင် ရှေးဟောင်းလက်ရာတခု အဖြစ်ဖြင့် ထင် ရှားသော 'ကုတဗ္ဗမီနာ' မျှော်စင်ကြီးသည် မြို့တော်မှ ၁၀ မိုင်ခန့်ဝေးသော နေရာတွင် တည်ရှိသည်။ ရှေးခေတ်က ဒေလီမြို့၏ ကြီးကျယ်ခမ်းနားပုံကို သက်သေပြသကဲ့သို့ တည် နေသည်။ ထိုမျှော်စင်သည် မြေပြင်မှ ပေပေါင်း ၂၃၈ ပေမြင့်၍၊ အဆင့် ၅ ဆင့်ရှိ၏။ တိုင်လုံးကြီး ပုံသဏ္ဍာန်ကဲ့သို့ သဲကျောက်များဖြင့် တည်ဆောက်ကာ အမြောင်းများ ဖေါ်ထားသဖြင့် အထူးပင်ဆန်းပြား၍ ခမ်းနားလှပပြီးလျှင် အဝေးမှပင် မြင်နိုင်သည်။



ကျောက်ဖြူနှ မျက်နှာကျက်များဖြင့် လှပစွာမွမ်းမံထားသည့် ဒီဝမ်အီအမ်ခေါ် ကောင်စီခန်းမကြီး



ဒေလီမြို့ရှိ ကုန်သွယ်ရပ်ကွက်ကို ဤသို့ ခေတ်မှီစွာ ဆောက်လုပ်ထားသည်။



ဂျမားမပ်စဂျစ် ဝတ်ကျောင်းသည် အိန္ဒိယနိုင်ငံတွင် အကြီးအကျယ်အခမ်းနားဆုံး ဝတ်ကျောင်းဖြစ်သည်။

ဒေလီမြို့တွင် ခမ်းနားသော တိုက်တာ အိမ်ယာ၊ ဟော်တယ်၊ အစိုးရအဆောက်အအုံများရှိ၏။ မြို့မှ တမိုင်ဝေးသောနေရာတွင် ပေ ၆၀ မြင့်သော ကျောက်ဆောင် ကုန်းတန်းလေးတခုရှိသည်။ ထိုနေရာသည် ၁၈၅၇ ခုနှစ် အိန္ဒိယစစ်သားတို့ ဗြိတိသျှအစိုးရကို ပုန်ကန်ထကြွစဉ် ဗြိတိသျှတို့က ခုခံခဲ့ရသောနေရာဖြစ်သည်။ ရှေးအခါက မဂိုမင်းများ၏ ဘုန်းအရှိန်ကြောင့် ခန့်ညားထည်ဝါခဲ့သောဒေလီမြို့သည် အင်္ဂလိပ်တို့လက်အောက်၌ နှစ်ပေါင်းအတန်ကြာ မှေးမှိန်ခဲ့ရာမှ ၁၉၁၁ ခုနှစ်တွင် ပဉ္စမဂျော့ဘုရင်နှင့် မေရီမိဖုရားတို့သည် ဤမြို့၌ မင်းပွဲသဘင် ကျင်းပခဲ့သဖြင့် ဒေလီမြို့သည် အိန္ဒိယပြည်၏မြို့တော်အဖြစ်ဖြင့် ပြန်လည်ထင်ရှားလာခဲ့သည်။ ယခုအခါ၌မူ ကူးသန်းရောင်းဝယ်ရေး တိုးတက်ခဲ့ရာ၊ ဝါဂွမ်းစက်ရုံများနှင့် အခြားစက်ရုံကြီးများ ပေါ်ပေါက်လာ၍ သိုးမွေးထည်လုပ်ငန်း၊ ပန်းပုလုပ်ငန်း၊ ရွှေထည်ငွေထည်လုပ်ငန်းတို့ ထွန်းကားလျက်ရှိလေသည်။ ပန်ဂျပ်ပြည်နယ်၊ ယူပီနယ်များနှင့် မီးရထားလမ်း ဆက်သွယ်ထားခြင်း၊ ကမ္ဘာ့အရပ်ရပ်နှင့်တကွ အိန္ဒိယပြည်တွင်းရှိ မြို့ကြီးများနှင့် လေကြောင်းခရီး ဆက်သွယ်ထားခြင်းတို့ကြောင့် ဒေလီမြို့တော်သည် ပိုမိုစည်ကားလာခဲ့လေသည်။

၁၉၁၂ ခုနှစ်တွင် အိန္ဒိယအစိုးရအဖွဲ့သည် ကာလကတ္တားမြို့မှပြောင်းရွှေ့၍၊ ဒေလီမြို့တွင် ရုံးစိုက်ပြီးလျှင် မြို့တော်ဟောင်းတောင်ဖက် ၅ မိုင်ကွာတွင် ခေတ်မှီ ပါလီမန်အဆောက်အအုံကြီးနှင့် အစိုးရအတွင်းဝန်တို့၏ရုံး၊ မဟာရာဇာတို့၏ရုံး၊ အရာရှိတို့၏နေအိမ်၊ ဘုရင်ခံချုပ် အိမ်တော်မှစ၍ ခမ်းနားသောအဆောက်အအုံ၊ ကျယ်ဝန်းသောလမ်းမကြီး၊ ဥယျာဉ် စသည်တို့ဖြင့် မြို့သစ်တည်ဆောက်လေသည်။ ဤသည်တွင် နယူးဒေလီခေါ် ဒေလီမြို့သစ်ကို ဖွင့်လှစ်၍၊ ဘုရင်ခံချုပ်ကြီးနှင့်တကွ အစိုးရအဖွဲ့အားလုံး ပြောင်းရွှေ့နေထိုင်ကြလေသည်။ ဒေလီမြို့ဟောင်းနှင့် မြို့သစ်ပါ လူဦးရေမှာ ၉၁၄,၇၉၀ ယောက် (၁၉၅၀ ပြည့်နှစ် ခန့်မှန်းခြေ) ခန့်ရှိ၏။ မြို့၏ဗဟိုလမ်းမကြီးမှာ 'ချန်ဒနီချောက်' ဟုခေါ်၍၊ ရှေးအခါက အလွန်ကြွယ်ဝချမ်းသာသူများ နေထိုင်သဖြင့် 'ငွေလမ်း' ဟုအဓိပ္ပါယ်ရရှိ၏။ ယခုအခါ နယူးဒေလီမြို့တော်သည် အိန္ဒိယသမတနိုင်ငံ၏ မြို့တော် ဖြစ်လာလေသည်။

**ဒေလီယာပန်း**။ ။ဒါလီယာပန်း — ရှု။

**ဒေဝါလီခံခြင်း**။ ။ဒေဝါလီဟူသောစကားသည် ဟင်ဒီဘာသာ ဒီပါလီဟူသောစကားမှ ဆင်းသက်လာသော စကားဖြစ်၍၊ မီးအစဉ် (မီးရှိနေသည်) ဟုအဓိပ္ပါယ်ရသည်။ မီးကိုထွန်းညှိပြီးနောက်၊ ထိုမီးကို မငြိမ်းဘဲထားခြင်းဟူသော အဓိပ္ပါယ်ကို ဥပစာတင်စား၍၊ ကြွေးမြီ ချေးယူပြီးနောက် မပေးဆပ်ဘဲ ရှောင်လွှဲနေခြင်းကို ဒေဝါလီခံသည်ဟု သုံးနှုန်းကြသည်။ ကြွေးမြီနှင့် မီးကိုပမာပြုရာ၌၊ ဘိုးတော်ဘုရား၏ သက္ကရာဇ် ၁၁၄၅ ခုနှစ်၊ ကဆုန်လဆန်း ၆ ရက်နေ့ ထုတ်ပြန်သောအမိန့်တော်တွင် 'ကြွေးမြီစာရင်း မှန်သမျှကို အတောင်းအထုတ် မရှိစေရ၊ ချမ်းသာစေဟု အမိန့်တော်ထုတ်ပြန်၍ မီးငြိမ်းလေပြီးသည်ကို' ဟု စိတ်ဝင်စားဖွယ်ရာ ထုတ်ပြန်ထားသည်ကို တွေ့ရှိရသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော် တရားရုံးများ၌ လိုက်နာနေသော ဒေဝါလီခံခြင်းဆိုင်ရာ ဥပဒေသည် အိန္ဒိယနိုင်ငံ၌ ခရစ် ၁၈၂၈ ခုနှစ်တွင် ပဌမအကြိမ် ပြဋ္ဌာန်းခဲ့သော အက်ဥပဒေကို တစတစ ပြုပြင်ပြောင်းလဲလာသော ဥပဒေရပ်များဖြစ်ပေသည်။ တည်ဆဲဥပဒေနှစ်ရပ်မှာ ရန်ကုန်မြို့ အတွက် ခရစ် ၁၉၀၉ ခုနှစ် ဒေဝါလီ အက်ဥပဒေဖြစ်၍၊ ရန်ကုန်မြို့မှအပဖြစ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော် အခြားဒေသများအတွက် ခရစ် ၁၉၂၀ ပြည့်နှစ် ဒေဝါလီ အက်ဥပဒေ ဖြစ်လေသည်။ ကျင့်ထုံးကျင့်နည်းများတွင် ရန်ကုန်မြို့ဆိုင်ရာ ဥပဒေနှင့် ရန်ကုန်မြို့မှအပ ဆိုင်ရာ ဥပဒေတို့၌ ခြားနားချက်များ ရှိကြသော်လည်း၊ မူအားဖြင့်ကား ထိုအက်ဥပဒေနှစ်ရပ်တို့၌ အရေးကြီးသော ခြားနားချက်များ မရှိကြချေ။ ရန်ကုန်မြို့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ မြို့တော်ဖြစ်သည့်ပြင်၊ ကုန်သွယ် ဖောက်ကား ထွန်းကားသောအရပ်ဖြစ်သည်။ ထိုကြောင့် ရန်ကုန်မြို့အတွက် အက်ဥပဒေတွင် ဒေဝါလီခံသောကုန်သည်များအတွက် အထူးသတ်မှတ်ချက်များ ပါရှိ၏။ ထို့ပြင် ရန်ကုန်မြို့တွင် ဒေဝါလီခံခြင်းဥပဒေကို တရားလွှတ်တော်၏ မူလဆိုင်ရာဌာနက စီရင်သဖြင့်၊ အမြဲတမ်းပစ္စည်းထိန်းအရာရှိနှင့် ထိုအရာရှိတို့၏ ဌာနများကို ခန့်ထားစေရကား၊ ဒေဝါလီခံသူများ၏ပစ္စည်းများကို အုပ်ချုပ်ရာ၌ ပိုမိုတိကျသောစည်းကမ်းများ သတ်မှတ်ထားရလေသည်။ ဤသည်တို့၌သာလျှင် ဥပဒေတရပ်နှင့် တရပ် ထင်ထင်ရှားရှား ကွာခြားသည်ကို တွေ့ရပေမည်။

အိန္ဒိယပြည်၌ ခရစ် ၁၈၂၈ ခုနှစ် ပဌမအကြိမ် ပြဋ္ဌာန်းခဲ့သောအက်ဥပဒေသည် ထိုစဉ်အခါက အင်္ဂလန်ပြည်၌ အတည်ဖြစ်နေသော ခရစ် ၁၈၂၅ ခုနှစ်တွင် အင်္ဂလိပ်ပါလီမန်က ပြဋ္ဌာန်းခဲ့သည့် အက်ဥပဒေကို မှီငြမ်းပြုခဲ့သည်။ ထို ၁၈၂၅ ခုနှစ် အင်္ဂလိပ်အက်ဥပဒေ မပြဋ္ဌာန်းမီက၊ အင်္ဂလန်ပြည်၌အတည်ဖြစ်သော ဒေဝါလီအက်ဥပဒေများ၏ ရည်ရွယ်ချက်တို့တွင် ကြွေးရှင်များ၏အခွင့်အရေးကို ဦးစားပေးလျက်၊ ကြွေးမြီမဆပ်နိုင်သော မြီစားများအား ဖိနှိပ် ချုပ်ခြယ်မှုတို့ကိုပမာနထားခဲ့ရာ၊ ၁၈၂၅ ခုနှစ်နောက်ပိုင်းတွင်မှ တစတစ မြီစားများ၏သက်သာမှုကို တိုးတက်၍အရေးပေးခဲ့သည်။ ဤသို့လျှင် တစတစ ပြုပြင်ပြောင်းလဲလာခဲ့သော

ကြောင့်၊ အင်္ဂလန်၊ အိန္ဒိယနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတို့၏ ဥပဒေတို့သည် လက်ရှိအခြေအနေသို့ ရောက်ရှိလာခဲ့သည်။ လက်ရှိအက်ဥပဒေများ၏ ရည်ရွယ်ချက်ကို အကျဉ်းအားဖြင့် ဖော်ပြရလျှင်၊ ကြွေးမြီများကို အပြေမဆပ်နိုင်သော မြီစားတို့အနက်၊ ကံမကောင်း အကြောင်းမလှသဖြင့်၊ ထိုအခြေအနေသို့ရောက်ရသော မြီစားတို့ကို သက်သာရာရစေရန် ရည်ရွယ်သည်။ ဤရည်ရွယ်ချက်နှင့် တပြိုင်တည်းထားရှိသော အခြားရည်ရွယ်ချက်တို့မှာ၊ မရိုးမဖြောင့် ကောက်ကျစ်သောမြီစားတို့က မိမိတို့ပိုင်ပစ္စည်းများကို မလျှို့ဝှက်နိုင်စေရန်၊ မတရား လွှဲပြောင်းခြင်းမပြုနိုင်စေရန်နှင့် မြီရှင်တို့ သာတူညီမျှ အခွင့်အရေးကို ရရှိနိုင်စေရန် ဖြစ်လေသည်။

လက်ရှိအက်ဥပဒေများနှင့် ယင်းတို့၏ပင်ရင်း ၁၇၂၅ ခုနှစ်အထက်ကာလက အက်ဥပဒေများကို နှိုင်းရှည့်ကြည့်လျှင်၊ မူအနေဖြင့် အလွန်ခြားနားသည်ကို တွေ့ရပေသည်။ ၁၇၂၅ ခုနှစ်အထက်ကာလက မြီစားတို့ကို ဒေဝါလီခံခွင့် မပေးခဲ့ချေ။ မြီရှင်တို့ကသာ မြီစားများအား ဒေဝါလီပြုခွင့် ပေးခဲ့၏။ မြီစားတို့၏ သက်သာခွင့် အနည်းအကျဉ်းကို သာလျှင် အသိအမှတ်ပြု၍၊ မြီရှင်တို့၏အခွင့်အရေးနှင့် မြီစားတို့အား ဖိနှိပ်ရေးကိုသာ ပိုမို၍အရေးပေးခဲ့၏။ ထိုအခါက ကုန်သည်များကိုသာလျှင်၊ မြီရှင်တို့က ဒေဝါလီပြုခွင့် ထားရှိ၍၊ အခြားမြီစားတို့မှာမူ ကြွေးမြီကို အပြီးအပိုင် မဆပ်လျှင်၊ လွတ်ငြိမ်းခွင့် မရခဲ့ချေ။ မြီရှင်တို့သည် မြီစားတို့အား ကြွေးမြီမပြေလည်သမျှ၊ ထောင်သွင်း အကျဉ်းထားနိုင်ခွင့်ရှိသည်။ ထောင်သွင်းရာ၌လည်း မြီစားများသည် မိမိတို့စရိတ်နှင့်ပင် နေထိုင်ရသည်။ အကျဉ်းထားရာ၌လည်း နှစ် ရက် အကန့်အသတ်မရှိ၊ ကြွေး မကျေမခြင်း အသက်ထက်ဆုံး အကျဉ်းချထားနိုင်သည်။ ထိုမျှသာမကသေး၊ ၁၇၂၀ ပြည့်နှစ်မတိုင်မီက၊ မြီစားတဦးသည် ကြွေးမြီများ မပေးဆပ်လိုသော၊ မရိုးဖြောင့်သည့်သဘောဖြင့်၊ မိမိပိုင်ပစ္စည်းများကို ရုံးတော်ရှေ့သို့ အကုန်အစင်မတင်ပြ၊ မပေး၊ မဖော် ထုတ်ခဲ့လျှင်၊ ထိုမြီစားကို သေဒဏ်ပင် သတ်မှတ်သော အက်ဥပဒေရှိခဲ့ရာ၊ ထိုအက်ဥပဒေကို ၁၇၂၀ ပြည့်နှစ်တွင်မှ ပြင်ဆင်၍၊ သေဒဏ်မှ တသက်တကျွန်းသို့ လျှော့ပေါ့ခဲ့သည်။ အက်ဥပဒေတရပ်ကလည်း၊ ကြွေးမြီမပေးဆပ်နိုင်သော မြီစားသည် မိမိ၏ဖောက်ပြန်မှုအတွက်ကြောင့် မဟုတ်ဘဲ၊ ကံမကောင်း အကြောင်းမလှသဖြင့်သာလျှင်၊ ကြွေးမြီကိုမဆပ်ပေးနိုင်ခြင်း ဖြစ်ပါသည်ဟု၊ ထင်ရှားအောင်မပြနိုင်လျှင်၊ ထိုမြီစားအား လူဗိုလ်ပုံအလယ်တွင် ထိတ်ခပ်လျက်၊ ၂ နာရီမျှ ထားရှိစေပြီးလျှင်၊ နားရွက် တဖက်ကိုဖြတ်စေသော ပြစ်ဒဏ်ကို သတ်မှတ်ခဲ့ဘူးသည်ကို တွေ့ရှိရပေသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်၌ တည်ဆဲ ဒေဝါလီခံခြင်း ဥပဒေ၏ ပင်ရင်းဖြစ်သော ၁၇၂၀ ပြည့်နှစ်မတိုင်မီက အင်္ဂလန်ပြည်၌အတည်ဖြစ်ခဲ့သော အက်ဥပဒေများနှင့် အချိန်ကာလ တပြိုင်တည်းမှာပင်၊ မြန်မာဘုရင်များ၏ လက်ထက်တော်၌ တည်ဆဲဖြစ်သော အလားတူ ဥပဒေများကို နှိုင်းရှည့်ကြည့်လျှင်၊ ခြားနားချက်များကို အထူးစိတ်ဝင်စားဖွယ်ရာ တွေ့ရှိရသည်။ ရှေးမြန်မာဘုရင်များ၏လက်ထက်၌ ဒေဝါလီခံခြင်းဥပဒေများ ရှိခဲ့သည်ဟု သိရှိသူများ အလွန်ပင် နည်းပါးလှပေသည်။ သို့အတွက် မြန်မာဘုရင်များ၏ ဥပဒေထုံးတမ်းကို သိသင့်သိထိုက်သမျှ အကျဉ်းအားဖြင့် ဤနေရာတွင် ဖော်ပြရပေမည်။

မြန်မာသက္ကရာဇ် ၉၉၁ ခုနှစ်တွင် နန်းတက်သော အင်းဝဘုရင် သာလွန်မင်းတရားကြီး လက်ထက်တော်မှစ၍၊ ယခုအခေါ် အားဖြင့် ဒေဝါလီခံခြင်း တရားဥပဒေ၊ မြန်မာ ဝေါဟာရအားဖြင့် မြီတလင်းလှည်း တရား၊ မြီတောင်းခွဲ တရားတို့၏ အရိပ်အမြွက်တို့ကို ဓမ္မသတ်စာစောင်တို့နှင့် အမိန့်တော်ပြန်တမ်းတို့တွင် တွေ့ရှိရပေသည်။ ထိုတရားများ၏ အကျယ်ကိုမူ၊ မြန်မာသက္ကရာဇ် ၁၁၁၅ ခုနှစ် ရွှေဘိုမြို့၌ ထီးနန်းစိုက်တော်မူသော အလောင်းမင်းတရားကြီးလက်ထက်တော်၌ ကျုံးဝန် ဘုမ္မဇေယျ ပြုစုသော မနုကျယ်ဓမ္မသတ်တွင် ရှင်းလင်းဖော်ပြထားသည်ကို တွေ့ရ၏။ မှတ်သားသင့် မှတ်သားထိုက်သော ကိစ္စဖြစ်သဖြင့်၊ မနုကျယ်ဓမ္မသတ်မှ သက်ဆိုင်ရာ ကောက်နုတ်ချက်တို့ကို ပြန်လည်တင်ပြပေအံ့။

## မြီတလင်းလှည်း တရား

'မြတ်သောမင်းကြီး၊ မြီတလင်းလှည်း တရားမှာ မြီအများ အင်မတန်၊ ဆွေမျိုးဉာတိမယ်နိုင်၊ အဆွေဉာတိမရှိ ဖြစ်လျှင်၊ မြီစားက အရှင်ကိုလျှောက်ထား၍ အရှင်မင်းကေရာဇ်က မြီရှင်များသို့ အရင်းပေးစေ၊ ချင်းအရှင် မင်းကေရာဇ်က၊ ချင်းကို အရင်းအနှီးပေး၍ ကုန်စလယ်၊ သဘော်၊ သွားစေ၊ ချင်း သုံးနှစ်တိုင်မှ၊ အရှင်မင်းကေရာဇ်က၊ အရင်းအတိုင်း သိမ်းခြင်း၊ သင်္ဂဟဝတ္ထုနှင့် ထောက်၍ ပြုစုရသေး၏။ ထိုကဲ့သို့ပြုရန် ထိုမြီစား၌ အတတ်ပညာမရှိ၊ စွမ်းပကားခွန်အားလည်း မရှိဖြစ်လျှင် ပြည်ရှင်မင်းက မြီရှင်တစုတို့ကို ခေါ်၍ ရဟန်းပုဏ္ဏားတို့ရှေ့၊ ထိုမြီစားကို ဝတ်ဖြူဝတ်စေပြီးလျှင်၊ ရဟန်းသူတော်တို့ ပရိတ်ရွတ်စေ၍၊ ငါလည်း သင့်မယား၊ သားသမီး ယခုရှိသမျှအသက်တွင် ဘေးမဲ့ပေးတော်မူသည်။ မင်းတို့မြီရှင်တစုလည်း ချမ်းသာပေးကြ မိန့်တော်မူ၍၊ ခရသင်းရေစင်၊ စည် တီးမှုတ်၍ အနုမောဒနာပြုခြင်းသည်၊ မြီတလင်းလှည်း မည်၏။ ထိုမြီစား တော်လှန်၍၊ သူဌေးအရာ ရောက်သော်လည်း၊ မတောင်းရပြီ၊ ရတတ်၍

ပေးသော်လည်း မယူသင့်ပြီ၊ သံသရာသို့ အကြောင်း ရောက်လေပြီးသည်။ ဤကဲ့သို့အခြင်းအရာကို၊ အရှင်ဧကရာဇ်မှ တပါး၊ ပြုထိုက်ပြုပိုင်သူ မရှိ၊ အရှင်သာ ပြုထိုက်သတည်း။ ’

### မြို့တောင်းခွဲ တရား

‘မြတ်သောမင်းကြီး၊ မြို့တောင်းခွဲ ဟူသည်ကား၊ မြီရှင်တကာတို့၊ ထိုမြီစားတွင် ရှိရှိသမျှ သက်ရှိသက်မဲ့ကို ပြတ်၍၊ တဦးဦး ဝယ်ခြင်းငှာ မဝယ်သာ၊ မြီရှင်မဟုတ်၊ ရွာအုပ်သူကြီး၊ အကြီးအမှိက ဖြစ်လောက်သောသူ၊ ပြည့်စုံကုံတန်သောသူတို့၊ မြီစားနှင့်မြီရှင်တကာချည်း ရောက်၍၊ ပြတ်ရာအဘိုးကို၊ ပေးဝယ်စေပြီးလျှင်၊ မြီနည်း၊ မြီများ၊ ဝေ၍ယူခြင်းသည်၊ သူဆင်းရဲတို့ ကျင့်ရာသည်ဟူ၏။ ထိုကဲ့သို့ နည်းများ ခွဲဝေပြီးလျှင်၊ နောက် တော်လှန်၍၊ သူကောင်း ထင်ရှားဖြစ်လည်း မြီရှင်တကာ မတောင်းရာ လွတ်စေ၊ ထိုတော်လှန်သည့်မြီစား ရတတ်၍၊ သံသရာ မြီပါမည်စိုးသောကြောင့် ဆပ်လျှင်၊ ဆပ်သမျှကိုပင် မြီရှင်တကာခံရ၏။ ’

သက်ဆိုင်ရာတရားရုံးတော်၌ မြီရှင်၏ လျှောက်ထားချက်ဖြင့်ငှင်း၊ မြီစား၏ လျှောက်ထားချက်ဖြင့်ငှင်း၊ မြီစားတဦးသည် ဒေဝါလီအဖြစ်သို့ ရောက်နိုင်၏။ မြီစားဖြစ်သူက မိမိသည် ကျပ်ငါးရာထက်မနည်းသော ကြွေးမြီတင်လျက်ရှိပါ၍၊ ထိုကြွေးမြီကို ပေးဆပ်နိုင်ရန် အခြေမရှိပါဟုငှင်း၊ သို့တည်းမဟုတ် မိမိအား ကြွေးရှင်တဦးဦးက လျှောက်ထားချက်အရ၊ ကြွေးမြီအတွက် အကျဉ်းခံနေရပါသည်ဟုငှင်း၊ သို့တည်းမဟုတ် ကြွေးရှင်တဦးဦး၏ လျှောက်ထားချက်အရ၊ မိမိပိုင်ပစ္စည်းအရပ်ရပ်ကို ဝါရမ်းကပ်ထားလျက်ရှိပါသည်ဟုငှင်း၊ အကြောင်းပြချက်ဖြင့်၊ မိမိကိုယ်ကို မိမိ ဒေဝါလီ ဖြစ်စေရန် လျှောက်ထားနိုင်သည်။ မြီရှင်တဦးကဖြစ်စေ၊ အများပူးပေါင်း၍ဖြစ်စေ၊ မြီစားအား ဒေဝါလီဖြစ်စေရန် လျှောက်ထားနိုင်ရန် လိုအပ်သည့်အချက်တို့မှာ လျှောက်ထားသူမြီရှင်တို့အား မြီစားက ပေးဆပ်ရန်ရှိသော ကြွေးငွေမှာ ကျပ်ငါးရာထက်မနည်းဖြစ်၍၊ ထိုကြွေးမြီ၏ ပမာဏကို အတိအကျ သတ်မှတ်ပိုင်းခြားပြီးလျှင်၊ မြီစားသည် မြီရှင်တို့ လျှောက်လွှာတင်သွင်းသည့်နေ့မှ နောက်ပြန်ရေတွက်သော် သုံးလအတွင်း ဒေဝါလီပြုခံထိုက်သော အပြုအမူတရပ်ရပ်ကို ကျူးလွန်ခဲ့ရမည်ဖြစ်သည်။ မြီစားသည် မိမိပိုင်ပစ္စည်းအားလုံးဖြစ်စေ၊ အားလုံးထက် အနည်းငယ်လျော့၍ဖြစ်စေ၊ မိမိကပေးဆပ်ရန်ရှိသောကြွေးမြီများကို မြီရှင်များအကျိုးငှာ၊ လူတဦးတယောက်ကို လွှဲပြောင်းပေးခဲ့လျှင်ငှင်း၊ သို့တည်းမဟုတ် မိမိ၏မြီရှင်တို့အား ကြွေးမြီမဆပ်ပေးနိုင်ရန် ရည်ရွယ်လျက်၊ မိမိပိုင်ပစ္စည်းတရပ်ရပ်ကို ကောက်ကျစ်စဉ်းလဲစွာဖြင့်၊ သူတပါးသို့ လွှဲပြောင်းပေးခဲ့လျှင်ငှင်း၊ သို့တည်းမဟုတ် မြီရှင်တို့အား ရှောင်ရှားလို၍၊ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းမှ ထွက်ခွာသွားလျှင်သော်ငှင်း၊ သို့တည်းမဟုတ် မိမိ၏နေအိမ်အလုပ်ဌာနတို့မှ ဖဲခွာရှောင်ကြဉ်နေလျှင်သော်ငှင်း၊ မြီရှင်များ မရှာဖွေ မတွေ့နိုင်စေရန် ဖုံးကွယ်၍နေလျှင်သော်ငှင်း၊ သို့တည်းမဟုတ် ကြွေးမြီအတွက် လူကိုဖြစ်စေ၊ ပစ္စည်းကိုဖြစ်စေ၊ ဝါရမ်းဘမ်းခြင်းခံရလျှင်သော်ငှင်း၊ ထိုမြီစားအား မြီရှင်တို့က ဒေဝါလီပြုပိုင်သော အပြုအမူကို ကျူးလွန်သည်မည်၏။

သက်ဆိုင်ရာ အာဏာပိုင်ရုံးတရပ်ရပ်က ဒေဝါလီဖြစ်စေဟု သတ်မှတ်ခဲ့လျှင်၊ မြီစား၏ သက်ရှိသက်မဲ့ပစ္စည်းတို့ကို ပစ္စည်းထိန်းက သိမ်းယူရ၏။ မြီစားက ကောက်ကျစ်စဉ်းလဲမှုဖြင့် သူတပါးသို့ လွှဲပြောင်းထားသောပစ္စည်းတို့ကိုလည်း ပစ္စည်းထိန်းက သိမ်းယူပိုင်၏။ ဤသို့ ပစ္စည်းအရပ်ရပ်ကို သိမ်းယူပြီးနောက်၊ မြီရှင်တို့အား ထိုပစ္စည်းများမှ ရောင်းချရငွေဖြင့်၊ အချိုးကျ ပေးဆပ်ရသည်။ ထိုသို့ပြုလုပ်နေသည့် အတွင်း၊ မြီစားအား မြီရှင်တို့က အရေးယူပိုင်ခွင့် မရှိတော့ဘဲ၊ ယေဘုယျအားဖြင့် ကန့်သတ်ထားသောအချိန် ကျော်လွန်သည့်အခါ၌၊ မြီစားသည် မိမိ၌တင်ရှိခဲ့သော ကြွေးမြီများကို၊ မိမိ၏ပစ္စည်းတို့နှင့် ပစ္စည်းထိန်းမှတဆင့် မြီရှင်တို့အား အပြေအလည်ပေးချေနိုင်သည်ဖြစ်စေ၊ မပေးချေနိုင်သည်ဖြစ်စေ၊ လွတ်ကင်းခွင့်ကို ရုံးတော်၌ လျှောက်ထားတောင်းခံနိုင်၏။ ထိုအခါ ရုံးတော်က မြီစား၏အပြုအမူ အလုပ်အကိုင်တို့ကို အထောက်အထားပြုလျက်၊ လွတ်ကင်းခွင့်ကို ပေးသင့်သောအမှုဖြစ်က ပေးနိုင်၏။ သို့တည်းမဟုတ်၊ ရက်လ ဖြစ်စေ၊ စည်းကမ်းသတ်ဖြင့်ဖြစ်စေ၊ ကန့်သတ်လျက်၊ ကင်းလွတ်ခွင့်ကို ပေးနိုင်၏။

ဒေါက်တာ ဦးအေးမောင်

**ဒေသကူးပြောင်းခြင်း။** ။တိရစ္ဆာန်တို့သည် နှစ်စဉ်နှစ်တိုင်း ရာသီကိုလိုက်၍ ဒေသတခုမှတခုသို့ ကူးပြောင်းတတ်ကြသည်။ တိရစ္ဆာန်ဒေသကူးပြောင်းခြင်း၌ အကြောင်းရင်းနှစ်မျိုးရှိသည်ဟု သာမန်အားဖြင့် ယူဆကြ၏။ ထိုအကြောင်းရင်းနှစ်မျိုးမှာ ဥတု အပြောင်းအလဲကြောင့်ငှင်း၊ အစားအစာ ခေါင်းပါးခြင်း၊ အရပ်ဒေသနှင့်မမျှအောင် တိရစ္ဆာန်ဦးရေ တိုးလာခြင်းတို့ကြောင့်ငှင်း၊ တိရစ္ဆာန်တို့သည် ဒေသကူးပြောင်းကြသည်။

တိရစ္ဆာန်များတွင် ငှက်တို့၏ ဒေသကူးပြောင်းခြင်းကို လူသိ အများဆုံးဖြစ်သည်။ အကြောင်းမူကား၊ ရာသီအလိုက် ငှက်တို့ ပြောင်းရွှေ့ပျံသန်းနေကြပုံကို ကျွန်ုပ်တို့ တွေ့မြင်နေကြရသောကြောင့်ဖြစ်သည်။ အချို့ငှက်တို့သည် ဒေသကူးပြောင်းရာ၌ မိုင်ပေါင်း ထောင်သောင်းမက ပျံသန်းနိုင်ကြသည်။

ဥတုအလိုက် ဒေသကူးပြောင်းသော တိရစ္ဆာန်များစွာ



ရာသီအလိုက် ငှက်တို့ပြောင်းရွှေ့ ပျံသန်းနေကြပုံကို ဤသို့ တွေ့မြင်ရတတ်သည်။

ရှိ၏။ သမင်တို့သည် ဆောင်းဝင်လာသောအခါ၊ တောင်မြင့်ဒေသကို စွန့်ခွာ၍ မြေနိမ့်အရပ်သို့ ဆင်းလာတတ်ကြသည်။ သမင်တို့နှင့်အတူ သားစား ဝံပုလွေနှင့် အခြားတိရစ္ဆာန်များလည်း လိုက်ပါလာမြဲဖြစ်သည်။ ရှေးအခါက အမေရိကန်လွင်ပြင်များ၌ ကျွဲအုပ်ကြီးများသည် နွေကူး ဥတုတွင် မြောက်အရပ်သို့ရင်း၊ ဆောင်းကူးဥတုတွင် တောင်အရပ်သို့ရင်း၊ ပြောင်းရွှေ့၍ နေထိုင်ခဲ့ကြလေသည်။

အင်းဆက်ပိုးများသည်လည်း ဒေသကူးပြောင်းတတ်ကြသည်။ ပနားမားကျွန်းဆက်ကိုဖြတ်၍ ပင်လယ်ဖက်သို့ အချိန်အခါကျရောက်လျှင် ပျံသန်း ရွှေပြောင်းတတ်သော လိပ်ပြာအုပ်ကြီးကိုရင်း၊ သီဟိုဠ်ကျွန်းကိုဖြတ်၍ ပျံသန်းသွားသော လိပ်ပြာအုပ်ကြီးကိုရင်း တွေ့ရတတ်၏။ ထိုလိပ်ပြာအုပ်ကြီးသည် ပြက်တမိုင်ခန့်ကျယ်၍၊ လိုက်ပါသော လိပ်ပြာတို့သည် ရက်ပေါင်း အတန်ကြာအောင်ပင် ဆက်တိုက် ပျံသန်းနိုင်ကြသည်ဟုဆိုသည်။

အချို့တိရစ္ဆာန်များသည် သားပေါက်ချိန်တွင် အရပ်တပါးသို့ ပြောင်းရွှေ့တတ်ကြသည်။ ဆယ်မန်ငါးများသည် မြစ်ညာ၌ သားပေါက်ကြ၏။ ထိုငါးပေါက်စကလေးများသည် မြစ်ကိုစုန်ဆင်းပြီးလျှင်၊ သမုဒ္ဒရာ၌ ကြီးပြင်းလာကြ၏။ ထိုနောက် မြစ်ညာသို့ပင် ဆန်တက်လာ၍၊ ဥ အုကြပြန်သည်။ (ဆယ်မန်ငါး — ရှု။)

ဥရောပတိုက်နှင့်အမေရိကတိုက်ရှိ ရွှေ့ခို့တို့သည် ချောင်းမြောင်း၊ အင်းအိုင်များကိုပစ်၍၊ အီကွေတာမြောက်ဖက်ရှိ ပူနွေးသော အတ္တလန္တိတ်ရေသို့ ဆင်းလာတတ်ကြသည်။ ထိုရေ၌ သားပေါက်ပြီးသောအခါ သေကုန်ကြသည်။ ရွှံ့ခို့ပေါက်စများသည် ရွှံ့ခို့ကြီးတို့ လာရာဌာနများသို့ ပြန်သွားတတ်ကြလေသည်။

ရံဖန်ရံခါ ကျေးလက်များတွင် တိရစ္ဆာန်များ အုပ်လိုက်ရောက်လာပြီးနောက်၊ ပျောက်ကွယ်သွားတတ်ကြသည်။ နော်ဝေးနိုင်ငံနှင့် ဆွီဒင်နိုင်ငံမြောက်ပိုင်းရှိ တောင်များတွင် မြေကြွက်တမျိုးနှင့် မျိုးတူဖြစ်သော လင်းမင်းခေါ် ကြွက်တို့ နေထိုင်ကြသည်။ ၅ နှစ်မှ အနှစ် ၂၀ အချိန်သို့ ရောက်တိုင်း၊ ထိုနိုင်ငံများရှိ ကျေးလက်တို့တွင် လင်းမင်းကြွက်များ ရုတ်တရက် ရောက်ရှိလာတတ်ကြသည်။ ယင်းတို့သည် အုပ်နှင့်ချီ၍ ခရီးတလျှောက်တွင် အပင်များကိုစားကာ ပင်လယ်စူးစူးသို့ သွားကြသည်။ ပင်လယ်သို့ရောက်လျှင် ရေထဲသို့ ခုန်ဆင်း၍ သေကုန်ကြ၏။

ဤသို့ဒေသကူးပြောင်းခြင်းမှာ လင်းမင်းကြွက် အရေ အတွက် တိုးပွားများပြားလာခြင်းကြောင့်ပင် ဖြစ်ဟန်တူသည်ဟု ဆိုသည်။ သုံးလေးနှစ်အတွင်း လင်းမင်းကြွက်တို့ အများအပြားပေါက်ပွားလာကြသဖြင့် ယင်းတို့နေထိုင်ရာ အရပ်ရှိ အစာများ ကုန်လေသည်။ ထိုကြောင့် အချို့ကြွက်တို့သည် နေရာပြောင်းရွှေ့ကြရ၏။ ဒေသကူးပြောင်းသော ကြွက်တို့သည် လမ်းခရီးရှိ အစာဟူသမျှကို စားသောက်သွားကြရာ၊ မြေကြီးဆုံး၍ ပင်လယ်စပ်သို့ရောက်သောအခါ ရေထဲသို့ခုန်ဆင်း၍ သေကြကုန်သည်။


ပြင်သစ် ယထာဘူတပညာရှင် ရာနေ ဒေးကတ်

**ဒေးကတ်၊ အာ** (ခရစ် ၁၅၉၆-၁၆၅၀)။ ။ရာနေ ဒေးကတ်သည် ထင်ရှားသော ပြင်သစ်လူမျိုး ယထာဘူတပညာရှင်ကြီးတဦးဖြစ်၏။ ၁၅၉၆ ခုနှစ် မတ်လ ၃၁ ရက်နေ့တွင် တူးရိန်းပြည်နယ် လအေးမြို့၌ မွေးဖွားသည်။ လဖလျက်မြို့ရှိ ဂျက်ဇူးအစ်ကောလိပ်ကျောင်း၌ ပညာသင်ယူခဲ့လေသည်။

ဒေးကတ်သည် ကျောင်း၌ ထုံးစံအတိုင်း ပို့ချသော ယထာဘူတ ပညာရပ်နှင့် ရူပဗေဒဘာသာရပ်တို့ကို သင်ကြားခဲ့သည်။ သင်္ချာဘာသာကိုမူ အထူးနှစ်ခြိုက်လိုလားစွာ သင်ယူခဲ့လေသည်။ ဒေးကတ်သည် သင်္ချာမှလွဲ၍၊ တပါးသော ဘာသာရပ်များသည် မိမိအဖို့ တိကျပြတ်သားသော ပညာဗဟုသုတကို ဖြည့်စွမ်းပေးနိုင်လိမ့်မည်မဟုတ်ဟု ယူဆခဲ့၏။

ကျောင်းမှထွက်ပြီးသော်၊ ဒေးကတ်သည် ပါရစ်မြို့သို့သွား၍၊ ပညာရှာမှီးပြန်၏။ ပွားတျေးယူနီဗာစီတီမှ ဥပဒေဘွဲ့ရပြီးသည့်နောက်၊ စစ်မှုထမ်းအဖြစ် ဆယ်နှစ်ခန့်မျှ ဥရောပတခွင်၌ ကျင်လည်သွားလာနေခဲ့လေသည်။ ထိုနှစ်များအတွင်းတွင် ဒေးကတ်သည် ဇေကန်မှန်ကန်ခြင်းကို ရှာယူသောနည်းလမ်းကိုသာ ကြံဆခဲ့ရာ၊ နောက်ဆုံးတွင် အမှန်တရားကိုရနိုင်ရန် သံသယဖြင့် စစ်ကြောရမည်ဟူသော သဘောတရားကို နှစ်ခြိုက်လာလေသည်။ ဒေးကတ်သည် တွေးတောဆင်ခြင်စဉ်းစားမှုကို ဖြစ်စေသော စူးစမ်းမှုကို အားပေးသည်။

'သံသယဖြစ်ခြင်းသည် တွေးတောကြံဆခြင်းဖြစ်၏။ ကြံဆခြင်းပင်လျှင် ဖြစ်တည်နေခြင်းသဘောဖြစ်၏' ဟူ၍ ဒေးကတ်ကဆို၏။ 'ကျွန်ုပ်သည် တွေးတောကြံဆတတ်၏။ ဤသည်ကြောင့်ပင် ကျွန်ုပ်ဖြစ်တည်လျက်ရှိ၏' ဟူ၍လည်း ဟောပြော၏။ ဒေးကတ်သည် ခရစ် ၁၆၂၈ ခုနှစ်တွင် စစ်မှုထမ်းအဖြစ်မှ နုတ်ထွက်၍၊ ဟော်လန်နိုင်ငံ၌ အနားယူနေထိုင်ယင်းပင်၊ သူ၏ယုံကြည်ချက်များကို ကျမ်းပြု စာဖွဲ့ရေးသားခဲ့၏။ မကြာမီ သူ၏သတင်းသည် အင်္ဂလန်၊ ဂျာမနီ၊ ဆွီဒင်၊ ပြင်သစ် စသည့်နိုင်ငံများသို့ ပျံ့နှံ့ ကျော်ကြားလာလေရာ၊ ပြင်သစ်နိုင်ငံတွင် ဒေးကတ်အား အမျိုးသားယထာဘူတပညာရှင်တဦးအဖြစ်ဖြင့်ပင် အသိအမှတ် ပြုခဲ့ကြလေသည်။

ခရစ် ၁၆၄၉ ခုနှစ်တွင် ဆွီဒင်နိုင်ငံ၊ စတော့ဟုမ်းမြို့မှ မိဖုရားခရစ္စတီနာ၏ ဖိတ်ခေါ်ချက်အရ သွားရောက်နေထိုင်၍၊ မိဖုရားအား ယထာဘူတပညာရပ်တို့ကို ပို့ချသင်ကြားပေးလေသည်။ သို့သော် မကြာမြင့်မီပင် ၁၆၅၀ ပြည့်နှစ် ဖေဖွာရီလ ၁၁ ရက်နေ့တွင် ကွယ်လွန် လေ၏။

ဒေးကတ်သည် သင်္ချာဘာသာရပ်၌ ကျော်ကြားသူပညာရှင်တဦး ဖြစ်သည်သာမက၊ ဂျီဩမေတြီဘာသာဆိုင်ရာ ပြဿနာများကို အက္ခရာသင်္ချာနည်းနှင့် ဖြေရှင်းယူရသော အနာလစ်တစ်ကယ် ဂျီဩမေတြီဘာသာကို တီထွင်သူဖြစ်ပေသည်။ သိပ္ပံပညာရပ်တွင်လည်း အလင်းယိုင်ခြင်း နိယာမကို ပဌမဦးဆုံး တွေ့ရှိဖေါ်ထုတ် ပြောပြခဲ့သူလည်းဖြစ်၏။

**ဒေးစွန်ပါဘုရား**။ ။ဒေးစွန်ပါဘုရားသည် ပဲခူးနယ် ဝမ်းဘဲအင်းမြို့မှ ၃ မိုင်အကွာ မနိမ့်လွန်းမမြင့်လွန်းသော တောင်ကုန်းပေါ်တွင် တည်ရှိသော စေတီတော်ဖြစ်သည်။ စစ်မဖြစ်မီ ၁၉၃၆ ခုနှစ်လောက်ကမှစ၍ ထင်ရှားလာခဲ့သည်။ ထိုခေတ်သည် ဥစ္စာစောင့်သိုက်သမိုင်းကို လူတို့စိတ်ဝင်စားချိန်ဖြစ်သဖြင့် ဒေးစွန်ပါဘုရားသမိုင်းကို နတ်မောင်မယ် အမည်ဖြင့် ရုပ်ရှင်ရိုက်ကူးလိုက်သည်မှစ၍ ဒေးစွန်ပါဘုရားကို လူသိများ၍ ဘုရားဖူးသွားသူ ပေါခဲ့သည်။ သိုက်ဆရာအဂ္ဂိယဆရာတို့ကလည်း အလွန်စိတ်ဝင်စားခဲ့သည်။

ရန်ကုန်-မန္တလေးကားလမ်းအတိုင်းသွား၍ ဘုရားကြီးနှင့် ဘုရားလေးရွာများကို လွန်ခဲ့သော် ဝမ်းဘဲအင်းမြို့သို့ရောက်သည်။ ရန်ကုန်မှဝမ်းဘဲအင်းမြို့အထိ မိုင် ၇၀ နီးပါးရှိသည်။ ဝမ်းဘဲအင်းမှ အနောက်ဖက်ရိုးမသို့ မျက်နှာမူ၍ ၃ မိုင်ခန့်သွားလျှင် ဒေးစွန်ပါတောင်ခြေသို့ ရောက်သည်။ ဝမ်းဘဲအင်းမှ ဒေးစွန်ပါတောင်ခြေသို့ သွားသောလမ်းသည် ကျောက်ခင်းလမ်း မဟုတ်ချေ။ ဖုတ်လမ်းမျှသာဖြစ်သဖြင့် မိုးရာသီ၌ အသွားအလာခက်သည်။ စစ်အတွင်းနှင့် သောင်းကျန်းသူများထကြွနေသည့်ခေတ်အတွင်း အနှစ် ၂၀



ဒေးစွန်ပါဘုရား



ဒေးဒရဲမြို့အနီးရှိ တော်ကြပ်ဘုရား

ခန့် လူတို့သွားရောက်မဖူးမြှော်သဖြင့် စေတီနှင့်တကွ ရင်ပြင်ပေါ်ရှိ ဇရပ်၊ ကျောင်းစသည်တို့မှာ ပျက်စီးယိုယွင်းနေလေသည်။ ၁၉၅၉ ခုနှစ်မှစ၍ အစိုးရကပြန်သိမ်းနိုင်သဖြင့် ထိုနှစ်တန်ခူးလတွင် ဘုရားပွဲတော် ကျင်းပနိုင်သည်။ တောင်ခြေမှ စေတီရင်ပြင်အထိ သွားသောလမ်းသည် စောင်းတန်း အုတ်လှေခါးဟူ၍ မရှိ၊ သဘာဝမြေလမ်းသာ ဖြစ်သည်။ ယင်းကို လှေခါးထစ်များပြု၍ ကုန်းတက်၊ ချောက်ဆင်း၊ သဲချောင်းဖြတ် စသည်ဖြင့် မျိုးစုံသွားရသည်။
ဒေးစွန်ပါဘုရားကို တောင်ငူမင်းများခေတ်က တည်ခဲ့သည်ဟု အဆိုရှိသည်။ နုတ်ပြောမျှသာဖြစ်သည်။ ‘စေတီတော်သမိုင်း’ အတိအကျကိုကား မည်သူမျှမသိကြချေ။ ဒေးစွန်ပါဟူသောစကားလုံးသည် မွန်စကားဖြစ်၍ စကားဝါတောင်ဟု အဓိပ္ပါယ်ရသည်။

**ဒေးဒရဲမြို့**။ ။ဒေးဒရဲမြို့သည် ဖျာပုံခရိုင် ကျိုက်လတ်နယ်တွင် ပါဝင်၍၊ ဒေးဒရဲမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ဖျာပုံခရိုင်အတွင်း အရှေ့ဖက်ဆုံးကျသော မြို့ကလေးဖြစ်၏။ ထိုမြို့သည် တိုးမြစ်၏ လက်ျာဖက်ကမ်းတွင် တည်ရှိ၍၊ မြစ်ဝနှင့် ၁၅ မိုင်မျှ ဝေးကွာလေသည်။ ဒေးဒရဲမြို့နယ်၏ အဓိကလုပ်ငန်းမှာ ငပိ၊ ငခြောက်လုပ်ငန်းဖြစ်သည်။ မြစ်ဝကျွန်းပေါ်ဒေသ ဖြစ်သောကြောင့် လမ်းပန်းဆက်သွယ်ရေးတွင် ရေကြောင်းကိုသာ အားထားရလေသည်။ ဒေးဒရဲဟူသော အမည်မှာ မွန်ဘာသာအမည်ဖြစ်၍၊ မြန်မာလို ဒရယ်ကုန်းဟူ၍ အဓိပ္ပါယ်ရသည်။ ဒေးဒရဲတွင် ရှေးရာမညတိုင်းတလိုင်းမင်း အဆက်အနွယ်တို့ တည်ထားခဲ့သော တော်ကြပ်စေတီတော်ကြီးရှိသည်။ ဒေးဒရဲမြို့၏ မြို့ရွာစည်ပင်သာယာရေးကို ဖျာပုံခရိုင် ဒေသန္တရအဖွဲ့က စီမံအုပ်ချုပ်သည်။ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၇၇၉၉ ယောက်ခန့် ဖြစ်လေသည်။

**ဒေးဗစ်**။ ။ဒေးဗစ် (ဒါဝိဒ်) သည် သိုးကျောင်းသားဘဝမှ မင်းဖြစ်လာသူဖြစ်၏။ ဂျူဒါ (ယုဒ) ပြည်၊ ဗက်သလီဟမ် (ဗက်လင်) မြို့သား ဂျက်ဆီ (ယေရှဲ) ဆိုသူတွင် သားရှစ်ယောက် ရှိသည့်အနက်၊ ဒေးဗစ်သည် အထွေးဆုံးသားဖြစ်သည်။ ထိုအချိန်၌ အဇ္ဇရီယယ် (ဣသရေလ) လူမျိုးတို့၏ဘုရင် ဆော (ရှောလု) တွင် ရံဖန်ရံခါ စိတ်ညစ်ညူးသောဝေဒနာ စွဲကပ်လာသဖြင့်၊ သာယာစွာစောင်းတီး၍ ဖျော်ဖြေတတ်သူကို ရှာဖွေစေ၏။ ဒေးဗစ်သည် စောင်းတီးကောင်း၍ သာယာနာပျော်ဖွယ်ရှိသော တေးကဗျာများကိုလည်း စပ်ဆိုနိုင်သူဖြစ်သည်ဟူ၍၊ ဆောဘုရင်၏ ကျွန်တို့က လျှောက်ထားချက်အရ၊ ဒေးဗစ်အား ခေါ်ယူပြီးလျှင်၊ လက်နက်တော်ဆောင်အရာ၌ ခန့်ထားလျက်၊ အပါး၌ ခစားစေ၏။ ဒေးဗစ်၏စောင်းတီး ဖျော်ဖြေမှုကြောင့်၊ ဆောဘုရင်၏ဝေဒနာလည်း ပျောက်ကင်းလေသတည်း။

တရံခါသော် အဇ္ဇရီယယ်လူမျိုးတို့နှင့် ဖိလစ္စတင်း (ဖိလိတ္တိ) လူမျိုးတို့ စစ်ဖက်ပြိုင်ကြရာ၊ ဖိလစ္စတင်းတို့၏ဖက်မှ အရပ်ခြောက်တောင်နှင့် တထွာမြင့်သည့် အလွန်ထွားကြိုင်းသန်မာသော ဂတ် (ဂါသ) မြို့သား၊ ဂိုလိုင်းယက် (ဂေါလျတ်) အမည်ရှိ သူရဲကောင်းက၊ အဇ္ဇရီယယ်တို့ဖက်မှ သူနှင့်ယှဉ်ပြိုင်တိုက်ခိုက်ဝံ့သူရှိက ထွက်လာ၍၊ တယောက်ချင်း စစ်ထိုးရန်၊ နေ့စဉ် နှစ်ကြိမ်ကျ ကြိမ်းမောင်းခေါ်ငင်လေ၏။ ထိုအချိန်၌ ဒေးဗစ်၏အစ်ကိုကြီးသုံးယောက်တို့သည် စစ်မှုထမ်းနေရ၍၊ ဒေးဗစ်မှာမူကား ဖခင်သိုးများကို ထိန်းကျောင်းနေရ၏။ တနေ့တွင် ဒေးဗစ်သည် ဖခင်ဖြစ်သူ စေခိုင်းသဖြင့်၊ စစ်မျက်နှာတွင်ရှိနေသော သူ၏အစ်ကိုကြီးများထံသို့ စားသောက်ဖွယ်ရာများ သွားပို့ရသောအခါ၊ ဂိုလိုင်းယက်၏ကြိမ်းမောင်းသံကို ကြားရလေသည်။ ထိုအခါ ဒေးဗစ်သည် မခံမရပ်နိုင်ဖြစ်ပြီးလျှင်၊ ထိုသူအား မိမိကိုယ်တိုင် ယှဉ်ပြိုင်တိုက်ခိုက်ပါမည်ဟု ဆောဘုရင်အားလျှောက်ထား၏။ ဒေးဗစ်နှင့် ဂိုလိုင်းယက်တို့ ယှဉ်ပြိုင်တိုက်ခိုက်ရာ၌၊ ဒေးဗစ်သည် လောက်လွှဲဖြင့်သာ ဂိုလိုင်းယက်ကို ပစ်ခတ် နှိမ်နင်းလေသည်။ ဖိလစ္စတင်းတို့လည်း မိမိတို့၏လူစွမ်းကောင်း ကျဆုံးသွားသောကြောင့်၊ ဆုတ်ခွာ ထွက်ပြေးကြရ၏။ ယင်းစစ်ပွဲကို အနိုင်ရသဖြင့်၊ တနိုင်ငံလုံးကပင် ဒေးဗစ်အား ကောင်းချီးသြဘာပေးကြလျက်၊ ‘ရှောလု အထောင်ထောင်၊ ဒါဝိဒ် အသောင်းသောင်း သတ်လေစွတကား’ ဟူသော ထောမနာသီချင်းများ စပ်ဆိုကြလေသည်။ သို့ဖြစ်၍ ဆောဘုရင်သည် ဒေးဗစ်ကို မနာလိုဝန်တို ဖြစ်လာ၏။

ဒေးဗစ်သည် ဆောဘုရင်၏သားတော် ဂျွန်နသန် (ယောနသန်) နှင့် အထူးချစ်ကျွမ်းဝင်ခဲ့သည့်ပြင်၊ ဆော၏သမီးတော် မိုင်ကယ် (မိခါလ) နှင့် လက်ထပ်ခဲ့သည်။ သို့ရာတွင် ဆောဘုရင်သည် ဒေးဗစ်ကိုသတ်ရန် အမြဲကြံစည်ကြိုးစားနေ၏။ ဒေးဗစ်သည် ပြန်လည်လုပ်ကြံနိုင်သော အခွင့် အရေးများ ရသော်လည်း ရန်တုံ့မမူဘဲ၊ နောက်ပါတပည့်အချို့နှင့် တိမ်းရှောင်၍နေလေသည်။ ထိုအတောအတွင်း ဖိလစ္စတင်းတို့၏လက်ချက်ဖြင့်၊ ဆောဘုရင်နှင့်အတူ သားတော်ဂျွန်နသန်လည်း ကျဆုံးကြောင်း ကြားသိရသောအခါ၌၊ ဒေးဗစ်သည် လွန်စွာပူဆွေးဝမ်းနည်းခဲ့ရလေသည်။

ပါလက်စတင်းပြည်သားတို့လည်း ခင်မင်ကြည်ညိုရင်းစွဲရှိသည့်အတိုင်း၊ ဆောဘုရင်ကျဆုံးပြီးနောက်၊ ဒေးဗစ်အား ဘုရင်အဖြစ် ရွေးကောက်တင်မြှောက်ကြလေသည်။ ဒေးဗစ်သည် ဂျေရုးဆလမ်း (ယေရုရှလင်) မြို့ကို ပါလက်စတိုင်းပြည်၏မြို့တော် ပြုလုပ်၍၊ ကြီးကျယ်ခမ်းနားသော ဘုရားတန်ဆောင်းကြီးများ ဆောက်လုပ်၏။ ကြီးစွာသော မင်းစည်းစိမ်ကိုလည်း ခံစားလေသည်။ ဒေးဗစ်၏ နန်းစံ ပဌမပိုင်းမှာ သာယာဝပြောသော်လည်း၊ နောက်ပိုင်းတွင်ကား ငြိမ်းချမ်းသာယာခြင်း မရှိချေ။ သားတော် ဆောလမွန် (ရှောလမုန်) အား နန်းလျာထားသည့်အတွက်၊ အခြားသောသားတော် အဗဆလမ် (အဗရှလုံ) က ပုန်ကန်ထကြွသဖြင့်၊ နှိမ်နင်းရာ၌၊ ထိုသားတော်လည်း ကျဆုံးသွားလေသည်။

ဒေးဗစ်ဘုရင်သည် နိုင်းမြစ်နှင့် ယူဖရေးတီးမြစ်အကြားတွင် ဘုန်းကြီးသောဘုရင်တပါးဖြစ်ခဲ့၏။ ကဗျာစာဆိုအဖြစ်လည်း ထင်ရှားခဲ့၍၊ ဓမ္မသီချင်းများစွာတို့ကို ရေးသားစပ်ဆိုခဲ့လေသည်။ ဒေးဗစ်၏အရိုက်အရာကို သားတော် ဆောလမွန်က ဆက်ခံလေသည်။

**ဒေးမန်နှင့် ပစ်သီယက်။** ။ဒေးမန်နှင့် ပစ်သီယက် (ဝါ) ဖင်းတိအပ်တို့၏ ပုံပြင်သည် မိတ်ဆွေစစ်နှစ်ဦးတို့၏ သစ္စာတည်ပုံကို ဥဒါန်းတွင်စေသော ပုံပြင်ဖြစ်လေသည်။ ရှေးခေတ် ဂရိလူမျိုးများ ကောင်းစားစဉ်က စစ္စလီကျွန်းရှိ ဆစ်ရာကျူမြို့သည် ကြီးကျယ်ခမ်းနားခဲ့သော မြို့ကြီးတမြို့ဖြစ်သည်။ ထိုမြို့တွင် ဒိုင်အိုနိုင်းဆပ်ဘုရင် စိုးစံလေသည်။ ထိုဘုရင်သည် စွမ်းရည်သတ္တိကြောင့် သာမန်စာရေးဘဝမှ ဘုရင်ဖြစ်လာလေရကား၊ မြို့သူမြို့သားတို့သည် တတ်နိုင်သောတနေ့တွင် သူ့အား နန်းချလိမ့်မည်ဟူသော အတွေးဖြင့် ကိုယ်ကကျူး ကိုယ့်ဒူးကိုပင် မယုံကြည်နိုင်ဘဲဖြစ်နေ၏။ တနေ့တွင် ဒိုင်အိုနိုင်းဆပ်သည် ပစ်သီယက်ဆိုသူကို မသင်္ကာမှုနှင့် ဖမ်းဆီးပြီးနောက်၊ သေဒဏ်ပေးလိုက်လေသည်။ ထိုအခါ ပစ်သီယက်တွင် ဂရိပြည်မ၌ ဆွေမျိုးများကိုတွေ့ရန်နှင့် လယ်ယာကိုင်းကျွန်းများကိုလည်း စီမံခန့်ခွဲရန်ရှိသဖြင့် ဂရိပြည်မမှ ပြန်လာသည်အထိ သေဒဏ်ကိုဆိုင်းငံ့ထားရန် ဘုရင်ထံတွင် အခွင့်တောင်းလေသည်။ ဘုရင်လည်း ပစ်သီယက်ကို မယုံသင်္ကာရှိနေခိုက် သူငယ်ချင်းဖြစ်သူ ဒေးမန်သည် ရှေ့သို့ထွက်လာလျက် အကယ်၍ ပစ်သီယက်သည် ကတိအတိုင်းပြန်မလာခဲ့သော်၊ သူ့ကိုပင် သတ်ရန် သူငယ်ချင်း၏ကိုယ်စား ဝင်ရောက် အဖမ်းခံလေသည်။

ဒိုင်အိုနိုင်းဆပ်သည် ပဌမ၌အံ့အားသင့်သွားသော်လည်း၊ နောက်ဆုံး၌ သဘောတူလိုက်လေသည်။ သို့နှင့် ပစ်သီယက်သည် ဂရိပြည်မသို့ ခေတ္တပြန်သွားနိုင်ခဲ့သည်။ အချိန်မှာ တဖြည်းဖြည်း ကုန်လွန်သွားရာ၊ သတ်ရန်အချိန်မှာလည်း နီးကပ်လာလေ၏။ သို့သော် ပစ်သီယက်ကား ပေါ်မလာသေးချေ။ သို့ပင်ဖြစ်လင့်ကစား ဒေးမန်သည် သေရမည့်ဘေးကိုတွေးတောပြီးလျှင် ပူဆွေးခြင်း၊ ထိတ်လန့်တကြားဖြစ်ခြင်း၊ သောကရောက်ခြင်း စသည့်အမူအရာတို့ကို မပြချေ။ သူ့သူငယ်ချင်း၏ သမာဓိကို ယုံကြည်မြဲ ယုံကြည်လျက်ပင်ရှိသည်။ နောက်ဆုံးရက်၊ နောက်ဆုံးနာရီအထိ

ဒေးမန်သည် သူငယ်ချင်း၏သမာဓိကို ယုံမှားသံသယမရှိဘဲ စောင့်မျှော် စောင့်ခဲ့လေသည်။ သို့ရာတွင် ဒေးမန်ကို သတ်ခါနီးဆဲဆဲတွင် ပစ်သီယက်သည် လူအစုအဝေးကြားမှ ရုတ်ခြည်းပေါ်လာပြီးနောက်၊ သူ့ကိုယ်ကို အသတ်ခံရန် အပ်နှင်းလေသည်။ ပစ်သီယက် စီးလာသောမြင်းမှာ လမ်းခုလတ်တွင် ရုတ်တရက်သေဆုံးသွားသဖြင့် ထိုကဲ့သို့ နောက်ကျခြင်းဖြစ်ရလေသည်။ သို့သော် သူ၏ကိုယ်စား အပမ်းခံနေရသော ဒေးမန်ကို ကယ်ဆယ်ရန် အနိုင်နိုင်ကြိုးစားလျက် အရောက်လာခဲ့သည်။ ထိုသို့ သူငယ်ချင်းနှစ်ဦး၏ သစ္စာရှိပုံကို မြင်ရသောအခါ၊ ဒိုင်အိုနီးဆပ်သည် သံဝေဂရပြီးလျှင် ပစ်သီယက်ကိုမသတ်တော့ဘဲ သေဒဏ်မှ ချမ်းသာခွင့်ပေးလိုက်လေ၏။

ဒဲလဖိုင်။ ။ရှေးဟောင်း ဂရိနိုင်ငံတွင် ဒဲလဖိုင်သည် အပေါ်လို နတ်ကွန်းတည်ရာ မြို့ကြီးဖြစ်သည်။ ဘီစီ ၇ ရာစုနှစ်လောက်ကပင် ထင်ရှားခဲ့သောမြို့ဖြစ်၏။ ယင်းမြို့၏ တည်ရာဌာနကား ပါးနက်ဆပ် တောင်ခြေ ဖြစ်လေသည်။ ဂရိသမိုင်းအလို၌ ပါးနက်ဆပ်တောင်ခြေမြေအောက်မှ အခိုးအငွေ့များထွက်ခြင်းသည် အပေါ်လို နတ်မင်း၏ ထွက်သက်ဝင်သက်ဖြစ်သည်ဟုဆိုသည်။ ရှေးအခါက ဗေဒင်ဟောရာ၌ အတတ်ကိုတတ်သော ပစ်သီယာခေါ် မိန်းမတဦးသည် ထိုမြေအောက်မှအခိုးအငွေ့တို့ကို ရှူ၍၊ အပေါ်လို နတ်မင်း၏ အလိုကျ၊ အနာဂတ်တွင် ဖြစ်လတ္တံ့သည်တို့ကို ကြိုတင်ကာ ပြောလေ့ရှိသည်။ ဂရိရှေးဟောင်းခေတ်တွင် ဂရိဘုရင်တို့သည် ဒဲလဖိုင်မြို့ရှိ အပေါ်လို နတ်ကွန်း၌ ဗေဒင်မမေးဘဲ၊ ကြီးကျယ်သောအမှုတို့ကို မပြုကြချေ။

ယခုအခါ ဒဲလဖိုင်မြို့ရှိ နတ်ကွန်းတည်ရာအရပ်တွင် အခိုးအငွေ့ထွက်သောနေရာ အစအနကိုမျှပင် မတွေ့ရတော့ချေ။ သို့ရာတွင် ထိုဒေသ၌ ရှေးက ထင်ရှားတည်ရှိခဲ့၍ ပီသကာ လက်ရာမြောက်သော အဆောက်အအုံများနှင့် အနုပညာ လက်ရာမြောက်သော ရှေးဟောင်းပစ္စည်းများကို တွေ့နိုင်လေသည်။

ရှေးခေတ်က အပေါ်လို နတ်ကွန်းတွင် လာရောက်ဗေဒင်မေးသူတိုင်းသည် ဆင်းရဲသားလည်း ဆင်းရဲသားအလိုက်၊ မင်းလည်း မင်းအလိုက်၊ နတ်ကွန်းကို အထူးပသပူဇော်လေ့ရှိသဖြင့်၊ ထိုဒေသတွင် နတ်ကွန်း၏ဘဏ္ဍာတော် အဆောက်အအုံများကို ယခုခေတ်၌ တူးဖော်တွေ့ရှိခဲ့သည်။ ယခုအခါ ထိုမြို့ကို သလဖီးဟု ခေါ်ကြသည်။





ဒဲလဝဲယားပြည်နယ်မြို့တော် ဒိုဗာမြို့ရှိ ဥပဒေပြုလွှတ်တော် အဆောက်အအုံ

**ဒဲလဝဲယား ပြည်နယ်။** ။ဒဲလဝဲယား ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ မူလပြည်နယ် ၁၃ နယ်အနက် ပြည်နယ်တခုဖြစ်၍၊ ချက်ဆပိ ပင်လယ်အော်နှင့် ဒဲလဝဲယား ပင်လယ်အော် နှစ်ခုအကြားရှိ၊ ဒဲလမားဗား ကျွန်းဆွယ်၏ အရှေ့ဖက်ပိုင်းတွင် တည်ရှိ၏။ ဤပြည်နယ်၏ မြောက်ဖက်နှင့်အနောက်မြောက်ဖက်တွင် ပင်ဆီလဗေးနီးယား ပြည်နယ်၊ တောင်ဖက်နှင့်အနောက်ဖက်တွင် မေရီလန် ပြည်နယ်တို့ တည်ရှိကြ၍၊ အရှေ့ဖက်တွင်မူ ဒဲလဝဲယား မြစ်၊ ဒဲလဝဲယား ပင်လယ်အော်နှင့် အတ္တလန္တိတ်သမုဒ္ဒရာတို့ ဝန်းရံလျက်ရှိကြသည်။ ဤပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် ဒုတိယ အငယ်ဆုံး ပြည်နယ်ဖြစ်၍၊ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၀၅၇ မိုင်ဖြစ်သည်။

ဒဲလဝဲယား ပြည်နယ်၏မြောက်ပိုင်းသည် ပီးဒမွန် ကုန်းပြင်မြင့်ပေါ်တွင် တည်ရှိနေသဖြင့်၊ တောင်ကုန်းထူထပ်၏။ ထိုအပိုင်းမှလွဲလျှင်၊ ဒဲလဝဲယား ပြည်နယ်တခုလုံးမှာ ပင်လယ်ကမ်းခြေဒေသတွင် ကျရောက်နေသောကြောင့်၊ ညီညာသော မြေနိမ့်လွင်ပြင်များဖြစ်၏။ ချောင်းငယ် မြစ်ငယ်များ ပေါများလှ၏။ ဒဲလဝဲယား မြစ်နှင့် ပင်လယ်အော်မှ ဒီရေများကြောင့်၊ ရွှံ့ညွန်ပြင်များ ဖြစ်ပေါ်တည်ရှိနေ၏။ ပြည်နယ်၏အနောက်တောင်ပိုင်းရှိ ညွန်ပျောင်းများကိုမူ စိုက်ပျိုးနိုင်သောမြေများအဖြစ် ပြုပြင်စီမံနိုင်ကြသော်လည်း၊ ကေပေါင်း ၇၁,၀၀၀ မှာ ညွန်ပြင်အတိုင်းပင် ရှိသေး၏။ ပိုကိုမုတ် ညွန်ပြင်ကြီးမှာ ကေပေါင်း ၃၀,၀၀၀ မျှ ကျယ်ပြန့်လေသည်။ ပင်လယ်ကမ်းခြေဒေသ ဖြစ်သည့်အလျောက်၊ ရာသီဥတု သင့်တင့်မျှတ၏။ အထူးသဖြင့် ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံစိုက်ပျိုးရန်အတွက် ကောင်းမွန်သင့်လျော်သည်။ မိုးရေ လုံလောက်စွာ ရနိုင်သည်။

၁၇ ရာစုနှစ် နောက်ပိုင်းလောက်မှစ၍၊ ဒဲလဝဲယား ပြည်နယ်တွင် နယ်ကြီး ၃ နယ် ခွဲခြားထားရှိခဲ့လေသည်။ ယင်းတို့မှာ နယူးကပ်ဆဲ၊ ကင့်နှင့် ဆပ်ဆက်တို့ဖြစ်သည်။

နယူးကပ်ဆဲ နယ်သည် မြောက်ပိုင်းတွင်တည်ရှိ၏။ ထိုနယ်၏ရုံးစိုက်မြို့မှာ ဝီလမင်တန်မြို့ဖြစ်၏။ ထိုမြို့သည် ဒဲလဝဲယား ပြည်နယ်၌၎င်း၊ ဒဲလမားဗား ကျွန်းဆွယ်တခုလုံး၌၎င်း အကြီးဆုံးသောမြို့ဖြစ်သည်။ ကူးသန်းရောင်းဝယ်ရေးနှင့် စက်မှုလုပ်ငန်းများ၏ အချက်အခြာဌာနကြီးလည်း ဖြစ်၏။ သင်္ဘောဆိပ်မြို့ကြီးလည်း ဖြစ်၏။ ဓာတုဗေဒလုပ်ငန်းနှင့် စပ်လျဉ်း၍၊ ကမ္ဘာတွင် ထင်ပေါ်ကျော်ကြားသော မြို့ကြီးလည်း ဖြစ်၏။ နယူးကပ်ဆဲနယ်တွင် နွားနို့ထွက်ကုန် လုပ်ငန်းများလည်း ရှိ၏။

အလယ်ပိုင်းရှိ ကင့်နယ်သည် စိုက်ပျိုးရေးလုပ်ငန်းကို ကြီးကျယ်စွာလုပ်ကိုင်ရာ နယ်ဖြစ်သည်။ ဒိုဗာမြို့သည် ယင်းနယ်၏ ရုံးစိုက်ရာမြို့တော်ဖြစ်သည့်ပြင်၊ ဒဲလဝဲယား ပြည်နယ်၏ မြို့တော်လည်းဖြစ်၏။ စည်သွတ်အစာနှင့် သစ်သီးဝလံ (အထူးသဖြင့် ပန်းသီးများ) ကို အကြီးအကျယ် တင်ပို့ရောင်းချကြသည်။

ဒဲလဝဲယား ပြည်နယ် အောက်ပိုင်းရှိ ဆပ်ဆက်နယ်၌ ငါးလုပ်ငန်းနှင့် ကြက်ငှက်မွေးမြူရေးလုပ်ငန်းကို လုပ်ကိုင်ကြ၏။ ရုံးစိုက်ရာမြို့မှာ ဂျော့ တောင်း ဖြစ်သည်။ ဆီးဖို့မြို့တွင် နိုင်လွန်ခြည်မျှင်စက်ရုံကြီး ရှိသည်။ လော်ရယ်မြို့တွင် စားကုန်ထုတ် စက်ရုံများနှင့် ဓာတ်မြေသြဇာစက်ရုံများရှိသည်။

ဒဲလဝဲယား ပြည်နယ်၏ထွက်ကုန်များမှာ အမျိုးအစားများပြားလှပေသည်။ သစ်သီးဝလံနှင့် ဟင်းသီးဟင်းရွက်၊ ကြက်နှင့် ကြက်ဥများ၊ နို့ထွက်ပစ္စည်း၊ စည်သွတ်စားကုန်၊ ဂျုံ၊ ပြောင်း၊ ကနုကမာ၊ ကနန်းကောင်နှင့် ပင်လယ်ငါးမှစ၍ စားသောက်ဖွယ်ရာပစ္စည်းများသာမက၊ ဓာတုဗေဒပစ္စည်းများ၊ နိုင်လွန်၊ ပိုးတု စသည့်အထည်အလိပ်များ၊ သံထည်နှင့်သံမဏိထည်များ၊ သားရေ၊ သစ်ပျော့ဖတ်၊ စက္ကူ၊ စက်ကရိယာပစ္စည်းများ၊ သင်္ဘောများ၊ သွားစိုက်ပစ္စည်း စသည်တို့ဖြစ်၍ ကေအိုလင်ခေါ် မြေစေးတမျိုးလည်း ထွက်သည်။

ဒဲလဝဲယား ပြည်နယ်၏လူဦးရေမှာ ၁၉၅၅ ခုနှစ် ခန့်မှန်းခြေစာရင်းအရ ၃၇၇,၀၀၀ ယောက်ဖြစ်သည်။ ၁၆ ရာစုနှစ်များအတွင်းက ဖင်းလူမျိုး၊ ဆွီလူမျိုးနှင့် ဒပ်ချလူမျိုးများစတင်လာရောက်၍ အခြေစိုက် နေထိုင်ကြသည်။ သို့သော် ယခုလက်ရှိ နေထိုင်သူများမှာမူကား အများအားဖြင့် နောက်ထပ်လာရောက် အခြေစိုက် နေထိုင်ကြသော အင်္ဂလိပ်၊ စကော့နှင့် အိုင်ရစ်လူမျိုးများမှ ဆင်းသက်ပေါက်ဖွားသူများဖြစ်၏။

ဒဲလဝဲယား မြစ်နှင့် ပင်လယ်အော်ကို ဟင်နရီ ဟဒ်ဆန်သည် ၁၆၀၉ ခုနှစ်တွင် ရှေးဦးစွာ တွေ့ရှိခဲ့လေသည်။ ၁၆၃၁ ခုနှစ်တွင် ဒပ်ချလူမျိုးတို့သည် ပဌမဦးဆုံး လာရောက်အခြေစိုက် နေထိုင်ကြလေသည်။ ၁၆၃၂ ခုနှစ်တွင် ဒပ်ချတို့ကို အင်ဒီးယန်းလူမျိုးများက တိုက်ခိုက်သတ်ဖြတ်လိုက်လေသည်။ ထိုနောက် ဆွီလူမျိုးများသည် ၁၆၃၈ ခုနှစ်မှစ၍ လာရောက်၍ ယခု ဝီလမင်တန် တည်ရှိရာနေရာတွင် နယူးဆွီဒင် နယ်သစ်ကို တည်ထောင်၍၊ မြောက်ဖက်သို့ ဒဲလဝဲယား မြစ်ကိုဖြတ်ကျော်လျက်၊ ယခုခေတ် နယူးဂျာစီ ပြည်နယ်အထိ တဖြည်းဖြည်း နယ်ချဲ့ခဲ့ကြလေသည်။ ဖင်းလူမျိုးများလည်း ထိုကဲ့သို့ပင် ရှေးဦးစွာ လာရောက်နေထိုင်ခဲ့ကြ၏။

ထိုသို့ ဆွီလူမျိုးတို့သည် ဒပ်ချလူမျိုးများက မိမိတို့ပိုင်နယ်ဟု ယူဆထားသည့်နယ်မြေတွင် လာရောက်အခြေစိုက်နေထိုင်ခဲ့သည့်အတွက်၊ ဆွီနှင့် ဒပ်ချတို့ မသင့်မတင့်ဖြစ်ပြီးနောက်၊ လေးနှစ်ကြာမျှ လက်နက်စွဲကိုင် တိုက်ခိုက်ခဲ့ရာ၊ ၁၆၅၅ ခုနှစ်တွင် ဒပ်ချတို့ အနိုင်ရ၏။ သို့သော် ၁၆၆၄ ခုနှစ်တွင် ဒဲလဝဲယား ပြည်နယ်သည် အင်္ဂလိပ်လက်တွင်းသို့ ကျရောက်သွားလေသည်။ ထိုအခါမှစ၍ ၁၈ နှစ်ခန့်ကြာမျှ ယော့မြို့စားက ခန့်ထားသည့် ဘုရင်ခံများ အုပ်ချုပ်လာခဲ့ရာ၊ ၁၆၈၂ ခုနှစ်တွင် ဒဲလဝဲယား ပြည်နယ်ကို ပင်ဆီလဗေးနီးယားနှင့်အတူ ဝီလျံ ပင်း အား ပေးအပ်ခဲ့၏။ ပြည်နယ်နှစ်ခုမှာလည်း ဘုရင်ခံတဦးတည်း၏ လက်အောက်တွင် ရှိနေခဲ့၍၊ ၁၇၇၆ ခုနှစ်တွင် လွတ်လပ်သောပြည်နယ် ဖြစ်လာ၏။ ၁၇၈၇ ခုနှစ်တွင် ဒဲလဝဲယားသည် အမေရိကန်ပြည်ထောင်စုနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ပဌမဦးဆုံး သဘောတူခဲ့လေသည်။ ပြည်တွင်းစစ်ပွဲကြီးဖြစ်ပွားနေချိန်တွင် ဒဲလဝဲယားသည် ကျွန်စံနစ် ခွင့်ပြုသောပြည်နယ်တခုပင် ဖြစ်လင့်ကစား ပြည်ထောင်စုမှ ခွဲထွက်မသွားချေ။

ဒေါ်မင်နိုကစားခြင်း။ ။ဒေါ်မင်နိုကစားခြင်းသည် ဣတာလျံလူမျိုးတို့၏ အိမ်တွင်းကစားနည်းတမျိုးဖြစ်သည်။ ၁၈ ရာစုနှစ် အလယ်လောက်တွင် ပေါ်ပေါက်လာသည်ဟုဆိုသည်။ ဣတာလီနိုင်ငံမှ ပြင်သစ်နိုင်ငံ၊ ထိုမှ အင်္ဂလန်နိုင်ငံသို့ တဆင့်ပြီးတဆင့် ရောက်ရှိကာ၊ ယခုအခါ ဒေါ်မင်နိုကစားခြင်းသည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့လျက်ရှိသည်။

ဒေါ်မင်နိုကို သစ်သား သို့မဟုတ် အခြားပစ္စည်းမာ တခုခုဖြင့် ကက် ပုံသဏ္ဍာန် ပြုလုပ်ထားသည်။ ထို ကက် ၂၈ ခုနှင့် ကစားရသည်။ ကက်တို့၏အရွယ်မှာ အလျား ၂ လက်မ၊ အနံ ၁ လက်မနှင့် ထု လက်မ တမတ်ခန့်ဖြစ်သည်။ ကက်အသီးသီး၏ တဖက်မျက်နှာလယ်တွင် အလယ်မှ ကန့်လန့်ဖြတ် မျဉ်းတခု သားထားသည်။ ဤသို့မျဉ်းသားခြင်းဖြင့်ဖြစ်ပေါ်သော စတုရန်းကွက်တို့၌ အပွင့်များ ဖော်ထားလေသည်။ အပွင့်များမှာ ၆၊ ၆။ ၆၊ ၅။ ၆၊ ၄။ ၆၊ ၃။ ၆၊ ၂။ ၆၊ ၁။ ၆၊ ၀။ ၅၊ ၅။ ၅၊ ၄။ ၅၊ ၃။ ၅၊ ၂။ ၅၊ ၁။ ၅၊ ၀။ ၄၊ ၄။ ၄၊ ၃။ ၄၊ ၂။ ၄၊ ၁။ ၄၊ ၀။ ၃၊ ၃။ ၃၊ ၂။ ၃၊ ၁။ ၃၊ ၀။ ၂၊ ၂။ ၂၊ ၁။ ၂၊ ၀။ ၁၊ ၁။ ၁၊ ၀။ ၀၊ ၀။ ဟူ၍ ၂၈ မျိုးရှိသည်။ (၀) မှာ အပွင့်မပါ ဗလာသက်သက်ဖြစ်၏။ အပွင့်များသောကက်သည် အပွင့်နည်းသောကက်ထက်ကြီးသည်ဟု သတ်မှတ်သဖြင့်၊ ကက်ကြီး၊ ကက်သေးကို အပွင့်အရေအတွက်လိုက်၍ ခွဲခြားခေါ်ဆိုရလေသည်။ ပွင့်တူယှဉ်၍နေသော ကက်ကို ကက်စုံဟုခေါ်၏။

သာမန်အားဖြင့် ဒေါ်မင်နိုကစားကြသော ကစားနည်းမှာ လွယ်ကူပေသည်။ အပွင့်ဖက်ကို မှောက်ထားလျက်



အီတာလျံလူမျိုးတို့၏ ဒေါ်မင်နိုခေါ် အိမ်တွင်းကစားနည်းတမျိုး

ကစားသူများက ကက်များရောနှောသွားစေရန် မွှေပေးရ၏။ ထိုသို့မွှေရာမှ လက်ထိပ်လူရွေးရန် ကစားသူများသည် ကက်တခုစီ ဆွဲယူလိုက်ရ၏။ အပွင့်အကြီးဆုံးရသောသူသည် လက်ထိပ်လူအဖြစ်ဖြင့် ကစားရန် သတ်မှတ်လေ့ရှိ၏။ လက်ထိပ်လူရွေးပြီးနောက် ကက်များကို ထပ်မံ၍မွှေရပြန်သည်။ နှံ့စပ်အောင်မွှေပြီးသည့်အခါ၊ တဦးလျှင် ကက်ခုနစ်ခုစီ၊ ကျရာဆွဲ၍ ယူရ၏။ ထိုသို့ယူပြီးနောက် ကျန်သောကက်များကို အလယ်ပုံအဖြစ်ဖြင့် ထားရသည်။

လက်ထိပ်လူသည် အကြီးဆုံးသောကက်ကို အလျင်ချ၍ ကစားရ၏။ အကြီးဆုံးကက်ကို အလျင်ချ၍ကစားခြင်းမှာ ပွဲအပြီးတွင် အပွင့်လက်ကျန် အနည်းအများကိုလိုက်၍၊ အရှုံးအနိုင် ဆုံးဖြတ်သောကြောင့်ပင်ဖြစ်သည်။ လက်ထိပ်လူချထားသောကက်ကို၊ နောက်လူသည် အပွင့်ပါသောကက်ဖြင့် ဆက်ပေးရလေသည်။ ပုံစံအားဖြင့် လက်ထိပ်လူသည် ၄၊ ၅ ပွင့်ပါသောကက်ကို ချကစားလျှင်၊ နောက်လူသည် ၄ နှင့် ၅ ပွင့်တို့ပါသော ကက်တခုခုကို ၄ ပွင့်၊ ၄ ပွင့်ချင်း သို့မဟုတ် ၅ ပွင့်၊ ၅ ပွင့်ချင်း ဆက်၍ချသွားရ၏။ ၄ ပွင့်စုံ၊ ၅ ပွင့်စုံရှိလျှင်၊ ၄ ပွင့်ထိပ်မှသော်၎င်း၊ ၅ ပွင့်ထိပ်မှသော်၎င်း၊ ကန့်လန့်ဖြတ်၍ချကာ ကစားသွားနိုင်သည်။ ပွင့်စုံချနိုင်သောသူသည် အချိုစည်းကမ်းများအရ၊ ပွင့်စုံနှင့် အခြားအပွင့်တူကက်ကိုဆက်၍ တလက်အပို ချကစားနိုင်ခွင့်ရှိလေသည်။ အကယ်၍ ကစားသူတဦးသည် အပွင့်တူကက်ကို ဆက်၍ မပေးနိုင်ခဲ့သော်၊ (ပန်းပေးကာ) တလက်ကျော်ပေးလိုက်ရ၏။ သို့မဟုတ် အလယ်ပုံမှ အပွင့်တူကက်ရသည့်တိုင်အောင် ဆွဲယူကာ ဆက်ပေးရလေသည်။ လက်ထဲရှိကက်အားလုံးကို ပဌမကုန်အောင် ချကစားသွားနိုင်သူသည် အနိုင်ရလေသည်။ နှစ်ယောက်ထက်ပို၍ ကစားသည့်ပွဲဖြစ်လျှင်၊ ကက်ကုန်သွားသူကို ချန်လှပ်၍၊ ကျန်လူတို့သည် အပွင့်လက်ကျန်နည်းသူက အပွင့်လက်ကျန်များသူကို အမှတ်နှင့် အနိုင်ယူကြလေသည်။

**ဒေါ်မောက်ကြွက်။** ။ဒေါ်မောက်ကြွက်သည် ရှဉ့်နှင့် အလွန်တူသည်။ ယင်း၏ ဇီဝဗေဒအမည်မှာ 'မက်စကာဒီနပ် အဗယ်လန်နေးရီယပ်' ဖြစ်သည်။ သစ်ပင်များပေါ်၌နေ၍ သစ်သီးသစ်နှံနှင့် ခုံမာသီးများကို သေးငယ်သောသွားများဖြင့် ကိုက်ယူစားသောက်တတ်၏။ အမူအရာမှာလည်း ရှဉ့်နှင့်တူသည်။ (ရှဉ့် — ရှူ။) နောက်ခြေပေါ်တွင်ထိုင်လျက် အစာကို ရှေ့ခြေဖြင့်ကိုင်၍ စားတတ်၏။ ညအခါ၌သာ ကျက်စားသောသတ္တဝါဖြစ်၏။

ဒေါ်မောက်ကြွက်တို့သည် သစ်ပင်ချုံပုတ်များပေါ်တွင်



သဏ္ဍာန်ရော မူဟန်ပါ ရှဉ့်နှင့်တူသော ဒေါ်မောက်ကြွက်

အသိုက်လုပ်၍နေတတ်ကြသည်။ ဒေါမောက်ကြွက်ကလေး များသည်။ မွေးခါစတွင် မျက်စိမမြင်ကြချေ။ ချမ်းအေး သောဒေသများ၌ ဆောင်းရာသီမတိုင်မီကပင် အသီးအနှံ ကို စုဆောင်းကာ ဆောင်းရာသီရောက်သောအခါ အသိုက် အတွင်း၌သာ နေကြ၏။ အသိုက်မအောင်းမီ အလွန်ဆူဖြိုး လာတတ်၍ အချို့လူများက သတ်ဖြတ်စားလေ့ရှိကြသည်။ တနှစ် နှစ်ကြိမ် သားမွေးသည်။ တကြိမ်လျှင် များသော အားဖြင့် ၄ ကောင်မွေးတတ်၏။ မွေးခါစတွင် မျက်စိမမြင် သော်လည်း၊ မကြာမီပင် မိမိတို့ဘာသာ အစာရှာစားတတ် ကြသည်။ အအိပ်အလွန်ကြီး၏။ ဒေါမောက်ကြွက်တွင် ကြီးမားတောက်ပြောင်သော မျက်စိ၊ ထူထဲသော အညို ရောင် အမွေး၊ ရှည်လျားသော အမြီးရှိသဖြင့် ချစ်စရာ ကောင်းသောကြောင့် အချို့လူတို့က ယဉ်ပါးအောင်ပြုလုပ် ၍ မွေးမြူထားကြလေသည်။

**ဒေါလတန်၊ ဂျွန်** (ခရစ် ၁၇၆၆–၁၈၄၄)။ ။ဂျွန် ဒေါလ တန်သည် အနုမြူယူဆချက်ကို ဦးစွာကြံဆခဲ့သော ဓာတု ဗေဒ ပညာရှင်ဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် ၁၇၆၆ ခုနှစ် စက် တင်ဘာလ ၆ ရက်နေ့၌ ကင်ဗာလန်နယ်၊ အီးဂဲဖီးမြို့တွင် ဖွားမြင်သည်။ ငယ်စဉ်ကပင် သင်္ချာအတတ်နှင့် သဘာဝတ္ထ ပညာရပ်များကို ဝါသနာထုံခဲ့သည်။ သို့ဖြစ်၍ သူသည် မန် ချက်စတာမြို့၊ ယထာဘူတနှင့် စာပေအသင်းကြီးနှင့်ဆက် သွယ်ကာ ရှာဖွေတွေ့ရှိသမျှ ပညာရပ်များစွာတို့ကို ရေး



အနုမြူယူဆချက်ကို ဦးစွာကြံဆခဲ့သူ ဂျွန် ဒေါလတန်

သား၍ ထိုအသင်းသို့ ပေးပို့ခဲ့သည်။ သူသည် ဓာတ်ချိုး ဆတိုး နိယာမကို တွေ့ရှိသူဖြစ်၍၊ ထိုနိယာမကို အခြေပြုကာ အနုမြူယူဆချက်ကို စတင် ကြံဆခဲ့လေသည်။

ဒေါလတန်သည် စက္ခုအာရုံ ချွတ်ယွင်းမှုကြောင့် အရာ ဝတ္ထုတို့၏ အသွေးအရောင်ကို ခွဲခြားမသိနိုင်ခဲ့ချေ။ ထို ကြောင့် ၁၇၉၄ ခုနှစ်တွင် ထိုသို့အရောင်မြင်မှားခြင်း သဘာ ဝကို စူးစမ်း၍ စာတအုပ် ရေးသားပြုစုခဲ့သည်။

ဒေါလတန်သည် မန်ချက်စတာမြို့တွင် သင်္ချာဆရာအဖြစ် ကြာမြင့်စွာ ဆောင်ရွက်ခဲ့သည်။ ထိုမြို့၌ပင် ၁၈၄၄ ခုနှစ် ဇူလိုင်လ ၂၇ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဒေါသ (အလင်္ကာ)**။ ။ကဗျာလင်္ကာ ဖွဲ့နွဲ့ရာတွင် အပြစ် အနာများကို ဒေါသဟူ၍ ပါဠိအလင်္ကာကျမ်း၊ မြန်မာ အလင်္ကာကျမ်းတို့တွင် ဖေါ်ပြသည်။ အပြစ်အနာပါသော ကဗျာကို ဒေါသသင့်သည်ဟုဆို၍၊ အပြစ်သန့်စင်သော ကဗျာကို ဒေါသလွတ်သည်ဟုဆိုသည်။

ဒေါသသည် ကဗျာလင်္ကာစာပေတို့တွင် စာပိုဒ်တို့၌ဖြစ် ပေါ်တတ်သော ပဒဒေါသ ၈ ပါး၊ ဝါကျတို့၌ဖြစ်ပေါ်တတ် သော ဝါကျဒေါသ ၉ ပါး၊ ဝါကျ၏အနက်၌ဖြစ်ပေါ်တတ် သော ဝါကျတ္ထဒေါသ ၆ ပါးဟူ၍ ခွဲခြားထားသည်။

(က) စာပိုဒ်တို့၌ ဖြစ်ပေါ်တတ်သော ပဒဒေါသ ၈ ပါး မှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ဆိုလိုရင်းစကားအဓိပ္ပါယ်နှင့် ဆန့်ကျင်ဖက် အနက် ထွက်သောအပြစ်ကို ဝိရုဒ္ဓတ္ထန္တရဒေါသ။

၂။ မတန်မရာသော ဂုဏ်ဖြင့် ခြီးမွမ်းရေး သားသော အပြစ်ကို အဗျုတ္ထဒေါသ။

၃။ အနက်ပေါ် လွင်သင့်လျက် ခက်ခဲစွာ တိမ်မြုပ် ကွယ် ဝှက် ရေးသားခြင်းအပြစ်ကို ကိလိဋ္ဌဒေါသ။

၄။ ကာလဒေသအလျောက်ဖြစ်သော အသုံးအနှုန်းတို့ နှင့် ဆန့်ကျင်အောင် ရေးသား စပ်ဆိုခြင်းအပြစ်ကို ဝိရောဓိ ဒေါသ။

၅။ သရုပ်သကန်မပါဘဲ တိုက်ရိုက် ထင်ရှားခြင်းမရှိ၊ ပုဒ် တပါးကို ဆောင် ယူမှ အဓိပ္ပါယ်ပေါ် လွင်အောင် ဖွဲ့ဆိုခြင်း အပြစ်ကို နေယျဒေါသ။

၆။ အထူးဖေါ် ထုတ်ပြဆိုမှ ထင်ရှားမည်ဖြစ်လျက်၊ ရှင်း လင်းဖေါ်ပြချက် ဝိသေသနပုဒ်မပါသောအပြစ်ကို ဝိသေ သနာပေက္ခ ဒေါသ။

၇။ ဂုဏ်ရှိသည့်အလျောက် ခြီးမြှောက်ခြင်းမပြုဘဲ ဖွဲ့ဆို ခြင်းအပြစ်ကို ဟီနတ္ထကဒေါသ။

၈။ အနက်အဓိပ္ပါယ်မရှိဘဲ လင်္ကာကာရန်ရရုံမျှ စပ်ဆို သော စကားလုံးများကြောင့် အလုံးပို ထည့်သွင်းသော အပြစ်ကို အနတ္ထကဒေါသဟူ၍ခေါ် သည်။

(ခ) ဝါကျတို့၌ဖြစ်ပေါ်တတ်သော ဝါကျဒေါသ ၉ ပါး မှာ၊

၁။ စကားတူ အနက်တူ အထပ်ထပ်ဆိုခြင်း၏အပြစ်ကို ကေတ္ထဝါကျဒေါသ၊ သို့မဟုတ် ပုနရုတ္တိဒေါသ။

၂။ စကားစဉ်မပြည့်စုံဘဲ ကျန်နေခြင်းအပြစ်ကို ဘဂ္ဂရီတိဝါကျဒေါသ။

၃။ အဓိပ္ပါယ်စပ်ရမည့်ပုဒ်သည် ဝေး၍ မဆီဆိုင်သော ပုဒ်ကို နီးကပ်စွာစပ်ဆိုခြင်းအပြစ်ကို ဗျာကိဏ္ဏဝါကျဒေါသ။

၄။ ရိုင်းပြသော စကားအသုံးအနှုန်းပါသောအပြစ်ကို ဂါမ္မဝါကျဒေါသ။

၅။ ဖြတ်ပိုင်းရွတ်ဆိုသင့်ရာ၌ မရပ်ဘဲ စီကုံးရေးသားခြင်း အပြစ်ကို ယတိဟီနဝါကျဒေါသ။

၆။ အစဉ်အတိုင်းမဟုတ်ဘဲ ချွတ်ယွင်းစွာ ဖွဲ့စပ်ခြင်း အပြစ်ကို ကမစ္စုတဝါကျဒေါသ။

၇။ ထိုက်တန်သည်ထက်ပို၍ ဖွဲ့ဆိုခြင်းအပြစ်ကို အတိဝုတ္တဝါကျဒေါသ။

၈။ ဝါကျတခုလုံး အဓိပ္ပါယ်ကောက်မရအောင် ရေးဖွဲ့ခြင်း အပြစ်ကို အပေတတ္ထဝါကျဒေါသ။

၉။ ယုတ်ကြမ်းသောစကားများကို ဖွဲ့ဆိုခြင်း၊ အက္ခရာ အသံ ကြမ်းတမ်းခြင်းအပြစ်ကို သဗန္ဓဖရုသဝါကျဒေါသဟူ၍ ဖြစ်သည်။

(ဂ) ဝါကျအနက်တို့၌ဖြစ်ပေါ်တတ်သော ဝါကျတ္ထဒေါသ ၆ ပါးမှာ၊

၁။ အစပ်အဟပ် ရှေ့နောက် မညီညွတ်သော အပြစ်ကို အပက္ကမဝါကျတ္ထဒေါသ။

၂။ မိမိကိုယ်ကို ခြီးမွမ်းခြင်းနှင့် ရှေ့နောက် စကားမညီခြင်းအပြစ်ကို ဩစိတျဟီနဝါကျတ္ထဒေါသ။

၃။ ကာ၊ ကတ္တား၊ ဝိဘတ် ကာရန်၊ အစဉ်မညီသောအပြစ်ကို ဘဂ္ဂရီတိဝါကျတ္ထဒေါသ။

၄။ မကွဲမပြား သံသယဖြစ်ဖွယ် ရေးသားခြင်းအပြစ်ကို သသံသယဝါကျတ္ထဒေါသ။

၅။ အဓိပ္ပါယ်အကောက်ခက်၍ ကြမ်းတမ်းစွာ စပ်ဆိုသောအပြစ်ကို ဂါမ္မဝါကျတ္ထဒေါသ။

၆။ လင်္ကာအသွားအလာ စံနစ်ပျက်၍ ဥပမာ မဆီမဆိုင် ဖြစ်အောင် ရေးသားသောအပြစ်ကို ဒုဋ္ဌာလင်္ကာရဝါကျတ္ထဒေါသဟူ၍ဖြစ်သည်။

ကဗျာလင်္ကာတို့တွင် ဒေါသအမျိုးမျိုးမှ ကင်းလွတ်အောင် ရေးသားရန် စည်းကမ်းစံနစ် သတ်မှတ်ထား၍၊ ဒေါသ သင့်မည့် အရေးအသားမျိုးမှ ကင်းလွတ်အောင် ဒေါသ ပရိဟာရခေါ် ဖြေရှင်းရေးသားနည်းများကိုလည်း ဖော်ပြထားသည်။ ဒေါသကင်းလွတ်သောကဗျာကို ဂုဏ်မြောက်သည်ဟု မှတ်ယူလေ့ရှိသည်။ (ဂုဏ် ၁၀ ပါး — ရှု။) ပါဠိအလင်္ကာကျမ်းလာ ဒေါသများကို မြန်မာကဗျာလင်္ကာများနှင့် စကားပြေ၌လည်း အသုံးအစွဲပြုသည်။ မြန်မာစာပေနှင့် ကဗျာလင်္ကာများအတွက် ပါဠိအလင်္ကာကျမ်းလာ ဒေါသများနှင့် မတူညီသော ဒေါသမျိုးနှင့် ပါဠိအလင်္ကာ ဒေါသမျိုးတွင် ပိုသောဒေါသ၊ လိုသောဒေါသများကို စိစစ်လျက် ကွယ်လွန်သူ ပညာဝန်ထောက်ဟောင်း ဦးဖိုးစိန်က မြန်မာဒေါသများအဖြစ် သူ၏ကဗျာဖွဲ့ထုံးကျမ်းတွင် တနည်း ဖော်ပြခဲ့ဘူးသည်။

**ဒိုဒေး, အဲလဖွန်** (ခရစ် ၁၈၄၀–၁၈၉၇)။ ။အဲလဖွန် ဒိုဒေးသည် ပြင်သစ်ဝတ္ထုနှင့် ပြဇာတ်ရေးဆရာကြီးဖြစ်သည်။ သူရေးသားသောစာတို့တွင် ဝတ္ထုတိုသည် ပိုမိုထင်ရှား၍၊ ယင်းတို့အနက် 'တနင်္လာနေ့ ပုံပြင်များ' နှင့် 'ကျွန်ုပ်၏ စက်ရုံမှ ပေးပို့သောစာများ' သည် ကမ္ဘာကျော် ထင်ရှားလေသည်။ သူရေးသားသောစာများကို အင်္ဂလိပ်ဝတ္ထုရေးဆရာ ချား ဒစ်ကင်း၏ စာများနှင့် နှိုင်းခိုင်းလေ့ရှိကြသည်။ (ဒစ်ကင်း, ချား — ရှု။)

ဒိုဒေးကို ခရစ် ၁၈၄၀ ပြည့်နှစ်တွင် နီးမ မြို့၌ မွေးဖွားသည်။ သူ၏ငယ်စဉ်တောင်ကျေး ကလေးဘဝသည် စိတ်ချမ်းမြေ့ဖွယ်ရာကောင်းသော ဘဝမဟုတ်ချေ။ ဆင်းရဲဒုက္ခအမျိုးမျိုးကို ကြုံတွေ့ရပြီးနောက် ကျောင်းဆရာလုပ်ခဲ့သည်။ သို့သော် အလုပ်၌မပျော်ပိုက်သဖြင့် ပါရစ်မြို့သို့ အလုပ်ရှာရန် ရောက်ရှိလာလေသည်။ အလုပ်ရှာနေခိုက်တွင် ကဗျာစာအုပ် တ အုပ် ကို ရေးသားထုတ်ဝေခဲ့ရာ၊ ထိုကဗျာစာအုပ်ကြောင့်ပင်လျှင် မြို့စားတဦးနှင့် အကြောင်းအပေါင်းသင့်၍ အလုပ်ရခဲ့သည်။ ထိုသည်မှစ၍ ဝတ္ထုနှင့် ပြဇာတ်အရေးအသားတို့ကို လိုက်စားခဲ့သဖြင့် အလွန် နာမည်ကျော်ကြားလာလေသည်။



ကမ္ဘာကျော် ပြင်သစ်ဝတ္ထုနှင့် ပြဇာတ်ရေးဆရာကြီး အဲလဖွန် ဒိုဒေး




အမျိုးပျောက်ကွယ်သွားပြီဖြစ်သော မောရစ်ရှကျွန်းမှ ဒိုဒိုငှက်

**ဒိုဒိုငှက်။** ။၁၅၀၇ ခုနှစ်တွင် နယ်သစ်ရှာဖွေရန် ပင်လယ်ခရီးထွက်လာကြသော ပေါ်တူဂီလူမျိုးများသည် အိန္ဒိယသမုဒ္ဒရာရှိ မောရစ်ရှကျွန်း၌ အလွန်အကျည်းတန်သော ငှက်တမျိုးကို တွေ့ရှိလေသည်။ ထိုငှက်ကို ‘ဒိုဒို’ ဟု အမည်ပေးကြ၏။ ‘ဒိုဒို’ ၏အဓိပ္ပါယ်မှာ အလွန် ရိုးအသော သတ္တဝါဟု ဆိုလိုပေသည်။ ဒိုဒို ဆိုသော ငှက်မှာ နာမည်နှင့်လိုက်အောင်ပင် ရိုးအ လှသည်။ လူသူမနီး၊ အထီးတည်းသော သမုဒ္ဒရာထဲရှိ ကျွန်းပေါ်၌ စိုးရိမ်ရမည့် ရန်သူမရှိဘဲ၊ နှစ်ပေါင်းများစွာနေလာခဲ့သဖြင့် ရန်သူများနှင့်တွေ့သောအခါ မရှောင်တတ်၊ မတိမ်းတတ်နှင့် ရန်သူလက်တွင်းသို့ သက်ဆင်းရသည်။ ကျွန်းပေါ်သို့ရောက်လာသော လူများနှင့် အတူတကွ ပါလာသော ခွေးများ၊ ကြောင်များ၊ ဝက်များနှင့် အခြား တိရစ္ဆာန်များ၏ ရန်ကို ဒိုဒို ငှက်များသည် မတွန်းလှန်နိုင်ကြချေ။ ထိုကြောင့်ပင်လျှင် နှစ်ပေါင်းကြာညောင်းလာခဲ့သော်၊ ဒိုဒို ငှက်မျိုးသည် တိမ်ကော ပျောက်ကွယ်သွားရလေတော့သည်။

ဒိုဒိုငှက်သည် လုံးဝ မပျံသန်းတတ်ချေ။ ကိုယ်လုံးမှာ လုံး၍ တုတ်ခိုင်သည်။ ခြေထောက်များသည် တို၍၊ ကိုယ်၏ အလေးကို မနိုင်တနိုင် ထမ်းနေရသကဲ့သို့ ထင်ရ၏။ အမြီး၌ ကောက်ကွေးသော အမွေးတောင်များ စု၍နေသည်။ တောင်ပံများမှာ သေး၍ ပျံသန်းရန်အတွက် အသုံးမဝင်ချေ။ ဦးခေါင်း ကြီးမား၍ အဖျားကောက်ချိတ်သော နှုတ်သီးရှိသည်။

ကြွင်းကျန်သောအရိုးများဖြင့် ဆက်စပ်ပြုလုပ်ထားသော ဒိုဒိုငှက်၏ အရိုးပုံသဏ္ဌာန်ကို ယခုအခါ လန်ဒန်မြို့ရှိ ဗြိတိသျှပြတိုက်တွင် တွေ့ရှိနိုင်လေသည်။ ဒိုဒိုငှက်၏ ဇီဝဗေဒအမည်မှာ ‘ဒိုင်ဒပ် အင်နက်တပ်’ ဖြစ်သည်။

**ဒိုဗာမြို့။** ။ဒိုဗာမြို့သည် အင်္ဂလန်ပြည် အရှေ့တောင်ပိုင်း ကင့်နယ် အပါအဝင်ဖြစ်သော ပင်လယ်ကမ်းခြေရှိ သင်္ဘောဆိပ်မြို့ဖြစ်သည်။ ဒိုဗာမြို့နှင့် မျက်နှာချင်းဆိုင်တွင် ပြင်သစ်နိုင်ငံ သင်္ဘောဆိပ်ဖြစ်သော ကဲလေးမြို့ တည်ရှိသည်။ ဒို ဗာ နှင့် ကဲလေးမြို့တို့ကို ၂၁ မိုင်မျှသာ ကျယ်သော ဒိုဗာ



ဒိုဗာမြို့ဆိပ်ကမ်းကို ရဲတိုက်ဟောင်းများနှင့်တကွ ဤသို့ရှုမြင်နိုင်ပေသည်။

ရေလက်ကြားက ပိုင်းခြားထားသည်။ ဒိုဗာရေလက်ကြားသည် အင်္ဂလိပ်ရေလက်ကြား၏ တစိတ်ဒေသဖြစ်သည်။ စစ်မက်ဖြစ်ပွားချိန်တွင် ဒိုဗာမြို့သည် စခန်းကောင်းတခု ဖြစ်သည့်အားလျော်စွာ ပဋ္ဌမကမ္ဘာစစ်အတွင်းက ထိုဒေသကို ရေငုပ်သင်္ဘောတပ်စခန်းအဖြစ်ဖြင့် အသုံးပြုခဲ့ကြသည်။ ရှေးခေတ်က ဒိုဗာမြို့ကို ရောမလူမျိုးတို့ ဝင်ရောက်သိမ်းပိုက်အုပ်စိုးခဲ့သည်။ ထိုကြောင့် ထိုမြို့တွင် ရောမလူမျိုးတို့၏ ရဲတိုက်များကို မျှော်စင်များနှင့်တကွ ယနေ့တိုင် တွေ့ရှိနိုင်ပေသည်။ ဒိုဗာမြို့၏ အကြီးဆုံးသော လုပ်ငန်းကား သင်္ဘောဆောက်သောလုပ်ငန်းဖြစ်၏။ လူဦးရေမှာ ၁၉၅၃ ခုနှစ် စာရင်းအရ ၃၄,၇၁၀ ယောက်ဖြစ်သည်။

**ဒိုမီနီကန် သမတနိုင်ငံ။** ။ဒိုမီနီကန် သမတနိုင်ငံသည် ကယ်ရစ်ဗျန်ပင်လယ်အတွင်း၌ရှိ ဟစ္စပါညိုလာခေါ် ဆန်တိုဒိုမင်ဂိုကျွန်းပေါ်တွင် တည်ရှိသည်။ ထိုကျွန်းသည် အမ်တီလီကျွန်းစုကြီးတွင် ဒုတိယအကြီးဆုံး ကျွန်းဖြစ်၍၊ ကျူးဗားကျွန်းနှင့် ပွားတိုရီးကိုးတို့အကြား၌ တည်ရှိလေသည်။ ဟစ္စပါညိုလာကျွန်း၏ အရှေ့ဖက် ၃ ပုံ ၂ ပုံခန့်သည် ဒိုမီနီကန် သမတနိုင်ငံဖြစ်၍၊ ကျန် အနောက်ဖက်၏ ၃ ပုံ ၁ ပုံမှာမူ ဟေးတီး သမတနိုင်ငံဖြစ်သည်။

ဒိုမီနီကန် သမတနိုင်ငံသည် နယူးယော့မှ မိုင်ပေါင်း ၁၂၂၅ မိုင် ကွာဝေး၍၊ ကိုလုံးဗီးယားမှ ၃၆၄ မိုင် ကွာဝေး၏။ ထိုနိုင်ငံ၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၈,၇၁၁ မိုင်ဖြစ်၏။ ကမ်းရိုးတန်းသည် မိုင်ပေါင်း ၈၇၀ ရှည်လျား၍၊ အငူစွန်းများ၊ ပင်လယ်အော်များနှင့် သန္တာကျောက်တန်းများ ရှိလေသည်။ သာယာကြည်နူးဖွယ်ဖြစ်သော ရေမြေတောတောင် ရှုမျှော်ခင်းများကြောင့်၊ ဟစ္စပါညိုလာကျွန်းသည် ထင်ရှား၏။

ဒိုမီနီကန် သမတနိုင်ငံတွင် တောင်တန်းလေးသွယ် ရှိလေရာ၊ အရှည်ဆုံးမှာ အလယ်ကော်ဒီလားရားဖြစ်၏။ ထိုတောင်တန်း၌ရှိ ထရူဟီးယိုတောင်ထွတ်သည် ပေပေါင်း ၁၀,၃၀၀ မြင့်လေသည်။ အင်တီလီကျွန်းစုများတွင်ရှိသော တောင်များအနက် အမြင့်ဆုံးတောင်ပင်ဖြစ်၏။ ထိုတောင်များအကြားတွင် မြေသြဇာကောင်းသော ချိုင့်ဝှမ်းကြီးများရှိသည်။ ထင်ရှားသောမြစ်များမှာ ယားကေဒဲနော့တေ၊ ယူနာ၊ ယားကေဒဲဆူးနှင့် အိုဇာမာမြစ်တို့ဖြစ်သည်။ ဒိုမီနီကန်သမတနိုင်ငံသည် အပူပိုင်း၌ ကျရောက်လျက်ရှိခြင်းကြောင့်၊ ပူနွေးသော ရာသီဥတုရှိ၏။ သို့သော် ပင်လယ်မှတိုက်ခတ်သော ကုန်သည်လေကြောင့် အပူရှိန် မပြင်းလှချေ။ နှစ်စဉ် မေလမှ နိုဝင်ဘာလအထိ မိုးရွာသွန်း၏။ သို့သော် အချို့သောဒေသများတွင်မူ မိုး အလွန်နည်းပါးလေသည်။

ဒိုမီနီကန် သမတနိုင်ငံတွင် မြေသြဇာ အလွန်ကောင်း၍၊ စိုက်ပျိုးနိုင်သောမြေပေါင်း စတုရန်းမိုင် ၉,၉၀၀ မျှရှိ၏။ သို့သော် ယခုအခါတွင် စတုရန်းမိုင်ပေါင်း ၃,၇၀၀ မျှကိုသာ စိုက်ပျိုးလုပ်ကိုင်ကြ၏။ မြေကေပေါင်း ၂၉၇,၉၇၅ ကေကို ရေသွင်းစိုက်ပျိုးရ၏။ တောင်စောင်းများတွင်မူ အဖိုးတန်သော သစ်တောများ ဖုံးလွှမ်းလျက်ရှိ၏။ ဒိုမီနီကန် သမတနိုင်ငံသည် အဖိုးတန်ဓာတ်သတ္တုအမျိုးမျိုးထွက်ရှိရာ ဒေသလည်း ဖြစ်၏။ ရွှေနှင့် ကြေးနီကို အများအပြား တူးဖော်ရရှိ၏။ ဘော်၊ ပလက်တီနမ်၊ ရေနံ၊ သံ၊ သိန္ဓောဆားနှင့် ဖောက်ဆိုက်တို့လည်း ထွက်၏။

ထိုနိုင်ငံ၏ အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေးနှင့် ကျွဲနွားမွေးမြူရေးဖြစ်သည်။ ကြံကို အဓိကထား၍၊ အခြားစပါး၊ ပြောင်း၊ ဂျုံ၊ ကော်ဖီနှင့် ကိုကိုးပင်များကိုလည်း စိုက်ပျိုးကြသည်။ ကြံမှ သကြားထုတ်လုပ်ရေးလုပ်ငန်းသည် ထိုနိုင်ငံ၏ အချက်အခြာ လုပ်ငန်းကြီးပင်ဖြစ်သည်။ ဆပ်ပြာ၊ အထည်အလိပ်၊ ဖန်ထည်၊ သားရေထည်၊ ခြင်းတောင်းနှင့် အိုးလုပ်ငန်းများကိုလည်း လုပ်ကိုင်ကြ၏။ အဖိုးတန်ဆုံး ထွက်ကုန်မှာ သကြားဖြစ်၍၊ ကော်ဖီမှုန့်၊ ကိုကိုးမှုန့်၊ ချော့ကလက်နှင့် ဆေးရွက်တို့ကိုလည်း နိုင်ငံခြားသို့ အများအပြား တင်ပို့ရောင်းချရ၏။ အဝတ်အထည်၊ စည်သွတ်အစားအစာ၊ စက်ကရိယာများနှင့်ထင်းမီးဆီတို့ကို ဝင်ကုန်အဖြစ် ဝယ်ယူတင်သွင်းသည်။

ကူးသန်းသွားလာရေးအတွက် မီးရထားလမ်း၊ ကားလမ်းနှင့် လေကြောင်းလမ်းများရှိသည်။ စိုက်ပျိုးရေးခြံကြီးများ၏ သီးသန့် မီးရထားလမ်းများလည်းရှိ၏။ ကျယ်ပြန့်ကောင်းမွန်သောလမ်းမကြီး အများအပြားရှိသည်။ မြို့ကြီးများအတွက် တမြို့နှင့်တမြို့ ကားလမ်းနှင့် လေကြောင်း အဆက် အသွယ်များ ထားရှိ၏။

ဒိုမီနီကန် သမတနိုင်ငံ၏မြို့တော်မှာ စယူသတ် ထရူဟီးယိုဖြစ်သည်။ ထိုမြို့ကို မူလက ဆန်တိုဒိုမင်ဂိုဟုခေါ်သည်။ ၁၉၃၆ ခုနှစ်တွင် သမတ ထရူဟီးယိုသည် မြို့ကို အသစ်ပြန်လည် တည်ဆောက်သဖြင့်၊ သမတထရူဟီးယိုကိုဂုဏ်ပြုသောအနေဖြင့်၊ စယူသတ် ထရူဟီးယိုဟု မှည့်ခေါ်လေသည်။

လူဦးရေမှာ ၁၉၅၅ ခုနှစ် ဇူလိုင်လ ၁ ရက်နေ့တွင် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ၂,၄၀၃,၉၈၈ ယောက်ဖြစ်သည်။ လူဦးရေ ၅ ပုံ ၄ ပုံသည် ကျေးလက်တောရွာများတွင်သာ နေထိုင်ကြ၏။ ထိုပြင် လူဦးရေအများစုသည် စပိန်၊ နီးဂရိုးနှင့် အင်ဒီးယန်းတို့၏ အဆက်အနွယ်များဖြစ်သည်။ ယင်းတို့သည် စပိန်စကားကို အများဆုံးပြောဆို၍၊ ပြင်သစ်နှင့် အင်္ဂလိပ်စကားကိုလည်း အသင့်အတင့် ပြောဆိုကြသည်။ ဒိုမီနီကန် သမတနိုင်ငံတွင် နိုင်ငံတော်၏ အယူဝါဒမှာ ဗရင်ဂျီဂိုဏ်းဆိုင်ရာ ခရစ်ယန်အယူဝါဒဖြစ်၏။ သို့သော် လွတ်လပ်စွာကိုးကွယ်ခွင့်ကိုလည်း ခွင့်ပြုသည်။




ဒိုမီနီကန် သမတနိုင်ငံ တည်နေရာပြ မြေပုံ

ဒိုမီနီကန်သမတနိုင်ငံတွင်အခမဲ့ ပညာသင်ကြားရေးစံနစ်ကို လက်ခံကျင့်သုံးသည့်အပြင်၊ ကလေးသူငယ်တိုင်းကျောင်းသို့ တက်ရောက် ပညာသင်ကြားရေးအတွက်လည်း ဥပဒေများပြဋ္ဌာန်းထား၏။ နိုင်ငံတွင်း၌ မူလတန်းကျောင်းများ၊ အလယ်တန်းကျောင်းများ၊ ဆရာအတတ်သင်ကျောင်းများနှင့် အခြားကျောင်းများဟူ၍ အမျိုးမျိုးရှိသည်။ စယူသတ် ထရူဟီးယိုမြို့တွင် တည်ရှိသော ဆန်တိုဒိုမင်ဂို တက္ကသိုလ်သည် ကမ္ဘာသစ်တွင် ရှေးအကျဆုံးသော တက္ကသိုလ်ဖြစ်သည်။

နိုင်ငံအုပ်ချုပ်ပုံမှာ ၁၉၄၇ ခုနှစ်တွင် ထုတ်ပြန်ကျေညာခဲ့သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအရဖြစ်၏။ အုပ်ချုပ်ရေးအာဏာသည် သမတတွင် တည်လေသည်။ သမတကို ၅ နှစ်တကြိမ် တိုက်ရိုက် ရွေးကောက် တင်မြှောက်ရ၏။ ယင်း၏လက်အောက်တွင် အုပ်ချုပ်ရေးဌာနကြီးများကို တာဝန်ယူရသော နိုင်ငံတော်အတွင်းဝန် ၁၂ ဦးရှိသည်။ ကွန်ဂရက် ဥပဒေပြုလွှတ်တော်တွင် အဖွဲ့ဝင် ၂၃ ဦး ပါဝင်သည့် ဆီးနိတ်လွှတ်တော်နှင့် အဖွဲ့ဝင် ၅၂ ဦး ပါဝင်သည့် ပြည်သူ့လွှတ်တော်ဟူ၍ လွှတ်တော်နှစ်ရပ် ပါဝင်သည်။ အမတ်များကိုလည်း ၅ နှစ် တကြိမ်ကျပင် ရွေးကောက်တင်မြှောက်ရလေသည်။ ၁၉၄၂ ခုနှစ်တွင် ပြန်လည်ပြင်ဆင်သော ဥပဒေအရ အမျိုးသမီးများပါ မဲဆန္ဒပေးနိုင်ခွင့် ရရှိခဲ့ရာ၌ အမျိုးသမီး ၂ ဦးသည် ဆီးနိတ်လွှတ်တော်နှင့် ပြည်သူ့လွှတ်တော်တို့တွင် အမတ်အဖြစ် အသီး အသီး ရွေးကောက်ခြင်း ခံခဲ့ရလေသည်။ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ ဒီမိုကရေစီအုပ်ချုပ်ရေးမျိုးကို ပြဋ္ဌာန်းထားသော်လည်း၊ ၁၉၄၈ ခုနှစ်မှစ၍ နိုင်ငံတော် လုံခြုံမှု၊ နိုင်ငံတော် သက်သာချောင်ချိမှုတို့နှင့် စပ်လျဉ်းသည့် ကိစ္စအားလုံးတွင် ကွန်ဂရက်၏ သဘောတူညီမှု မရယူဘဲ လုပ်ကိုင်နိုင်ရန်၊ အထူးအခွင့်အာဏာများကို သမတသို့ ပေးအပ်ခဲ့သည်။ ၁၉၅၁ ခုနှစ်တွင် တဖန် နိုင်ငံ၌ အရေးတကြီး အခြေအနေ ဖြစ်ပေါ်နေပြီဟု ကျေညာနိုင်ခွင့်အာဏာနှင့် အုပ်ချုပ်ရေး အကြီးအကဲအပေါ် တွင် အခြေခံ ဥပဒေဆိုင်ရာ အကန့်အသတ်များအား ရပ်ဆိုင်းထားခွင့် အာဏာများ ပေးအပ်ခဲ့ပြန်လေသည်။

ခရစ္စတိုဖာ ကိုလံဗပ်သည် ဟစ္စပါညိုလာကျွန်းကို ၁၄၉၂ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့တွင် စတင်တွေ့ရှိခဲ့သည်။ ၁၄၉၆ ခုနှစ်၌ ကိုလံဗပ်၏အစ်ကို ဗာသောလိုမျူသည် နျူးဗာ အဇ္ဇဗဲလားမြို့ကို တည်ထောင်၍၊ အတည်တကျ အခြေစိုက်ခဲ့လေသည်။ ထိုမြို့သည် နောင်သောအခါ၌ ဆန်တိုဒိုမင်ဂိုဟုတွင်၏။ စယူသတ် ထရူဟီးယိုဟူသော လက်ရှိအမည်သည် ထို ဆန်တိုဒိုမင်ဂိုကို ပြောင်း၍မှည့်သောအမည်ဖြစ်၏။ စပိန်လူမျိုးများ စတင်အခြေစိုက် နေထိုင်သော အခါက ထိုကျွန်းပေါ်တွင် အာရဝက်ခေါ် အင်ဒီးယန်း လူရိုင်းတမျိုး နေထိုင်ကြသည်ကို တွေ့ရသော်လည်း၊ နှစ် အနည်းငယ်အတွင်း၌ တိမ်ကောသွားလေသည်။ မကြာမီပင် အခြားအင်ဒီးယန်းများနှင့် နီးဂရိုး ငွေဝယ်ကျွန်များကို စိုက်

ပျိုးရေးနှင့် သတ္တုတွင်းတူးဖေါ်ရေးလုပ်ငန်းများတွင် ခိုင်းစေရန်အတွက် ခေါ်ဆောင်လာခဲ့လေသည်။ ထိုအခါတွင် အင်ဒီးယန်းများအား ကျေးကျွန်မဖြစ်စေလိုသော ဒိုမီနီကန်ဘုန်းတော်ကြီးများနှင့် စပိန်တို့ မသင့်မတင့်ဖြစ်ပွားခဲ့၏။ ၁၇ ရာစုနှစ်များအတွင်းတွင် ပြင်သစ်တို့သည် ကျွန်း၏အနောက်ဖက်ပိုင်းသို့ လာရောက်အခြေစိုက်ပြန်လေသည်။ ထိုအပိုင်းသည် နောင်အခါတွင် ဟေးတီးတိုင်းပြည်ဟု တွင်၍၊ ယင်းကို ၁၆၉၇ ခုနှစ်တွင် စပိန်လူမျိုးတို့က ပြင်သစ်တို့အား ပေးအပ်လိုက်ရလေသည်။ ၁၇၉၅ ခုနှစ်တွင် အရှေ့ဖက်ပိုင်းကိုလည်း ပြင်သစ်တို့ ရရှိခဲ့လေသည်။ ထိုအခိုက် နီးဂရိုးတဦး ခေါင်းဆောင်၍ ဟေးတီးတွင် သူပုန်ထလေရာ၊ စပိန်လူမျိုးအချို့ပင်လျှင် ကျွန်းမှထွက်ပြေးရ၏။ ထိုနောက် ဟေးတီးလူမျိုးများသည် ဆန်တို ဒိုမင်ဂိုနိုင်ငံကို ၁၈၀၁ ခုနှစ်တွင် သိမ်းယူလေ၏။ နပိုလီယန်လည်း စစ်တပ်များစေလွှတ်၍ နှိမ်နင်းကာ၊ ထိုကျွန်းကို ပြန်လည်သိမ်းပိုက်သည်။ ၁၈၀၈ ခုနှစ်အထိ ပြင်သစ်များ ပြန်လည်ကြီးစိုးနိုင်ခဲ့လေသည်။ သို့သော် မကြာမီပင် စပိန်တို့သည် ဗြိတိသျှအကူအညီဖြင့် ဆန်တို ဒိုမင်ဂိုနိုင်ငံကို ပြန်လည် သိမ်းပိုက်နိုင်ခဲ့ပြန်သည်။ ၁၈၂၁ ခုနှစ်တွင် စပိန်တို့သည် လွတ်လပ်ရေးကြေညာပြီးနောက်၊ ၁၈၂၂ ခုနှစ်တွင် တဖန် ဟေးတီး လက်တွင်းသို့ ကျရောက်ရပြန်သည်။ ၁၈၄၄ ခုနှစ်၌မူ ဟေးတီး၏ လက်အောက်မှ လွတ်မြောက်ပြီးလျှင်၊ ဒိုမီနီကန် သမတ နိုင်ငံကို ထူထောင်၍၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတရပ်ကို ရေးဆွဲခဲ့ကြ၏။

၁၈၅၀ ပြည့်နှစ်တွင် ဂရိတ်ဗြိတိန်သည် ဒိုမီနီကန် သမတနိုင်ငံကို ပဌမဦးဆုံး အသိအမှတ်ပြုခဲ့၏။ ဒိုမီနီကန်၏ ပဌမသမတဖြစ်သူ ပေသရို ဆန်တာနာသည် ၁၈၆၁ ခုနှစ်တွင် ဟေးတီး၏ရန်ကို ကြောက်သဖြင့်၊ ဒိုမီနီကန်ကို စပိန်ကိုလိုနီအဖြစ် ပြန်လည်အုပ်ချုပ်ပါရန် စပိန်တို့ထံ အကူအညီ တောင်းခဲ့လေသည်။ သို့သော် ပြည်သူလူထုက တော်လှန်ပုန်ကန်သဖြင့်၊ ၁၈၆၅ ခုနှစ်တွင် စပိန်စစ်တပ်များ ထွက်ခွာသွားလေသော်၊ ဒိုမီနီကန်နိုင်ငံလည်း ပြန်လည် လွတ်လပ်ခဲ့လေသည်။ အုပ်ချုပ်မှုမကောင်းသောကြောင့် ထိုနိုင်ငံခေါင်းဆောင်များက အမေရိကန် ပြည်ထောင်စုနိုင်ငံ လက်သို့ အပ်လိုကြသော်လည်း၊ အမေရိကန် အထက်လွှတ်တော်က လက်မခံနိုင်ချေ။ ထိုအတောအတွင်း ဥရောပနိုင်ငံများမှ ငွေအမြောက်အမြား ချေးယူထားခဲ့ပြီးနောက် ပြန်မဆပ်နိုင်သဖြင့် ဘဏ္ဍာရေးအခြေအနေ အတော်ဆိုးဝါးနေခဲ့၏။ အချို့သော ကြွေးရှင်နိုင်ငံများက ယင်းတို့၏အကြွေးများ ပြန်ရစေရန်အတွက် ဒိုမီနီကန်နိုင်ငံအား သိမ်းယူမည်တကဲကဲနှင့် ရှိနေသောကြောင့်၊ ၁၉၀၅ ခုနှစ်တွင် ဒိုမီနီကန်နိုင်ငံတွင်း အကောက်တော်ခွန် ကောက်ခံရေးကို အမေရိကန်ပြည်ထောင်စုက တာဝန်ယူကောက်ခံကာ၊ နိုင်ငံခြား ကြွေးမြီများကို အချိုးကျ ပေးဆပ်ခဲ့လေသည်။

သို့သော် ၁၉၁၆ ခုနှစ်တွင် ပြည်တွင်းနိုင်ငံရေး ပဋိပက္ခမှုများကြောင့်၊ ဒိုမီနီကန်နိုင်ငံကို အမေရိကန်ပြည် ထောင်စုကမ်းတက် ရေတပ်သားများက တက်ရောက်သိမ်းပိုက်ကာ၊ စစ်ဥပဒေဖြင့် ၁၉၂၄ ခုနှစ်အထိ အုပ်ချုပ်ထားရ၏။ ၁၉၂၄ ခုနှစ်တွင် အခြေအနေ ပြန်လည်ကောင်းမွန်လာ၍၊ အမေရိကန် တပ်များကို ရုပ်သိမ်းလိုက်ပြီးနောက်၊ အုပ်ချုပ်ပုံ အခြေခံ ဥပဒေအသစ်တရပ်ကို ရေးဆွဲပြီးလျှင်၊ အစိုးရအဖွဲ့သစ်ကို ဖွဲ့စည်းတည်ထောင်ခဲ့လေသည်။

၁၉၂၄ ခုနှစ်တွင် သမတအဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံခဲ့ရသော ဟိုရေရှို ဗက်သကိတ်အား ၁၉၃၀ ပြည့်နှစ်တွင် စစ်ဖက်မှ တော်လှန်ပုန်ကန်ကာ ဖြုတ်ချခဲ့ပြီးနောက်၊ ထရူဟီးယိုမိုလီနာအား တင်မြှောက်ခဲ့သည်။ ထိုပုဂ္ဂိုလ်သည် ၁၉၃၈ ခုနှစ်မှ ၁၉၄၂ ခုနှစ်အထိ ၄ နှစ်ကာလအတွင်းမှတပါး၊ ၁၉၃၀ ခုနှစ်မှ ၁၉၅၁ ခုနှစ်အထိ သမတဖြစ်ခဲ့ရာ၊ သူ၏လက်ထက်တွင် နိုင်ငံသူနိုင်ငံသားများသည် ပုဂ္ဂလိကအခွင့်အရေးအများအပြားပင် ဆုံးရှုံးခဲ့သော်လည်း၊ အကျိုးကျေးဇူးအများအပြားကိုလည်း ခံစားခဲ့ရလေသည်။ လူမှုဝန်ထမ်းအစီအစဉ်တရပ်အရ၊ နိုင်ငံတွင်း ဆေးရုံသစ်များ ဆောက်လုပ်ပေးကာ၊ ကိုယ်ဝန်ဆောင်နှင့် သားသည်မိခင်များအား အခမဲ့စောင့်ရှောက်ပေး၍၊ စရိတ်နည်း နေရာထိုင်ခင်များ စီစဉ်ပေးလေသည်။ ပြည်သူ့လုပ်ငန်းကြီးများကို လုပ်ဆောင်စေခြင်းအားဖြင့်လည်း၊ နေထိုင်ရေးအဆင့်အတန်းများ တိုးတက်ကောင်းမွန်လာ၍၊ စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားလာလေသည်။ စိုက်ပျိုးရေးနည်းနိသျများကိုလည်း ခေတ်မီအောင် ပြုပြင်ပေးသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ဒိုမီနီကန် သမတနိုင်ငံသည် မဟာမိတ်တို့ကို ထောက်ခံခဲ့သည်။ ၁၉၄၅ ခုနှစ်တွင် ကုလသမဂ္ဂအဖွဲ့ဝင် ဖြစ်လာသည်။ ၁၉၄၇ ခုနှစ်တွင် အခြေခံ ဥပဒေသစ်တရပ်ကို ပြဋ္ဌာန်းလက်ခံခဲ့၏။ နိုင်ငံခြားကြွေးများကိုလည်း အပြေအလည် ပေးဆပ်နိုင်ခဲ့လေသည်။

**ဒက်ဆီးပင်လယ်**။ ။ပင်လယ်သေ — ရှု။

**ဒက်ဖိုဒီး ပန်းပင်**။ ။ဒက်ဖိုဒီး ပန်းပင်သည် 'အမာရီလီဒေးစီအီး' မျိုးရင်းတွင် ပါဝင်၍၊ ယင်း၏ရုက္ခဗေဒအမည်မှာ 'နာစစ်ဆပ် ဆူဒို နာစစ်ဆပ်' ဖြစ်သည်။ အင်္ဂလန်ပြည်တွင် နေရာဒေသတိုင်း၌ လိုလိုပင် အလိုအလျောက် ပေါက်နေသည်ကို တွေ့ရသည်။ မြေကူးဥတုတွင် ပေါက်တတ်သည်။ အပင်တပင်တွင် အရွက် ၅ ရွက် သို့မဟုတ် ၆ ရွက် ခန့်ရှိသည်။ အလျားမှာ ၁ ပေခန့်ရှိ၍၊ အကျယ်မှာ



နွေကူးရာသီဝယ် ရှင်မြူးဖွယ် ပွင့်လန်းနေသော ဒက်ဖိုဒီး ပန်းပင်များ

တလက်မခန့် ရှိပြီးလျှင်၊ အဖျားမှာ တုံးတိတိ ဖြစ်နေသည်။ အပွင့်များမှာ ကြီး၍ အဝါရောင်ရှိသည်။ အနံ့ မွှေးသည်။ ပွင့်ချပ်တွင် ၆ ခုတွဲနေ၍ အလယ်၌ရှိသော ခေါင်းလောင်းပုံသဏ္ဌာန် ပွင့်ချပ်အိမ်မှာ အဖျားတွင် တွန့်နေသည်။ ဝတ်ဆံ တံများသည် ပွင့်ချပ်များထက်တိုသည်။ ဖိုဝတ်ဆံမှာ ရှည်မျော့မျော့ ပုံသဏ္ဌာန်ရှိသည်။ အိုဗာရီသည် လုံး၍ အထဲတွင် အိမ်ကလေး ၃ ခုရှိသည်။ အစေ့ကလေးများမှာ လုံး၍ မည်းနက်သည်။

ဒက်ဖိုဒီး ပန်းပင်များကို တမျိုးနှင့်တမျိုး စပ်ယှက်ခြင်းဖြင့် ယခုအခါ ဆွတ်ဆွတ်ဖြူအရောင်မှ ရွှေဝါရောင်အထိ အရောင်အမျိုးမျိုးရှိသော ပန်းများကို ရနိုင်ပေပြီ။ အရှည်အလျားအားဖြင့် အပွင့်တို့သည် တမျိုးနှင့်တမျိုး မတူကြချေ။

**ဒက်ဗလဲရာ, အေးမန်** (ခရစ် ၁၈၈၂ ဖွား)။ ။အေးမန် ဒက်ဗလဲရာသည် အိုင်ယာလန် သမတနိုင်ငံ၏ ဝန်ကြီးချုပ်ဟောင်းတဦး ဖြစ်၍၊ နိုင်ငံပြု သုခမိန်တဦးလည်း ဖြစ်သည်။ ဒက်ဗလဲရာသည် ခရစ် ၁၈၈၂ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု နယူးယော့မြို့တွင် မွေးဖွားသည်။ ဖခင်သည် စပိန်မျိုးရိုး ဖြစ်သော်လည်း မိခင်မှာ အိုင်ယာလန်သူ ဖြစ်လေရကား၊ မိခင်၏ဇာတိဖြစ်သော အိုင်ယာလန်ပြည်တွင် ကြီးပြင်းလာခဲ့သည်။ ဒဗ္ဗလင်မြို့ရှိ တက္ကသိုလ်တခုတွင် ပညာသင်ကြားခဲ့၍၊ ဦးစွာ၌ ကျောင်းဆရာအလုပ်ကို လုပ်ခဲ့သည်။

ဒက်ဗလဲရာသည် အိုင်ယာလန်ကို ဂရိတ်ဗြိတိန်မှ သီးခြားခွဲထုတ်၍၊ လွတ်လပ်သောနိုင်ငံ တည်ထောင်ရန် အလွန် စိတ်ဆန္ဒပြင်းပြလေရာ၊ ၁၉၁၆ ခုနှစ် အိုင်ယာလန် ပုန်ကန်ထကြွမှုတွင် ပါဝင်ခဲ့၍၊ သေဒဏ်ချမှတ်ခြင်းကို ခံခဲ့ရသည်။ နောက်၌သော်ကား ထိုသေဒဏ်ကို တသက်တကျွန်းသို့ လွဲပြောင်းလိုက်လေသည်။ သို့ရာတွင် ၁၉၁၇ ခုနှစ်၌ တသက်တကျွန်းဒဏ်ကို နှစ်စေ့အောင်မခံရဘဲ၊ ထောင်မှလွတ်လာလေသည်။ ထိုနှစ်၌ပင် ကလဲယာအရှေ့ပိုင်း မဲဆန္ဒနယ်မှ ရွေးကောက်တင်မြှောက်လိုက်သော ကိုယ်စားလှယ်အနေဖြင့် ပါလီမန်အမတ် ဖြစ်လာသည်။ တဖန် အကျဉ်းချထားခြင်း ခံရပြီးနောက်၊ ၁၉၁၈ ခုနှစ်တွင် လင်ကွန်းထောင်မှထွက်ပြေး၍၊ အမေရိကန်ပြည်ထောင်စု၌ တိမ်းရှောင်နေယင်း၊ အိုင်ယာလန် သမတနိုင်ငံ ထူထောင်ရေးအတွက် ကြိုးပမ်းခဲ့လေသည်။ ၁၉၂၁ ခုနှစ်တွင် ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန်တို့သည် အိုင်ယာလန်ပြည်ခွဲခွါရေးအတွက် စာချုပ် ချုပ်ဆိုကြသည်။ ဒက်ဗလဲရာသည် ယင်းစာချုပ်ကို ကန့်ကွက်၍၊ အိုင်ယာလန် ပြည်တွင်းစစ်၌ ပါဝင်ဆင်နွှဲခဲ့ရာ၊ ၁၉၂၃ ခုနှစ်တွင် အချုပ်ခံခဲ့ရပြန်သည်။ ထောင်မှလွတ်လာသောအခါ အိုင်ယာလန် လွတ်လပ်သောပြည်နယ်အစိုးရကို ဆန့်ကျင်ဖက်ပြုလုပ်၍၊ ဗြိတိသျှ၏ အချုပ်အချာအာဏာကို အသိအမှတ်မပြု၊ သစ္စာမခံဘဲ၊ အိုင်ယာလန်၏ လွတ်လပ်ရေးကို ဆက်လက်ကြိုးပမ်းသည်။ ထိုအတောအတွင်း ဒက်ဗလဲရာ၏ ပါတီဖြစ်သော ဖီးအင်နာဖေ ပါတီသည် အင်အားကောင်း၍ လာလေသည်။ ၁၉၃၂ခုနှစ်၌ ရွေးကောက်ပွဲကျင်းပရာ



လွတ်လပ်စ အိုင်ယာလန်သမတနိုင်ငံ၏ ဝန်ကြီးချုပ်အဖြစ် တင်မြှောက်ခြင်းခံရသော နိုင်ငံပြုသုခမိန် ဒက်ဗလဲရာ

တွင် ဒက်ဗလဲရာသည် အိုင်ယာလန်ပြည်နယ်လွှတ်တော်သို့ ရွေးကောက်တင်မြှောက်ခြင်း ခံရလေသည်။ ထိုနောက် အိုင်ယာလန်ပြည်နယ်အစိုးရ ဝန်ကြီးချုပ် ဖြစ်လာလေ၏။ ထိုအခါ ဒက်ဗလဲရာသည် အိုင်ယာလန်၏ လုံးဝလွတ်လပ်ရေးကို ဆက်လက်ကြိုးပမ်းသည်။

ဒက်ဗလဲရာ၏ အစိုးရအဖွဲ့သည် အိုင်ယာလန်ပြည်နယ်က ဂရိတ်ဗြိတိန်ကို သစ္စာတော်ခံရသည့် အစဉ်အလာကို ဖျက်သိမ်း၍၊ အိုင်ယာလန်က ဗြိတိန်သို့ ပေးရန်ရှိသော ဘဏ္ဍာငွေတို့ကို မပေးဘဲထားရှိလေသည်။ ဤတွင် အိုင်ယာလန်နှင့် ဗြိတိန်တို့သည် စီးပွားရေး အစေစ် ဆင်နွှဲကြလေသည်။

၁၉၃၇ ခုနှစ် အထွေထွေရွေးကောက်ပွဲတွင် ဒက်ဗလဲရာပင်လျှင် ရွေးကောက်တင်မြှောက်ခြင်း ခံရပြန်သည်။ ထိုနှစ်၌ အိုင်ယာလန်နိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသည် အတည်ဖြစ်လာရာ၊ အိုင်ယာလန်နိုင်ငံလည်း လုံးဝလွတ်လပ်သောနိုင်ငံ ဖြစ်လာလေသည်။ လွတ်လပ်သည့်နေ့ကစ၍ အိုင်ယာလန်ကို အယ်ယာနိုင်ငံဟု အမည်မှည့်ခေါ်ကြလေသည်။ ဒုတိယကမ္ဘာစစ်အတွင်း၌ အယ်ယာနိုင်ငံသည် ကြားနေရေးဝါဒကို လိုက်နာကျင့်သုံး၍၊ ဂျာမန်ရေငုပ်သင်္ဘောတို့ကို တိုက်ဖျက်ရေးအတွက် အယ်ယာနိုင်ငံဆိပ်ကမ်းမြို့တို့ကို ဗြိတိန်က အသုံးပြုရန် ခွင့်မပြုခဲ့ချေ။ ဤအတွက်ကြောင့် ဒက်ဗလဲရာကို ဗြိတိန်က များစွာ ရှုတ်ချပြစ်တင် ဝေဖန်သည်။ ၁၉၄၄ ခုနှစ်မှ ၁၉၄၈ ခုနှစ်အတွင်း ဒက်ဗလဲရာပင်လျှင် ဝန်ကြီးချုပ်အဖြစ်ဖြင့် အယ်ယာနိုင်ငံအစိုးရကို ခေါင်းဆောင်ပြုခဲ့သည်။ သို့သော် ထိုနောက်၌ကား ဒက်ဗလဲရာ၏ပါတီသည် ရွေးကောက်ပွဲတွင် အရေးရှုံးနိမ့်ခဲ့လေသည်။ ၁၉၅၁ ခုနှစ်၌ ဒက်ဗလဲရာသည် ဝန်ကြီးချုပ် ပြန်၍ဖြစ်ခဲ့သော်လည်း၊ ၁၉၅၄ ခုနှစ်တွင် အစိုးရအဖွဲ့သို့ ရွေးကောက်တင်မြှောက်ခြင်း မခံရချေ။ (အိုင်ယာလန်နိုင်ငံ — လည်းရှု။)

**ဒိုက်ဦးမြို့။** ။ဒိုက်ဦးမြို့သည် ပဲခူးခရိုင်၊ ဒိုက်ဦးမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ပဲခူးမြို့မှ မြောက်ဖက် ၃၅ မိုင်ကွာဝေး၍၊ ရန်ကုန်-မန္တလေး မီးရထားလမ်းပေါ်၌ တည်ရှိသည်။ ရန်ကုန်-မန္တလေး ကားလမ်းမကြီးသည် မြို့၏အနားမှ ဝိုက်ပတ်သွားသောကြောင့် မြို့တွင်းသို့ လမ်းချိုး ဖောက်လုပ်ထားရလေသည်။

ဒိုက်ဦးမြို့သည် ဆန်စပါးအရောင်းအဝယ်ကြောင့် အလွန်စည်ကားသည်။ မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ၊ ၉၆၆၈ ယောက်မျှရှိသည်။ ဒိုက်ဦးမြို့နယ်တခုလုံးတွင် စပါး အကြီးအကျယ်စိုက်ပျိုး၍၊ ဒိုက်ဦးမြို့တွင် ဆန်စက်များစွာ ရှိလေသည်။

**ဒင်္ဂါး။** ။ရွှေ ငွေ ကြေး စသောသတ္တုတို့ကို တံဆိပ်အက္ခရာခပ်နှိပ်သွန်းလုပ်၍၊ သက်ဆိုင်ရာအစိုးရတို့က မည်ရွေ့မည်မျှတန်ဖိုးထိုက်စေဟု သတ်မှတ်ထားသောအသပြာကို ဒင်္ဂါးဟုခေါ်သည်။

ဒင်္ဂါးဟူသော ဝေါဟာရသည် ကမ္ဘာသုံးဝေါဟာရပင်ဖြစ်သည်။ ရုရှ၊ ဟန်ဂေရီ၊ တရုပ်၊ ပါရှား၊ တာကစ္စတန်စသည့်နိုင်ငံတို့၌လည်း၊ ဒင်္ဂါးဟူသော ဝေါဟာရကိုပင် အသုံးပြုခေါ်ဝေါ်ခဲ့ကြသည်။ မြန်မာတို့သည် ဒင်္ဂါးဟူသော ဝေါဟာရကို ပါဠိစကားလုံးဋင်္ကမှ ထုတ်ယူသုံးစွဲသည်ဟု အဆိုရှိသည်။ ဘုရင့်တံဆိပ်လက်ရာရှိသော ငွေကြေးဟု အဓိပ္ပါယ်ရသည်။

ဒင်္ဂါးများမပေါ်မီက ရောင်းဝယ်ဖောက်ကားပြုရာတွင် ကုန်နှင့်ကုန်ချင်း ဖလှယ်ကြရသည်။ ယင်းစံနစ်သည် မလွယ်ကူလှသဖြင့်၊ လူတို့သည် ကုန်အစား ရွှေတိုငွေစများ၊ ကျောက်သံပတ္တမြားများကို တန်ဘိုးထား၍၊ အရောင်းအဝယ်ပြုကြ၏။ ရွှေတိုငွေစများကိုလည်း ကိုင်တွယ်သယ်ယူရာ၌ လွယ်ကူစေရန် ပုံသဏ္ဍာန်အမျိုးမျိုး ထုလုပ်သုံးစွဲကြသည်။ ကမ္ဘာပေါ်တွင် အရောင်းအဝယ်ပြုရာ၌ ဖလှယ်ခြင်းစံနစ်မှ ကြေးငွေဖြင့် ရောင်းဝယ်ခြင်းစံနစ်ကို တရုပ်များကစ၍ထွင်သည်ဟု ဆိုကြသည်။ တရုပ်တို့ စထွင်သော ကြေးငွေများသည် ပုံအမျိုးမျိုးဖြစ်သည်။ အဝတ်ဝယ်ရန် ကြေးငွေပြားကို လုပ်ပုံ သွန်းထားလေသည်။ ထိုမှစ၍ ဒင်္ဂါး ပေါ်ပေါက်လာလေသည်။

ကမ္ဘာပေါ်တွင် ဒင်္ဂါးကို ပထမဦးစွာ အသုံးပြုခဲ့သောနိုင်ငံမှာ အာရှမိုင်းနားဒေသရှိ လီဒီးယားနိုင်ငံဖြစ်၏။ ခရစ်မပေါ်မီ နှစ်ပေါင်း ၇၀၀ ခန့်က စတင်အသုံးပြုသည်။ ယင်းဒင်္ဂါးများမှာ ရွှေနှင့်ငွေကို ရောစပ်၍ ပြုလုပ်ထားသည်။

ရှေးအခါက ဒင်္ဂါးများ၏တန်ဘိုးကို အကဲဖြတ်ရာတွင် ဒင်္ဂါး၏အလေးချိန်နှင့် အသုံးပြုသောဒင်္ဂါးတွင် ပါဝင်သော သတ္တု၏ သန့်စင်မှုကို အဓိကထား၍ အကဲဖြတ်ကြသည်။

ဒင်္ဂါးထုလုပ်သည့် အတတ်ပညာသည် ဂရိခေတ်၌ အလွန်တိုးတက်လာ၏။ ဂရိဒင်္ဂါးများတွင် ဗိသုကာလက်ရာများ၊ အားကစားပုံများ၊ ဘာသာရေးနှင့်စပ်လျဉ်းသည့် ပုံများကို ထည့်သွင်းထုလုပ်ကြသည်။ ဂရိလူမျိုးများမှ တဆင့် ရောမနိုင်ငံနှင့် မြေထဲပင်လယ် ပတ်ဝန်းကျင်ဒေသများသို့၎င်း၊ ပါရှားနိုင်ငံနှင့် အိန္ဒိယနိုင်ငံများသို့၎င်း၊ ဒင်္ဂါးသွန်းလုပ်ခြင်းပညာသည် ပြန့်နှံ့ခဲ့လေသည်။

အိန္ဒိယနိုင်ငံတွင် လွန်ခဲ့သော နှစ်ပေါင်း ၂၇၀၀ ခန့်ကပင် ဒင်္ဂါးထုလုပ်ခြင်းအတတ် ရှိခဲ့သည်ဟု အဆိုရှိသည်။ ရှာရှားဘုရင် (၁၅၄၀–၁၅၄၅) က ငွေဒင်္ဂါးတပြားကို ရူပီဟု တန်ဘိုးထား၍ သုံးစွဲရန် သပ်မှတ်ခဲ့၏။ အက္ကဗာဘုရင်နှင့်



မြန်မာနိုင်ငံ ပျူလူမျိုးတို့၏ရှေးဟောင်းဒင်္ဂါးများ



(အပေါ်ပုံ) ဟန်လင်းဒင်္ဂါးနှင့် (အောက်ပုံ) သရေခေတ္တရာ ဒင်္ဂါးတို့မှာ အမျိုးအစားချင်း ခြားနားချင်းမရှိလှဘဲ သွန်းလုပ်သောသင်္ကေတများမှာ အတူတူလိုပင်ဖြစ်ကြောင်း တွေ့မြင်နိုင်ပေသည်။

ဂျေဟန်ဂျာ ဘုရင်တို့လက်ထက်၌ ထုလုပ်ခဲ့သောဒင်္ဂါးများမှာ ယခုခေတ် ဥရောပတိုက်မှထုတ်လုပ်သော ဒင်္ဂါးများထက်ပင် လှပ၍ သတ္တုလည်း ပိုမိုစစ်ကြောင်း ဆိုကြသည်။

မြန်မာနိုင်ငံတော်တွင် လွန်ခဲ့သည့် နှစ်ပေါင်း ၂၀၀၀ ကျော်မှစ၍ ဒင်္ဂါးများကို အသုံးပြုကြသည်ဟု အဆိုရှိသော်လည်း၊ တွေ့ရှိရသော ရှေးအကျဆုံး မြန်မာဒင်္ဂါးမှာ ပျူမင်းများခေတ်က သုံးစွဲခဲ့သော ဟန်လင်းဒင်္ဂါးဖြစ်သည်။ ယင်းကို ကိုးမြို့ဒင်္ဂါးဟူ၍လည်း ခေါ်၍၊ သုံးမျိုးခွဲ၍ ကျပ်သုံး၊ ငါးမူးသုံး၊ မတ်သုံး၊ မူးသုံးဟူ၍ ၄ စားထား သုံးသည်။ ဟန်လင်းဒင်္ဂါးနှင့် သရေခေတ္တရာခေတ်သုံး ဒင်္ဂါးအမျိုးအစားသည် ခတ်ဆင်ဆင်ဖြစ်သည်။

ဟန်လင်းဒင်္ဂါးပဌမမျိုးသည် တဖက်၌ ဥကင်ပုံ၊ တဖက်တွင် ယဇ်ပလ္လင်၊ ယင်းအထက်တွင် အစက်ငါးပြောက် ပါရှိသည်။ အစက် ၅ ပြောက်သည် ဘဒ္ဒကမ္ဘာ၌ ဘုရား ၅ ဆူ သက်တော်ထင်ရှား ပွင့်တော်မူခြင်းကို ရည်စူးသည်ဟု ကောက်ယူကြသည်။ နခမ်းသားပတ်လည်၌လည်း အလုံးအရည် မထင်ရှားသည့် ဗိန္ဒုပြောက်ကလေးများ ပါ၍ သရေခေတ္တရာ မြို့တော်ဟောင်း၏ လက်ထက်က သုံးစွဲကြသော ဒင်္ဂါးမျိုးနှင့် တူသည်။

ဟန်လင်းဒင်္ဂါးဒုတိယမျိုးသည် တဖက်၌ ဥကင်၏အထက် ဝဲယာတွင် နေလ ၂ ပါးနှင့် သတ္တရာဇာန် တောင်စဉ်ခုနစ်ထပ် သဏ္ဌာန် အစက်ခုနစ်ခုကိုရှင်း၊ အောက်ခြေ၌ သီတာခုနစ်တန် သဏ္ဌာန် အတန်းခုနစ်တန်းကိုရှင်း ထုလုပ်ထား၍၊ တဖက်တွင် နေမွန်းတည့်ပုံနှင့် ၁၂ ရာသီ၏ အထိမ်းအမှတ် အဖြစ် ရောင်ခြည် ၁၂ သွယ် ပါရှိသည်။ အနားပတ်လည်၌ ဗိန္ဒုပြောက် ၂၆ ပြောက်မှ ၂၈ ပြောက်အထိ တွေ့နိုင်သည်။

ဟန်လင်းဒင်္ဂါးတတိယမျိုးသည် တဖက်၌ ထွက်ပြူစ နေဝန်းကဲ့သို့ တခြမ်းသာရှိသော နေဝန်းတွင် နေစွယ်တို့၏ အကြား၌ အစက် ၁၂ စက် ပါရှိသည်။ ကျန်တဖက်တွင်မူ နေမင်း၊ လမင်း၊ ဥကင်သ ယဇ်ပလ္လင်နှင့် ဆွာစတီကာခေါ် စကြာအမှတ်အသား ပါသည်။ အနားပတ်လည်၌ များသောအားဖြင့် ဗိန္ဒုပြောက် ၂၇ ပြောက် ပါရှိ၍၊ အချို့၌ ၂၆ ပြောက်ပါသည်။ နက္ခတ် ၂၇ လုံးကိုရည်၍၊ ၂၇ ပြောက် ပါရှိသည်ဟု ယူကြသည်။ ဟန်လင်းဒင်္ဂါးသည် ရှေးအကျဆုံး ဖြစ်သော်လည်း၊ စကြာသည် အရိယာလူမျိုးများ၏ အထိမ်းအမှတ်ဖြစ်၍၊ အိန္ဒိယနိုင်ငံမှ ဆင်းသက် ဆက်နွယ်လာဟန် တူသည်။

ဟန်လင်းဒင်္ဂါးများနောက် မြန်မာနိုင်ငံ၏ ရှေးကျသော ဒင်္ဂါးများမှာ ရခိုင်ဒင်္ဂါးများဖြစ်သည်။ မြန်မာသက္ကရာဇ် ၈၆၀ ကျော် (ခရစ်နှစ် ၁၄၅၀ ခန့်) က ရခိုင်ဘုရင် ကလီမာရှား အမည်ခံ ဘစောဖြူမင်းသည် အိန္ဒိယနိုင်ငံမှ ဒင်္ဂါးများကို အတုယူ၍ ရခိုင်ပြည်၌ ဒင်္ဂါးများကို သွန်းလုပ်ခဲ့သည်။ ရခိုင်ဒင်္ဂါးများမှာလည်း ရုပ်ပုံသွန်း ဒင်္ဂါးများ မဟုတ်ဘဲ၊ သက္ကရာဇ်နှင့် နန်းတက်ဘုရင် ဘွဲ့အက္ခရာများကို ရေးထိုးထားသော ဒင်္ဂါးများဖြစ်သည်။ ပုံပမာ '၁၀၀၁ ဆင်နီသခင် ဆင်ဖြူသခင် သတိုးမင်းတံဆိပ်'၊ '၁၀၁၄ ရွှေနန်း သခင် စန္ဒသုဓမ္မရာဇာ' စသည်ဖြင့် ခပ်နှိပ်သုံးစွဲကြသည်။ ရခိုင်ဒင်္ဂါးများနှင့် မရှေးမနှောင်းပင် ဟံသာဝတီ နေပြည်တော်မှလည်း မွန်ဒင်္ဂါးများ ပေါ်ခဲ့သည်။ မွန်ဒင်္ဂါးများတွင် ဟံသာဝတီ၏ အမှတ်အသားဖြစ်သော ဟင်္သာရုပ်ကို ခပ်နှိပ်ထားလေသည်။

ဒင်္ဂါးသုံးစွဲခြင်းသည် ပုဂံ၊ မြင်စိုင်း၊ စစ်ကိုင်း၊ ပင်းယ၊ အင်းဝနှင့်တောင်ငူခေတ်တို့၌ တိမ်မြုပ်နေပြီးနောက်၊ ညောင်ရမ်းဆက်မင်းများလက်ထက်တွင်သာ ဒင်္ဂါးသုံးစွဲကြောင်း မှတ်သားရသော်လည်း၊ ပုံသဏ္ဌာန်အနေအထားကိုမူ အမှတ်အသား မရှိချေ။ ကုန်းဘောင်မင်းဆက်ဖြစ်သော ဘိုးတော်ဘုရားလက်ထက် မြန်မာသက္ကရာဇ် ၁၁၄၀ ကျော်တွင် မြန်မာဒင်္ဂါးများ ပေါ်ပေါက်လာခဲ့သည်။

ဘိုးတော်ဘုရားသည် ဗြိတိသျှ အရှေ့အိန္ဒိယကုမ္ပဏီ၏ ကိုယ်စားလှယ် ကပ္ပတိန် ကော့ ယူဆောင်လာသော ဒင်္ဂါးများကို နှစ်သက်တော်မူ၍၊ ကလကတ္တားမြို့၌ မြန်မာဒင်္ဂါးများကို သွန်းလုပ်စေသည်။ နောက်မှ အင်္ဂလန်ပြည်မှဆက်သသော ဒင်္ဂါးသွန်းစက်ဖြင့် ၁၁၄၃ ခု နယုန်လဆုတ် တရက်နေ့မှစ၍ အမရပူရရွှေမြို့တော်၌ စတင် သွန်းလုပ်သည်။ ဘိုးတော်ဘုရားလက်ထက်၌ သွန်းလုပ်သော ဒင်္ဂါးများအနက်၊ ငွေဖြင့်သွန်းသောဒင်္ဂါးမှာ တဖက်တွင် ဘိုးတော်ဘုရား နံတော်သင့် တနင်္လာ ကျားရုပ်သဏ္ဌာန် ပါရှိ၍၊ တဖက်တွင် ၁၁၄၆ အမရပူရ ဆင်ဖြူများရှင်နိုင်ငံဟု စာတမ်းထိုးထားသည်။ ကြေးဖြင့်သွန်းသော ဒင်္ဂါးများမှာ တဖက်တွင် နံတော်သင့် တနင်္လာ က ဝဂ်အဆုံး င အနားပတ်လည်ကို ထူ၍၊ ငါးရုပ် ဖိုမနှစ်ကောင် သဏ္ဌာန် ပါရှိပြီးလျှင်၊ အနားပတ်လည် ဗိန္ဒုပြောက်များနှင့်တကွ တဖက်တွင် ဘိုးတော်ဘုရား နန်းတက်သောနှစ်ကို အစွဲပြု၍ ၁၁၄၃ တပို့တွဲလပြည့်ကျော် ၁၄ ရက်ဟူသော စာတမ်း ပါရှိလေသည်။ ထိုကြေးဒင်္ဂါးများကို ၁၁၇၄ ခုနှစ်တွင် ပြန်လည်ရုတ်သိမ်းလိုက်သဖြင့်၊ နှစ်ပေါင်း ၂၀ နှစ်သာ သုံးစွဲသည်။ ယင်းဒင်္ဂါး ၂ မျိုးအပြင်၊ ရွှေပြည်စိုး တံဆိပ်တော် ငွေဒင်္ဂါးနှင့် ကြေးဒင်္ဂါးများလည်း သုံးစွဲသည်။ ဘိုးတော်ဘုရားလက်ထက် ဒင်္ဂါးများမှာ တကျပ်သုံး၊ ငါးမူးသုံး၊ တမတ်သုံး၊ တမူးသုံးဟူ၍ ရှိလေသည်။ ဘိုးတော်ဘုရားလက်ထက်တွင် မြန်မာဒင်္ဂါး၊ ရခိုင်ဒင်္ဂါး၊ ဝေသာလီဒင်္ဂါး၊ ကုလားဒင်္ဂါးဟူ၍ ဒင်္ဂါး ၄ မျိုးရှိသည်။

ရွှေဘိုမင်းတရားလက်ထက်တွင် သွန်းလုပ်သော ငွေဒင်္ဂါး



အချို့မှာ ပျူလူမျိုးတို့၏ ဒင်္ဂါးများထက်ပင် ရှေးကျနိုင်သေးသော ရခိုင်ပြည် (ဘွဲ့မသိရသေး) မင်းဆက်တဆက်နှင့် စန္ဒြမင်းဆက် လက်ထက်သုံး ရခိုင်ဒင်္ဂါးဟောင်းများ



ပျူလူမျိုးတို့၏ ဒင်္ဂါးများနှင့် ခေတ်ပြိုင် ရခိုင်ပြည် စန္ဒြမင်းဆက် လက်ထက်သုံး ရခိုင်ဒင်္ဂါးဟောင်းများ

လွတ်လပ်ရေးရပြီးနောက် မြန်မာနိုင်ငံသုံးဒင်္ဂါးများတွင် တဖက်၌ ပြည်ထောင်စုမြန်မာနိုင်ငံတော် ဟူသောစာတမ်းနှင့် ခြင်္သေ့ထိုင်နေဟန် ပါရှိ၏။ ယင်းအောက်မှ ဒင်္ဂါးထုတ်ဝေသောနှစ်ကို ရေးထိုးထား၏။ အခြားတဖက်တွင် ကနုတ်ပန်းခွေနှင့် ပန်းခွေအကြားတွင် ဒင်္ဂါး၏တန်ဘိုးကို ရေးထိုးထား၏။ မြန်မာနိုင်ငံ၏ ငွေကြေးစနစ်ကိုလည်း၊ ကျပ် ပဲ ပိုင် စနစ်မှ ကျပ်ပြား စနစ်သို့ ပြောင်းလဲလိုက်ရာ၊ ကျပ်ဒင်္ဂါးမှာ မပြောင်းလဲသော်လည်း၊ ပဲ ပိုင်စေ့များကို မသုံးတော့ဘဲ၊ ပြား ၅၀၊ ပြားအစိတ်၊ ဆယ်ပြား၊ ငါးပြား နှင့် တပြားစေ့များကို ခြင်္သေ့ရုပ်ဖြင့်ပင် သွန်းလုပ်လေသည်။



မင်းတုန်းမင်းလက်ထက်တော်သုံး ရတနာပုံ ဒင်္ဂါး နှင့် လွတ်လပ်ရေးရပြီးနောက် သွန်းလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်သုံး ဒင်္ဂါးများ (အောက်ပုံ)

ယင်းသို့ ဒင်္ဂါးများကို သက်ဆိုင်ရာအစိုးရများက စနစ်တကျ ထုတ်ဝေစဉ် ဒင်္ဂါးအတုများကို ပြုလုပ်ကြသူများ ပေါ်ပေါက်လေ့ရှိ၏။ ထိုသူများကို အပြစ်ဒဏ်ပေးရန် ဥပဒေများ ပြုလုပ်ထားရ၏။ အင်္ဂလန်တွင် ဂရိတ်တလေး ဥပဒေဟူ၍ ရှိ၏။ ဗြိတိသျှလက်ထက် မြန်မာနိုင်ငံတွင်အသုံးပြုခဲ့သော အိန္ဒိယရာဇသတ်ကြီး ပုဒ်မ ၂၃၂ တွင် ဒင်္ဂါးအတုပြုလုပ်သူအား တသက်တကျွန်းဒဏ်ကိုသော်၎င်း၊ ၁၀ နှစ်အထိ ထောင်ဒဏ်ကိုဒ၎င်း စီရင်နိုင်ကြောင်း ဖော်ပြပါရှိလေသည်။

များမှာ တဖက်က လဝန်းနှင့် ယုန်ရုပ်၊ တဖက်က ပဒုမ္မာကြာပန်းပုံကို ရိုက်နှိပ်ထားသည်။

ပုဂံမင်းလက်ထက်ထုတ် ဒင်္ဂါးမှာမူ၊ တဖက်တွင် ရွှေပြည်စိုး တံဆိပ် ခတ်နှိပ်၍၊ တဖက်တွင် သာသနာနှစ် ၂၃၉၀ ဟု ရေးထိုးထားသည်။

မင်းတုန်းမင်းလက်ထက်တွင် ဒင်္ဂါးသွန်းစက်ရုံကို မန္တလေးနေပြည်၌ တည်ဆောက်၍၊ မြန်မာသက္ကရာဇ် ၁၂၂၇ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၉ ရက်နေ့တွင် ထိုဒင်္ဂါးသွန်းစက်ရုံကို ဖွင့်လှစ်က၊ ဒင်္ဂါးများကို စတင် သွန်းလုပ်လေသည်။ ငွေဖြင့် တကျပ်၊ ငါးမူး၊ တမတ်၊ တမူး၊ တပဲ ပေါင်း ငါးမျိုးသွန်းလုပ်သည်။ ငွေဒင်္ဂါးများတွင် တဖက်၌ တံဆိပ်တော် ဟူသော စာတမ်းနှင့် ဒေါင်းရုပ် ပါရှိပြီးလျှင်၊ တဖက်တွင် ရတနာပုံနေပြည်တော် ဟူသော စာတမ်းကို ပန်းခွေဖြင့် အနားပတ်လည် ခွေထားသည်။ ပန်းခွေအကြားတွင် ဝိ သုံးဒင်္ဂါး ၁၂၁၄ ဟူသောစာတမ်း ထည့်သွင်းထား၏။ ဒေါင်းတံဆိပ် ကြေးဒင်္ဂါးမှာ ဒေါင်းရုပ်အောက်မှ သွန်းသော သက္ကရာဇ် ၁၂၂၇ နှင့် တဖက်တွင် ရတနာပုံနေပြည်တော်နှင့် ၁ ပဲသုံးဒင်္ဂါး၏ လေးပုံတပုံဟူသော စာတမ်း ပါရှိ၏။

ထိုဒင်္ဂါးများအပြင်၊ ၁၂၂၈ ခုနှစ် ပန်းခွေနှင့် ရတနာပုံနေပြည်တော် စာတမ်း ပါရှိသော ခြင်္သေ့ဒင်္ဂါးများ၊ ယုန်ရုပ်သဏ္ဌာန်အောက်မှ သက္ကရာဇ် ၁၂၃၁၊ တဖက်က ကြေးနီဒင်္ဂါး၏ လေးပုံတပုံဟူသောစာနှင့် ပန်းပါသော ယုန်ဒင်္ဂါး၊ တိုးနယားရုပ်နှင့် တိုးနယားတံဆိပ်တော် ဟူသော စာနှင့် တဖက်က တမူးသုံး၏ ရှစ်ပုံတပုံစာတမ်း၊ ယင်းစာတမ်းအောက်မှ ပန်းခွေ၊ ယင်းပန်းခွေအောက်မှ ၁၂၄၀ စာတမ်းပါသော တိုးနယားဒင်္ဂါးများကိုလည်း သွန်းလုပ်သေး၏။

မင်းတုန်းမင်းသည် ဒင်္ဂါးသွန်းအတတ်ပညာသင်ရန်၊ ပညာတော်သင်များကိုလည်း၊ ပြင်သစ်နိုင်ငံသို့ စေလွှတ်သေး၏။

ဗြိတိသျှခေတ် မြန်မာနိုင်ငံဒင်္ဂါးများကိုမူကား၊ အင်္ဂလန်နိုင်ငံတွင် သွန်းလုပ်လေသည်။ မြန်မာနိုင်ငံအား အိန္ဒိယပြည်၏ ပြည်နယ်တခုအဖြစ် သတ်မှတ်အုပ်ချုပ်စဉ်က မြန်မာနိုင်ငံသုံး ဒင်္ဂါးများသည် အိန္ဒိယနိုင်ငံသုံး ဒင်္ဂါးများသာ ဖြစ်၏။ ဗြိတိသျှတို့လက်ထက်၌ ထုတ်ဝေခဲ့သောဒင်္ဂါးများတွင် တဖက်၌ ဗြိတိသျှအင်ပိုင်ယာ အရှင်ဘုရင်၊ ဘုရင်မများ၏ပုံများနှင့် ထိုပုံများအောက်တွင် ဒင်္ဂါးထုတ်ဝေသောနှစ် ပါရှိ၍ အခြားတဖက်တွင် ဒင်္ဂါး၏တန်ဘိုးကို အင်္ဂလိပ်ဘာသာဖြင့် ရေးသားထားသည်။ နိုင်ငံတိုင်းလိုလို၌ပင် သက်ဆိုင်ရာတံဆိပ်များခပ်နှိပ်၍၊ ကြေး၊ ငွေ၊ ရွှေ၊ နစ်ကယ် စသော သတ္တုများဖြင့် ဒင်္ဂါးများ သွန်းလုပ်အသုံးပြုကြသည်။

ရှေးကျ၍ ရှားပါးသော ဒင်္ဂါးပြားများကို စုဆောင်း၍၊ အချို့နိုင်ငံများတွင် ပြတိုက်များ၌ ပြသထားကြသည်။ လန်ဒန်မြို့ရှိ ဗြိတိသျှပြတိုက်၊ ဝါရှင်တန်မြို့ရှိ အမျိုးသားပြတိုက် သစ်တို့သည် ရှေးဟောင်းဒင်္ဂါး အများဆုံး စုဆောင်းပြသထားရာ၊ ထင်ရှားသော ပြတိုက်ကြီးများဖြစ်သည်။ ရှေးဟောင်းဒင်္ဂါးများကို ပြတိုက်များကသာမက၊ လူပုဂ္ဂိုလ်တဦးချင်း အနေနှင့်လည်း၊ စုဆောင်းထားတတ်ကြသည်။ ရှီကာဂိုမြို့မှ ဗာဂျေးဗရင်းဆိုသူ ကွယ်လွန်သောအခါ၊ ဒင်္ဂါးအမျိုးပေါင်း ၁၀၀,၀၀၀ ကို ရောင်းချလိုက်ကြရာ၊ ဒေါ်လာတသန်းကျော် ရရှိပေသည်။ ရှားပါးသောဒင်္ဂါးများ၏ တန်ဖိုးသည် စိတ်ဝင်စားသူတို့အတွက် အဖိုးမဖြတ်နိုင်အောင် တန်ပေသည်။ ၁၇၆၁ ခုနှစ်ထုတ် ဒေါ်လာ တဝက်တန် အမေရိကန် ငွေဒင်္ဂါးတပြားကို ဒေါ်လာ ၂၅၀၀ မှ ၅၀၀၀ အထိပေး၍ ဝယ်ကြသည်။ ယင်းသက္ကရာဇ်နှင့်ဒင်္ဂါးမျိုး ၄ ပြားသာ ထုတ်ခဲ့သဖြင့်၊ ဤသို့ ဈေးကြီးပေး၍ ဝယ်ယူနေကြခြင်းဖြစ်သည်။

**ဒေါင်း**။ ။ဥဒေါင်း — ရှု။

**ဒေါင်းကုလား**။ ။ဒေါင်းမင်း — ရှု။

**ဒေါင်းဂမုန်း**။ ။ဂမုန်း — ရှု။

**ဒေါင်းစွန်**။ ။ဒေါင်းစွန်သည် စွန်မျိုးတွင်ပါဝင်သော ငှက်ဖြစ်သည်။ ဇီဝဗေဒအလိုအားဖြင့် ယင်းကို ‘ဆားကပ် အီရုဂျီနိုးဆပ်’ ဟုခေါ်သည်။ မျိုးရင်းမှာ ‘အက်စီပီတြီဒီး’ ဖြစ်သည်။ မြန်မာနိုင်ငံတွင် ဤစွန်မျိုးမှာ အကြီးဆုံးဖြစ်သည်။ အပံ့ နွေး၏။ အမွေးရောင်မှာ အညိုရောင်ပေါက်၏။ ခေါင်းနှင့်ပခုံးတွင် အဝါဖျော့ရောင်ရှိ၏။ အလျား ၁၉ လက်မမှ ၂၂ လက်မအထိရှိသည်။ ဒေါင်းစွန်ဖိုတွင် အမြီးထပ်များရှိ၏။ ထိုအမြီးရောင်မှာ ပြာညစ်ညစ်ဖြစ်သည်။ ပျံသန်းရာတွင် အတောင်ဖျားခွဲ မည်းနေသည်ကို ထင်ရှားစွာ မြင်ရသည်။ ဒေါင်းစွန်အမသည် သိမ်းကျားအမနှင့် တူသယောင်ယောင်ရှိ၏။ သို့သော် သိမ်းကျားမ၏ အမြီးသည် ဖြူ၏။ ဒေါင်းစွန်မ၏ အမြီး၌ အဖြူရောင် မရှိချေ။

ဒေါင်းစွန်သည် သားပေါက်ချိန်မှလွဲ၍၊ အခြားအချိန်များ၌ အော်လေ့အော်ထ မရှိချေ။ လယ်ကွင်း၊ မြက်ခင်း၊ ရွှံ့နွံထူထပ်သောနေရာတို့၌ ကျက်စားလေ့ရှိသည်။ မိုးဥတု၌ ရေလွှမ်းမိုးသော မြက်ပေါရာ စစ်တောင်းမြစ် ချိုင့်ဝှမ်းများတွင် တွေ့ရသည်။ မြန်မာနိုင်ငံသို့ ဆောင်းဥတုအတွင်း လာရောက်တတ်သော ငှက်ဖြစ်သည်။

**ဒေါင်းဒင်္ဂါး**။ ။ဒင်္ဂါး — ရှု။

**ဒေါင်းနင်းလမ်း**။ ။လန်ဒန်မြို့ ဝက်စမင်စတာ ရပ်ကွက်အတွင်း ဝိုက်တဟောမှ စိန်ဂျိမ်းဥယျာဉ်သို့သွားသော ဒေါင်းနင်းလမ်းသည် ဗြိတိသျှနိုင်ငံသမိုင်းတွင် ထင်ရှားသောလမ်းဖြစ်သည်။ ထိုလမ်းရှိ အဆောက်အအုံများကို အော်လစ်ဗာ ကရွမ်းဝဲနှင့် ဒုတိယ ချားဘုရင်တို့လက်ထက်က နိုင်ငံခေါင်းဆောင်ကြီး ဆာ ဂျော့ ဒေါင်းနင်း တည်ဆောက်ခဲ့၍၊ ထိုလမ်းကို ဒေါင်းနင်းလမ်းဟု ခေါ်လေသည်။ ဒေါင်းနင်းလမ်း အမှတ် ၁၀ အဆောက်အအုံသည် အင်္ဂလန်နိုင်ငံ၏ ပဌမဦးဆုံးနန်းရင်းဝန် ဆာ ရောဗတ် ဝေါလပိုး လက်ထက်မှစ၍ (လော့ မဲလဗုန်း၊ ဆာ ရောဗတ် ပီးနှင့် လော့ ဆော့စဗာရီတို့မှတပါး) ဝန်ကြီးချုပ် အဆက်ဆက် နေထိုင်ရာ အစိုးရအိမ်တော် ဖြစ်လေသည်။ အမှတ် ၁၁ အဆောက်အအုံသည် ရွှေတိုက်စိုးဝန်ကြီး နေထိုင်ရာ အစိုးရအိမ်တော် ဖြစ်၏။ ထိုအဆောက်အအုံများနှင့် မျက်နှာချင်းဆိုင် လမ်းတဖက်ရှိ အဆောက်အအုံများသည်ကား အစိုးရရုံး အ



ဗြိတိသျှဝန်ကြီးချုပ်နေထိုင်ရာ ဒေါင်းနင်းလမ်း အမှတ် ၁၀ အိမ်တော်

ဆောက်အအုံများ ဖြစ်လေသည်။ ဗြိတိသျှနိုင်ငံတော် အုပ်ချုပ်ရေးဆိုင်ရာ အရေးကိစ္စကြီးငယ်တို့ကို ယင်းဒေါင်းနင်းလမ်း အမှတ် ၁၀၊ ၁၁ တို့မှနေ၍ ကြိုးကိုင်သည်ဟု ဆိုနိုင်ပေသည်။ နိုင်ငံတော်အရေးကိစ္စများကို ဆွေးနွေးရန် ရှိသောအခါ၊ ဝန်ကြီးများသည် ဝန်ကြီးချုပ်၏ အမှတ် ၁၀ နေအိမ်ရှိ ရုံးခန်းသို့ စုဝေးလာရောက်ကြကာ အစိုးရအဖွဲ့ အစည်းအဝေးများ ကျင်းပဆွေးနွေးလေ့ရှိသည်။ အရေးကြီးသောကိစ္စကို ဆွေးနွေးသောအခါ၊ ဒေါင်းနင်းလမ်းပေါ်တွင် သတင်းထောက်များ၊ မြို့သူမြို့သားများဖြင့် စည်ကားလျက်ရှိတတ်သည်။

ဤမျှ အရေးပါ အရာရောက်သော ဒေါင်းနင်းလမ်းသည် ကမ္ဘာ့အရပ်ရပ်တွင်ပင်လျှင် ကျော်ကြားလှသဖြင့် အင်္ဂလန်ပြည်သို့ အလည်အပတ်ရောက်လာသော နိုင်ငံခြားသား ဧည့်သည်များသည် ဒေါင်းနင်းလမ်းကို သွားရောက်ကြည့်ရှုလေ့ရှိကြသည်။

**ဒေါင်းမင်း။** ။ဒေါင်းမင်းကို ဒေါင်းကုလားဟူ၍လည်း ခေါ်သည်။ ဇီဝဗေဒအလိုအားဖြင့် ယင်းကို 'ပေါ်လီပလက်ထရွန် ဗိုင်ကယ်ကာရာတမ်' ဟုခေါ်သည်။ မျိုးရင်းမှာ 'ဂယ်လီဖော်မီး' ဖြစ်သည်။ ဒေါင်းမင်းအဖို၏အလျားသည် အမြီး အပါအဝင် ၂၂ လက်မမှ လက်မ ၃၀ ထိရှိသည်။ အမြီးတခုတည်းပင်လျှင် ၁၂ လက်မမှ ၁၆ လက်မထိရှိသည်။ အမသည် အထီးထက် ကိုယ်ထည်သေး၍၊ အမွေးအရောင်မှာလည်း ပို၍ မွဲခြောက်သည်။ ဒေါင်းကွက်များလည်း ပို၍ နည်းသည်။

ဒေါင်းမင်း၏တွန်သံမှာ လည်ချောင်းသံပါ၍ စူးရှသည်။ ရစ်ကဲ့သို့ ထပ်တလဲလဲ လျင်မြန်စွာအော်လေ့ရှိသည်။ ကချင်တောင်များတွင် နွေနှင့် မိုးဥတုများ၌ ထိုဒေါင်းမျိုး၏ အော်သံကို ကြားရသည်။

အမြဲစိမ်းသစ်တောနှင့် ထူထပ်သောဝါးရုံတောများတွင် အမြဲနေလေ့ရှိသည်။ ဒေါင်းမင်းအဖို ကသောအခါ၊ ဖြန့်ကား၍နေသော အမြီးနှင့်အတောင်တို့သည် အလွန်ကြည့်၍ ကောင်းပေသည်။

သားပေါက်ချိန်မှာ မတ်လနှင့်ဧပြီလဖြစ်သည်။ ဒေါင်းမင်းဖိုနှင့် ဒေါင်းမင်းမသည် ရာသက်ပန် ပေါင်းဖက်သည်ဟု ဆိုကြသည်။ တမြုံလျှင် ဥပေါင်း ၂ လုံးမှ ၅ လုံးထိရှိသည်။ ဥအရွယ်မှာ အိမ်ကြက်မ ဥငယ်ငယ်လောက်ရှိသည်။

ထိုဒေါင်းမျိုးကို ဟိမဝန္တာတောင်၊ မြန်မာနိုင်ငံ မြောက်ပိုင်းနှင့် တနင်္သာရီဒေသ၊ ယိုးဒယားနိုင်ငံတို့တွင် တွေ့ရသည်။ ထိုဒေသတို့အပြင်၊ ဒေါင်းငှက်တို့အတွက် ဥတုသပ္ပါယ မျှတသော အမြဲစိမ်းသစ်တောများရှိရာ ဒေသများ၌လည်း ယင်းတို့ကို တွေ့ရတတ်သည်။

**ဒေါင်းရစ်။** ။ဒေါင်းရစ်သည် ရစ်မျိုးတွင်ပါဝင်၏။ ပါဏဗေဒအလိုအားဖြင့် ဒေါင်းရစ်ကို 'အာဂပ်စီအင်နပ် အားဂပ်' ဟုခေါ်သည်။ ထိုငှက်သည် 'ဖာစီးအင်နီဒီး' မျိုးရင်းတွင် ပါဝင်လေသည်။ ငှက်ထီး၏ အလျားသည် အမြီးအပါအဝင် လက်မ ၇၀ မှ ၇၃ ထိရှိသည်။ အမြီးကပင် ၄၉ လက်မမှ ၅၂ လက်မရှိထိ ရှည်သည်။ ငှက်မ၏အလျားသည် ၂၇ လက်မမှ လက်မ ၃၀ ထိ ရှိသည်။ အမြီးသည် ကိုယ်ရှိ အမွေးများထက် အနည်းငယ်ပို၍ရှည်သည်။

ဒေါင်းရစ်ထီးနှင့်ဒေါင်းရစ်မတို့သည် နေ့ရော ညပါ အော်တတ်၏။ ထိတ်လန့်စရာ အသံများကြားလျှင် အော်၍ ထပျံတတ်သည်။ အထီး၏အော်သံသည် ဟောင်းဟောင်းဟု ဖြစ်၍၊ ၁၀ ကြိမ်မှ ၁၂ ကြိမ်ထိ ထပ်တလဲလဲ အော်တတ်သည်။ အထီးသည် မကြာခဏ အော်တတ်၍၊ တကောင်က အော်လျှင် အနီးရှိ အခြားအကောင်များက ပြန်၍အော်တတ်ကြသည်။ အမ၏အသံမှာ ကြည်လင်ပြတ်သား၍၊ ဟောင်းအူးဝူး၊ ဟောင်းအူးဝူးဟု မြည်သည်။ ထိုသို့အော်ရာ၌ နောက်ဆုံးအသံကို ခပ်ရှည်ရှည်ဆွဲ၍ ၁၀ ကြိမ်မှ ၁၂ ကြိမ်ထိ အော်တတ်သည်။ ယင်းသို့အော်ရာတွင် တဖြည်းဖြည်း မြန်လာသောအခါ အော်သံမှာ အူးဝူး၊ အူးဝူးဟူ၍ မြည်လာတတ်သည်။ ဒေါင်းရစ်၏အသံကို အဝေးမှပင် ကြားနိုင်သည်။ အထူးသဖြင့် ငှက်ထီး၏အသံကို တမိုင်ကျော်ကျော်မှပင် ကြားနိုင်သည်။

ဒေါင်းရစ်သည် အထီးနှင့်အမ အတူတူ မနေကြဘဲ၊ တကောင်ချင်းသာ နေလေ့ရှိသည်။ ငှက်ထီးတိုင်းလိုလိုပင် ကခုန်ရန်အတွက် သီးခြား နေရာကွက်များ ရှိသည်။ ထိုကခုန်ရာအကွက်များကို တောနက်ရာ၌ ပြုလုပ်တတ်ကြသည်။ ထိုနေရာကို ကောင်းစွာ ရှင်းလင်းထားတတ်ကြသည်။ နံနက်နှင့်ညနေပိုင်း အစာရှာထွက်ချိန်များမှလွဲလျှင် ဒေါင်းရစ်ထီးများကို သူတို့၏ ကခုန်ရာအကွက်များ၌ တွေ့နိုင်ပေသည်။ ညအခါတွင် ထိုနေရာကွက်များအနီးရှိ သစ်ပင်များပေါ်တွင် အိပ်တန်းတက်လေ့ရှိကြသည်။

ဒေါင်းရစ်ကို အနားကပ်၍လေ့လာရန် ခဲယဉ်းသည်ဟု ဆိုသည်။ သို့သော် ထောင်၍ ဖမ်းယူရန်ကား အထူးပင် လွယ်ကူပေသည်။ အထီးများသည် တကောင်ကအော်လျှင် အခြားတကောင်က အော်တတ်ကြသော်လည်း၊ တကောင်နှင့်တကောင် ရန်မရှာတတ်ချေ။ လွတ်လပ်စွာ နေတတ်ကြသည်။ ငှက်မများသည်လည်း အထီးများကဲ့သို့ပင် တကောင်ချင်းသာ နေတတ်ကြသည်။ သို့သော် ငှက်ထီးများမှာကဲ့သို့ သီးသန့် နေရာကွက်များ မရှိကြချေ။ ငှက်မများသည် တနေရာတွင် စွဲမြဲစွာ မနေကြဘဲ၊ တောထဲ၌ လှည့်လည် ကျက်စားကြသည်။ ထို့ပြင် ငှက်ထီးနှင့်ငှက်မ အတူတွဲ၍လည်း မနေကြချေ။ ငှက်မများကသာ ငှက်ထီးများ

ရှိရာသို့ လာရောက်ကြသည်။ ဒေါင်းရစ်ငှက်၏ အစာမှာ သစ်စေ့၊ ခရု၊ ပက်ကျိနှင့် ပိုးကောင်များဖြစ်သည်။

အသိုက်ကို ထူထပ်သောကြိမ်တောများတွင် မြေပေါ်၌ ပြုလုပ်ကြသည်ဟုဆိုသည်။ တမြုံလျှင် ဥပေါင်း ၇ လုံးမှ ၈ လုံးထိရှိသည်။ ဥအရောင်မှာ အဖြူ သို့မဟုတ် မလိုင်နှစ်ရောင်ဖြစ်၍၊ အညိုပြောက်ကလေးများ ပါရှိသည်။ သားပေါက်ချိန် မမှန်ချေ။ ငှက်မများသည် မိုးများသောအချိန်မှအပ အခြားအချိန်၌ အမြဲတမ်း အုလေ့ရှိသည်။ မြန်မာနိုင်ငံတွင် မြိတ်၊ ထားဝယ်နှင့် ဝိတိုရိယအငူ အရပ်ဒေသများ၌ ဒေါင်းရစ်ငှက်များကို တွေ့နိုင်သည်။

**ဒေါင်းလန်း**။ ။အစားအသောက်များ ထည့်၍စားရန်၊ သစ်သား၊ ဝါး စသည်တို့ဖြင့် ပြုလုပ်၍ ယွန်းဖြင့် သရိုးကိုင်ထားသော ခြေထောက်တပ်ထားသည့် ဗန်းပြားကြီးများကို ဒေါင်းလန်းဟုခေါ်သည်။ အကြီးအငယ် အရွယ်အမျိုးမျိုးရှိသည်။

ဒေါင်းလန်းဟူသောစကားမှာ မွန်စကား ဒုင်လေင်မှ လာသည်ဟု ယူဆကြသည်။ ဒုင်ဟူသော မွန်စကားသည် မြန်မာလို တင်ဆောင်သည်။ သယ်ပိုးသည်ဟု အဓိပ္ပါယ်ရ၍၊ လေင်ဟူသော မွန်စကားသည် စားသောက်သည်။ အာဟာရဖြည့်တင်းသည်ဟူသော အဓိပ္ပါယ်ရသည်။ ထို့ကြောင့် ဒုင်လေင်ဟူသော စကားသည် စားသောက်ဖွယ်တင်ဆောင်သောပစ္စည်းဟု အဓိပ္ပါယ်ရသည်။ ဒုင်လေင်မှ ဒေါင်းလန်းဟူ၍ စကားပျက်လာသည်ဟု ယူဆကြသည်။

ဒေါင်းလန်းသည် မည်သည့်ခေတ်က စတင်ပေါ်ပေါက်ခဲ့သည်ကို အတိအကျ မသိရသော်လည်း၊ သက္ကရာဇ် ၁၀၀၀ ကျော်ခန့်ဖြစ်သော ညောင်ရမ်းခေတ်က ရှိနေပြီးဖြစ်ကြောင်းကို ဝန်ကြီးပဒေသရာဇာ၏ ထန်းတက်သမား တျာချင်းအရ သိရသည်။ ထန်းတက်သမား တျာချင်းတွင် 'နှီးဒေါင်းလန်းကြီး ခူးပြီးသော့ခါ၊ သမီးနှင့်သား၊ များလို့ မဝင်သာ၊ ဒူးတဖက်ဟာ တွန်းကာဖယ်လျက်၊ သူ့ထက်ငါလေ၊ စားတော့မည်စေ၊ စားပေသာလှ အုန်းခွက်ကယ်နှင့်လေး' ဟူ၍ ထန်းတက်သမား မိသားစုတို့ ဒေါင်းလန်းကြီးကို တည်ခင်းကာ တပျော်တပါး တိုးဝှေ့စားသောက်ကြပုံတို့ကို သရုပ်ဖော်ထားလေသည်။ ဒေါင်းလန်းကို ပုဂံခေတ်ကပင် အသုံးပြုနေကြသည်ဟု အချို့ပညာရှင်တို့က ဆိုကြသည်။ ဒေါင်းလန်းဖြင့် စားသောက်သည့်အလေ့သည် အိန္ဒိယနိုင်ငံမှ ရရှိသည်ဟု အချို့သုတေသီတို့ကဆို၍ အချို့ကမူ ယိုးဒယား နိုင်ငံမှ နှီးဒေါင်းလန်းပုံ ရသည်ဟု ယူဆသည်။ မည်သို့ပင်ဖြစ်စေ၊ ဒေါင်းလန်းသည် ရှေးအတော်ကျကျကပင် မြန်မာတို့ အသုံးပြုခဲ့ကြသည်မှာ ထင်ရှားသည်။



မြန်မာ့အသုံးအဆောင်တခုဖြစ်သော ဒေါင်းလန်း

ဒေါင်းလန်းဖြင့် ထမင်းစားသောက်ကြပုံမှာ အမျိုးမျိုးဖြစ်သည်။ အချို့က လူငါးယောက်စားမည်ဆိုလျှင်၊ ဒေါင်းလန်းကြီးပေါ်၌ ထမင်းငါးပုံပုံ၍ အလယ်တွင် အုန်းခွက် သို့မဟုတ် နီးခွက် သို့မဟုတ် သစ်သားခွက်ဖြင့် ဟင်းထည့်ပြင်ထားပြီးနောက် ယင်းဒေါင်းလန်းကြီးထဲ၌ပင် စားကြသည်။ အချို့ကမူ ဒေါင်းလန်း အတန်အသင့်ပေါ်တွင် အထက်ပါ ခွက်မျိုးများနှင့် ဟင်းထည့် တည်၍ ထမင်းကိုမူ တယောက်စားရွယ် ဒေါင်းလန်းငယ်များ ကိုယ်စီကိုင်ကာ၊ ထည့်ယူစားသောက်ကြသည်။ သို့ရာတွင် ဒုတိယနည်းမှာ နှောင်းခေတ်လူတို့ စားသုံးနည်း ဖြစ်ဟန်တူသည်။ ဒေါင်းလန်းကြီးတခုတွင် ကိုယ်ထမင်း ကိုယ်ပုံ၍ ဟင်းအရည်အဖတ် ထည့်စားကြသည့်အလေ့ကြောင့် 'လက်ရေတပြင်စီးနေသူ' ဟူသော အသုံးအနှုန်း ပေါ်လာဟန်တူသည်။ တယောက် စားသုံးနေသောဟင်းရည်သည် တယောက်၏ ထမင်းပုံထဲသို့ စီးသွားနိုင်လေသည်။

**ဒေါင်းလန်းခြေထောက်**။ ။ဒေါင်းလန်းခြေထောက်သည် 'ရီကာဗီရော့စတြီဒီး' မျိုးရင်းတွင် ပါဝင်သောငှက်ဖြစ်သည်။ ပါဏဗေဒအလိုအားဖြင့် ယင်းကို 'ဟိုင်မင်းတိုပပ် ဟိုင်မင်းတိုပပ်' ဟုခေါ်သည်။

ဒေါင်းလန်းခြေထောက်ငှက်၏ အလျားမှာ ၁၅ လက်မရှိသည်။ ခြေတံရှည် ငှက်မျိုးဖြစ်၍၊ ပျံသန်းရာတွင် အမြီးနောက်ဖက်၌ ၆ လက်မ၊ ၇ လက်မခန့် ခြေတံရှည် ထွက်နေသည်။ ရိုးရိုးအော်သောအခါ၊ ကစ် ကစ် ကစ်ဟု မြည်၍၊ လန့်ပြီးအော်သောအခါ အသံမှာ စူးရှသည်။ ကီဝစ်ဟု အော်သည့်အခါလည်းရှိသည်။

ရေတွင်ကျက်စားသော ငှက်မျိုးဖြစ်သဖြင့် ဒေါင်းလန်းခြေထောက်ငှက်ကို ထုံးအိုင်နှင့် ညွန်ပျောင်း များတွင် တွေ့

ရသည်။ တခါတရံ ရွာအနီးရှိ အိုင်ငယ်များနှင့် ရေလွှမ်းသော လယ်ကွင်းများတွင်လည်း တွေ့ရသည်။ ဒေါင်းလန်းခြေထောက် ငှက်အုပ်ကြီးများကို မြန်မာနိုင်ငံအထက်ပိုင်း၊ ဝက်လက်မြို့နားရှိ ထုံးအိုင်များတွင် တွေ့ရလေ့ရှိသည်။

ပျံသန်းရာ၌ အတောင်ကို ခပ်မြန်မြန်ရိုက်ခတ်၍ တည့်မတ်စွာ ပျံသန်းသည်။ ကောင်းကင်ထက်၌ဖြစ်စေ၊ မြေပေါ်သို့ ဆင်းခါနီး၌ဖြစ်စေ လေဟုန်စီးကာ ပျံဝဲနေတတ်သည်။ မြေပေါ်၌သွားလာပုံမှာ ကြည့်၍ကောင်းသည်။ ခြေလှမ်းများကို မှန်မှန် ကျဲကျဲလှမ်း၍၊ တခါတရံ ပြေးသကဲ့သို့ မြန်မြန်သွားတတ်သည်။ ရေထဲ၌လှမ်းသွားရာတွင်မူ ကိုးရိုးကားရားနိုင်သည်။ ထပျံချိန်တွင် ခြေထောက်ကို အတော်ကွေးပြီးမှ အပေါ်သို့ခုန်တက်ကာ ပျံသန်းသည်။ ဒေါင်းလန်းခြေထောက်ငှက်သည် သစ်စေ့ကလေးများ၊ ပိုးကောင်များ၊ ခရုများနှင့် တီကောင်များကို စားသောက်လေ့ရှိသည်။

အသိုက်များကို အများအားဖြင့် ရေပေါ်၌ဖြစ်စေ၊ ရေစပ်ရှိ ရွှံ့ညွန်ပေါ်၌ဖြစ်စေ လုပ်လေ့ရှိသည်။ တမြုံလျှင် ၃ ဥမှ ၄ ဥအထိ ရှိသည်။ အရောင်မှာ ဖက်ဖူးရင့်ရောင်သော်ရင်း၊ အစိမ်းရောင် ညစ်ညစ်သော်ရင်း၊ နံ့သာရင့်ရောင်သော်ရင်း ဖြစ်သည်။ ဥခွံပေါ်တွင် အမည်းရောင် သို့မဟုတ် အညိုရောင် အကွက်အစင်းများလည်း ရှိသည်။

ဒေါင်းလန်းခြေထောက်ငှက်ကို ဒေသအနှံ့အပြားတွင် တွေ့နိုင်သည်။ မြန်မာနိုင်ငံတွင်မူ အများအားဖြင့် ဆောင်းဥတုသာ လာရောက်သော ဧည့်သည်ငှက်ဖြစ်သည်။ အချို့တို့မှာ မြန်မာနိုင်ငံ၌ပင် အမြဲနေကြသည်။ ဆောင်းဥတုတွင် နေရာအနှံ့အပြား၌ ဒေါင်းလန်းခြေထောက်ငှက်ကို တွေ့ရသော်လည်း၊ သွေ့ခြောက်သည့်ဒေသတွင် ပို၍ အတွေ့ရများသည်။

**ဒေါင်းလံ**။ ။အလံ — ရှု။

**ဒိုင်နမို**။ ။ဒိုင်နမိုသည် စက်စွမ်းအင်မှ လျှပ်စစ်စွမ်းအင်အဖြစ်သို့ ပြောင်းပေးသော ကရိယာဖြစ်သည်။ အရှင်းဆုံး ဒိုင်နမိုမှာ သံလိုက်ဝင်ရိုးစွန်းများအကြားရှိ သံလိုက်အားလမ်းကို ဖြတ်သန်းကာ ရစ်ခွေထားသော နန်းကြိုးခွေပင်ဖြစ်သည်။ ဒိုင်နမိုကို လျှပ်စစ်ဓာတ် ထုတ်လုပ်သော ဌာနများ၌ တွေ့ရလေ့ရှိသည်။ ယခုအခါ ဒိုင်နမိုကို အီလက်ထရစ် ဂျင်နရိတ်တားဟူ၍ ခေါ်ကြသည်။ အဓိပ္ပါယ်မှာ လျှပ်စစ်ဓာတ် ထုတ်လုပ်ပေးသော ကရိယာဖြစ်၏။ ဒိုင်နမိုဟူသော ဝေါဟာရမှာ ပါဝါ (စွမ်းအား) ဟု အဓိပ္ပါယ်ရသော ဂရိစကား 'ဒိုင်းနမစ်' မှ ဆင်းသက်လာသည်။ (လျှပ်စစ်ဓာတ် — ရှု။)

**ဒိုင်နိုဆောကောင်**။ ။ဘူမိဗေဒသဘောအရ ကျွန်ုပ်တို့နေထိုင်ရာ ကမ္ဘာ၏ နှစ်ပရိစ္ဆေဒကို ကပ်ဖြင့် ပိုင်းခြားရာဝယ်၊ လွန်ခဲ့သောနှစ်ပေါင်း ၆ ကုဋေမှ ၁၉ ကုဋေအထိရှိသော ကာလကို မက်ဆိုဇိုးအစ် (ဝါ) ဒုတိယကပ်ဟု ခေါ်လေသည်။ တွားသွားသတ္တဝါများ ကြီးစိုးသဖြင့် ထိုကပ်ကို တွားသွားသတ္တဝါခေတ်ဟုလည်း ခေါ်သည်။ ထိုကပ်အတွင်း ကမ္ဘာပေါ်၌ပေါ်ပေါက်သော သတ္တဝါတို့တွင် အချင်းချင်းအပေါ်ဝယ် အလွှမ်းမိုးနိုင်ဆုံးသော သတ္တဝါမှာ ဒိုင်နိုဆောခေါ် တွားသွားကောင် ဖြစ်လေသည်။ ဒိုင်နိုဆောဟူသော ဂရိစကားမှာ 'ကြောက်ဖွယ်ကောင်းသောဖွတ်' ဟု အဓိပ္ပါယ်ရလေသည်။ ဒိုင်နိုဆောအကောင်မျိုးတွင် သာမညဖြစ်သော ဘေးမပြုတတ်သည့် အကောင်ငယ်များ ပါဝင်သော်လည်း၊ များသောအားဖြင့် ကမ္ဘာပေါ်တွင် ပေါ်ပေါက်ခဲ့သမျှသော သတ္တဝါတို့တွင် ဒိုင်နိုဆောကောင်မျိုးမှာ အကြီးဆုံးဖြစ်လေသည်။ ထိုအကောင်မျိုးကို ယခုအခါ အသက်ထင်ရှားဖြင့် တကောင်မျှပင် မတွေ့ရသော်လည်း၊ ကျောက်ဖြစ်ရုပ်ကြွင်း အဖြစ်ဖြင့် ကျန်ရစ်ခဲ့သော ဒိုင်နိုဆောကောင် အရိုးစုတို့ကို တူးဖော်၍ စူးစမ်းလေ့လာကြခြင်းကြောင့်၊ ထိုအကောင်မျိုး၏ အနေအထား ပုံသဏ္ဌာန်ကို အနာတမိပညာရှင်တို့သည် ကောင်းစွာ ဖော်ထုတ်နိုင်ကြလေသည်။

ဒိုင်နိုဆောအကောင်မျိုးကို မျိုးစဉ်အားဖြင့် ဖွတ်နှင့်စပ်သော မျိုးနှင့် ငှက်နှင့်စပ်သော အမျိုးဟူ၍ ခွဲခြားနိုင်၏။ သို့သော် ဤသို့ခွဲခြားထားခြင်းမှာ မျိုးရိုးဆက်အားဖြင့် အတူတူဖြစ်သောကြောင့် ခွဲခြားထားခြင်းသာဖြစ်၏။ စင်စစ်ဖွတ်သည် ငှက်နှင့် များစွာ ခြားနားဘိသကဲ့သို့၊ ဒိုင်နိုဆောသည်လည်း ဖွတ်နှင့်သော်ရင်း၊ ငှက်နှင့်သော်ရင်း များစွာခြားနားသည်။ ဖွတ်မျိုးနှင့်ငှက်မျိုးဟု အမျိုးအမည် ခွဲခြားပေးခြင်းမှာ အခြားကြောင့်မဟုတ်။ ဒိုင်နိုဆောကောင်တမျိုး၌ ဖွတ်၏ တင်ပါးရိုးမျိုးရှိ၍၊ အခြားတမျိုး၌ ငှက်၏ တင်ပါးရိုးမျိုး ရှိသောကြောင့်တည်း။

### ဒိုင်နိုဆော မျိုးစဉ်နှစ်မျိုး

ဖွတ်တင်ပါးရိုးမျိုး ရှိသော ဒိုင်နိုဆောကောင်၏ မျိုးစဉ်မှာ 'ဆောရစ္စခီအာ' ဖြစ်၍၊ ငှက်တင်ပါးရိုးမျိုး ရှိသော ဒိုင်နိုဆောမျိုးစဉ်မှာ 'ဩနစ်သစ္စခီအာ' ဖြစ်သည်။

#### ဆောရစ္စခီအာ

ဆောရစ္စခီအာ မျိုးစဉ်တွင်ပါဝင်သော ဒိုင်နိုဆောတို့သည် သားစားသတ္တဝါများ ဖြစ်ကြ၏။ ယင်းတို့သည် နောက်ခြေနှစ်ချောင်းဖြင့် အားပြု၍ လှုပ်ရှားသွားလာကြသည်။ အသားစားသော ဒိုင်နိုဆောကောင်များအနက်



ဗာလင်မြို့ တိရစ္ဆာန်ရုံအတွင်းရှိ ဒိုင်နိုဆောကောင် ရုပ်တု

အကြီးဆုံးအကောင်မျိုးမှာ တိရန်နိုဆောရပ်ဖြစ်သည်။ ၄၇ ပေရှည်၍၊ အရွယ်မှာ ဆင်၏ နှစ်ဆမျှရှိသည်။ ဦးခေါင်းသည် ၄ ပေခန့်ရှည်၍၊ သွားများမှာ ၃ လက်မမှ ၆ လက်မ အထိရှိသည်။ မြေပေါ်တွင် သဘာဝအလျောက် မတ်မတ်ရပ်နေလျှင်၊ ပေ ၂၀ ခန့်မြင့်သည်ဟု မှန်းဆရသည်။ လက်မှာ သေးငယ်သော်လည်း ခြေထောက်မှာ သန်မာသော ခြေသည်းများဖြင့် အလွန်ကြီးမားပေသည်။

၎င်းမျိုးစဉ်တွင် အပါအဝင်ဖြစ်သော အခြားသတ္တဝါမှာ ဗရွန်တိုဆောရပ်ဖြစ်သည်။ မြောက်အမေရိကတိုက် ကော်လိုရာဒိုနှင့် ဝိုင်အိုမင်ဒေသ၌တွေ့ရှိသော ကျောက်ဖြစ်ရုပ်ကြွင်းများမှ ခန့်မှန်းကြည့်ရသော ဗရွန်တိုဆောရပ်မှာ ၆၇ ပေမျှရှည်သည်။ ပေပေါင်း ၈၀ အထိရှည်သော ဗရွန်တိုဆောရပ်များလည်း ရှိနိုင်သည်ဟု ခန့်မှန်းကြသည်။ ယင်းတို့၏ ကိုယ်အလေးချိန်မှာ ၃၅ တန်မျှလေးလိမ့်မည်ဟု ခန့်မှန်းရသည်။ ဦးခေါင်း သေး၍၊ လည်ပင်း ကြီးပြီးလျှင်၊ ခြေလက်အင်္ဂါတို့မှာ တုတ်ခိုင်ထွားကျိုင်းသည်။ ယင်းတိရစ္ဆာန်တို့၏ ခန္ဓာကိုယ် အလေးချိန်ကြီးမားလှသည်ကို အကြောင်းပြု၍၊ ပညာရှင်တို့က ယင်းတို့သည် ရေနေတိရစ္ဆာန်ဖြစ်ပေလိမ့်မည်ဟု ယူဆကြသည်။ ဦးခေါင်းရိုး အစိတ်အပိုင်းကို ကြည့်၍လည်း၊ သစ်သီး သစ်ဥ စားသော ရွက်စားသတ္တဝါဖြစ်သည်ဟု ဆိုကြသည်။

## ဩနစ်သစ္စခီအာ

ဩနစ်သစ္စခီအာ မျိုးစဉ်တွင်ပါဝင်သော ဒိုင်နိုဆောတို့ကား ရွက်စားသတ္တဝါများဖြစ်ကြသည်။ ယင်းတို့၌ သွားငယ်များ ယောင်ယောင်ရှိတတ်၏။ သို့သော် အချို့ဒိုင်နိုဆောကောင်တို့၌ ရှေ့သွားဟူ၍ အလျင်း မပါရှိချေ။ အချို့သော အကောင်တို့မှာ နောက်ခြေနှစ်ချောင်းကိုသာ အားပြု၍သွားတတ်ကြသော်လည်း၊ အများအားဖြင့်မူ ခြေလေးချောင်းဖြင့် သွားတတ်ကြသည်။ ယင်းမျိုးစဉ်တွင် တရက်ခိုဒန်ဟုခေါ်သော အကောင်မှာ နောက်ခြေနှစ်ချောင်းကို အားပြု၍ သွားတတ်သော အကောင်ဖြစ်သည်။ ယင်း၏ နှုတ်သီးမှာ ဘဲ၏နှုတ်သီးနှင့်တူသည်။ နှုတ်သီး၌ သွားငယ်ကလေးများ ပါရှိရာ၊ အထက်သွား ၁၀၀၀၊ အောက်သွား ၁၀၀၀ မျှ ရှိလေသည်။ ကိုယ်ထည်မှာ ၂၈ ပေရှည်သည်။ ထိုပြင် ကြံ့နှင့် ဆင်ဆင်တူသော ထရိုင်ဆာရတော့ခေါ် ဒိုင်နိုဆောကောင်မျိုး ရှိသေးသည်။ ယင်း၌ နှာရိုးပေါ်တွင် ချိုတချောင်း၊ မျက်စိနှစ်လုံးနောက်နားတွင် ချိုတချောင်းစီ၊

ပေါင်း ဦးချိုသုံးချောင်းရှိသည်။ ဦးခေါင်းမှ နောက်သို့ လန်လျက်ရှိသော အရိုးနုအကြေးခွံတခု ရှိသည်။ ထိုအကြေးခွံမှာ ကြီးမား၍၊ လည်ပင်းကို ကာကွယ်ပေးသော ဒိုင်းပမာတမျှဖြစ်သည်။ စတိဂိုဆောရပ်ခေါ် ဒိုင်နိုဆောကောင်၌ကား အလွန်သေးငယ်သော ဦးခေါင်းနောက်ရှိ လည်ကုပ်မှသည် အမြီးဖျားအထိ ကြီးမားသောအကြေးခွံများ နှစ်တန်းပါရှိသည်။ ယင်းအကြေးခွံတို့မှာ အသားစား ဒိုင်နိုဆောကောင်တို့၏ ဘေးရန်မှ ကာကွယ်ပေးသော အင်္ဂါများဖြစ်သည်ဟု ယူဆရသည်။ အိဂွာနိုဒန်ခေါ် ဒိုင်နိုဆောကောင်၏ လက်နှစ်ဖက်တွင် လက်မ နေရာ၌ ချွန်ထက်သော အတက်သဖွယ် လက်ချောင်းတခုစီ ပါရှိ၍၊ ထိုလက်ချောင်းဖြင့် ရန်သူကို ခုခံကာကွယ်သည်ဟု ယူဆရပေသည်။

## ဒိုင်နိုဆောခေတ်

ရှေးနှစ်ပေါင်း ကုဋေကုဋာက ဒိုင်နိုဆောကောင်များသည် ကမ္ဘာပေါ်ရှိ တိုက်အသီးအသီးတို့တွင် အနှံ့အပြား နေထိုင်ခဲ့ကြဟန်တူလေသည်။ အမေရိကန်ပြည်ထောင်စု အနောက်ပိုင်းရှိ ကျောက်ထူထပ်ရာ တောင်တန်းဒေသတို့တွင်၊ ထိုဒိုင်နိုဆောကောင်များ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို တူးဖော်ရရှိသည်။ မွန်ဂိုးလီးယားနိုင်ငံတွင် ၁၉၂၅ ခုနှစ်က ဒိုင်နိုဆောကောင်တို့၏ဥများကို ကျောက်ဖြစ်ရုပ်ကြွင်း အနေဖြင့် တူးဖော်ရရှိဘူးသည်။ ဤအချက်ကို ထောက်၍၊ ဒိုင်နိုဆောအကောင်မျိုးအချို့သည် အဥအုသောအမျိုးဖြစ်သည်ဟု ယူဆကြသည်။

ဒိုင်နိုဆောကောင်တို့သည် ဒုတိယကပ်အတွင်းတွင် မျိုးဆက်ပြန့်ပွား၍ နေထိုင်ခဲ့ကြသော်လည်း၊ နို့တိုက်သတ္တဝါခေတ်ဖြစ်သော တတိယကပ်သို့ ရောက်သောအခါ၊ ရွက်စားမျိုးသည် ဦးစွာ အညွန့်တုံးပြီးလျှင်၊ ရွက်စားကောင်များကို ဖမ်းယူစားသောက်တတ်သော သားစားမျိုးသည်လည်း နောက်ဆုံး၌ တဖြည်းဖြည်း အညွန့်တုံးသွားလေသည်။ (ကမ္ဘာဦးတိရစ္ဆာန်များ — လည်းရှု။)

**ဒိုင်ယာဖရမ်**။ ။ဒိုင်ယာဖရမ်သည် အသက်ရှူရာ၌ အရေးကြီး၍အသုံးဝင်သော ကြွက်သားကြီး ဖြစ်သည်။ လူ အပါအဝင်ဖြစ်သော နို့တိုက်သတ္တဝါတို့၌သာလျှင် ဒိုင်ယာဖရမ် အပြည့်အစုံပါရှိသည်။ ဒိုင်ယာဖရမ်သည် ရင်ပိုင်းနှင့် ဝမ်းပိုက်ကို ပိုင်းခြား၍ အထက်သို့ ခုံးလျက်ရှိသည်။ အသက်ရှူသောအခါ အောက်သို့ ရွေ့လာ၍ စန့်သွားသည်။ နံရိုးများ၌တွယ်လျက်ရှိသော ကြွက်သားတို့သည်လည်း နံရိုးများကို ဘေးသို့ကားထွက်စေသည်။ ထိုအခါ ရင်ခေါင်း ကျယ်လာ၍၊ ပြင်ပလေသည် အဆုတ်တွင်းသို့ ဝင်ရောက်သည်။ အသက်ရှူထုတ်သောအခါ၊ ဒိုင်ယာဖရမ်သည် အပေါ်သို့ခုံးတက်သွားသည်။ နံရိုးများသည်လည်း အတွင်းသို့ ကျုံ့ဝင်လာကြသည်။ ထိုအခါ လေသည် အဆုတ်အတွင်းမှ ပြင်ပသို့ ထွက်သွားသည်။

ဒိုင်ယာဖရမ်သည် အသက်ရှူသည့်ကိစ္စအပြင် အခြားကိစ္စအတွက်လည်း အသုံးဝင်သေးသည်။ ကျွန်ုပ်တို့သည် လေးလံသောဝန်ကို မ ယူသောအခါ၊ အသက်ပြင်းပြင်း ရှူသွင်းပြီးလျှင် အသက်ကိုအောင့်ထားတတ်ကြသည်။ ထိုသို့ပြုလုပ်ခြင်းသည် ဒိုင်ယာဖရမ်ကို တင်းမာခိုင်မြဲလာသည့်တိုင်အောင် ဆန့်သွားစေရန်ဖြစ်သည်။ ဒိုင်ယာဖရမ်သည် နံရိုးများ၌တွယ်လျက်ရှိသဖြင့် နံရိုးများသည် ကြံ့ကြံ့ခံနိုင်သည်။ လေးလံသောဝန်ကို မ ယူစဉ် ထိုအခြေ၌ နံရိုးများရှိစေရန်မှာ အလွန်ပင်အရေးကြီး၏။ အဘယ်ကြောင့်ဆိုသော်၊ ကျောက်ကုန်းနှင့် ဝမ်းပိုက်တို့မှ ကြွက်သားကြီး အများပင် နံရိုးများတွင် တွယ်နေကြသောကြောင့်ဖြစ်သည်။ နံရိုးများ ကြံ့ကြံ့ခံသမျှကာလပတ်လုံး ကြွက်သားတို့သည် နံရိုးများကိုကန်၍ လေးလံသောဝန်အားကို ဆွဲဆောင်နိုင်ကြသည်။ ဒိုင်ယာဖရန် ဆိုသောစကားသည် ကာရံသည်ဟူ၍ အဓိပ္ပါယ်ရှိသော ဂရိစကားမှလာသည်။

**ဒိုင်ယောဂျီနီ** (ဘီစီ ၄၁၂–၃၂၃ ခန့်)။ ။ရှေးဟောင်းဂရိနိုင်ငံ အက်သင်းမြို့၌ ယထာဘူတဆိုင်ရာ ဆင်းနှစ်ခေါ် ဂိုဏ်းတဂိုဏ်း ထွန်းကားဘူးသည်။ ထိုဂိုဏ်းသားတို့၏ အယူအဆသည် ကာမဂုဏ်ငါးပါးတို့၏အလိုကို မလိုက်မူ၍၊ မိမိ၏ခန္ဓာကိုယ် အတ္တဘောကို ညှဉ်းပန်းနှိပ်စက်ခြင်းဖြင့်၊



ဆင်းနစ်ဂိုဏ်း တည်ထောင်သူ ဒိုင်ယောဂျီနီ

မိမိ၏စိတ်ကို ထိန်းသိမ်းရာသည်ဟူသော အယူအဆဖြစ်၏။ ထိုဆင်းနစ်ဂိုဏ်း၏ အယူဝါဒကို ထွန်းကားပြန့်ပွားအောင် ဆောင်ရွက်သူကား ဒိုင်ယောဂျီနီဖြစ်သည်။

ဒိုင်ယောဂျီနီသည် ငယ်စဉ်ကပင် အက်သင်းမြို့သို့လာရောက်၍၊ ဆင်းနစ်ဂိုဏ်းသို့ဝင်ကာ ထိုဂိုဏ်းကိုတည်ထောင်သော ဆရာကြီး၏ထံပါးတွင် အန္တေဝါသိကအဖြစ်ဖြင့် နေထိုင်သည်။ ဤသို့ ဆင်းနစ်ဂိုဏ်းဝင်အဖြစ်ဖြင့် ကျင့်ရာတွင် မိမိပိုင် ပစ္စည်းဟူသမျှတို့ကို စွန့်လွှတ်ခဲ့သည်။ ဂရိထုံးဟောင်းပုံပြင်များအရ ပြောရလျှင်၊ သူသည် ကလေးသူငယ်တယောက် ရေသောက်ရာ၌ မိမိ၏လက်ခုပ်ဖြင့် ရေကိုခံ၍သောက်သည်ကို မြင်သည်တွင်၊ မိမိ နေ့စဉ်အသုံးအဆောင်ဖြစ်သော ရေခွက်ကိုပင် စွန့်လွှတ်၍၊ တရားကျင့်သည်ဟု ဆိုလေသည်။ အိုးအိမ်ဟူ၍ အတည်တကျမရှိဘဲ၊ ဂရိနတ်ကျောင်းများရှေ့တွင် ထားလေ့ရှိသော စရည်းအိုးကို အိမ်အမှတ်ပြု၍ နေထိုင်သည်ဟုလည်း အဆိုရှိသည်။ မိမိခန္ဓာကိုယ် အတ္တဘော ကြံ့ခိုင်စေရန်အလို့ငှာ၊ နွေဥတုတွင် ပူလောင်သော သဲပြင်၌ ကိုယ်ကိုလှိမ့်၍ ကျင့်၏။ အေးမြသော ဥတုတွင် ဆီးနှင်းဖုံးလွှမ်းလျက်ရှိသော ရုပ်တုတို့ကိုဖက်၍ အအေးခံနိုင်အောင် ကျင့်၏။ ဒိုင်ယောဂျီနီ၏ လူမှုဆက်ဆံရေးနှင့် စပ်လျဉ်း၍ကား၊ သူသည် တဖက်သား စိတ်နာကျည်းဖွယ်ရာ ပြက်ရယ်ပြုတတ်သည့်သဘောကြောင့် ထင်ရှားသည်။ ဥဒါဟရုဏ်အားဖြင့်၊ အခါတပါး၌ ဒိုင်ယောဂျီနီသည် ပင်လယ်ဓားပြတို့ အဖမ်းခံရသောအခါ၊ ဓားပြတို့က သူ့အား ကျွန်အဖြစ်ဖြင့် ရောင်းရန်စီမံသည်ရှိသော်၊ 'ငါသည် လူတို့အား စိုးမိုးအုပ်ချုပ်စေခိုင်းတတ်သည်။ ကျွန်ကား မလုပ်တတ်။ ထို့ကြောင့် ငါ့ကို ဆရာသခင်အဖြစ် အလိုရှိသူထံ ရောင်းလေ' ဟုဆိုလေ၏။ ထို့ကြောင့် ဓားပြတို့လည်း သူ့အား ကော်ရင့်မြို့နေ လူကုံထံတဦးထံ ရောင်းချရာ၊ ထိုလူကုံထံပုဂ္ဂိုလ်က သူ့အား သူ၏သားသမီးတို့ကို ပညာသင်စေရန် ဆရာအမှတ်ဖြင့် ခန့်အပ်၏။ ဤသည်တွင် ဒိုင်ယောဂျီနီလည်း နာမည်ကျော်ကြားလာပြီးလျှင်၊ နောက်ဆုံး၌ အယ်လက်ဇန္ဒာဘုရင်နှင့်ပင်လျှင် အကျွမ်းဝင်လာခဲ့လေသည်။ ဒိုင်ယောဂျီနီသည် ကော်ရင့်မြို့၌ပင် ကွယ်လွန်လေရာ။ သူ၏တပည့်တို့လည်း သူ၏အမည်ကိုဥဒါန်းတွင်ရအောင် အထိမ်းအမှတ်ကျောက်တိုင်တခုကို စိုက်ထူခဲ့လေသည်။

**ဒိုင်အိုနိုင်းဆပ်။** ။ဂရိနတ်များ — ရှု။

**ဒိုင်းနမိုက်။** ။ယခုခေတ်၌ အင်ဂျင်နီယာကြီးများသည် ကျောက်ဆောင်မြေထုကို ဒိုင်းနမိုက်ဖြင့်ဖြိုခွဲ၍ တူးမြောင်းများ၊ လိုဏ်ခေါင်းများ ဖောက်လုပ်ကြသည်။ ဒိုင်းနမိုက်သည် သေးငယ်သော်လည်း၊ ပေါက်ကွဲရာ၌ အလွန်ပြင်းထန်သည်။ ဒိုင်းနမိုက်အားလုံးလိုလိုတွင် အဓိကအားဖြင့် နိုင်ထရို ဂလစ်ဆရင်း ပါဝင်သည်။

နိုက်ထရို ဂလစ်ဆရင်းကို ၁၈၄၆ ခုနှစ်တွင် ဣတာလျံ အမျိုးသား အာစကားညို ဆိုဗရဲရိုးဆိုသူက ဖော်စပ်ခဲ့လေသည်။ နိုက်ထရို ဂလစ်ဆရင်းမှာ ဂလစ်ဆရင်းကို နိုက်ထရစ်အက်ဆစ်၊ ဆာလဖျူရစ် အက်ဆစ်တို့နှင့် ရောစပ်ပြုလုပ်ထားသော ပစ္စည်းဖြစ်သည်။ နိုက်ထရို ဂလစ်ဆရင်းမှ ဒိုင်းနမိုက်ဖြစ်အောင် ၁၈၆၆ ခုနှစ်တွင် ဆွီဒင်အမျိုးသား ဓာတုဗေဒပညာရှင် အဲလဖရက် နိုဗဲဆိုသူက ကြံစည်ပြုလုပ်ခဲ့လေသည်။ နိုဗဲမှာ နိုဗဲငြိမ်းချမ်းရေးဆုကို တီထွင်သောပုဂ္ဂိုလ်ဖြစ်၏။ (နိုဗဲ, အဲလဖရက် ဘီ — ရှု။)

ဒိုင်းနမိုက်ပြုလုပ်ရာ၌ နိုက်ထရို ဂလစ်ဆရင်းကို လွယ်ကူစွာမပေါက်ကွဲစေရန် ဓာတ်ပြုမှုကင်းသော နိုက်ထရို ဂလစ်ဆရင်းစုတ် ပစ္စည်းများတွင် စုတ်ဝင်နေစေသည်။ နိုဗဲအသုံးပြုခဲ့သည့် နိုက်ထရို ဂလစ်ဆရင်းစုတ် ပစ္စည်းမှာ ကီဇယ်ဂူးခေါ် မြေစေးတမျိုးဖြစ်သည်။ နောင်အခါတွင် ထိုမြေစေးမျိုးအစား သစ်သားပျော့ဖတ်၊ မြေဖြူ၊ မီးသွေး စသည်တို့ကို အသုံးပြုကြသည်။ ဒိုင်းနမိုက်တွင် နိုက်ထရို ဂလစ်ဆရင်း ၇၅ ရာခိုင်နှုန်း၊ ကီဇယ်ဂူး ၂၅ ရာခိုင်နှုန်း ပါဝင်လေ့ရှိသည်။ ၁၈၇၅ ခုနှစ်၌ နိုဗဲသည် ယခင်ကထက် ပိုမိုပြင်းထန်သော ဒိုင်းနမိုက် ဂျယ်လတင်ကို တီထွင်ပြန်သည်။ ထိုဒိုင်းနမိုက်တွင် နိုက်ထရို ဂလစ်ဆရင်း ၇၅ ရာခိုင်နှုန်း၊ နိုက်ထရို ဆဲလျူလို့ ၆ ရာခိုင်နှုန်း၊ ပိုတက်ဆီယမ် နိုက်ထရိတ် ၁၆ ရာခိုင်နှုန်းနှင့် သစ်သားပျော့ဖတ်၊ မြေဖြူတို့ အနည်းငယ်စီ ပါဝင်လေသည်။

ရိုးရိုးဒိုင်းနမိုက်သည် များသောအားဖြင့် တုတ်ချောင်းပုံသဏ္ဌာန်ရှိသည်။ အရှည် ၈ လက်မခန့်ရှိ၍၊ အချင်း ၂ လက်မခန့်ရှိ၏။ ရေငွေ့မဝင်နိုင်အောင် ဒိုင်းနမိုက်ကို ဖယောင်းသုတ်ထားသော စက္ကူအညိုရောင်ဖြင့် ရစ်ပတ်ထားသည်။ ဒိုင်းနမိုက်ကို ဖောက်ခွဲလိုသည့်အခါ မီးရှို့ပေးရသည်။ မီးစွဲလောင်နေစဉ် ဒိုင်းနမိုက်ကို အနည်းငယ်ရိုက်ခတ်လိုက်လျှင်၊ ထိပ်ဖုံးက ယမ်းအိမ်ပွင့်၍၊ ပြင်းထန်စွာ ပေါက်ကွဲသွားလေသည်။ (ပေါက်ကွဲစရာများ။ ဂရစ်ဆရင်း — လည်းရှု။)

**ဒိုင်းနက်လူမျိုး။** ။ဒိုင်းနက်လူမျိုးတို့သည် တိဗက်မြန်မာအစုဝင် သက်အုပ်စုတွင် ပါဝင်၏။ သို့သော် စစ်တကောင်းသွေး အနည်းငယ်နှော၍ ဗင်္ဂါလီစကားကို ပြောဆိုကြသည်။ စစ်တွေခရိုင်တွင် နေထိုင်ကြ၏။ လူဦးရေ ၆၀၀၀ ခန့်ရှိလေသည်။ (ဒိုင်းနက်လူမျိုး ၂ ဦးပုံကို ယာဖက်မျက်နှာ ၃၁၇ တွင် ဖေါ်ပြထားသည်။)

**ဒိုင်းမြှား**။ ။အဆောက်အအုံတခုခု၏ အပေါ်ဆုံးတွင် မိုးရေ နေပူရှိန်နှင့် လေပူ လေအေးတို့ကို ကာကွယ်ရန်ပြုလုပ်ထားသော အစိတ်အပိုင်းကို ခေါင်မိုးဟုခေါ်သည်။ ခေါင်မိုးဆိုသော စကားတွင် အုတ်ကြွပ်၊ သွပ်၊ ဝါးကပ်၊ သက်ငယ်၊ ဓနိ အစရှိသော ဖုံးအုတ်ထားသည့်ဝတ္ထုပစ္စည်းသာ မဟုတ်ဘဲ၊ ထိုဝတ္ထုပစ္စည်းများကို ထမ်းပိုး၍ထားရသော ဒိုင်း၊ ဒိုင်းခွ၊ မြှား အစရှိသည့် အမာခံပြုလုပ်ထားသော ဝတ္ထုပစ္စည်းများလည်း ပါဝင်လေသည်။

အမိုး၏အစောင်းနှင့် တပြေးတည်းနေသော သစ်သားများကို ဒိုင်းဟုခေါ်ကြ၍၊ ထိုဒိုင်းနှင့် ထောင့်မှန်ကျအောင်ဖြတ်တန်းနေသော သစ်သားများကို မြှားဟုခေါ်သည်။ သို့သော် ဝါးဖြင့်ပြုလုပ်သော ဒိုင်းကို 'အခြင်' ဟူ၍ရင်း၊ ဝါးဖြင့်ပြုလုပ်သောမြှားကို 'ဆီဗူးဆွဲ' ဟူ၍ရင်း၊ ခေါ်ဝေါ်လေသည်။ အိမ်မကြီးမှ အဆောင် ထုတ်သောအခါ၊ ခေါင်မိုး၏ မျက်နှာပြင်အစောင်းနှစ်ခုနံဘေးချင်းတွေ့ဆုံ၍ ဖြစ်ပေါ်လာသော ခေါက်ရိုးကို ရေလိမ်ဟုခေါ်သည်။ ရေလိမ်၏အပြေးတလျှောက် အသုံးပြုထားသောသစ်သားကို ရေလိမ်ဒိုင်းဟုခေါ်သည်။ အမိုး၏အစောင်းနှင့် တပြေးတည်းတန်းနေ၍၊အုန်းလက်နှင့် တန်စက်မြိတ်ကိုဖြစ်စေ၊ ခေါင်ရိုးနှင့် ရေလိမ်ဒိုင်းကိုဖြစ်စေ၊ ဆက်စပ်ထားသော ဒိုင်းတိုကလေးများကို နို့စို့ဒိုင်းဟု ခေါ်လေသည်။

ဇာတ်ရုံ၊ စပါးကျီ အစရှိသော အဆောက်အအုံများတွင် အလယ်တိုင်ဖျောက်လိုသောအခါ၊ သစ်သားများကို ပေါင်းစပ်ကာ၊ ဒိုင်းခွေ၍ အသုံးပြုကြသည်။ ခန်းဖွင့်ကျယ်သော သစ်သားဒိုင်းခွေများ၌ ဒိုင်းနှင့်ထုပ်ကို နှစ်ထပ်ပြုလုပ်လျက်၊ ညာတိုင်ထောက် ကျားများကို အလယ်၌ညှပ်ထည့်ပြီးလျှင်၊ မူလီစုပ်ပေးရသည်။ မြန်မာနိုင်ငံ၌ သစ်သားပေါသောကြောင့် ဒိုင်းခွေများကို သစ်သားများဖြင့်သာ များသောအားဖြင့် ပြုလုပ်တတ်ကြလေသည်။


ဒိုင်းနက်အမျိုးသား ၂ ဦး

**ဒိုင်း၊ လွှား၊ ကာ**။ ။ဒိုင်း၊ လွှား၊ ကာတို့သည် ရှေးမြန်မာတို့၏ စစ်လက်နက်ကရိယာများ ဖြစ်လေသည်။ ဒိုင်းအကြောင်းကို မြန်မာမင်း အုပ်ချုပ်ပုံစာတမ်း၊ စတုတ္ထပိုင်းတွင်၊ ဤသို့ ဖော်ပြထား၏။

'ဒိုင်းမှူးဆိုသည်ကား ဒိုင်းလက်နက်ကိုင် အမှုထမ်းအစုသားတို့အကြီးအကဲကို ဆိုလိုသည်။ ဒိုင်းသည်ကား အလျားတတောင်ထွာခန့်၊ အနံတတောင်ခန့် သားရေကို စိန်ကတုံးကဲ့သို့ ခုံးခုံးလုပ်၍ သစ္စေးသားရိုးကိုင်ပြီးလျှင် ဟင်္သပြဒါးအနီ ၂ စု၊ ရွှေတစု ခြယ်လှယ်ထားသော လက်နက်ကို ဆိုလိုသည်။

ဒိုင်းကို အသုံးပြုပုံမှာ စစ်တိုက်သည့်အခါ စစ်ထဲမှာပါသော ဆင်မြင်းများကို ချောက်လှန့်ခြင်း၊ ကာများကဲ့သို့ မြှား ခဲလုံးကို ကွယ်ကာခြင်းများတွင် အသုံးပြုသည်။ ဆင်မြင်းများကို ချောက်လှန့်ပုံမှာ ဒိုင်းကို တုတ်တိုကလေးနှင့် တတပ်လုံး တပြိုင်နက် တီးရိုက်ရသည်။ ထိုကဲ့သို့ တီးရိုက်သည့်အသံမှာ နားမခံသာအောင် အားကြီးခြင်းရှိသောကြောင့် သတ္တိနည်းပါးသော ဆင်များ မြင်းများသည်၊ တနည်းအားဖြင့် တိုက်ပွဲတွင် မပါမဝင်ဘူးသော ဆင်မြင်းများသည် ဒိုင်းချောက်သံကို ကြားသည်နှင့်တပြိုင်နက် ထွက်ပြေးတတ်သည်။ သို့ရာတွင် ထိုလက်နက်မျိုးမှာ ရှေးအခါကသာ အသုံးဝင်သည်။ သေနတ်၊ အမြောက် ဗုံး စသောဘေးရန်ကို ကာကွယ်နိုင်သည်မဟုတ်။'

သို့သော် ဘကြီးတော်လက်ထက်ကို မှီလိုက်သော ဆရာယုဒသန်က ဒိုင်း၏ပုံသဏ္ဌာန်ကို အဝိုင်းဟုဆို၏။ ကွယ်လွန်သူ ဝန်ထောက်မင်း ဦးမောင်မောင်တင်၏မှတ်စုမှ ရုပ်ပုံသည်လည်း ဝိုင်းဝိုင်းပင်ဖြစ်သည်။ မင်းတုန်းမင်းတရားကျောက်တော်ကြီးထွက်တော်မူခန်း ပုရပိုက်တွင်ပါသည့် ဒိုင်းပုံမှာလည်း အဝိုင်းပင်ဖြစ်လေသည်။

လွှားကို ဆရာကြီး ဦးပွားက ဦးကုလားရာဇဝင်၊ ဒုတိယတွဲ၊ ၃၅ တွင် စင်းကောကဲ့သို့ ဝိုင်းဝိုင်းဖြစ်ကြောင်း အောက်ပါအတိုင်းဆို၏။



ကာစွဲ မိုးနဲရွှေလှံကိုင်နှင့် ဒိုင်းစွဲ မိုးနဲရွှေလှံကိုင်
(ရွှေနန်းလက်သုံးပုံ ပုရပိုက်မှ)

'လွှားမှာကား စစ်တွင်း၌ လေး မြား ကျည်ဆန် လှံကန် တို့လာလျှင် စင်းကောက်သို့ ဝိုင်းဝိုင်းပြုလုပ်ထားသောအရာ ဖြင့် ဖယ်ရသည်။ ခေါင်းမှာလည်း ဆောင်းရသည်။ ၎င်း ကို လွှားခေါ်သည်။' သို့သော် ဆရာယုဒသန်နှင့် ဒေါက်တာ ဦးလင်းတို့က လွှားကို ဝမ်းဘဲဥပုံဟု ဆိုလေသည်။

ကာကို မြန်မာမင်းအုပ်ချုပ်ပုံစာတမ်း စတုတ္ထပိုင်း၊ ၇၉ တွင် အောက်ပါအတိုင်း ရေးထားသည်။

'ကာမှုးဟူသည်ကား ကာလက်နက်ကိုကိုင်ရသော အမှုထမ်းအစုသားတို့၏ အကြီးအကဲကို ဆိုလိုသည်။ ကာ လက်နက်ဆိုသည်ကား သားရေကို အချင်းနှစ်မိုက်ရှိအောင် ဝိုင်းဝိုင်း ခုံးခုံး လုပ်၍ သစ္စေးသားရိုး ကိုင်ပြီးလျှင် အနီနှစ်စု၊ ရွှေတစု ခြယ်ထားသော လက်နက်ကို ဆိုလိုသည်။ ထိုလက်နက်မှာလည်း မြားနှင့် ခဲလုံး လှံလျှင်များကို ကာကွယ်ရန် အသုံးပြုသည်။ ကာကို သိုင်းကသကဲ့သို့ က၍ခုခံသော အတတ်တမျိုးရှိသည်။ ထိုအတတ်မျိုးကို ရှေးအခါက ရှင်ဘုရင်များသည် ကိုယ်တိုင်တတ်သည်။ ကာချင်းဟူ၍ သီးခြားရှိသည်။' (ကာချင်း — ရှု။)

သို့ရာတွင် ဆရာယုဒသန်နှင့် ဒေါက်တာ ဦးလင်းတို့ကမူ ကာဆိုသည်မှာ ဒိုင်း လွှား စသည်တို့ကို ချုံ၍ခေါ်သော အမည်၊ ပုံသဏ္ဌာန် အသီးအခြားမရှိဟု ဆိုလေသည်။ ထိုပြင် ကျောက်တော်ကြီး ထွက်တော်မူခန်း ပုရပိုက်တွင်၊ လေးထောင့်ပုံနှင့် သက္ကဒါန်ပုံနှစ်မျိုးကို ရွှေလွှား၊ ရွှေကာဟု ကမ္ပည်းထိုးထားလျက်ရှိ၏။

ကာဟူသည်မှာ၊ လှံဖြင့်ထိုးလျှင်လည်း ကာဖြင့်ခံရသည်။ လှံတွင်မျှမက မြားဖြင့် ပစ်လျှင်လည်း ကာဖြင့်ခံရသည်။ ခဲလုံးဖြင့် ပေါက်လျှင်လည်း ကာဖြင့် ခံရသည်။ ဓားဖြင့် ခုတ်လျှင်လည်း ကာဖြင့်ခံရသည်။ ဤသို့ ထိုးပစ်ခုတ်ထစ်သော လက်နက်တို့ဘေးမှ ကာကွယ်ရသဖြင့်လည်း ထိုပစ္စည်းကို ကာဟူ၍ ခေါ်ခဲ့ကြဟန် တူလေသည်။

ကာအတတ်ကား ယောကျ်ားကောင်းတို့၏ အတတ်ဖြစ်သည်။ မင်းညီ မင်းသားဟူက ကာအတတ်ကို သင်ကြားတတ်မြောက်ကြသည်။ တောင်သူလယ်သမား ဆင်းရဲသားတို့သည်လည်း၊ လွှား၊ ကာ အတတ်ကို ကျွမ်းကျင် လိမ်



ရွှေဒိုင်း
(ဦးမောင်မောင်တင်မှု)





ရွှေလွှား ရွှေကာစွဲ သူရဲ၂ဦး
(ပုရပိုက်မှ)



ရွှေလွှား
(ဦးမောင်မောင်တင်မှု)

မာစွာ တတ်မြောက်ပါမူ၊ တော်ကောက် ခံရပေသည်။ ကြီးပွား ထွန်းကားနိုင်ပေသည်။ ပဌမ မင်းခေါင်ကြီးသည် မင်းအဖြစ်သို့ရောက်သောအခါ၊ လွှား ကာ တတ်သူတို့ကို ရွေးကောက်၍၊ သားတော် ပြည်စား သီဟသူကို ပေးတော်မူလေ့ရှိကြောင်းနှင့် မဏိရတနာပုံကျမ်းတွင် တွေ့ရလေသည်။ (မင်းခေါင်ကြီး — လည်းရှု။)

ဒုတိယ မင်းခေါင်လက်ထက်သို့ ရောက်သောအခါ၊ သျှင်မဟာရဋ္ဌသာရသည်လည်း မင်းညီမင်းသား ယောကျ်ားပီသသူများ လွှား၊ ကာ အတတ် တတ်ကြရပုံကို ကိုးခန်းပျို့တွင်၎င်း၊ သံဝရပျို့တွင်၎င်း၊ တံတားဦးတည် မော်ကွန်းတွင်၎င်း၊ ဖွဲ့ဆိုတော်မူခဲ့ပေသည်။

လွှား၊ ကာ အတတ်ကို ရှေးအခါက များစွာ အရေးပေးခဲ့လေသည်။ လွှား၊ ကာ အတတ်ကို ကောင်းစွာတတ်ကျွမ်း၍၊ လွှားရေး၊ ကာရေး အပြကောင်းသူတို့ကို လူအများက ဝိုင်းဝန်းအားကျကြသည်။ ချီးမွမ်း မြှောက်စားကြသည်။ ရိုသေကြောက်ရွံ့ကြသည်။ သရက်မင်းဆက်တွင် ဆင်ဖြူရှင် သီဟသူသည် ကာက အလွန်ကောင်းသည်ဟု ကျော်စောလေသည်။

ဒိုင်း၊ လွှား၊ ကာတို့မှာ တဖက်ရန်သူ၏ ဓားချက် လှံချက် မြားချက်တို့ကို ကာကွယ်ရုံအတွက်သာမက၊ စစ်ပွဲ၌ စစ်ဆင်များကို ခြောက်လှန့်ရန်အတွက်လည်း အသုံးပြုသေးသည်။ ယင်းကြောင့်လည်း ဒိုင်း၊ လွှား၊ ကာစသည့် သူရဲတို့သည် ဆင်တော်၏ ဝဲယာ ရှေ့နောက်မှ ခြံရံ၍ လိုက်ပါကြရခြင်းဖြစ်သည်။ ယင်း ဒိုင်း၊ လွှား၊ ကာတို့ကိုလည်း ဝင်းတော်လေးမျက်နှာသားတို့သာ အမြဲတမ်း ကိုင်ဆောင်ကြသည်ကို ရာဇဝင်များ၌ တွေ့ရှိရပြီးလျှင်၊ တပင်ရွှေထီးနှင့် ဘုရင့်နောင်တို့လက်ထက် စစ်ပွဲကြီးများတွင် များစွာ ထည့်သွင်း အသုံးပြုခဲ့သည်ကို တွေ့ရှိရပေသည်။ ကုန်းဘောင်ခေတ်တွင်ကား ဘုရင့်နောင်တို့ခေတ်မှာလောက် စစ်ဖက်အသုံးတွင် များများစားစား မတွေ့ရတော့ဘဲ၊ မင်းခမ်း မင်းနားများတွင်သာ ဒိုင်း၊ လွှား၊ ကာကိုင်တို့ကို စီစဉ် နေရာချထားပေတော့သည်။

ဒိုင်း၊ လွှား၊ ကာတို့ကို သားရေဖြင့် ပြုလုပ်သောကြောင့်၊ အစာငတ်မွတ်သောအခါ၊ ချက်ပြုတ်စားကြရသည်ကိုလည်း မဏိရတနာပုံကျမ်းတွင် 'ဘုရင်မင်းခေါင် သားတော် မင်းရဲကျော်စွာ မြို့ကိုဝန်းရံသောကြောင့် ငတ်မွတ်လှသဖြင့် ကာလွှား၊ မောက်တို့တို့ကို ချက်ပြုတ်၍စားရချေသည်။' ဟူ၍ တွေ့ရလေသည်။

**ဒစ်ကင်း, ချား (ခရစ် ၁၈၁၂-၁၈၇၀)။** ချား ဒစ်ကင်းသည် ကမ္ဘာတွင်ထင်ရှားသော အင်္ဂလိပ် ဝတ္ထုရေးဆရာကြီးတဦးဖြစ်သည်။ ဒစ်ကင်းသည် ကလေးဘဝတွင် ပင်ပန်းဆင်းရဲစွာ နေထိုင်ခဲ့ရ၍၊ ထိုအခါက သူ၏ ကိုယ်တွေ့ အဖြစ်အပျက်များကို သူရေးသောဝတ္ထုများတွင် သရုပ်ပေါ်ရာ၊ အလုပ်သမားလူတန်းစားတို့၏ ဘဝအခြေအနေကို ကောင်းစွာ ဖွဲ့နွဲ့နိုင်သဖြင့်၊ သူ၏ဝတ္ထုတို့သည် အနှံ့အပြား ကျော်ကြားလာခဲ့လေသည်။



ကမ္ဘာကျော်အင်္ဂလိပ်ဝတ္ထုရေးဆရာကြီး ချား ဒစ်ကင်း

ချား ဒစ်ကင်းသည် ၁၈၁၂ ခုနှစ် ဖေဖွာရီလ ၇ ရက်နေ့တွင် ပို့စမတ်မြို့အနီး လန်းပို့ရွာတွင် ဖွားမြင်သည်။ သူ၏မိခင်သည် ရေတပ်ဗိုလ်တဦး၏ သမီးဖြစ်၍၊ ဖခင်မှာမူ ရေတပ် လစာပေးရုံးတွင် စာရေးတယောက်ဖြစ်သည်။ သူ၏ဖခင်ဖြစ်သူ ဂျွန် ဒစ်ကင်းသည် ရရစားစား နေထိုင်တတ်သူဖြစ်ရာ၊ ကြွေး လည်ပင်းခိုက်နေသဖြင့်၊ နောက်ဆုံး၌ ထောင်ကျခဲ့လေသည်။

ဒစ်ကင်းသည် မိဘများ မချောင်လည်သဖြင့်၊ အရွယ်နှင့်မလိုက်အောင် အလုပ်ကြမ်းများကို လုပ်ကိုင်ရရှာသည်။ သူသည် ပုလင်းများလုပ်သော စက်ရုံတရုံတွင် တံဆိပ်ကပ်ရသောအလုပ်ကို တနေ့စ်ခန့် လုပ်ကိုင်ခဲ့သည်။ ယင်းသို့ မိမိအလုပ်လုပ်စဉ်က လူများနှင့် ပေါင်းသင်းဆက်ဆံရာ၌ တွေ့ကြုံခဲ့ရသော စိတ်မချမ်းမြေ့ဖွယ်ရာ အဖြစ်အပျက်တို့ကို ကောင်းစွာ မှတ်မိနေခဲ့ရာ၊ နောင်ကြီးပြင်းလာသောအခါ၊ ထိုကိုယ်တွေ့များသည် ဝတ္ထုရေးရာ၌ သူ့အား များစွာ အထောက်အပံ့ပြုခဲ့လေသည်။



ချား ဒစ်ကင်းသည် သေအရက်ကြောင့် အောက်တန်းစားဘဝသို့ရောက်ရပုံကို 'မြို့တော်နှစ်မြို့အကြောင်း' ဝတ္ထုတွင် ထင်ရှားပေါ်လွင်စွာ ရေးသားဖော်ပြခဲ့သည်။

၄ နှစ်သားအရွယ်လောက်တွင် ဒစ်ကင်း၏မိဘများသည် ချက်တမ်မြို့သို့ ပြောင်းရွှေ့နေထိုင်ကြသဖြင့်၊ ဒစ်ကင်းလည်း ထိုမြို့ရှိ စာသင်ကျောင်း တကျောင်းတွင် ပညာသင်ကြားရသည်။ သို့သော် ဒစ်ကင်းအား အင်္ဂလိပ်စာနှင့်လက်တင်စာကို ရှေးဦးစွာ သင်ပေးခဲ့သူမှာ သူ၏မိခင်ပင်ဖြစ်သည်။ ဒစ်ကင်းသည် ကျောင်းမှထွက်သောအခါ၊ ရှေ့နေတဦးထံတွင် အလုပ်ဝင်လုပ်သည်။ ယင်းသို့ အလုပ်လုပ်ယင်းနှင့်ပင် အားလပ်ချိန်များတွင် လက်ရေးတိုရေးခြင်းကို လေ့ကျင့်ခဲ့သည်။ ထိုနောက် အသက် ၁၉ နှစ်တွင် အောက်လွှတ်တော်၌ သတင်းထောက်အလုပ်ကိုရရှိသည်။ ထိုအချိန်မှစ၍ ဒစ်ကင်းသည် ဝါသနာအလျောက် ဆောင်းပါး အတိုအထွာကလေးများကို ရေးသားပြီးလျှင်၊ မဂ္ဂဇင်းတိုက်၊ သတင်းစာတိုက်များသို့ ပေးပို့လေသည်။ ဒစ်ကင်းသည် ဆောင်းပါးများတွင် ထိုခေတ်က လန်ဒန်မြို့၌ နေ့စဉ်တွေ့မြင်ရသော အဖြစ်အပျက်ကလေးများကို သရုပ်ဖော်ထားရာ၊ ထိုဆောင်းပါးတို့ကို လွန်စွာ လူကြိုက်များသဖြင့် ပုံနှိပ်ထုတ်ဝေသူများက ဒစ်ကင်းအား အလားတူဆောင်းပါးဝတ္ထုများကို ဆက်လက်၍ ရေးသားပေးပို့ရန် တောင်းပန်ကြသည်။ ဒစ်ကင်းလည်း ၁၈၃၆ ခုနှစ်တွင် 'ပစ်ဝစ် စာစဉ်' ဟူသောအမည်ဖြင့် ဝတ္ထုတပုဒ်ကို လစဉ် အရစ်ကျ ထည့်သွင်းဖော်ပြခဲ့လေသည်။ ယင်းဝတ္ထုမှာ အလွန် လူကြိုက်များလှသဖြင့်၊ ဝတ္ထု၏ ဇာတ်လိုက်ဖြစ်သော ဆမ်ဝဲလား၏ အမည်သည် ကမ္ဘာကျော်အောင် ထင်ပေါ်လာခဲ့လေသည်။ ဒစ်ကင်း၏နာမည်သည်လည်း တစတစ ကျော်စောလာခဲ့ရာ ယနေ့အထိပင် ဖြစ်တော့သည်။ ထိုနှစ်မှာပင် ဒစ်ကင်းသည် ကက်သရင်း ဟိုးဂတ်အမည်ရှိ အမျိုးသမီးတဦးနှင့် လက်ထပ်လိုက်လေသည်။

ဒစ်ကင်းသည် သူ၏ခေတ်က အင်္ဂလန်ပြည် လူမှုစံနစ်၏ ချွတ်ယွင်းချက်များကို ထုတ်ဖော်ကာ၊ ပြင်းထန်စွာ ဝေဖန်ရေးသားခဲ့သည်။ အထူးသဖြင့် ဒစ်ကင်းသည် ကလေးသူငယ်များ၏ ခိုကိုးရာမဲ့ဘဝကို စာဖတ်သူ၏စိတ်တွင် ကွက်ကွက် ကွင်းကွင်း ထင်မြင်လာအောင် ရေးသားဖော်ပြခဲ့၏။ သူသည် အများအားဖြင့် အောက်တန်းစား ဆင်းရဲသား အလုပ်သမားများအကြောင်းကို ဇာတ်ဆောင်ကာ ရေးလေ့

ရှိသည်။ သို့သော် သူ၏စာပေများကို လူတန်းစားမရွေး ဖတ်ရှု နှစ်ခြိုက်ကြပေသည်။

'အော်လီဗာ တွစ်' ဝတ္ထု (၁၈၃၈ ခုနှစ်) တွင် ဒစ်ကင်းသည် အလုပ်ရုံများ၌ အရွယ်နှင့်မလိုက်အောင် ပင်ပန်းဆင်းရဲစွာ လုပ်ကိုင်ကြရရှာသော ကလေးသူငယ်များ၏ သနားဖွယ်ဘဝဆိုးကိုရေးသားထားသည်။ 'ဒေးဗစ် ကော့ပါးဖီး' ဝတ္ထု (၁၈၄၉ ခုနှစ်) တွင်ကား ဒစ်ကင်းသည် မိမိငယ်ရွယ်စဉ်က တွေ့ကြုံခဲ့ရသော အဖြစ်အပျက်များကို မှုတည်ကာ ရေးသားထားသည်။ ထိုဝတ္ထုတွင် ကြွေးထူ၍ ထောင်ကျခံရသော သူ့ဖခင်၏ အဖြစ်သနစ်ကို ဇာတ်လမ်းတွင် ထည့်သွင်းဖော်ပြထားသည်။ 'နစ်ကလတ် နစ်ကလဗီ' ဝတ္ထု (၁၈၃၉ ခုနှစ်) တွင်မူ ထိုခေတ်က စာသင်ကျောင်းများတွင် ပညာ သင်ကြားကြရသော ကလေး သူငယ် များ ၏ အခြေအနေကိုရေးသားထားသည်။ ယင်းသို့အားဖြင့် ဒစ်ကင်း၏ ဝတ္ထုများသည် ကလေးသူငယ်များအား ဆိုးရွားလှသော ဘဝအခြေအနေမှ သက်သာချောင်ချိအောင် လူတို့ လုပ်ဆောင်ပေးကြစေရန် လှုံ့ဆော်ပေးခဲ့သည်။ ထိုခေတ် ထိုအခါက မိဖဆရာသမားများသည် ကလေးသူငယ်များကို ရိုက်နှက်ပေးပါမှ ဆုံးမရာရောက်မည်ဟု သဘောထားကြသည်။ ဒစ်ကင်းသည် ထိုသို့ ခေတ်မမှီသော အယူအဆများကို သူ၏ ဝတ္ထုများဖြင့် တစတစ ပပျောက်အောင် ဖန်တီးသည်။ သူ၏အယူအဆများသည် ခေတ်ရှေ့က ပြေးလျက်ရှိသည်။ သို့ဖြစ်ရကား ဒစ်ကင်းသည် ကလေးတို့၏ ဘဝအခြေအနေကို ပြုပြင်စေရန် လှုံ့ဆော်ပေးသောသူ ဖြစ်ပေသည်။

ဒစ်ကင်း ရေးသားသော ဝတ္ထုများအနက်၊ အင်္ဂလန်နှင့် ပြင်သစ်သမိုင်းကို နောက်ခံပြု၍၊ ဖွဲ့နွဲ့ရေးသားထားသော 'မြို့တော် နှစ်မြို့၏ အကြောင်း' ခေါ် ဝတ္ထုသည် သေရည်သေရက်ကြောင့် အောက်တန်းစားဘဝသို့ ရောက်ခဲ့ရသည်ပင် မှန်သော်လည်း၊ သူငယ်ချင်းအပေါ် တွင် သစ္စာတည်ကြည်၍၊ စေတနာမေတ္တာ အဟုန်ကြီးမားသောသူတဦးက ထိုသူငယ်ချင်းအတွက် အသက်စွန့်လှုတ်ခဲ့သည်ကို ကြည်ကွဲလွမ်းဆွတ်ဖွယ်ရာ ဖွဲ့နွဲ့ ရေးသားထားသော ဝတ္ထုဖြစ်သည်။ မြန်မာနိုင်ငံရှိ နာမည်ကျော် စာရေးဆရာကြီး ရွှေဥဒေါင်းသည် ဒစ်ကင်း၏ဝတ္ထုတပုဒ်ကို 'မြော်တလင့်လင့်' ဟူသော အမည်ဖြင့် ဘာသာပြန်ဆိုထားသည်။

၁၈၄၂ ခုနှစ်တွင် ဒစ်ကင်းသည် အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံသို့ ပဌမဆုံးအကြိမ် အလည်အပတ် သွားရောက်ခဲ့သည်။ သူ၏ အမေရိကန်သွား မှတ်တမ်းကို အမေရိကန်ပြည်သားတို့က များစွာ မနှစ်သက်လှသော်လည်း၊ ၁၈၆၇ ခုနှစ်တွင် နောက်ထပ်တကြိမ် သွားရောက်သော အခါ၊ သူ့အား သောင်းသောင်းဖြဖြ ကြိုဆိုကြသည်။

ဒစ်ကင်းသည် စာရေးရာ၌ များစွာ သဘာဝကျအောင် ရေးသားနိုင်ပေသည်။ သူ၏ဝတ္ထုများ၌ ဖော်ပြထားသော ဇာတ်ဆောင်သူများသည် နိုင်ငံသမိုင်းတွင် တကယ်ရှိခဲ့သောသူများထက် ပေါ်လွင် ထင်ရှားနေပေသည်။ သူ၏စာအုပ်များသည် အင်္ဂလိပ်လူမှုစနစ်ကို အကြီးအကျယ် ပြောင်းလဲစေခဲ့သည်။ ယင်းကဲ့သို့ လူများစု၏ အကျိုးဆောင် စာရေးဆရာကြီးသည် ၁၈၇၀ ပြည့်နှစ်၌ ကွယ်လွန်လေသည်။

**ဒစ်ဇနီ, ဝေါလတာ အီ** (ခရစ် ၁၉၀၁ ဖွား)။ ။ကာတွန်းရုပ်ပြောင်များကို လူနှင့်မခြား လှုပ်ရှားလာအောင် ရုပ်ရှင်တွင် တင်ပြအသုံးခံသည့်အရာတွင် ကမ္ဘာပေါ်၌ အလွန်ထင်ရှားကျော်စောသူသည် ဝေါ့ ဒစ်ဇနီဖြစ်သည်။ သူ၏အမည် အပြည့်အစုံမှာ ဝေါလတာ အီလီယာ့ ဒစ်ဇနီဖြစ်သည်။ ဒစ်ဇနီသည် မစ်ကီမောက် ကာတွန်းရုပ်ရှင်များကိုထုတ်လုပ်ခဲ့ရာ၊ ထိုကားများကို ကလေးလူကြီးမဟူ နှစ်သက်ကြသည်။ အထူးသဖြင့် တတိယမြောက် မစ်ကီမောက် ကာတွန်းရုပ်ရှင်ကို ပြသသည့်အခါ၊ ကမ္ဘာ ကျော်ကြားလာလေသည်။ ထိုနောက် သူ၏ကာတွန်းရုပ်ရှင်တို့တွင် တီရစ္ဆာန်တို့နှင့် စပ်လျဉ်းသော ခေတ်ဟောင်း ခေတ်သစ် ဒဏ္ဍာရီပုံပြင်တို့ကို ထည့်သွင်း၍ ရုပ်ရှင်ပြသရာ၊ အထူး ကျော်ကြားလာပြန်သည်။ နိုင်ငံခြား ကလေးသူငယ်တို့နည်းတူ မြန်မာကလေးသူငယ်တို့ အလွန်နှစ်သက်သော ကာတွန်းရုပ်ရှင်ကားများ



ကမ္ဘာကျော် ကာတွန်းရုပ်ရှင်ဝိဇ္ဇာ ဝေါ့ ဒစ်ဇနီနှင့် လူကြိုက်များလှသည့် ကာတွန်းဇာတ်လိုက် မစ်ကီ မောက်

မှာ ၁၉၃၇ ခုနှစ်တွင် ရိုက်ကူးသော 'စနိုးဝိုက်နှင့် လူပုခုနစ်ဖေါ်' ရုပ်ရှင်ကားအပြင် 'ပီနောကီယို' နှင့် 'စင်ဒါရဲလား' ရုပ်ရှင်ကားများဖြစ်သည်။ ဒုတိယကမ္ဘာစစ်အတွင်း၌ ဒစ်ဇနီသည် ပညာရေးဆိုင်ရာ ကာတွန်းရုပ်ရှင်တို့ကို အမေရိကန်ပြည်ထောင်စုအစိုးရအတွက် ထုတ်လုပ်ခဲ့သည်။ စစ်ကြီးပြီးသောအခါ ဒစ်ဇနီသည် ကာတွန်းရုပ်ရှင်လုပ်ငန်းမျှသာမက ရောင်စုံရုပ်ရှင်လုပ်ငန်းကိုပါ ဦးစီး ခေါင်းဆောင်ပြု၍ ထုတ်လုပ်ခဲ့ရာ၊ စတီဗင်ဆန် ရေးသားသော 'ရတနာဒီပ' ဝတ္ထုကို ကာတွန်းသဘောမဟုတ်ဘဲ၊ လူရုပ်ရှင်ဇာတ်လိုက်တို့ဖြင့် ရိုးရိုး ရိုက်ကူး ခဲ့ ရာ၊ အလွန် လူကြိုက်များ သည်။ ကလေးသူငယ်တို့၏ပညာရေးတွင် အထောက်အပံ့ဖြစ်စေနိုင်သော ရုပ်ရှင်ကား တကားမှာ သဲကန္တာရတွင် မှီတင်းနေထိုင်သော တိရစ္ဆာန်တို့၏ သဘာဝကို ဖေါ်ပြသည့် 'သလစ်ဗင်း ဒဲဆာ့' ခေါ် ဇာတ်ကားဖြစ်သည်။

ဒစ်ဇနီသည် ၁၉၀၁ ခုနှစ်တွင် ရှီကာဂိုးမြို့၌ ဖွားမြင်၍၊ ငယ်စဉ်က အနုပညာကျောင်းတွင် ပညာသင်ယူခဲ့သည်။

**ဒစ်ဇရေလီ, ဗီ** (ခရစ် ၁၈၀၄-၈၁)။ ။ဗင်ဂျမင် ဒစ်ဇရေလီသည် ဝိတိုရိယဘုရင်မကြီးလက်ထက်တွင် အထူး ထင်ရှားလှသော နန်းရင်းဝန်တဦးဖြစ်သည်။ ခရစ်ယန်တဦးဖြစ်သော်လည်း၊ ယဟူဒီမိဘတို့မှ မွေးဖွားလာသူဖြစ်၍၊ ရှေးဦးပဌမတွင် ထင်ပေါ်ခြင်း မရှိခဲ့ချေ။ ဦးစွာ၌၊ သူသည် ပိုးထည်၊ ဖဲထည်၊ ဇာချည်၊ ရေမွှေးနှင့်တကွ၊ လုပကောင်းမွန်သော ရုပ်ကြယ်သီး၊ လက်စွပ်ကြီးများ အစရှိသည့် အဖိုးတန်ပစ္စည်းတို့ဖြင့် ဖိတ်ဖိတ်တောက်အောင် ဝတ်စား ဆင်ယင်လေ့ ရှိသောကြောင့်၎င်း၊ စကားပြောရာ၌ ဟန်အမူအရာ များခြင်းကြောင့်၎င်း၊ လူအများ အထင်သေးခြင်းကို ခံခဲ့ရကာ၊ ဗြိတိသျှပါလီမန်တွင် ပွဲဦးထွက် စကားပြောရာ၌ လှောင်ပြောင်ခြင်းပင် ခံခဲ့ရလေသည်။ သို့သော် သူသည် ထူးခြားသောဇွဲလုံ့လနှင့် မနားမနေ ကြိုးစားပြီးလျှင်၊ ပြောဆို ဆင်ပြင်ဟန်များကို အတုခိုး နည်းယူခြင်းကြောင့်၊ စကားသစ် ထွင်နိုင်ခြင်း၊ ဟန်အမူအရာ ကောင်းခြင်း စသည့် အရည်အချင်းတို့နှင့် ပြည့်စုံလာလေသည်။



ဗြိတိသျှနိုင်ငံပြုသုခမိန် နန်းရင်းဝန် ဒစ်ဇရေလီ

ဒစ်ဇရေလီသည် ဝတ္ထုရေးခြင်းဖြင့်သာ မိမိဝမ်းကို ကျောင်းရသူဖြစ်၍ အစတွင် ဆင်းရဲရှာ၏။ သို့ရာတွင် ၁၈၃၉ ခုနှစ်၌ ဒစ်ဇရေလီသည် မိမိထက် အသက် ၁၂ နှစ်ခန့်ကြီး၍ ပစ္စည်းဥစ္စာကြွယ်ဝသူ မုဆိုးမတယောက်နှင့် လက်ထပ်လိုက်သည်တွင် ပင်ကိုယ်အားဖြင့် ပညာအရည်အချင်းနှင့် ပြည့်စုံခြင်း၊ သတ္တိဗျတ္တိ ရှိခြင်း၊ မဖြစ်မနေ ကြိုးစားခြင်းတို့ကြောင့်၊ သူ၏အခြေအနေသည် တဖြည်းဖြည်း တိုးတက်လာလေသည်။ သူရေးသောဝတ္ထုများက သူသည် အမှန်စင်စစ် အင်္ဂလန်ပြည်၏ မျိုးချစ်ပုဂ္ဂိုလ်တဦးဖြစ်ကြောင်း ကောင်းစွာ သက်သေခံလျက်ရှိသည်။

ဒစ်ဇရေလီသည် ၁၈၃၇ ခုနှစ်တွင် ပဌမဆုံးအကြိမ် ကွန်ဆာဗေးတစ်ပါတီဝင်အဖြစ် ပါလီမန်သို့ ရွေးကောက်တင်မြှောက်ခြင်းခံရ၏။ ၁၈၅၂ ခုနှစ်တွင် ဘဏ္ဍာရေးဝန်ကြီးဖြစ်လာ၍၊ ထိုရာထူးတွင် နောက်ထပ်သုံးကြိမ်မျှ အမှုထမ်းခဲ့ရလေသည်။ ၁၈၆၈ ခုနှစ်တွင် ဒစ်ဇရေလီသည် သုံ့လမ်းတောင့်တခဲ့သော နန်းရင်းဝန်ရာထူးကို ရရှိခဲ့၏။ သို့ရာတွင် သူအကြီးအမှူးပြုသည့် အစိုးရအဖွဲ့သည် တနှစ်အတွင်း လျှောကျပြန်သည်။ ၁၈၇၄ ခုနှစ်၌ သူသည် ဒုတိယအကြိမ် နန်းရင်းဝန် ဖြစ်လာပြီးလျှင်၊ ၆ နှစ်တိုင်တိုင် တာဝန် ဝတ်တရားကို ဆက်လက်ဆောင်ရွက်ရလေသည်။ ဒစ်ဇရေလီသည် နန်းရင်းဝန်အဖြစ် သူ၏နိုင်ငံရေးပြိုင်ဖက် ဂလက်စတုန်းထက်ပို၍ ဘုရင်မနှင့်အကျွမ်းဝင်သည်။ (ဂလက်စတုန်း, ဒဗလျူ၊ အီ — လည်းရှု။) ဒစ်ဇရေလီသည် စွမ်းရည်သတ္တိများနှင့် ပြည့်စုံသူဖြစ်၏။ သူသည် စက်ရုံဥပဒေများတွင်၎င်း၊ သူဆင်းရဲများအတွက် သက်သာချောင်ချိရေး အစီအမံများတွင်၎င်း၊ ပြုပြင်ပြောင်းလဲမှုများကို ပြုလုပ်ခဲ့၏။ ခေတ်သစ် ဗြိတိသျှအင်ပိုင်ယာကြီးကို သူပင် ပြုစုပျိုးထောင်ပေးခဲ့သည်ဟု ဆိုနိုင်ပေသည်။ ဒစ်ဇရေလီသည် ဝိတိုရိယဘုရင်မအား အိန္ဒိယနိုင်ငံတော်၏ ကေဒီ ဘုရင်မ

အဖြစ် ခံယူစေခြင်းဖြင့်၊ အိန္ဒိယတိုင်းသားတို့ ယုံကြည်အားထားမှု တိုးတက်လာစေရန် ဖန်တီးပေး၏။ ဆူးအက် တူးမြောင်း အစုရှယ်ယာများကို ဗြိတိန်အတွက် ဝယ်ယူလိုက်သောကြောင့်၊ အိန္ဒိယနိုင်ငံနှင့်ဆက်ဆံရေးကို လွယ်ကူစေ၏။ ၁၈၇၈ ခုနှစ်တွင် ဘာလင်ညီလာခံကြီး၌ ဗော်လကန်နိုင်ငံများတွင် ရုရှားတို့၏ အကြံအစည်များကို လိမ်မာပါးနပ်စွာ ကာကွယ်၍၊ တူရကီနိုင်ငံကို ကယ်တင်လိုက်၏။ ဘာလင်တွင် အရေးကိစ္စများ ချောမောအောင်မြင်စွာ မဆောင်ရွက်နိုင်မီ ၂ နှစ်ခန့်ကပင် ဘုရင်မကြီးသည် ဒစ်ဇရေလီအား သူကောင်းပြု၍၊ အား ဘွဲ့ဖြင့် ချီးမြှင့်ခဲ့လေသည်။ ၁၈၈၀ ပြည့်နှစ်တွင် သူ၏ပါတီ အရေးရှုံးနိမ့်သောအခါ၊ ဒစ်ဇရေလီသည် တောနယ်ရှိ သူပိုင်ခြံမြေအတွင်းသို့ ရွှေပြောင်းကာ၊ အေးချမ်းစွာနေခဲ့ပြီးနောက်၊ နောက်တနှစ် ၁၈၈၁ ခုနှစ် ဧပြီလ ၉ ရက်နေ့တွင် အနိစ္စရောက်လေသည်။ ဒစ်ဇရေလီ၏ ဂုဏ်တို့ကို ချီးကျူး၍၊ သူ့ကိုမမေ့သောသဘောဖြင့်၊ ကွန်ဆာဗေးတစ် ပါတီဝင်များသည် နှစ်စဉ်နှစ်တိုင်း၊ ဗင်ဂျမင် ဒစ်ဇရေလီ ကွယ်လွန်အနိစ္စရောက်သည့် နှစ်ပတ်လည်နေ့တွင်၊ သူနှစ်သက်သော ပရင်းမရို့ပန်းကို ရင်၌ထိုးကာ အထိမ်းအမှတ် ပြုကြလေသည်။

**ဒတ်စတာ့ယေးဖစကီ, အက်(ဖ)၊ အမ်** (ခရစ် ၁၈၂၁–၈၁)။ ။ဒတ်စတာ့ယေးဖစကီသည် ရုရှစာပေနယ်တွင် တောစတွိုင်နှင့် တတန်းစားတည်းထား၍ လေးစားခြင်းကို ခံယူရသော ရုရှဝတ္ထုရေးဆရာကြီးဖြစ်သည်။ (တော်စတွိုင်, အယ် — ရှု။) ယင်း၏နာမည် အပြည့်အစုံမှာ ဖျော့ဒါ မျစ်ခိုင်လပ်ဗျစ် ဒတ်စတာ့ယေးဖစကီဖြစ်သည်။

ဒတ်စတာ့ယေးဖစကီသည် လောကဓံတရား၏ဖိစီးခြင်းကို ခံရသည့်အကြားမှပင် ကမ္ဘာ့စာပေလောကတွင် ကျော်ကြားအောင် စာရေးသားနိုင်ခဲ့သော ထူးခြားသည့် ပါရမီရှင် ဖြစ်ခဲ့ပေသည်။ ဆင်းရဲနွမ်းပါး၍၊ လူ့ဘောင်အဖွဲ့အစည်း၌ အဆင့်အတန်းနိမ့်ကျသော သူများအပေါ် တွင် သနားကရုဏာစိတ် ထားတတ်သည်။ သူ၏ စူးရှထက်မြက်သောဉာဏ်သည် လူတို့၏အတွင်းသဘောကို ထိုးထွင်းသိတတ်လှသည်။ ထိုကြောင့်လည်း သူရေးလိုက်သောဝတ္ထုတို့သည် လူ့စိတ်ကို သရုပ်ခွဲ၍ပြရာ၌ သဘာဝအမှန်ကို ထုတ်ဖော်ပြသသည်နှင့် တူသောကြောင့် အလွန်ကျော်ကြားလေသည်။ ထိုကမ္ဘာကျော် စာရေးဆရာကြီးသည် သူ၏တသက်တာ၌ အလွန်လျှင် ဆင်းရဲနွမ်းပါးလှ၏။ မစားရ တချက် စားရ တချက်နှင့် အငတ်ငတ် အပြတ်ပြတ် ဖြစ်ပြီး လျှင်၊ မကျန်းမမာနှင့် နေထိုင်ခဲ့ရသည်က များပေသည်။ ဤသို့ သူ၏ဘဝသည် ဒုက္ခဆင်းရဲအပေါင်းနှင့် ပြည့်နှက်လျက် ရှိခြင်းကြောင့်၊ သူ၏ဝတ္ထုများသည် ဆင်းရဲသားလူထု၏ အ



လူ့သဘာဝကိုထင်ရှားဖော်ပြနိုင်သည့် ရုရှ ဝတ္ထုရေးဆရာကြီး ဒတ်စတာ့ယေးဖစကီ

ဖြစ်မှန်တို့ကို ဖော်ပြသောစာများ ဖြစ်ခဲ့သည်။ လူ့သဘာဝနှင့် စိတ်ဓာတ်ကို ပြတ်ပြတ်သားသား ဖွဲ့နွဲ့ ရေးသားရာတွင် ပါရဂူဟု သမုတ်ခြင်းကို ခံခဲ့ရသည်။ ဆရာကြီး၏ အကောင်းဆုံး လက်ရာတခုဖြစ်သော ‘ပြစ်မှုနှင့် အပြစ်ဒဏ်’ ဟူသောဝတ္ထုသည် ပြစ်မှုနှင့် ဥပဒေတို့၏သဘောကို သုံးသပ် ဝေဖန်ရေးသားထားသော ဝတ္ထုဖြစ်၍၊ ရုရှစာပေတွင်သာမက ကမ္ဘာ့စာပေတွင် ကျော်ကြားခဲ့သည်။

ဒတ်စတာ့ယေးဖစကီသည် ၁၈၂၁ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် မော်စကိုမြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူ စစ်ဆရာဝန်သည် စေးနဲ၍ ခက်ထန်သူဖြစ်ရကား၊ ဒတ်စတာ့ယေးဖစကီသည် ဆင်းရဲပင်ပန်းစွာဖြင့်ပင် စာပေကို သင်ကြားခဲ့ရ၏။ ကျောင်းမှထွက်၍ မကြာမီပင် စစ်တပ်၌ ဝင်ရောက် အမှုထမ်းသည်။ သို့ရာတွင် မကြာမီ စစ်တပ်မှ ထွက်၍ စိန့်ပီတာဗတ်မြို့သို့ သွားရောက်နေထိုင်ကာ စာပေဖက်၌လိုက်စားယင်း ၁၈၄၆ ခုနှစ်တွင် ‘သူဆင်းရဲ’ ခေါ် ဝတ္ထုကို ရေးသားထုတ်ဝေလေသည်။ သို့ရာတွင် သုံးနှစ်ခန့်ကြာသောအခါ၊ ဒတ်စတာ့ယေးဖစကီသည် ရုရှ တော်လှန်ရေးသမားတစု၏ တရားပွဲသို့ တက်ရောက် နားထောင်မိသဖြင့် အဖမ်းခံရ၏။ သူနှင့် တကွသော တော်လှန်ရေးသမားတို့ကို သေဒဏ်ချမှတ်၍ သတ်မည်ပြုသည်။ သို့သော်

၁၈၄၉ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့၌ သေဒဏ်ကို ရုပ်သိမ်း၍၊ ပြည်နှင်ဒဏ်အမိန့် ချမှတ်ခြင်းခံရသောကြောင့် သူသည် သေမင်းလက်မှ လွတ်ခဲ့ရလေသည်။ သို့ရာတွင် ရာသီဥတုကြမ်းတမ်းလှသော ဆိုက်ဗီးရီးယားတွင် လေးနှစ်မျှ အကျဉ်းခံရသည်။ ထိုနောက် ဆိုက်ဗီးရီးယား၌ပင် ခုနစ်နှစ်လုံးလုံး စိတ်၌ နှစ်မြို့ခြင်းမရှိဘဲ စစ်မှုထမ်းခဲ့ရ၏။ ဤသို့ ပြစ်ဒဏ်ခံယူရသော ကာလအတွင်း၌ သူသည် ရုရှနိုင်ငံကိုအုပ်စိုးသော လူတန်းစားတို့ကို မုန်တီးစိတ် ပြင်းထန်လာခဲ့သည်။ ဆင်းရဲသားလူထုနှင့်အတူ ဒုက္ခခံခဲ့ရသူပီပီ ထိုလူထု၏ဘဝကို ကိုယ်ချင်းစာနာသောစိတ်ဖြင့် ပိုင်းခြားဝေဖန် ကြည့်တတ်လာလေသည်။ သူ၏ဝတ္ထုများတွင် ထိုခေတ်က ထောင်စံနစ်၏ ကြမ်းကြုတ်ဆိုးရွားပုံကို ကွက်ကွက်ကွင်းကွင်း သရုပ်ဖေါ်ထားသည်။ ထို့ကြောင့်ပင် သူ၏ဝတ္ထုများသည် လူကြိုက်များ၍ ကျော်ကြားခဲ့၏။ ကိုယ်တိုင်တွေ့ကြုံရသော ဗဟုသုတကို အရင်းခံ၍၊ မိမိနှင့်ဘဝတူ လူတန်းစားတို့၏ အဖြစ်ကို ဝတ္ထုပေါင်းများစွာဖြင့် ရေးသားခဲ့သည်။ သို့ရာတွင် သူသည် အလောင်းအစား အကစား ဝါသနာလွန်မှုကြောင့် ကြွေးများ ပတ်လည်ဝိုင်းလာသဖြင့် ဂျာမနီနိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်နေရ၏။ ဂျာမနီနိုင်ငံ၌ လေးနှစ်မျှ ပိုက်ဆံစုဆောင်းရှာဖွေ၍၊ ကြွေးဆပ်နိုင်သည့်အခြေသို့ ရောက်မှ ရုရှားနိုင်ငံသို့ ပြန်ခဲ့လေသည်။

သူ၏ဝတ္ထုများသည် ကမ္ဘာ့စာပေတွင် ရုရှဝတ္ထုဟု စံချိန်ထိုးလောက်သည့် အဆင့်အတန်းသို့ ရောက်ခဲ့သည်မှာ အံ့သြဖွယ်ရာမရှိချေ။ သို့ရာတွင် သူ၏ဝတ္ထုများကို အပျင်းပြေရုံမျှ ဖတ်ရန် မဖြစ်နိုင်ချေ။ သူ့စာကိုဖတ်မိလျှင် စာဖတ်သူကိုယ်တိုင် ဒုက္ခအပေါင်းကို တွေ့ရှိခံစားရဘိသကဲ့သို့ ပြင်းပြင်းထန်ထန် စိတ်၌ထိခိုက်လာတတ်သည်။ လူ့စိတ်ဓာတ်၌ ခံစားရသော ဝေဒနာတို့ကို အမှန်အတိုင်း ဖွဲ့နွဲ့ရာ၌ 'ပြစ်မှုနှင့် ပြစ်ဒဏ်' ဟူသောဝတ္ထုနှင့် အလားတူ ကျော်ကြားသော အခြား ဝတ္ထုတအုပ်ကား 'ကာရာမာဇော့ ညီနောင်' ဖြစ်လေသည်။

**ဒန်တီ, အလီဂျာရီ** (ခရစ် ၁၂၆၅–၁၃၂၁)။ ။ဒန်တီသည် ဣတာလျံလူမျိုးတို့၏စာပေတွင် တနိုင်ငံလုံးက အမြတ်တနိုး လေးစားသော ကဗျာစာဆိုတဦးဖြစ်သည်။ သူ၏ကဗျာတို့သည် ဥရောပတိုက်အဝှန်း ပျံ့နှံ့သွားပြီးလျှင်၊ ကမ္ဘာအရပ်ရပ်တွင် ထင်ရှားကျော်စောခဲ့လေသည်။ ဒန်တီ၏အမည်ရင်းမှာ အလီဂျာရီ ဒန်တီဖြစ်သည်။ မူရင်း ဣတာလျံဘာသာနှင့်မူ ဒန်တေဟုခေါ်သည်။

ဒန်တီသည် ခရစ် ၁၂၆၅ ခုနှစ်တွင် မထင်ရှားသော မိဖနှစ်ပါးတို့မှ မွေးဖွားသော ဖလော်ရင့်မြို့သားတဦးဖြစ်သည်။ ကိုးနှစ်အရွယ်ခန့်ကပင် ဗေအာထရီးချေ (အင်္ဂလိပ်လို ဗီအာထရစ်) ဟုတွင်သော သူငယ်မနှင့်တွေ့ဆုံကြရာ၊ ကလေးဘဝ ကစားဖေါ် ကစားဖက် သူငယ်ချင်း ဖြစ်ခဲ့ရာမှ၊ နောင်အခါသော် ဒန်တီသည် ဗေအာထရီးချေကို တပ်မက် စွဲလမ်းခဲ့လေသည်။ သို့သော် ဗေအာထရီးချေသည် အခြားအမျိုးသားတဦးနှင့် အိမ်ထောင်ပြု၍၊ ၁၂၉၂ ခုနှစ်တွင် ကွယ်လွန်လေသည်။ ထိုနောက်မှ ဒန်တီသည် အိမ်ထောင်ပြုခဲ့ရာ၊ သားနှစ်ယောက်၊ သမီးနှစ်ယောက် ထွန်းကားသည့်တိုင်အောင်၊ မူလက အချစ်ဦးဖြစ်သော ဗေအာထရီးချေကို မမေ့နိုင်ဖြစ်ခဲ့လေသည်။ သူ၏ကဗျာတို့မှာ များသောအားဖြင့် ဗေအာထရီးချေကို စွဲလမ်းသောစိတ်ဖြင့် ရေးသော ကဗျာများဖြစ်သည်။ အိမ်ထောင်ပြုပြီးသည့်နောက်တွင် သူနေထိုင်သော ဖလော်ရင့်မြို့၌ ပေါ်ပေါက်နေသော နိုင်ငံရေးထဲတွင် ဒန်တီသည် ပါဝင်ဆောင်ရွက်ခဲ့လေသည်။ သို့သော် သူပါဝင်ဆောင်ရွက်ခဲ့သော ပါတီသည် နိုင်ငံရေးအယူအဆအားဖြင့် နှစ်ခြမ်း ကွဲသွားသောအခါ၊ ဒန်တီသည် ကွဲသွားသောဂိုဏ်းနှစ်ဂိုဏ်းအနက် တဂိုဏ်းဖက်သို့ လိုက်ပါသွားလေသည်။ ထိုအခါ ဒန်တီပါဝင်သော နိုင်ငံရေးဂိုဏ်းနှင့် ဆန့်ကျင်ဖက်ဖြစ်သော အခြား နိုင်ငံရေးဂိုဏ်းက လွှမ်းမိုးလာသဖြင့်၊ ၁၃၀၂ ခုနှစ်တွင် ဒန်တီသည် ပြည်နှင်ဒဏ်သင့်၍ ဖလော်ရင့်မြို့မှ ထွက်ခွါသွားရလေသည်။

ဒန်တီသည် ၁၈ နှစ်ခန့်မျှ ပြည်နှင်ဒဏ်ကြောင့် ထိုမှဤမှ အတည်တကျမရှိဘဲ သွားလာနေထိုင်ခဲ့ယင်း၊ 'ဒီဗိုင်း ကော်မဒီ' အမည်ရှိသော အက်ပစ်ကဗျာကြီးကို စီကုံးခဲ့သည်။ ထိုနောက် ဒန်တီသည် ရဗဲနာမြို့တွင် ကွယ်လွန်လေသည်။ ဒန်တီ ကွယ်လွန်ပြီးသည့်နောက်မှ ဖလော်ရင့်မြို့သူမြို့သားတို့သည် ဒန်တီကို ကဗျာဆရာကြီးအနေဖြင့် ချီးကျူးကြသည်။ ဒန်တီသည် ထိုဒီဗိုင်း ကော်မဒီ လင်္ကာအပြင် 'ဘဝသစ်' နှင့် 'စားတော်ပွဲ' အမည်ရှိသော လင်္ကာတို့ကိုလည်း ရေးသားခဲ့သည်။ ထိုကဗျာလင်္ကာကြီးသုံးခုသည် ဒန်တီ၏ ဘဝဖြစ်စဉ်ကို မှတ်တမ်းတင်သော ကဗျာလင်္ကာများ ဖြစ်လေသည်။ ဦးစွာ၌ ဒန်တီသည် ဗေအာထရီးချေ၏မေတ္တာဓာတ်ကို ခိုလှုံနိုင်ရန်အလို့ငှာ ကဗျာဖွဲ့ခြင်းကို ကောင်းစွာလေ့လာ၍ ချစ်ခြင်းမေတ္တာဟူသော ရတိဘာဝကို ဖေါ်ပြသည့် ကဗျာလင်္ကာများကို ရေးခဲ့သည်။ ဒုတိယအဆင့်၌မူ ဒန်တီသည် သိပ္ပံပညာ၌ စိတ်ဝင်စားပြီးလျှင်၊ လူတို့၏ ကျိုးကြောင်းဆင်ခြင်တုံတရားကို အမှီပြုသောသဘော သက်ဝင်သည့် ကဗျာလင်္ကာတို့ကို စီကုံးရေးသားလေသည်။ တတိယပိုင်း၌မူကား လူ့ဘဝ၌ ဒုက္ခအမျိုးမျိုးတို့က နှိပ်စက်ခြင်းခံရသည်အလျောက်၊ ထာဝရဘုရားသခင်အား ဆည်းကပ်လာသည့်သဘောကို ပြသော သံဝေဂ ကဗျာလင်္ကာများကို ရေးသားစီကုံးလေသည်။

ဒီဗိုင်း ကော်မဒီဟူသော လင်္ကာတွင် ဒန်တီသည် ငရဲကြီး၊



ဒီဗိုင်း ကော်မဒီ အပဲစ် ကဗျာကြီးကို စီကုံးခဲ့သူ ဣတလီကဗျာစာဆို ဒန်တီအား ပြည်နှင်ဒဏ်သင့်၍ ဖလော်ရင့်မြို့မှ မထွက်ခွာမီ ဤသို့ ကြေကွဲဘွယ်တွေ့ရသည်။

ငရဲငယ်နှင့် ကောင်းကင်ဘုံသို့ ဆယ်ရက်ခရီးဖြင့် ရောက်ခဲ့လေဟန်အကြောင်းအရာကို လက်ာဖြင့် ရေးသားစပ်ဆိုခဲ့သည်။ ထိုသို့စပ်ဆိုရာ၌ထိုခေတ်က ကဗျာလင်္ကာကို လက်တင်ဘာသာဖြင့် စပ်ဆိုမြဲဖြစ်သည့်အစဉ်ကိုဖျက်၍၊ ဖလော်ရင့်တွင် အများသုံးဖြစ်သော တပ်စကန်ဘာသာဖြင့် ရေးသားစီကုံးခဲ့သည်။ ထိုခေတ်သည် ရှေးဟောင်းစံပြစာပေတို့ကို တိုင်းရင်းဘာသာဖြင့် ပြန်လည် ထုတ်ဖေါ်သောခေတ်ဖြစ်လေရာ၊ ဒန်တီကို ဉာဏ်သစ်အရေးပုံ တီထွင်ခဲ့သူတဦးအဖြစ်ဖြင့် နှောင်းလူတို့က အသိအမှတ်ပြုကြသည်။ (ဉာဏ်သစ်အရေးပုံ — ရှု။) ဒီဗိုင်း ကော်မဒီ၌ ငရဲကြီးကို ပြဆိုရာအခန်း၊ ငရဲငယ်ကို ပြဆိုရာအခန်း၊ ကောင်းကင်ဘုံကိုပြဆိုရာအခန်းဟူ၍၊ သုံးခန်း ခွဲခြားနိုင်သည်။ ငရဲကြီးခန်းတွင် ဒန်တီသည် ရောမကဗျာစာဆို ဗာဂျီ၏ အာဘော်ကိုအမှီပြု၍၊ ဒန်တီအား ဗာဂျီက လမ်းညွှန်ပြသ၍ ငရဲကြီးသို့ရောက်ခဲ့လေဟန် စပ်ဆိုရေးသားသည်။ (ဗာဂျီ — လည်းရှု။) ငရဲငယ်ခန်း၌မူ၊ ဒန်တီသည် ပေအာထရီးချေကို စွဲလမ်းတပ်မက်သောအာရုံကို အရင်းခံ၍ ရေးသားသည်။ ကောင်းကင်ဘုံကို ဖွဲ့နွဲ့သောအခန်း၌မူကား ဗြဟ္မစိုရ်တရားကိုအခြေတည်၍ ကမ္ဘာလောက ငြိမ်းချမ်းသာယာပုံကို ဖွဲ့နွဲ့သည်။ ဒန်တီ၏ ငရဲခန်းနှင့် ကောင်းကင်ဘုံခန်းတို့ကို မြန်မာစာပေ၌ရှိသော ရှင်အဂ္ဂသမာဓိရေးသည့် နေမိငရဲခန်းပျိုနှင့် နေမိဘုံခန်းပျိုများ၏ သဘောသွားကဲ့သို့ နှိုင်းရှည့်နိုင်သည်။ သို့သော် မြန်မာစာပေတွင်ထင်ရှားသော ထိုငရဲခန်းနှင့် ဘုံခန်းပျိုတို့သည် လောကုတ္တရာသက်သက်ကို ရည်စူးသော ပျိုများဖြစ်သည်။ ဒန်တီ၏ ငရဲခန်းနှင့် ကောင်းကင်ဘုံခန်းတို့မှာမူကား ဒန်တီ၏ မျက်မှောက်ခေတ်တွင် ဖြစ်ပွားနေသော နိုင်ငံရေးသဘောတရားတို့ကို ဖေါ်ပြသဖြင့် လောကီကြောင်းနှင့် မကင်းချေ။ ဒန်တီ၏ငရဲခန်း၌ သူ့ခေတ်တွင် ထင်ရှားသော ပုဂ္ဂိုလ်အချို့တို့ ငရဲတွင် မည်သို့ခံစားနေကြရသည်ကို စောင်းမြောင်းရေးသားထားသည်။

**ဒန်တွန်, ဇော့ ဇက်** (ခရစ် ၁၇၅၉–၁၇၉၄)။ ။ဇော့ ဇက် ဒန်တွန်သည် ပြင်သစ် တော်လှန်ရေးခေါင်းဆောင်တဦးဖြစ်သည်။ (ပြင်သစ်တော်လှန်ရေး — လည်းရှု။) တော်လှန်ရေး အစပြုသောခေတ်၌ ဒန်တွန်သည် ပါရစ်မြို့တွင် ရှေ့နေအဖြစ်ဖြင့် နေထိုင်အသက်မွေးသည်။ ထိုစဉ်က ဘုရင့်စံနစ်ကို တော်လှန်သော ဂျက်ကိုဗင်အသင်းတွင် ပါဝင်ခဲ့သည်။ ၁၇၉၂ ခုနှစ် ဩဂုတ်လ ၁၀ ရက်နေ့တွင် ၁၆ ဆက်မြောက် လူဝီဘုရင်ကို ထိုတော်လှန်ရေးဂိုဏ်းသားတို့သည် ဖမ်းဆီး၍၊ အစိုးရအဖွဲ့ ဖွဲ့ကြသောအခါ၊ ဒန်တွန်သည် တရားရေးဌာနကို တာဝန်ယူခဲ့ရလေသည်။

ဒန်တွန်သည် အခြား တော်လှန်ရေးခေါင်းဆောင်များ



ပြင်သစ်အရေးတော်ပုံ တော်လှန်ရေးခေါင်းဆောင်တဦးဖြစ်သူ ဒန်တွန်

ဖြစ်သော ရောဗက်စပဲျနှင့်မာရတ်တို့နှင့် အတူတကွ တော်လှန်ရေးခေါင်းဆောင်များ၏ အဖွဲ့နှင့် တော်လှန်ရေးခုံရုံးကို ဖွဲ့စည်းခဲ့၏။ (ရောဗက်စပဲျ, အမ်။ မာရတ်, ဂျီ၊ ပီ — ရှု။) ထိုအဖွဲ့နှင့်ခုံရုံးတို့သည် တော်လှန်ရေးကာလအတွင်း ၃ နှစ်ကြာမျှ ပြင်သစ်နိုင်ငံအဝှန်းကို စိုးမိုးခဲ့လေသည်။ မူလက ဒန်တွန်သည် တော်လှန်ရေးတွင် ပြင်သစ်နိုင်ငံ တည်တန့်မှုကို ရည်စူး၍၊ တော်လှန်ရေး၏ရန်သူဆိုသော သူတို့ကို အစုလိုက် အပြုံလိုက် သတ်ဖြတ်သည့်အရာ၌၊ အလိုတူ အလိုပါပင် ဖြစ်သော်လည်း၊ တော်လှန်ရေး၏ရန်များ စဲသွားသောအခါ၊ ထိုကဲ့သို့သော အကြမ်းဖက်သည့်စံနစ်ကို ပယ်ဖျက်ရန်၊ လိုလား တောင့်တလာလေသည်။ ဒန်တွန်၏ သဘောအရမှာမူ ပြင်သစ်နိုင်ငံကို အဖျက်သဘောဖြင့် မတည်ထောင်ဘဲ၊ အပြုသဘောဖြင့် တည်ထောင်ရန် ရည်ရွယ်လေသည်။ သို့ရာတွင် တော်လှန်ရေးခေါင်းဆောင် အချင်းချင်းတို့သည် ဒန်တွန်ယူဆသော အကြမ်းနည်းမှ အနုနည်းသို့ ကူးပြောင်းခြင်းစံနစ်ကို လက်မခံနိုင်ကြ၍၊ သဘောကွဲလွဲလာလေသည်။ ထိုအခါ ရောဗက်စပဲျသည် ဒန်တွန်ကိုဖမ်းဆီး၍၊ မူလက ဒန်တွန် တည်ထောင်ဖွဲ့စည်းပေးသော ခုံရုံးတွင် တင်ကာ စစ်ဆေး၍ သေဒဏ်ပေးလေသည်။

**ဒန်ဒီလီယန်ပင်။** ။ဒန်ဒီလီယန် ပန်းပင်သည် 'ကွန်ပေါ်ဇီတီ' မျိုးရင်းတွင် ပါဝင်၍၊ ယင်း၏ ရုက္ခဗေဒအမည်မှာ 'တရက်ဆကမ် အော့ဖစ်ဆီနာလီ' ဖြစ်သည်။

ထိုပန်းပင်သည် အာရှတိုက်နှင့် ဥရောပတိုက်တို့တွင် မူလပေါက်ရောက်သည်။ ယခုအခါ မည်သည့် သမပိုင်းဒေသ၌မဆို စိုက်ပျိုး၍ ဖြစ်ထွန်းသည်။ အရွက်တို့သည်ရှည်၍ ပုံသဏ္ဌာန် မညီမညာရှိပြီးလျှင် ပင်စည်၏ဘေးတွင် အပေါ်သို့ ထောင်လျက်ရှိကြသည်။ မိုးရွာသောအခါ မိုးရေပေါက်သည် ထိုအရွက်များကိုလျှောက်၍ ရေသောက်မြစ်ရှိရာသို့ လျှောကျသွားသည်။ ရေသောက်မြစ်သည် ရှည်၍ ဖြောင့်တန်းသည်။

ဒန်ဒီလီယန်ပန်း၌ ဝတ်ရည်နှင့်ဝက်မှုန် ပေါများသဖြင့် ပျား၊ နကျယ်ကောင်၊ လိပ်ပြာ၊ ပိတုန်း၊ ယင်ကောင် စသည့် ပိုးကောင်အများအပြားသည် ထိုပန်းပွင့်များရှိရာသို့ သွားရောက်လေ့ရှိကြသည်။ အပွင့်တို့သည် တနေ့လုံး ပွင့်၍၊ နေ့ရာသီကုန်လောက်တွင် အမွေး စုတ်ဖွားဖွား ဖြစ်သွားကြသည်။ လေတိုက်သောအခါ အစေ့ကလေးများသည် ထိုစုတ်ဖွားဖွား အမွေးများကြောင့် လေသယ်ဆောင်ရာသို့ ပါသွားကြလေသည်။

ဒန်ဒီလီယန် ပန်းပင်ကို ဖြတ်တောက်ပစ်စေကာမူ၊ မြေကြီးထဲတွင် အမြစ်အနည်းငယ် ကျန်နေသေးလျှင် မကြာမီ ထိုအမြစ်မှ အပင်ငယ်ကလေး ပေါက်လာနိုင်ပေသည်။



ဒန်ဒီလီယန် ပန်းပင်

**ဒန်သတ္တု။** ။အလျူမီနီယမ် — ရှု။

**ဒန်းကတ်မြို့။** ။ဗဲလဂျီယမ်နိုင်ငံ နယ်စပ်အနီး၊ ဒိုဗာ ရေလက်ကြားရှိ ကမ်းခြေပေါ်တွင် တည်ရှိသော ဒန်းကတ်မြို့သည် ပြင်သစ်နိုင်ငံပိုင် အရေးကြီးသော ဆိတ်ကမ်းမြို့ တမြို့ဖြစ်သည်။ အေးချမ်းသောကာလများတွင် ဒန်းကတ် ဆိပ်ကမ်းသည် ဗဲလဂျီယမ်နိုင်ငံမှ ကျောက်မီးသွေးကို မှာယူတင်သွင်း၍၊ ပြင်သစ်နိုင်ငံ အရှေ့မြောက်ပိုင်းဒေသတို့သို့ တင်ပို့ပေးသည်။ မြို့၏ဆိပ်ကမ်းတွင် သင်္ဘောတည်ဆောက်သော သင်္ဘောကျင်းအလုပ်ရုံများ တည်ရှိသည်။ အခြားလုပ်ငန်းတို့ကား စက်မှုလက်မှုကရိယာများ ထုတ်လုပ်ခြင်းဖြစ်၏။ ဆီစက်၊ ဆပ်ပြာစက်၊ သစ်စက်၊ ဂျုံစက် စသော အလုပ်ရုံပေါင်းများစွာ ရှိသည်။ ဒန်းကတ်မြို့မှ အင်္ဂလန်ပြည် ဒိုဗာမြို့သို့ မီးရထားဖြင့် အဆက်အသွယ်ရှိသည်။ သို့သော် ဒိုဗာကမ်းခြေနှင့် မျက်နှာချင်းဆိုင်အရပ်မှ ကူးတို့ဖြင့် ဒိုဗာ ရေလက်ကြားကို ဖြတ်ကူးရသည်။ ဒန်းကတ်မြို့မှ အိုက်စလန်ကျွန်းသို့ သွားရောက်၍ ငါးဖမ်းသော တံငါလုပ်ငန်းလည်း ထွန်းကားသည်။ ဒန်းကတ်မြို့၏ လူဦးရေသည် ၂၁,၁၃၆ ယောက်ဖြစ်သည်။

ထိုမြို့သည် ပြင်သစ်နိုင်ငံ၏ ပင်လယ်ဆိပ်ကမ်းမြို့ ဖြစ်ရုံမျှ



ခရစ် ၁၇၁၁ ခုနှစ် ဒန်းကတ်မြို့ကိုသိမ်းယူရန် အင်္ဂလန်ပြည့်ရှင် အန်ဘုရင်မ၏ အင်္ဂလိပ်ရေတပ်စု ဆိုက်ကပ်နေစဉ်

မက၊ ရေတပ်စခန်းမြို့လည်း ဖြစ်ချေရကား၊ ပြင်သစ်နိုင်ငံ၏ စစ်သမိုင်းအဆက်ဆက်တွင် အလွန်ထင်ရှားသော မြို့ဖြစ်သည်။ ထိုမြို့ကို ၇ ရာစုနှစ်လောက်က မြို့တည်ခဲ့သည်။ သို့သော် မြို့၏တည်နေရာသည် အရေးကြီးသောကြောင့်၊ စပိန်လူမျိုးနှင့် ပြင်သစ်လူမျိုးတို့သည် ထိုမြို့ကို သူတပြန် ကိုယ်တပြန် ချင်းနင်းဝင်ရောက် သိမ်းပိုက်ခဲ့ကြသည်။ ခရစ် ၁၆၅၈-၆၂ ခုနှစ်အတွင်း အင်္ဂလိပ်လူမျိုးတို့ကလည်း ဝင်ရောက် သိမ်းပိုက်ခဲ့ကြသေး၏။ ထိုနောက်၌ကား ပြင်သစ်နိုင်ငံက ပိုင်လေသည်။ ၁၉၁၄-၁၈ ခုနှစ် ပဌမကမ္ဘာစစ်အတွင်းတွင် ဂျာမန်တို့၏ ဗုန်းဒဏ်ကြောင့်၊ ထိုမြို့သည် များစွာပျက်စီးခဲ့ရလေသည်။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ်၌ကား ဒန်းကတ်မြို့သည် ဂျာမန်တို့၏လက်အတွင်း ကျဆင်းခဲ့လေသည်။ ဤကဲ့သို့ ဂျာမန်လက်တွင်းသို့ ကျဆင်းခါနီးတွင် ဗြိတိသျှ၊ ပြင်သစ်နှင့် မဟာမိတ်စစ်တပ်တို့သည် ဒန်းကတ်မြို့မှ အင်္ဂလန်ပြည်သို့ အောင်မြင်စွာ ဆုတ်ခွာလာခဲ့ကြသည်မှာ၊ စစ်သမိုင်းတွင် ဥဒါန်းတွင်လေသည်။

## ဒန်းကတ်မှ ဆုတ်ခွာပုံ

၁၉၄၀ ပြည့်နှစ် မေလ ၁၀ ရက်နေ့တွင်၊ ဂျာမန်တို့သည် ဗဲလဂျီယမ်နှင့် နယ်သာလန်နိုင်ငံတို့ကို ဝင်ရောက်တိုက်ခိုက်လေသည်။ ထိုအချိန်တွင် မြောက်ဖက်မှ ဂျာမန် သံချပ်ကာ ကားတပ်ကြီးသည် မက်ဇီးနိုးခံတပ်ကြီးကို ဖောက်ဖျက်၍၊ ဖလန်းဒါး စစ်မျက်နှာရှိ မဟာမိတ်တပ်နှင့် ပြင်သစ်ရှိ မဟာမိတ်တပ်တို့၏အလယ်စစ်ကြောင်းသို့ ဖိဝင်လာလေသည်။ ဗြိတိသျှနှင့် ပြင်သစ် စစ်သေနာပတိကြီးများသည် အခြား မဟာမိတ်တပ်များနှင့် ပြန်လည်ပေါင်းဆုံမိစေရန် အစွမ်းကုန် အားထုတ်ကြသော်လည်း၊ အချည်းနှီး ဖြစ်ခဲ့၏။ အင်အားကြီးမားလှသော ဂျာမန် မော်တော်ဆိုင်ကယ်တပ်များသည်လည်း ဗိုလုံးမြို့နှင့် ကဲလေးမြို့ဆီသို့ ဆင်းလာကြပြီဖြစ်၏။ ရန်သူတို့ အလွန်လျင်မြန်စွာ အင်အားဖြင့်ဖိ၍ ဝင်လာသည်ကို ခုခံရန် အချိန်မရနိုင်ဘဲ ရှိသောအခါ၊ မဟာမိတ်တို့သည် ဥရောပကုန်းမြေမှ အမြန်ဆုံး ဆုတ်ခွာရုံမှတပါး၊ အခြား ဘာမျှ မတတ်နိုင်တော့ချေ။ စင်စစ်အားဖြင့် မဟာမိတ်တို့၌ များပြားလှသော စစ်တပ်များနှင့် အောင်မြင်စွာ ဆုတ်ခွာရေးကိုပင် စီစဉ်ရန် အချိန် မရနိုင်အောင် ရှိနေလေပြီ။ အဘယ်ကြောင့်ဆိုသော် အင်္ဂလန်ကမ်းခြေနှင့် အနီးဆုံးဖြစ်သော ဗိုလုံး၊ ကဲလေးနှင့် ဒန်းကတ် ဆိပ်ကမ်းသုံးခုအနက် ဗိုလုံးနှင့် ကဲလေးတို့တွင် ဂျာမန်တပ်များ ရောက်နေပြီဖြစ်သောကြောင့်ပင်တည်း။

မည်သို့ပင်ဖြစ်စေ ဗိုလုံးနှင့် ကဲလေးတွင်ငင်း၊ ဗဲလဂျီယမ် စစ်မျက်နှာတွင်ငင်း၊ မဟာမိတ်တပ်များသည် ရှုပ်ရှုပ်ချွံချွံ တိုက်ခိုက်လျက်ပင် ရှိသေးရကား၊ ဒိုဗာကမ်းခြေရှိ စစ်ဦးစီးဌာနသည် ဥရောပကုန်းမြေပေါ်ရှိ မဟာမိတ်တပ်များ အတွက် အပြေးအလွှား အစီအစဉ်များကို ပြုလုပ်နိုင်ခဲ့သည်။ သို့ရာတွင် အင်္ဂလိပ်ရေလက်ကြားကြီးအတွင်းရှိ ရေကြောင်းသယ်ယူပို့ဆောင်ရေး လှေယာဉ်များမှာ လူပေါင်း သုံးသိန်းကျော်ပါဝင်သော မဟာမိတ်စစ်တပ်များ အားလုံးကို သယ်ယူရန် မလုံလောက်ချေ။ မေလ ၁၄ ရက်နေ့မှစ၍ အင်္ဂလိပ်ရေလက်ကြားကြီးရှိ လှေသင်္ဘောများ၏ စာရင်းကို ရေကြောင်းဌာနမှ ကောက်ယူခဲ့ရာ၊ ပေ ၃၀ ခန့် သာရှိသော မိုတိုဘုတ်များနှင့် လှေကြီးများ အပါအဝင် ရေယာဉ်အစုစု ၉၀၀ ခန့်သာ ရှိခဲ့သည်။ ယင်းတို့တွင် ကမ္ဘာစစ်အတွင်းက သုံးခဲ့သော ဖျက်သင်္ဘောနှစ်စင်း၊ ရေမြှုပ်ဗုံးရှင်း သင်္ဘောအချို့၊ လက်နက်တပ်ဆင်ထားသော လှေအချို့နှင့် ကူးတို့သင်္ဘောအစင်း ၃၀ ကျော်ခန့် ပါဝင်ကြသည်။ ရေတပ်မတော်၏ အကူအညီနှင့် လေတပ်မတော်၏ အစောင့်အရှောက်တို့ကို ပေးရန် အစီအစဉ် ရှိခဲ့သော်လည်း၊ ရုတ်တရက်ဖြစ်၍၊ ထိရောက်စွာ အကူအညီ မပေးနိုင်ခဲ့ချေ။

ဗိုလုံးမှ ခုခံသော မဟာမိတ်တပ်များသည် အားမတန်သဖြင့် လျှော့လိုက်ရသည်။ မေလ ၂၆ ရက်နေ့တွင် ဥရောပရှိ မဟာမိတ်တပ်များသည် အင်္ဂလန်ကမ်းခြေဖက်သို့ ဖြစ်သလို ဆုတ်ခွာရန် နောက်ဆုံးအမိန့်ကို ဗြိတိသျှကာကွယ်ရေးဌာနဝန်ကြီး အန်တိုနီ အီဒင်သည် ထုတ်ပြန်လိုက်ရသည်။ ထိုနေ့တွင် ကဲလေးမြို့သည် လက်နက်ချလိုက်ရသည်။ ဗဲလဂျီယမ် စစ်တပ်များသည်လည်း ထိုနည်းတူပင် လက်နက်ချရသည်။ ထိုအခါ ဗြိတိသျှ စစ်သေနာပတိချုပ် ဂေါ့ ကိုယ်တိုင် ပြင်သစ် စစ်ဗိုလ်ချုပ်မှူး ဝေးဂန်းနှင့် တွေ့ဆုံဆွေးနွေး၍၊ ဗြိတိသျှနှင့်အတူ ပြင်သစ်တို့ပါ ဒန်းကတ်မှ ဆုတ်ခွာရန် စီစဉ်လေသည်။ ထိုအတောအတွင်း၌ ကမ်းခြေရှိ ဗိုလုံး၊ ကဲလေး၊ အောစတင်း၊ ဇေးဗရုဂ်ဂီ စသော မြို့များကို ဂျာမန်တပ်တို့က သိမ်းပိုက်ပြီးဖြစ်သည်။ မေလ ၂၇ ရက်နေ့ည သန်ခေါင်အချိန်တွင် ဒန်းကတ်သို့ရောက်နေသော မဟာမိတ်တပ်တို့သည် ဆုတ်ခွာရန် ပြင်ဆင်ကြလေသည်။ ဒန်းကတ်သည် ရန်သူ လက်တွင်းသို့ မကျရောက်သေးဟု ဆိုရသော်လည်း၊ ဂျာမန်လေယာဉ်ပျံများ၏ အထပ်ထပ် အခါခါ ဗုံးကြဲချခြင်းကိုခံရရာ၊ ဆိပ်ကမ်းတခုလုံး ရစရာမရှိအောင် ပျက်စီး၍၊ မီးဟုန်းဟုန်း တောက်လျက်ရှိသည်။ စစ်မြေပြင်မှဆုတ်ခွာ၍ ဝင်လာသောတပ်များသည် ကုန်းပိုင်း၌ နေစရာမရှိတော့ဘဲ၊ ဒန်းကတ်ကမ်းခြေသို့ လိုမ့်၍ ဆင်းလာကြရလေသည်။ ဆုတ်ခွာရာ လမ်းတလျှောက်၏ ဘေး တဖက် တချက်တွင်ကား၊ အမျိုးမျိုးသော ဗြိတိသျှ ယာဉ်အပျက်အစီးများမှအစ အမျိုးမျိုးသော စစ်သုံးပစ္စည်း အကျိုးအပဲ့များအထိ၊ အစုလိုက် အပုံလိုက် တွေ့မြင်ကြရလေသည်။

သင်္ဘောများဆိုက်ကပ်နိုင်သော ဆိပ်ခံ ကုန်းဘောင်များ



ဒန်းကတ်ကမ်းခြေမှဆုတ်ခွာရန် မဟာမိတ်တပ်များ စုရုံးနေကြစဉ်



ဒန်းကတ်ကမ်းခြေမှ ခွာလာစဉ်တွင်



မီးဟုန်းဟုန်းတောက်နေသော ဒန်းကတ်မြို့ဆိပ်ကမ်းမှ အင်္ဂလန်ပြည်သို့ ဦးလှည့် ဆုတ်ခွာလာစဉ်

သည် ဒန်းကတ်ဆိပ်ကမ်းနှင့် တည့်တည့်တွင်သာ ရှိ၍၊ နေရာလည်း ကျယ်ဝန်းလှသည် မဟုတ်ရာ၊ များပြားလှစွာသော မဟာမိတ်တပ်များသည် ကမ်းခြေ သဲသောင်ပြင်များသို့ ဖြန့်၍ ဆင်းကြရလေတော့သည်။ သဲသောင်ကမ်းခြေမှာလည်း ရေတိမ်သည်ဖြစ်ရာ၊ သင်္ဘောများဆိုက်ကပ်ရန် မဖြစ်နိုင်ချေ။

ထိုအချိန်အထိ ရေတပ်ဆိုင်ရာမှ အစီအမံများသည် တစုံတရာ အကောင်အထည် မပေါ်သေးသဖြင့်၊ အခက်အခဲများစွာ တွေ့ကြရ၏။ အတွင်းဖက် ဆိပ်ကမ်းသို့လည်း သင်္ဘောများ မဝင်နိုင်အောင် ပိတ်ဆို့လျက်ရှိသောကြောင့်၊ ဆိပ်ခံ ကုန်းဘောင်ထိပ်မှသာလျှင် ဆိုက်ကပ် သယ်ယူရလေရာ၊ ထိုကုန်းဘောင်ပေါ် တွင် စစ်တပ်များဖြင့် ပြည့်နှက်လျက်ရှိ၏။ ဂျာမန်လေတပ်ကလည်း ထိုကုန်းဘောင်ကိုသာ သဲသဲမဲမဲ ဗုံးကြဲတိုက် ခိုက်လျက်ရှိသော်လည်း၊ ကံအားလျော်စွာ အထိအခိုက်မရှိခဲ့ချေ။ ဂျာမန် မြေပြင်အမြောက်များ၊ လေတပ်မှ ချသော ဗုံးများ၏ အသံသည် အဆက်မပြတ် မြည်ဟည်းလျက်၊ စက်သေနတ်ကလည်း မရပ်မနားပြစ်ခတ်လျက်ရှိသည်တွင်၊ ဒန်းကတ်မြို့မှ မီးတောက်သည် ကြောက်ဖွယ်လိလိ ဖြစ်တော့သည်။ ထိုအချိန်အခါ၌ ကမ်းခြေသို့ရောက်နေသော တပ်များတွင် သောက်ရေ ရရန်ပင် ခက်ခဲလျက်ရှိသည်ကို ကြုံရပြန်သည်။

ရေတပ်မှ အကူအညီမရမီတွင် အင်္ဂလန်ကမ်းခြေနှင့် ဒန်းကတ်ကမ်းခြေရှိ ကူးတို့သင်္ဘောများမှ အစ လှေငယ် တကျင်းမကျန် စုကာ၊ ဖြစ်ကတတ်ဆန်း အစီအမံဖြင့် သယ်ယူပို့ဆောင်ခဲ့ကြရသည်။ မေလ ၂၈ ရက်နေ့တွင် မဟာမိတ်တပ်များသည် ဒန်းကတ်ကမ်းခြေသို့ အားလုံးရောက်ကြပြီဖြစ်၏။ သယ်ယူပို့ဆောင်ရာတွင် မိုးသီးမိုးပေါက်တမျှ ကြဲချပစ်ခတ်လျက်ရှိသော ဂျာမန်ဗုံးနှင့် စက်သေနတ်များအကြားမှ ကံတရားကိုအားကိုး၍ စွန့်စားသွားကြရသည်။ ရေလက်ကြား၌လည်း ဂျာမန်တို့၏ အီဘုတ်ခေါ် ဖျက်သင်္ဘောကလေးများသည် အနှောင့်အရှက်ပေးလျက်ရှိ၏။ အခြေအနေ မည်မျှပင်ဆိုးရွား၍ နေစေကာမူ၊ မဟာမိတ်တပ်များကို သယ်ယူပို့ဆောင်ရေးဆိုင်ရာတို့သည် မဆုတ်နစ်သော ဇွဲလုံ့လဖြင့် အလုပ်လုပ်ကြသည်။ လေတပ်မတော်ကလည်း တတ်နိုင်သမျှ အကာအကွယ်ကိုပေး၏။ ကယ်ဆယ်ရေး အတွက် အင်္ဂလိပ်ရေလက်ကြားကြီးတွင် လှေယာဉ်အစုစု စာရင်းအရ ၉၀၀ ခန့်သာ ရှိသော်လည်း၊ စာရင်းမပေါက်သော လှေရှင်များသည် စစ်အမိန့် တစုံတရာနှင့်မဟုတ်ဘဲ ပါဝင်ထမ်းဆောင်ခဲ့ကြလေရာ၊ အစုစု လှေယာဉ်သင်္ဘောပေါင်း တထောင်ကျော်တို့သည် အင်္ဂလိပ်ရေလက်ကြားကြီးကို ကျော်ဖြတ်နိုင်ခဲ့ကြသည်။

ဆုတ်ခွာနေစဉ်အတွင်း၊ ကဲလေးဆိပ်ကမ်းမှ ဂျာမန် အ

မြောက်များသည် ရေလက်ကြားအတွင်း၌ရှိသော သယ်ယူပို့ဆောင်ရေး ယာဉ်များဆီသို့ အပြင်းအထန် ပစ်ခတ်လျက်ရှိရာ၊ အချို့သင်္ဘောများ နစ်မြုပ်ပျက်စီးရ၏။ ဤမျှ များပြား ရှုပ်ထွေးလှသော ရေပြင်တွင် သင်္ဘောတစင်းနှင့် တစင်း တိုက်မိ၍ ပျက်စီးရသည်လည်းရှိ၏။ ရေကြောင်းတွင် မကျွမ်းကျင်သော စစ်သည်အချို့ကြောင့်လည်း အပျက်အစီး ရှိလေသည်။ ကူးတို့အဖြစ် အသုံးချသော သင်္ဘောကလေးများမှာလည်း အထိအခိုက် များလှသည်။

ဤမျှ စိတ်ဓာတ်ပျက်ပြားဖွယ် အခြေအနေမျိုးကို မဟာမိတ်တို့၏ သမိုင်းစဉ်တလျှောက်တွင် မကြုံဘူးခဲ့ကြချေ။ သို့ရာတွင် ရန်သူလက်တွင်းသို့ အညံ့ခံ၍ ကျဆင်းရမည်ကို မလိုလားနိုင်သော ယင်းတို့၏စိတ်ဓာတ်သည် အလွန် မြောက်လင့်ချက်နည်းပါးနေသော အချိန်၌ပင်လျှင် ကြံ့ခိုင်လျက်ရှိသည်။ ဤသို့ ဇွဲကြီးစွာဖြင့် စည်းကမ်းတကျ ဆုတ်ခွာခဲ့ကြရာ၊ ဇွန်လ ၃ ရက်နေ့တွင် ဒန်းကတ်ကမ်းခြေ၌ ဒဏ်ရာအကြီးအကျယ်ရသူများနှင့် ဆုတ်ခွာရာတွင် အလွန်နောက်ကျနေသော လူအချို့သာ ကျန်တော့သည်။ အလွန်နည်းလှသော အချိန်ကလေးအတွင်း၌ပင် မဟာမိတ်တို့ ကယ်တင်ရန် ခန့်မှန်းသော လူဦးရေမှာ ငါးသောင်းပင် မပြည့်ခဲ့သော်လည်း၊ နောက်ဆုံးစာရင်း ပိတ်သောအခါ၊ ဗြိတိသျှစစ်တပ်မှ အရာရှိများနှင့် စစ်သား ၂၁,၅၃၂ ယောက် မဟာမိတ် ပြင်သစ်တပ်သား ၁၁၂,၅၄၆ ယောက်၊ ဒဏ်ရာရသူ ၁၃,၀၅၃ ယောက် အင်္ဂလန်ကမ်းခြေသို့ ချောမောစွာ ရောက်ရှိသည်ကို တွေ့ရလေသည်။ လှေယာဉ်ငယ်နှင့် သင်္ဘောငယ်များသည် နောက်ဆုံးအကြိမ်အထိ လူးလာခေါက်ပြန် သယ်ယူလျက်ရှိသဖြင့်၊ ဇွန်လ ၄ ရက်နေ့တွင် ရေတပ်မတော်က 'ဒန်းကတ်မှ ဆုတ်ခွာခြင်း' သည် အောင်မြင်ကြောင်း ကျေညာလိုက်သောအချိန်တွင် လူပေါင်း ၃၃၇,၀၀၀ ကျော်ကို ကယ်တင်ပြီးဖြစ်လေသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးသောအခါ၊ ၁၉၄၇ ခုနှစ်တွင် ဗြိတိသျှနှင့် ပြင်သစ်တို့သည် ဒန်းကတ်မြို့တွင် ဂျာမန် ကျူးကျော်မှုကို ပူးပေါင်းခုခံရန် နှစ် ၅၀ စာချုပ်ကို ချုပ်ဆိုလေသည်။

**ဒန်းဇစ်မြို့**။ ။ဒန်းဇစ်မြို့သည် ပိုလန်နိုင်ငံ ဗစ်စကျူလာမြစ်ဝ၌ တည်ရှိ၍၊ ဥရောပတိုက်မြောက်ပိုင်းနှင့် ဗောလတစ်ပင်လယ်တွင် ထင်ရှားသော ကုန်ကူးသန်းရောင်းဝယ်ရာ ဌာနနှင့် ဆိပ်ကမ်းမြို့ကြီး တမြို့ဖြစ်၏။ ပိုလန်နိုင်ငံတောင်ပိုင်းမှ ဂျုံအမြောက်အမြားကို ဗစ်စကျူလာမြစ်တလျှောက် သယ်ဆောင်၍၊ ဒန်းဇစ်မြို့မှတဆင့် နိုင်ငံခြားသို့ တင်ပို့ရသည်။ မြို့ကိုဖြတ်၍ တူးမြောင်းများ ဖောက်လုပ်ထားသည်။ ရှေးဟောင်းအဆောက်အအုံများ ပေါ၍၊ အချို့အဆောက်အအုံ



ရှေးဟောင်းအဆောက်အအုံပေါများသည့် ဒန်းဇစ်မြို့ လမ်းမကြီး

များသည် အလွန်လှပသော ပန်းပုလက်ရာများ၊ ပန်းချီကားများဖြင့် တန်ဆာဆင်လျက် ရှိလေသည်။

ဒန်းဇစ်မြို့သည် စက်မှုလက်မှု ထွန်းကားသောမြို့ဖြစ်၍၊ သင်္ဘောတည်ဆောက်ခြင်း၊ သကြားချက်ခြင်း၊ ဂျုံကြိတ်ခြင်းများကို တွင်ကျယ်စွာ လုပ်ကိုင်ကြပြီးလျှင်၊ ကောက်ပဲသီးနှံများ တင်ပို့ရာ ဆိပ်ကမ်းကြီးတခုလည်း ဖြစ်သည်။

ဒန်းဇစ်မြို့သည် ၁၃၀၉ ခုနှစ်မှ ၁၄၅၄ ခုနှစ်အထိ တျူတန်သူရဲကောင်းတို့၏ လက်အောက်၌ ရှိခဲ့ပြီးလျှင်၊ အလယ်ခေတ်တွင် ကုန်အရောင်းအဝယ်စည်ကားသော မြို့တမြို့ဖြစ်သည်။ ၁၄၅၃ ခုနှစ်မှစ၍ ၁၇၉၄ ခုနှစ်အထိ ပိုလန်ပြည်ပိုင်မြို့တမြို့ ဖြစ်လာပြီးလျှင်၊ ပိုလန်ပြည်ကို ရုရှ၊ သြစတြီးယားနှင့် ပရပ်ရှားတို့က ၁၇၉၅-၉၆ ခုနှစ်တွင် ခွဲဝေယူကြသောအခါ၊ ပရပ်ရှားပိုင် မြို့တမြို့ ဖြစ်သွားပြန်သည်။ ပဌမကမ္ဘာစစ် ပြီးသောအခါ၊ နိုင်ငံပေါင်းချုပ်အသင်းကြီးက ကာကွယ်စောင့်ရှောက်ထား၏။ သို့ရာတွင် ဂျာမန်လူမျိုး ဦးရေ တဖြည်းဖြည်း များလာသဖြင့်၊ ၁၉၃၉ ခုနှစ်တွင် ဂျာမနီနှင့် ပူးပေါင်းလိုက်၏။ ၁၉၄၅ ခုနှစ်တွင် ပို့စဒမ်ကွန်ဖရင့်မှ ဆုံးဖြတ်ချက်အရ ဒန်းဇစ်မြို့ကို ပိုလန်နိုင်ငံသို့ ပြန်လည်ပေးအပ်လိုက်သည်။ လူဦးရေမှာ ၁၉၁,၀၀၀ ခန့်ရှိ၏။

**ဒန်းညုမြစ်**။ ။ဒန်းညုမြစ်သည် ဥရောပတိုက်တွင်ရှိသော မြစ်တို့အနက် ဗော်လဂါမြစ်မှလွဲ၍ အရှည်ဆုံးသောမြစ်ဖြစ်

သည်။ ဒန်းညူမြစ်ဝှမ်းကြောင့် ရေရသော မြေ အကျယ် အဝန်းသည် စတုရန်းမိုင်ပေါင်း ၃၁၅,၀၀၀ မိုင်ဖြစ်သည်။ ထိုအကျယ်အဝန်းသည် ဥရောပတိုက် တတိုက်လုံး၏ ၁၀ ပုံ ၁ ပုံဖြစ်သည်။ ဒန်းညူမြစ် စီးဆင်းရာနိုင်ငံတို့ကား ဂျာမနီ၊ ဩစတြီးယား၊ ဟန်ဂေရီ၊ ယူဂိုဆလားဗီးယား၊ ဗူလဂေးရီးယား၊ ရူမေးနီးယား၊ ချက်ကိုဆလိုဗားကီးယားတို့ဖြစ်သည်။

ဒန်းညူမြစ်၏ မြစ်ဖျားခံရာဒေသသည် ဂျာမနီနိုင်ငံရှိ ဗလက်ဖောရက် ဒေသဖြစ်သည်။ ထိုဒေသမှ အရှေ့ဖက်သို့ ကောက်ကွေ့၍ စီးဆင်းရာ၊ ပင်လယ်နက်အထိ မိုင်ပေါင်း ၁၇၂၅ မိုင်ရှည်သည်။ ဥရောပတိုက်အလယ်ပိုင်း ကုန်စည် ကူးသန်းရောင်းဝယ်ရေးအလို့ငှာ၊ အရပ်ရပ်တို့တွင် ဒန်းညူမြစ်ကို တူးမြောင်းများဖြင့် ဖောက်လုပ်ထား၍၊ အခြားမြစ်များနှင့် ဆက်သွယ်ပေးထားသည်။ ဒန်းညူမြစ်သည် အလွန်လှပ၍ ပြာလဲ့သော ရေအယဉ်ရှိသည့် မြစ်အဖြစ်ဖြင့် ထင်ရှားကျော်စောသည်။ ဒန်းညူမြစ်ဝှမ်းတလျှောက်တွင် ရောမလူမျိုးတို့သည် ကိုလိုနီနယ်များ ထူထောင်ခဲ့ကြသည်။ သမိုင်းတွင် ထိုမြစ်ဝှမ်း၌ ဟန်းလူမျိုး၊ မဂ္ဂယာလူမျိုး၊ တူရကီလူမျိုးတို့သည် သူ့ခေတ်နှင့် သူ စစ်အောင်နိုင်၍၊ နယ်ပယ်များကို သိမ်းပိုက်အုပ်စိုးခဲ့ကြသည်။ ထိုမြစ်ဝှမ်း၌ ဥရောပတိုက် လူမျိုးစုံတို့ ရောရှက်နေထိုင်ကြသည်။

ဒန်းညူမြစ်ကို ဂျာမနီလူမျိုးတို့က ဒိုးနောင်၊ ဟန်ဂေရီ လူမျိုးတို့က ဒူးနော ဟူ၍ အသီးအသီး ခေါ်ကြ၏။ ဥရောပတိုက် အရှေ့ပိုင်းနှင့်အလယ်ပိုင်း ကူးသန်းရောင်းဝယ်ရေးတွင် အရေးအလွန်ပါသော မြစ်ဖြစ်သည့်အလျောက်၊ ၁၉ ရာစုနှစ်အတွင်း မီးသင်္ဘောပေါ်လာသောအခါ၊ ဒန်းညူမြစ်သည် ရှေးခေတ်ကထက် ပို၍ အသုံးဝင်လာလေသည်။ ထို့ကြောင့် ၁၈၅၆ ခုနှစ် ပါရစ်ကျေညာချက်ခေါ် စာချုပ်အရ၊ ဒန်းညူမြစ်ကို ဥရောပတိုက်နိုင်ငံအားလုံးသည် ကူးသန်းသွားလာနိုင်ခွင့် ရရှိလေသည်။ ၁၈၇၈ ခုနှစ်၌မူ စစ်သင်္ဘောများ ဝင်ထွက်သွားလာခြင်း မပြုရဟု ပိတ်ပင်ထားသည်။ ၁၉၁၉ ခုနှစ် ဗာဆေးစာချုပ်အရ ဒန်းညူမြစ်ကို အနိုင်နိုင်ငံနှင့် ဆိုင်သည်ဟု ကျေညာသည်။ သို့သော် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားသော ၁၉၃၉ ခုနှစ်တွင်မူကား၊ ဂျာမနီသည် ထိုမြစ်၏ ကူးသန်းသွားလာရေးကို ကြီးကြပ်ချုပ်ကိုင်ခဲ့ဘူးသည်။

**ဒန်းနယဲ**။ ။ဒန်းနယဲ (ဒံယေလ) ၏ အကြောင်းအရာ အတ္ထုပ္ပတ္တိသည် ခရစ်ယန်ဓမ္မဟောင်းကျမ်းတွင် ပါရှိသော ဒံယေလ အနာဂတ္တိကျမ်း၌ ဖေါ်ပြပါရှိ၏။

ဘီစီ ၅၈၆ ခုနှစ်တွင် ဗက်ဗီလုံး (ဗာဗုလုန်) နိုင်ငံဘုရင် နက်ဗျူခတ်နက်ဇာ (နေဗုခဒ်နေဇာ) သည် ဂျေရူးဆလမ်း (ယေရုရှလင်) မြို့ကို တိုက်ခိုက်သိမ်းပိုက်ခဲ့ပြီးနောက်၊ လူကုံတန် ယဟူဒီ (ယုဒ) အမျိုးကောင်းသား ဒန်းနယဲနှင့် အခြားသော လူရွယ်သုံးဦးတို့အား ဖမ်းဆီး၍၊ ဗက်ဗီလုံး



ခြင်္သေ့စာကျွေးခံရသော်လည်း အစာမခံရဘဲ ခြင်္သေ့များ၏ရိုကျိုးခြင်းကိုခံရသော ဒန်းနယဲ

နိုင်ငံသို့ ခေါ်ဆောင်သွား၏။ ဒန်းနယဲသည် အဆင်းအင်္ဂါ လက္ခဏာနှင့် ပြည့်စုံသည့်ပြင်၊ ထိုးတွင်းဉာဏ် အထူးကောင်း သူဖြစ်လေသည်။

နက်ဗျူခတ်နက်ဇာဘုရင်ကြီးသည်လည်း ထိုယဟူဒီအမျိုးသားတို့အား ပွဲတော်ကျနှင့် သောက်တော်မူသော စပျစ်ရည်တို့ကို နေ့တိုင်းပေး၍ သုံးနှစ်ကျွေးမွေးပြီးမှ အမှုတော်ကို ထမ်းရွက်စေမည်ဟု မိန့်မှာထား၏။ သို့သော်လည်း ဒန်းနယဲသည် ပွဲတော်ကျနှင့် စပျစ်ရည်တို့ကို မသောက်မစားဘဲ၊ ဟင်းသီးဟင်းရွက်နှင့်ရေကို သုံးဆောင်သဖြင့်၊ ထူးခြားသောအဆင်းကို ဆောင်သည်ဟုဆို၏။

ဒန်းနယဲသည် ပညာရှိသောသူဖြစ်၍၊ ဘုရင်၏အိပ်မက်များကို နိမိတ်ဖတ်နိုင်၏။ သားတော် ဗယ်ရှေဇာ (ဗေလရှာဇာ) မင်းသားကြီးလက်ထက် နန်းတော်အုတ်နံရံတွင် ရေးသားထားသော ဘုရားသခင်၏ကြိန်စာကိုပင် ဖတ်၍၊ ဘုရင်၏ကျဆုံးချိန်ကို ကြိုတင်ဟောပြောနိုင်ခဲ့လေသည်။ ထို့ကြောင့် ဒန်းနယဲသည် တန်ခိုးကြီးမားလာသည်။ ဒန်းနယဲသည် ဗယ်ရှေဇာဘုရင် နတ်ရွာစံပြီးနောက်၊ ဂျူဒါပြည် (ယုဒပြည်ကို) သိမ်းပိုက် အုပ်စိုးသော ဒရိုင်းယပ် (ဒါရိ) မင်းတရား လက်ထက်တွင်လည်း ဆက်လက်အမှုထမ်းရလေသည်။ ဒန်းနယဲ တန်ခိုးကြီးမားလာသည်ကို မနာလို မရှုစိမ့်နိုင်သော မင်းညီမင်းသားတို့သည် အကောက်ကြံ၍၊ ဘုရင်အား ကုန်းချောကြ၏။ ဘုရင်လည်း ကုန်းချောစကားကို ယုံလျက်၊ ဒန်းနယဲအား သူ၏အယူဝါဒများကို စွန့်ရမည်ဟု အမိန့်ပေးလေသည်။ သို့သော်လည်း ဒန်းနယဲသည် မိမိ၏ အယူဝါဒများကိုပင် စွဲမြဲစွာ ယုံကြည်ခဲ့သောကြောင့်၊ ဒရိုင်းယပ်ဘုရင်သည် ဒန်းနယဲအား အပြစ်ဒါဏ်ပေးသည့်အနေဖြင့်၊ ခြင်္သေ့လှောင်ထားရာ သားရဲတွင်းထဲသို့ ချစေ၏။ သို့ရာတွင် ဒန်းနယဲသည် မိမိ၏ဘုရားသခင်ကိုသာ တိုင်တည်လျက် ဝတ်ပြုနေသဖြင့်၊ ခြင်္သေ့များက ဘေးတစုံတရာ မပြုသောကြောင့်၊ ဒရိုင်းယပ်ဘုရင်သည် အထူးအံ့ဩလျက် ဒန်းနယဲအား ကုန်းချောသူတို့ကို ဖမ်းဆီး၍၊ ထိုသားရဲတွင်းသို့ ချစေခဲ့ရာ၊ အားလုံး သေကြေပျက်စီးကုန်ကြသည်ဟု ဆိုသည်။ ဒရိုင်းယပ်ဘုရင်လည်း ဒန်းနယဲ၏ အယူဝါဒကို သက်ဝင်ယုံကြည်လေသည်။

**ဒိန်ခဲ**။ ။လူတို့သည် ဒိန်ခဲကို ထောပတ်မပေါ်မီကပင် ပြုလုပ်သုံးဆောင်နေကြသည်ဟု ဆိုလေ့ရှိသည်။ ရှေးအခါက နွားနို့ စသည်တို့ကို ကြာရှည်ခံအောင် ပြုလုပ်နည်းကို လူတို့မသိကြချေ။ နို့ကို ကြာရှည်ထားလျှင် ချဉ်၍ခဲသည်ကိုသာ သိကြသည်။ နို့ချဉ်ကိုလည်း ကြာရှည်ထား၍ မသုံးစွဲနိုင်ကြချေ။ နောင်သောအခါ နို့ထဲသို့ နွားအစာအိမ်မှရသော ရင်းနက်ခေါ် အချဉ်ဓာတ်ရှိသည့် အစာအိမ်



ဒိန်ခဲကို အဝတ်ဖြင့်ထုပ်၍ ပုံစံခွက်ထဲသို့ ထည့်နေပုံ

အမြှေးကိုထည့်လိုက်လျှင် နို့ချဉ်လာ၍၊ ယင်းနို့ချဉ်မှ ဒိန်ကို ထုတ်ယူ၍ ရနိုင်ကြောင်း သိရှိလာကြသည်။

ဒိန်ခဲကို ရှေးအီဂျစ်နှင့် ဂရိလူမျိုးများ ပြုလုပ် စားသုံးတတ်ကြောင်း အထောက်အထားများရှိသည်။ ဒိန်ခဲကို စတင် ပြုလုပ်လာသည့် ခေတ်မှစ၍ ၁၉ ရာစုနှစ် အလယ် ခေတ်တိုင်အောင် အိမ်ရှင်မတို့သည် အိမ်တွင်းလုပ်ငန်းတရပ် အနေနှင့် မိမိတို့ဘာသာ မိမိတို့ ပြုလုပ်စားသုံးခဲ့ကြသည်။ ယနေ့တိုင်အောင်ပင်လျှင် ဒိန်ခဲအကောင်းစားကို အမျိုးသမီးများကိုယ်တိုင် အိမ်တွင်း၌ လက်ဖြင့် ပြုလုပ်ကြသည်။ ဆွစ်ဇာလန်၊ ဟော်လန်၊ ဂျာမနီနိုင်ငံများမှ နာမည်ကျော် ဒိန်ခဲအမျိုးအစား အချို့တို့မှာ လက်လုပ် ဒိန်ခဲများသာ ဖြစ်ကြသည်။

၁၇၅၀ ပြည့်နှစ်ခန့်လောက်တွင်မှ ဒိန်ခဲကို စက်ဖြင့်ပြုလုပ်လာရာ၊ ဒိန်ခဲစက်ရုံများ၊ အနှံ့အပြား ပေါ်ပေါက်လာသည်။ လွန်ခဲ့သော နှစ်ပေါင်းအနည်းငယ်ခန့်က ဒိန်ခဲပြုလုပ်ရာ၌ မည်သည့်ဒိန်ခဲသည် အမျိုးအစား ကောင်းမည် ညံ့မည်၊ စား၍အရသာရှိမည် မရှိမည်ကို ကြိုတင်ခန့်မှန်း၍ မရနိုင်ချေ။ များမကြာမီကမှ ဒိန်ခဲ ကောင်း မကောင်း ဟူသည်မှာ ဒိန်ခဲပြုလုပ်ရာ၌ထည့်သည့် လက်တစ် အက်ဆစ် ဗက်တီးရီးယား အမျိုးအစားပေါ်၌ တည်ကြောင်းကို တွေ့ရှိလာကြလေသည်။



ဒိန်ခဲများအသားတက်လာစေရန် ကြာမြင့်စွာ တိုက်သွင်းသိုလှောင်ထားရသည်။

စက်ဖြင့် ဒိန်ခဲပြုလုပ်ပုံမှာ အဆီများများပါမည့် နွားနို့ကောင်းကောင်းကို စည်ပက်လက်ကြီးများထဲတွင် ထည့်၍၊ ထိုစည်တို့ကို ရေပူကန်ထဲသို့ ချလိုက်သည်။ ရေကန်ထဲမှ ရေပူများ၏အရှိန်ဖြင့် နွားနို့မှာ ဖာရင်ဟိုက် ပြဒါးချိန် အပူရှိန် ၈၆ ဒီဂရီမျှ ပူနွေးလာသောအခါ၊ လက်တစ် အက်ဆစ် ဗက်တီးရီးယားကို ထည့်ပေးရလေသည်။ ဗက်တီးရီးယားကို ထည့်ပေးလိုက်ခြင်းအားဖြင့် နွားနို့သည် ဓာတ်ပျက်သွားကာ၊ အချဉ်ပေါက်လာသည်။ ထို့နောက်မှ ရင်းနက်ခေါ် အချဉ်ဓာတ်ရည်ကို ထည့်လိုက်ပြန်ရာ၊ မိနစ် ၃၀၊ ၄၀ ခန့်ကြာလျှင်၊ နွားနို့မှာ ပျစ်ခဲသွားလေသည်။ ထိုရင်းနက်အချဉ်ဓာတ်ကို နွားနို့ ပေါင်ချိန် ၁၀၀၀ လျှင်၊ ၃ အောင်စမျှ ထည့်ပေးရသည်။ ထို့နောက် နွားနို့ခဲကို အပိုင်းပိုင်း ခွဲစိတ်၍၊ ဒိန်ရည်များထွက်အောင် ပြုလုပ်ပေးရလေသည်။ ထိုအစိုင်အခဲများကို ၉၅ ဒီဂရီ အပူရှိန်ပေးကာ၊ နာရီဝက်သာသာခန့် ချက်ရပြန်သည်။ ချက်ပြီးသား နို့ခဲများမှ ဒိန်ရည်ကုန်အောင် အကြိမ်ကြိမ် အဖန်ဖန် ချေခွဲ စစ်ထုတ်ပစ်ပြီးသောအခါ ထိုအရည်ကုန်သွားသောအခဲများကို စက်ထဲသို့ထည့်၍ ညက်ညက်ကြေအောင် ကြိတ်ရလေသည်။

ယင်းသို့ကြိတ်နေစဉ်၊ နွားနို့ခဲ ပေါင် ၁၀၀ လျှင် ဆားချိန် ၂ ပေါင်၊ ၃ ပေါင်ခန့်မျှ ထည့်၍ ရောစပ်ရလေသည်။ ဆားနှင့်နို့ခဲများ သမ သွားသောအခါတွင် အပူရှိန်ဒီဂရီ ၈၀ မျှသာ ရှိအောင် အအေးခံ ပေးရပြန်သည်။ ထို့နောက်တွင်မှ အဝတ်နှင့်ထုပ်၍ ပုံစံခွက်ထဲသို့ ထည့်ကာ၊ အပေါ်မှ ဖိချ၍ ပုံသွင်းလေသည်။

ပုံစံခွက်တွင်ထည့်၍ ၁၈ နာရီမျှကြာအောင် ဖိထားသည့်အတွက် ဒိန်ခဲ၏ပုံမှာ အသားသေပြီးလျှင်၊ ဒိန်ခဲအတွင်းရှိ ရေအငွေ့အသက် ရှိသမျှတို့မှာလည်း စစ်ပြီးသားဖြစ်လေသည်။ ထို့နောက် ဒိန်ခဲကို ပုံစံခွက်ထဲမှ ထုတ်ယူ၍၊ သန့်ရှင်းစေရန် အဝတ်ဖြင့်ပတ်ပြီးလျှင် သေးသောအခန်းတခုထဲတွင် ရက်ကြာရှည်စွာ ထားရသည်။ အစအဦးတွင် ဒိန်ခဲတုံးကို နေ့တိုင်း အထက်အောက် လှန်ပေး၍၊ နောက်ရက်များတွင်မူ တပတ်လျှင် တခါမျှသာ လှန်၍ ပေးရလေသည်။ ထိုသို့ တိုက်သွင်းထားရခြင်းမှာ ဒိန်ခဲပြုလုပ်ရာ၌ အရေးကြီးဆုံး အဆင့် ဖြစ်လေသည်။ ထိုသို့ ပြုလုပ်ပေးခြင်းကို အသားတက်အောင် ပြုခြင်းဟု ခေါ်သည်။ ဒိန်ခဲတွင် အသားတက်လာ၍ အရသာ ကောင်းလာလောက်အောင် အချိန်ကြာမြင့်စွာ ဤသို့ထားရလေသည်။ အင်္ဂလန်ပြည်မှ နာမည်ကျော်၊ စတီတန်ဒိန်ခဲမှာ ၂ နှစ်ကျော်မျှ တိုက်သွင်းထားရလေသည်။ ဒိန်ခဲကောင်းလျှင် အရသာ ခပ်ပြင်းပြင်းရှိ၍၊ အချိန်လိုသေးသော ဒိန်ခဲမျိုးမှာ ပေါ့ပျက်ပျက်နှင့် အရသာမရှိပေ။

ဒိန်ခဲကို ဆွစ်ဇာလန်၊ ဟော်လန်၊ ဂျာမနီ၊ ဗဲလဂျီယမ်၊ ဣတလီ၊ ပြင်သစ်၊ ဒိန်းမတ်၊ အင်္ဂလန်၊ ဩစတြေးလီးယား၊ နယူးဇီလန်၊ အမေရိကန်ပြည်ထောင်စု၊ ကနေဒါ စသည့် တိုင်းနိုင်ငံအမြောက်အမြား၌ ပြုလုပ်ကြ၍၊ ပုံအမျိုးမျိုး၊ အရောင်အမျိုးမျိုး၊ အရသာအမျိုးမျိုး၊ အပျော့စား အမာစားဟူ၍ အမျိုးမျိုးအစားပေါင်း ၄၀၀ ကျော်မျှ ရှိလေသည်။ ဒိန်ခဲတွင် အရောင်ထည့်လိုလျှင် နွားနို့ကို ချဉ်အောင်ပြုပြီးနောက်၊ ဟင်းသီးဟင်းရွက်ဖြင့် အရောင်ရအောင် ပြုလုပ်ရသည်။ ဒိန်ခဲကို အများဆုံးလုပ်ကိုင်၍၊ ကမ္ဘာအရပ်ရပ်သို့ တင်ပို့သောတိုင်းပြည်များတွင် နယူးဇီလန်ကျွန်းမှာ ပဌမဖြစ်၍၊ ဟော်လန်နှင့်ကနေဒါနိုင်ငံတို့မှာ ဒုတိယနှင့်တတိယ ဖြစ်ကြလေသည်။

အချို့ဒိန်ခဲများကို ဆိတ်နို့၊ သိုးနို့ဖြင့် ပြုလုပ်ကြသည်။ ပြင်သစ်နိုင်ငံလုပ် ရော့ဖော့ခေါ် ဒိန်ခဲကို သိုး၏နို့ဖြင့် ပြုလုပ်လေသည်။ ဒိန်ခဲ အမျိုးမျိုး အစားစား ရှိသည်တွင် ဆွစ်ဇာလန်နိုင်ငံမှ ပြုလုပ်သော ဒိန်ခဲများမှာ အမျိုးအစားကောင်းမွန်၍၊ နာမည် ကျော်ကြားလေသည်။

လူတို့၏ အစာအာဟာရများထဲတွင် အလေးချိန်ခြင်း အတူတူဖြစ်လျှင်၊ ဒိန်ခဲသည် အမဲသားထက်ပင် နှစ်ဆမျှပို၍ အာဟာရဖြစ်သော အစာမျိုး ဖြစ်ပေသည်။ အနည်းငယ်မျှ စားသုံးရုံဖြင့် အာဟာရဖြစ်သော အစာမျိုးဖြစ်သည်။ ဒိန်ခဲတွင် ကျွန်ုပ်တို့၏ခန္ဓာကိုယ် ကြီးထွား ကြံ့ခိုင်မှုအတွက် လိုအပ်သောအဆီဓာတ်နှင့် ပရိုတင်းတို့အပြင်၊ ဗီတာမင်ဓာတ်၊ ကယ်လဆီယမ်ဓာတ် အများအပြား ပါဝင်၍၊ အစာလည်း ကြေလွယ်သည်။

ဆွစ်ဇာလန်နိုင်ငံတွင် လူတယောက်သည် ပျမ်းမျှခြင်းအားဖြင့် တနှစ်လျှင် ဒိန်ခဲ ၂၄ ပေါင်မျှစား၍၊ ပြင်သစ်နိုင်ငံ၌ ၁၄ ပေါင်မျှ စားသုံးသည်။ အမေရိကန်ပြည်ထောင်စု၌မူ ထိုတိုင်းပြည်များထက် အသုံးနည်းလေသည်။ သို့ရာတွင် ယခုအခါ ဒိန်ခဲ၏ အဖိုးတန် အရာရောက်ပုံကို သိလာကြသဖြင့် အသုံးများလာကြလေပြီ။ ကျွန်ုပ်တို့မြန်မာနိုင်ငံကဲ့သို့ ဆန်စားသောတိုင်းပြည်များ၌ ဒိန်ခဲကို အသုံးနည်းသည်။ ဒိန်ခဲ၏အဖိုးတန်ပုံကို မြန်မာတိုင်းရင်းသား လူထုတို့ အသိနည်းသေး၍၊ နို့ဆီ၊ ထောပတ် စသည်တို့လောက် အသုံးမများချေ။ မြန်မာနိုင်ငံ အချို့အရပ်ဒေသမှ လယ်သမားများသည် ကျွဲနို့ဖြင့် ဒိန်ခဲချဉ်ကို ပြုလုပ် စားသုံးကြသော်လည်း၊ အနည်းအကျဉ်းမျှသာ ဖြစ်သည်။

**ဒိန်ညင်းငှက်**။ ။တိမ်ညင်းငှက်မျိုး — ရှု။

**ဒိန်နက်သဲ**။ ။ဒိန်နက်သဲသည် နှစ် လ ရက် တွက်ချက်သော ဗေဒင်ပညာဆိုင်ရာ ဝေါဟာရဖြစ်သည်။ ရေတွက်သော တိထီ ကာလအပိုင်းအခြားထက် တလုံးပို၍တက်ခြင်းကို ဒိန်နက်သဲ ဆင်းသည်ဟုဆိုသည်။

တနေ့ဝင်မှ တနေ့ဝင် သို့မဟုတ် တနေ့ထွက်မှ တနေ့ထွက် တနေ့တာ ၂၄ နာရီကာလကို သုဒ္ဓိဒိန်တလုံးဟု ရေတွက်သည်။ တိထီရက်မှာ ထိုသုဒ္ဓိဒိန်ရက်၏ $\frac{၆၉၂}{၇၀၃}$ အစိတ်အပိုင်းဖြစ်သည်။ တနည်း သုဒ္ဓိဒိန်တလုံး (၁) တရက်ကို ၇၀၃ စိတ် စိတ်လျှင် ၆၉၂ စိတ်မှာ တိထီတလုံးဖြစ်သည်။ ထို့ကြောင့် တိထီတလုံးက သုဒ္ဓိဒိန်တလုံးထက် $\frac{၁၁}{၇၀၃}$ စိတ်ငယ်သည်။

သို့ဖြစ်ရာ သုဒ္ဓိဒိန်ရက် ၆၃ ရက် သို့မဟုတ် ၆၄ ရက် ကြာသောအခါ တိထီရက်သည် တရက် သို့မဟုတ် တိထီတလုံးစာမျှ နောက်ကျန်၍ နေသည်ဖြစ်သဖြင့်၊ ထိုခြားနားချက် (အဝမာန်) ကို ထေမိစေရန် တက်မြဲတိထီတလုံးအစား နှစ်လုံး တက်ပေးရသည်။ ထိုသို့တက်ပေးသဖြင့် ခြားနားချက်ပျောက်၍ တိထီနှင့် သုဒ္ဓိဒိန်အညီ စတင်ရေတွက်ပြန်သည်။ ထိုသို့ခြားနားချက် ပျောက်သည်ကို အဝမာန်ပြုသည်ဟုဆိုသည်။

ဆက်လက်ရေတွက်ပြန်ရာ သုဒ္ဓိဒိန် ၆၃ ရက် သို့မဟုတ် ၆၄ ရက်တိုင်း အစိတ်ငယ်သော တိထီရက်က တရက် နည်းနေပြန်၍ တိထီတလုံးအစား နှစ်လုံးတဖန် တက်ရပြန်သည်။ ဤသို့တက်မြဲတလုံးအစား ၂ လုံးတက်သည်ကို ဒိန်နက်သဲဆင်းသည်ဟု ဆိုသည်။

ရေစကြိုခံတော်ဖြတ်ထုံးတွင် လင်တယောက်ပြီး တယောက် ဆက်၍ အလျင်အမြန်သင့်နေသော မိန်းမတဦးကို တိထီ ၂ လုံး ပို၍တက်သည့်ဥပမာဖြင့် ဒိန်နက်သဲဆင်းမ ဟု ဆဲရေးနှုတ်လွန်မှုတရပ်ကို စီရင်သည့် ဖြတ်ထုံးတခု ပါရှိသည်။ ထိုပြင် မြန်မာရာဇဝင်များ၌ ဘုရင်များ နတ်ရွာစံသောအခါ တွေ့ရသော နိမိတ်များကို ဖေါ်ပြရာ၌ 'ဒိန်နက်သည်း သကြ်န် တပြိုင်နက်သင့်၏' ဟူသော နိမိတ်ကို တွေ့ရလေသည်။

**ဒိန်းမတ်နိုင်ငံ**။ ။ပမာဏအားဖြင့် ငယ်ပင် ငယ်သော်လည်း၊ သမဝါယမနည်းစံနစ်အရ ကြီးပွား ထွန်းကားလျက်ရှိသော၊ နိုင်ငံကား၊ ဥရောပတိုက်၏ အနောက်မြောက်ပိုင်း၊ ဂျတ်တလန် ကျွန်းဆွယ်တခုလုံး ပါဝင်သည့် ဒိန်းမတ်နိုင်ငံပင် ဖြစ်သည်။ ဒိန်းမတ်နိုင်ငံတွင် ဂျတ်တလန် ကျွန်းဆွယ်နှင့် တကွ အနီးပတ်ဝန်းကျင်ရှိ၊ ဖူနင်၊ ဇီလန် စသော ကျွန်းငယ်ကလေးများ ပါဝင်၍၊ နိုင်ငံ၏ အစုစုဧရိယာမှာ ၁၆,၅၇၅ စတုရန်းမိုင် ကျယ်ဝန်းသည်။ ထိုကျွန်းစုများသည် ဆွီဒင် နှင့် ဂျာမနီနိုင်ငံအကြားတွင် တည်ရှိ၍၊ အနောက်ဖက်တွင် မြောက်ပင်လယ်၊ အရှေ့ဖက်တွင် ဗော့လတစ်ပင်လယ်တို့ ကာဆီးဝိုင်းရံလျက်ရှိ၏။ အထူးအားဖြင့် ဂျတ်တလန် ကျွန်းဆွယ်၏ အရှေ့ဖက်ကမ်းခြေသည် မြေသြဇာကောင်းသော လယ်မြေနှင့် သာယာစိုပြည်သော သစ်တောများနှင့် ပြည့်စုံ၍၊ ညီမျှသော ရာသီဥတုရှိ၏။ အနောက်ဖက်ကမ်းခြေ၌မူ သဲသောင်ကုန်းများ၊ နွံအိုင်များ၊ မြက်တောများနှင့် သစ်ပင်မပေါက်သော မြေကွက်များ ရှိလေသည်။ သတ္တုဟူ၍ မထွက်သလောက် ဖြစ်သော်လည်း၊ အိုးခွက်ဖုတ်ရန် ရွှံ့စေး ပေါများသည်။ ကျွန်းဆွယ်တခု ဖြစ်သည့်အတိုင်း၊ နံဘေးပတ်လည်တွင်၊ ပင်လယ်များဝိုင်းရံလျက် ရှိရုံမျှမက၊ ဖိအော့ခေါ် ရေမြောင်ကြားများကလည်း ကုန်းအတွင်းသို့ အတော်ပင်ရောက်အောင် ထိုးဝင်လျက်ရှိရကား၊ ငါးဖမ်းရန်အတွက် အလွန် အကွက်ကောင်းသဖြင့် လူတို့သည် ငါးဖမ်းခြင်းလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြလေသည်။ ထို့ကြောင့်လည်း ပင်လယ်ကမ်းရိုးတန်းတလျှောက်လုံးတွင် တံငါအိမ်ကလေးများနှင့် သူတို့၏ ပိုက်ကွန်များကို အနှံ့အပြား တွေ့နိုင်သည်။ တိုင်းပြည်၏ ၈၀ ရာခိုင်နှုန်းမျှသောမြေကို ထွန်ယက်စိုက်ပျိုးနိုင်၍ အစိုးရက မြေပိုင်ရှင်စံနစ်ကို အားမပေးသဖြင့် လယ်မြေအားလုံးမှာ လယ်ပိုင်ရှင်ကလေးများ လက်ထဲတွင် တည်ရှိသည်။ ထို့ကြောင့် တိုင်းပြည်အတွင်း ဆင်းရဲလွန်းသူ၊ ချမ်းသာလွန်းသူဟူ၍ မရှိဘဲ ညီညီမျှမျှ ရှိလေသည်။ ဒိန်းမတ်နိုင်ငံတွင် ငါးလုပ်ငန်းနှင့် လယ်ယာစိုက်ပျိုးရေး လုပ်ငန်းများအပြင် အခြား အရေးကြီးသောလုပ်ငန်းတခုမှာ နွား၊ ကြက်၊ ဝက်၊ မွေးမြူသောလုပ်ငန်းဖြစ်ရာ နွားနို့၊ မလိုင်၊ ဒိန်ခဲ၊ ဝက်သား


ဒိန်းမတ်နိုင်ငံ၏ ထင်ရှားသောထွက်ကုန်မှာ ဒိန်ခဲလုပ်ငန်းဖြစ်သည်။

နှင့် ကြက်ဥအမြောက်အမြားကို ဂရိတ်ဗြိတိန်နှင့်ဂျာမနီနိုင်ငံများသို့ အမြဲမပြတ် တင်ပို့ရသည်။ တိုင်းပြည်၏ အသက်သွေးခဲ လုပ်ငန်းများတွင် လောကဓာတ် နည်းစံနစ်များ အသုံးပြုရန် အစိုးရက အားပေးလေသည်။

ဤလုပ်ငန်းများကို သမဝါယမစံနစ်ဖြင့် လုပ်ကိုင်ကြရာ၊ သမဝါယမအသင်းများကို အနှံ့အပြား ဖွဲ့စည်းထား၍၊ တောင်သူလယ်သမားတိုင်း အသင်းသားများ ဖြစ်ကြသည်။ သားသတ်ရုံကို သမဝါယမစံနစ်ဖြင့် အုပ်ချုပ်၏။ လယ်လုပ်ရာတွင် လိုသောပစ္စည်းများ၊ ကရိယာတန်ဆာပလာများကိုဝယ်ရန် သမဝါယမအသင်းများ ရှိ၏။ သမဝါယမဘဏ်လည်း ရှိ၏။ လယ်သမားများကို လေဘေး ရေဘေးမှ ကာကွယ်ရန်အလို့ငှာ သမဝါယမ အာမခံအသင်းများ ဖွဲ့စည်းထား၏။ ဗဟိုဓာတ်အားပေးရုံများအပြင် သမဝါယမ လျှပ်စစ်ဓာတ်မီးရုံများလည်းရှိသည်။ သမဝါယမလုပ်ငန်းများ၌ မည်သည့်နေရာကမျှ လိုလေသေးသည်ဟူ၍ မရှိသောကြောင့် ဒိန်းမတ်နိုင်ငံသည် သမဝါယမစံနစ်၌ ကမ္ဘာကျော်ဖြစ်လေသည်။ ဤကဲ့သို့များပြားလှစွာသော သမဝါယမအသင်းများကို ဒိန်းမတ်နိုင်ငံ ဗဟိုသမဝါယမကော်မီတီက ကြီးမှူးအုပ်ချုပ်ထားလေသည်။

ဤသို့ သမဝါယမနည်းဖြင့် စံနစ်တကျလုပ်ကိုင်သဖြင့် ဒိန်းမတ် တောင်သူလယ်သမားတို့၏ နေမှုထိုင်မှုမှာ အတော်အဆင့်အတန်းမြင့်၍ လာခဲ့လေသည်။ အဆင့်အတန်းအလွန်ကွာသော လူအတန်းအစားများ မရှိ။ အခြားနိုင်ငံများ ရင်ဆိုင်ရသော သီးစားပြဿနာဟူ၍ မရှိဘဲ၊ လယ်လုပ်ခများကို ကောင်းစွာရကြလေသည်။



ဒိန်းမတ်နိုင်ငံ တည်နေရာပြမြေပုံ

ဒိန်းမတ်နိုင်ငံသားများကိုဒိန်းလူမျိုးဟူ၍ ခေါ်ကြရာ ဒိန်းတို့မှာ သန်မာတောင့်တင်းသော လူမျိုးဖြစ်၍ ကစားခုန်စား ဝါသနာပါပြီးလျှင်၊ ကမ္ဘာကျော် ရေကူးသမားများလည်း ဖြစ်ကြလေသည်။ လုံ့လဝီရိယရှိ၍အလုပ်ကိုကြိုးပမ်းလုပ်သူများ ဖြစ်သည့်အတိုင်း အစားအသောက်ကောင်းကောင်းကို နှစ်သက်ကြ၏။ ပေါင်းသင်းဆက်ဆံရာ၌ လူအတန်းအစား မရွေးဘဲ၊ ယဉ်ကျေးဖော်ရွေစွာ ဆက်ဆံတတ်ကြ၏။

ဒိန်းမတ်နိုင်ငံတွင် ပညာကို အလွန်မြတ်နိုး၍ ပညာသင်ကြားရေးကို အထူးအားပေးကြ၏။ ၁၈၁၄ ခုနှစ်မှစ၍ မူလတန်းပညာ



ကိုပင်ဟားဂင်းမြို့တော်၏ အကောက်လွတ်ဆိပ်ကမ်း



ကိုပင်ဟားဂင်းမြို့တော် ကျက်သရေဆောင် ဂရန်ဗစ်ကာကင် အဆောက်အအုံ

ကို မသင်မနေရ ပြုလုပ်ထား၏။ အထက်တန်းကျောင်းများအပြင်၊ စက်မှုပညာသင်ကျောင်း၊ ကူးသန်းရောင်းဝယ်ရေးပညာသင်ကျောင်း၊ ဆရာဖြစ်သင်ကျောင်း၊ လူကြီးများအတွက် စိုက်ပျိုးရေးကျောင်း စသည်ဖြင့် သက်မွေးဝမ်းကျောင်းပညာရပ်များကို သင်ကြားသည့် ကျောင်းမြောက်မြားစွာ ရှိလေသည်။ ကိုပင်ဟားဂင်းမြို့တော်နှင့် အာဟပ်မြို့တွင် တက္ကသိုလ်ကျောင်းများရှိ၏။ မိန်းမများသည် မဲဆန္ဒပေးခွင့်နှင့် လွှတ်တော်အမတ်အဖြစ် အရွေးခံနိုင်ခွင့်ရှိသည်။ မိန်းမတို့သည် ကိုယ့်ဝမ်း ကိုယ်ကျောင်းနိုင်သော အရည်အခြင်းလည်းရှိ၍ ကိုယ်ပိုင်အလုပ်များ ကိုယ်စီရှိကြလေရာ အလုပ်ချိန်တွင် ယင်းတို့၏ကလေးများကို စောင့်ထိန်းရန်အလို့ငှာ ကလေးများဂေဟာတို့ကို နိုင်ငံနှင့်အဝှန်း တည်ထောင်ထားကြသည်။

ဒိန်းလူမျိုးတို့ကား တခါက ဥရောပမြောက်ပိုင်း၌ အတော်ပင် တန်းခိုးအာဏာကြီးခဲ့သော လူမျိုးတမျိုး ဖြစ်ပြီးလျှင်၊ ထိုအခါက သူတို့သည် မြောက်ဥရောပကမ်းခြေနှင့် အင်္ဂလန်ကျွန်းရှိ ဆိပ်ကမ်းမြို့ရွာများကို တိုက်ခိုက် လုယက်လေ့ရှိကြ၏။ ဒိန်းဘုရင်များတွင် တန်းခိုးအကြီးဆုံးမှာ ကနွတ်ဘုရင်ဖြစ်၍ တခါက အင်္ဂလန်၊ ဒိန်းမတ်နှင့် နော်ဝေပြည်များကို အုပ်စိုးခဲ့ဘူးလေသည်။ (ကနွတ်ဘုရင် — ရှု။) ကနွတ်ဘုရင်သည် နှစ်အနည်းငယ်သာ နန်းစံရသော်လည်း၊ ဒိန်းတို့သည် ၁၃ ရာစုအထိ ဥရောပမြောက်ပိုင်းတွင် အတော်တန်းခိုးကြီးခဲ့ကြ၏။ ဗောလတစ်ပင်လယ်တဝိုက်တွင် ဟန်ဆီအက်တစ်အဖွဲ့၏ အာဏာ ပျံ့နှံ့လာသောအခါမှ အနည်းငယ် တန်းခိုးမှိန်သွားလေသည်။ ၁၃၉၇ ခုနှစ်တွင် ဒိန်းမတ်ဘုရင်မ၊ မာဂရက်လက်ထက်၌ ဒိန်းမတ်၊ ဆွီဒင်နှင့် နော်ဝေး ၃ နိုင်ငံပူးပေါင်း၍ ခုခံတိုက်ခိုက်သောအခါမှာမှ ဟန်ဆီအက်တစ်အဖွဲ့၏ရန် အေးသွားလေသည်။ ၁၈၁၅ ခုနှစ်တွင် ဒိန်းမတ်နိုင်ငံက နပိုလီယန်ကို ကူညီသည်ဆိုကာ၊ ဗီယင်းနား အစည်းအဝေးကြီးက နော်ဝေးကို ဆွီဒင်နှင့်ပူးပေါင်းလိုက်ရာ ဒိန်းမတ်နိုင်ငံမှာ ထီးတည်း ကျန်ရစ်တော့၏။

၁၈၆၄ ခုနှစ်တွင် ပရပ်ရှားနှင့် ဩစတြီးယားတို့က တိုက်ခိုက်သဖြင့် ဒိန်းမတ်နိုင်ငံမှာ ရှလဲဇွစ် — ဟိုလစတိုင်နယ်များ ဆုံးရှုံးသွားရ၏။ သို့သော် ပဌမကမ္ဘာစစ်ပြီးသောအခါ ရှလဲဇွစ်နယ်မြောက်ပိုင်းကို ပြန်ရခဲ့၏။ ဒုတိယကမ္ဘာစစ်အတွင်း၌ ဒိန်းမတ်နိုင်ငံကို ဂျာမန်တို့ သိမ်းပိုက်ထား၍၊ ၁၉၄၅ ခုနှစ် မေလ ၅ ရက်နေ့ကျမှ လွတ်မြောက်သွားလေသည်။ ယခုအုပ်စိုးလျက်ရှိသော ဘုရင်မှာ ၁၉၄၇ ခုနှစ်တွင် နတ်ရွာစံလွန်ခဲ့သည့် ဒသမခရစ်စတီယန်ဘုရင်၏အရိုက်အရာကို ဆက်ခံခဲ့သော နဝမ ဖရက်ဒရစ်ဘုရင်ဖြစ်သည်။ ဒိန်းမတ်နိုင်ငံ၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၄,၃၄၇,၄၀၀ ဟု ခန့်မှန်းရလေသည်။

**ဒဗ္ဗလင်မြို့။** ။ဒဗ္ဗလင်မြို့သည် အိုင်ယာလန်ကျွန်း အရှေ့ဖက်ကမ်း၊ ဒဗ္ဗလင်ပင်လယ်ကွေ့၊ လစ်ဖေးမြစ်ဝ၌ တည်ရှိ၍၊ အိုင်ရစ်သမတနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ကမ္ဘာကျော် ထရင်နီတီကောလိပ်ခေါ် ကျောင်းတော်ကြီးရှိ၍၊ အိုင်ယာလန်၏ ဘဏ်တိုက်အဆောက်အအုံ၊ ပါလီမန်လွှတ်တော်ရုံး




အိုင်ရစ် အမတနိုင်ငံမြို့တော်ဖြစ်သော ဒဗ္ဗလင်မြို့၏ စည်ကားသော အိုကောနဲလမ်းမကြီး

များ၊ အကောက်ရုံး၊ တရားရုံး စသော အဆောက်အအုံများသည် ထင်ရှားလေသည်။ ၁၉၁၆ ခုနှင့် ၁၉၂၂ ခုနှစ်တွင် ပုန်ကန်ထကြွခဲ့စဉ်က လွတ်လပ်သော အိုင်ယာလန်နိုင်ငံ အစိုးရ စစ်တပ်များနှင့် သမတဂိုဏ်းသမားတို့ တိုက်ခိုက်ကြရာ၊ အစိုးရစာတိုက်၊ အကောက်ရုံးနှင့် တရားရုံးတော် ၄ ခုတို့မှာ ပျက်စီးခဲ့လေသည်။ လစ်ဖေးမြစ်ကို တန်တားကြီး ၁၂ ခုတို့ဖြင့် ဖြတ်သန်းနိုင်သည်။ မြို့တော်၏ဆိပ်ကမ်းသည် တိုးချဲ့ပြုပြင်ထားသည့်အတွက် အလွန်ကောင်းမွန်၍၊ အတွင်းဖက်ရှိ မြို့ကြီးများနှင့် တူးမြောင်းများ၊ မီးရထားလမ်းများဖြင့် ဆက်သွယ်နိုင်၏။ လူဦးရေမှာ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ၅၂၁,၃၂၂ ယောက်ရှိသည်။ ဤမြို့တွင် စက်မှုလုပ်ငန်းများ ကောင်းစွာမထွန်းကားလှဘဲ၊ အရက်ချက်ခြင်း၊ ဘီစကွတ်မုံ့လုပ်ခြင်း၊ ပိတ်ချောရက်ခြင်း စသော လုပ်ငန်းများသာရှိသည်။ ဆိပ်ကမ်းမြို့ကြီး ဖြစ်သည့်အတိုင်း လူသွားလမ်း၊ မီးရထားလမ်း၊ တူးမြောင်းများ အနှံ့အပြားရှိ၏။ ဒိန်းလူမျိုးတို့က ရှေးဦးစွာတည်ဆောက်၍ အမည်ပေးခဲ့သော မြို့ဖြစ်သည်။ ဒဗ္ဗလင်မြို့သည် ၁၇ နှင့် ၁၈ ရာစုနှစ်များအတွင်း၌ အထူးထင်ရှားခဲ့လေသည်။

**ဒမ်းပီယာ, ဒဗျူ** (ခရစ် ၁၆၅၂–၁၇၁၅)။ ။ ဝီလျံ ဒမ်းပီယာသည် ပင်လယ်ဓားပြဗိုလ်ဘဝမှ ကမ္ဘာလှည့်ခရီးသည် စာရေးဆရာအဖြစ်ဖြင့် ကျော်ကြားခဲ့သူဖြစ်၏။ ဒမ်းပီယာသည် အင်္ဂလန်ပြည် ဆမ်မာဆက်နယ်တွင် မွေးဖွား၍၊ ငယ်စဉ်ကပင် သင်္ဘောသားအဖြစ်ဖြင့် ကမ္ဘာအရပ်ရပ်သို့ ရောက်ခဲ့သည်။ ဤသို့ ကမ္ဘာအရပ်ရပ်သို့လှည့်ပတ်၍ ၁ နှစ်ခန့် အကြာဖြစ်သော ခရစ် ၁၆၉၁ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်ရောက်ပြီးလျှင်၊ 'ကမ္ဘာတပတ် ခရီးစဉ်သစ်' ဟူသော စာအုပ်ကို ပုံနှိပ်ထုတ်ဝေခဲ့လေသည်။ ၁၇၀၁ ခုနှစ်တွင် ဒမ်းပီယာသည် နယ်သစ်ရှာဖွေရန်အလို့ငှာ ခရီးထွက်ခဲ့ရာ၊ သူစီးလာသော ရွက်သင်္ဘောနှင့် အခြားအဖေါ် ရွက်သင်္ဘော တစင်းပေါ်၌ ပုန်ကန်ထကြွမှုများ ဖြစ်ပွားခဲ့သဖြင့် ခရီးထွက်ခြင်းသည် မအောင်မြင်ခဲ့ချေ။ ထိုခရီးအတွင်း အယ်လက်ဇန္ဒာ ဆဲလကတ်ခေါ် သင်္ဘောသားတဦးကို ကျွန်းတကျွန်းပေါ်တွင် တယောက်တည်း စွန့်ပစ်ထားခဲ့ရသည်။ ဤအကြောင်းအရာကိုရည်ညွှန်း၍ ဒီဖိုးသည် ရော်ဗင်ဆန်ကရူးဆိုး စာအုပ်ကို ရေးခဲ့သည်။ (ဒီဖိုး, ဒီ — ရှု။) နောက်တကြိမ်တွင် ဒမ်းပီယာသည် ရေကြောင်းပြအဖြစ်ဖြင့် သင်္ဘောတစီးတွင်လိုက်၍၊ ပင်လယ်ဓားပြအလုပ်ကို လုပ်ရာ၊ ပေါင် ၂ သိန်းတန်ဖိုးရှိသော ပစ္စည်းများကို စပိန်သင်္ဘောများမှ ရလိုက်လေသည်။ ထိုနောက် အပြန်ခရီးတွင် အယ်လက်ဇန္ဒာ ဆဲလကတ်ကို ကယ်ဆယ်၍ပြန်ခဲ့ရာ၊ ဓားပြတိုက်ရာပါ ဝေစုကို မဝေခဲ့ရမီ၊ လမ်းခရီးတွင် ကွယ်လွန်လေသည်။


ဝီလျံ ဒမ်းပီယာ

သူကျက်စားခဲ့သော ဩစတြေးလီးယားတိုက် အနောက်ဖက်ကမ်းခြေတလျှောက်ရှိ ကျွန်းများ၊ ကျွန်းစုများနှင့် ရေလက်ကြားများသည် ဒမ်းပီယာအမည်ကိုစွဲ၍ အမည်တွင်ကြလေသည်။

**ဒုံးမြီးကွက်**။ ။ဒုံးမြီးကွက်သည် 'စိကိုနိုင်အိဒီး' မျိုးရင်းတွင် ပါဝင်သော ဒုံးစပ်အငယ်စားဖြစ်သည်။ ဇီဝဗေဒအလိုအားဖြင့် ယင်းကို 'လက်ပတော့တီလော့ ဂျာဗာနီကပ်' ဟုခေါ်သည်။

အလျား ၄၅ လက်မရှိသည်။ ဒုံးစပ်များကဲ့သို့ပင် စလုတ်မရှိချေ။ ကွင်းထဲတွင် ထိုငှက်ကိုတွေ့ရလျှင်၊ ငှက်၏ ကိုယ်အထက်ပိုင်းသည် မဲ့ပြာညိုရောင် ပေါက်နေသည်ကို မြင်ရလိမ့်မည်။ မော်လမြိုင်မြို့ အရှေ့တောင်ဖက် ၂၅ မိုင်ခန့်အကွာတွင်ရှိသော တောင်စောက်များပေါ်၌ အသိုက်လုပ်သည်ကို တွေ့ရသည်။ မြိတ်မြို့၏တောင်ဖက် မိုင် ၆၀ ခန့်အကွာရှိ အင်းတော်ရွာ၌လည်း ထိုငှက်များ အုပ်ဖွဲ့၍ အသိုက်လုပ်ကြသည်ဟုဆိုသည်။ အသိုက်များကို အလွန်မြင့်မားသည့် ကညင်ပင်များပေါ်တွင် လုပ်လေ့ရှိကြသည်။ အကြီးဆုံး ငှက်အုပ်တွင် အသိုက်ပေါင်း ၄၀ ခန့်ရှိသည်။

တမြုံလျှင် အများဆုံး ၃၊ ၄ ဥ ရှိတတ်သော်လည်း၊ အများအားဖြင့် ၃ ဥသာရှိသော အသိုက်ကို တွေ့ရတတ်သည်။ နိုဝင်ဘာလတွင် ငှက်ကလေးများ ပေါက်လေ့ရှိသည်။ ဒုံးမြီးကွက်၏ ဥသည် ဒုံးစပ်၏ ဥထက် ငယ်ယောင်ယောင်ရှိသည်။

ဒုံးမြီးကွက်ကို အရှေ့ပိုင်းဒေသများတွင် အနှံ့ အပြား တွေ့ရသည်။ ထိုငှက်ကို မြန်မာနိုင်ငံတွင် အနည်းငယ်သာ တွေ့ရသော်လည်း၊ မြန်မာနိုင်ငံ၌ပင် အမြဲနေဟန်တူသည်။ တခါတရံ လွင်ပြင်များတွင် တွေ့ရသည်။ ဆောင်းဥတု၌ ရခိုင်တိုင်းတွင်၊ ဒုံးမြီးကွက်ကို တွေ့ရတတ်သည်ဟုလည်း အဆိုရှိသည်။

**ဒျူတီရီယမ်။** ။ဒျူတီရီယမ်သည် ဟိုက်ဒရိုဂျင်၏ အိုင်ဆိုတုပ်ဖြစ်၏။ (အိုင်ဆိုတုပ် — ရှု။) အိုင်ဆိုတုပ်ဆိုသည်မှာ ဓာတ်ဂုဏ်ချင်း တူညီသော်လည်း၊ အက်တမ် အလေးဆချင်း ခြားနားသော ဒြပ်စင် မူကွဲများကို ဆိုလိုသည်။ ဒျူတီရီယမ်ကို အချိန်စီးသော ဟိုက်ဒရိုဂျင်ဟူ၍ အမှတ်သညာပြုကြသည်။ ဟိုက်ဒရိုဂျင်အဆ ၅ဝဝဝ တွင် ဒျူတီရီယမ် ၁ ဆသာလျှင် ပါရှိသည်။ ရေထဲ၌ အောက်ဆီဂျင်နှင့်ပေါင်းစပ်သော ဒျူတီရီယမ်ဒြပ်ပေါင်းကို အချိန်စီးသောရေဟု ခေါ်ဆိုသည်။ အယ်လကာလိုင်းရည်ကို တာရှည်စွာ လျှပ်စစ်ဖြင့် ဓာတ်ခွဲယူလျှင် အချိန်စီးသောရေကို ရသည်။ ဒျူတီရီယမ်ကို စတင်ဖော်ထုတ်သူမှာ ယူရေး ဆိုသူဖြစ်သည်။

ဒျူတီရီယမ်သည် ဓာတ်ငွေ့ဖြစ်၏။ ဓာတ်ဂုဏ်အားဖြင့် ဟိုက်ဒရိုဂျင်နှင့်တူ၏။ သို့သော် ရုပ်ဂုဏ်အားဖြင့် ဟိုက်ဒရိုဂျင်နှင့်ကွဲသည်။ ဒျူတီရီယမ်၏ အရည်ဆူမှတ်မှာ စင်တီဂရိတ် ၂၄၉.၅ ဒီဂရီဖြစ်၍၊ အရည်ပျော်မှတ်မှာ စင်တီဂရိတ် ၂၅၄.၃၅ ဒီဂရီဖြစ်သည်။ ဒျူတီရီယမ်ကို ဓရရိုးရိုးပေါ်၌ လောင်း၍ ရက်သတ္တပတ်အနည်းငယ်ခန့်ထားလျှင် ထုထယ်မပြောင်းဘဲ၊ ထိုဓာတ်ငွေ့၌ ဒျူတီရီယမ် ၅% ခန့်သာလျှင် ကျန်ရှိသည်။ ရေထဲမှ ဟိုက်ဒရိုဂျင်နှင့် ဖလှယ်မှုရှိသောကြောင့် ဒျူတီရီယမ် အတိုင်းအဆ နည်းသွားရခြင်းဖြစ်သည်။ ဒျူတီရီယမ် အက်တမ်၏ နျူကလီးယပ်မှာ ဒျူတာရွန်ဖြစ်သည်။ (ဓာတုဗေဒ — လည်းရှု။)

**ဒျူရာ, အေ** (ခရစ် ၁၄၇၁–၁၅၂၈)။ ။ကမ္ဘာကျော် ပန်းချီဆရာကြီး အားလဗရက် ဒျူရာသည် ၁၄၇၁ ခုနှစ် မေလ ၂၁ ရက်နေ့တွင် ဂျာမနီနိုင်ငံ နျူးရမ်းဗပ်မြို့၌ ဖွားမြင်လေသည်။ သူ၏ဖခင်မှာ ရွှေပန်းထိမ်ဆရာတဦးဖြစ်၍၊ သားသမီး ၁၈ ယောက်ရှိရာ၊ ဒျူရာမှာ ဒုတိယသားဖြစ်၏။ စာရေး စာဖတ် တတ်လျှင်၊ ဒျူရာအား ကျောင်းထွက်စေပြီးနောက်၊ ပန်းထိမ်အလုပ်ကို ကူညီလုပ်ကိုင်စေလေသည်။ ဒျူရာသည် ငယ်စဉ်ကပင် ပန်းထိမ်အလုပ်ထက်



နာမည်ကျော် ပန်းချီဆရာကြီး ဒျူရာကိုယ်တိုင် မိမိ၏ပုံတူကို ရေးဆွဲထားသည့် ပန်းချီကား

ကောင်းမွန်သည့် အလုပ်တခုကို လုပ်မည်ဟူသော ရည်မှန်းချက် ထားခဲ့ပြီးလျှင်၊ ပန်းချီပညာ၌ များစွာစိတ်ဝင်စားခဲ့၏။ ၁၃ နှစ်သားအရွယ် သူ၏ပုံတူကို အကြမ်းရေးဆွဲခဲ့ရာ၊ နာမည်ကျော် ပန်းချီဆရာကြီးတယောက် ရေးဆွဲသည့်ပုံဟု ထင်မှတ်ရအောင်ပင် ကောင်းမွန်လေသည်။ စာအုပ်များကို ပုံနှိပ်သောခေတ်သို့ရောက်လာသောအခါ၊ ရုပ်ပုံထွင်းအတတ်သည် ခေတ်စားလာခဲ့သောကြောင့်၊ ဒျူရာသည် ရုပ်ပုံထွင်းဆရာတဦးထံတွင် အလုပ်သင်လေသည်။ အဖြူနှင့်အမဲရုပ်ပုံကို သစ်သားပေါ်တွင် ထွင်းထုခဲ့ရာ၊ သူ၏လက်ရာများသည် အလွန်ကောင်းမွန်လှပေသည်။ သို့ရာတွင် သူသည် ဆေးရောင်စုံရေးခြယ်ခြင်း၌ စိတ်အားထက်သန်လာသဖြင့်၊ ကမ္ဘာကျော် ပန်းချီ ဆ ရာ ကြီး များ ရှိ ရာ ဂျာမနီ၊ ဣတလီစသောနိုင်ငံများသို့ ခရီးထွက်ကာ၊ ပန်းချီပညာကို လေ့လာဆည်းပူးလေသည်။

၁၄၉၄ ခုနှစ်တွင် ဒျူရာသည် ဇာတိဖြစ်သော နျူးရမ်း

ဗပ်သို့ပြန်လာကာ၊ ကုန်သည်တဦး၏သမီး အဂ္ဂနက် ဖရေးဆိုသူနှင့် လက်ထပ်သည်။ အိမ်ထောင်ပြုပြီးနောက်၊ ဒျူရာသည် နျူးရမ်းဗပ်မြို့၌ ပန်းချီကားများကို ရေးဆွဲ၍၎င်း၊ ရုပ်ပုံထွင်း၍၎င်း အသက်မွေးမှုလေသည်။

၁၀ နှစ်မျှကြာသောအခါ၊ ဣတာလျံလူမျိုးတယောက်သည် သူ၏ပုံများကို ပုံထွင်းကူးယူ၍၊ ကိုယ်ပိုင်ရေးဆွဲသောပုံအဖြစ် ရောင်းချနေကြောင်း ကြားရသဖြင့်၊ ဒျူရာသည် ဣတလီပြည်သို့ သွားရပြန်လေသည်။ ထိုအခါက၊ ဣတလီပြည်တွင် ၂ နှစ်မျှ နေထိုင်ခဲ့ရ၍၊ ဣတလီပန်းချီပညာရပ်များကို လေ့လာ ဆည်းပူးခဲ့ရ၏။

ဒျူရာသည် ဣတလီပန်းချီပညာကို အထူးနှစ်သက်လေသည်။ ဣတလီမှ ပြန်လာခဲ့ပြီးနောက်တွင် ပန်းချီကားများကို အဆက်မပြတ် ရေးဆွဲရလေရာ၊ မကြာမီပင် ဘုရင်နှင့် မင်းညီမင်းသား မှူးမတ်များ၏ အသုံးတော်ခံ ပန်းချီဆရာကြီး ဖြစ်လာလေသည်။ ဒျူရာတို့၏ခေတ်တွင် ဂျာမန် အနုပညာရပ်များ ဖွံ့ဖြိုးတိုးတက်ခဲ့၏။ စင်စစ်သော်ကား ဒျူရာသည် ဂျာမနီနိုင်ငံ၌ ဥာဏ်သစ်အရေးပုံကို တည်ထောင်ခဲ့သူများတွင် အပါအဝင်ဖြစ်သည်ဟု ဆိုနိုင်လေသည်။ (ဥာဏ်သစ်အရေးပုံ — ရှု။)

ဒျူရာသည် ပန်းချီပညာအပြင် လောကဓာတ်ပညာကိုလည်း လွန်စွာစိတ်ပါခဲ့ရာ၊ နောက်ပိုင်းတွင်၊ လောကဓာတ်ပညာဖက်ကို လိုက်စားခဲ့လေသည်။ ဒျူရာသည် အလွန်အလုပ်လုပ်သူတဦးဖြစ်၍၊ သူမသေမီပန်းချီကားပေါင်း တထောင်ကျော်ထိ ရေးဆွဲပြီးစီးခဲ့လေသည်။ ဒျူရာသည် အသုံးတော်ခံ ပန်းချီဆရာကြီးဖြစ်၍ နာမည်ကျော်ကြားသလောက်၊ လက်ရာလည်း ပြောင်မြောက်သူဖြစ်သည်။ (ဂျာမန်အနုပညာ — ရှု။) 'စိန်ဂျရုမ်း စာကြည့်နေပုံ' နှင့် 'တမန်တော် ၄ ဦး' ပုံများသည် အထူးနာမည်ကျော်ကြား၏။ ဒျူရာသည် ၁၅၂၈ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဒျူးမား, အယ်လက်ဇန္ဒာ** (ခရစ် ၁၈၀၂–၁၈၇၀)။ 'မွန်တီ ကရစ္စတိုမြို့စားကြီး' ဟုခေါ်သော ကမ္ဘာကျော်ဝတ္ထုကို ရေးသားသူ ပြင်သစ်ဝတ္ထုရေးဆရာကြီးကား အယ်လက်ဇန္ဒာ ဒျူးမားဖြစ်သည်။ ထိုဝတ္ထုသည် ကျွန်ုပ်တို့ မြန်မာနိုင်ငံတွင် 'မောင်ရင်မောင် မမယ်မ' ဟူသောအမည်ဖြင့် ဂျိမ်း လှကျော် ဘာသာပြန်သောဝတ္ထုအဖြစ် ၂၀ ရာစုနှစ်ဦးက ထင်ရှားကျော်စောခဲ့သည်။ (မောင်ရင်မောင်၊ မမယ်မ ဝတ္ထု — ရှု။) ယခုခေတ်၌ ထိုဝတ္ထုကိုပင် စာရေးဆရာကြီး ရွှေဥဒေါင်းက 'ရတနာသိုက်' ဟူသောအမည်ဖြင့် တိုက်ရိုက်ဘာသာပြန်ဆိုခဲ့သည်။ မြန်မာတို့အကြိုက်တွေ့သော ဒျူးမား၏ အခြားဝတ္ထုတပုဒ်မှာ စာရေးဆရာကြီး ပီမိုးနင်း ဘာသာပြန်သော 'သူရဲကောင်းသုံးယောက်' ဝတ္ထုဖြစ်လေသည်။



ကမ္ဘာကျော် ပြင်သစ်ဝတ္ထုရေးဆရာကြီး အယ်လက်ဇန္ဒာ ဒျူးမား

ဒျူးမားသည် ပြင်သစ်နိုင်ငံ နပိုလီယန်၏စစ်တပ်တွင် စစ်မှုထမ်းသော ဗိုလ်ချုပ်တဦး၏ သားဖြစ်သည်။ သူ၏ ဖွားအေသည် ဟေးတီးကျွန်းသူ ကပ္ပလီ အမျိုးသမီးတဦးဖြစ်သည်။ ၄ နှစ်သားအရွယ်ကပင်လျှင် ဖခင်ကွယ်လွန်ခဲ့သောကြောင့်၊ ဒျူးမားသည် ငယ်စဉ်က ကောင်းစွာ စာပေမသင်ကြားခဲ့ရချေ။ ထို့ကြောင့် အချိန်တန် အရွယ်ရောက်လာသောအခါ၊ လခအနည်းငယ်မျှဖြင့် ရှေ့နေစာရေး လုပ်ခဲ့ရသည်။ ခရစ် ၁၈၂၃ ခုနှစ်တွင် ဒျူးမားသည် ပါရစ်မြို့တွင် နေထိုင်ရန်အလို့ငှာ ရောက်ရှိလာခဲ့လေသည်။ ဝမ်းရေးကို ငဲ့၍၊ ဒျူးမားသည် ၁၈၂၅ ခုနှစ်မှ ၁၈၃၀ ပြည့်နှစ်တိုင်အောင် ပြဇာတ်များနှင့် အခြားရယ်ဖွယ်ရာ စာပေတို့ကို ရေးသားရသည်။ ထိုအတွင်း ပြင်သစ်နိုင်ငံတွင် တော်လှန်ရေးနှင့်စပ်လျဉ်း၍၊ အခြေအနေ ရှုပ်ထွေးလျက်ရှိလာသည်။ ထိုအချိန်က ဒျူးမားသည် အစိုးရအဖွဲ့ဝင်တဦးနှင့် မသင့်မတင့်ဖြစ်သောကြောင့်၊ သူ၏အပေါ် အမှုပတ်လာမည်ကို စိုးရိမ်၍၊ ပြင်သစ်နိုင်ငံမှ ခေတ္တရှောင်တိမ်းကာ၊ ဆွစ်ဇာလန်နိုင်ငံတွင် နေထိုင်လေသည်။ ထိုနောက် တိုင်းရေးပြည်ရေး အေးချမ်းသွားသည့်အခါ၊ ပါရစ်မြို့သို့ ပြန်လာပြီးလျှင်၊ ၁၂ နှစ်တိုင်တိုင် ပြဇာတ်တို့ကို ရေးသားခဲ့ရာ၊ များစွာ ထင်ပေါ်ကျော်ကြားလာလေသည်။

၁၈၄၃ ခုနှစ်တွင် ဒျူးမားသည် ဝတ္ထုကို စတင်ရေးသားလေသည်။ နောက်တနှစ်တွင် 'သူရဲကောင်းသုံးယောက်' ဝတ္ထုကို ၁၇ ရာစုနှစ် ၁၃ ဆက်မြောက် လူဝီလက်ထက် အဖြစ်အပျက်ကို နောက်ခံထား၍ ရေးသားခဲ့လေသည်။ ထိုဝတ္ထုသည် ၁၉ ရာစုနှစ်ထုတ် 'စွန့်စားခြင်းနှင့် စိတ်ကူးယဉ်



ဖခင်ကဲ့သို့ပင် ဝတ္ထုနှင့်ပြဇာတ်ရေးဆရာအဖြစ် နာမည်ကျော်ကြားသည့် အယ်လက်ဇန္ဒာ ဒျူးမား (အငယ်)

ခြင်း' တို့ကို အထူးပြုသောဝတ္ထုတို့တွင် နာမည်အကျော်ကြားဆုံးဝတ္ထု ဖြစ်လေသည်။ ထိုဝတ္ထုသည် များစွာကျော်ကြားလေရာ၊ ၁၈၄၅ ခုနှစ်၌ ဒျူးမားသည် ထိုဝတ္ထု၏ အဆက်ဖြစ်သော 'နှစ်ပေါင်း ၂၀ လွန်ခဲ့ပြီးနောက်' ဟူသော ဝတ္ထုကို ရေးသားထုတ်ဝေလေသည်။ ၁၈၄၄-၄၅ အတွင်း၌ 'မွန်တီ ကရစ္စတိုမြို့စားကြီး' ဝတ္ထုကိုလည်း ရေးခဲ့သည်။ ထိုနောက် ကွယ်လွန်သည်အထိ နှစ်ပေါင်း ၂၀ တိုင်တိုင် ဝတ္ထုပေါင်း ၃၀၀ ကျော်တို့ကို ရေးသားခဲ့သည်။ နောက်ကာလ၌ ရေးသားသောဝတ္ထုတို့ကို ဒျူးမားသည် အခြားစာရေးဆရာများကို ငှားရမ်း၍ အရေးခိုင်းသည်ဟု အဆိုရှိသည်။ ဒျူးမားသည် ဝတ္ထုကြောင်းကို ရှာပေး၍၊ အခြားစာရေးဆရာတို့က ဝတ္ထုကြောင်းဆိုင်ရာ အချက်အလက်တို့ကို သုတေသနပြုကာ စာပြုပေးရသည်။ ဒျူးမားက နောက်ဆုံးအချောကိုင်၍ ရေးသည်။ သို့သော် ၁၈၄၃-၅၀ အတွင်း ရေးသားသော ဒျူးမား၏ဝတ္ထုတို့သည်သာလျှင် အကောင်းဆုံးလက်ရာ ဖြစ်ပေသည်။ ဒျူးမားသည် ဝတ္ထုရေးခြင်းဖြင့် ဝင်ငွေ အလွန်ကောင်းသည်။ သို့သော် အလွန်အသုံးအစွဲကြီးသူ ဖြစ်ရကား၊ အရွယ် အိုလာလတ်သော် များစွာ ဆင်းရဲပင်ပန်းလေသည်။ ၁၈၂၄ ခုနှစ်တွင် ဒျူးမား ပါရစ်မြို့သို့ရောက်စက ပါရစ်မြို့၌မွေးဖွားသော သူ၏သားသည် သူ့ကို ဝတ္ထုရေးဆရာအဖြစ်ဖြင့်ပင် ကောင်းစွာ လုပ်ကျွေး မွေးမြူလေသည်။ ထိုသားကား သူနှင့်အမည်တူမှည့်ခေါ်ထားသော အယ်လက်ဇန္ဒာ ဒျူးမား (အငယ်) (၁၈၂၄-၉၅) ဖြစ်သည်။ သားဖြစ်သူ ဒျူးမားသည် အဖဖြစ်သူ ဒျူးမား၏ အသုံးအဖြုန်းကြီးပုံကို တွေ့မြင်လာသောအခါ၊ ၁၈၄၇ ခုနှစ်မှအစပြု၍ ဝတ္ထုရေးကာ အသက်မွေးလေသည်။ သူရေးသော ပဌမဆုံး နာမည်ထွက်သည့် ဝတ္ထုသည် 'ကမီလီယာပန်းပန်ဆင်သူ' ခေါ် ဝတ္ထုဖြစ်သည်။ ထိုဝတ္ထုကို ၁၈၄၈ ခုနှစ်တွင် ထုတ်ဝေရာ၊ ၁၈၅၂ ခုနှစ်သို့ရောက်သော် ထိုဝတ္ထုကိုမှီး၍ ပြဇာတ် ကပြသည်။ ထိုဝတ္ထုသည် ထိုခေတ်ရှိ လူမှုရေးပြဿနာတို့ကို ဖော်ပြသော ဝတ္ထုဖြစ်သည်။ နောင်အခါတွင် ဒျူးမားအငယ်သည် သူရေးသမျှသောဝတ္ထုတို့တွင် ထိုခေတ်၌ကြုံတွေ့ရသော စီးပွားရေး၊ နိုင်ငံရေး၊ အိမ်တွင်းရေးပြဿနာတို့ကို အခြေခံ၍ ရေးလေသည်။

**ဒြပ်စင်သစ်များ။** ။ယခုအခါ သိပ္ပံပညာရှင်များသည် သဘာဝတွင် မတွေ့ရှိနိုင်သော ပစ္စည်းသစ် (ဒြပ်ပေါင်းသစ်) များကို ဖန်တီး လုပ်ယူနိုင်ကြသည်သာမက၊ အက်တမ်များကို ဖြိုခွင်းပြီးနောက် သဘာဝတွင် မတွေ့ရှိနိုင်သော ဒြပ်စင်သစ်များကိုလည်း ဖန်တီး လုပ်ယူနိုင်ကြလေပြီ။ ယင်းသို့ လုပ်ယူနိုင်ခဲ့ကြသည်မှာ ရေဒီယမ်နှင့် ယူရေနီးယမ်းကဲ့သို့သော မခိုင်မြဲသည့် ဒြပ်စင်အနည်းငယ်တို့၏အကြောင်းကို အချိန်ကြာမြင့်စွာ လေ့လာပြီးသောအခါမှသာ လုပ်ယူနိုင်ကြခြင်း ဖြစ်ပေသည်။ ခဲထက်ပို၍ အက်တမ်အလေးချိန်များသော ဒြပ်စင်အပေါင်းတို့သည် အစဉ်သဖြင့် ခိုင်မြဲတည်တံ့စွာ မရှိနိုင်ကြချေ။ ထိုအက်တမ်တို့၏ နျူးကလီးယပ်များကို စုစည်းသောအားသည် အက်တမ်တို့ ခိုင်မြဲတည်တံ့၍ နေနိုင်လောက်အောင် မကောင်းချေ။ ထို့ကြောင့် အက်တမ်တိုင်းသည် မိမိ၏နျူးကလီးယပ်မှ အဖိုမှုန်နှင့် အမမှုန်နှစ်မျိုးလုံးကို တမျိုးနှင့်တမျိုး မျှတအောင်ထုတ်လွှတ်သည်။ ထုတ်လွှတ်သောနှုန်းမှာ အက်တမ်အမျိုးအစားကိုလိုက်၍ အမျိုးမျိုးရှိသည်။

မခိုင်မြဲသောဒြပ်စင်တို့သည် မိမိတို့၏အက်တမ်မှ အဖို မှုန်နှင့် အမမှုန်တို့ကို ထုတ်လွှတ်၍ ဒြပ်စင်ဘဝအမျိုးမျိုးသို့ ပြောင်းလဲကြသည်။ ခဲဒြပ်စင်ဘဝသို့ ကျရောက်သောအခါ မှုန်ထုတ်လွှတ်ခြင်း ရပ်စဲသွားသည်။ အချို့ဒြပ်စင်သည် ခဲဘဝသို့ကျရောက်ရန် စက္ကန့်ပိုင်းမျှသာကြာ၍၊ အချို့မှာမူ နှစ်ပေါင်း အသိန်းအသန်းကျော်အောင်ပင် ကြာလေသည်။ ထိုကဲ့သို့ မခိုင်မြဲသော ဒြပ်စင်ကို ရေဒီယမ်သတ္တိရှိဒြပ်စင်ဟု ခေါ်သည်။ သိပ္ပံပညာရှင်များသည် ဆိုခဲ့သော ဒြပ်စင်များ၏ ရေဒီယမ်သတ္တိရှိပုံကို လေ့လာပြီးလျှင်၊ ယင်းကဲ့သို့ ရေဒီယမ်သတ္တိရှိပုံမျိုးကို လက်တွေ့ စမ်းသပ်ကြည့်ကြလေသည်။ ယင်းသို့ အက်တမ်ကို ဖြိုခွင်းရန်အတွက် အားကောင်းသော ဆိုင်ကလိုထရွန်ခေါ် အက်တမ်ဖြိုခွင်းစက်ကြီးများကို ဆောက်လုပ်ကြသည်။ ဆိုင်ကလိုထရွန်တွင် ဒြပ်စင်များကို ရေဒီယမ်သတ္တိရှိလာအောင် လုပ်ယူကြသည်။ ဒြပ်စင်ကို မခိုင်မြဲစေဘဲ၊ ရေဒီယမ်သတ္တိရှိလာအောင် ပြုလုပ်

ရာ၌ များသောအားဖြင့် ချူထရွန်၊ ပရိုတွန်း၊ ဒျူ တာ ရွန်၊ အာလဖာမြူမှုန်တို့ကို အသုံးပြုကြသည်။ ထိုမြူမှုန်တို့သည် အက်တမ်၏နျူးကလီးယပ်ထဲသို့ ဖောက်ထွင်း၍ ဖြစ်စင်ကို မခိုင်မြဲအောင် ပြုလုပ်ကြလေသည်။

ယခုအခါ သဘာဝတွင် ယခင်က မတွေ့ခဲ့သေးသော ဖြစ်စင်သစ်ခြောက်မျိုးကို လက်တွေ့လုပ်ယူ၍ ရရှိပြီဖြစ်သည်။ ထိုဖြစ်စင်တို့အနက် ငါးမျိုးကို အမည်ပေးပြီးကြလေပြီ။ ထိုဖြစ်စင်ငါးမျိုးမှာ ပလူတိုနီယမ်၊ နက်ပကျွန်နီယမ်၊ ကျူရီယမ်၊ အမေရီဆီယမ်၊ တက်နီတီယမ်တို့ ဖြစ်ကြသည်။ ဆဋ္ဌမ ဖြစ်စင်သစ် (နံပတ် ၆၁) ကို ပရိုမီသီယမ်ဟု ယာယီ အမည်ပေးထားကြသည်။ ထိုဖြစ်စင်သစ်ခြောက်မျိုးအပြင် အခြားမတွေ့ရသေးသော ဖြစ်စင်သစ်များကို ပြုလုပ်နိုင်ရန် နည်းလမ်းများရှိနေကြောင်းကို သိရှိရလေသည်။ (အက်တမ်။ ရေဒီယမ်နှင့် ရေဒီယမ်သတ္တိကြွခြင်း။ ဓာတုဗေဒ။ ရူပဗေဒ — လည်းရှု။)

**ဦးရကိုက်**။ ။ဗုဒ္ဓသာသနာဝင်၊ မြန်မာနိုင်ငံ — ရှု။

**ဒွေးမယ်နော်ဝတ္ထု**။ ။ဒွေးမယ်နော်ဝတ္ထု၏ အရင်းခံသည် ဇင်းမယ်ပဏ္ဏာသကျမ်း၌ပါသော မဟာသုဓနုဇာတ် ဖြစ်သည်။ ထိုဇာတ်နှင့် သဘောချင်းတူသော မဟာသုဓနုကုမာရဇာတ်ကို သက္ကဋ္ဌဖြင့် စီကုံးရေးသားထားသော ဒိဗျာဝဒါနခေါ် မဟာယာနကျမ်းတွင် တွေ့ရှိရသည်။ ထိုဇာတ်တို့တွင် မနော်ဟရီမင်းသမီး၏အကြောင်းကို ဖွဲ့ဆိုထားသည်။ မနော်ဟရီမင်းသမီးကား ဒုမရာဇ်မင်းကြီး၏ သမီးတော် ခုနစ်ပေါ် အနက် အထွေးဆုံးသော သမီးတော် ဖြစ်သည်။ သမီးထွေး မနော်ဟရီ ဟူသော စကားကိုယူ၍၊ မြန်မာဘာသာဖြင့် ဒွေးမနော်ဟု အတိုချုံး၍ ခေါ်ရာမှ၊ ကာလကြာလတ်သော် ဒွေးမယ်နော် တွင်သည်ဟု ယူဆရန်ရှိပေသည်။

ထိုဒွေးမယ်နော်ဝတ္ထုကို မြန်မာစာပေ၌သာ တွေ့ရသည် မဟုတ်၊ တိဗက်၊ သီဟိုဠ်၊ အင်ဒိုနီးရှား၊ ယိုးဒယား စသောနိုင်ငံတို့၏ စာပေများတွင်လည်း တွေ့ရသည်။ မြန်မာနိုင်ငံတွင် ကယား (ယခင်က ကရင်နီ) ပြည်နယ်၏ ဇာစ်မြစ်သမိုင်းကို ဒွေးမယ်နော်အကြောင်း၌ အခြေခံ၍ထားသည်ကိုလည်း တွေ့ရသည်။ ကယားပြည်နယ်ရှိ တိုင်းရင်းသားတို့သည် ယင်းတို့၏ဒေသ၌ရှိသော ငွေတောင်နယ်ကို ဒွေးမယ်နော်ဝတ္ထုတွင် လာရှိသော ငွေတောင်ဟူ၍ပင် ယူဆကြသည်။ ကယားပြည်နယ်၏ အမျိုးသားအလံတွင် ဒွေးမယ်နော် မင်းသမီးကိုအစွဲပြု၍ ကိန္နရာရုပ်ကို ဆောင်ကြသည်။ ထိုပြင်၊ ကယားအမျိုးသားတို့သာမက ကရင်အမျိုးသားတို့၏ အစဉ်အလာ၌လည်း ဒွေးမယ်နော်ဝတ္ထုကို အခြေခံထားကြောင်း တွေ့ရသေးသည်။ သုဓနုမင်းသားနှင့် ဒွေးမယ်နော်တို့ကို မြန်မာကရင်ဘာသာဖြင့် မော်သုဂနုနှင့် နော်နုခါရီဟူ၍ရှင်း၊ တလိုင်းကရင်ဘာသာဖြင့် မန်းသုခနုပ်နှင့် နန့်နောင်းခါရီဟူ၍ရှင်း ခေါ်ဆိုကြသည်။

မြန်မာစာပေသမိုင်းတွင်၊ နဝဒေးကြီးသည် ဒွေးမယ်နော်ဇာတ်ကို အခြေခံ၍၊ မနော်ဟရီပျို့ကို စပ်ဆိုသည်။ (နဝဒေး — ရှု။) ဝန်ကြီး ပဒေသရာဇာသည်လည်း ယင်းဇာတ်ကိုပင် အခြေခံ၍၊ သူဇာပျို့ကို စပ်ဆိုသည်။ (ပဒေသရာဇာ — ရှု။) ရွှေတောင်နန္ဒသူကား ထိုစာဆိုများကဲ့သို့ပင် ဒွေးမယ်နော်ဇာတ်ကိုယူ၍၊ ငွေတောင်ရကန်ရေးသားသည်။ ရှေးမြန်မာမင်းတို့၏ခေတ်တွင် ဒွေးမယ်နော်ဝတ္ထုကို မှီငြမ်းပြုသော ငွေတောင်ဇာတ်သည် နန်းတွင်း၌ ကပြသော ဇာတ်များတွင် များးစွာ ထင်ရှားခဲ့ဟန် လက္ခဏာရှိသည်။ ဤအချက်ကို လက်ဖတင်နင် ဂျင်နရယ် ဖိုက် ရေးသားသော မြန်မာနိုင်ငံအကြောင်း စာအုပ်ကို ထောက်ရှု၍သိရသည်။ ထိုစာအုပ်တွင် ခရစ် ၁၈၅၆ ခုနှစ်၌ လက်ဖတင်နင် ဆလေဒင်နှင့် ကာနယ် စပတ်တို့သည် အင်္ဂလိပ်သာသာဖြင့် ပြန်ဆိုရေးသားထားသော ငွေတောင်ဇာတ်ကို ဖေါ်ပြထားသည်။ ယခုခေတ် ၂၀ ရာစုနှစ် ရှေ့ပိုင်းတွင် ဒွေးမယ်နော်ဇာတ်ကို မှီး၍ မန္တလာ ဦးကေလာသ ဆရာတော်က ဒွေးမယ်နော်ခေါ် သုဓနုဇာတ်တော်ကြီးကိုရှင်း၊ ဦးမောင်မောင်က နန့်နောင်းခါရီ ဒွေးမယ်နော်ဝတ္ထုကိုရှင်း အသီးအသီး ရေးသားထားခဲ့ကြသည်။ ငွေတောင်ဇာတ်သည် ယခုခေတ် ရောက်သည့်တိုင်အောင် မတိမ်ကောသေးချေ။ သကြံန်အခါတွင် ပျော်ရွှင်ဖွယ်ရာအဖြစ်ဖြင့် မယ်ရဋ္ဌ ငွေတောင်ပြည်ပြန်ခန်း ဇာတ်ကွက်ကို လူတယောက်တည်းနှင့် သရုပ်ဖေါ်၍ ကပြလေ့ရှိသည်။ ကပြပုံမှာ ကပြသူသည် သူ၏နောက်ကျောတွင် ဝါးလုံးတိုင်တခုကို ရစ်ပိုး စည်းနှောင်၍၊ ထိုဝါးလုံး၏ အဖျားတွင် ကိန္နရီရုပ်ကိုသော်ရှင်း၊ မင်းသမီးရုပ်ကိုသော်ရှင်း ချိတ်ဆွဲသည်။ ကိန္နရီရုပ်သည် ငွေတောင်ပြည်သို့ပြန်သော မယ်ရဋ္ဌ (ဝါ) ဒွေးမယ်နော်ဖြစ်သည်။ ကပြသူသည် အရုပ်ကို ပြေး၍လိုက်ကာ ကပြရသည်ဖြစ်ရာ၊ လူက နောက်မှ ပြေး၍လိုက်လေလေ အရုပ်က ရှေ့မှ ပြေးလေလေ ဖြစ်သည်။

## ငွေတောင်ပြည်

ကယားပြည်နယ်ရှိ ငွေတောင်ပြည်၏သမိုင်းကို ကယားအမျိုးသားတို့ ယခုတိုင်အောင် သီဆိုလေ့ရှိသော ရှေးဟောင်းသီချင်းများအရ သိရှိရပေသည်။ ထိုရှေးသီချင်းများအရ ငွေတောင်ပြည်သည် ရှေးအခါက ကိုယ်ထီး ကိုယ်နန်း ကိုယ့်ကြငှန်းနှင့် တည်ထောင်ခဲ့သော တိုင်းပြည်ဖြစ်၍၊ ကြက်ပုံမကျ စည်ကားသာယာသည်ဟု သိရသည်။ ကယား

အမျိုးသားတို့၏ အမှတ်အသားတခု အဆိုမှာ၊ ခရစ် ၁၈၁၈ ခုနှစ်တွင် ရှေးအိမ်ဝင်းခြံစည်းရိုးဟောင်းတခုတွင် ယွန်းအက္ခရာဖြင့် ရေးသားထားသော ကျောက်နီတုံးများကို တူးဖော် ရရှိခဲ့ဘူးသည်။ ထိုယွန်းစာများအရ ငွေတောင်ပြည်၏ နယ်နိမိတ်သည် အရှေ့သို့လားသော် ဒွေးမယ်နော်သစ္စာကန် အနီး တောင်တန်း၊ အနောက်သို့လားသော် လွယ်နန်ဖခေါ် သခင်မတောင်၊ တောင်သို့လားသော် ရေဖြူရွာ၊ မြောက်သို့ လားသော် လွယ်ကော်မြို့၏ မြောက်ဖက် လေးမိုင်ကွာစခန်း ဖြစ်သည်ဟု ဆိုသည်။ ထိုယွန်းစာများပါရှိသည့် ကျောက်နီတုံး အမှတ်အသားတို့သည် ယခုအခါ ပျောက်ပျက်ကုန်ပြီ ဖြစ်သော်လည်း၊ ကယားအမျိုးသားတို့သည် ထိုယွန်းစာပါ နယ်နိမိတ်ကိုပင် ငွေတောင်ပြည်၏ နယ်နိမိတ်ဟု ယခုတိုင် ယူဆလျက်ရှိသည်။

ယခုအခါ ထိုငွေတောင်ပြည်တည်ရာ ဌာနသည် ပျက်စီး တိမ်ကောသွားပြီ ဖြစ်၍၊ ရွာအဖြစ်ဖြင့်သာ ကျန်ရစ်လေသည်။ ရှေးအခါကမူ လူနေအိမ်ခြေ များပြားသည့်ပြင်၊ အိမ်ဝင်းတို့လည်း ကျယ်ဝန်းသည်။ ရှေး ငွေတောင်ပြည်သူ ပြည်သားတို့သည် အိမ်ဝင်းပတ်လည်တွင် ကျောက်နီ ထရံကို ကာရံလေ့ရှိသည်။ ထိုရှေး သူဟောင်း တို့၏ ဓလေ့၌ ဖားစည်ကို အမွေပေးသော ဓလေ့ရှိသည်။ ထိုပြင် မိမိတို့ပိုင် ဆိုင်သော သစ်တောများကို သားသမီးတို့က ထင်းအဖြစ် သုံးရန်ငှင်း၊ ကွယ်လွန်သည့်အခါ ခေါင်းပြုလုပ်ရန်ငှင်း အမွေပေးလေ့ ရှိကြသည်။ ငွေတောင်ပြည်တွင် နောက်ဆုံး စိုးစံခဲ့သော ဘုရင်သည် ထီးမွေ နန်းမွေ မကျန်ရစ်ခဲ့သဖြင့်၊ ငွေတောင်ပြည်ကြီး တိမ်ကောသွားသည်ဟု အဆိုရှိသည်။ သို့သော် နောက်ဆုံး မင်းဆက်၏ နန်းစဉ် ရတနာများ၊ ယာဉ်ရထားများ၊ နန်းတွင်း အသုံးအဆောင်များ သည် ဥမင် လိုဏ်ခေါင်းတခုတွင် လျှို့ဝှက်စွာ မြှုပ်နှံလျက် ကျန်ရစ်သေးသည်ဟု ကယားအမျိုးသားတို့၌ ဆိုရိုးစကားရှိသည်။

ကယားအမျိုးသားတို့ အထွတ်အမြတ်ပြုသော ငွေတောင်သည် လွယ်ကော်မြို့၏ တောင်ဖက် ၁၂ မိုင်ကွာသော မော်ချီးသွား ကားလမ်း၏ လက်ဝဲဖက်တွင် ယခုတိုင် ထင်ရှားတည်ရှိသည်။ ကယားအမျိုးသားတို့၏အယူ၌ ငွေတောင်ပြည်သည် နက္ခတ်တာရာအပေါင်းတို့ လှည့်လည်သွားလာရာ ဗဟိုလမ်းကြောင်း ဖြစ်သည်ဟူ၍ငှင်း၊ ကယားအမျိုးသားတို့ စတင်ပေါက်ဖွားရာ ကိန္နရာ ကိန္နရီတို့ ပျော်စံရာဒေသ ဖြစ်သည်ဟူ၍ငှင်း၊ ယူဆကြ၏။ ငွေတောင်၏အနီး အရှေ့ဖက်တွင် ဒွေးမယ်နော် သစ္စာပြုရာဟုဆိုသော ရေကန်နှင့်၊ ဒွေးမယ်နော် ကိန္နရီ ညီအစ်မ ခုနစ်ဖော် တို့ ရေကစားရာဟု ဆိုသော ရေကန် ၁၄ ကန်တို့သည် သဘာဝအလျောက်၊ ထက်အောက်နိမ့်မြင့်၊ အဆင့်ဆင့် တည်ရှိသည်။

ကယားအမျိုးသားတို့သည် ငွေတောင်ပြည်ကို အထွတ်အမြတ်ပြုသည့်အလျောက်၊ မိမိတို့ကွယ်လွန်သော် ငွေတောင်ပြည်သို့ ရောက်ပါစေသားဟု ဆုတောင်းပတ္ထနာ ပြုလေ့ရှိသည်။ လူကို မြှုပ်နှံ သင်္ဂြိုဟ်သောအခါ၊ ဦးခေါင်းကို ငွေတောင်ပြည်ဖက်သို့ထား၍ မြှုပ်နှံရသောဓလေ့ ရှိသည်။ ငွေတောင်ပြည်၏ယဉ်ကျေးမှုကို ဖော်ပြသော လက်မှုပညာ လုပ်ငန်းတို့တွင် ဖားစည်လုပ်ငန်း၊ ငွေထည်လုပ်ငန်း၊ လွယ်အိပ်ရက်လုပ်ငန်း စသည်တို့ ပါဝင်လေသည်။ (ဖားစည်ပွဲ။ ကယားပြည်နယ်လည်း — ရှု။)

ထိုငွေတောင်ပြည်နယ်ကို ကျောထောက်နောက်ခံပြု၍ ပေါ်ပေါက်သော ဒွေးမယ်နော်ဇာတ်၏ အရင်းခံဖြစ်သော ဇင်းမယ်ပဏ္ဏာသကျမ်းလာ သုဓနုဇာတ်ကား အကျဉ်းအားဖြင့် ဤသို့ဖြစ်၏။

### သုဓနုဇာတ် အကျဉ်းချုပ်

ရှေးသရောအခါ ဥတ္တရပဉ္စာလပြည်တွင် အာဒိစ္စဝံသမင်းကြီးသည် စိုးစံ၏။ ထိုမင်းကြီး၌ သားတော်တပါး ထွန်းကားလေရာ၊ ထိုမင်းသား ဖွားမြင်ချိန်၌ နန်းတော်လေးဖက်တွင် ရွှေအိုးကြီးလေးလုံး ပေါ်သည်ကို အကြောင်းပြု၍၊ သုဓနုဟု အမည်မှည့်လေ၏။ (ထိုသုဓနုဟူသော အမည်ကို မြန်မာစာပေကျမ်းဂန်တို့၌ သုဓနုဟု ရေးကြ၏။)

ဥတ္တရပဉ္စာလ တိုင်းသူပြည်သားတို့၌ အလေ့အထ တခု ရှိ၏။ ထိုအလေ့အထကား ဥတ္တရပဉ္စာလမြို့ အရှေ့အရပ်၌ တည်သော ရေအိုင်တခု၌နေသည့် ဇမ္ဗုစိတ္တမည်သော နဂါးမင်းကို တိုင်းပြည် စည်ပင်ဝပြောခြင်း အလို့ငှာ ပူဇော်သော အလေ့အထဖြစ်သည်။ ထိုသို့ နဂါးမင်းကိုပူဇော်သဖြင့် တိုင်းကားပြည်ရွာ စည်ပင် ဝပြောလျက်ရှိစဉ်၊ ဥတ္တရပဉ္စာလ မြို့တော်၏ အရှေ့မျက်နှာတွင် မဟာပဉ္စာလ ဟူသော မြို့ တမြို့လည်း ရှိလေသည်။ ထိုမြို့၌ တိုင်းသူပြည်သားတို့သည် ငတ်မွတ်ခြင်း နှိပ်စက်သည်၏ အဖြစ်ကြောင့်၊ ဥတ္တရပဉ္စာလ မြို့သို့ ပြောင်းရွှေ့ နေထိုင်လေ့ရှိကြသည်။ ဤအကြောင်းကို မဟာပဉ္စာလပြည်ဘုရင် သိလတ်သော်၊ အကျိုး အကြောင်းကို စုံစမ်းရာတွင်၊ ဥတ္တရပဉ္စာလပြည်ကို နဂါးမင်း စောင့်ရှောက်၍ စည်ပင်ဝပြောကြောင်းကို သိရှိရကား၊ မဟာပဉ္စာလဘုရင်သည် သည်းမခံနိုင်ဖြစ်၍၊ ထိုနဂါးမင်းကို သတ်အံ့ဟု ပုဏ္ဏားတဦးကို စေလွှတ်ဖမ်းဆီးစေသည်။ ပုဏ္ဏားလည်း နဂါးမင်းကို ဖမ်းဆီးရန်အလို့ငှာ၊ အလမ္ပာယနမန္တာန်ကို ရွတ်ဖတ်သော်၊ နဂါးမင်းသည် မခံနိုင်၍၊ ရေကန်မှ အခိုးအလျှံ ထလေ၏။ ထိုနောက် ပုဏ္ဏားသည် မန္တာန်၏ အဆောက်အဦဖြစ်သော ဆေးပင်ကို ရှာဖွေရန် ဟိမဝန္တာသို့ ဝင်လေ၏။ ဤသို့ ပုဏ္ဏား ဟိမဝန္တာသို့ဝင် နေခိုက်တွင်၊ နဂါးမင်းသည် ဥတ္တရပဉ္စာလမြို့နေ ပုဏ္ဏရိက မည်သော တောမုဆိုး၏ အကူအညီကို တောင်း၏။ ထိုမုဆိုး

လည်း ဟိမဝန္တာမှ ထွက်လာသောပုဏ္ဏားကို လေးနှင့်ခွင်း၍၊ မန္တာန်ကို ပြန်လည်ရုပ်သိမ်းခိုင်းပြီးမှ၊ ဦးခေါင်းကို ဖြတ်လေ၏။ နဂါးမင်းသည် မုဆိုးကို ကျေးဇူးဆပ်သောအားဖြင့် နဂါးပြည်သို့ခေါ် ဆောင်ကာ ခုနစ်ရက်ပတ်လုံး ပူဇော်၍၊ အဖိုးတန်ရတနာများကို ပေးပြီးသော်၊ အရေးရှိက တံခါးစောင့်ကိုပြော၍ နဂါးပြည်သို့ဝင်ထွက်သွားလာရန် မှာကြားပြီးလျှင်၊ မုဆိုးနေရင်းရပ်ဌာန်သို့ ပြန်၍လွှတ်လိုက်လေ၏။

အခါတပါးသော် မုဆိုးသည် တောတွင်း၌ ပျော်မွေ့ဖွယ်ရာကောင်းသော ဥယျာဉ်တခုတွင် ကြာမျိုးငါးပါးပွင့်နေသော လေးထောင့်ကန် (ပုန်းစလုတ်) တခုကိုတွေ့၍၊ ထိုကန်တွင် ဒုမရာဇ်မင်း၏ သမီးတော် ကိန္နရီမယ် ခုနစ်ဖော်တို့ အခြံအရံ တထောင်စီဖြင့် ကောင်းကင်မှ ဆင်းသက် ရေကစားသည်ကို မြင်မိ၏။ မုဆိုးသည် ထိုကိန္နရီတို့၌ စွဲလမ်း၍၊ သူ၏အဆွေခင်ပွန်းဖြစ်သော ရသေ့ထံ ထိုကိန္နရီတို့ကို ရနိုင်မည့်နည်းကို မေး၏။ ရသေ့လည်း ထိုကိန္နရီတို့ကို နဂါးပါသ် (နဂါးပတ်) ကျော့ကွင်းဖြင့် ဖမ်းမှ ရနိုင်သည်ဟု ပြောပြ၏။ ထို့ကြောင့် မုဆိုးလည်း နဂါးမင်း မှာခဲ့ဘူးသည့်အတိုင်း တံခါးစောင့်၏ အကူအညီဖြင့် နဂါးမင်းထံ သွားရောက်၍၊ နဂါးပါသ်ကျော့ကွင်းကို တောင်းယူလာပြီးလျှင်၊ ပုန်းစလုတ်ရေကန်မှ စောင့်၍၊ ကိန္နရီများကို ပစ်ဖမ်းရာ၊ အကြီးဆုံး မနောဟရာကို ဖမ်းမိ၏။ ထိုဖမ်းမိသော ကိန္နရီကို သုဓနုမင်းသားအား ဆက်သလေ၏။

သုဓနုမင်းသား အထွတ်အထိပ်သို့ရောက်သောအခါ ပုရောဟိတ်ပုဏ္ဏား အသစ်တဦး ခန့်ရန်ကိစ္စနှင့် စပ်လျဉ်း၍၊ လက်ရှိ ပုရောဟိတ်ပုဏ္ဏားကြီးက မလိုမုန်းထားဖြစ်သဖြင့်၊ မင်းတရားကြီးအား သုဓနုမင်းသားသည် ခြားနား ပုန်ကန်ရန် ကြံစည်ပါသည်ဟု ကုန်းချော၏။ သို့သော် ဘုရင်မင်းမြတ်သည် အယုံအကြည် မရှိလေ။ တနေ့သော် တိုင်းစွန်ပြည်ဖျား၌ မငြိမ်မသက် ဖြစ်လေရာ၊ ယခင်က ကုန်းချောဘူးသော ပုဏ္ဏားကြီးက အကြိမ်ကြိမ် တိုက်တွန်းသဖြင့်၊ မင်းကြီးသည် သုဓနုမင်းသားကို စေလွှတ်ရလေ၏။ သို့သော် သုဓနုမင်းသား၏ ဘုန်းတန်းခိုးကြောင့် သူပုန်ရန်လည်း ပြေလေ၏။ ပုဏ္ဏားလည်း အကြံမအောင်ချေ။ တနေ့သော် မင်းကြီးသည် မိမိ၏အူသည် ဇမ္ဗူဒိပ်ကိုပတ်၍ ဝမ်းတွင်းသို့ပြန်ဝင်သည်ဟု အိပ်မက်၏။ ထိုအခါ အကောက်ကြံသောပုဏ္ဏားသည် ထိုအိပ်မက်အရ၊ မင်း၊ မိဖုရား၊ တိုင်းပြည် တခုခု ပျက်စီးလေမည်ဟု နိမိတ်ဖတ်၍၊ သက်သတ် ယဇ်ပူဇော်၍ ယတြာချေရန် အကြံပေးလေ၏။ အထူးသဖြင့် ဝိဇ္ဇာဓိုရ်ကညာယဇ်ကို ပူဇော်ရန်လိုသည်ဟု တင်လျှောက်၍၊ ချွေးမတော် မနောဟရာကို ယဇ်ပူဇော်ရန် အရအမိ တောင်းလေ၏။ ထို့ကြောင့် မနောဟရာသည် ကောင်းကင်ခရီးဖြင့် ဟိမဝန္တာသို့ ပြန်လေ၏။

မနောဟရာသည် လမ်းတွင် ရသေ့၏ ကျောင်းသခ်မ်းသို့ သက်ဆင်း၍ မောင်တော် သုဓနုမင်းသား လိုက်လာခဲ့ချေသော် ကမ္ဗလာနီနှင့် လက်စွပ်ကိုပေးရန် မှာထားခဲ့၏။ ထို့ကြောင့် သုဓနုမင်းသားသည် လက်စွဲတော် မုဆိုးပုဏ္ဏရိကနှင့်အတူ အမြန်လိုက်လာရာ၊ ရသေ့နှင့်တွေ့၍၊ ရသေ့ထံမှ ကမ္ဗလာနှင့်လက်စွပ်ကို ရပြီးသော်၊ ရသေ့ပေးသော မန္တာန်နှင့် သတ္တကုလိကဆေးလုံးကိုလည်း ယူပြီးလျှင်၊ ရသေ့ညွှန်ကြားချက်အတိုင်း မနောဟရာ၏ဒေသသို့ ခရီးထွက်ခဲ့ရာ၊ ခုနစ်နှစ်၊ ခုနစ်လ၊ ခုနစ်ရက်ကြာမှ တောကြီးဆယ်ထပ်ကို လွန်လေ၍။ ထိုနောက် ဆက်လက်ခရီးထွက်ရာ၊ လမ်းတွင် ဆင်ပြောင်ကြီး၊ တောင်ကြီးနှစ်လုံး၊ ဘီလူးကြီး၊ မြွေကြီး၊ ကြိမ်တောကြီးဟူသော အတားအဆီးတို့ကို မန္တာန်၏တန်ခိုးဖြင့် ကျော်လွန်ခဲ့လေ၏။ ကြိမ်တောကြီးတွင် သစ်ပင်တပင်ထက်၌ အိပ်နေစဉ်၊ ငှက်ဆင်အုပ်နှင့် တွေ့ရာ၊ ထိုငှက်ဆင်များက ခုနစ်ရက်မြောက်သောနေ့ဝယ် ငွေတောင်ပြည် မနောဟရာမင်းသမီးသည် လူနံ့ဆေးပွဲသို့ စားသောက်ရန် သွားမည့်အကြောင်းကို ပြောဆိုသံကြားရ၍၊ သုဓနုမင်းသားနှင့် မုဆိုးတို့သည် ငှက်ဆင်တကောင်၏ အတောင်ကြားတွင် ဝင်ရောက်ပုန်းအောင်းကာ လိုက်ပါသွားကြလေ၏။

လမ်းခရီးတွင် ငှက်ဆင်တို့သည် ရွှေတောင်ပြည်အနီး ရေကန်ကြီးတွင် သက်ဆင်းလေသော်၊ မင်းသားနှင့်မုဆိုးလည်း ထိုရေကန်ဘေးတွင် ဝင်ရောက်ပုန်းအောင်းနေလေ၏။ ထိုအချိန်တွင် ကိန္နရီဖော် တဆယ့် ခြောက်ယောက်တို့သည် ရေကန်သို့ ရေခပ်လာကြလေရာ၊ သုဓနုမင်းသားသည် ‘မနောဟရာနှင့် မချွတ် ပေါင်းဖော် ရမည်ဖြစ်အံ့၊ တယောက်သော ကိန္နရီသည် ရေအိုးကို မပင့်နိုင်ပါစေသတည်း ’ ဟု အဓိဋ္ဌာန်ပြု၏။ တဦးသောကိန္နရီမယ်သည် ရေအိုးကို မပင့်နိုင်ရှိသည်တွင်၊ အနီး၌သုဓနုမင်းသားကို မြင်၍၊ ရေအိုးကို အပင့်ခိုင်းလေ၏။ သုဓနုမင်းသားလည်း ရေအိုးကို ပင့် ပေးယင်း၊ လက်စွပ်ကို အိုး၌ထည့်လိုက်လေ၏။ ကိန္နရီတို့သည် ငွေတောင်ပြည်သို့ ရောက်သောအခါ၊ မနောဟရာအား လက်စွပ်ပါလာသောရေအိုးဖြင့် ရေလောင်း ချိုးပေးရာတွင်၊ လက်စွပ်သည် မနောဟရာ၏လက်သန်းတွင် စွပ်မိလေသည်။ မနောဟရာလည်း သုဓနုရောက်ပြီကိုသိ၍၊ ထိုကိန္နရီမကို တိုက်ခန်းတွင်းခေါ် ၍၊ တိတ်တဆိတ် မေးမြန်းပြီးလျှင်၊ ပန်းနံ့သာ နတ်ဝတ် တန်ဆာများကို သုဓနုမင်းသားထံသို့ ပို့စေ၏။ ထိုအတွင်း မနောဟရာသည် ခမည်းတော်ထံ ဝင်၍၊ သုဓနုမင်းသား၏ ဂုဏ်ပုဒ်များကို ခြီးကျူးကာ၊ သုဓနုမင်းသား ပြန်လာရခြင်း၏ အတ္တုပ္ပတ်ကို သံတော်ဦး တင်လေသည်။ ဒုမရာဇ်မင်းကြီးလည်း သို့စင် တန်းခိုးကြီးလျက်၊ အဘယ်ကြောင့် မလာနိုင်သနည်းဟု မေးရာ သူလာလျှင်

ခမည်းတော်တို့ အသို့ပြုမည်နည်းဟု သမီးတော်က ပြန်လည်မေး၏။ ခမည်းတော်လည်း သုဓနုမင်းသား ပြန်လာလျှင် သမီးတော်ကို သူ့အား ပေးမည်ဟုဆို၏။ ဤအဖြေကို ရသည်နှင့်တပြိုင်နက်၊ သမီးတော်သည် သုဓနုမင်းသား မြို့ပြင်၌ရောက်နေကြောင်းကို လျှောက်တင်လေ၏။ မင်းကြီးလည်း သုဓနုမင်းသားကို ရှေ့တော်သို့ခေါ်စေ၍၊ မနောဟရာမင်းသမီးနှင့် ထိုက်တန်ကြောင်း ပြရန်အလို့ငှာ လေးအတတ်ကို ပြစေ၏။ သုဓနုမင်းသားလည်း၊ ထန်းလုံး ခုနစ်လုံး တထပ်၊ ရေသဖန်းပင် ပျဉ်ချပ် ခုနစ်ချပ် တထပ်၊ သံပြား ခုနစ်ချပ် တထပ်၊ ကျောက်တိုင် ခုနစ်လုံး တထပ်၊ ကြေးပြား ခုနစ်ချပ် တထပ်၊ သဲပြည့်လှည်း ခုနစ်စီး တထပ်၊ ယန္တရားစက် ခုနစ်ခု တထပ်၊ ဤသို့ ခုနစ်ထပ်ရှိသော ထုကို တချက်တည်းနှင့် ဖောက်ထွင်း၍၊ စကြဝဠာတောင်ကိုထိမှန်ပြီးမှ မြှားသည် မိမိလက်ထဲသို့ ပြန်လည်ရောက်ရှိလာစေရန်၊ လေးကို ပစ်ပြလေ၏။ ထိုနောက် ဒုမရာဇ်မင်းကြီးသည် သမီးတော်ခုနစ်ဖော်ကို ဆင်တူ အဝတ်ဝတ်စေ၍၊ မနောဟရာကို သုဓနုမင်းသားအား ပြခိုင်းရာ၊ သုဓနုမင်းသားသည် မည်သူမနောဟရာဟု မခွဲခြားနိုင် ရှိနေသည်နှင့်၊ ‘သစ္စာဟံ ဟောမိ’ စသည်ဖြင့် သစ္စာဓိဋ္ဌာန်ပြု၏။ ထိုအခါ သိကြားမင်း မနေသာ၍၊ ယင်ကောင် အယောင် ဆောင်ကာ သုဓနု၏ နား အနီးသို့ ပျံသန်းလျက်၊ ‘အကျွန်ုပ်သိကြားမင်း ဖြစ်သည်၊ အကျွန်ုပ်နားသည့်လက်ကို ဆွဲပြပါ’ ဟု သညာပေးလေ၏။ သုဓနုမင်းသားလည်း ယင်ကောင်နားသော မနောဟရာ၏လက်ကို ဆွဲပြသည်တွင်၊ ဒုမရာဇ်မင်းကြီးသည် အံ့ဖွယ်သရဲကို မြင်ရ၍၊ သုဓနုမင်းသားအား သမီးတော် မနောဟရာကို အပ်နှင်း၍၊ မင်းအရာကို ပေး၏။ ထိုနောက် သုဓနုမင်း၏ အလိုကို လိုက်၍၊ ဒုမရာဇ်မင်းကြီးသည် မနောဟရာနှင့် သုဓနုကို ဥတ္တရပဉ္စာလမြို့သို့ ကောင်းကင်ခရီးဖြင့် ခေါ် ဆောင်၍၊ မြို့ပြင်၌ တပ်ချ၍နေလေ၏။ ဤသည်တွင်မှ သုဓနုမင်းသား၏ ခမည်းတော်နှင့် မယ်တော်တို့သည်လည်း သားတော်ကို မြို့တွင်းသို့ ခေါ် ဆောင်၍၊ ထီးနန်း လွှဲအပ်ပေးလေ၏။

**ဒွိုင်း, ဆာ အာသာ ကိုနင်** (ခရစ် ၁၈၅၉–၁၉၃၀)။ ဆာ အာသာ ကိုနင် ဒွိုင်းသည် ထင်ရှားသော ဗြိတိသျှ လူမျိုး စုံထောက်ဝတ္ထုရေး ဆရာကြီးတဦး ဖြစ်၍၊ ၁၈၅၉ ခုနှစ် မေလ ၂၂ ရက်နေ့တွင် စကော့တလန်ပြည်၊ အက်ဒင်ဗာရာမြို့၌ ဖွားမြင်သည်။ သူ၏ဖခင်သည် အနုပညာသည် ချားဒွိုင်း ဆိုသူဖြစ်၍၊ သူ၏ဦးလေးတော် တယောက်မှာမူ ကမ္ဘာကျော် ‘ပန့်ချ’ ဂျာနယ် မျက်နှာဖုံးရေးဆွဲသူ ပန်းချီကျော် ရစ်ချတ် ဒွိုင်း ဆိုသူဖြစ်သည်။ ဒွိုင်းသည် အင်္ဂလန်ပြည်၊ လန်ကရှိုင်ယာခရိုင်ရှိ စတုန်နီးဟတ် ကောလိပ်



ကမ္ဘာကျော်စုံထောက်ဝတ္ထုရေးဆရာကြီး ဆာ အာသာ ကိုနင်ဒွိုင်း

တွင် ပညာသင်ကြားခဲ့ပြီးနောက်၊ အက်ဒင်ဗာရာတက္ကသိုလ်၌ ဆေးပညာကို ဆက်လက် သင်ကြားခဲ့ရာ၊ ၁၈၈၁ ခုနှစ်တွင် အမ်၊ ဘီ ဘွဲ့ကိုရင်း၊ ၁၈၈၅ခုနှစ်တွင် အမ်၊ ဒီ ဘွဲ့ကိုရင်း၊ ရရှိခဲ့၏။ ၁၈၈၂ ခုနှစ်မှ ၁၈၉၀ ပြည့်နှစ်အထိ ဆောက်ဆီးမြို့တွင် ဆရာဝန်အလုပ်ဖြင့် အသက်မွေးမှုခဲ့လေသည်။ သို့သော် သူသည် စာရေးခြင်းကို အထူး ဝါသနာထုံသည့် အလျောက်၊ ၁၈၈၈ ခုနှစ်တွင်၊ နောင်အခါ၌ နာမည်ကျော်ကြားလာသော စုံထောက် ရှားလော့ဟုမ်းနှင့် အဖော် ဒေါက်တာ ဝပ်ဆင်တို့ကို ဇာတ်ကောင်များအဖြစ်ဖြင့် ထား၍၊ စုံထောက်ဝတ္ထုကို စတင် ရေးသားခဲ့လေသည်။ ထိုနောက် ဒွိုင်းသည် ဝတ္ထုများကို ဆက်လက် ရေးသားထုတ်ဝေခဲ့ရာ၊ နာမည်ကျော် စာရေးဆရာတယောက် ဖြစ်လာသည်။ ထိုအခါ ဒွိုင်းသည် ဆရာဝန်အလုပ်ကို စွန့်၍၊ စာရေးဆရာဘဝသို့ ကူးပြောင်းခဲ့လေသည်။

၁၈၉၉ ခုနှစ်မှ ၁၉၀၂ ခုနှစ်အထိ ဖြစ်ပွားသော တောင်အာဖရိကဗိုးဝါးစစ်ပွဲအတွင်းက ဒွိုင်းသည် စစ်မြေပြင် ဆရာဝန်အဖြစ် အမှုထမ်းခဲ့လေသည်။ ထိုသို့အမှုထမ်းရာ၌ ရခဲ့သော အတွေ့အကြုံကို မှီး၍၊ ဗိုးဝါးစစ်ပွဲအကြောင်း စစ်သမိုင်း စာအုပ်ကို ရေးသားပြုစုခဲ့သည်။ ထို့ပြင်လည်း နာမည်ကျော်ကြားလာပြီဖြစ်သော စုံထောက်ကြီး ရှားလော့ဟုမ်း၏ စုံထောက်ဝတ္ထုတို့ကို ဆက်လက် ရေးသားလေသည်။ အထူးသဖြင့် ၁၈၉၁ ခုနှစ်တွင် ‘စထရင်း မဂ္ဂဇင်း’ ၌ ‘ရှားလော့ ဟုမ်း၏ စွန့်စားခန်း’ ဝတ္ထုများ ထွက်ပေါ်လာသောအခါ၊ ဒွိုင်း၏အမည်သည် အင်္ဂလိပ်စာပေလောကတွင် ထင်ရှားလာလေသည်။

ဒွိုင်းရေးသားသော စုံထောက်ဝတ္ထုများတွင်၊ အလွန်ရှုပ်ထွေးသည့် အမှုအခင်းများကို စုံထောက် ရှားလော့ ဟုမ်း

က ယုတ္တိရှိစွာဖြင့် ဖြေရှင်းပုံအခန်းများ ပါဝင်လေသည်။ ယုတ္တိရှိအောင် တွေးတောကြံဆပုံသည် အလွန် သဘာဝ ကျလှသောကြောင့်၊ စာဖတ်သူများက စုံထောက်ကြီး ရှားလော့ ဟုမ်းဆိုသူသည် အကယ်ပင် အသက်ရှင်လျက်ရှိနေသည်ဟု ထင်ယောင်ထင်မှား ဖြစ်လာကြလေသည်။

၁၈၉၆ ခုနှစ်တွင် ထုတ်ဝေခဲ့သည့် 'ဗရိဂေဒီယာ ဂျရတ်၏ စွန့်စားခန်းများ' ဝတ္ထုမှာ နပိုလီယန်၏ စစ်ပွဲများမှ ကောက်နုတ်၍၊ စစ်နှင့်ဆိုင်သည့် စွန့်စားခန်း ဝတ္ထုတိုများကို ရေးသား ဆက်စပ်ထားသော ဝတ္ထုဖြစ်လေသည်။ စွန့်စားခန်းဝတ္ထုတို့ကို ရေးရာ၌လည်း ဒွိုင်းသည် လူတို့၌ရှိသော ကျိုးကြောင်းဆင်ခြင်ခြင်းသဘောကို လက်ကိုင်ပြုကာ၊ ယုတ္တိတန်အောင် ရေးတတ်၍၊ သူ၏ဝတ္ထုကို လူကြီးလူငယ်မဟူ အလွန်နှစ်သက်ကြသည်။ ဥဒါဟရုဏ်အားဖြင့်၊ သိပ္ပံပညာနှင့်ယှဉ်၍ ကျိုးကြောင်း ဆင်ခြင်သုံးသပ်သော သဘောဖြင့် ကျောက်ခေတ်လောက်က ပေါ်ပေါက်ခဲ့သော သတ္တဝါကြီးများ၏ အလေ့အထကို သရုပ်ဖေါ်သော 'ပျောက်ဆုံးနေသော ကမ္ဘာကြီး' ဝတ္ထုကိုကြည့်လျှင်၊ ဒွိုင်း၏ ယုတ္တိတန်အောင် ရေးတတ်ပုံကို အကဲခတ်နိုင်ကြပေလိမ့်မည်။ သာမန်အားဖြင့် ဒွိုင်းကို စုံထောက်ဝတ္ထုရေးသူဟု သိကြသည်မှာ များသည်။ စင်စစ် ဒွိုင်းသည် ပြဇာတ်တို့ကိုလည်း ရေးသား စင်တင်ခဲ့ဘူးသည်။ ထိုပြင် အထက်က ဖေါ်ပြခဲ့သော ဗိုးဝါးစစ်ပွဲကြီးအကြောင်း အပြင်၊ တောင်အာဖရိကတွင် ဖြစ်ပွားသော စစ်ပွဲများအကြောင်းကိုလည်း ရေးသားခဲ့သေး၏။ အထူးသဖြင့် တောင်အာဖရိကနှင့်စပ်လျဉ်း၍ 'စစ်ဖြစ်ရခြင်း အကြောင်းရင်း' ခေါ် စာအုပ်တွင် ဗြိတိသျှတို့၏ ပေါ်လစီဝါဒကို ထောက်ခံရေးသားခဲ့သည်။ ၁၉၀၂ ခုနှစ်တွင် ဒွိုင်းသည် ဆာ ဘွဲ့ဖြင့် သူကောင်းပြုခြင်းကို ခံရလေသည်။

အသက်အရွယ် ကြီးရင့်လာသောအခါ၊ ဒွိုင်းသည် မှော်အတတ်ပညာရပ်တို့ကို လေ့လာလိုက်စား၍၊ လိပ်ပြာခေါ် အတတ်တွင် သုတေသနပြုလုပ်ခဲ့သည်။ ထိုအတတ်နှင့်ဆိုင်သော စာအုပ်များကိုလည်း ရေးသားပြုစုခဲ့သည်။ ဒွိုင်းသည် ၁၉၃၀ ပြည့်နှစ် ဇူလိုင်လ ၇ ရက်နေ့တွင် အသက် ၇၁ နှစ် အရွယ်၌ ကွယ်လွန်လေသည်။

ကိုနင် ဒွိုင်း ရေးသားသော ရှားလော့ ဟုမ်း စုံထောက် ဝတ္ထုကိုမှီး၍၊ စာရေးဆရာ ရွှေဥဒေါင်းသည် 'စုံထောက် မောင်စံရှား' ဝတ္ထုကို အင်္ဂလိပ်မှမြန်မာဘာသာသို့ ပြန်ဆိုခဲ့ရာ ရှားလော့ ဟုမ်း၏နာမည်သည် အင်္ဂလိပ်ဝတ္ထု လောကတွင် ထင်ရှားသကဲ့သို့၊ ဦးစံရှား၏နာမည်လည်း မြန်မာဝတ္ထုလောကတွင် ထင်ရှားလာလေသည်။ 'ဗရိဂေဒီယာ ဂျရတ်' ဝတ္ထုနှင့် အခြား ဝတ္ထုတို့ကိုလည်း မြန်မာဘာသာ ပြန်ဆိုချက်များ ရှိလေသည်။

**ဒွမ်းစဒေး စစ်တမ်း။** ။ခရစ် ၁၀၆၆ ခုနှစ်တွင် အင်္ဂလန်ပြည်ကို တိုက်ခိုက်သိမ်းပိုက်ခဲ့သော ဝီလျံ–သ–ကွန်ကာရား ခေါ် နော်မန်လူမျိုး အင်္ဂလန်ဘုရင်သည် သူ၏နိုင်ငံတော်ပိုင် မြေယာအားလုံးကို တိုင်းထွာစစ်ဆေး၍၊ လက်တင်ဘာသာဖြင့်မှတ်တမ်း တင်စေခဲ့ရာ၊ ၁၀၈၆ ခုနှစ်တွင် ပြီးမြောက်ခဲ့သည်။ ယင်းသို့ မှတ်တမ်းတင်ထားသောစာအုပ်မှာ နှစ်တွဲရှိသည်။ ပဌမတွဲမှာ စာအုပ်အရှည် ဖိုလီယိုအရွယ်ကြီးဖြစ်၍၊ စာမျက်နှာ ၃၈၂ မျက်နှာပါရှိသည်။ ယင်းစာအုပ်သည် နော်သမ်းဗာလန်၊ ဒါရမ်၊ ကမ်ဗာလန်နှင့် ဝက်စမိုလန် မြောက်ပိုင်းတို့ကို ချန်လှပ်၍၊ ကျန် အင်္ဂလန်ပြည်ဒေသများဆိုင်ရာ စစ်တမ်းဖြစ်သည်။ ဒုတိယတွဲမှာ စာအုပ်လေးထောင့် အရွယ်ဖြစ်၍၊ စာမျက်နှာ ၄၅၀ ပါရှိသည်။ ယင်းတွင် အက်ဆက်၊ ဆပ်ဖတ်နှင့်နော့ဖို ခရိုင်နယ်များဆိုင်ရာ စစ်တမ်းများ ပါရှိသည်။ ထိုနှစ်အုပ်တွဲ စစ်တမ်းသည် ဒွမ်းစဒေး စစ်တမ်းဟု အမည်တွင်ခဲ့သည်။ ဒွမ်းစဒေးမှာ ထာဝရဘုရားသခင် နောက်ဆုံး တရားစီရင်ရာ နေ့ဖြစ်သည်။ ဝီလျံဘုရင်၏ စစ်တမ်းများမှာ အယူခံ ဝင်ခွင့်မရှိဘဲ၊ နောက်ဆုံးအတည်ဖြစ်သော စစ်တမ်းများဖြစ်ရကား၊ ယင်းတို့ကို ဒွမ်းစဒေး စစ်တမ်းဟု ခေါ်စမှတ်ပြုကြသည်။

ဒွမ်းစဒေး စစ်တမ်း၏ ရည်ရွယ်ချက်မှာ ဘုရင်ပိုင် မြေယာမည်မျှရှိ၍၊ ထိုမြေယာတို့မှ အကျိုးခံစားခွင့် မည်မျှရှိသည်ကို သိရှိနိုင်ရန်ဖြစ်သည်။ စစ်တမ်း၌ ဘုရင်၏ အရာတော်မြေများ၊ သာသနာမြေ၊ ခရစ်ယန် ရဟန်းမြေ၊ အခြား ပုဂ္ဂလိကပိုင်မြေ စသည့် အစီအစဉ်ဖြင့်၊ ၁၀၆၆ ခုနှစ်မတိုင်မီ အက်ဒွပ်ဘုရင်လက်ထက်က တန်ဖိုးမည်မျှ၊ စာရင်းကောက်ချိန် ကာလ တန်ဖိုးမည်မျှ၊ ရှင်ဘုရင်ထံမှ မူလ ပေးသနားခံရစဉ်က တန်ဖိုးမည်မျှ ဟူသည်တို့ကို စာရင်းသွင်းရသည်။ ထိုနောက် လယ်လုပ်သား၊ ထွန်၊ နွား စသည့် စာရင်းကိုငှင်း၊ ဘုရားရှိခိုးကျောင်း၊ ဂျုံကြိတ်စက်၊ အင်းအိုင် စသည်တို့ကိုငှင်း၊ ဒေသအလိုက် ဓလေ့ထုံးစံတို့ကိုငှင်း ရေးမှတ်ရသည်။ ထို့ကြောင့် ဒွမ်းစဒေး စစ်တမ်းမှာ ဝီလျံဘုရင်၏ စီရင်အုပ်ချုပ်မှု၌ အခွန်တော် ခန့်ခွဲရာတွင်သာ အသုံးကျသည်မက ထိုခေတ်က အင်္ဂလန်ပြည်၏ လူမှုနှင့် စီးပွားရေးရာ သမိုင်း အထောက်အထားအလို့ငှာလည်း တန်ဖိုးမဖြတ်လောက်အောင် အသုံးဝင်သည်။

ထိုဒွမ်းစဒေး စစ်တမ်းကို ဗြိတိသျှအစိုးရက ၁၇၈၃ ခုနှစ်တွင် ပုံနှိပ်ခဲ့သည်။ ဝိတိုရိယ ဘုရင်မလက်ထက်တွင် ထိုစစ်တမ်းကို လန်ဒန်မြို့ ပြည်သူ့မော်ကွန်းထိန်းရုံး၌ မှန်သေတ္တာနှင့် ခင်းကျင်း ပြသထားသည်။ ဤဒွမ်းစဒေး စစ်တမ်းကြီးမှအပ၊ ဒေသအလိုက်၊ ဌာနအလိုက်၊ စစ်တမ်းထုတ်ထားသော ဒွမ်းစဒေး စစ်တမ်းကလေးများလည်း ရှိခဲ့သေးသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ဓ သည် ၁၉ ခုမြောက် အက္ခရာဖြစ်သည်။ တ၊ ထ၊ ဒ၊ ဓ၊ န ဟူသော တ ဝဂ်တွင်ပါဝင်၍ ဓ အသံ၏ ဖြစ်ရာဌာနမှာ ဒန္တဌာန် သွားအရပ် ဖြစ်သည်။ အက္ခရာပုံသဏ္ဍာန်ကိုလိုက်၍၊ 'ဓ အောက်ချိုင့်' ဟု အမည်တွင်သည်။ ဓ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ လခြမ်း ပုံသဏ္ဍာန်ရှိသော ဗြာဟ္မီအရေးအသား ကို လက်ဝဲလက်ျာ လှည့်ရေးရာ တဖြည်းဖြည်း အောက်ခြေတွင် အတွင်းသို့ ချိုင့်ဝင်လာသည်။ ထိုမှတဖန် အက္ခရာ၏ အထက်ပိုင်းသည် ဝိုင်း၍လာရာမှ မြန်မာအက္ခရာ ဓ ဖြစ်ပေါ်လာသည်။ ဓ အက္ခရာ၏ အဆင့်ဆင့်ပြောင်းလဲပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



**ဓညဝတီမြို့**။ ။မြို့ဟောင်းမြို့ — ရှု။

**ဓညဝတီအရေးတော်ပုံ**။ ။ဓညဝတီ၊ ဟံသာဝတီ၊ ရတနာပူရ၊ ရတနာသိခ၊ နရသေင်္ဃနှင်း၊ မင်းဆက်မင်းတို့၊ နှိမ်နင်းတိုက်ဖျက်၊ လက်နက်နိုင်ငံ စီမံချဲ့ထွင်ကြပုံများကို မှတ်တမ်းသဖွယ် တင်ထားအပ်သော အရေးတော်ပုံကျမ်း ငါးစောင်အနက်၊ ဓညဝတီအရေးတော်ပုံကျမ်းသည်လည်း တစောင် အပါအဝင်ဖြစ်သည်။ ထိုကျမ်းကို သက္ကရာဇ် ၁၁၄၉ ခုနှစ်တွင် ဒွါရဝတီမြို့သာသနာပြု ဆရာတော် ကဝိသာရာဘိသိရိပဝရ အဂ္ဂ မဟာဓမ္မရာဇာဓိရာဇဂုရုစီရင်ပြုစုခဲ့လေသည်၊

ထိုကျမ်းတွင် ဓညဝတီဒုတိယမြို့တည် ကံရာဇာကြီးမင်းမှ ၂၈ ဆက်မြောက် မင်းသိရိရာဇာ လက်ထက်မှစ၍၊ မဟာသမ္မတမင်းလက်ထက် (၁၁၄၆ ခုနှစ်) အထိ၊ ရခိုင်မင်းများ လက်ထက်တွင် ဖြစ်ပျက်ပုံများကို မှတ်တမ်း တင်ထားလေသည်။

ရခိုင်ပြည်သည် မြန်မာနိုင်ငံနှင့် တစပ်တည်း တည်နေသော်လည်း၊ ပထဝီဝင် အနေအထားအရ၊ ခရီး အထောက်အလှမ်း မသင့်ခြင်းကြောင့်၊ မြန်မာတို့က ရခိုင်ကို အတိုက်အခိုက် နည်းပါးခဲ့သည်။ တိုက်ခိုက်ပြန်လျှင်လည်း၊ အရှည်အကြာ သိမ်းပိုက် မထားနိုင်ချေ။ ပုံစံအားဖြင့်ဆိုရလျှင်၊ အင်းဝဘုရင်မင်းခေါင်၏ သားတော် မင်းရဲကျော်စွာသည် ရခိုင်ကိုတိုက်၍၊ ဘုရင်မင်းခေါင်၏ သားမက်တော် နော်ရထာကို လောင်းကြက်မြို့တွင် နန်းတင်သည်။ သို့သော် သံတွဲစားသည် ပဲခူးမင်း ရာဇာဓိရာဇ်၏အကူအညီဖြင့် ဘင်္ဂါကုလားတဆယ့်နှစ်မြို့ (ဗင်္ဂလား) သို့ ပြေးလေသူ နောင်တော် နရမိတ်လှမင်းအား ပြန်၍နန်းတင်လေသည်။ (ရာဇာဓိရာဇ် အရေးတော်ပုံ — ရှု။)

မြန်မာနိုင်ငံနှင့် ခရီးအထောက်အလှမ်း မသင့်သော်လည်း ဗင်္ဂလားပြည်နယ် မင်းများ နှင့် အဆက်အဆံ ရှိကြောင်း၊ ရခိုင်တို့က သွား၍တိုက်သည့်အခါလည်း ရှိ၍၊ ကုလားတို့က ထိပါးလာသည့်အခါလည်း ရှိကြောင်းများ မှတ်တမ်းတင်ထားသည်။ သက်လူမျိုးတို့ ဝင်ရောက် တိုက်ခိုက်လာခြင်း၊ ယင်းတို့အား တိုက်ထုတ်ခြင်း အကြောင်းများလည်း ယင်း အရေးတော်ပုံကျမ်း၌ တွေ့ရသည်။

ထိုကျမ်းကြီးတွင် ရခိုင်မင်းတို့၏ စစ်မက်ရေးများ၊ တပ်ဆင် တပ်ခွဲပုံများ၊ စစ်ဆင် စစ်တက်ပုံများ ပါဝင်သော်လည်း၊ ပညာရှိအမတ်ကြီး ဝိမလ၊ အမတ်ကြီး မဟာပညာကျော်တို့၏ လျှောက်ထားချက်များက ပိုမိုများပြားစွာ ပါဝင်သည်။ ယင်းသည့်လျှောက်ထားချက်များသည် ပြည်ရေး ပြည်ရာ မင်းရေး မင်းရာ နန်းတွင်းရေး နန်းတွင်းရာများအတွက် အရေးသင့်ရာကို အမတ်ကြီးများက မင်းတို့ ချင့်ချိန် ဝေဖန်ရန် လျှောက်တင်ချက်များဖြစ်သည်။

လျှောက်ထားချက်များတွင် ဗဟုသုတဖြစ်ဖွယ်ရာ မြန်မာ့ထုံးတမ်းဓလေ့များ၊ အတိတ် နိမိတ်ဖတ်ပုံများ၊ မြန်မာ့ထုံးဟောင်း ပုံပြင်များ၊ စကားပုံများလည်း အများအပြား ပါဝင်သည်။ ပုံစံဆိုရလျှင် ဒသရာဇာမင်း၏ ဘိသိက်ခံ အခန်းတွင် ဘိသိက်ပွဲကျင်းပပုံကို အဆောင်အယောင် အခမ်းအနားများနှင့်တကွ အသေးစိတ် ဖော်ပြထားလေသည်။

ရခိုင်ဘုရင် မဟာသမ္မတမင်း လက်ထက်တွင် ရခိုင်တို့သည် အစည်းအလုံး မရှိ။ မင်းငယ်များကလည်း ထောင်ထား ခြားနားကြသဖြင့်၊ ပြည်သူတို့ ဆင်းရဲဒုက္ခရောက်ကြသည်။ ထိုကြောင့် ၁၁၄၆ ခုနှစ်တွင် အမရပူရပြည့်ရှင် ဘိုးတော်ဘုရားမင်းသည် သားတော်ကြီး အိမ်ရှေ့ဥပရာဇာအား ရခိုင်သို့ ချီတက် သိမ်းပိုက်စေသည်တွင်၊ ဓညဝတီ၌ ရခိုင်မင်းဆက် ပြတ်၍၊ ဓညဝတီအရေးတော်ပုံကျမ်းသည် ထိုအကြောင်းဖြင့် အပြီးသတ်လေသည်။

ယင်းသည့်အရေးတော်ပုံကျမ်းသည် ပျို့လင်္ကာသမိုင်းတို့နှင့် အထွက်ညီသော ရာဇဝင်ကြီးက ကောက်နုတ်၍၊ စကားပြေ အရေးအသားဖြင့်၊ ခန့်ညားခမ်းနားစွာ ဖွဲ့နွဲ့ရေးသားထားသော ကျမ်းဖြစ်သည်။

**ဓနသိဋ္ဌိနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ဓနိပင်။** ။ဓနိပင်သည် ‘ပါမီ’ မျိုးစဉ်၊ ‘နီပါ’ မျိုးစုတွင် ပါဝင်သည်။ ဤမျိုးစုတွင် ဓနိပင်တမျိုးတည်းသာ ရှိသည်။ ဓနိပင်ကို သိပ္ပံအမည်အားဖြင့် ‘နီပါ ဖရုတီကန်’ ဟု ခေါ်သည်။ ဓနိပင်သည် ထန်းမျိုးကဲ့သို့ အစုလိုက်ပေါက်သော အပင်ဖြစ်သည်။ အပင်ပုမျိုးလည်း ဖြစ်သည်။ အပင်တွင် အရွက်များစွာ ပါရှိသည်။ အရွက်မှာ ကြီး၍ ကြက်တောင်ကဲ့သို့ ရှိသည်။ အလျား ၁၅ ပေမှ ပေ ၃၀ ထိ ရှိသည်။ တုတ်ခိုင်သော ရိုင်းဇုမ် အတက်များမှ အရွက်များသည် ပန်းဖွားကဲ့သို့ စုရုံး၍ ထွက်ပေါ်ကြသည်။ ပွင့်ကာဖက်အုပ်သည် အလျား ၄ ပေမှ ၇ ပေအထိ ရှည်တတ်သည်။ ယင်းမှ ပန်းခိုင်ဖုံး ခံထားသော ပွင့်ခိုင် ပွင့်သည်။ တပင်တည်းတွင် ပွင့်ဖိုနှင့် ပွင့်မ နှစ်မျိုးစလုံး ပွင့်တတ်သည်။ ဓနိသီးမှာ



ဓနိလုပ်ငန်းသည် မြန်မာနိုင်ငံတွင် ဝင်ငွေကောင်းသောလုပ်ငန်းတခု ဖြစ်ပေသည်။



ဒီရေအတက်အကျရှိသော ကမ်းခြေဒေသတွင်ပေါက်ရောက်သည့် ဓနိတော

အတွင်းခွံမှာ သီးမျိုးဖြစ်၍၊ အရွယ် ကြီးသည်။ အပြွတ်လိုက် သီး၏။ ခနိသီးတွင် ကြက်ဥခန့် အစေ့တစေ့ ပါရှိသည်။

မြန်မာနိုင်ငံ၊ ဖိလစ်ပိုင်နှင့် အရှေ့အိန္ဒိယကျွန်းစုတွင် ခနိရွက်များကို အိမ်ခေါင်မိုး မိုးရန်အတွက် အသုံးပြုကြသည်။ ခနိသီးကို စားရသည်။ ပန်းခိုင်ဖုံးများမှ ခနိရည် ခံယူနိုင်သည်။ ခနိရည်ကို သကြားချက်ရာ၌၎င်း၊ ခနိရည် အရက်ချက်ရာ၌၎င်း အသုံးပြုသည်။

ခနိပင်ကို ဒီရေ အတက်အကျရှိသော မြစ်ဝကျယ်နှင့် ချောင်းကမ်းပါးများတွင် အနှံ့အပြား တွေ့ရသည်။ စစ်တကောင်းနယ်၊ မြန်မာနိုင်ငံနှင့် ကပ္ပလီကျွန်း၊ ပသျှူးကျွန်းစု၊ ကွင်းစလန်နှင့် ဖိလစ်ပိုင် ကမ်းခြေများတွင် တွေ့ရသည်။ သီဟိုဠ်ကျွန်းတွင် အနည်းငယ်မျှသာ ပေါက်သည်။ လမုတောများနှင့် ခြောက်သွေ့သော ဒီရေတောများတွင် ချောင်းကမ်းပါးများ၌ ခနိပင် အမြောက်အမြား ပေါက်ရောက်နေသည်ကို တွေ့ရတတ်သည်။

**ခနော်ဖြူမြို့**။ ။မအူပင်ခရိုင် ခနော်ဖြူမြို့နယ်၏ ရုံးစိုက်ရာ ခနော်ဖြူမြို့သည် မြစ်ဝကျွန်းပေါ် အရပ်ရှိ ရေဝတီမြစ် အနောက်ဖက်ကမ်းပေါ် တွင် တည်ရှိသည်။ ခနော်ဖြူမြို့ အနီးပတ်ဝန်းကျင်တွင် မြေသြဇာကောင်းသော လယ်မြေများရှိခြင်းကြောင့်၊ ဆန်စပါးကို အမြောက်အမြား စိုက်ပျိုးကြ၏။ ထို့အပြင် ဆေးလည်းထွက်သဖြင့် ဆေးလိပ်လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ လှည်းလုပ်ငန်း၊ သင်ဖြူးလုပ်ငန်းများသည်လည်း ခနော်ဖြူမြို့နယ်တွင် အရေးပါသောလုပ်ငန်းများ ဖြစ်လေသည်။ ခနော်ဖြူမြို့သည် ပဌမ အင်္ဂလိပ် မြန်မာ စစ်ပွဲတွင် ရေဝတီမြစ်ကြောင်းအိ စစ်ပွဲ၌ အထူး အရေးပါ အရာရောက်ခဲ့၏။ ၁၈၂၅ ခုနှစ်စစ်ပွဲတွင် မြန်မာစစ်သူကြီး မဟာဗန္ဓုလသည် ဗုံးဆန် ထိမှန်သဖြင့် ခနော်ဖြူမြို့တွင် ကျဆုံးသွားလေသည်။ ယခုထက်တိုင် မဟာဗန္ဓုလ၏သင်းချိုင်းကို ခနော်ဖြူမြို့၌ တွေ့ရှိနိုင်သည်။ (အင်္ဂလိပ် မြန်မာ စစ်ပွဲများ။ ဗန္ဓုလ — ရှု။)

ခနော်ဖြူမြို့နယ်မှာ မအူပင်ခရိုင် အနောက်မြောက်ဖက်တွင် ရှိသည်။ မြို့နယ်တလျှောက်ကို ရေဝတီမြစ်က စီးဆင်းဖြတ်သန်းသည်။ မြေနိမ့်ပိုင်းဖြစ်၍၊ ရေလွှမ်းမိုးခြင်းကို ကာကွယ်ရန် ရေကာတာများ ပြုလုပ် ထားပေးရသည်။ မိုင် ၃၀ ခန့်ရှည်သော မော်တော်ကားလမ်းသည် ခနော်ဖြူမြို့နှင့် ကျုံပျော်မြို့တို့ကို ဆက်သွယ်ပေးသည်။

မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၉၇၃၃ ယောက် ဖြစ်လေသည်။



ခနော်ဖြူမြို့ရှိ စစ်သူကြီး မဟာဗန္ဓုလ၏ သင်္ချိုင်းဂူ

**ဓနုလူမျိုး**။ ။ဓနုလူမျိုးတို့သည် တိဗက်-မြန်မာအစုဝင်၊ မြန်မာအုပ်စုတွင်ပါဝင်သော လူမျိုးတမျိုးဖြစ်သည်။ ရှမ်းပြည်နယ်နှင့် မြန်မာပြည်မကြီးအကြား၌ နေထိုင်ကြ၏။ မန္တလေးခရိုင်၊ မေမြို့ခရိုင်ခွဲတွင်၎င်း၊ ကျောက်ဆည်နယ်တွင်၎င်း၊ ရှမ်းပြည်နယ်ရှိမိုင်းလုံ၊ လောက်ဆောက်အနောက်ပိုင်းတို့၌၎င်း အများဆုံးတွေ့ရသည်။ မြေလတ်ဒေသ၌လည်း ဓနုလူမျိုးများ အနှံ့အပြား နေထိုင်ကြသည်။ အထူးသဖြင့် ပင်းဒယ၊ ပွေးလှ၊ ရင်(ရွာင်)၊ မောတို့တွင် အများဆုံးဖြစ်သည်။ လူဦးရေမှာ ၆၀၀၀ ကျော်ဖြစ်၏။ ဓနုလူမျိုးများကို ယင်းတို့ ပြောဆိုသော စကားအလိုက်၊ ရှမ်းစကားကို ပြောသူများအား ရှမ်းဓနုဟူ၍၎င်း၊ မြန်မာစကားကို ပြောသူများအား မြန်မာဓနုဟူ၍၎င်း ခွဲခြားခေါ်ဝေါ်၏။ ယင်းတို့ပြောသော မြန်မာစကားမှာမူ အသံဝဲ၏။ အဝတ်အစားဝတ်ရာတွင်လည်း ရှမ်းတို့နှင့်နီးစပ်သူများက ရှမ်း အဝတ်အစားကို ဝတ်ဆင်၍၊ မြန်မာတို့နှင့်နီးစပ်သူများမှာ မြန်မာကဲ့သို့ပင် ဝတ်ဆင်သည်။ များသောအားဖြင့် ရှမ်းတို့ကဲ့သို့ ခေါင်းတွင် အဝတ်ပတ်လေ့ရှိ၏။ ဗုဒ္ဓအယူဝါဒကို ကိုးကွယ်ကြသည်။

ဓနုလူမျိုးတို့၏ ဇာစ်မြစ်မှာ ဝိဝါဒ ကွဲပြားလျက်ရှိ၏။ မစ္စတာ အက် (ဖ)၊ အိပ်ချ၊ ဂျိုင်း ဆိုသူက ဓနုတို့သည် ဟံသာဝတီတောင်ဖက်မှ လာရောက်နေထိုင်ကြသော မြန်မာအုပ်စု တစုမှ ပေါက်ဖွားလာကြသူများဟု ယူဆ၏။ မစ္စတာ စီ၊ အီး၊ ဗရောင်း ကမူ ဓနုတို့သည် ကရင် တောင်သူလူမျိုးများမှ ဆင်းသက်လာသည်ဟု ယူဆလေသည်။ အချို့နေရာများ၌ ရှမ်းမျိုး ၃၀ တွင် ဓနုလူမျိုးသည်လည်း အပါအဝင်ဖြစ်၏ဟု ဆိုကြ၏။ သို့သော် ဓနုလူများစုသည် ရှမ်းစကားကို မပြောကြသဖြင့် ယင်းယူဆချက်မှာ မမှန်နိုင်ဟု မစ္စတာ ဂျေ၊ ဂျီ၊စကော့က ဆို၏။ ဓနုလူမျိုး အများဆုံးနေထိုင်ရာ ဒေသများသည် ရှေးအခါက ရှမ်းနှင့် မြန်မာတို့တွေ့ဆုံ၍ ကုန်ရောင်းကုန်ဝယ် ပြုကြရာ နေရာများဖြစ်၏။ ထို့ကြောင့် ဓနုတို့သည် ရှမ်းနှင့်မြန်မာ နှစ်ဦးတို့မှ နွယ်၍ ဆင်းသက်လာသောသူများ ဖြစ်သည်ဟု ယူဆရ၏။



ဓနုအမျိုးသားတဦး

# အဂ္ဂိရတ်မှ ဓာတုဗေဒသို့

**ခေတ်မှီ အံ့ဖွယ်သိပ္ပံပညာရပ်၊ ဓာတုဗေဒအစ အဂ္ဂိရတ်က။ ဒြပ်စင်များ၊ ဒြပ်ရောများ၊ ဒြပ်ပေါင်းများမှအစပြု၍၊ ဓာတုဗေဒ ပညာရပ်အမျိုးမျိုးတို့အကြောင်းကို ဖေါ်ပြပြီးလျှင် ဓာတုဗေဒပညာရပ်များ မည်သို့ တိုးတက်လာသည်ကို၎င်း၊ ကမ္ဘာကြီးအား မည်သို့မည်ပုံ အကျိုးပြုနေသည်ကို၎င်း ရှင်းလင်းဖေါ်ပြထားသည်။**

**ဓာတုဗေဒ**။ ။ကျွန်ုပ်တို့ နေ့စဉ်နေ့တိုင်းတွေ့နေကျဖြစ်သော အရာဝတ္ထု (ဝါ) ဒြပ်အမျိုးမျိုးတို့သည် မည်သည့်ဒြပ်စင်တို့ဖြင့် ပေါင်းစပ် ဖွဲ့စည်းထား၍၊ မည်သို့ ပြောင်းလဲဖြစ်ပေါ်တတ်သည်ကို နည်းစနစ်ကျကျ လေ့လာခြင်းသည် ဓာတုဗေဒပင်ဖြစ်၏။ ပုံပမာ အရာဝတ္ထုတခုသည် မည်သို့ပေါ်လာသည်၊ မည်သည့်အကြောင်းကြောင့် ဖြစ်ပေါ်လာသည်၊ မည်သည့်ဓာတ်များ ပါဝင်သည်၊ မည်သို့ ပြောင်းလဲသွားသည် စသည်တို့ကို စမ်းသပ်ကာ၊ ပြဿနာအရပ်ရပ်တို့ကို ဖြေရှင်းသွားခြင်းကို ဓာတုဗေဒဟု ခေါ်ရသည်။ ဓာတုဗေဒသည် လက်တွေ့စမ်းသပ်ကြည့်ရှုသော သိပ္ပံပညာရပ်များတွင် အထူး အရေးပါသော ပညာတရပ်ဖြစ်၏။ ကမ္ဘာပေါ်တွင် နေ့စဉ်နေ့တိုင်း နေထိုင်စားသောက်ရေးနှင့်ပတ်သက်သော လုပ်ငန်းအရပ်ရပ်တို့သည် ဓာတုဗေဒနှင့်ကင်း၍ မဖြစ်နိုင်ချေ။

ကမ္ဘာနှင့်တကွ စကြဝဠာအတွင်း ရှိရှိသမျှသောအရာဝတ္ထု (ဝါ) ဒြပ်တို့သည် ဒြပ်စင်တို့ဖြင့် ပေါင်းစပ်ဖွဲ့စည်း၍ ဖြစ်ပေါ်လာသည်ဟု ယူဆလာကြသည့်အတိုင်း၊ ဒြပ်စင်ဆိုသောစကား၏ အဓိပ္ပါယ်ကို ရှင်းလင်းရန် လိုအပ်ပေသည်။ ဒြပ်စင်ဆိုသည်မှာ ဒြပ်တမျိုးတည်းသာပါဝင်သည့် မူလဓာတ်ပစ္စည်း ဖြစ်ပြီးလျှင်၊ ထိုပစ္စည်းကို အခြားပစ္စည်းတခု

ဖြစ်သွားစေရန်၊ သာမန်ဓာတုဗေဒနည်းဖြင့် ထပ်မံ ခွဲစိတ်၍ မရနိုင်သော ဝတ္ထုဖြစ်သည်။ ပမာအားဖြင့် ရွှေ၊ သံ၊ ကန့်၊ အောက်ဆီဂျင်၊ ဟိုက်ဒရိုဂျင် အစရှိသောပစ္စည်းတို့မှာ ဒြပ်စင်များ ဖြစ်ကြသည်။ ထိုဒြပ်စင်များကို မူလဓာတ်ပစ္စည်း ပျက်မသွားစေဘဲ၊ ဓာတ်သဘောအရ အက်တမ်တိုင်အောင် ခွဲစိတ်နိုင်သော်လည်း၊ ထိုထက်လွန်၍ ခွဲစိတ်ခြင်းငှာ မဖြစ်နိုင်တော့ချေ။ (အက်တမ် — ရှု။) သံတွင် သံအက်တမ်များသာ ရှိကြ၍၊ အခြား မည်သည့် ဒြပ်စင်၏အက်တမ်မျှ ရောနှော ဖက်စက် ပါဝင်ခြင်း မရှိချေ။ ထိုနည်းတူ ရွှေ၌လည်း ရွှေအက်တမ်၊ ကန့်၌လည်း ကန့်အက်တမ်၊ အောက်ဆီဂျင်၌လည်း အောက်ဆီဂျင်အက်တမ်၊ ဟိုက်ဒရိုဂျင်၌လည်း ဟိုက်ဒရိုဂျင်အက်တမ်ဟူ၍၊ သက်ဆိုင်ရာ အက်တမ်များသာ သန့်သန့် ရှိကြသည်။ အခြား မည်သည့် ဒြပ်စင်၏အက်တမ်မျှ ရောနှော ဖက်စပ် ပါဝင်ခြင်းမရှိချေ။ ဤကမ္ဘာကြီးတွင် သဘာဝအလျောက် တည်ရှိသော ဒြပ်စင်များ၏ အရေအတွက်မှာ ၉၂ ခုဖြစ်၍၊ ဒုတိယကမ္ဘာစစ်ကြီး အတွင်းနှင့် စစ်ကြီးအပြီးတွင် နောက်ထပ် ဒြပ်စင်သစ်များကို အက်တမ်ဗုံးလုပ်နေစဉ် လက်တွေ့စမ်းခန်း၌ ထပ်မံ တွေ့ရှိကြသေးသည်။ (ဒြပ်စင်သစ်များ — ရှု။) ကမ္ဘာလောကကြီးကို တည်ဆောက်ပေးသည်ကား အဆိုပါ ဒြပ်စင်များပင် ဖြစ်သည်။

ရှေးဂရိလူမျိုးနှင့် ရောမလူမျိုးတို့က လောကတွင် ရေ၊ မြေ၊ လေ၊ မီးဟူ၍၊ ဓာတ်ကြီးလေးမျိုးသာ ရှိပြီးလျှင်၊ မြင်မြင်သမျှ အရာဝတ္ထုအားလုံးတို့ကို ဓာတ်ကြီးလေးမျိုးဖြင့်သာ ပေါင်းစပ် ဖွဲ့စည်းထားသည်ဟု ယူဆခဲ့ကြလေသည်။ ကျောက်ခဲနှစ်တုံးတွင် တခုနှင့်တခု မတူခြင်းအကြောင်းမှာ၊ တခုသောကျောက်ခဲ၌ မြေပို၍ ပါဝင်နေပြီးလျှင်၊ အခြားတခုမှာ ရေပို၍ ပါဝင်နေခြင်းကြောင့် ဖြစ်သည်ဟု ယူဆခဲ့ကြ၏။ ထိုအယူအဆသည် လွန်ခဲ့သော ရာစုနှစ်ပေါင်း အနည်းငယ်အတွင်းတွင်မှ ပပျောက်သွားလေသည်။

အရေးကြီး၍ အသုံးများသော ဒြပ်စင်များမှာ အလျူမီနီယမ်၊ အန်တီမိုနီ (ခနောက်စိမ်း)၊ အာစနစ် (စိန်သတ္တု)၊ ဗေရီယမ်၊ ဗစ်စမတ် (ကြွပ်)၊ ဗရိုမင်း၊ ကယ်လဆီယမ်၊ ကာဗွန်၊ ကလိုရင်း၊ ကရိုမီယမ်၊ ကြေးနီ၊ ဖလူအိုရင်း၊ ရွှေ၊ ဟိုက်ဒရိုဂျင်၊ အိုင်အိုဒင်း၊ သံ၊ ခဲ၊ လစ်သီယမ်၊ မန်ဂနိ၊ မက်ဂနီဇီယမ်၊ ပြဒါး၊ နစ်ကယ်၊ နိုက်ထရိုဂျင်၊ အောက်ဆီဂျင်၊ ဖော့စဖောရပ်၊ ပိုတက်ဆီယမ်၊ ဆစ်လီကွန်၊ ငွေ၊ ဆိုဒီယမ်၊ ကန့်၊ သံဖြူ၊ သွပ် အစရှိသည်တို့ ဖြစ်ကြသည်။

ဒြပ်စင်တမျိုးတည်း မဟုတ်မူ၍၊ နှစ်မျိုး သို့မဟုတ် အများ၊ သာမန်အားဖြင့် ရောနှောနေခဲ့သော်၊ ထိုဒြပ်စင် အရောကို ဒြပ်ရောဟု ခေါ်သည်။ ထိုဒြပ်ရောများတွင် ပါဝင်သော ဒြပ်စင်များ၌၊ ရှိရင်းစွဲဂုဏ်များ မပျောက် မပျက်ဘဲ၊ တည်မြဲလျက် ရှိကြ၏။ ပမာပြရသော်၊ ဒြပ်စင်များဖြစ်ကြသော သံမှုန့်နှင့်ကန့်မှုန့် နှစ်မျိုးကို ဆုံတွင်ထည့်ပြီးလျှင်၊ ရော ထောင်းလိုက်သောအခါ၊ ရရှိသောအမှုန့်သည် ဓာတ်ချင်းပေါင်း၍ ရရှိသောပစ္စည်း မဟုတ်သဖြင့်၊ ဒြပ်ပေါင်း မဟုတ်နိုင်ချေ။ သာမန် ရော ထောင်းထားသောကြောင့်၊ ဒြပ်ရောမျှသာ ဖြစ်လေသည်။ ဤဒြပ်ရောကို အနီးကြည့် မှန်ဘီလူးဖြင့်ကြည့်လျှင်၊ သံမှုန့် ကန့်မှုန့်တို့ကို ပြတ်ပြတ်သားသား ခွဲခြား၍ မြင်နိုင်လေသည်။ ထိုဒြပ်ရောထဲသို့ သံလိုက်တခုကို ထည့်လိုက်သောအခါတွင်လည်း၊ သံမှုန့်တို့သည် သံလိုက်သို့ တွယ်ကပ်ပါလာကြပြီးလျှင်၊ ကန့်မှုန့်သန့်သန့်သာ ကျန်ရစ်လေသည်။ သံမှုန့်နှင့်ကန့်မှုန့်တို့၏ သီးခြားဂုဏ်တို့သည် မပျောက်မပျက် မူလအတိုင်းပင် တည်မြဲလျက် ရှိနေကြပေသည်။ ထိုဒြပ်ရောကိုပင် ခွက်တွင်ထည့်၍ မီးတိုက်ပေးလိုက်သောအခါ၌ကား၊ သံမှုန့်နှင့်ကန့်မှုန့်တို့၏ ဂုဏ်များသည် မူလအတိုင်း တည်၍မနေတော့ဘဲ ဓာတ်ချင်းပေါင်းသွားပြီးလျှင်၊ အိုင်းယန်း ဆာလဖိုက် (ဒ) ခေါ် ဒြပ်ပေါင်းသစ်တခု ဖြစ်ပေါ်လာလေသည်။ ဤဒြပ်ပေါင်းသစ်တွင်ရှိသော ဂုဏ်များသည် သံမှုန့်နှင့် ကန့်မှုန့်တို့တွင်ရှိသော မူလဂုဏ်များနှင့် မတူပေ။ ဓာတ်ပြောင်းသွားသောကြောင့်၊ အနီးကြည့် မှန်ဘီလူးနှင့် ကြည့်သော်လည်း၊ သံမှုန့်နှင့်ကန့်မှုန့်တို့ကို သီးခြား မတွေ့ရတော့ချေ။ သံလိုက်နှင့် ဆွဲကြည့်ပါသော်လည်း၊ သံမှုန့်သည် ကွဲ၍ ထွက်မလာတော့ချေ။ ယင်းကဲ့သို့ ဓာတ်ပြောင်းသွား၍ မူလရှိရင်းဂုဏ်များ ကွယ်ပျောက်သွားသောပစ္စည်းကို ဒြပ်ပေါင်းဟု ခေါ်လေသည်။

တဖန် အောက်ဆီဂျင်နှင့် ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ နှစ်မျိုးကို ဖန်ဗူးတွင်ထည့်၍ ရောစပ်လိုက်သောအခါ၊ ယင်းသို့ရောစပ်ထားသော ဓာတ်ငွေ့တို့၌ ဂုဏ်သတ္တိ ပြောင်းလဲသွားခြင်း မရှိ။ မူလဂုဏ်များ ရှိမြဲအတိုင်း ရှိနေကြပေသည်။ သို့သော် ဒြပ်ရောပစ္စည်းကို မီးရှို့ပေးလိုက်ပါမူကား၊ ထိုပစ္စည်းသည် ပေါက်ကွဲသံဖြင့် ဓာတ်ပြောင်းသွားပြီးလျှင်၊ ရေ မော်လီကျူးများ ဖြစ်ပေါ်လာလေသည်။ ရေ မော်လီကျူးတို့၏ ဂုဏ်သတ္တိသည် မူလက ဖက်စပ်ပါဝင်သော အောက်ဆီဂျင်နှင့် ဟိုက်ဒရိုဂျင်ဓာတ်တို့၏ ဂုဏ်နှင့် မတူတော့ချေ။ ရေ မော်လီကျူးမှာ ဒြပ်ပေါင်းဖြစ်လေသည်။

ယခုအချိန်ထိ သဘာဝအလျောက် တွေ့ရှိရသော ဒြပ်စင်တို့၏ အရေအတွက်မှာ ၉၂ ခုဖြစ်ရာ၊ အက်တမ်အမျိုးပေါင်းမှာလည်း ၉၂ မျိုးရှိသည်ဟု ဆိုရပေလိမ့်မည်။ ထိုဒြပ်စင်များမှ၊ မရေမတွက်နိုင်သော ဒြပ်ပေါင်းတို့ကို ပြုလုပ်နိုင်သည်။ ဒြပ်ပေါင်းတခုဖြစ်သော အိမ်သုံး ဆားတပွင့်ကို သေးနိုင်သမျှ အသေးဆုံးဖြစ်အောင် အဖန်ဖန် ခွဲစိတ်လိုက်သည်ရှိသော်၊ နောက်ဆုံးတွင် ဆားအဖြစ်ဖြင့် တည်နေနိုင်

သော အသေးဆုံး ဆားမှုန့်ကို ရရှိလိမ့်မည်။ ထိုအသေးဆုံး သော ဆားမှုန့်ကို မော်လီကျူးဟု ခေါ်၍၊ ဤဆား မော်လီကျူး၏ ဂုဏ်သည် မူလ ဆားပွင့်တွင်ရှိသော ဂုဏ်အတိုင်းပင် ပြောင်းလဲခြင်းမရှိ တည်မြဲ တည်လျက် ရှိပေသည်။ ထို့ကြောင့် မော်လီကျူးဆိုသည်မှာ မူလဂုဏ်အတိုင်း ထိန်းသိမ်းထားသော ဒြပ်ပေါင်း၏ အသေးဆုံးအမှုန့်ကို ဆိုလိုသည်။ ထိုနည်းအတူပင် ရေကို မီးနှင့် ကျိုလိုက်သောအခါတွင်လည်း၊ အလွန်သေးငယ်၍ မမြင်နိုင်သော အမှုန့်ကလေးများသည် ရေမှ ပျံထွက်သွားကြ၏။ ထိုအမှုန့်ကလေးများသည် ရေ မော်လီကျူးများ ဖြစ်ကြလေသည်။ ဒြပ်စင်တခု၏ မော်လီကျူးတွင် အက်တမ်ပေါင်း ၂ ခု သို့မဟုတ် အများ ပါရှိတတ်လေသည်။ ကျွန်ုပ်တို့ နေ့စဉ်နေ့တိုင်း တွေ့နေကြဖြစ်သော အောက်ဆီဂျင်၊ ဟိုက်ဒရိုဂျင်၊ နိုက်ထရိုဂျင်အစရှိသည့် ဓာတ်ငွေ့တို့၏ မော်လီကျူးတလုံးတွင် အက်တမ် ၂ လုံးစီ ပါရှိကြောင်း သိရှိရသည်။ ဒြပ်ပေါင်းတို့၏ မော်လီကျူးတွင်မူ အချို့တွင် အက်တမ် ၂ ခု၊ အချို့တွင် အများ ပါရှိကြောင်း တွေ့ရလေသည်။ ပုံပမာ အိမ်သုံးဆားဖြစ်သော 'ဆိုဒီယမ် ကလိုရိုက်' (NaCl) တွင် ဆိုဒီယမ် အက်တမ်တခုနှင့် ကလိုရင်း အက်တမ်တခု ပေါင်း နှစ်ခု ပါရှိ၏။ ရေ မော်လီကျူးတခုတွင် ဟိုက်ဒရိုဂျင် အက်တမ်နှစ်ခုနှင့် အောက်ဆီဂျင်အက်တမ်တခု ပေါင်း ၃ ခု ပါရှိ၏။ ထို့ကြောင့် ထိုရေ မော်လီကျူးတခုကို ($H_2O$) ဟူသော အမှတ်လက္ခဏာဖြင့် ရေးသားရသည်။ သကြား မော်လီကျူးတခုတွင်ကား၊ ကာဗွန်အက်တမ် ၁၂ ခု၊ ဟိုက်ဒရိုဂျင်အက်တမ် ၂၂ ခု၊ အောက်ဆီဂျင်အက်တမ် ၁၁ ခု စုစုပေါင်း အက်တမ် ၄၅ ခု ပါဝင်၏။ ထို့ကြောင့် သကြား မော်လီကျူးကို ($C_{12}H_{22}O_{11}$) ဟု ရေးသားရလေသည်။

အစိုင်အခဲဖြစ်သော ရေခဲတတုံးတွင် မော်လီကျူးတို့သည် လှုပ်ရှား သွားလာလျက် ရှိကြသော်လည်း၊ ရေခဲ၏ ပုံသဏ္ဌာန် ပြောင်းလဲသွားလောက်အောင် မလှုပ်ရှား မသွားလာနိုင်ကြချေ။ သို့သော် ရေခဲကို အပူတိုက်ပေးလိုက်သောအခါ၊ မော်လီကျူးတို့၏ လှုပ်ရှားသွားလာခြင်းသည် ပိုမိုသွက်လက်လာသည်။ ထိုအခါ မော်လီကျူးတို့ တခုနှင့်တခု တွန်းဖိကြသောကြောင့်၊ ရေခဲ၏ပုံမှာ ပျက်ပြီးလျှင်၊ အရည် ဖြစ်သွားလေသည်။ ယင်းသို့ အရည်ပျော်သွားသောအခါတွင်၊ မော်လီကျူးတို့သည် အလွန်လွတ်လပ်စွာ လှုပ်ရှား သွားလာနိုင်ကြသည်။ ရေ မော်လီကျူးများသည် အလွန်သေးငယ်၍ ပေါ့ပါးသောကြောင့်၊ လေထဲတွင် လွင့်လျက် နေနိုင်ကြလေသည်။

အရည်တွင်ပါရှိသော မော်လီကျူးတို့၏ လှုပ်ရှား ရွေ့သွားပုံမှာ အငွေ့တွင်ပါရှိသော မော်လီကျူးတို့၏ လှုပ်ရှား ရွေ့သွားပုံထက် သာ၍နှေးသည်။ အရည်တွင် မော်လီကျူးတို့သည် လွတ်လပ်စွာ လှုပ်ရှား ရွေ့သွားနိုင်ကြသော်လည်း၊ တခုနှင့်တခု ဝေးဝေးခွာ၍ မသွားနိုင်တတ်ကြချေ။ အငွေ့မှာလောက် လွတ်လပ်ခြင်း မရှိချေ။ ထို့ကြောင့် အရည်သည် ထည့်ထားသော ခွက်၏ ပုံသဏ္ဌာန်အတိုင်းသာလျှင် တည်ရ၍၊ ထုထည်သည် အလွယ်တကူနှင့် ပြောင်းလဲခြင်း မပြုချေ။ အရည်တွင်ရှိနေသော မော်လီကျူးတို့သည် လှုပ်ရှားသွားလာရာ၌ လျင်မြန်သဖြင့်၊ တခါတရံ အရည်အတွင်းမှ လွတ်ထွက် သွားတတ်ကြသည်။ ယင်းသို့ လွတ်ထွက်သွားတတ်ခြင်းသည် အရည်တို့ တဖြည်းဖြည်း ခန်းခြောက်သွားရခြင်း၏ အကြောင်းရင်းပင်ဖြစ်သည်ဟု ယူဆကြရသည်။ အရည်များကို ခပ်ကြာကြာ ကျိုလိုက်လျှင် ဆူပွက်လာသည်။ ထိုသို့ဆူပွက်လာသောအခါ၊ မော်လီကျူးများသည် ပိုမို၍ လှုပ်ရှားလာ၏။ ထို့ကြောင့် ရေဆူနေသောအခါတွင် မော်လီကျူးတို့သည် လေထဲသို့ အလွန်လျင်မြန်စွာ လွတ်ထွက် သွားပြီးလျှင်၊ ပျောက်ကွယ်သွားကြလေသည်။

အခဲတွင် မော်လီကျူးတို့သည် ခြေချင်း ခတ်ထားဘိသကဲ့သို့၊ မရွေ့နိုင် မရှားနိုင် ရှိကြသည်။ အရည်မှာကဲ့သို့ လွတ်လပ်စွာ မလှုပ်ရှားနိုင်ကြချေ။ ယင်းသို့ မရွေ့နိုင် မရှားနိုင်လောက်အောင် ရှိနေကြသော်လည်း၊ မော်လီကျူးတို့သည် အချင်းချင်းထိကပ်၍ တသားတည်း ဖြစ်မနေကြပေ။ မော်လီကျူး တခုနှင့်တခု အကြားတွင် လွတ်နေသောအကွက်များ ရှိနေပေသေး၏။ ယင်းသို့ ကြားကွက်များ ရှိနေခြင်းကြောင့်၊ မော်လီကျူးတို့သည် တည်ငြိမ်၍မနေဘဲ၊ အလွန်ကျဉ်းမြောင်းသော နေရာအတွင်းမှာပင် ဖြည်းညှင်းစွာ ရွေ့သွားနေကြလေသည်။

အငွေ့တွင် မော်လီကျူးတို့၏ လှုပ်ရှား ရွေ့သွားပုံမှာ အရည်မှာထက် အဆပေါင်းများစွာ ပို၍ လျင်မြန်ခြင်းကြောင့်၊ မော်လီကျူးတို့အချင်းချင်း ပူးကပ် ပေါင်းစည်းမိသွားအောင် ထိန်းဖို့ရန် အချိန်ပင် ရမည်မဟုတ်ချေ။ ယင်းသို့ဖြစ်ရကား၊ အငွေ့အဖြစ်၌ မော်လီကျူးများသည် လွတ်လပ်ခွင့် အရဆုံးဖြစ်၍၊ အရပ်ရပ်သို့ အဆီးအတားမရှိ ပျံ့နှံ့သွားနိုင်ပေသည်။ အငွေ့အဖြစ်တွင် မော်လီကျူးတို့သည် တည်ငြိမ်၍မနေဘဲ၊ အမြဲလှုပ်ရှား ရွေ့သွားလျက် ရှိကြ၏။ ဗူးတလုံးတွင်ဖြစ်စေ၊ အခန်းတခန်းထဲ၌ဖြစ်စေ၊ ဓာတ်ငွေ့ အနည်းငယ်ကို ထည့်လိုက်လျှင်၊ တခဏ အတွင်းမှာပင် တဗူးလုံး၊ တခန်းလုံး ဓာတ်ငွေ့ဖြင့် ပြည့်သွား၏။ ယင်းသို့ လှုပ်ရှား ရွေ့သွားစဉ်တွင်လည်း၊ မော်လီကျူးတို့သည် ဗူး၏နံရံကိုရင်း၊ အခန်း၏နံရံကိုရင်း တိုက်မိကြပြီးလျှင်၊ တဖန် ပြန်၍ လှုပ်ရှား သွားလာမြဲ သွားလာနေကြသည်။ အချင်းချင်းလည်း တခုနှင့်တခု တိုက်ခိုက်မိကြ၍၊ ပြန်လည် ခုန်ထွက်

သွားကြ၏။ သို့သော် မည်သည့်အခါမှ လှုပ်ရှား ရွေ့သွားသော အားသည် လျော့၍ မသွားချေ။

ရေသည် ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင် ဓာတ်ငွေ့နှစ်မျိုး ဓာတ်ပေါင်းစပ်၍ရသော ဒြပ်ပေါင်းဖြစ်သည်။ အလားတူ ဒြပ်ပေါင်းများလည်း အများအပြားပင် ရှိ၏။ သို့သော် ဒြပ်တို့တွင် ဤသို့ဓာတ်ပေါင်းစပ်ရာ၌ လိုက်နာရသော ဓာတုစည်းများ ရှိပေသည်။ ထိုစည်းများအနက် အရေးကြီး၍ ထင်ရှားသောစည်းများမှာ (၁) ဓာတ်ချိုး မှန် နိယမနှင့် (၂) ဓာတ်ချိုး ဆတိုး နိယမတို့ ဖြစ်ကြလေသည်။

(၁) ဓာတ်ချိုး မှန် နိယမအရ၊ မည်သည့်ဒြပ်ပေါင်းတွင်မဆို ပါဝင် ဖက်စပ်သော ဒြပ်စင်များ၏ အလေးချိန်အချိုးသည် အမြဲတမ်း တူညီရမည်ဟု ဆိုလေသည်။ ပုံပမာ ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်တို့ ပေါင်းစပ်၍ရသောရေကို ရေတွင်း၊ ရေကန်၊ မြစ်ချောင်း အသီးအသီးမှ ရနိုင်သည့်ပြင်၊ ဓာတုဗေဒနည်းဖြင့်လည်း ရရှိနိုင်ပေသည်။ သို့သော် မည်သည့်နည်းနှင့် ရသည်ဖြစ်စေ၊ ထိုရေမှာ ဟိုက်ဒရိုဂျင် အလေးချိန် တဆနှင့် အောက်ဆီဂျင် အလေးချိန် ၈ ဆ ဓာတ်ချင်း ပေါင်းစပ်နေခြင်းသာ ဖြစ်ရာ၊ ထိုအတိုင်းအဆမှာ မည်သည့်အခါမျှ ပြောင်းလဲခြင်းမရှိချေ။ ထိုနည်းအတူ ကာဗွန်မွန်အောက်ဆိုက် (CO) တွင်လည်း၊ ကာဗွန် အလေးချိန် ၃ ဆတွင် အောက်ဆီဂျင် အလေးချိန် ၄ ဆ ပါဝင် ဖက်စပ်ထားသည်ကို တွေ့ရ၍၊ ဤအချိုးမှာ မည်သည့်အခါမျှ ပြောင်းလဲခြင်း မရှိချေ။

(၂) ဒုတိယစည်းဖြစ်သော ဓာတ်ချိုး ဆတိုး နိယမကို ဂျွန် ဒေါ်လတန် ဆိုသူ သိပ္ပံကဝိကြီးက စတင်ကြံဆ သတ်မှတ်ခဲ့လေသည်။ ဒြပ်စင် ၂ မျိုး ပေါင်းသည့်အခါ၊ ဒြပ်ပေါင်းတမျိုးတည်းသာ ပုံသေ ဖြစ်ထွန်းနိုင်သည် မဟုတ်၊ တမျိုးထက်မကသော ဒြပ်ပေါင်းများ ဖြစ်ထွန်းလာနိုင်သည်။ ဥဒါဟရဏ်ကား၊ ကာဗွန်နှင့် အောက်ဆီဂျင်ဟူသော ဒြပ်စင် ၂ မျိုး ပေါင်းသည့်အခါ၊ ကာဗွန် မွန်အောက်ဆိုက် ဒြပ်ပေါင်းတမျိုး၊ ကာဗွန် ဒိုင်အောက်ဆိုက် ဒြပ်ပေါင်းတမျိုးဟူ၍၊ ဒြပ်ပေါင်း ၂ မျိုး ၂ စား ဖြစ်ပေါ်လာသည်။ ဤသို့ ဒြပ်စင် ၂ မျိုး ပူးပေါင်း၍ ဒြပ်ပေါင်းတခုမက ဖြစ်ထွန်းလာသည့်အခါ၊ ဒုတိယ ဒြပ်ပေါင်းတွင် ဒြပ်စင် ၂ ခုတို့ ပေါင်းစပ်သော အချိုးအစားသည် ပဌမဒြပ်ပေါင်းတွင် ဓာတ်စင်နှစ်ခုတို့ ပေါင်းစပ်သောအချိုးအစားထက် ကိန်းပြည့် အဆတိုးသော အချိုးအစားဖြစ်လေသည်။ ဆိုလိုရင်းကား တဆသော်၎င်း၊ ၂ ဆသော်၎င်း၊ ၃ ဆသော်၎င်း အဆများသည် ကိန်းပြည့် တိုးသည်သာ ဖြစ်၏။ တဆခွဲ၊ တဆနှင့် ၃ ပုံ ၂ ပုံ စသောကိန်းမပြည့်သည့် အစိတ်အပိုင်းဂဏန်းဖြင့် တိုးသည်မဟုတ်ချေ။ ဥဒါဟရဏ်ကား၊ ကာဗွန်နှင့် အောက်ဆီဂျင် တို့ ပေါင်းစပ်၍ 'ကာဗွန် မွန်အောက်ဆိုက်' (CO) နှင့် 'ကာဗွန်ဒိုင်အောက်ဆိုက်' ($CO_2$) ဟု ဒြပ်ပေါင်း ၂ မျိုး ဖြစ်လာရာ၊ ကာဗွန် မွန်အောက်ဆိုက် ဒြပ်ပေါင်းတွင် ကာဗွန်အလေးချိန် ၃ ဆနှင့် အောက်ဆီဂျင်အလေးချိန် ၄ ဆ ပါဝင်ပေါင်းစပ်၏။ ကာဗွန် ဒိုင်အောက်ဆိုက် ဒြပ်ပေါင်းတွင်ကား၊ ကာဗွန်အလေးချိန် ၃ ဆနှင့် အောက်ဆီဂျင်အလေးချိန် ၈ ဆ ပါဝင် ပေါင်းစပ်၏။ ထိုဒြပ်ပေါင်း ၂ ခုတွင် ကာဗွန်အလေးချိန် ၃ ဆ တမျိုးတည်းနှင့် ပေါင်းစပ်လျက်ရှိသော အောက်ဆီဂျင်၏ အလေးချိန် အသီးအသီးမှာ ၄ ဆနှင့် ၈ ဆ ဖြစ်သည်ကို တွေ့ရ၏။ ထို့ကြောင့် အောက်ဆီဂျင်၏ ပေါင်းစပ်သောအလေးချိန်သည် ဆတိုး အချိုးကျဖြစ်ကြောင်း ထင်ရှားလေသည်။ နိုက်ထရိုဂျင်နှင့် အောက်ဆီဂျင် ပေါင်းစပ်ရာ၌ အောက်ဆီဂျင်၏အချိုးသည် (၁) နိုက်ထရပ် အောက်ဆိုက် ($N_2O$) တွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆနှင့် အောက်ဆီဂျင်အလေးချိန် ၄ ဆ ပါဝင်၏။ (၂) နိုက်ထရစ် အောက်ဆိုက် (NO သို့မဟုတ် $N_2O_2$) တွင် နိုက်ထရိုဂျင် ၇ ဆနှင့် အောက်ဆီဂျင် ၈ ဆ၊ (၃) နိုက်ထရိုဂျင် ထရိုင်အောက်ဆိုက် ($N_2O_3$) တွင် နိုက်ထရိုဂျင် ၇ ဆနှင့် အောက်ဆီဂျင် ၁၂ ဆ၊ (၄) နိုက်ထရိုဂျင် ပါရောက်ဆိုက် ($NO_2$ သို့မဟုတ် $N_2O_4$) တွင် နိုက်ထရိုဂျင် ၇ ဆနှင့် အောက်ဆီဂျင် ၁၆ ဆ၊ (၅) နိုက်ထရိုဂျင် ပင်တောက်ဆိုက် ($N_2O_5$) တွင် နိုက်ထရိုဂျင် ၇ ဆ၊ အောက်ဆီဂျင် အဆ ၂၀ တို့ အသီးအသီး ပါဝင်ရာ၊ အောက်ဆီဂျင်၏ အလေးချိန်အချိုးမှာ ၄ ဆစီ၊ ၄ ဆစီ၊ ကိန်းပြည့် တက်သွားသော အဆများသာ ဖြစ်လေသည်။

အမျိုးမျိုးသောဒြပ်စင်တို့၏အက်တမ်တို့သည် တခု သို့ မဟုတ် တခုထက်ပိုသော ဟိုက်ဒရိုဂျင်အက်တမ်များနှင့် ဓာတ်ပေါင်းစပ်ရာတွင် မိမိတို့၏ပေါင်းစပ်နိုင်သောအား ရှိသမျှ အတိုင်း ပေါင်းစပ်ကြ၏။ ထိုပေါင်းစပ်နိုင်သော ဓာတ်ပေါင်းအားကို 'ဗေလင်စီ' ဟု ခေါ်၍၊ ဒြပ်စင်အသီးအသီး၏ ဗေလင်စီများသည် တခုနှင့်တခု မတူကြချေ။ ပုံပမာ ဟိုက်ဒရို ကလောရစ် အက်ဆစ် (HCl) ဒြပ်ပေါင်းတွင် ကလိုရင်း အက်တမ်တခုနှင့် ဟိုက်ဒရိုဂျင်အက်တမ်တခု ပေါင်းစပ်၏။ ရေ($H_2O$) တွင် အောက်ဆီဂျင်အက်တမ်တခုနှင့် ဟိုက်ဒရိုဂျင်အက်တမ်နှစ်ခု ပေါင်းစပ်၏။ အမ်မိုးနီးယား ($NH_3$) ဒြပ်ပေါင်းတွင် နိုက်ထရိုဂျင်အက်တမ်တခုနှင့် ဟိုက်ဒရိုဂျင်အက်တမ်သုံးခု ပေါင်းစပ်၏။ မက်သိန်း ($CH_4$) ဒြပ်ပေါင်းတွင် ကာဗွန်အက်တမ်တခုနှင့် ဟိုက်ဒရိုဂျင် အက်တမ် ၄ ခု ပေါင်းစပ်ကြ၏။ ထိုဥဒါဟရဏ်များကို ကြည့်ခြင်းအားဖြင့်၊ ဒြပ်စင်တို့၏ ဗေလင်စီသည် တခုနှင့်တခု မတူဖြစ်ပြီးလျှင်၊ ဒြပ်စင်တို့ပေါင်းစပ်ရာတွင် ဟိုက်ဒရိုဂျင်နှင့် အစဉ်နှိုင်းရှည့်ထားကြောင်းကိုပါ သိရလေသည်။

အဘယ့်ကြောင့် ဟိုက်ဒရိုဂျင်ကို စံအဖြစ် ရွေးချယ်ရသနည်း ဟူမူ၊ ဟိုက်ဒရိုဂျင် အက်တမ်သည် ဒြပ်စင်အပေါင်းတို့၏ အက်တမ်များအနက် အပေါ့ဆုံး ဖြစ်သည်သာမက၊ အခြား ဒြပ်စင်တို့၏ အက်တမ်များသည် တခုထက်ပို၍ ဟိုက်ဒရိုဂျင် အက်တမ်နှင့် ဓာတ်ပေါင်းစပ်ခြင်း မပြုသောကြောင့်ဖြစ်သည်။ ထိုကြောင့် ဒြပ်စင်အမျိုးမျိုးတို့၏ ဗေလင်စီကိုကြည့်လျှင်၊ ဟိုက်ဒရိုဂျင်အက်တမ်ကို မူတည်ထားကြောင်း တွေ့ရပေသည်။ ဟိုက်ဒရိုဂျင်၏ ဗေလင်စီကို ၁ ဟု ယူထားသောကြောင့်၊ အထက်တွင်ဖေါ်ပြထားသည့် ဒြပ်ပေါင်းများအရ၊ ကလိုရင်း၏ ဗေလင်စီသည် ၁ ဖြစ်ပြီးလျှင်၊ အောက်ဆီဂျင် ဗေလင်စီမှာ ၂၊ နိုက်ထရိုဂျင်ဗေလင်စီမှာ ၃၊ ကာဗွန်ဗေလင်စီမှာ ၄၊ ဟူ၍ အသီးသီးဖြစ်ကြလေသည်။ အချို့သော ဒြပ်စင်တို့၌မူ ဗေလင်စီ ၅ အထိပင် ရှိသေးသည်။

ဓာတုဗေဒတွင် လွယ်ကူစေရန်အတွက် ဒြပ်စင်တို့၏အမည်များကို အမှတ်အသားများဖြင့် အတိုကောက် ဖေါ်ပြလေ့ရှိကြသည်။ ထိုဓာတုသင်္ကေတများကို ကမ္ဘာတဝှန်းလုံးရှိ ဓာတုဗေဒအဖွဲ့များက သတ်မှတ်၍၊ တညီတညွတ်တည်း အသုံးပြုကြလေသည်။ ပုံပမာ ကာဗွန်ကို 'C' အမှတ်ဖြင့်၎င်း၊ ဟိုက်ဒရိုဂျင်ကို 'H' အမှတ်ဖြင့်၎င်း၊ အောက်ဆီဂျင်ကို 'O' အမှတ်ဖြင့်၎င်း၊ ဆာလဖာကို 'S' အမှတ်ဖြင့်၎င်း အသီးအသီး အသုံးပြုကြသည်။ ၂ ခု သို့မဟုတ် ၂ ခုထက်ပိုသော ဒြပ်စင်များ ဓာတ်ပေါင်းစပ်သောအခါ၊ ထိုပေါင်းစပ်ပုံကို အမှတ်လက္ခဏာဖြင့် ညီမျှကိန်း ဆင်၍ ဖေါ်ပြကြလေသည်။ ပုံပမာ $2H_2 + O_2 = 2H_2O$ ဟူသော ညီမျှကိန်းသည် ဟိုက်ဒရိုဂျင်မော်လီကျူး ၂ ခုနှင့် အောက်ဆီဂျင်မော်လီကျူး ၁ ခု ဓာတ်ပေါင်းစပ်သဖြင့်၊ ရေမော်လီကျူးနှစ်ခု ဖြစ်လာပုံကို ဖေါ်ပြထားခြင်းဖြစ်သည်။ တဖန် ဒြပ်စင်သာမက ဒြပ်ပေါင်း ၂ ခု ပေါင်းစပ်၍ ဓာတ်ဖောက်ပြန်မှု ဖြစ်ပေါ်လာပုံကိုလည်း၊ ညီမျှကိန်းအားဖြင့်၊ အောက်ပါအတိုင်း ဖေါ်ပြနိုင်လေသည်။



$$2NaCl + H_2SO_4 = Na_2SO_4 + 2HCl$$

ဤဓာတ်ဖောက်ပြန်မှုတွင်၊ အိမ်သုံးဆားဖြစ်သော ဆိုဒီယမ် ကလိုရိုက် (NaCl) မော်လီကျူး ၂ ခုနှင့် ဆာလဖျူရစ် အက်ဆစ် မော်လီကျူးတခုတို့ ပေါင်းစပ်ကြရာ၌၊ ဆိုဒီယမ် ဆာလဖိတ် မော်လီကျူးတခုနှင့် ဟိုက်ဒရိုကလောရစ် အက်ဆစ် မော်လီကျူးနှစ်ခု ဖြစ်လာကြောင်းကို တွေ့ရသည်။ ဤကဲ့သို့ ဓာတ်ဖောက်ပြန်မှုများတွင် အရေးကြီးသော အချက်တချက်မှာ၊ လက်ဝဲဖက်တွင်ရှိသော အက်တမ်အားလုံးတို့၏ စုစုပေါင်းသည် လက်ျာဖက်တွင်ရှိသော အက်တမ် စုစုပေါင်းနှင့် ညီမျှရမည် ဖြစ်လေသည်။

ဓာတုဗေဒနှင့်စပ်လျဉ်းသည့် သိပ္ပံပညာရပ်ကို ဓာတ်ပေါင်းခြင်းပညာနှင့် ဓာတ်ခွဲခြင်းပညာဟူ၍ တခါတရံ ခွဲခြားထားသည်။ ပဌမပညာရပ်၏ ရည်ရွယ်ချက်မှာ၊ နည်းသစ်များဖြင့် အက်တမ်များကို ဓာတ်ပေါင်းစပ်စေပြီးလျှင်၊ ဓာတ်ပစ္စည်း အသစ်များ ဖြစ်စေရန် လုပ်ကိုင်ခြင်းပင် ဖြစ်သည်။ ပုံပမာ ဆက်ကရင်း $(C_6H_4COSO_2NH)$ ခေါ် ဆေးသကြားကို ကြံပင်နှင့် အခြား အသီးအနှံများမှ ချက်မယူဘဲ၊ ဓာတုဗေဒနည်းဖြင့် ဒြပ်စင်အမျိုးမျိုးတို့မှ ဖေါ်စပ်ယူနိုင်ခြင်းကို ဆိုလိုသည်။ ဆေးသကြားသည် ကြံသကြားထက် အဆပေါင်း ၃၀၀ လောက် ပို၍ချို၏၊ အများအားဖြင့် ကတ္တရာဆီတွင်ပါရှိသော တော်လျူအင်းမှ ချက်ယူကြသည်။ ဒုတိယပညာရပ်၏ ရည်ရွယ်ချက်မှာမူ၊ ဓာတ်ပစ္စည်းများတွင် မည်သည့်ဒြပ်များ ပါဝင် ပေါင်းစပ်ထားသည်ကို စစ်ဆေးရှာဖွေရန်၊ ဓာတုဗေဒနည်းဖြင့် ဓာတ်ခွဲကြည့်ခြင်းပင် ဖြစ်သည်။ မသိရှိသေးသောပစ္စည်းများကို သိရှိအောင် စုံစမ်းခြင်း၊ ကုန်ပစ္စည်းများ၏ အမျိုးအစား ကောင်း မကောင်းကို စိစစ်ခြင်း၊ သို့မဟုတ် အလားတူ အကြောင်းအရာ အချက်အလက်များကို သိရှိအောင် လုပ်ကိုင်ခြင်းတို့အတွက် ဓာတ်ခွဲနည်းကို အသုံးပြုလေ့ရှိကြသည်။

ဓာတ်ခွဲခြင်းပညာတွင်လည်း အမျိုးအစား ဓာတ်ခွဲခြင်းနှင့် အချိန်အဆ ဓာတ်ခွဲခြင်းဟူ၍၊ နှစ်မျိုး နှစ်စား ရှိသည်။ အမျိုးအစား ဓာတ်ခွဲခြင်းမှာ ပစ္စည်းတခုခုတွင်ရှိသော ဒြပ်စင် သို့မဟုတ် ဒြပ်ပေါင်းတို့၏ အမျိုးအစားကို စိစစ်ရန်ဖြစ်၍၊ အချိန်အဆ ဓာတ်ခွဲခြင်းမှာ ထိုဒြပ်စင် သို့မဟုတ် ဒြပ်ပေါင်း အသီးအသီးတို့ ပါဝင် ပေါင်းစပ်သော အတိုင်းအဆကို ရှာဖွေရန်ဖြစ်လေသည်။ တဖန် အချိန်အဆ ဓာတ်ခွဲနည်းတွင် အလေးချိန် ဓာတ်ခွဲနည်းနှင့် ထုထယ်လိုက် ဓာတ်ခွဲနည်းဟူ၍ နှစ်မျိုးရှိပြန်သည်။ အလေးချိန် ဓာတ်ခွဲနည်းတွင် ပါဝင် ပေါင်းစပ်သော ဒြပ်စင် သို့မဟုတ် ဒြပ်ပေါင်းတို့၏ အလေးချိန်တို့ကို တိုင်းတာရ၍၊ ထုထယ်လိုက် ဓာတ်ခွဲနည်းတွင်မူ၊ ဓာတ်ဖောက်ပြန်မှု၌ ပါဝင် အသုံးပြုသော ပျော်ဝင်ရည်တို့၏ ထုထယ်ကို တိုင်းတာခြင်းတို့ ပါဝင်လေသည်။

ဓာတ်ပစ္စည်းနှစ်မျိုးကို ရေတွင်ဖော်၍ရရှိသော ပျော်ဝင်ရည်နှစ်မျိုးကို ရောစပ်လိုက်သောအခါ၊ တခါတရံ ထိုပျော်ဝင်ရည်တို့ ဓာတ်ဖောက်ပြန်လာရာမှ၊ ပစ္စည်းသစ်တခု ဖြစ်ပေါ်လာတတ်သည်။ ပုံပမာ ဆီးလဗားနိုက်ထရိတ် $(AgNO_3)$ ပျော်ဝင်ရည်ကို ဆိုဒီယမ်ကလိုရိုက် (NaCl) ပျော်ဝင်ရည်ထဲသို့ ရောထည့်လိုက်သောအခါ၊ ဆီးလဗားကလိုရိုက် (AgCl) ခေါ် ပစ္စည်းသစ်တခု ဤကဲ့သို့ဖြစ်ပေါ်လာသည်။ $AgNO_3 + NaCl = AgCl + NaNO_3$ ဤနေရာ၌ ပစ္စည်းသစ် (AgCl) သည် အနည်အဖြစ် ထိုင်ကျလာသဖြင့်၊ ဤလုပ်နည်းကို အနည်ထိုင်နည်းဟု ခေါ်ရ၏။ (AgCl) သည် ပျော်ဝင်ရည်မှ အနည် ဖြစ်လာရခြင်း အကြောင်းမှာ၊ ရေတွင် မပျော်ဝင်

နိုင်သောကြောင့် ဖြစ်လေသည်။ ထိုအနည်ကို ရယူလိုသောအခါ၊ ရေစစ်စက္ကူ (ဝါ) အရည်စစ်စက္ကူနှင့် စစ်ယူ၍၊ ထိုသို့စစ်ယူသောအခါ အရည် စစ်ကျသွားပြီးလျှင်၊ အနည်မှာ စက္ကူပေါ်တွင် ကျန်ရစ်လေသည်။

တခါတရံ ဓာတ်ပစ္စည်းများကို ပေါင်းခံခြင်းဖြင့် ပျော်ဝင်ရည်မှ ခွဲထုတ်ယူနိုင်၍၊ အရက်ပျံကို ရေမှခွဲထုတ်ရာတွင် ဤနည်းကိုပင် အသုံးပြုကြသည်။ (ပေါင်းခံခြင်း — ရှု။)

ကော်ရည်ကဲ့သို့သော အရည်မျိုးမှ ကြည်လင်သော ပျော်ဝင်ရည်ကို ရအောင်၊ ပစ္စည်းတခုဖြင့် စပ်ယူသည့်နည်းကို 'ဒိုင်ယာလစ်စစ်' ဟု ခေါ်၏။ အချို့သော တိရစ္ဆာန်တို့၏ အမြှေးများသည် ကော်ရည်ကဲ့သို့သော အရည်ကို စစ်ယူရာ၌၊ ကြည်လင်သောပျော်ဝင်ရည်ကို စစ်ကျသွားစေ၍၊ ကော်ကို အမြှေးတွင် ကျန်ရစ်စေသည်။ အငွေ့ပျံစေခြင်း၊ အခြောက်ခံခြင်း၊ ချိန်တွယ်ခြင်း စသည်တို့မှာ ဓာတုဗေဒ လုပ်ငန်းရပ် အသီးအသီး၌ အရေးကြီးသော အစိတ်အပိုင်းများဖြစ်၍၊ ဆိုင်ရာ ဆိုင်ရာ၌ အသုံးပြုသွားကြရပေသည်။

ဓာတုဗေဒကို အကြမ်းအားဖြင့် အင်ဩဂဲနစ် ဓာတုဗေဒနှင့် ဩဂဲနစ်ဓာတုဗေဒဟူ၍ နှစ်မျိုးခွဲထား၏။ အင်ဩဂဲနစ် ဓာတုဗေဒဆိုသည်မှာ ဒြပ်စင်တို့ ဓာတ်ပေါင်းစပ်ခြင်းနှင့်ပတ်သက်သော စည်းမျဉ်းများ၊ အက်တမ် သီအိုရီ (အက်တမ်အဆို)၊ ဒြပ်စင်များကို အက်တမ်အလေးချိန်အလိုက် ခွဲခြားထားသော ဇယားကွက်၊ ဒြပ်စင်နှင့် ဒြပ်ပေါင်းတို့၏ဂုဏ်များ စသည်တို့ကို လေ့လာသော သိပ္ပံပညာရပ်ဖြစ်သည်။ ဩဂဲနစ်ဓာတု ဗေဒမှာမူ ကာဗွန်ဒြပ်ပေါင်းများကို အဓိက လေ့လာသော သိပ္ပံပညာရပ် ဖြစ်လေသည်။ ကာဗွန်ဒြပ်ပေါင်းများမှာ အလွန်များပြား၍ အသွင်မတူ ကွဲပြားကြသဖြင့်၊ သီးခြားလေ့လာ ဖေါ်ပြရပေသည်။ ဤကာဗွန်ဒြပ်ပေါင်းများသည် ကာဗွန်နှင့် ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်၊ နိုက်ထရိုဂျင်တို့ ပေါင်းစပ် ဖွဲ့စည်းထားသည်သာ များပေသည်။ ကာဗွန်နှင့်ဟိုက်ဒရိုဂျင်တို့သာ ပေါင်းစပ် ဖွဲ့စည်းထားသော ကာဗွန်ဒြပ်ပေါင်းများကို 'ဟိုက်ဒရို ကာဗွန်' ဟုခေါ်သည်။ ကာဗွန်နှင့် ဟိုက်ဒရိုဂျင်အပြင်၊ အောက်ဆီဂျင်ပါ ပေါင်းစပ် ဖွဲ့စည်းထားသော ဒြပ်ပေါင်းများကို ကာဗိုဟိုက်ဒရိတ်ဟု ခေါ်သည်။ ကာဗိုဟိုက်ဒရိတ် ဒြပ်ပေါင်းများတွင် ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်တို့သည် ရေ မော်လီကျူး ($H_2O$) ဖြစ်အောင် ပေါင်းစပ်သောအချိုးမျိုးဖြင့်၊ ကာဗွန်နှင့်ပေါင်းစပ်ကြ၏။ ပုံပမာ ($C_{12}H_{22}O_{11}$) သကြားမျိုးတွင်၊ ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်တို့သည် ($H_2O$) အချိုးမျိုးဖြင့်၊ ကာဗွန်ကို ပေါင်းစပ်ထားသကဲ့သို့ ဖြစ်လေသည်။ ကာဗွန်ဒြပ်ပေါင်းများကို အပင်နှင့် သက်ရှိသတ္တဝါများမှသာ ရရှိနိုင်သည်ဟု အစပဌမက ယူဆခဲ့ကြသည်။ သို့သော် ယခုအခါ မြောက်မြားစွာသော ဩဂဲနစ်ဒြပ်ပေါင်းများကို ကျွန်ုပ်တို့ဘာသာ ဖေါ်စပ်ယူနိုင်လာပြီ ဖြစ်လေသည်။

အင်ဩဂဲနစ် ဓာတုဗေဒတွင်ရှိသော အရေးကြီးသည့် အချက်အလက်များကို အလွယ်တကူနှင့် သိရှိနားလည်စေရန်၊ ဒြပ်စင်များကို အက်တမ်အမှတ်အစဉ်အတိုင်း ဆင်ခြင်သုံးသပ်သွားရပေမည်။ အက်တမ်အမှတ်သည် ဒြပ်စင်၏ 'နျူးကလီးယပ်' ခေါ် ဗဟိုဝတ်ဆံတွင်ရှိသော ပရိုတွန်း၏ အရေအတွက်နှင့် အတူတူပင်ဖြစ်သည်။ အက်တမ်ခန္ဓာအိမ်တွင် 'နျူးကလီးယပ်' ခေါ် ဗဟိုဝတ်ဆံပါရှိ၍၊ ထိုဝတ်ဆံထဲတွင် ပရိုတွန်းနှင့် နျူထရွန်တို့ ရှိကြ၏။ တဖန် ကောင်းကင်တွင် ဂြိုဟ်များသည် နေကိုလှည့်ပတ်သွားနေသကဲ့သို့၊ ထိုဝတ်ဆံကို အီလက်ထရွန်တို့က လှည့်ပတ်သွားနေပြန်သည်။ ဝတ်ဆံတွင်ရှိသော ပရိုတွန်း၏ အရေအတွက်ကိုလိုက်၍၊ အက်တမ်အမှတ်ကို သတ်မှတ်ရသည်။ ပမာအားဖြင့် ဟိုက်ဒရိုဂျင်အက်တမ် ခန္ဓာအိမ်၏ ဗဟိုဝတ်ဆံတွင် ပရိုတွန်းတခု ရှိသည်။ ထို့ကြောင့် ဟိုက်ဒရိုဂျင်၏ အက်တမ်အမှတ်သည် ၁ ဖြစ်လေသည်။ ဟီလီယမ်အက်တမ်၏ ခန္ဓာအိမ်ဝတ်ဆံတွင် ပရိုတွန်း ၂ ခုရှိ၏။ ထို့ကြောင့် ဟီလီယမ်၏ အက်တမ်အမှတ်သည် ၂ ဖြစ်သည်။ ထို့အတူ အောက်ဆီဂျင် အက်တမ်၏ ခန္ဓာအိမ်ဝတ်ဆံတွင် ပရိုတွန်း ၈ ခုရှိသောကြောင့်၊ အောက်ဆီဂျင်၏ အက်တမ်အမှတ်သည် ၈ ဖြစ်၏။ အက်တမ်အမှတ်ကို သိရှိနားလည်ရန်မှာ ပဌမဦးစွာ အက်တမ်သီအိုရီကို လေ့လာရန်လိုပေသည်။ အက်တမ်သီအိုရီကို ဒေါ်လတန်ဆိုသူ သိပ္ပံကဝိကြီးက စတင်ကြံစည်ခဲ့၍၊ ဤသီအိုရီသည် ဓာတုဗေဒ၏ အုတ်မြစ်သဖွယ်ပင် ဖြစ်သည်ဟု ယူဆနိုင်လေသည်။ အက်တမ် သီအိုရီတွင် ရှင်းလင်းဖေါ်ပြထားသော အကြောင်းအရာများအနက်၊ အက်တမ် အလေးချိန်အကြောင်းကိုလည်း ဖေါ်ပြထားသည်။ အက်တမ်အလေးချိန်ဆိုသည်မှာ အက်တမ် ခန္ဓာအိမ်၏ ဗဟိုဝတ်ဆံတွင်ရှိသော ပရိုတွန်းနှင့် နျူထရွန် နှစ်ခုပေါင်းမှရရှိသော အလေးချိန်ဖြစ်၏။ သို့သော် အက်တမ်မှာ အလွန်သေးငယ်လွန်းသောကြောင့်၊ အလေးချိန်အမှန်ကို ဖေါ်ပြရန်မှာ အလွန်ပင် ခဲယဉ်းသည်။ ထို့ကြောင့် အောက်ဆီဂျင်အက်တမ်ကိုစံပြုရန် ပြည်ထောင်အသီးအသီးက ရွေးချယ်၍၊ အောက်ဆီဂျင်၏အလေးချိန်ကို ၁၆ ဟု သတ်မှတ်ပြီးလျှင်၊ ကျန်ဒြပ်စင်အသီးအသီး၏ အက်တမ်အလေးချိန်များကို အောက်ဆီဂျင်အက်တမ် အလေးချိန်နှင့် နှိုင်းစာယူကြလေသည်။ ဟိုက်ဒရိုဂျင်အက်တမ်၏ အလေးချိန်သည် အောက်ဆီဂျင် အက်တမ် အလေးချိန်နှင့် နှိုင်းစာသော်၊ ၁.၀၀၈ ရှိသည်။ ထို့ကြောင့် ဟိုက်ဒရိုဂျင်အက်တမ် အလေးချိန်ကို ၁.၀၀၈ ဟု သတ်မှတ်ကြလေသည်။

မော်လီကျူး အလေးချိန်ဆိုသည်မှာ မော်လီကျူးတခု



မြန်မာနိုင်ငံ လက်တွေ့သုတေသနဌာနတွင် ရေဒီယိုအိုက်ဆိုတုပ်ဓာတ်အကြောင်း ဤသို့လေ့လာလျက်ရှိသည်။

တွင် ပါဝင် ပေါင်းစပ်လျက်ရှိသော အက်တမ်တို့၏ စုစုပေါင်း အလေးချိန်ကို ဆိုလိုသည်။ ပမာဆောင်ရသော် ရေ မော်လီကျူး၏ အလေးချိန်ကို သိလိုလျှင်၊ ထိုရေ မော်လီကျူးတွင် မည်သည့်အက်တမ်များ အရေအတွက် မည်မျှပါရှိကြောင်းကို သိရန်လိုပေသည်။ ရေ မော်လီကျူး ($H_2O$) တွင် ဟိုက်ဒရိုဂျင်အက်တမ် ၂ ခုနှင့် အောက်ဆီဂျင်အက်တမ် ၁ ခု ပါရှိရာ၊ ဟိုက်ဒရိုဂျင်အက်တမ်၏ အလေးချိန်သည် ၁ ဖြစ်၍၊ အောက်ဆီဂျင်အက်တမ် အလေးချိန်မှာ ၁၆ ဖြစ်၏။ ထို့ကြောင့် ရေ မော်လီကျူး အလေးချိန်မှာ (၂ + ၁၆) = ၁၈ ဖြစ်လေသည်။ အောက်ဆီဂျင်မော်လီကျူးတွင် အောက်ဆီဂျင်အက်တမ် ၂ လုံးရှိရာ အက်တမ် အလေးချိန်မှာ ၁၆ ဖြစ်သဖြင့်၊ မော်လီကျူး အလေးချိန်မှာ ၃၂ ဖြစ်လေသည်။

ရုရှလူမျိုး ဓာတုဗေဒပညာကျော် မင်ဒီလေးယက်သည် ၁၈၆၉ ခုနှစ်က (ပီရီယောဒစ် ကလပ်စီဖီကေးယှင်း) ခေါ် အလှည့်မှန် အစုခွဲခြင်း ကျမ်းတကျမ်းကို စီရင်ထုတ်ဝေခဲ့သည်။ ထိုပုဂ္ဂိုလ်၏နည်းမှာ၊ ဓာတုဒြပ်စင်တို့ကို ထိုဒြပ်စင်တို့၏ အက်တမ် အလေးချိန် ကြီးစဉ်ငယ်လိုက်အတိုင်း၊ စီစဉ်ရေးသားရန်ဖြစ်သည်။ ထိုသို့ စာရင်းပြုလုပ်ပြီးနောက်၊ အကွက်အလိုက် စစ်ဆေးကြည့်သောအခါ၊ တကွက်တည်းတွင် ကျရောက်ကြသော ဒြပ်စင်တို့၌ အချင်းချင်း ဂုဏ်သတ္တိချင်း တူပုံကို တွေ့ရှိရလေသည်။ မင်ဒီလေးယက်၏နည်းဖြင့် စီစဉ်ထားသောစာရင်းတွင် ကွက်လပ်နေရာလွတ်များ ရှိနေရာ၊ ထိုနေရာလွတ်များကို နောင်အခါကာလများတွင် တဖြည်းဖြည်း တွေ့ရှိမည်ဖြစ်သော ဒြပ်စင်များအတွက် ချန်လှပ်ထားလေသည်။

ယခုအခါ သဘာဝအလျောက်တည်ရှိကြသော ဓာတု ဒြပ်စင်တို့၏ အရေအတွက်မှာ ၉၂ ဖြစ်ရာ၊ လောကကြီးအတွင်း၌ ရှိရှိသမျှသော အရာဝတ္ထု ပစ္စည်းအမျိုးမျိုးတို့သည် ထိုဓာတုဒြပ်စင်တို့ဖြင့် ဖွဲ့စည်းထားခြင်းသာ ဖြစ်လေသည်။ ဓာတုဗေဒပညာရပ်တွင် ဓာတုဒြပ်စင်များသည် အလွန်အရေးကြီးသည့်အတိုင်း၊ ထိုဒြပ်စင်တို့ကိုအမည်၊ အက်တမ်အမှတ်စဉ်၊ အက်တမ်အလေးချိန်တို့နှင့်တကွ စာရင်းပြုလုပ်၍၊ သီးခြားဖော်ပြထားသည်။

## သဘာဝအလျောက်တွေ့ရသော ဒြပ်စင်များ

| အက်တမ် အမှတ် | အမည် (မြန်မာ) | အမည် (အင်္ဂလိပ်) | ဓာတု သင်္ကေတ | အက်တမ် အလေးဆ |
|---|---|---|---|---|
| ၁ | ဟိုက်ဒရိုဂျင် | Hydrogen | H | ၁.၀၀၈ |
| ၂ | ဟီလီယမ် | Helium | He | ၄.၀၀၃ |
| ၃ | လစ်သီယမ် | Lithium | Li | ၆.၉၄၀ |
| ၄ | ဗယ်ရီလီယမ် | Beryllium | Be | ၉.၀၂ |
| ၅ | ဗိုရွန် | Boron | B | ၁၀.၈၂ |
| ၆ | ကာဗွန် | Carbon | C | ၁၂.၀၁ |
| ၇ | နိုက်ထရိုဂျင် | Nitrogen | N | ၁၄.၀၀၈ |
| ၈ | အောက်ဆီဂျင် | Oxygen | O | ၁၆.၀၀၀ |
| ၉ | ဖလူအိုရင်း | Fluorine | F | ၁၉.၀၀ |
| ၁၀ | နီယွန် | Neon | Ne | ၂၀.၁၈၃ |
| ၁၁ | ဆိုဒီယမ် | Sodium | Na | ၂၂.၉၉၇ |
| ၁၂ | မက်ဂနီဇီယမ် | Magnesium | Mg | ၂၄.၃၂ |
| ၁၃ | အလျူမီနီယမ် (ဒန်) | Aluminium | Al | ၂၆.၉၇ |
| ၁၄ | ဆစ်လီကွန် | Silicon | Si | ၂၈.၀၆ |
| ၁၅ | ဖော့စဖောရပ် (မီးစုန်း) | Phosphorus | P | ၃၀.၉၈ |
| ၁၆ | ဆာလဖာ (ကန့်) | Sulphur | S | ၃၂.၀၆ |
| ၁၇ | ကလိုရင်း | Chlorine | Cl | ၃၅.၄၅၇ |
| ၁၈ | အာဂွန် | Argon | A | ၃၉.၉၄၄ |
| ၁၉ | ပိုတက်ဆီယမ် | Potassium | K | ၃၉.၀၉၆ |
| ၂၀ | ကယ်လဆီယမ် | Calcium | Ca | ၄၀.၀၈ |
| ၂၁ | စကန်ဒီယမ် | Scandium | Sc | ၄၅.၁၀ |
| ၂၂ | တိုင်တေးနီယမ် | Titanium | Ti | ၄၇.၉၀ |
| ၂၃ | ဗာနေးဒီယမ် | Vanadium | V | ၅၀.၉၅ |
| ၂၄ | ကရိုမီယမ် | Chromium | Cr | ၅၂.၀၁ |
| ၂၅ | မန်ဂနီ | Manganese | Mn | ၅၄.၉၃ |
| ၂၆ | အိုင်းယန်း (သံ) | Iron | Fe | ၅၅.၈၅ |
| ၂၇ | ကိုဗော့ | Cobalt | Co | ၅၈.၉၄ |
| ၂၈ | နစ်ကယ် | Nickel | Ni | ၅၈.၆၉ |
| ၂၉ | ကောပါး (ကြေးနီ) | Copper | Cu | ၆၃.၅၇ |
| ၃၀ | ဇင့် (သွပ်) | Zinc | Zn | ၆၅.၃၈ |
| ၃၁ | ဂါလီယမ် | Gallium | Ga | ၆၉.၇၂ |
| ၃၂ | ဂျာမေနီယမ် | Germanium | Ge | ၇၂.၆၀ |
| ၃၃ | အာဆနစ် (စိန်သတ္တု) | Arsenic | As | ၇၄.၉၁ |
| ၃၄ | ဆီလီနီယမ် | Selenium | Se | ၇၈.၉၆ |
| ၃၅ | ဗရိုမင်း | Bromine | Br | ၇၉.၉၁၆ |
| ၃၆ | ကရစ်ပတွန် | Krypton | Kr | ၈၃.၇ |
| ၃၇ | ရူဗီဒီယမ် | Rubidium | Rb | ၈၅.၄၈ |

## သဘာဝအလျောက်တွေ့ရသော ဒြပ်စင်များ

| အက်တမ် အမှတ် | အမည် | | ဓာတု သင်္ကေတ | အက်တမ် အလေးဆ |
|---|---|---|---|---|
| | မြန်မာ | အင်္ဂလိပ် | | |
| ၃၈ | စထရွန်ရှိယမ် | Strontium | Sr | ၈၇·၆၃ |
| ၃၉ | အစ်ထရီယမ် | Yttrium | Y | ၈၈·၉၂ |
| ၄၀ | ဇာကိုးနီယမ် | Zirconium | Zr | ၉၁·၂၂ |
| ၄၁ | ကိုလမ်ဗီယမ် | Columbium | Cb | ၉၂·၉၁ |
| ၄၂ | မိုလစ်ဒီနမ် | Molybdenum | Mo | ၉၅·၉၅ |
| ၄၃ | မဇူရီယမ် | Masurium | Ma | ၉၉·၀၀ |
| ၄၄ | ရူသီနီယမ် | Ruthenium | Ru | ၁၀၁·၇၀ |
| ၄၅ | ရိုဒီယမ် | Rhodium | Rh | ၁၀၂·၉၁ |
| ၄၆ | ပလေဒီယမ် | Palladium | Pd | ၁၀၆·၇၀ |
| ၄၇ | ဆီးလဗား (ငွေ) | Silver | Ag | ၁၀၇·၈၈၀ |
| ၄၈ | ကက်ဒမီယမ် | Cadmium | Cd | ၁၁၂·၄၁ |
| ၄၉ | အင်ဒီယမ် | Indium | In | ၁၁၄·၇၆ |
| ၅၀ | တင်း (သံဖြူ) | Tin | Sn | ၁၁၈·၇၀ |
| ၅၁ | အန်တီမိုနီ (ခနောက်စိမ်း) | Antimony | Sb | ၁၂၁·၇၆ |
| ၅၂ | တယ်လျူရီယမ် | Tellurium | Te | ၁၂၇·၆၁ |
| ၅၃ | အိုင်အိုဒင်း | Iodine | I | ၁၂၆·၉၂ |
| ၅၄ | ဇီနွန် | Xenon | Xe | ၁၃၁·၃၀ |
| ၅၅ | ဆီဇီယမ် | Caesium | Cs | ၁၃၂·၉၁ |
| ၅၆ | ဗေရီယမ် | Barium | Ba | ၁၃၇·၃၆ |
| ၅၇ | လန်သနမ် | Lanthanum | La | ၁၃၈·၉၂ |
| ၅၈ | ဆီရီယမ် | Cerium | Ce | ၁၄၀·၁၃ |
| ၅၉ | ပရေဆီယိုဒင်မီယမ် | Praseodymium | Pr | ၁၄၀·၉၂ |
| ၆၀ | နီယိုဒင်မီယမ် | Neodymium | Nd | ၁၄၄·၂၇ |
| ၆၁ | အီလင်နီယမ် | Illinium | Il | ၁၄၇·၀၀ |
| ၆၂ | ဆမေရီယမ် | Samarium | Sm | ၁၅၀·၄၃ |
| ၆၃ | ယူရိုပီယမ် | Europium | Eu | ၁၅၂·၀၀ |
| ၆၄ | ဂက်ဒိုလင်နီယမ် | Gadolinium | Gd | ၁၅၆·၉၀ |
| ၆၅ | တာဗီယမ် | Terbium | Tb | ၁၅၉·၂၀ |
| ၆၆ | ဒစ်စပရိုဆီယမ် | Dysprosium | Dy | ၁၆၂·၄၆ |
| ၆၇ | ဟိုလမီယမ် | Holmium | Ho | ၁၆၄·၉၄ |
| ၆၈ | အာဗီယမ် | Erbium | Er | ၁၆၇·၂၀ |
| ၆၉ | သူလီယမ် | Thulium | Tm | ၁၆၉·၄၀ |
| ၇၀ | အစ်တာဗီယမ် | Ytterbium | Yb | ၁၇၃·၀၄ |
| ၇၁ | လူတီဆီယမ် | Lutecium | Lu | ၁၇၄·၉၉ |
| ၇၂ | ဟက်ဖနီယမ် | Hafnium | Hf | ၁၇၈·၆၀ |
| ၇၃ | တန်းတလမ် | Tantalum | Ta | ၁၈၀·၈၈ |
| ၇၄. | တန်စတင် (အဖြိုက်နက်စစ်) | Tungsten | W | ၁၈၃·၉၂ |

သဘာဝအလျောက်တွေ့ရသော ဒြပ်စင်များ

| အက်တမ် အမှတ် | အမည် (မြန်မာ) | အမည် (အင်္ဂလိပ်) | ဓာတု သင်္ကေတ | အက်တမ် အလေးဆ |
|---|---|---|---|---|
| ၇၅ | ရီနီယမ် | Rhenium | Re | ၁၈၆·၃၁ |
| ၇၆ | အော့စမီယမ် | Osmium | Os | ၁၉၀·၂၀ |
| ၇၇ | အိုင်ရစ်ဒီယမ် | Iridium | Ir | ၁၉၃·၁၀ |
| ၇၈ | ပလက်တီနမ် (ရွှေဖြူ) | Platinum | Pt | ၁၉၅·၂၃ |
| ၇၉ | ဂိုး (ရွှေ) | Gold | Au | ၁၉၇·၂၀ |
| ၈၀ | မာကျူရီ (ပြဒါး) | Mercury | Hg | ၂၀၀·၆၁ |
| ၈၁ | သယ်လီယမ် | Thallium | Tl | ၂၀၄·၃၉ |
| ၈၂ | လက် (ခဲ) | Lead | Pb | ၂၀၇·၂၁ |
| ၈၃ | ဗစ်စမတ် (ကြွပ်) | Bismuth | Bi | ၂၀၉·၀၀ |
| ၈၄ | ပိုလိုနီယမ် | Polonium | Po | ၂၁၀·၀၀ |
| ၈၅ | အယ်လဗမ်မင်း | Alabamine | Ab | |
| ၈၆ | ရေဒွန် | Radon | Rn | ၂၂၂·၀၀ |
| ၈၇ | ဗာဂျင်နီယမ် | Virginium | Vi | |
| ၈၈ | ရေဒီယမ် | Radium | Ra | ၂၂၆·၀၅ |
| ၈၉ | အက်တင်နီယမ် | Actinium | Ac | ၂၂၉·၀၀ |
| ၉၀ | သိုရီယမ် | Thorium | Th | ၂၃၂·၁၂ |
| ၉၁ | ပရိုတိုအက်တင်နီယမ် | Protoactinium | Pa | ၂၃၁·၀၀ |
| ၉၂ | ယူရေးနီးယမ်း | Uranium | U | ၂၃၈·၀၇ |

(ဟိုက်ဒရိုဂျင်။ ဟီလီယမ်။ ဗယ်ရီလီယမ်။ ကာဗွန်။ နိုက်ထရိုဂျင်။ အောက်ဆီဂျင်။ နီယွန်။ ဆိုဒီယမ်။ မက်ဂနီဗီယမ်။ အလျူမီနီယမ်။ ဆစ်လီကွန်။ ဖော့စဖောရပ်။ ဆာလဖာ။ ကလိုရင်း။ ပိုတက်ဆီယမ်။ ကယ်လဆီယမ်။ တိုင်တေးနီယမ်။ ကရိုမီယမ်။ မန်ဂနိ။ သံနှင့်သံမဏိ။ နစ်ကယ်သတ္တု။ သွပ်။ စိန်သတ္တု။ ဆီလီနီယမ်။ ဇာကိုးနီယမ်။ ငွေသတ္တု။ သံဖြူ။ တယ်လျူရီယမ်။ အိုင်အိုဒင်း။ ဇီနွန်။ တာဗီယမ်။ တန်းတလမ်။ တန်စတင်။ ပလက်တီနမ်။ ရွှေ။ ပြဒါး။ သယ်လီယမ်။ ခဲ။ ကြွပ်။ ရေဒီယမ်နှင့် ရေဒီယမ်သတ္တိကြွခြင်း။ ယူရေးနီးယမ်း — ရှု။)

## ဓာတုဗေဒပညာရပ်ခွဲများ။

ဓာတုဗေဒပညာရပ်များကို အမျိုးမျိုး ခွဲခြားထားသည်။ မိုက္ကရိုဓာတုဗေဒသည် မိုက္ကရိုစကုပ်ခေါ် အနီးကြည့်မှန်ပြောင်းကို အသုံးပြု၍၊ ဓာတ်ခွဲခြင်းနှင့် အခြားဓာတ်စပ်ခြင်းတို့ကို ပြုလုပ်သော ပညာရပ်ဖြစ်၏။ စပက်ထရိုစကုပ် ဓာတုဗေဒသည် စပက်ထရိုစကုပ်မှန်ပြောင်းကို အသုံးပြု၍၊ ဓာတ်နှင့်သက်ဆိုင်သည့် အကြောင်းအရာများကို လေ့လာရသော ပညာရပ်ဖြစ်၏။ ရုပ်ပိုင်း ဓာတုဗေဒသည် ဓာတ်ပစ္စည်းများ၊ ပျော်ဝင်ရည်များ၊ ဒြပ်ရောများ၏ ရုပ်ဂုဏ်အကြောင်းနှင့် လက်တွေ့စမ်းသပ်နည်းတို့ကို လေ့လာသော ပညာရပ်ဖြစ်၏။ ကော်လွိုက် ဓာတုဗေဒသည် ကော်ရည်ကဲ့သို့ ပျစ်ခဲသော ဓာတ်ပစ္စည်းတို့၏ဂုဏ်များနှင့် ဓာတ်ဖောက်ပြန်မှုများကို လေ့လာသော ပညာရပ်ဖြစ်၏။ ကော်လွိုက်ခေါ် ကော်ရည်ကဲ့သို့သော ဓာတ်ပစ္စည်းများမှာ ကော်၊ ဥအကာ၊ ရာဗာ (ကြက်ပေါင်စေး)၊ ကျဲကော် အစရှိသည်တို့ ဖြစ်၏။ (ကော်လွိုက် — ရှု။)

သတ္တု ဓာတုဗေဒသည် ဓာတ်ပစ္စည်းရိုင်းများကို မီးတွင်ကျို၍၊ သတ္တုထုတ်ယူခြင်း၊ သတ္တုမှ အညစ်အကြေးများထုတ်၍ သန့်စင်အောင်ပြုလုပ်ခြင်း၊ သတ္တုများကို တခုနှင့်တခု ရောစပ်ခြင်းတို့နှင့်သက်ဆိုင်သော ဓာတုဗေဒဆိုင်ရာ ပညာရပ်ဖြစ်သည်။ (သတ္တုစပ် — ရှု။) လောင်စာ ဓာတုဗေဒသည် ကျောက်မီးသွေး၊ ဆီ၊ ဓာတ်ငွေ့နှင့် အခြားလောင်စာတို့၏အကြောင်းနှင့် ပတ်သက်သော ပညာရပ်ဖြစ်သည်။

ကျန်းမာရေး ဓာတုဗေဒသည် မိလ္လာနှင့် အခြားအညစ်အကြေးများကို စွန့်ပစ်ခြင်း၊ သန့်ရှင်းသောရေ သိုလှောင်ခြင်း၊ ကျန်းမာမှုကို ထိန်းသိမ်းစောင့်ရှောက်ခြင်း

အစရှိသည်တို့နှင့် သက်ဆိုင်သော ပညာရပ်ဖြစ်သည်။ အာဟာရ ဓာတုဗေဒမှာ အစားအစာများ ချက်ပြုတ်လုပ်ကိုင်ခြင်း၊ ညှိသောပစ္စည်းများဖြင့် ရောနှောထားခြင်း ရှိမရှိကို စစ်ဆေးခြင်းတို့နှင့် သက်ဆိုင်သော ပညာရပ်ဖြစ်သည်။

ဗိုင်အိုကင်မစ္စတြီ (ပါဏဓာတုဗေဒ) သည် သက်ရှိပစ္စည်းများနှင့် သက်ရှိသတ္တဝါတို့၏ ဓာတ်သဘောတရား သက်ဝင်ပုံနှင့် ဓာတ်ဖောက်ပြန်မှုအကြောင်းများကို လေ့လာသော ပညာရပ်ဖြစ်၏။ (ဗိုင်အိုကင်မစ္စတြီ — ရှု။) ဆေးဖက်ဓာတုဗေဒနှင့် ဆေးစပ်ဓာတုဗေဒတို့သည် ဆေးကုသရာ၌ ဓာတုဗေဒနည်းဖြင့် စမ်းသပ်ကြည့်ရှုခြင်းနှင့် ဖော်စပ်ခြင်းတို့ကို ပြုလုပ်ရသော ပညာရပ်ဖြစ်သည်။ စိုက်ပျိုးရေး ဓာတုဗေဒသည် ဓာတုဗေဒနည်းဖြင့် အပင်များ ကြီးထွားဖွံ့ဖြိုးအောင် စိုက်ပျိုးခြင်း၊ မြေသြဇာ အသုံးပြုခြင်း၊ မြေဆီလွှာကို မြေသြဇာ ကောင်းမကောင်း ဓာတုဗေဒနည်းဖြင့် စစ်ဆေးခြင်း၊ အပင်တွင်ကျရောက်သော ရောဂါများကို စစ်ဆေး ကာကွယ်ခြင်း အစရှိသည်တို့နှင့် သက်ဆိုင်သော ပညာရပ်ဖြစ်သည်။ (မြေသြဇာ — လည်းရှု။)

ကုန်ထုတ်ရေး ဓာတုဗေ ဟူသည်မှာ ဓာတုဗေဒနှင့်ပတ်သက်သည့် အချက်အလက်နှင့် နည်းနာများကို ကုန်ထုတ်လုပ်ငန်းအသီးအသီး၌ အသုံးပြုသော ပညာရပ်ဖြစ်သည်။ ကော့စတစ်ဆိုဒါ၊ ဆာလဖျူရစ်အက်ဆစ် စသော ဓာတ်ပစ္စည်းများကို ယခုအခါ ဓာတုဗေဒနည်းဖြင့် အကြီးအကျယ် လုပ်ကိုင်ရောင်းချလျက်ရှိကြ၏။ ကုန်ထုတ်ရေးဓာတုဗေဒတွင် တဖန်၊ လုပ်ငန်းကိုလိုက်၍၊ သီးခြားပညာရပ်များ ခွဲထားပြန်သည်။ ပမာအားဖြင့် ဆိုးဆေးဓာတုဗေဒသည် အထည်အလိပ်နှင့် အခြားပစ္စည်းများကို အရောင်အမျိုးမျိုး ဆိုးရန်အတွက်၊ ဆိုးဆေးပစ္စည်းများ ပြုလုပ်သော ပညာရပ်ဖြစ်သည်။ (ဆိုးဆေးများ — လည်းရှု။) ထိုပြင် စက္ကူလုပ်ငန်း ဓာတုဗေဒ၊ မြေသြဇာလုပ်ငန်း ဓာတုဗေဒ၊ စည်သွတ်လုပ်ငန်း ဓာတုဗေဒ၊ ဓာတ်ပုံလုပ်ငန်း ဓာတုဗေဒ၊ ဖန်ချက်လုပ်ငန်း ဓာတုဗေဒ အစရှိသည်တို့လည်း ရှိသေး၏။

ဓာတုဗေဒကို အသက်မွေးဝမ်းကျောင်း ပညာရပ်အဖြစ်ဖြင့် လိုက်စားသောပုဂ္ဂိုလ်ကို ဓာတုဗေဒဆရာ သို့မဟုတ် ဓာတုဗေဒပညာရှင်ဟု ခေါ်လေ့ရှိသည်။ သို့ရာတွင် ဓာတုဗေဒဆရာတွင်လည်း အလုပ်သဘောအားဖြင့် နှစ်မျိုးရှိသည်ကို တွေ့ရပြန်သည်။ တမျိုးမှာ ဆေးဝါးဖော်စပ်ခြင်း အတတ်နှင့် သက်ဆိုင်၍၊ ကျန်တမျိုးမှာ ဓာတ်ခွဲခြင်း၊ သုတေသနအလုပ်ဖြစ်သော ကြံစည်ရှာဖွေခြင်းတို့နှင့် သက်ဆိုင်လေသည်။ ပုံပမာ ဆေးဆိုင်ဖွင့်၍ ဆေးများဖော်စပ်ရောင်းသော ဓာတုဗေဒဆရာမှာ ပဌမအမျိုးအစား ဖြစ်၍၊ စက်မှုလက်မှုလုပ်ငန်းဆိုင်ရာ ဓာတုဗေဒမှာ ဒုတိယအမျိုးအစားတွင် ပါဝင်လေသည်။

**ဓာတုဗေဒကို ရုပ်လုံးပေါ်ခဲ့သူ ကဝိကြီးများ။**

ယခုအခါ ကျွန်ုပ်တို့သိရှိနားလည်နေကြသော ဓာတုဗေဒသည် ရှေးအင်္ဂါရတ်ပညာကို အခြေပြု၍ ပေါ်ပေါက်လာခြင်းပင် ဖြစ်ပေသည်။ အင်္ဂါရတ်ပညာကို ဆည်းပူး လေ့လာခဲ့ကြသူတို့၏ဆန္ဒမှာ သံ၊ ခဲစသော သတ္တုအပေါစားများကို ရွှေဖြစ်အောင် ကြံဆောင်လိုခြင်းပင်ဖြစ်၏။ ထို့မှတဆင့် ရွှေဖြစ်၊ ငွေဖြစ်တို့ထက် ထူးကဲမွန်မြတ်၍၊ လိုတိုင်းရသော ဣစ္ဆာသယဓာတ်လုံးကို ကြံစည်ခဲ့ကြလေသည်။ ထိုဣစ္ဆာသယဓာတ်လုံးသည် အသက်အရွယ်ကြီးရင့်သူကို ကျန်းမာနုပျိုစေသည်ဟူ၍ငှင်း၊ အနာရောဂါစွဲကပ်သူ ဟူသမျှကို လူကောင်းပကတိ ဖြစ်စေသည်ဟူ၍ငှင်း၊ အသက်ရှည်စေနိုင်သည်ဟူ၍ငှင်း အယူရှိကြ၏။ အင်္ဂါရတ်ပညာကို တရုတ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့တွင်လည်း ရှေးကလိုက်စားခဲ့ကြသည်ဟု ယူဆရသည်။ သို့သော် ထိုပညာသည် အီဂျစ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့နေ ဂရိလူမျိုးမှ စတင်၍၊ ထိထိရောက်ရောက် ဖြစ်ပေါ်လာသည်ဟု ယူဆနိုင်သော သာဓကများ ရှိသည်။ အင်္ဂါရတ်ကျမ်းများကို အေဒီ ၃ ရာစု၊ ၄ ရာစုနှစ်လောက်မှစ၍၊ ပြုစုရေးသားခဲ့ဟန်တူသည်ဟု ယုံကြည်ကြသည်။ အချို့ကျမ်းများမှာ ဂရိစာဖြင့် သတ္တုအညံ့များကို ရွှေတုလုပ်နည်းများ၊ ဓာတုဗေဒဆိုင်ရာ မှတ်သားဖွယ်များကို ဖော်ပြထားသော ကျမ်းများဖြစ်သည်။ အချို့ကျမ်းများတွင် သဘာဝတ္တဗေဒနည်းဖြင့် ရွှေဖြစ်ငွေဖြစ် အင်္ဂါရပ်နည်းများကို ကြံစည်ထား၏။ ထိုကျမ်းများအရ၊ ဝတ္ထုတိုင်းတွင် တူသောအခြေခံဒြပ် ရှိသည်ဟုဆို၏။ ထိုအခြေခံဒြပ်နှင့် အယ်ရစ္စတိုတယ်၏ ဒြပ်စင်ကြီးလေးပါးဖြစ်သော ရေ၊ မြေ၊ လေ၊ မီးတို့ကို တွဲဖက်လိုက်သောအခါ၊ ဝတ္ထု၏ နဂိုသတ္တိ ပေါ်လာသည်ဟုဆို၏။ အယ်ရစ္စတိုတယ်သည် သိပ္ပံပညာရပ်များတွင် ပါရဂူတဆူဟု အသိအမှတ်ပြုခြင်းကို ခံရသော ဂရိလူမျိုး ပညာကျော်ပင်ဖြစ်သည်။ (အယ်ရစ္စတိုတယ် — ရှု။) ထိုဂရိအင်္ဂါရတ်ကျမ်းများမှတဆင့် အာရပ်လူမျိုးတို့သည် အင်္ဂါရတ်ပညာကို လေ့လာဆည်းပူးကြောင်း၊ အေဒီ ၁၀ ရာစုနှစ်ကုန်လောက်တွင် အာရပ်စာရေးဆရာကြီးများ ပြုစုထားသောကျမ်းများ၌ တွေ့ရလေသည်။ အင်္ဂါရတ်ကျမ်းများကို ကနဦး လေ့လာဆည်းပူးသူများမှာ အာရပ်တို့ မဟုတ်ကြသေးပေ။ ဆီးရီးယန်းလူမျိုးတို့သည် အရှေ့နိုင်ငံများတွင် စာပေကို ဦးစွာ လိုက်စားသူများဖြစ်၍၊ ဂရိအင်္ဂါရတ်ကျမ်းများကို ဘာသာပြန်ဆိုကြ၏။ ထိုဆီးရီးယန်း ဘာသာပြန်ကျမ်းများမှ အာရပ်တို့သည် အင်္ဂါရတ်ပညာကို ဆည်းပူးယူကြခြင်းဖြစ်လေသည်။

အေဒီ ၁၃ ရာစုနှစ်သို့ ရောက်သောအခါ၊ အင်္ဂါရတ်ပညာအကြောင်းကို အဲလဗတ်တပ်မက်ဂနပ်၊ ရော်ဂျာဗေကင်နှင့် အာနိုဒပ်ဗီလာနိုဗန်းနပ် စသော သမိုင်းရေးဆရာကြီး

များက ရေးသားကြလေသည်။ အင်္ဂလိပ်ပညာသည် အနောက်နိုင်ငံများတွင် အရှေ့နိုင်ငံများမှာထက် သာ၍ တိုးတက်ထွန်းကားသည်ဟုဆိုသည်။ သတ္တုအညံ့မှ သတ္တုအဖိုးတန်သို့ ပြောင်းယူမှုကို ဂရိအင်္ဂလိပ်ဆရာများက စတင်ပြုလုပ်ကြသည်။ အေဒီ ၁၃ ရာစုနှစ်တွင် အင်္ဂလိပ်ဆရာများကြံစည်ကြည့်ကြသော သတ္တုသဘာဝပြောင်းမှုများမှာ သဘာဝအလျောက်သာ ဖြစ်နိုင်သော ကိစ္စများဖြစ်သည်။ အကယ် လက်တွေ့ပြုလုပ်နိုင်သော အမှုများမဟုတ်ဟု ထင်မြင်လာကြသည်။ သတ္တုများကို သိပ္ပံနည်းအားဖြင့် သဘာဝပြောင်းပေး၍ မဖြစ်နိုင်။ သတ္တုတမျိုးနှင့်တမျိုး ဆင်ဆင်တူရုံလောက်သာ အတုလုပ်နိုင်သည်ဟု ပြောကြ၏။ သတ္တုကိုဖြူအောင်လုပ်၍၊ ငွေတု ဖြစ်စေနိုင်သည်။ နီအောင်လုပ်၍ ရွှေတုဖြစ်စေနိုင်သည်။ ရွှေအစစ်ကို မရနိုင်။ ရသည့်အင်္ဂလိပ်ရွှေသည် မီးပြင်းပြင်း ခြောက်ခါ ခုနစ်ခါအထိ အထိုးမခံနိုင်ဟု အဲလဗတ်တပ် မက်ဂနပ်ကဆို၏။

အေဒီ ၁၆ ရာစုနှစ်ဆန်းစတွင် ပယ်ရဆဲဆပ် အမည်ရှိသော ပုဂ္ဂိုလ်တဦးသည် အင်္ဂလိပ်ပညာကိုတနည်းတဖုံ ဆင်ခြင်ကြည့်လေသည်။ အင်္ဂလိပ်ပညာ၏ အဓိကရည်ရွယ်ချက်မှာ ရွှေဖြစ်လုပ်ရန်မဟုတ်။ ဆေးများကို ဖေါ်စပ်ရန်ဖြစ်သည်ဟု ယူဆ၏။ ပယ်ရဆဲဆပ်ကား အင်္ဂလိပ်ပညာအကျုံးဝင်သော ဓာတုဗေဒကို ဆေးပညာနှင့်ပေါင်း၍၊ လက်ဦးပဌမ လေ့လာ ဆည်းပူးသူတယောက်ပင် ဖြစ်လေသည်။ သူ၏ ယူဆချက်မှာ လူ့ခန္ဓာကိုယ်တွင် ဆား၊ ကန့်၊ ပြဒါး ဟူသော ဒြပ်စင်သုံးပါး ရော၍နေရာ၊ ထိုဒြပ်စင်သုံးပါးအနက် တပါးပါး ချွတ်ယွင်းပျက်ပြားခဲ့လျှင်၊ လူ မကျန်းမမာ ဖြစ်တတ်သည်။ ယင်းသို့ ချွတ်ယွင်းပျက်ပြားရခြင်း၏ အကြောင်းမှာ၊ အစာအိမ်၌ ကောင်းသောပစ္စည်းနှင့် အဆိပ်ပစ္စည်းများကို ခွဲခြားပေးမှု ပျက်ပြားသွားသောကြောင့် ဖြစ်သည်ဟု ယူဆ၏။ ဤသို့အခြေခံအားဖြင့် ဆေးပညာကို လိုက်စားလာခဲ့ရာမှ၊ ပယ်ရဆဲဆပ်သည် အင်္ဂလိပ်ပညာကို လိုက်စားနေကြသော အခြားသူများကို မိမိနောက်သို့ ဆွဲဆောင်လာနိုင်ခဲ့လေသည်။

အင်္ဂလိပ်ပညာမှ ဓာတုဗေဒ ထွန်းကားလာအောင် ဦးဆုံးဆောင်ရွက်သော သိပ္ပံကဝိများအနက်၊ ရောဗတ် ဗွိုင်းမှာ တယောက်အပါအဝင်ဖြစ်၏။ (ဗွိုင်း, ရောဗတ် — လည်းရှု။) ထိုပုဂ္ဂိုလ်သည် ၁၆၂၇ ခုနှစ်တွင် မန်းစတားနယ်၊ လစ်ဇမိုးမြို့၌ မွေးဖွား၍၊ ၁၆၉၁ ခုနှစ်တွင် လန်ဒန်မြို့၌ ကွယ်လွန်၏။ ဗွိုင်းကို ဓာတုဗေဒဖခင်ဟု ခေါ်ဆိုကြသော်လည်း၊ စင်စစ်မှာ သူ့ကို ရူပဗေဒဆရာကြီးဟူ၍ အသိဆုံးဖြစ်ကြသည်။ ၁၆၆၀ ပြည့်နှစ်တွင် ဗွိုင်းသည် လေ၏ဖိအား အကြောင်းနှင့် လေစုတ် ဗုံပိုင်များအကြောင်းကို ပြုစုရေးသားသည်။ ထိုသို့ရေးသားရာတွင်၊ ဓာတ်ငွေ့များ၏ ဖိနှိပ်ပုံစည်းကို အခြေပြု၍၊ ရေးသားထားလေသည်။ သူ၏အမည်ကိုအစွဲပြု၍၊ ထိုစည်းကို 'ဗွိုင်းစည်း' ဟု ခေါ်လာခဲ့ကြသည်။ ထိုစည်းအရ၊ သတ်မှတ်ထားသော အပူချိန်၌၊ ဓာတ်ငွေ့တခု၏ အရွယ်ထုကို ထိုဓာတ်ငွေ့၏ဖိအားနှင့် မြှောက်လျှင်၊ မြှောက်ရကိန်းသည် ကိန်းမြဲဖြစ်၏။ တနည်း၊ ဓာတ်ငွေ့၏ အရွယ်ထုသည် ဓာတ်ငွေ့၏ဖိအားနှင့် ပြောင်းပြန် အကြောင်းပြုသည်ဟု ဆိုလိုသည်။

ရောဗတ် ဗွိုင်း ကွယ်လွန်ပြီးနောက်၊ ဓာတုဗေဒနယ်တွင်း၌ သိပ္ပံကဝိများ ဆက်ကာ ဆက်ကာ ထွန်းကားလာကြပြန်လေသည်။ ၁၇၃၁ ခုနှစ်တွင် မွေးဖွားသော ဟင်နရီ ကဗင်းဒစ်နှင့် ၁၇၃၃ ခုနှစ်တွင် မွေးဖွားသော ဂျိုးဇက် ပရီးဆလီတို့သည် တခေတ်တည်းတွင် ကျော်ကြားသော ဓာတုဗေဒ ပညာရှင်ကြီးများ ဖြစ်ကြသည်သာမက၊ ဓာတုဗေဒ တိုးတက်ထွန်းကားအောင် အထူး ဆောင်ရွက်ကြသော ပုဂ္ဂိုလ်များလည်း ဖြစ်ကြပေသည်။ ၁၇၆၆ ခုနှစ်တွင် ကဗင်းဒစ်သည် ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ကို စတင်တွေ့ရှိ၍၊ ၁၇၇၄ ခုနှစ်တွင် ပရီးဆလီက အောက်ဆီဂျင်ဓာတ်ငွေ့ကို စတင်တွေ့ရှိသည်။ အောက်ဆီဂျင်ဓာတ်ငွေ့ကို ပရီးဆလီသည် မာကျူရစ် အောက်ဆိုက်ခေါ် ပြဒါး အောက်ဆိုက်ကို လှော်ရာမှ ရရှိခဲ့လေသည်။ (ကဗင်းဒစ်, အိပ်။ ပရီးဆလီ, ဂျိုးဇက် — လည်းရှု။)

အေဒီ ၁၈ ရာစုနှစ် နောက်ပိုင်းလောက်တွင် ဓာတုဗေဒ ပညာရှင်ကြီးများသည် ဖလော်ဂျစ်စတန် သီအိုရီ (မီးဓာတ်အယူ) ကို အစွဲအလမ်းကြီးကြီးနှင့် ယုံကြည်လာခဲ့လေသည်။ ထိုမီးဓာတ်အယူ၏သဘောမှာ တောက်လောင်တတ်သော ပစ္စည်းဟူသရွေ့တွင် ပြာနှင့် ဖလော်ဂျစ်စတန်ခေါ် မီးဓာတ်ပါရှိရလေသည်။ ထိုပစ္စည်းမျိုး လောင်ကျွမ်းသောအခါ၊ အတွင်းမှ မီးဓာတ်ထွက်သွား၍၊ ပြာသာ ကျန်ရစ်လေသည်။ ကာဗွန် (ကျောက်မီးသွေး)၊ ကန့်တို့ကဲ့သို့ အလွန်လောင်ကျွမ်းလွယ်သော ပစ္စည်းမျိုးတွင် မီးဓာတ်မြောက်မြားစွာ ပါရှိတတ်သည်ဟု ယူဆကြလေသည်။ သို့ရာတွင် ထိုမီးဓာတ်အယူကို ယုံကြည်မှုသည် အန်တွန်း လောရန်း လဗွာစီယေ အမည်ရှိသော သိပ္ပံကဝိတဦး ပေါ်ထွန်းလာသောအခါ၊ ပျောက်ကွယ်သွားလေတော့သည်။

လဗွာစီယေသည် ၁၇၄၃ ခုနှစ်တွင် ပါရစ်မြို့၌ မွေးဖွား၍၊ အလွန်ထင်ရှားကျော်စောသော ပြင်သစ်လူမျိုး ဓာတုဗေဒ ပညာကျော်တဦးဖြစ်သည်။ (လဗွာစီယေ,အေ၊ အယ် — လည်းရှု။) သူသည် အောက်ဆီဂျင်ဓာတ်ငွေ့နှင့် ဖလော်ဂျစ်စတန်မီးဓာတ် ဆက်သွယ်ပုံကို တွေးဆမိခဲ့လေသည်။ လဗွာစီယေသည် အရာဝတ္ထုတို့ လောင်ကျွမ်းသောအခါ၊ ထိုလောင်ကျွမ်းသောအရာသည် ပတ်ဝန်းကျင်လေထဲမှ အောက်ဆီဂျင်ဓာတ်ငွေ့နှင့် ပေါင်းမိပုံကို လက်တွေ့ပြနည်း

အမျိုးမျိုးဖြင့် ပြသခဲ့၏။ ထိုပြင် အကယ်၍ အောက်ဆီဂျင်ဓာတ်ငွေ့ မပါသော လေထဲ၌ မီးရှို့ပါမူ လောင်ကျွမ်းမှု မဖြစ်နိုင်ကြောင်းကိုလည်း၊ ဖော်ပြခဲ့၏။ ဓာတ်အမျိုးမျိုးတို့ ရောနှောပေါင်းစပ်၍၊ ဓာတ်ဖောက်ပြန်မှု ဖြစ်သောအခါ၊ ရောနှောပေါင်းစပ်စဉ်က ပါဝင်ကြသော ဓာတ်အမျိုးမျိုးတို့၏ အလေးချိန်နှင့် ဓာတ်ဖောက်ပြန်ပြီးမှ ဖြစ်လာရသော ပစ္စည်းသစ်တို့၏ အလေးချိန်သည် တိတိကျကျ ညီနေကြောင်းကိုလည်း ဖော်ပြခဲ့လေသည်။ ထိုပုဂ္ဂိုလ်ကြီးမှာ ၁၇၉၄ ခုနှစ်တွင် သူပုန်တို့လက်ချက်ဖြင့် အသက်ဆုံးရှုံးသွားရရှာလေသည်။

နောက်နှစ်များတွင် ဓာတုဗေဒပညာကျော်များ ဆက်ကာ ဆက်ကာ ပေါ်ပေါက်လာသည်။ ဂျိုးဇက် ပရု ဆိုသူ တဦးက ယခုအခါ သိရှိနားလည်နေကြသော ‘ဓာတ်ချိုးမှန် နိယမ’ ကို ဖော်ပြခဲ့၏။ ဂျိုးဇက် ဂေး လူးဆက်နှင့် အားမားသေအို အာဗိုဂါးဒရိုးတို့က ဓာတ်ငွေ့စည်းများကိုင်း၊ ဂျွန် ဒေါ်လတန်က ‘အက်တမ် သီအိုရီ’ ကိုင်းပြဆိုခဲ့ကြ၏။ ၁၈၀၆ ခုနှစ်လောက်တွင် ဆာ ဟမ်ဖရီ ဒေဗီက ဓာတုဒြပ်စင် အမြောက်အမြားကို တွေ့ရှိခဲ့၏။ (ဒေဗီ, ဆာ ဟမ်ဖရီ — လည်းရှု။) ၁၈၂၆ ခုနှစ်တွင် ဆွီဒင်လူမျိုး ယာကွတ် ဗာဇီးလီးယပ်သည် မြောက်မြားစွာသော ဒြပ်ပေါင်းတို့ကို ဓာတ်ခွဲကြည့်ရှုရာမှ အက်တမ်အလေးချိန်များကို ရှာဖွေတွေ့ရှိခဲ့ပြီးလျှင်၊ အက်တမ်အလေးချိန် ဇယားကွက်ကို ပို၍မှန်ကန်အောင် ပြုပြင်ရေးသားနိုင်ခဲ့သည်။ ၁၈၂၈ ခုနှစ်တွင် ဂျာမန်ဓာတုဗေဒကဝိ ဖရက်ဒရစ် ဗူးလာသည် ဩဂဲနစ်ဒြပ်ပေါင်းပစ္စည်းများကို ယူရီးယားမှ ရယူနိုင်ကြောင်း စမ်းသပ်ပြုလုပ်နိုင်ခဲ့သည်။ ၁၈၂၅ ခုနှစ်တွင် မိုက်ကယ် ဖားရဒေးသည် ဗင်ဇင်းခေါ် အရေးကြီးသော ဩဂဲနစ် ဒြပ်ပေါင်းကို တွေ့ရှိခဲ့ပြီးနောက်၊ ၁၈၃၄ ခုနှစ်တွင် လျှပ်စစ် ဓာတုဗေဒစည်းများကို ထုတ်ဖော် ရေးသားနိုင်ခဲ့လေသည်။

## ဒြပ်စင်များ ထပ်မံတွေ့ရှိခြင်း။

၁၉ ရာစုနှစ်သို့ ရောက်လာသောအခါ၊ သိပ္ပံကဝိတို့သည် ဓာတုဗေဒနှင့်ပတ်သက်သော အကြောင်းအရာများကို အတော်ပင် ပြုစုရေးသား ဖော်ပြခဲ့ကြလေပြီ။ ၁၉ ရာစုနှစ် အလယ်လောက်တွင် ဒြပ်စင် ၅၂ မျိုးအနက်၊ ၆၀ မျှလောက်ကို တွေ့ရှိခဲ့ပြီးဖြစ်လေသည်။ ဒြပ်စင်များနှင့်ပတ်သက်၍ လက်တွေ့စမ်းသပ်မှုများလည်း၊ တိုးတက်လျက်ရှိလေသည်။ အချို့သိပ္ပံကဝိများက ဒြပ်စင်တို့၏ ဆင်တူရိုးမှား ရှိကြပုံကိုလည်း တွေ့ရှိလာကြ၏။ ဒိမိထရီ မင်ဒီလေးယက်သည် ၁၈၆၉ ခုနှစ်တွင် ‘ပီရီယောဒစ် ကလပ်စီဖီကေးယှင်း’ ဟု ခေါ်သော ဒြပ်စင်တို့ကို အကွက်ချ၍ မျိုးတူစုနည်းကျမ်းကို စီရင် ထုတ်ဝေနိုင်ခဲ့လေသည်။ ထိုကျမ်းတွင် ဒြပ်စင်တို့၏ အက်တမ်အလေးချိန်ကို ကြီးစဉ် ငယ်လိုက်အတိုင်း စီစဉ်ရေးသားထား၍၊ တဖြည်းဖြည်းတိုးတက်လျက်ရှိသော ဓာတုဗေဒကို များစွာ အထောက်အပံ့ဖြစ်စေလေသည်။ စပက်ထရိုစကုပ်၊ ဗွန်ဆင်မီးတိုင်နှင့် အခြားသိပ္ပံပညာနှင့်ဆိုင်သည့် ကရိယာများကို အသစ်ရှာဖွေ တီထွင်ခဲ့သော ဂျာမန်သိပ္ပံကဝိ ရောဗတ် ဗွန်ဆင်သည်လည်း၊ ဤအချိန်တွင်ပင် ပေါ်ပေါက်ခဲ့၏။ ပြင်သစ်လူမျိုး ဓာတုဗေဒပညာကျော် လူဝီ ပါးစတားသည် ခွေးရူးပြန်ရောဂါ ကုထုံးကျမ်းကို စီရင်ရေးသားခဲ့သည့်အတွက်၊ ကမ္ဘာတွင် ကျော်ကြားလာခဲ့လေသည်။ ပါရစ်မြို့တွင် ၁၈၈၆ ခုနှစ်ကတည်ထောင်ခဲ့သော ‘ပါးစတား အင်စတီကျု’ ခေါ် ခွေးရူးပြန်ရောဂါကုဆေးရုံကြီးသည် သူ၏သုတေသနလုပ်ငန်းများအတွက် များစွာ အထောက်အပံ့ဖြစ်ခဲ့၏။ (ပါးစတား, လူဝီ — လည်းရှု။) ၁၈၈၇ ခုနှစ်တွင် ဆွီဒင်လူမျိုး စဗန်တီ ဩဂတ် အာရေးနီးယပ်ဆိုသူ ဓာတုဗေဒပညာကျော်သည် အက်တမ်တို့ ဖွဲ့စည်းထားသောအခါ၊ လျှပ်စစ်ဓာတ်ကြောင့် အဖွဲ့အစည်း ကွဲပြားသွားရပုံကို ပြသသော နည်းများကို ထပ်မံဖော်ပြပြန်လေသည်။ သူ၏ ‘လျှပ်စစ်ဓာတ်ကြောင့် အဖွဲ့အစည်း ကွဲပြားသွားရခြင်း’ သဘောအယူမှာ၊ ယခုအခါ အားလုံးသိနားလည်ကြသော ရုပ်ပိုင်းဓာတုဗေဒ၏ အခြေခံ အုတ်မြစ်ကြီးပင် ဖြစ်လေသည်။ ၁၉၀၃ ခုနှစ်၌ သူသည် ကမ္ဘာတွင် အလွန်ကျော်ကြား၍ ရခဲသော နိုဗဲဆုကို ချီးမြှင့်ခြင်းခံရလေသည်။

ဒြပ်တို့၏အငွေ့အရည် အခဲအပျစ်များတွင်၊ တခုနှင့်တခု ဆက်စပ်ပုံကို သင်္ချာနည်းဖြင့် ရှင်းလင်းဖော်ပြသော အမေရိကန်လူမျိုး သိပ္ပံကဝိ ဝီးလတ် ဂစ်သည် အမေရိကန် ဓာတုဗေဒနှင့် ရူပဗေဒပညာကျော်များတွင် အထူးကျော်ကြား၍၊ ထိပ်တန်းသို့ ရောက်ခဲ့လေသည်။ ဟားဗတ်တက္ကသိုလ်တွင် ပါမောက္ခဖြစ်ခဲ့ဘူးသော အမေရိကန်သိပ္ပံကဝိ သီအိုဒိုရစ်ချတ်သည် ဒြပ်စင်တို့၏ အက်တမ်အလေးချိန်ကို မှန်ကန်သည်ထက် မှန်ကန်အောင် ထပ်မံစမ်းသပ် ရေးသားခဲ့ခြင်းများကြောင့်၊ ၁၉၁၄ ခုနှစ်တွင် နိုဗဲဆုဖြင့် ချီးမြှင့်ခြင်းခံခဲ့ရလေသည်။ သူသည် အက်တမ် ခန္ဓာအိမ်အကြောင်းနှင့်စပ်လျဉ်းသော ပြဿနာရပ်များကိုလည်း ဖြေရှင်းခဲ့လေသည်။ ၁၈၉၄ ခုနှစ်နှင့် ၁၈၉၈ ခုနှစ်များတွင် ဟီလီယမ်နှင့် အခြား အလားတူ (ဓာတ်ငွေ့ထိုင်း) များကို အင်္ဂလန်ပြည်မှ လော့ရေ်လီနှင့် ဆာ ဝီလီလုံ ရမ္မဆေတို့ ရှာဖွေတွေ့ရှိကြလေသည်။

## ရေဒီယမ်သတ္တု တွေ့ရှိခြင်း။

၁၈၉၅ ခုနှစ်၌ ဂျာမန်လူမျိုး သိပ္ပံပညာကျော် ပါမောက္ခ

ဝီလဟမ်ကွန်းနရက်ရန့်ဂင်းသည် 'အိပ်စရေး' ခေါ် ရောင်ခြည်သစ်တမျိုးကို တွေ့ရှိခဲ့ပြီးသည့်နောက်၊ ၁၈၉၆ ခုနှစ်တွင် အန်တွန်းအန်းရီဗက္ကရယ်သည် ယူရေးနီးယမ်းဒြပ်စင်တွင် ရေဒီယမ်သတ္တိများကို တွေ့ရှိပြန်လေသည်။ ထိုနောက် ၁၈၉၆ ခုနှစ်မှာပင် ဆာဂျေ၊ ဂျေ၊ တွန်မဆင်က အီလက်ထရွန်များကို တွေ့ရှိပြန်၏။ ထိုသိပ္ပံပညာကျော်တို့၏ ရှာဖွေတွေ့ရှိမှုများကြောင့်၊ ရုပ်ပိုင်းဓာတုဗေဒသည် ၁၉ ရာစုကုန်ခါနီးတွင် များစွာတိုးတက်လာလေသည်။

ဤမျှမကသေး၊ အီလက်ထရွန်တို့၏ လှုပ်ရှားပုံများနှင့် အက်တမ်ခန္ဓာအိမ်အကြောင်းများကို အိပ်၊ ဂျီ၊ ဂျေ၊ မိုစလီ၊ မက်စဖွန်လောင်းအား၊ ဖရန်းစစ်ဝီလျံအက်စတန်၊ ဆာဝီလျံဗရက်နှင့် သူ၏သား ဆာဝီလျံလောရင့်ဗရက်စသောပုဂ္ဂိုလ်တို့ကလည်း ပိုမိုထင်ရှားအောင် ထပ်မံ၍ ရှင်းပြပြန်သည်။ ၁၈၉၈ ခုနှစ်တွင် ယူရေးနီးယမ်းထက် အဆပေါင်းများစွာ ရေဒီယမ်သတ္တိရှိသည့် ရေဒီယမ်ဒြပ်စင်ကို ကျူရီဇနီးမောင်နှံတို့ စတင်တွေ့ရှိကြသောကြောင့်၎င်း၊ လော့ရားသားဖို့ အမည်ရှိ နာမည်ကျော် ရူပဗေဒကဝိကြီးကလည်း ရေဒီယမ်သတ္တိများနှင့် အက်တမ်ခန္ဓာအိမ်အကြောင်းများကို ထုတ်ဖော်ရေးသားခဲ့မှုများကြောင့် ၎င်းသိပ္ပံပညာသည် အလွန်တိုးတက်ကြီးပွားလာပြီးလျှင်၊ ဓာတုဗေဒနှင့် ရူပဗေဒပညာရပ်နှစ်မျိုးမှာ တမျိုးနှင့်တမျိုး အလွန်နီးစပ်၍လာတော့၏။

### ဓာတုဗေဒနှင့် ကမ္ဘာ့လူထုအကျိုး။

အမျိုးမျိုးသော ဓာတုဗေဒပညာရပ်များအနက်၊ ကုန်ထုတ်ရေးဓာတုဗေဒသည် ယခုခေတ်တွင် အလွန်တိုးတက်ကြီးပွားလာသည့်အတိုင်း၊ ယခုအခါ ဓာတုဗေဒနှင့်စပ်လျဉ်းသော သုတေသနလုပ်ငန်းများကို စက်မှုလက်မှုရုံကြီးတိုင်းလိုမှာပင် စူးစမ်းရှာဖွေလုပ်ကိုင်နေကြပေပြီ။ ရှေးအခါကမူ ဤကဲ့သို့သော သုတေသနလုပ်ငန်းများကို တက္ကသိုလ်ကျောင်းတော်ကြီးများနှင့် ထူးချွန်သောပုဂ္ဂိုလ်များကသာ ရှာဖွေလုပ်ကိုင်ခဲ့ကြ၏။ သို့သော် စက်မှုလက်မှုရုံကြီးများတွင် ယခုအခါ ကုန်ထုတ်ရေးဓာတုဗေဒဆရာများဟူ၍ထားရှိကြပြီ။ ထိုကုန်ထုတ်ရေးဓာတုဗေဒဆရာများ၏ လုပ်ငန်းမှာ ဓာတုဗေဒသုတေသနများနှင့် ဓာတ်ခွဲမှုများ၌ ကျွမ်းကျင်စွာ လုပ်ကိုင်ရခြင်း၊ စက်မှုလက်မှုရုံကြီးများကို ဆောက်လုပ်ရခြင်း၊ တည်ဆောက်မည့် စက်မှုလက်မှုရုံကြီးများ မည်မျှကြာအောင် တည်တံ့မည်ကို ခန့်မှန်းရခြင်း စသောလုပ်ငန်းဖြစ်လေသည်။ ထိုဓာတုဗေဒဆရာများကြောင့် စက်မှုလက်မှုလုပ်ငန်းများသည် အလွန်တိုးတက်လျက်ရှိပြီးလျှင်၊ အစားထိုးရန် ပစ္စည်းသစ်များနှင့် အသစ်ထွင်မှုများလည်း မကြာခဏပင် ပေါ်ပေါက်လျက်ရှိလေသည်။

သတ္တုရိုင်းများကို ကျိချက်ယူခြင်း၊ ရရှိပြီးသောသတ္တုများကို ချွတ်ခြင်းနှင့် သတ္တုရောအသစ်များကို ပြုလုပ်ယူခြင်းတို့သည် အသုံးချမှုဓာတုဗေဒပညာရပ်များပင်ဖြစ်၏။ ဖန်အမျိုးမျိုး၊ ဓာတ်မီး 'ပလပ်' လုပ်ရန် အသုံးပြုသောကြွေ၊ ရိုးရိုးကြွေ၊ အုတ်ကြွပ်၊ ကြမ်းခင်းအုတ် အစရှိသောပစ္စည်းများသည် ဓာတုဗေဒဆိုင်ရာ သုတေသနလုပ်ငန်းများမှ ထွက်ပေါ်လာသောအရာများ ဖြစ်ကြပေသည်။ အမ်မိုးနီးယား (ဇဝက်သာ) ကို အခြားဒြပ်စင်များမှ ပြုပြင်စီရင်ယူနိုင်၏။ ထိုပြုပြင်စီရင်ယူ၍ရရှိသော ဇဝက်သာများကို မြေဩဇာနှင့် ခဲယမ်းမီးကျောက်လုပ်ငန်းများတွင် များစွာအသုံးပြုကြရလေသည်။ ယခင်က အမ်မိုးနီးယားအတွက် တွင်းထွက်နိုက်ထရိတ်များကိုသာ အားထားနေရသော်လည်း၊ ယခုအခါတွင်မူ အမ်မိုးနီးယားကို ဓာတ်စမ်းခန်းတွင် ပြုပြင်စီရင်သည့်နည်းအတိုင်း ပြုပြင်စီရင်ယူနိုင်ပြီဖြစ်၏။ (သတ္တုစပ်။ အမ်မိုးနီးယား။ ပေါက်ကွဲစရာများ။ မြေဩဇာများ — ရှု။)

ကုန်ထုတ်လုပ်ငန်းများတွင် အမ်မိုးနီးယား၊ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ဆာလဖာဒိုင်အောက်ဆိုက် စသောဓာတ်ငွေ့များကို အအေးဓာတ်ရရှိရန်အတွက် အသုံးပြုကြ၏။ အောက်ဆီဂျင်ဓာတ်ငွေ့ သန့်သန့်ကို ဆေးဝါးအတွက် အသုံးပြုနိုင်သည့်အပြင် အဆက်တီလင်ကဲ့သို့ အခြားဓာတ်ငွေ့နှင့် ရောပြီးလျှင်၊ ဂဟေဆော်သည့်လုပ်ငန်းများ၌ အသုံးပြုနိုင်သေး၏။ ဟိုက်ဒရိုဂျင်ကို တွင်းထွက်ဆီနှင့် အပင်မှရသောဆီများကို ပြုပြင်ရာ၌ အသုံးပြု၏။ အမေရိကန်ပြည်ထောင်စု အနောက်ပိုင်းရှိ ရေနံတွင်းများမှရသော ဟီလီယမ်ဓာတ်ငွေ့သည် အလွန်ပေါ့၍၊ မီးမလောင်နိုင်သောသတ္တိ ရှိခြင်းကြောင့်၊ ဓာတ်အိမ်ပျံနှင့် လေသင်္ဘောများတွင် အသုံးပြုကြ၏။ နီယွန်ဓာတ်ငွေ့ကို လျှပ်စစ်ဓာတ်ဖြင့် ထွန်းရသော နီယွန်မီးလုံးများ ပြုလုပ်ရာ၌ အသုံးပြု၏။ အားဂွန်ဓာတ်ငွေ့ကို လျှပ်စစ်ဓာတ်မီးလုံးတမျိုး ပြုလုပ်ရာ၌ အသုံးပြု၏။ ကလိုရင်းဓာတ်ငွေ့ကိုမူ အရောင်ချွတ်ရာ၌၎င်း၊ ရေကို သန့်ရှင်းစင်ကြယ်စရာ၌၎င်း အသုံးပြုကြ၏။

ဓာတုဗေဒသည် စက်မှုလက်မှုလုပ်ငန်းများတွင်သာမက စားကုန်သောက်ကုန်များကို မပုပ်မသိုးဘဲ တာရှည်ခံအောင် ပြုလုပ်ရာ၌၊ အနံ့အရသာနှင့် ပြည့်စုံစေခြင်း၊ ကျန်းမာရေးနှင့် ညီညွတ်စေခြင်း၊ ရပ်ဝေးတိုင်းပြည်များသို့ အလွယ်တကူ ပို့ဆောင်နိုင်စေရန် စည်သွတ်ခြင်း စသည်တို့တွင် အထူးပင်အသုံးဝင်၏။ ထောပတ်တုပြုလုပ်ခြင်း၊ သကြားချွတ်ခြင်း၊ နို့ဆီချက်ခြင်း၊ အသားများ မပုပ်မသိုးဘဲ တာရှည်ခံအောင် ပြုလုပ်ခြင်း၊ သစ်သီးများကို အခြောက်ခံခြင်းနှင့် တာရှည်ခံအောင် စီမံနိုင်ခြင်း အစရှိသော လုပ်ငန်းများတွင်လည်း ဓာတုဗေဒမပါလျှင် မဖြစ်နိုင်ချေ။

အပင်ကိုယ်ထည်မှ ရသောပစ္စည်းများကို ဓာတုဗေဒနည်းဖြင့်၊ သုတ်ဆေး၊ ယွန်းဆေး၊ အရောင်တင်ဆေး၊ အထည်အလိပ်၊ ကျွဲကော်နှင့် အဆောက်အအုံပစ္စည်းများအတွက် တိုးတက်ပြုလုပ်နိုင်သေး၏။ ခြည်ထည်များကို တောက်ပြောင်ချောမွေ့အောင် လုပ်ကိုင်ခြင်း၊ ပိုးထည်များကို ပိုမိုခိုင်ခံ့အောင် စီမံခြင်းတို့သည်လည်း ဓာတုဗေဒနည်းပင်ဖြစ်၏။ 'ရေယွန်' ခေါ် ပိုးတုပြုလုပ်ခြင်းနှင့် ဩတလီနိုင်ငံတွင် နို့ရည်မှ သိုးမွေးတုပြုလုပ်ခြင်းတို့သည် ဓာတုဗေဒပညာတွင် အကြီးအကျယ် တိုးတက်မှုများပင် ဖြစ်ကြ၏။ (ရေယွန် — ရှု။) ပလပ်စတစ်ပစ္စည်းဖြစ်သော နိုင်လွန်ကို ပြီးခဲ့သော ဒုတိယကမ္ဘာစစ်ကြီးအတွင်းတွင် လေထီးကြိုးများ၊ ဂလိုက်ဒါကြိုးများ လုပ်ရန်အတွက်၊ အသုံး အလွန်များခဲ့လေသည်။ မီးအပူချိန် ဖာရင်ဟိုက် ဒီဂရီ ၁၀၀၀ ထက်ပို၍ခံနိုင်သော အုတ်ဖိုကြီးများကို ဆစ်လီကွန် ဒိုင်အောက်ဆိုက်၊ အလျူမီနီယမ် အောက်ဆိုက်၊ မက်ဂနီဇီယမ် စသော ဓာတ်ပစ္စည်းများဖြင့် ပြုလုပ်၍၊ မီးခံအုတ်၊ မီးခံ အခင်းနှင့် ဖိုများကို ဆစ်လီကွန်ကာဗိုက်ခေါ် ပစ္စည်းဖြင့် ပြုလုပ်ရလေသည်။

### အသုံးချမှုဓာတုဗေဒ၏ တိုးတက်မှုများ။

အသုံးချမှုဓာတုဗေဒသည် တဖြည်းဖြည်း တိုးတက်လာသည့်အလျောက်၊ ယခုအခါ ရာဗာ (ကော်ဖတ်) တုများကို လုပ်ကိုင်လျက်ရှိနေရုံမက၊ ရာဗာအစစ်များကိုပင် ချွတ်ငွင်သုံးစွဲလျက် ရှိနေကြပေပြီ။ (ကော်ဖတ် — ရှု။) ရာဗာ အမာစားဖြင့် ခေါင်းဖြီးဘီး၊ ကြယ်သီး၊ လျှပ်စစ်ဓာတ်မလိုက်သောပစ္စည်း အစရှိသည်တို့ကို လုပ်ကိုင်ကြ၍၊ ရာဗာ အပျော့စားကိုမူ ရေမြှုပ်များ ပြုလုပ်ရာ၌၎င်း၊ ကျွဲကော်ရာဗာမျိုးကို ဓာတ်ဆေးများထည့်သည့် အိုးခွက်များ ပြုလုပ်ရာ၌၎င်း အသုံးပြုကြလေသည်။ တဖန် ကျောက်ဂွမ်း၊ ထုံးကျောက်နှင့် သဲများကို ရောစပ်၍ဖြစ်စေ၊ ဓာတုဗေဒနည်းဖြင့် ပြုပြင်စီမံထားသော သစ်သား၊ အပင်မှရသော အမျိုးမျိုးသော အမျှင်များဖြင့်ဖြစ်စေ၊ အပူမလိုက်သည့်ပစ္စည်းများ၊ အသံလုံသည့်ပစ္စည်းများကိုလည်း ပြုလုပ်ကြ၏။

ဗိုင်လာရေရွှေးအိုးများအတွက်နှင့် အခြားလုပ်ငန်းများအတွက် အသုံးပြုသောရေကို အသုံးချမှုဓာတုဗေဒနည်းဖြင့် သန့်ရှင်းစင်ကြယ်၍ သွက်လာအောင် ပြုပြင်စီမံပေးရ၏။ စက္ကူလုပ်ငန်းတွင်လည်း ဓာတုဗေဒနှင့်သက်ဆိုင်သော သုတေသနလုပ်ငန်းများကြောင့်၊ ကော်နှင့်လုပ်သည့် မိုးကာအဝတ် (ဆဲလိုဖိန်း) များကဲ့သို့ အလင်းပေါက်၍ ရေမဝင်နိုင်သည့် ဆီစိမ် ရောင်စုံစက္ကူမျိုးကိုပင် တိုးတက်လုပ်ကိုင်နိုင်လာကြ၏။ ဖယောင်းအမျိုးမျိုးကို ရေနံမှလုပ်ကိုင်နိုင်သည့်ပြင်၊ အပင်မှရသောဆီနှင့် တိရစ္ဆာန်မှရသော အဆီများကဲ့သို့ အခြားပစ္စည်းများမှလည်း ရယူလုပ်ကိုင်နိုင်၏။ ထိုဖယောင်းများကို မိုးကာ၊ ဖယောင်းတိုင်၊ ခေါင်းလိမ်းဆီနှင့် အခြားအသုံးအဆောင်များအတွက် အသုံးပြုကြ၏။

အသုံးချမှုဓာတုဗေဒတွင် အလွန်အံ့သြဖွယ်ရာကောင်းသော အချက်တခုမှာ သစ်သား၊ ကျောက်မီးသွေးနှင့် ရေနံတို့ကို ပေါင်းတင်၍၊ ဓာတ်ခွဲယူနည်းပင်ဖြစ်သည်။ ယင်းသို့ ဓာတ်ခွဲယူသောအခါ၊ ဆိုးဆေး၊ အနံ့အရသာ၊ ရေမွှေး၊ ခဲယမ်းမီးကျောက်၊ အနံ့အသက်ပျောက်ဆေးနှင့် ကျွဲကော် အစရှိသော ပစ္စည်းမျိုးအမြောက်အမြားကို ရရှိလေသည်။ အပင်မှရသော 'ဗေကလိုက်' ကဲ့သို့သော အဆီအစေးတို့ကို တုပြီးလုပ်ထားသည့် ပစ္စည်းများကိုလည်း၊ ပေါင်းတင်ဓာတ်ခွဲနည်းဖြင့်ပင် ရရှိ၍၊ ထိုပစ္စည်းမျိုးဖြင့် ဓာတ်ပြား၊ ဆေးတံအရိုး၊ လျှပ်စစ်ဓာတ် မလိုက်သောပစ္စည်းနှင့် အခြား ပုံသွင်းပြုလုပ်ရသော ပစ္စည်းပေါင်းမြောက်မြားစွာကို လုပ်ကိုင်ကြ၏။ ကျောက်မီးသွေးမှ ဓာတုဗေဒနည်းအမျိုးမျိုးဖြင့်၊ ဓာတ်ဆီကို ထုတ်ယူနိုင်ပြီးလျှင်၊ သကြားကိုလည်း ချက်ယူနိုင်လေပြီ။

မင်၊ သုတ်ဆေး၊ ဆိုးဆေးနှင့် အရောင်တင်ဆေးများကို စမ်းသပ်ကြည့်ရှုရာ၌၊ 'အာလထရာ ဗိုင်အိုလက်' (ခရမ်းဘေးရောင်ခြည်) ခေါ် ထက်မြက်၍မမြင်နိုင်သော ရောင်ခြည်တမျိုးကို အသုံးပြုရ၏။ ဝိုင်အရက်ကို (ပြဒါး) မီးစွယ်မှထွက်သော ရောင်ခြည်ဖြင့် နှစ်ချီအရက်ဖြစ်အောင် ဖောက်ယူနိုင်သည်။ စိန်ကို အာလထရာ ဗိုင်အိုလက် ရောင်ခြည်ဖြင့် ပြပြီးနောက်၊ စုန်းတောက်သကဲ့သို့ အလင်းရောင်ထွက်ခြင်း ရှိမရှိကို ကြည့်ခြင်းဖြင့်၊ စိန်စစ်သည် မစစ်သည်ကို သိရှိနိုင်လေသည်။

### ဓာတ်ဆေးများနှင့် ဓာတ်စမ်းမှုများ။

ဓာတုဗေဒသည် စက်မှုလက်မှုလုပ်ငန်းများတွင် မည်မျှ အထောက်အပံ့ရ၍၊ မည်မျှ တိုးတက်စေခဲ့သည်ကို အထက်တွင် တွေ့ခဲ့ရလေပြီ။ ထိုပညာသည် စက်မှုလက်မှု လုပ်ငန်းတွင်သာမက၊ အခြားဖက်တွင်လည်း များစွာ တိုးတက်လျက်ရှိရကား၊ အဆိပ်ဓာတ်ငွေ့များပင် ပေါ်ပေါက်လာ၍၊ စစ်ပွဲများတွင် အသုံးပြုကြသောကြောင့်၊ ပိုမို ကြောက်မက်ဖွယ်ကောင်းလာလေသည်။ သို့သော် ထိုပညာကြောင့်၊ ကမ္ဘာ့အရပ်ရပ် လုပ်ငန်းများအပြင်၊ နေရေးထိုင်ရေး စားသောက်ရေးနှင့် ကျန်းမာရေးဖက်တွင်လည်း၊ လူသတ္တဝါတို့အား များစွာ အကျိုးဖြစ်ထွန်းစေသည်မှာ မျက်မြင်ဒိဋ္ဌပင်ဖြစ်၏။ မေ့ဆေး၊ ထုံဆေးနှင့် အခြားဆေးများသည် ဆေးကုသရာ၌၎င်း၊ ခွဲစိတ်ကုသရာ၌၎င်း မနာမကျင်စေရဘဲ၊ အလွယ်တကူနှင့် ရောဂါပျောက်ကင်းအောင် ကုသနိုင်လေသည်။ ထိုဆေးကောင်းများသည် ဓာတုဗေဒ၏ လက်စွမ်း

များဖြစ်ရာ၊ ဆက်လက်၍လည်း ထိုကဲ့သို့သော ဆေးစွမ်းကောင်းများ ပေါ်ထွက်လျက်ရှိ၏။ ဒုတိယကမ္ဘာစစ်ကြီးပြီးသည့်နောက်မှ ထွက်ပေါ်လာကြသော ဆေးစွမ်းကောင်းများအနက် 'ပင်နီဆလင်' ထိုးဆေးသည် ရောဂါအမျိုးမျိုးကိုပင် ကုသနိုင်သဖြင့်၊ ဓာတုဗေဒသည် မည်မျှတိုးတက်ထွန်းကားလာကြောင်းကို သိသာနိုင်ပေသည်။ (မေ့ဆေးထိုးဆေး၊ ဆေးဖက်ဝင်ပစ္စည်း။ ဆေးပေးပညာနှင့် ခွဲစိတ်ပညာ။ ပင်နီဆလင် — လည်းရှု။)

ရာဇဝတ်မှုများ စုံစမ်းထောက်လှမ်းရာ၌လည်း ဓာတုဗေဒပညာသည် များစွာပင် အကူအညီ အထောက်အပံ့ ရပေ၏။ လူတို့၏အစားအသောက်များတွင် အဆိပ် ပါမပါကိုရင်း၊ အစွန်းအကွက်များသည် မည်သည့်အစွန်းအကွက်များ ဖြစ်သည်ကိုရင်း၊ မင်၊ စက္ကူ စသောပစ္စည်းများသည် မည်သည့်အမျိုးအစား ဖြစ်သည်ကိုရင်း ဓာတ်ခွဲကြည့်ခြင်းအားဖြင့်၊ စစ်ဆေးသိရှိနိုင်လေသည်။ လူတို့၏ခန္ဓာကိုယ် အစိတ် အပိုင်း အသီးအသီးတို့၏ လှုပ်ရှားမှု၊ ကျန်းမာမှုနှင့် ရောဂါတို့၏ ဇာစ်မြစ်ကို ထုတ်ဖော်ပြောဆိုနိုင်ခြင်းသည် ဓာတုဗေဒ၏ အစွမ်းပင်ဖြစ်သည်။

ယခုအခါ ကျွန်ုပ်တို့သည် စက်မှုလုပ်ငန်းကြီးများတွင်သာမဟုတ်၊ နေ့စဉ် သာမန်ကိစ္စကလေးများတွင်ပင်၊ ရှေးအခါက မမြင်ဘူး မကြားဘူးခဲ့သော ပစ္စည်းအမြောက်အမြားကို ဓာတုဗေဒပညာကျော်များ၏ ကျေးဇူးကြောင့် အသုံးပြုနိုင်နေကြပေပြီ။ ထိုအချက် မှန်ကန်ကြောင်းကို ခေတ်မှီသော အိမ်တဆောင်ရှိ အိမ်သုံးကရိယာတို့ကို ကြည့်လျှင် သိနိုင်ပေသည်။ အလျူမီနီယမ်၊ ကြွေထည်ပစ္စည်း၊ ပလပ်စတစ်၊ ရေယွန်၊ နိုင်လွန်၊ အက်စပီရင်၊ ဒီ၊ ဒီ၊ တီ၊ အမ် အင် အီ၊ ပယ်လူဒရင်၊ ဗာလကာနိုက်ရာဗာ စသည်တို့မှာ ၁၇၀၀ ပြည့်နှစ်လောက်က မပေါ်ပေါက်ခဲ့သေးသော်လည်း၊ ယခုအခါ၌မူ နေ့စဉ်တွေ့မြင်နေရသော သာမန်ပစ္စည်းတို့အနက် အချို့အဝက်မျှသာ ဖြစ်ပေသည်။

**ဓား၊ ဇွန်းနှင့်ခက်ရင်း။** ။ရှေးကျောက်ခေတ်မှ စတင်၍ ဓားများကို တီထွင်အသုံးပြုခဲ့ကြလေသည်။ ထိုခေတ် ဓားများသည် ယခုခေတ် ဓားများကဲ့သို့မဟုတ်ဘဲ၊ မီးခတ်ကျောက်မှ ပြုလုပ်ထားသော ဓားရွက်များသာ ဖြစ်ကြသည်။ ထိုခေတ်မှစ၍ ဓားများကို တဖြည်းဖြည်းတိုးတက်လုပ်ကိုင်လာခဲ့ကြရာ၊ ယခုခေတ်တွင် အလွန်သပ်ရပ်စွာ လုပ်ကိုင်ထားသော ဓားကောင်း ဓားလှများကို သုံးစွဲနေကြရပေပြီ။ ဓားများသည် အလွန်ရှေးကျသောခေတ်မှ စတင်ပေါ်ပေါက်လာခဲ့သော်လည်း၊ စားပွဲလှီးဓားများ ပေါ်ပေါက်လာသည်မှာကား၊ များစွာမကြာလှသေးချေ။ ဇွန်းများကိုလည်း ဓားများနည်းတူ ရှေးခေတ်မှစ၍ အသုံးပြု



အနောက်နိုင်ငံများတွင် စားသောက်ရာ၌ မရှိမဖြစ်သော ဓား၊ ဇွန်းနှင့် ခက်ရင်း

လာခဲ့ကြလေသည်။ ရှေးအီဂျစ် သင်းချိုင်းဂူများမှရရှိသော သစ်သား၊ ကျောက်၊ ဆင်စွယ်တို့ဖြင့် ပြုလုပ်ထားသည့် ဇွန်းများကို ပြတိုက်ကြီးများတွင် တွေ့မြင်ရတတ်ပေသည်။

ရှေးခေတ်ကလူများသည် ဓားကို ခါးပတ်နှင့် ခြေအိတ်ရှည်ကြီးများတွင်ထည့်ကာ ယူဆောင်သွားလေ့ရှိကြသည်။ ခုတ်စရာ ဖြတ်စရာ ရှိသောအခါမှ ထိုဓားကို အသုံးပြုကြလေသည်။ လွန်ခဲ့သောနှစ်ပေါင်းသုံးရာခန့်က အင်္ဂလန်ပြည်နှင့် အခြားတိုင်းပြည်များရှိလူတို့သည် ခက်ရင်းနှင့် စားပွဲလှီးဓားများကို အစားအစာစားသောက်ရာ၌ အသုံးမပြုခဲ့သေးချေ။ အထူးအဆန်းပစ္စည်းများကဲ့သို့သာ ယူဆခဲ့ကြသည်။ ဓါမလူမျိုးနှင့်ရောမလူမျိုးတို့သည် ဇွန်းများကို ကြေးနီနှင့်သံဖြူ ရောထားသော သတ္တုစပ်ဖြင့်ရင်း၊ ငွေဖြင့်ရင်း ပြုလုပ်ခဲ့ကြလေသည်။ အလယ်ခေတ်လောက်တွင် အရိုးဖြင့်လုပ်ထားသည့် ဇွန်းများ၊ သစ်သားဖြင့်လုပ်ထားသည့် ဇွန်းများ၊ သံဖြူဖြင့်လုပ်ထားသည့် ဇွန်းများ ပေါ်လာကြသည်။ ကြေးငွေကြွယ်ဝသူများသည်ကား ငွေဇွန်းများပြုလုပ်၍ သုံးစွဲကြလေသည်။

ဓားနှင့်ဇွန်းကို အသုံးပြုပြီးသောအခါမှသာလျှင် ခက်ရင်းကို အသုံးပြုခဲ့ကြသည်။ ပဌမဆုံး ခက်ရင်းများကို သံဖြင့်ဖြစ်စေ၊ အရိုးဖြင့်ဖြစ်စေ၊ မာသည့် သစ်သားဖြင့်ဖြစ်စေ

ပြုလုပ်ခဲ့ကြသည်။ ထိုခက်ရင်းများ၌ ခွနှစ်ခွသာ ရှိတတ်သည်။ ခက်ရင်းကို အရှေ့တိုင်းပြည်များတွင် စတင်၍ အသုံးပြုခဲ့သည်ဟု အဆိုရှိလေသည်။ ထိုမှတဆင့် ဗင်းနစ်မြို့သို့ ရောက်ရှိသွားရာ၊ ဗင်းနစ်မြို့မှ ဥရောပတိုက်သို့ ပျံ့နှံ့သွားဟန်တူသည်။ ၁၁ ရာစုနှစ် ဗင်းနစ်မြို့ ပုံပြင်တခုတွင် စားဖွယ်တို့ကို အတုံးလိုက်လှီးဖြတ်၍၊ အသွားနှစ်ခွရှိသော ခက်ရင်းဖြင့် စားသောက်သော ဗင်းနစ်မြို့ဝန်ကတော်အား စည်းစိမ်ယူသူဟု စွပ်စွဲပြောဆိုသည်ကို ဖတ်ရှုရသည်။

ယခုအခါ ဓားနှင့်ခက်ရင်းကို ဥရောပတိုက်၏ ဓလေ့ထုံးစံတို့ကို လက်ခံသောနိုင်ငံအများတွင် သုံးစွဲလျက်ရှိကြသည်။ သို့သော် အရှေ့တိုင်းနိုင်ငံတို့ကား ထိုဓလေ့ကို လက်မခံကြချေ။

**ဓားလွယ်။** ။သေနတ်မပေါ်သေးမီက လူတို့သည် ရန်သူကိုတိုက်ခိုက်ရာ၌၊ ဓားလွယ် စသော ဓားလက်နက်တို့ကို သုံးကြသည်။ ဓားလွယ်ပေါ်လာပုံ ဇာတ်မြစ်မှာ၊ နှောင်းကျောက်ခေတ် အခါကဖြစ်၏။ ထိုစဉ်က လူတို့သည် သမင်တမျိုး၏ ဦးချိုပုံသဏ္ဌာန်ကို အတုယူကာ၊ ကျောက်ဖြင့် ဓားမြှောင်ကဲ့သို့သော ဓားလက်နက်ကို ပြုလုပ်သုံးစွဲကြသည်ဟု ယူဆဖွယ်ရာ အထောက်အထားများ ရှိလေသည်။ ကျောက်ခေတ်မှ ကြေးနီ၊ ကြေးဝါ ခေတ်များသို့ ကူးပြောင်းလာသော်၊ ယင်းဓားလက်နက်များကို ထိုသတ္တုများဖြင့် ပြုလုပ်လာကြသည်။ ခရစ်မပေါ်မီ အနှစ် ၁၀၀၀ မှ ၇၀၀ အတွင်းတွင်၊ ယင်းတို့အစား သံကို အသုံးပြုလာကြသောအခါ၊ ဓားလက်နက်များကို သံဖြင့်ပြုလုပ် သုံးစွဲလာကြကြောင်း တွေ့ရှိရလေသည်။ ထိုစဉ်အခါက ဓား လက်နက်များကို သစ်ရွက်ပုံသော်၎င်း၊ အသွားဖြောင့်သော ရိုးရိုးပုံသော်၎င်း၊ ပြုလုပ်ကြ၏။ သစ်ရွက်ပုံ ဓားလက်နက်မှ ဓားမြှောင်အမျိုးအစား ဆင်းသက်လာသည်ဟု ယူဆနိုင်ပေသည်။

ဓားလွယ်ကဲ့သို့သော လက်နက်မျိုးကို ဓားအရင်းမှ ဆုပ်ကိုင်၍ တိုက်ခိုက်အသုံးပြုရခြင်းကြောင့်၊ ဓားရင်းတွင်ရှိသော ဓားရိုးကို မြဲမြံစွာနှင့် ကြာရှည်စွာ ဆုပ်ကိုင်နိုင်လေအောင် စီမံထားကြရ၏။ လူ့သမိုင်း စတင်သည့်ခေတ်၌ အသွားဖြောင့်နှင့် အသွားကောက် ဓားလွယ်မျိုး သုံးစွဲသည်ကို တွေ့ရှိရသည်။ ထိုဓားမျိုးမှာ အနှောင့်ရှိသည်။ ၁၇ ရာစုနှစ်များတွင် ဥရောပတိုက်၌အသုံးများသော ဓားလွယ်မျိုးကား အသွားနှစ်ဖက်ရှိသော ဓားမျိုးဖြစ်၏။ အာရှတိုက်တွင် ဖြောင့်တန်းသောဓားမျိုးကို မသုံးကြမူ၍၊ ဓားကော့၊ ဓားကောက် စသည်ဖြင့် ငှက်တောင်သဏ္ဌာန်နှင့်တူသော ဓားမျိုးကို သုံးစွဲကြသည်။ ဓားပုံသဏ္ဌာန် အမျိုးမျိုးတွင်၊ အရှေ့တိုင်း ဓားပုံသဏ္ဌာန်များမှာ ထူးခြားသည်။

မာရတ္တပြည်နယ်မှ ဓား၊ ဂေါရခါးလူမျိုးများ ကိုင်ဆောင်သော ဓားကောက်၊ ပသျှူးလူမျိုးတို့၏ အသွားတွန့်သော ဓား ဟူသည်တို့သည် ထူးခြားလှ၏။ မြန်မာတို့တွင် ငှက်ကြီးတောင်ဟုခေါ်သော ဓားလွယ်ပုံသဏ္ဌာန်မှာ ထင်ရှားကျော်ကြားခဲ့၏။ ဓားသွားများ ပုံသဏ္ဌာန် အမျိုးမျိုး အဖုံဖုံ ပြောင်းလဲသည့်နည်းတူ ဓားရိုးများပြုလုပ်ပုံလည်း ပြောင်းလဲလာလေသည်။ နောင်အခါတွင် ဓားရိုးများကိုလှပစေရန် အမျိုးမျိုး ခြယ်လှယ်လာကြ၏။

မူလက ဓားပုံသဏ္ဌာန်မှာ သစ်ဝါးများ ခုတ်ဖြတ်ရန်ဖြစ်၍၊ တုံးဝိုင်းသော ပုံသဏ္ဌာန်ဖြစ်၏။ စစ်တိုက်ရာ၌အသုံးပြုရန် အလို့ငှာ တဖြည်းဖြည်း တိုးတက်ကောင်းမွန်လာအောင် ပြုပြင်လာကြရာ၊ နှောင်းခေတ်များတွင် ပါးလွှာချွန်မြသော ဓားလွယ်များ ပေါ်ပေါက်လာလေသည်။

လူ့သမိုင်းကို ပြန်ကြည့်သည့်အခါ၊ ထိုခေတ်များက တိုးတက်ကောင်းမွန်သော ဓားလွယ်များကို ကိုင်ဆောင်သူများက၊ ထိုစဉ်က ခေတ်မမီသောဓားများ ကိုင်ဆောင်သူတို့အား နှိမ်နင်းစိုးမိုးနိုင်သည်ကို တွေ့ရလေသည်။ ပမာဆိုသော် ပေါ့ပါးထက်မြသောဓားများကို ကိုင်ဆောင်သူ ရောမများသည် လေးလံတိုဝိုင်းသောဓားများကို ကိုင်ဆောင်သူ ဥရောပမြောက်ပိုင်းမှ လူရိုင်းများကို နှိမ်နင်းလိုက်ကြောင်း တွေ့ရသည်။

သိုးဆောင်းတို့၏ အလယ်သမိုင်းခေတ်အခါက၊ ဥရောပတိုက်တွင် အရပ်သားတိုင်း ဓားရှည်များကို ကိုင်ဆောင်တတ်ကြသည်။ ခိုက်ရန်ဖြစ်ပွားသည့်အခါ၊ နှစ်ယောက်ချင်း ဓားချင်းယှဉ်၍ တိုက်ခိုက်ခြင်းဖြင့် မိမိတို့၏ကိစ္စကို ဖြေရှင်းလေ့ရှိကြသည်။ ထိုခေတ်အခါများက အရှေ့တိုင်းများတွင်လည်း၊ ဓားရေး လှံရေးအတတ်သည် ယောကျ်ားကောင်းတို့၏ တတ်မြောက်အပ်သော ပညာတရပ်ဖြစ်လေသည်။ ထို့ကြောင့် သူရသတ္တိကိုပြနိုင်သော ဓားလက်နက်ကို ကိုယ်၌စွဲကိုင်ဆင်ယင်ရခြင်းသည် ဂုဏ်ကျက်သရေတမျိုးဖြစ်သည်ဟု တန်ဖိုးထားကြလေသည်။ သူရသတ္တိကို လေးစားသော သူရဲကောင်းခေတ်က၊ ဓားရှည်ကိုင်ဆောင်ခြင်းသည် များစွာ အရေးပါ အရာရောက်လေသည်။ သိုးဆောင်းတို့တွင် သူရဲကောင်းတဦးအဖြစ်ဖြင့် သူကောင်းပြုသော အခမ်းအနားများတွင်၊ သူကောင်းပြုလိုသူသည် သူကောင်းပြုခြင်းခံရသူ၏ ပခုံးနှစ်ဖက်နှင့်ဇက်ပေါ် သို့ ဓားပြားဖြင့် တချက်စီ တို့ပေးရလေသည်။ သိုးဆောင်းတို့တွင် ဓားနှင့်စပ်လျဉ်းသည့် ထုံးတမ်းဓလေ့များကား ဤသို့တည်း။ ဘုရင်၏သစ္စာတော်ခံတို့သည် မိမိတို့၏ဓားကိုနမ်း၍၊ သစ္စာတော်ခံကြောင်း ပြရလေသည်။ စစ်ဖက်တွင် စစ်သားများသည် ဓားကို လက်နှစ်ဖက်ဖြင့်ကိုင်မ၍၊ ကျမ်းသစ္စာကျိန်ဆိုရ၏။ မိမိ၏ဓားရှည်ကို ပေးအပ်ရသောဗိုလ်ချုပ်



မန္တလေးနန်းသုံးဓား

သည် တိုက်ပွဲတွင် အညှံ့ခံရသူဖြစ်လေသည်။ သစ္စာဖောက်ခြင်း၊ သူရဲဘောနည်းခြင်းဟူသည့် စစ်ဖက်ဆိုင်ရာ ကြီးလေးသောပြစ်မှုများကို ကျူးလွန်သူများအား အပြစ်ပေးရာတွင်၊ ထိုသူတို့၏ဓားရှည်များကို ဆိုင်ရာအထက်အရာရှိကြီးများက ချိုးပစ်ရခြင်းမှာ ရှုတ်ချသည့်အပြုအမူ ဖြစ်လေသည်။

သူရသတ္တိကို လေးစားသောခေတ်က၊ ဓားလုပ်ငန်းသည် အလွန်တရာ ဂုဏ်ရှိလေသည်။ ထိုခေတ်က စစ်တိုက်သူတို့၏ အားထားရာလက်နက်ဖြစ်သော ဓားသည် သူရသတ္တိနှင့်ဆိုင်ရာများတွင် မည်ကဲ့သို့ အရေးအရာရောက်စွာ ပါဝင်ခဲ့ကြောင်းများကို ဖေါ်ပြသည့်၊ အကြောင်းအရာ အဖြစ် အပျက် ရှေးဟောင်းပုံပြင်ပေါင်း မြောက်မြားစွာ ရှိခဲ့သည်။ ယခုခေတ်တွင်ကား ဓားလွယ်ကို တိုက်ပွဲတွင် အသုံးပြုခြင်း မရှိချေ။ လုံ့စွပ်ခေါ် သေနတ်ထိပ်ဖျားတွင် ဓားမြှောင်ကဲ့သို့ ချွန်ထက်သော ဓားသွားများကိုသာ အသုံးပြုကြ၏။ ယခုခေတ် စစ်ဖက်ဆိုင်ရာ အထက်တန်းအရာရှိကြီးများမူကား မိမိတို့၏ ရာထူးအလိုက် ဝတ်စုံများကို ဝတ်ဆင်သည့် အခါတွင် သူရသတ္တိကိုပြသော ဓားလွယ်ကြီးများကို ကျက်သရေဆောင်အလို့ငှာ ဆင်ယင်ကြသေးသည်။

မြန်မာ့သမိုင်းတွင် ကျော်ကြားသောဓားများ ရှိကြသည်။ ယင်းတို့အနက် 'ယိမ်းနွဲ့ပါး' ဟူသော နန်းစဉ်ဓားကား မြန်မာ့သမိုင်း၌အကျော်ကြားဆုံးဖြစ်သည်။ အင်းဝတွင် သိုဟန်ဘွားကို မင်းကြီးရန်နောင် သုတ်သင်စဉ်က၊ ဤ 'ယိမ်းနွဲ့ပါး' နန်းစဉ်ဓားကို အသုံးပြုသည်ဟု အဆိုရှိသည်။ ထိုပြင် မြန်မာဝင်းမှူးများသည် အထိမ်းအမှတ်ရှိသော ဓားများကို ကိုင်ဆောင်ရ၏။ အရှေ့ဝင်းမှူး ကိုင်ဆောင်ရသော ဓားသည် 'မှန်ကူ' ဟု အမည်ရှိ၏။ 'ခိုနန်း' ဟူသော ဓားကား လကျ်ာဝင်းမှူး ကိုင်ဆောင်ရသော ဓားဖြစ်၏။ အနောက်ဝင်းမှူး၏ဓားကား 'စက်ဝန်း' ဟူသော ဘွဲ့မည်ရှိ၏။ လက်ဝဲဝင်းမှူး ကိုင်ဆောင်ရသော ဓားကား 'ပုံနန်း' မည်၏။

သက္ကရာဇ် ၁၂၄၇ ခု တန်ဆောင်မုန်းလပြည့်ကျော် ၇ ရက်နေ့၌ သီပေါဘုရင်နှင့် မိဖုရားခေါင်ကြီးတို့သည် ဗိုလ်ချုပ်ပရင်ဒါဂတ် စသော အင်္ဂလိပ်အရာရှိတို့ကို တွေ့ဆုံသော အခါ၊ မိဖုရားခေါင်ကြီးသည် 'နန်းသူ့ဆံမြိတ်' နန်းစဉ်ဓားကို ကိုင်ဆောင်လျက် အတွေ့ခံကြောင်း စကားစဉ်ရှိသည်။ မြန်မာတို့သည် ဓားကောင်းများကို သူရဲကောင်းများနည်းတူ အမည်ပေးကာ အစဉ်အလာ အကြောင်းအရာများဖြင့် မှတ်တမ်းတင်ထားလေ့ရှိသည်။ မြန်မာမင်းများသည် မှူးမတ်သေနာပတိ၊ အရာရှိ အရာခံတို့အား မိမိတို့ကိုယ်စား အုပ်ချုပ်ရန် အာဏာလွှဲပြောင်းပေးသောအခါ၌၊ ဓားကို အာဏာ၏ အထိမ်းအမှတ် ကိုယ်စားသဘောမျိုးဖြင့်

# ဓားလွယ်



မန္တလေးနန်းတော်မှ မင်းမြောက်တန်ဆာငါးပါးဝင် ဓားသံလျက်

လွှဲပြောင်းပေးအပ်၏။ သို့ဖြင့် ရိုးတလုံး ဓားတစင်းဟူသော ဆိုရိုးစကား ဖြစ်ပေါ်လာလေသည်။

မြန်မာဓားများကို ပုံသဏ္ဌာန်လိုက်၍ အမျိုးအစား ခွဲခြားခေါ်ဝေါ်ကြသည်။ ငှက်ကြီးတောင်ဓား၊ လေးကင်းဓား၊ စလွယ်ဖူးဓား စသည်တို့ဖြစ်သည်။ ပခုံးတွင်သော်၎င်း၊ ခါးတွင်သော်၎င်း၊ သိုင်းလွယ်ရသောဓားများကို ဓားလွယ်ဟုခေါ်၏။ ဓားအိမ်ထဲတွင်မရှိဘဲ ဓားအိမ်နှင့်လွတ်နေသောဓားကို ဓားလွတ်ဟုခေါ်သည်။ ခါးပုံတွင်၎င်း၊ လက်ထဲတွင်၎င်း၊ ကပ်မြှောင်ထားနိုင်သောဓားကို ဓားမြှောင်ဟုခေါ်ကြပြန်သည်။ ဓားရှည်ကား ဓားမြှောင်နှင့်ခြားနားရန် အလျားရှည်သောဓားကို ခေါ်ဝေါ်ခြင်းမျှသာဖြစ်သည်။

**ဓာတ်ကြယ်**။ ။နက္ခတ္တဗေဒ — ရှု။

**ဓာတ်ကူ**။ ။ကက်တလစ် — ရှု။

**ဓာတ်ကြီးလေးပါး**။ ။ဓာတ်ဟူသည်ကား မိမိတို့ဆိုင်ရာ ဆိုင်ရာ သဘောကို ဆောင်တတ်သောကြောင့် ဓာတ်ဟုခေါ်သည်။ ဤ၌ မိမိတို့ဆိုင်ရာ ဆိုင်ရာ သဘော တည်ရှိနေသည်ကိုပင် ဆောင်တတ်သည်ဟု ဆိုလိုသည်။ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော ဟူ၍ ဓာတ်ကြီးလေးပါးရှိသည်။ ထိုဓာတ်ကြီးလေးပါးကို မြန်မာလို မြေဓာတ်၊ ရေဓာတ်၊ မီးဓာတ်၊ လေဓာတ် ဟူ၍ခေါ်၏။ ထို့ပြင် ဓာတ်ကြီးလေးပါးကို ပါဠိဝေါဟာရဖြင့် မဟာဘူတဟူ၍လည်း ခေါ်သည်။ အဓိပ္ပါယ်မှာ ကြီးမားထင်ရှားစွာ ဖြစ်တတ်သည်ဟု ဆိုလိုသည်။ သက်ရှိသက်မဲ့ အရာဝတ္ထုတို့၏ အရွယ် အစားစားအားဖြင့် ကြီးမားထင်ရှားစွာ ဖြစ်တည်နေမှုတို့သည် ဓာတ်ကြီးလေးပါးခေါ် မဟာဘုတ်တို့၏ စွမ်းရည်သတ္တိများ ဖြစ်ကြသည်။

ဓာတ်ကြီးလေးပါးတွင် မြေဓာတ်သည် ပညတ်ပရမတ် အားဖြင့် နှစ်ပါးရှိသည်။ ပရမာဏုမှုမှုစ၍ မြင့်မိုရ်တောင်စသည်တိုင်အောင် အစိုင်အခဲရှိနေသော ဝတ္ထုမျိုးသည် ပညတ်ဖြစ်သော မြေဓာတ်မည်၏။ ခက်မာခြင်း အမူအရာ သက်သက်မျှသည်၎င်း၊ နူးညံ့ပျော့ပြောင်းခြင်း အမူအရာ သက်သက်မျှသည်၎င်း၊ ပရမတ်ဖြစ်သော မြေဓာတ်မည်၏။

ရေဓာတ်သည်လည်း ပညတ်ပရမတ် အားဖြင့် နှစ်ပါးရှိသည်။ ရေဟူ၍ သမုတ်အပ်သော၊ ရေတွင်းရေကန်တို့၌တည်ရှိသော အရည် (ဒြပ) ဝတ္ထုသည် ပညတ်ဖြစ်သော ရေဓာတ်မည်၏။ အတူတကွဖြစ်သော ရုပ်တို့ကို တဖျင့်တပါး မလွင့်ပါးရအောင် ဖွဲ့စည်းခြင်းလက္ခဏာရှိသော သဘော သက်သက်သည်၎င်း၊ ယိုစီးခြင်း လက္ခဏာရှိသော သဘော သက်သက်သည်၎င်း၊ ပရမတ်ဖြစ်သော ရေဓာတ်မည်၏။

မီးဓာတ်သည်လည်း ပညတ်ပရမတ် အားဖြင့် နှစ်ပါးရှိသည်။ မီးဟူ၍ သမုတ်အပ်သော မီးတောက် မီးလျှံ မီးခဲသည် ပညတ်ဖြစ်သော မီးဓာတ်မည်၏။ ပူခြင်းသဘောသည်၎င်း၊ အေးခြင်းသဘောသည်၎င်း၊ ပရမတ်ဖြစ်သော မီးဓာတ်မည်၏။

လေဓာတ်သည်လည်း ပညတ်ပရမတ် အားဖြင့် နှစ်ပါးရှိသည်။ လေဟူ၍ သမုတ်အပ်သော လေပြေ၊ လေညှင်း၊ လေမုန်တိုင်း စသည်တို့သည် ပညတ်ဖြစ်သော လေဓာတ်မည်၏။ အတူတကွဖြစ်သော ရုပ်တို့ကို မပြိုမကျရအောင် ထောက်ကန်ခြင်းလက္ခဏာရှိသော သဘောသက်သက်သည်၎င်း၊ ဖောင်းကြွ၊ လှုပ်ရှား၊ တွန်းငွေ့၊ လွင့်ပါးခြင်း လက္ခဏာရှိသော သဘောတရားသက်သက်သည်၎င်း၊ ပရမတ်ဖြစ်သော လေဓာတ်မည်၏။

ဖော်ပြခဲ့ပြီးသော ဓာတ်ကြီးလေးပါးတို့သည် အစဉ်အတိုင်း ခက်မာခြင်း၊ ယိုစီးခြင်း၊ ပူနွေးခြင်း၊ ထောက်ပံ့ခြင်း လက္ခဏာ ရှိကုန်၏။ တည်ရာဖြစ်ခြင်း၊ ပွားစေခြင်း၊ ရင့်ကျက်စေခြင်း၊ ရွေ့စေခြင်း ကိစ္စ ရှိကုန်၏။ ခံထားခြင်း၊ ပေါင်းစုခြင်း၊ နူးညံ့သည်ကိုပေးခြင်း၊ ရွေးရှုဆောင်ခြင်းလျှင် ထင်သော အခြင်းအရာ ရှိကုန်၏။ ဓာတ်ကြီးတပါးကိုယူ၍ ခိုက် ကျန်သုံးပါးလျှင် နီးစွာသော အကြောင်း ရှိကုန်၏။

**ဓာတ်ငွေ့**။ ။ကျွန်ုပ်တို့ပတ်ဝန်းကျင်တွင်ရှိကြသော ဒြပ်အသီးသီးသည် အမျိုးမျိုး ကွဲပြားခြားနားလျက် ရှိကြသော်လည်း၊ စင်စစ်အားဖြင့် အငွေ့၊ အရည်၊ အခဲဟူသော အခြေအနေ သုံးမျိုးသုံးစားဖြင့်သာ တည်ရှိနိုင်ကြလေသည်။ ဒြပ်တခုခုသည် ဓာတ်ငွေ့အဖြစ်၌ဖြစ်စေ၊ အရည်အဖြစ်၌ဖြစ်စေ၊ အခဲအဖြစ်၌ဖြစ်စေ၊ မိမိ၏ မော်လီကျူးအချင်းချင်း ဆွဲယူထိန်းသိမ်းထားသော အားနှင့် လှုပ်ရှားရွေ့သွားသော အားတို့ပေါ်တွင် အကြောင်းပြု၍ တည်နေခြင်းသာ ဖြစ်လေသည်။

ဓာတ်ငွေ့တွင် မော်လီကျူးတို့၏ လှုပ်ရှားရွေ့သွားသော အားသည် ယင်းတို့အချင်းချင်း ဆွဲငင်ထားသောအားထက် သာ၍ ကြီးမားသောကြောင့် ထိုမော်လီကျူးတို့သည် လွတ်လပ်စွာ အရပ်ရပ်သို့ အဆီးအတားမရှိ ပျံ့နှံ့သွားလာနိုင်ကြသည်။ ဓာတ်ငွေ့ကို ကျုံ့စေလိုသလောက် ချုံ့နိုင်၍၊ နေရာရှိသလောက်လည်း ပျံ့နှံ့စေနိုင်သည်။ ထို့ကြောင့် ဓာတ်ငွေ့သည်၊ အရည်နှင့်အခဲတို့မှာကဲ့သို့ အရွယ်ပမာဏလည်း မရှိ၊ ပုံသဏ္ဌာန်အတိအကျလည်း မရှိ၊ နေရာအနှံ့အပြားပျံ့လွင့်လျက်သာ တည်ရှိလေသည်။ ဗူးတခုခုတွင် ဓာတ်ငွေ့အနည်းငယ်မျှကိုသာ ထည့်ထားသော်လည်း၊ တခဏချင်းပင် တဗူးလုံး ဓာတ်ငွေ့ဖြင့် ပြည့်သွားတော့၏။ ဓာတ်ငွေ့တွင် မော်လီကျူးတို့၏ လှုပ်ရှားရွေ့သွားပုံမှာ တဖြောင့်

တည်း သွားနေကြပြီးလျှင်၊ အချင်းချင်းလည်း တိုက်မိခိုက်မိ နေကြပေသည်။ ထိုအပြင် ထည့်ထားသော ဗူး၏နံရံ၊ အခန်းနံရံတို့နှင့်တိုက်မိပြီးနောက်တွင်လည်း တဖန် လှုပ်ရှား ရွေ့သွားမြဲ ရွေ့သွားနေကြပြန်လေသည်။

ကျွန်ုပ်တို့ရှူရှိုက်လျက်ရှိသောလေသည် လူသိအများဆုံး ဖြစ်သည့် ဓာတ်ငွေ့ပင်ဖြစ်သည်။ သို့သော် လေသည် တမျိုး တည်းသန့်သန့်ဖြစ်သော ဓာတ်ငွေ့မဟုတ်ချေ။ လေထဲ၌ အရွယ်ထုအားဖြင့် နိုက်ထရိုဂျင်ဓာတ်ငွေ့ ၇၈ ရာခိုင်နှုန်း၊ အောက်ဆီဂျင်ဓာတ်ငွေ့ ၂၁ ရာခိုင်နှုန်း၊ အားဂွန်နှင့် ယင်း အစုတွင်ပါဝင်သောဓာတ်ငွေ့ ၁ ရာခိုင်နှုန်း၊ ကာဗွန်ဒိုင် အောက်ဆိုက်ဓာတ်ငွေ့ ၀.၀၃ မှ ၀.၀၄ ရာခိုင်နှုန်းရှိ၍၊ ယင်းတို့အပြင် အညစ်အကြေးများလည်း ပါဝင်လျက်ရှိ သည်။ များစွာသော ဓာတ်ငွေ့တို့သည် အနံ့အရသာကင်း၍ မျက်စိဖြင့် မမြင်နိုင်ချေ။ ယင်းတို့၏ အကျိုးသတ္တိကြောင့် သာ ဓာတ်ငွေ့များရှိကြောင်း သိရလေသည်။

ဓာတ်ငွေ့သည် တမျိုးနှင့်တမျိုး အလွန်ရောစပ်လွယ်၏။ ဓာတ်ငွေ့များအကြားတွင် အမြေးပါးကလေးကိုဖြစ်စေ၊ အ ရောင်မတင်ရသေးသော ကြွေထည်ပြားကိုဖြစ်စေ ကြားခံ ထားသည့်တိုင်အောင်၊ တဖက်တချက်တွင်ရှိသော ဓာတ် ငွေ့တို့သည် အမြေးပါး သို့မဟုတ် ကြွေထည်ပြားမှ စိမ့်ထွက် ပြီးလျှင် တမျိုးနှင့်တမျိုး ရောစပ်နိုင်ကြသည်။ ကမ္ဘာ့ဆွဲ အားမှ ရုန်းထွက်လွန်မြောက်၍လည်း တမျိုးနှင့်တမျိုး ရော စပ်နိုင်ကြသည်။ ဓာတ်ငွေ့အများပင် ရေတွင်ပျော်ဝင်လွယ် ကြသည်။ ပမာအားဖြင့် အမ်မိုးနီးယားနှင့် ကာဗွန် ဒိုင် အောက်ဆိုက် ဓာတ်ငွေ့တို့သည် ရေတွင် လွယ်ကူစွာ ပျော် ဝင်ကြ၏။ လေလည်း ရေတွင် အသင့်အတင့် ပျော်ဝင်နိုင် ပေရာ၊ ထိုသို့ပျော်ဝင်သည့်အတွက်ကြောင့်ပင် ရေသတ္တဝါ ဖြစ်သောငါးတို့သည် ရေမှ လိုအပ်သောအောက်ဆီဂျင်ကို ရကြလေသည်။

သာမန်အားဖြင့် အရည်အဖြစ်နှင့်ရှိကြသော ရေ၊ အယ် လကိုဟော၊ ဓာတ်ဆီ၊ စသည်တို့၏ ဓာတ်ငွေ့အဖြစ်ကို အခိုး အငွေ့ဟု အများအားဖြင့် ခေါ်ကြ၏။ စင်စစ်ကား အောက်ဆီဂျင်ကဲ့သို့သော ဓာတ်ငွေ့နှင့် ရေခိုးရေငွေ့တို့သည် တခုနှင့်တခု ရုပ်အားဖြင့် ခြားနားခြင်း မရှိချေ။

အရွယ်ထုချင်း တူညီလျှင် ဓာတ်ငွေ့တို့သည် အရည်နှင့် အခဲတို့ထက် များစွာပေါ့သည်။ ရေနှင့်လေ တူညီသော အရွယ်ထုပမာဏချင်း ယှဉ်လိုက်လျှင်၊ ရေသည် လေထက် အဆပေါင်း ၈၀၀ မျှလေးသည်။ ဤသဘောအတိုင်း၊ ပမာဏချင်းတူခဲ့လျှင်၊ လေသည် ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ထက် ၁၄ ဆကျော်ကျော်မျှ လေးသည်။

**ဓာတ်ငွေ့စစ်ပွဲ။** ။ပဌမကမ္ဘာစစ်ကြီး မဖြစ်ပွားမီကပင် ကြိုတင်၍၊ တနေ့နေ့တွင် ကမ္ဘာစစ်ကြီး အမှန်ဖြစ်လိမ့်မည် ဟု ပညာရှိအများက ယုံကြည်ခဲ့ကြလေသည်။ ယုံကြည် လာခဲ့သည့်အလျောက်၊ အကယ်၍ ကမ္ဘာစစ်ကြီးဖြစ်ပွား ခဲ့သော်၊ စစ်သားနှင့်တကွ မြို့သူမြို့သား အများအပြားကို သေစေနိုင်သည့် အဆိပ်ဓာတ်ငွေ့ကို စစ်ပွဲတွင် မည်သည့် တိုင်းပြည်ကမှ အသုံးမပြုကြရန်ဟူ၍၊ ၁၉၀၇ ခုနှစ်၌ ကျင်းပ သည့် ဟိတ်မြို့ အစည်းအရုံးကြီးက ဆုံးဖြတ်ချက် ချခဲ့လေ သည်။ ယင်းဆုံးဖြတ်ချက် ရှိသော်လည်း၊ ၁၉၁၄ ခုနှစ် ကမ္ဘာစစ်ပွဲ ဖြစ်ပွားလာသော အခါ၊ ဂျာမန်လူမျိုးတို့သည် ထို ဆုံးဖြတ်ချက်ကို ဖောက်ဖျက်၍၊ ၁၉၁၅ ခုနှစ် ယေပါခေါ် အီးပရား မြို့၌ ကလိုရင်းဓာတ်ငွေ့ကို စတင် အသုံးပြုခဲ့ကြလေသည်။ အဆိပ် ဓာတ်ငွေ့သည် အလွန် ကြောက် မက်ဖွယ်ကောင်း၍၊ ခေတ်သစ် စစ်မက်ရေးရာတွင် အလွန်အရေး ပါသော လက်နက်တခုဖြစ်သည်။


အဆိပ်ဘေးဒါဏ်မှကာကွယ်ရန် ဤသို့ ဓာတ်ငွေ့ကာ မျက်နှာဖုံးများတပ်ဆင်ထားရသည်။

အဆိပ်ဓာတ်ငွေ့တွင်ပါသော ဓာတ်ငွေ့များမှာ ပြင်းထန်သော ကလိုရင်းဓာတ်ငွေ့၊ ဒိုင်ဖီနိုင် က လိုရို အာဆင်းဓာတ်ငွေ့၊ ဒိုင်ဖော့ စဂျင်းခေါ် ထရိုင်ကလိုရို မက်သဲ ကလိုရို ဖော်မိတ် ဓာတ်ငွေ့၊ ဖော့ စဂျင်းခေါ် ကာဗွန်နိုင်ကလိုရိုက်

ဓာတ်ငွေ့တို့ ဖြစ်ကြသည်။ ဖော့စဂျင်းဓာတ်ငွေ့သည် မည်မျှ ပြင်းထန်၍၊ မည်မျှ ကြောက်မက်ဖွယ်ကောင်းသနည်းဟူမူ၊ လေအပုံပေါင်း ၁၀,၀၀၀ တွင် ထိုဓာတ်ငွေ့ တပုံမျှသာပါဝင်လျှင် လူသေနိုင်လောက်သည်။ အချို့သောဓာတ်ငွေ့သည် အဆုတ်ကို ဥပဒ်ပေး၍၊ လူကို မြောမေ့သွားစေနိုင်သည်။ အချို့ဓာတ်ငွေ့သည် အကြောများကို သေစေ၍၊ အချို့ဓာတ်ငွေ့များသည်ကား လူကို အော့အန်စေနိုင်သည်။ အခြားဓာတ်ငွေ့တမျိုးမှာ အသားကို လောင်ကျွမ်းစေနိုင်သည်။

အဆိပ်ဓာတ်ငွေ့များဖြင့် တိုက်ခိုက်ခြင်းမှ ကာကွယ်နိုင်စေရန် ရှေ့တန်းစစ်မျက်နှာရှိ ကျင်းများတွင် နေကြရသည့် စစ်သားများနှင့် မြို့ကြီးပြကြီးများရှိလူများကို ဓာတ်ငွေ့ကာမျက်နှာဖုံးများ တပ်ဆင်ပေးထားရလေသည်။ ဓာတ်ငွေ့ကာ မျက်နှာဖုံး နှစ်မျိုးနှစ်စားရှိသည်။ တမျိုးမှာ ခေါင်းပေါ်၌ အိတ်တလုံးရှိ၍၊ ကျန်တမျိုးမှာ ရင်ပတ်ပေါ်တွင် သေတ္တာတလုံးကို လွယ်ထားရသည်။ အသက်ရှူရန် ထိုသေတ္တာတွင် ဆင်နှာမောင်းငယ်ကဲ့သို့ ပြွန်တခု တပ်ထားသည်။ ထိုကရိယာများတွင် ဓာတ်ငွေ့များကို ပြယ်စေသည့် ဓာတ်ပစ္စည်းသော်၎င်း၊ မီးသွေးသော်၎င်း ထည့်ထားသည်။

ဗာဆေးမြို့ စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ရာတွင် အဆိပ်ဓာတ်ငွေ့များကို အသုံးပြုခြင်းသည် အပြည်ပြည်ဆိုင်ရာ ဥပဒေနှင့် များစွာဆန့်ကျင်သည်ဟုယူဆကြောင်း မှတ်တမ်းတင်ခဲ့ကြ၏။ ထိုမှတ်တမ်းကို ၁၉၂၂ ခုနှစ်၌ ဝါရှင်တန် ညီလာခံတွင် အတည်ပြုခဲ့ကြလေသည်။ သို့ရာတွင် အကယ်စစ်ဖြစ်လာသောအခါများတွင် ထိုဆုံးဖြတ်ချက်များကို မရိုသေ မလေးစားသည့် တိုင်းပြည်များ ရှိသည်ကို တွေ့ရသည်။ ထို့ကြောင့် စစ်ဖြစ်ပွားလာလျှင်၊ အတိုင်းတိုင်း အပြည်ပြည်တို့သည် ဓာတ်ငွေ့၏ဘေးအန္တရာယ်ကို ကာကွယ်နိုင်ကြစေရန် ကြိုတင်၍ ဓာတ်ငွေ့ကာ မျက်နှာဖုံးများကို အရေးတကြီး ပြုလုပ်ကြရသည်။ လေယာဉ်ပျံများကိုလည်း အမြောက်အမြား ပြုလုပ်နိုင်ကြပြီဖြစ်၍၊ မြို့ပြများပေါ်၌ ဓာတ်ငွေ့ဗုံးများ ကြဲချမည်ကို ကာကွယ်နိုင်ရန်လည်း စီမံကြရသည်။

# ဓာတ်ငွေ့မျိုးစုံ၊ အသုံးဝင်ပုံ

**ယခုခေတ်တွင် လျှပ်စစ်ဓာတ်မီးများပေါ်ပေါက်လာသဖြင့်၊ ဓာတ်ငွေ့ကို မီးထွန်းရန်အတွက် အသုံးနည်းပါးလာခဲ့သော်လည်း၊ မြို့ကြီးပြကြီးများရှိ အိမ်များတွင် အစားအသောက်ချက်ပြုတ်ရာ၌ ဓာတ်ငွေ့မီးဖိုများကို အသုံးပြုကြလေသည်။ ဤဆောင်းပါးတွင် ဓာတ်ငွေ့ဖြစ်ပေါ်လာခြင်း အကြောင်းရင်းနှင့် ဓာတ်ငွေ့အသုံးပြုပုံများကို ဖေါ်ပြထားသည်။**

**ဓာတ်ငွေ့လုပ်ငန်း။** ။သံပေါင်းအိုးထဲတွင် ကျောက်မီးသွေးကို လေအလုံပိတ်၍ မီးပြင်းတိုက်လိုက်လျှင်၊ ကျောက်မီးသွေးဓာတ်ငွေ့နှင့် ကုတ်မီးသွေးတို့ကို ကတ္တရာနှင့်တကွ ရရှိနိုင်သည်။ ကျောက်မီးသွေးဓာတ်ငွေ့သည် မီးထွန်းရန် အတွက် အသုံးပြုနိုင်၍၊ ယင်းကို မီးထွန်းဓာတ်ငွေ့ဟု တခါတရံ ခေါ်ကြသည်။ ကုတ်မီးသွေးမှုကား ရေဓာတ်ငွေ့ကို တဖန် ထုတ်ယူရရှိနိုင်လေသည်။ (ကျောက်မီးသွေး။ ကုတ်မီးသွေး — ရှု။)

ကျောက်မီးသွေးဓာတ်ငွေ့ကို လေနှင့်ရောစပ်ခြင်းမရှိဘဲ ထွန်းကြည့်ရာတွင် ဝါသောအရောင်ဖြင့်လင်းသည်ကို တွေ့ရသည်။ ကျောက်မီးသွေးဓာတ်ငွေ့ကို လက်တွေ့၌ အများလူထုအသုံးချနိုင်အောင် အမြောက်အမြား ပြုလုပ်နိုင်ခဲ့သူမှာ စကော့လူမျိုး အင်ဂျင်နီယာ ဝီလျံမားဒေါ့ ဆိုသူပင် ဖြစ်သည်။ ထိုပုဂ္ဂိုလ်သည်ခရစ် ၁၇၉၅ ခုနှစ်တွင် အစမ်းသဘောဖြင့် ဓာတ်ငွေ့ချက်ရုံတခု ဆောက်လုပ်ခဲ့ရာ၊ အောင်မြင်သဖြင့်၊ နှစ်အနည်းငယ်အတွင်း ဆိုဟိုးစက်ရုံကို ဓာတ်ငွေ့ဖြင့် မီးထွန်းနိုင်ခဲ့လေသည်။ ၁၈၀၀ ခုနှစ်တွင် မားဒေါ့သည် ရမ်းဖို ဆုတံဆိပ်ဖြင့် ချီးမြှင့်ခြင်းခံရလေသည်။

၁၈၀၂ ခုနှစ်တွင် မားဒေါ့သည် သတ္တုသွန်းအလုပ်ရုံတွင် မီးထွန်းရန် ဓာတ်ငွေ့အမြောက်အမြားကို ချက်ယူနိုင်ခဲ့ရာ၊ နောက်ငါးနှစ်အကြာတွင် လန်ဒန်တမြို့လုံးကို ဓာတ်ငွေ့ဖြင့် မီးထွန်းနိုင်ခဲ့လေသည်။ ကျောက်မီးသွေးဓာတ်ငွေ့သည် နေရာတကာ၌ အလွန် အသုံးဝင်ခဲ့သည်။ အနောက်နိုင်ငံ



ဗြိတိန်နိုင်ငံတွင် ဓာတ်ငွေ့ကို လမ်းမီးထွန်းရန် များစွာအသုံးပြုသည်။

များရှိ အိမ်များ၊ လမ်းများတွင် မီးထွန်းရာ၌သော်၎င်း၊ အစားအစာ ချက်ပြုတ်ရာ၌သော်၎င်း၊ စက်မှုလုပ်ငန်းများတွင် သုံးရည်ကျိုးရာ၌သော်၎င်း ကျောက်မီးသွေးဓာတ်ငွေ့ကို များစွာအသုံးပြုလျက်ရှိလေသည်။

ကျောက်မီးသွေးဓာတ်ငွေ့ကို ပဌမဆုံး လက်တွေ့စမ်းသပ်နည်းဖြင့် ပြုလုပ်ခဲ့စဉ်က ဝီလျံ မားဒေါ့သည် ကရားတခုတွင် ကျောက်မီးသွေးများကိုထည့်၍ မီးပြင်းတိုက်ပေးလေသည်။ ယင်းသို့ မီးပြင်းတိုက်ပေးလိုက်သောအခါ၊ အဝါရောင်ရှိသော ဓာတ်ငွေ့သည် သံပြွန်ချောင်းတခုမှ သတ္တုအိုးသို့ ထွက်လာ၏။ လိုသလောက်ဓာတ်ငွေ့များ စုဆောင်းမိသောအခါ၊ အပေါက်ငယ်တခုကို ဖောက်၍၊ ဓာတ်ငွေ့များကို ထွက်လာစေသည်။ ထွက်လာသောဓာတ်ငွေ့ကို မီးရှို့ကြည့်သောအခါ၊ အလင်းရောင် ကောင်းကောင်းရသည်ကို တွေ့ရလေသည်။ ထိုအလင်းသည် ကြည်လင်ပြတ်သားသောအလင်းကား မဟုတ်သေးချေ။ အဘယ်ကြောင့်ဆိုသော် ထိုဓာတ်ငွေ့တွင် အညစ်အကြေးများ ပါဝင်လျက်ရှိသောကြောင့်ဖြစ်သည်။

ဓာတ်ငွေ့ကို အကြီးအကျယ်ပြုလုပ်ယူရာတွင် ရီတော့ခေါ် အုပ်ဖိုများပြုလုပ်၍၊ ထိုရီတော့များထဲတွင် ကျောက်မီးသွေးကိုထည့်ပြီးလျှင်၊ လေလုံအောင်ပိတ်ထား၏။ ထိုနောက် ရီတော့များကို မီးတိုက်လိုက်သောအခါ၊ ကုတ်မီးသွေးနှင့် ဓာတ်ငွေ့ ထွက်လာသည်။ ထိုထွက်လာသောဓာတ်ငွေ့တွင် ဟိုက်ဒရိုဂျင်၊ ကာဗွန်မွန်အောက်ဆိုက်၊ မက်သိန်းနှင့် အခြား ဟိုက်ဒရိုကာဗွန်များ ရောစပ်လျက်ရှိသည့်ပြင်၊ နိုက်ထရိုဂျင်၊ ကာဗွန် ဒိုင်အောက်ဆိုက်နှင့် အခြားအညစ်အကြေးများလည်း များစွာပါဝင်လျက်ရှိလေသည်။ နိုက်ထရိုဂျင်နှင့် ကာဗွန် ဒိုင်အောက်ဆိုက်တို့သည် မီးမလောင်နိုင်သောပစ္စည်းများဖြစ်သည်။ အညစ်အကြေးများထဲတွင် အမ်မိုးနီးယား၊ ကန့်၊ ကတ္တရာ စသောပစ္စည်းများ ပါဝင်လေသည်။

ထိုအညစ်အကြေးများ ကင်းစင်စေရန် ထွက်လာသောဓာတ်ငွေ့ကို ရေတွင်ဖြတ်သွားစေသည်။ ထိုအခါ ရေတွင် အချို့သောကတ္တရာနှင့် အမ်မိုးနီးယားတို့ ကျန်ရစ်ခဲ့သည်။ တဖန် ဓာတ်ငွေ့ကိုစုခဲစေပြီးလျှင်၊ မကုန်သေးသော ကတ္တရာနှင့်အမ်မိုးနီးယားတို့ ထွက်သွားစေရန် ဆေးကြောပေးသော ကရိယာတွင် ဖြတ်သွားစေပြန်သည်။ ထိုအခါ ဓာတ်ငွေ့သည် ပို၍ စင်ကြယ်လာတော့၏။ ထိုနောက် တဖန် ဓာတ်ငွေ့ကို အထပ်ထပ်ပြုလုပ်ထားသော ထုံး သို့မဟုတ် အိုင်းယန်း အောက်ဆိုက်များအတွင်းသို့ ဖြတ်သွားစေသောအခါ၊ အညစ်အကြေးတွင် အပါအဝင်ဖြစ်သော ကန့်များ ကျန်ရစ်ခဲ့ပြန်လေသည်။ ဤသို့ အဆင့်ဆင့် ဖြတ်သွားစေပြီးနောက်၊ သိုလှောင်ရန်ပြုလုပ်ထားသော သံစည်ကြီးများအတွင်းသို့ ထည့်သွင်းထားလေသည်။ ထိုစည်ကြီး



ဓာတ်ငွေ့ချက်ပြီးနောက် ဤသို့ လှောင်ကန်ကြီးများတွင် ထားရှိရသည်။



ဓာတ်ငွေ့ကို အိမ်တွင်း အပူဓာတ်ပေးရန် အသုံးချနိုင်သည်။

များသည် ထိပ်ပိတ်၍ အောက်ပွင့်နေသော ဆလင်ဒါပုံ စည်ကြီးများ ဖြစ်ကြသည်။ ထိုစည်ကြီးများကို ဂက်ဆိုမီတာ (ဓာတ်ငွေ့လှောင် စည်ကြီးများ) ဟုခေါ် သည်။

ဓာတ်ငွေ့ကို မီးထွန်းရန် အသုံးပြုစဉ်အခါက၊ အပေါက်ငယ်ကလေးမှ ပန်းထွက်သောဓာတ်ငွေ့ကို မီးရှို့ပေးခဲ့ကြလေသည်။ ထိုနောက် ဓာတ်ငွေ့ ပန်းထွက်သောအပေါက်ကို အမျိုးမျိုးပြုပြင်လာခဲ့၍၊ ယပ်တောင်ကဲ့သို့ မီးတောက်ပြားကလေးများကို ဖြစ်စေသော အလျားလိုက် အပေါက်ကလေးများကို ဖောက်လာခဲ့ကြလေသည်။ ထိုနောက် ဓာတ်ငွေ့ကို နည်းစေ၍၊ အလင်းကို ပိုရသောနည်းများကို ရှာဖွေတွေ့ရှိကြပြန်လေသည်။ တွေ့ရှိခဲ့သောနည်းတနည်းတွင် အသုံးပြုသောကရိယာမှာ ဗွန်ဆင် မီးတိုင်ဖြစ်၏။ ထိုမီးတိုင်တွင် ကျောက်မီးသွေးဓာတ်ငွေ့ကို လေနှင့်ရောစ၍ထွန်းရာ၊ အရောင်ကင်းသော မီးလျှံဖြင့် အလွန်ပူသည့်မီးကို ရရှိလေသည်။ အခြားတနည်းမှာကား ဗွန်ဆင် မီးတိုင်မှာကဲ့သို့ ဓာတ်ငွေ့ နှင့် လေ ကို ရောပြီး နောက်၊ မီးစာနှင့် ထွန်းခြင်းဖြစ်သည်။ ဤနည်း၌ မီးစာသည် ဖြူလာ၍ ထိန်ထိန်လင်းသောမီးရောင် ပေးလေသည်။ အပူပြင်း၍ အလင်းရောင်အားကြီးစေရန် ထွန်းညှိသော အဆိုပါမီးစာမှာ အိန္ဒိယတိုင်းရင်းသားများ စိုက်ပျိုးလေ့ရှိသော 'တရုပ်မြက်' ခေါ် သည့် မြက်ပင်တမျိုးမှရရှိသော လျှော်များပင်ဖြစ်သည်။ ထိုလျှော်များကို မီးစာအဖြစ် ရက်ပြီးလျှင်၊ သိုရီယမ်နှင့်ဆီးရီးယမ်း ဒြဗ်စင်တို့ပါဝင်သည့် ရှားပါးသောမြေသတ္တုများနှင့် ပြည့်ဝအောင် ပြုလုပ်ထားလေသည်။ ထိုသို့ပြုလုပ်ထားသောမီးစာကို မီးရှို့လိုက်သောအခါ၊ မြက်ပင်၏မူလလျှော်များသည် မီးလောင်သွားပြီးလျှင်၊ ရှားပါးသောမြေသတ္တုနှင့် ပြည့်ဝနေသည့် လျှော်အရိုးတံများသည် မီးစာပုံအတိုင်း မပျက်ဘဲ ကျန်ရစ်ခဲ့လေသည်။ မီးစာမှ အလွန်ပူ၍ ဖြူအောင်လင်းသည့်မီးရောင်ကို ရခြင်းမှာ လျှော်အရိုးတံတွင် ရောစပ်ကျန်ရစ်ခဲ့သော သိုရီယမ်နှင့် ဆီးရီးယမ်းဒြဗ်စင်တို့ကြောင့် ဖြစ်လေသည်။

ယခုခေတ်တွင် လျှပ်စစ်ဓာတ်မီးများ ပေါ်ပေါက်လာသဖြင့်၊ ဓာတ်ငွေ့ကို မီးထွန်းရန်အတွက် အနောက်နိုင်ငံများ၌ပင် အသုံးပြုခြင်း နည်းပါးလာခဲ့လေသည်။ သို့အသုံးပြုခြင်း နည်းပါးလာသော်လည်း၊ မြို့ကြီးများရှိ အိမ်များတွင် အစားအသောက်များကိုချက်ပြုတ်ရာ၌ ဓာတ်ငွေ့မီးဖိုများကို အသုံးပြုကြလေသည်။ ဓာတ်ငွေ့မီးဖိုကို အသုံးပြုခြင်းကြောင့်၊ ခံစားရသောအကျိုးများကား လွယ်ကူခြင်း၊ အပူကို လိုသလို အသုံးပြုနိုင်ခြင်းနှင့် အစစ သန့်ရှင်းခြင်းတို့ ဖြစ်လေသည်။

ဓာတ်ငွေ့ပြုလုပ်သည့်စက်ရုံကြီးမှ ဓာတ်ငွေ့ကို ပြွန်လုံးကြီးများဖြင့် လိုသည့်နေရာသို့ ယူဆောင်လာပြီးလျှင်၊ ထိုပြွန်လုံးကြီးများမှတဆင့် သုံးစွဲသူများ၏ လိုရာဌာနများသို့ ပြွန်လုံးကလေးများဖြင့် ပို့လေသည်။ သုံးစွဲသူများ၏ နေရာအသီးအသီးတွင် ဓာတ်ငွေ့၏အတိုင်းအဆကို သိနိုင်ပေသည်။ ဓာတ်ငွေ့ပို့သောပြွန်လုံးကြီးများရှိ ဖိအားမှာ တနေရာနှင့်တနေရာ မတူကြချေ။ ဖိအားများသောဓာတ်ငွေ့ကို လူနေကြဲသောအရပ်များတွင်သာ အသုံးပြုခွင့်ရှိခဲ့လေသည်။

ရေဓာတ်ငွေ့တွင် များသောအားဖြင့် ဟိုက်ဒရိုဂျင်နှင့် ကာဗွန် မွန်အောက်ဆိုက်ဓာတ်ငွေ့များ ပါဝင်သည်။ နီရဲအောင် မီးပြင်းတိုက်ထားသော ကုတ်မီးသွေးပေါ် သို့ ရေငွေ့ကို လွှတ်ပေးလိုက်ခြင်းအားဖြင့်၊ ထိုရေဓာတ်ငွေ့ကို ရရှိနိုင်သည်။ ထိုဓာတ်ငွေ့သည် အပြာရောင်မီးလျှံဖြင့် လောင်၍၊ မီးရှိန် အလွန်ပူသော်လည်း၊ ကာဗွန် မွန်အောက်ဆိုက် ရာခိုင်နှုန်း အများအပြား ပါဝင်နေသောကြောင့်၊ အဆိပ် အလွန်ပြင်းထန်သည်။ အဆိပ်မဖြစ်စေဘဲ မီးထွန်းနိုင်ရန် ထိုဓာတ်ငွေ့ကို အက်သလင်းနှင့် အဆက်တလင် ဓာတ်ငွေ့များဖြင့် ရောစပ်ရသည်။ စက်မှုလုပ်ငန်းများတွင် အလွန်အသုံးဝင်သော အခြားဓာတ်ငွေ့တမျိုးမှာ ပရိုဂျူဆာဓာတ်ငွေ့ဟုခေါ် သော ဓာတ်ငွေ့ဖြစ်သည်။ နီရဲအောင် မီးပြင်းတိုက်ထားသော ကုတ်မီးသွေး၊ သို့မဟုတ် ကျောက်မီးသွေးပေါ် သို့ သာမန်လေကို လွှတ်ပေးလိုက်ခြင်းအားဖြင့်၊ ထိုဓာတ်ငွေ့ကို ရရှိနိုင်လေသည်။ ထိုဓာတ်ငွေ့တွင် ကာဗွန် မွန်အောက်ဆိုက် ရာခိုင်နှုန်း ၄၀ နှင့် နိုက်ထရိုဂျင် ရာခိုင်နှုန်း

၆၀ ပါဝင်၍၊ အင်ဂျင်စက်များမောင်းရာတွင် အလွန်အသုံး ဝင်သည်။

အများအားဖြင့် ကျောက်ဆောင်ထူထပ်သောနေရာများ တွင် သဘာဝခေတ်ငွေများကို အချိန်အတော်ကြာကပင် တွေ့ရှိခဲ့သော်လည်း၊ အထူးအဆန်းတခုအဖြစ်ဖြင့်သာလျှင် မှတ်ယူခဲ့ကြလေသည်။ တရုပ်နိုင်ငံနှင့်ပါးရှားနိုင်ငံ စသော တိုင်းနိုင်ငံများတွင် ထိုသဘာဝခေတ်ငွေကို ကျောက်များ၏ အကြားမှ ထွက်လာသည်ကို တွေ့ခဲ့ကြလေသည်။ ထိုခေတ် ငွေကို မီးရှို့လိုက်သောအခါ မီးတောက်သည်ကိုပင် အံ့ဩ ဖွယ်ကိစ္စတခုဟု မှတ်ယူကြပြီးလျှင်၊ အချို့သောတိုင်းရင်း သားများက မီးနတ်အဖြစ်ဖြင့် ရှိခိုးပူဇော်ကြလေသည်။

ကက်စပျန်ပင်လယ်ကမ်းခြေအနီးတွင် ဗာကူးဟုခေါ် သည့် မြို့တမြို့ရှိ၏။ ထိုမြို့အနီး သဘာဝခေတ်ငွေများ ပန်း ထွက်နေသည့်နေရာပေါ်တွင် ပျက်စီးယိုယွင်းနေသော ဘုရား ရှိခိုးကျောင်းအိုကြီး တကျောင်း တည်ရှိသည်။ ဗာကူးမြို့ သည် ကမ္ဘာပေါ်တွင် ရေနံအများဆုံးထွက်သော နေရာ တနေရာ ဖြစ်သည်။ အမေရိကန် ပြည်ထောင်စု၌လည်း သဘာဝခေတ်ငွေ အမြောက်အမြားထွက်သည်။ သဘာဝ ခေတ်ငွေကို ရေနံအများဆုံးထွက်သည့်နေရာများမှ ရကြ သည်။ ထိုခေတ်ငွေကို သတ္တုကျိုလုပ်ငန်းများ၌၎င်း၊ အပူ အလွန်များများလိုသော လုပ်ငန်းများ၌၎င်း အသုံးပြုကြ လေသည်။

သဘာဝခေတ်ငွေသည် ဖြုန်ပေါင်းမဟုတ်၊ မီးလောင်တတ် သည့် အမျိုးမျိုးသော ခေတ်ငွေရောမျှသာလျှင် ဖြစ်သည်။ ထိုခေတ်ငွေသည် နှစ်ပေါင်းများစွာက ကမ္ဘာမြေကြီး အ တွင်း ပုပ်သိုးဆွေးမြေ့နေသော သစ်ပင်ကြီးများမှ ဖြစ် ပေါ်သည်ဟု ယုံကြည်ကြလေသည်။ သဘာဝခေတ်ငွေကို တွင်းများတူး၍လည်း ရှာဖွေယူခဲ့ကြလေသည်။

**ခေတ်ငွေအင်ဂျင်**။ ။ခေတ်ငွေအင်ဂျင်ဆိုသည်မှာ ခေတ် ဆီငွေ့လောင်ကျွမ်းပေါက်ကွဲမှုကြောင့် စက်လည်သော အ တွင်းမီးအား အင်ဂျင်ကို ဆိုလိုသည်။ (အတွင်းမီးအား အင်ဂျင်စက် — ရှု။) ခေတ်ငွေအင်ဂျင်တွင် ကာဗျူရက် တာခေါ် ကရိယာပါရှိသည်။ ယင်းသည် ခေတ်ဆီကို လေ နှင့်ရောနှောစေပြီးလျှင်၊ ခေတ်ငွေ့ သို့မဟုတ် မြူအဖြစ်သို့ ပြောင်းလဲစေသည်။ ထိုခေတ်ငွေ့သည် မီးဖွားနှင့်ထိသော အခါ၊ လျှပ်မြန်စွာနှင့် တညီတညာတည်း လောင်ကျွမ်း ပေါက်ကွဲသွားသည်။ ခေတ်ငွေအင်ဂျင်များကို ဝန်တင် ယာဉ်၊ မော်တော်ယာဉ်နှင့် လေယာဉ်များတွင် အသုံးပြု သည်။ စက်လည်ရန်အတွက် လိုအပ်သောစွမ်းအား ထုတ် လုပ်ရန်လည်း၊ ခေတ်ငွေအင်ဂျင်ကို အသုံးပြုတတ်ကြသေး သည်။ ပဌမဦးဆုံး ခေတ်ငွေအင်ဂျင်ကို ၁၈၆၀ ပြည့်နှစ်၌ ပြင်သစ်လူမျိုး ဂျေ၊ ဂျေ၊ အီ၊ လီနွား ဆိုသူက တီထွင်ရာ အောင်မြင်ခဲ့သည်။ ၁၈၆၆ ခုနှစ်တွင် ဂျာမန်အင်ဂျင်နီယာ များဖြစ်သည့် အီ၊ လန်ဂင် ဆိုသူနှင့် အင်၊ အေ၊ အော့တိုး ဆိုသူတို့က လီနွားထွင်သည့် စက်မျိုးနှင့်မတူသော ခေတ် ငွေအင်ဂျင်မျိုးကို တီထွင်နိုင်ကြပြန်သည်။ အမေရိကန် ပြည်ထောင်စု၌မူ ၁၈၇၈ ခုနှစ်တိုင်အောင် ခေတ်ငွေအင်ဂျင် တလုံးမျှ မရှိခဲ့သေးချေ။ ထိုနောက်မှ အင်ဂျင်များ တဖြည်း ဖြည်း ပေါ်ပေါက်လာကြသည်။ သို့သော် ထိုစက်မျိုးကို အနှစ် ၂၀ ခန့်ထိ သယ်ယူပို့ဆောင်ရေးတွင် အသုံးမပြုခဲ့ကြ ချေ။ နောင်ကာလများတွင်မှ အမေရိကန်ပြည်ထောင်စု သည် တနှစ်လျှင် မော်တော်ယာဉ်ပေါင်း ၃ သန်း၊ ဝန်တင် ယာဉ်ပေါင်း ၅ သိန်းကျော်နှင့် လေယာဉ်ပျံ ထောင်ပေါင်း များစွာကို ထုတ်လုပ်လာနိုင်လေသည်။

ခေတ်ငွေအင်ဂျင်တွင် အခြေခံအားဖြင့် အစိတ်အပိုင်း ၄ ခုပါရှိသည်။ ယင်းတို့မှာ (၁) ကာဗျူရက်တာ (၂) မီး ဖွားဖြစ်စေသည့် ကရိယာ (မီးပွင့်ဆို့) (၃) ဆလင်ဒါခေါ် အခန်းကလေးနှင့် (၄) ပစ်စတန်တို့ဖြစ်သည်။ ကာဗျူ ရက်တာတွင် ခေတ်ဆီနှင့်လေသည် ရောနှော၍ မြူများဖြစ် လာသည်။ မီးပွင့်ဆို့သည် ခေတ်ဆီနှင့်လေ ရောနှောနေ သောမြူကို ပေါက်ကွဲသွားအောင် ပြုလုပ်ပေးသည်။ ဆလင် ဒါခေါ် အခန်းငယ်ကလေးမှာ ခေတ်ဆီငွေ့ လောင်ကျွမ်းရာ သို့မဟုတ် ပေါက်ကွဲရာအခန်း ဖြစ်သည်။ လေနှင့်ခေတ် ဆီကို ဆလင်ဒါအတွင်းသို့ အဆို့ရှင်များက သွင်းပေးသည်။ ဆလင်ဒါ၏တဖက်တွင်ရှိသော အပေါက်တွင် ပစ်စတန်တခု သည် အံကျ စွပ်ဝင်လျက်ရှိသည်။ ခေတ်ဆီငွေ့ ပေါက်ကွဲ သောအခါ၊ ပစ်စတန်သည် တွန်းကန်ရွေ့ရှားလာပြီးလျှင် စက်ကို လည်စေသည်။

ခေတ်ဆီမြူခိုးဖြစ်လာပုံမှာ ဤသို့တည်း။ ဦးစွာ၌ စက် ၏ပြင်ပရှိ လေသည် ကာဗျူရက်တာထဲရှိ ပလာနယ်ထဲသို့ တိုးဝင်လာ၏။ လေသည် ဆလင်ဒါတွင်းမှ တိုးဝင်လာစဉ်၊ ခေတ်ဆီတိုင်ကီမှ ခေတ်ဆီ ပန်းထွက်ရာလမ်းကြောင်းတဝိုက် တွင် ပလာနယ် ဖြစ်သွားစေသည်။ ထိုသို့ ပလာနယ် ဖြစ် နေခြင်း၊ သို့မဟုတ် လေမဲ့နေခြင်းကြောင့်၊ ခေတ်ဆီသည် တိုင်ကီမှ စီးဆင်းလာပြီးလျှင်၊ လေနှင့်ရောနှောသွားကာ မြူဖြစ်လာသည်။ ထိုမြူများ အစွမ်းကုန် လောင်ကျွမ်းစေ ရန်၊ ခေတ်ဆီနှင့်လေကို အချိုးမှန်မှန်နှင့် ရောစေသည်။ ထို နောက် လောင်ကျွမ်းရန် ထိုမြူများသည် ဆလင်ဒါအတွင်း သို့ ဝင်သွားကြသည်။

လေယာဉ်နှင့်မော်တော်ယာဉ်သုံး ခေတ်ငွေအင်ဂျင်ရှိ ဆ လင်ဒါများတွင် ခေတ်ခေါင်း ၂ ခုပါရှိသည်။ ထိုခေတ် ခေါင်း ၂ ခုကြားတွင် လျှပ်စစ်ခေတ်စီးကြောင်းကို လွှတ် ပေးခြင်းဖြင့် မီးဖွားဖြစ်စေသည်။ မီးဖွားကြောင့် ခေတ်ဆီ

နှင့်လေ ရောနှောသောမှုသည် ပေါက်ကွဲသွား၏။ ခေတ်ခေါင်းများ၏အဖျားပိုင်းမှအပ ကျန်ရှိသောအပိုင်းကို မီးပွင့်ဆိုခေါ် ခေတ်အားပစ္စည်းတို့ဖြင့် ကာရံထားသည်။ လေယာဉ်စက်များတွင် မက်ဂနီးတိုဖြင့် လျှပ်စစ်ခေတ်စီးကြောင်းကို ဖန်တီးယူသည်။ မက်ဂနီးတိုတွင် သံလိုက်ငယ်တခုနှင့် အားမချော (နန်းကြိုးရစ်လုံး) တခု ရှိသဖြင့်၊ လျှပ်စစ်သံလိုက်ခေတ်ဖြင့် လျှပ်စစ်ခေတ်စီးကြောင်းကို ဖြစ်စေနိုင်သည်။ မော်တော်ယာဉ်အများအပြားတို့တွင်မူ ဗက်ထရီကို အသုံးပြုသဖြင့်၊ ခေတ်ပြောင်းလဲမှုကြောင့် မီးဖွားကို ဖြစ်ပေါ်စေနိုင်သည်။ အချို့မော်တော်ယာဉ်များတွင် တပ်ဆင်ထားသည့် ဂျင်နရေတာသည် မော်တော်ယာဉ်သွားနေစဉ် ဗက်ထရီကို လျှပ်စစ်အား ပြည့်စေသည်။ လောင်ကျွမ်းရာတွင် ခေတ်ဆီအားလုံး လောင်ကျွမ်း ပေါက်ကွဲခြင်း မရှိခဲ့ပါလျှင်၊ ဆလင်ဒါတွင် တခါတရံ ကာဗွန်အမြွေးများ စွဲနေခြင်းကြောင့်၊ စက်၏စွမ်းရည် လျော့သွားတတ်သည်။

ပေါက်ကွဲမှုကြောင့် အောက်ဖက်သို့ ရွေ့ရှားလာသော ပစ်စတန်သည် ဝင်ရိုးတံကို လည်စေ၏။ မော်တော်ယာဉ်များတွင် ပစ်စတန်ကို ဝင်ရိုးလက်တံနှင့် ဆက်သွယ်ထား၏။ ဆလင်ဒါမှ ပစ်စတန်သည် အပြင်ဖက်သို့ တွန်းကန်ထွက်လာသောအခါ၊ ဝင်ရိုးလက်တံကို လည်စေသည်။ ဝင်ရိုးလက်တံလည်သွားသည်နှင့် ဝင်ရိုးလက်တံအစွန်းတွင် တပ်ထားသော မောင်းတံသည်လည်း လည်သွားသည်။ မောင်းတံလည်နေခိုက်၊ မောင်းတံသည် ဂီယာကိုင်ရင်း၊ ဂီယာကနောက်ဘီး ၂ လုံးကြားရှိ ဝင်ရိုးကိုင်ရင်း လည်စေသည်။ အကယ်၍ မော်တော်ယာဉ်၌ ရှေ့ဘီး မောင်းတံရှိလျှင်၊ ထိုမောင်းတံကို ရှေ့ဝင်ရိုးနှင့် ဆက်သွယ်ထားတတ်သည်။

ခေတ်ငွေ့အင်ဂျင်အားလုံးသည် နှစ်ချက်ခုတ် (ဝါ) လေးချက်ခုတ်စက်မျိုး ဖြစ်ကြသည်။ ဆလင်ဒါပြင်ဖက်သို့ ပစ်စတန် တွန်းကန်၍ထွက်လာသော ပါဝါပတ်ခေါ် အပတ်တပတ်၊ ဆလင်ဒါ၏အတွင်းဖက်သို့ ပစ်စတန်ဝင်လာ၍ လောင်ကျွမ်းပြီးသောခေတ်ငွေ့ကို ထုတ်ပစ်သော အပတ်တပတ်၊ ဆလင်ဒါပြင်ဖက်သို့ ပစ်စတန် ထွက်လာ၍ ပြင်ပလေကို ဆလင်ဒါအတွင်းသို့ သွတ်သွင်းပေးသည့် အပတ်တပတ်၊ သွတ်သွင်းပြီးသောလေကို သိပ်ပေးပြီးနောက် ပေါက်ကွဲစေသော အပတ်တပတ်၊ ယင်းအပတ်များကို လေး ချက် ခုတ် ဟု ခေါ်သည်။

နှစ် ချက် ခုတ် အင် ဂျင် သည် ပါဝါပတ်တပတ်လည်၍ပြီးဆုံးသောအခါ၊ လေကို ဆလင်ဒါထဲသို့ သွတ် သွင်း ပေး ၍၊ နောက်လည်သောအပတ်တွင် လောင်ကျွမ်းပြီးသောအငွေ့ကို ထုတ်ပစ်သည်။ မော်တော်ယာဉ်နှင့် လေယာဉ်အားလုံးလိုလိုတွင် လေးချက်ခုတ်အင်ဂျင်မျိုးကို အသုံးပြုသည်။ မော်တော်ဘုတ်နှင့် သင်္ဘောငယ်တို့တွင်သာ ပေါ့ပါးစေရန်အတွက် နှစ်ချက်ခုတ် အင်ဂျင်စက်မျိုးကို အသုံးပြုသည်။

ခေတ်ငွေ့များကိုသွင်းပေးခြင်း၊ ထုတ်ပစ်ခြင်း၊ လောင်ကျွမ်းစေခြင်းတို့သည် ပစ်စတန်၏ ရွေ့ရှားမှုနှင့် ပြိုင်တူဖြစ်အောင် အချိန် အလွန်တိကျဖို့ လိုပေသည်။ ဆလင်ဒါတွင် ပါရှိသော အဆို့ရှင်များသည် ခေတ်ဆီကို အတွင်းသို့ရောက်အောင် ပေးပို့သည့်ပြင်၊ လောင်ကျွမ်းပြီးသော ခေတ်ငွေ့ကိုလည်း ပြင်ပသို့ ထုတ်ပစ်သည်။ လက်တံဝင်ရိုး လည်သောအခါ၊ အဆို့ရှင်ကို ဆက်သွယ်ထားသောအတံသည် နိမ့်ချည်မြင့်ချည်ဖြင့် အဆို့ရှင်ကို ဖွင့်ခြင်း၊ ပိတ်ခြင်းကို ပြုလုပ်ပေးသည်။ အတံ၏အဖျားတွင် ဒလိမ့်ငယ်ကလေးများ ပါရှိသည်။ ယင်းကို လက်တံဝင်ရိုးတွင်ရှိသော ရွှေပြောင်းဖုတို့နှင့်ထိနေအောင် တပ်ဆင်ထားသည်။ ပစ်စတန်သည် ဆလင်ဒါ၏အထက်ပိုင်းသို့ရင်း၊ အောက်ပိုင်းသို့ရင်း ရွေ့ရှားသောအခါ၊ လက်တံဝင်ရိုးကို လည်စေ၍၊ အဆို့ရှင်များကို ဖွင့်တုံ ပိတ်တုံ ပြုလုပ်ပေးသည်။

ခေတ်ငွေ့အင်ဂျင်ကို အသုံးပြုရာတွင် ချွတ်ယွင်းချက်အမျိုးမျိုးကို တွေ့ရ၏။ အများဆုံးတွေ့ရသော ချွတ်ယွင်းချက်မှာ ကာဗျူရက်တာထဲသို့ ခေတ်ဆီပြည့်လျှံသွားခြင်းဖြစ်သည်။ ကာဗျူရက်တာထဲတွင် ခေတ်ဆီပြည့်လျှံနေလျှင်၊ သို့မဟုတ် ခေတ်ဆီနှင့်လေတို့၏ ပေါင်းစပ်မှုသည် လိုသည်ထက် ပို၍များနေလျှင်၊ စက်ကို အနှိုးရခက်သည်။ ထိုသို့ဖြစ်လျှင် ကာဗျူရက်တာမှ ခေတ်ဆီကုန်သွားသည် အထိ စက်မနှိုးဘဲ ခေတ္တဆိုင်းထားရသည်။ အခြားချွတ်ယွင်းချက်မှာ ခေတ်ငွေ့သွားလမ်းကြောင်း ပိတ်ဆို့နေပြီးလျှင်၊ လေနှင့်ခေတ်ငွေ့တို့သည် ပေါက်ကွဲသွားနိုင်လောက်အောင် မသိပ်သည်းခြင်းဖြစ်သည်။ ထို့ကြောင့် ခေတ်ငွေ့အင်ဂျင်အများအပြားတွင် ဖုံဖိုင်ကလေးများကို တပ်ဆင်ရသည်။ ယင်းတို့သည် ပိတ်ဆို့မှု အသေးအဖွဲ့ကို ရှင်းပေးကာ၊ ကာဗျူရက်တာသို့ ခေတ်ဆီကို လွှတ်ပေးသည်။ ဗက်ထရီခေါင်းတွင် ဝိုင်ယာကြိုးကို လျော့လျော့ ရစ်ပတ်ထားမှုကြောင့်၊ ခေတ်စီးဖြတ်လမ်း ဖြစ်ပေါ်၍၊ စက်ကို ရပ်သွားစေနိုင်သည်။ ခေတ်ဆီ များလွန်းမှုကြောင့်လည်း၊ မီးပွင့်ဆိုတွင် ကျပ်ခိုးထူလာတတ်သည်။ ကာလကြာလာလျှင်လည်း၊ မီးပွင့်ဆို လောင်ကျွမ်းသွားတတ်သည်။ ထိုသို့ဖြစ်လျှင် မီးပွင့်ဆိုကို စင်ကြယ်အောင် ဆေးကြောပေးရသည်။ ဆေးကြော၍မရလျှင် အသစ်လဲပေးရသည်။

ဆလင်ဒါအတွင်းတွင် ခေတ်ဆီနှင့်လေတို့သည် သတ်မှတ်ထားသည့် အချိုးအစားအတိုင်း မရှိကြလျှင်၊ အိတ်ဇော ပိုက် သို့မဟုတ် အခိုးထုတ်ပြွန်မှ မီးခိုးအမြောက်အမြား ထွက်လာတတ်သည်။ ဤသို့ဖြစ်လျှင်၊ လေသွင်းမှု သို့မဟုတ် ခေတ်ဆီစီးဆင်းမှုကို အချိုးကျအောင် ပြုပြင်ပေးရ

သည်။ အခြားချတ်ယွင်းချက်မှာ ဆလင်ဒါထဲသို့ လေဝင်နေခြင်းဖြစ်သည်။ ဤသို့ဖြစ်ရခြင်းမှာ ဆလင်ဒါ၏ပတ်ဝန်းကျင်ရှိ အဆို့ရှင်များသည် ချောင်သွားခြင်းကြောင့် ဖြစ်သည်။ ထိုသို့ဖြစ်လျှင်၊ စက်အလည် မမှန်ဘဲရှိတတ်သည်။ ပစ်စတန်ကွင်းများသည်လည်း ချောင်လာတတ်ပြီးလျှင်၊ စက်၏အစွမ်းရည်ကို ယုတ်လျော့သွားစေတတ်သည်။

**ဓာတ်စာ။** ။ကျန်းမာသန်စွမ်းရေးအတွက် လူတို့နေ့စဉ်စားသောက်နေကျ အစားအစာကို ဓာတ်စာဟုခေါ်သည်။ ဓာတ်စာကို လူ၏ အလေးချိန်၊ အသက်၊ ကျန်းမာမှု အခြေအနေ၊ နေထိုင်ပုံ အလေ့အထတို့ကိုလိုက်၍၊ အမျိုးမျိုးပြောင်းလဲကာ မှီဝဲသုံးဆောင်ကြရသည်။

ဓာတ်စာသည် ကိုယ်ခန္ဓာထဲသို့ ရောက်သွားသည့်အခါ၊ အားအင်ကို ဖြစ်စေသည်။ သက်ရှိဟူသမျှသည် ကိုယ်ခန္ဓာဖွံ့ဖြိုးစေမည့် ဓာတ်စာကို စားသောက်ရန်လိုသည်။ အသက်အရွယ်ကြီးရင့်သူတို့၌ ကိုယ်ခန္ဓာအစိတ်အပိုင်းတို့သည် ထုန်ထိုင်း၍ ယိုယွင်းတတ်ကြသည်။ ထိုအစိတ်အပိုင်းများ မူမှန်သို့ ပြန်လည်ရောက်ရှိအောင်၊ သင့်လျော်သောဓာတ်စာကို စားသောက်ပေးကြရသည်။

ကိုယ်ခန္ဓာထဲ၌တွေ့ရသော ဒြပ်ပေါင်းဟူသမျှသည် အစာတွင် ပါရှိရန်မလိုချေ။ သို့သော် ကိုယ်ခန္ဓာရှိ ချတ်ယွင်းချက်များကို ပြုပြင်ပေးနိုင်မည့် ဒြပ်စင်နှင့် ဒြပ်ပေါင်းအချို့ကို ကိုယ်ခန္ဓာထဲသို့သွင်းပေးရန်ကား လိုအပ်ပေသည်။ ကိုယ်ခန္ဓာတွင်းသို့ ရောက်ပြီးသော အစာအနည်းအကျဉ်းလောက်သာလျှင် ကိုယ်ခန္ဓာအစိတ်အပိုင်း ကြီးထွားရေး၊ သို့မဟုတ် ဖြည့်စွက်ရေးအတွက် အရာရောက်ပေသည်။ ထိုအစာတို့သည် ကြွက်သားနှင့်ဂလင်းတို့ကို စွမ်းအင်ထုတ်ပေးသည်။ အချို့သောအစာမှာမူ အပူအဖြစ်သို့ ပြောင်းသွားသည်။

အစာ၌ပါရှိသည့် စွမ်းအင်ကို ကယ်လိုရီဖြင့် တိုင်းတာရသည်။ အလေးချိန် ၁ ကီလိုဂရမ်ရှိ ရေကို ၁ ဒီဂရီစင်တီဂရိတ်အပူချိန် မြင့်လာအောင်ပြုလုပ်သော အပူစွမ်းအင်ကို ကယ်လိုရီဟုခေါ်သည်။ အလေးချိန်တိုင်းပြီးသောအစာကို အောက်ဆီဂျင်ထဲတွင် လောင်ကျွမ်းစေပြီးနောက်၊ ထိုလောင်ကျွမ်းမှုမှ ထွက်လာသောအပူကို တိုင်းယူခြင်းဖြင့်၊ အစာမှရနိုင်မည့် စွမ်းအင်အားလုံးကို သိနိုင်ပေသည်။

ဓာတ်စာတွင် အဓိကပါဝင်သည့် ပစ္စည်းတို့မှာ ပရိုတင်း၊ အဆီ၊ ကာဗိုဟိုက်ဒရိတ်၊ ဗီတာမင်၊ ရေနှင့် ဓာတ်ဆားများဖြစ်ကြသည်။ ပရိုတင်းသည် ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်၊ နိုက်တရိုဂျင်တို့ဖြင့် ရှုပ်ထွေးစွာ ဖွဲ့စည်းထားသောပစ္စည်း ဖြစ်သည်။ တခါတရံ ပရိုတင်းတွင် ဖော့စဖောရပ်၊ ဆာလဖာနှင့်သံတို့လည်းပါရှိတတ်သည်။ ဓာတ်စာများအနက် နိုက်တရိုဂျင်ပါဝင်သောပစ္စည်းမှာ ပရိုတင်းဖြစ်၏။ ပရိုတင်းသည် ကိုယ်ခန္ဓာကို ဖွံ့ဖြိုးစေ၍၊ ကိုယ်ခန္ဓာတွင်း ပျက်စီးမှုကို ပြုပြင်ပေးနိုင်သည်။ ဥအကာတွင်ပါဝင်သည့် အယ်လဗျူမင်၊ ဥအနှစ်တွင်ပါဝင်သည့် ဗီတယ်လင်၊ အသားတွင်ပါဝင်သည့် မိုင်အိုဆင်၊ နို့တွင်ပါဝင်သည့် ကေဆီဆင်၊ ဂျုံမှုန့်တွင်ပါဝင်သည့် ဂလူတင်တို့သည် ပရိုတင်းများ ဖြစ်သည်။

အဆီသည် ကာဗွန်၊ ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်အက်တမ် များစွာပါဝင်သည့် အက်ဆစ်နှင့်ဂလစ်ဆရင်းဒြပ်ပေါင်းများ ဖြစ်သည်။ ကိုယ်ခန္ဓာအတွင်း၌ လောင်ကျွမ်းမှုဖြင့်၊ အဆီသည် စွမ်းအင်ကို ဖြစ်စေ၏။ ထောပတ်၊ သံလွင်ဆီ၊ အမဲဆီ၊ ဝက်ဆီတို့သည် အသင့်အတင့်စင်ကြယ်သော အဆီများ ဖြစ်သည်။ သဘာဝအလျောက်ရရှိသော အစာများတွင်လည်း အဆီအနည်းနှင့်အများ တွေ့ရတတ်ပေသည်။

ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်တို့ပါရှိသော ကာဗိုဟိုက်ဒရိတ်ကို အသွင်အမျိုးမျိုးဖြင့် တွေ့ရသည်။ စပါးမျိုး၊ ကောက်မျိုး၊ အာလူးနှင့်ဂျုံတို့တွင် ကစီအဖြစ်ဖြင့်၎င်း၊ ကြံနှင့်မုန်လာဥနီတို့တွင် သကြားအဖြစ်ဖြင့်၎င်း၊ နို့တွင် လက်တို့အဖြစ်ဖြင့်၎င်း၊ သစ်သီးနှင့်ပျားရည်တို့တွင် ဂလူးတို့သကြားနှင့် ဖရပ်တို့အဖြစ်ဖြင့်၎င်း ပါဝင်သည်။ ဤအစာသုံးမျိုးစလုံးသည် ကိုယ်ခန္ဓာအတွင်း၌ လောင်ကျွမ်းသောအခါ၊ စွမ်းအင်ကိုဖြစ်စေနိုင်သည်။ ဓာတ်စာတွင် ဤသုံးမျိုးအနက် တမျိုးမျိုးကို အစားထိုးယူနိုင်၏။ ကြီးထွားဖွံ့ဖြိုးမှုနှင့် ကျန်းမာမှုကို ထိန်းသိမ်းလိုလျှင်၊ အနည်းဆုံး ဤအစာတမျိုးစီကို မှီဝဲသုံးဆောင်ရန် အရေးကြီးပေသည်။ အလေးချိန်အားဖြင့် ၁ ဂရမ်ရှိသောအစာမှ ကိုယ်ခန္ဓာအတွင်း၌ လောင်ကျွမ်းမှုကြောင့် စွန့်ထုတ်သော စွမ်းအင်တို့၏ အတိုင်းအဆမှာ ပရိုတင်း ၄.၁ ကယ်လိုရီ၊ ကာဗိုဟိုက်ဒရိတ် ၄.၁ ကယ်လိုရီ၊ အဆီ ၉.၃ ကယ်လိုရီ ဖြစ်သည်။

ဓာတ်စာပညာနှင့်စပ်လျဉ်းသော အယူအဆများသည် တခေတ်နှင့်တခေတ် ပြောင်းလဲလျက်ရှိသည်။ ပမာအားဖြင့် ရှေးအခါက ရောဂါရှိသူ၏ဓာတ်စာတွင် ရေကို မထည့်သွင်းချေ။ ယခုအခါတွင်မူ လူနာ၏ဓာတ်စာတွင် ရေကို ထည့်သွင်းမထားခြင်းသည် မှားယွင်းသည်ဟု ယူဆကြလေသည်။ ရှေးက အမဲပြုတ်ရည်နှင့်ဂျယ်လတင်းကို အာဟာရဖြစ်သော ဓာတ်စာဟု များစွာ အထင်ကြီးခဲ့ကြသည်။ ယခုမှာမူ အမဲပြုတ်ရည်သည် အားကြဆေးသဘောမျှသာ သက်ရောက်၍၊ ဂျယ်လတင်းမှာ ပရိုတင်း၏အာနိသင်ကို ပရိုတင်း၏ကိုယ်စားပေးနိုင်စွမ်းရှိသည်ဟူ၍သာ တွေ့ရှိလာကြသည်။ ကလေးသူငယ်များ သကြားလုံးကို နှစ်သက်တတ်သည့် သဘာဝကို ယခင်က တားဆီးပိတ်ပင်ခဲ့သော်လည်း၊ ယခုအခါတွင်

သကြားကို သင့်လျော်သည့်အခါများတွင် သုံးဆောင်စေခြင်းသည် အကျိုးကျေးဇူးရှိသည်ဟု သိလာကြလေသည်။

ရောဂါဖြစ်ပေါ်လာရေး၊ သို့မဟုတ် ရောဂါပျောက်ကင်းရေးသည် ဓာတ်စာနှင့် ဆက်သွယ်လျက် ရှိ၏။ အာဟာရဓာတ်ချို့တဲ့မှုကြောင့် ဖြစ်ပေါ်သောရောဂါတို့မှအပ၊ အခြားရောဂါပျောက်ကင်းရေးတွင်၊ ဓာတ်စာကို တမျိုးတဖုံ ပြောင်းလဲ၍သော်ရင်း၊ ဓာတ်စာတွင်ပါဝင်သည့် ပစ္စည်းအချို့၊ သို့မဟုတ် အားလုံးတို့၏အတိုင်းအဆကို ပြောင်းလဲ၍သော်ရင်း၊ မှီဝဲသုံးဆောင်ရန် လိုပေသည်။ ကိုယ်ခန္ဓာအလေးချိန်လျော့ခြင်းနှင့် ပိန်ချုံးခြင်းတို့သည် အများအားဖြင့် ညံ့ဖျင်းသောအာဟာရကို မှီဝဲခြင်းကြောင့် ဖြစ်ပေါ်နိုင်သော်လည်း၊ ယင်းတို့သည် ရောဂါများ၏လက္ခဏာလည်း ဖြစ်နိုင်ပေသည်။ ကူးစက်တတ်သည့် နာတာရှည်ရောဂါအထူးသဖြင့် အဆုတ်တျူဗာကယ်ပိုးစွဲနာ၌ရင်း၊ ဝမ်းပိုက်ကင်ဆာရောဂါ၌ရင်း၊ အဆိပ်အတောက်ဖြစ်စေသည့် ကူးစက်တတ်သော နာတာရှည်ရောဂါ၌ရင်း၊ အရေပြား အလွန်အကျူး လောင်ကျွမ်းရာ၌ရင်း၊ အသည်းနှင့်ပတ်သက်သည့် နာတာရှည်ရောဂါများတွင်ရင်း လူနာသည် အလွန်လျင်မြန်စွာ ပိန်ချုံးသွားတတ်သည်။ သိုင်းရွိုက်ဂလင်း၏ ဆောင်ရွက်မှုလွန်ခြင်းကြောင့် ကိုယ်ခန္ဓာအတွင်း၌ ကယ်လိုရီအကုန်များသွားခြင်းသည် ဂရေးရောဂါ၏ အထင်ရှားဆုံးလက္ခဏာ ဖြစ်သည်။ ဤရောဂါအားလုံးတို့တွင် ကယ်လိုရီများစွာပါရှိသည့် ဓာတ်စာကို ကျွေးရန်လိုပေသည်။ တနေ့လျှင် ကယ်လိုရီ ၄၀၀၀ မှ ၄၅၀၀ ထိကျွေးရန် လို၏။ အရေပြားလောင်ကျွမ်းခြင်းနှင့် အသည်းရောင်ခြင်း စသောရောဂါအချို့တွင် ပရိုတင်းဓာတ်စာ အပိုကျွေးခြင်းသည် အရေးကြီးပေသည်။

လူတယောက်သည် အစာမစားဘဲ နေသောအခါတွင်ရင်း အိပ်ရာတွင်လဲလျောင်းကာ အနားယူစဉ်တွင်ရင်း၊ နှလုံးခုန်ခြင်း၊ အသက်ရှူခြင်း စသော အရေးကြီးသောလှုပ်ရှားမှုများကို ပြုလုပ်ရာ၌၊ ကိုယ်ခန္ဓာသည် စွမ်းအင်အချို့ကို အသုံးပြုလျက်ရှိပေသည်။ ထိုကုန်ခန်းသွားသော စွမ်းအင်၏ အတိုင်းအဆသည် ကိုယ်ခန္ဓာအသီးအသီး၏ အရွယ်အလိုက်ဖြစ်၍၊ ထိုအတိုင်းအဆကို ‘အရင်းခံ ဇီဝရုပ်အဖြစ်အပျက်’ ဟု ခေါ်သည်။ အဖျားရှိသောအခါတွင် ထိုအရင်းခံဇီဝရုပ် အဖြစ်အပျက်သည် တိုးတက်လာ၏။ အပူချိန်သည် မူမှန်ထက် ၁ ဒီဂရီ တက်လာတိုင်း ထိုအတိုင်းအဆသည် ၇.၂ ရာခိုင်နှုန်း တိုးလာလေသည်။ အပူချိန် ၁၀၄ ဒီဂရီဖာရင်ဟိုက်ရှိသော လူနာတယောက်သည် အဖျားမရှိသူထက် ကယ်လိုရီရာခိုင်နှုန်း ၄၀ ပို၍လိုသည်ဟု ဆိုသည်။

နာတာရှည်အဖျားများအတွက် အထူးသဖြင့် ကယ်လိုရီများစွာပါရှိသော ဓာတ်စာသည် အလွန်အရေးကြီး၏။ ထိုက်ဖွိုက်ဖျားသည် နာတာရှည်ဖျား၏ သာဓကတခု ဖြစ်၍၊ လိုအပ်သော အာဟာရကိုရရှိအောင် ဓာတ်စာကို ပြောင်းလဲကျွေးမွေးခြင်းဖြင့်၊ အသေအပျောက်ကို အလွန်နည်းသွားစေနိုင်ပေသည်။ ထိုရောဂါမျိုးတွင် လူနာသည် ကယ်လိုရီ ၃၀၀၀–၃၅၀၀ ရရှိရန် လို၏။ ရောဂါပြင်းထန်ချိန်တွင် လိုအပ်သောအာဟာရကို ရနိုင်စေရန်၊ လူနာအား နေ့အချိန်တွင် နှစ်နာရီလျှင် တခါကျနှင့် ညဖက်တွင် လေးနာရီလျှင် တခါကျ ဆယ်ကြိမ်ကျွေးနည်းမျိုးဖြင့်၊ အရည်အာဟာရကို ကျွေးရန် လိုပေသည်။ ကော်ဖီနှံ၊ သို့မဟုတ် ချောကလက်နှံ့ ထည့်ထားသော နို့နှင့်သကြား၊ ဥ၊ နို့ သို့မဟုတ် အိုက်စကရင်တို့ကို တကြိမ်လျှင် အရည် ခုနစ်အောင်စခန့် ဝင်အောင် တလှည့်စီ တိုက်ကျွေးရပေမည်။ မလိုင်ကို ထည့်ကျွေးခြင်း၊ ဂလူးကိုအစား အချိုနည်းသော လက်ကတိုခေါ် နို့သကြားကို ပို၍ထည့်ကျွေးခြင်းဖြင့်၊ အာဟာရကယ်လိုရီကို ပို၍ရစေနိုင်၏။ ဗီတာမင်ဆေးလုံးများကို တိုက်ကျွေးခြင်းဖြင့်လည်း၊ လိုအပ်သောဗီတာမင်ကို ပြည့်စုံစေနိုင်ပေသည်။

အစာချေမှုအဖွဲ့နှင့်ဆိုင်သည့် ရောဂါများတွင် ဓာတ်စာသည် အလွန်အရေးကြီးလာပေသည်။ အစာအိမ် ယဉ်းနာနှင့် အူသိမ် ဦးယဉ်းနာများအတွက် ဓာတ်စာဆိုင်ရာ ကုထုံးတွင် နှစ်နာရီ သို့မဟုတ် သုံးနာရီခြားကာ၊ အာဟာရကို နည်းနည်းစီ အချိန်မှန် တိုက်ကျွေးခြင်းသည် အရေးကြီး၏။ ကျွေးသောအစာတွင် ဂွဲစတြစ် အက်ဆစ်ကို ဓာတ်ပြယ်စေရန်အတွက် နို့နှင့် ထိုအက်ဆစ်ဖြစ်ပေါ်ရေးကို တားဆီးရန်အတွက် အဆီကိုထည့်ပေးရသည်။ ဓာတ်စာတွင် အစာအိမ်ဂလင်းများ၏ ယိုစိမ့်မှုကို အနည်းငယ်အားပေးသည့် နူးညံ့သောအစားအစာများ ပါဝင်စေအပ်သည်။ (အစာအိမ် — လည်းရှု။)

အူမရောင် ယဉ်းနာအတွက် ဓာတ်စာကို ဂရုစိုက်၍ကျွေးမွေးအပ်၏။ အစားအစာအားလုံးတွင် ကိုယ်ခန္ဓာက စုတ်ယူ အသုံးမပြုနိုင်၍ ကြွင်းကျန်နေပြီးလျှင် နောက်ဆုံး ကျင်ကြီးဖြစ်သွားသည့်အရာဝတ္ထုများ ပါရှိသည်။ ဤရောဂါမျိုးဖြစ်သောအခါ၊ အူမသည် ရောင်နေပြီးလျှင်၊ ပြည်တည်သောအနာများ ဖြစ်နေသဖြင့်၊ အကြွင်းအကျန် များစွာပါရှိသော အစာမျိုးကို ရှောင်ကြဉ်ရန် အရေးကြီးသည်။ ထိုအစာများမှာ ပေါင်မုံ့ညို၊ သစ်သီး၊ ဟင်းသီးဟင်းရွက်စိမ်း၊ ခွံမာသီး၊ မြင်းစားဂျုံမုံ့ညက်၊ ပဲစေ့နှင့်ပဲတောင့်များ ဖြစ်သည်။ ဝမ်းသက်ခြင်းသည် အူမရောင် ယဉ်းနာ၏ လက္ခဏာရပ်ဖြစ်၍၊ ထိုရောဂါဖြစ်ချိန်တွင် အာဟာရစုတ်ယူနိုင်မှုသည် ညံ့ဖျင်းသဖြင့်၊ ကယ်လိုရီများစွာပါရှိသည့် ဓာတ်စာကိုပေးရန် အရေးကြီးပေသည်။ ဗီတာမင်အပိုကိုလည်း တိုက်ကျွေးရန်သင့်သည်။ (ဗီတာမင် — လည်းရှု။)

ဝမ်းပျက် လျှာနာနှင့် သူငယ်နာ ဝမ်းပျက်ရောဂါများတွင် အူမမှအဆီကို ကောင်းစွာစုတ်ယူနိုင်ခြင်း မရှိသဖြင့်၊ အဆီမဲ့သော ခေါတ်စာကို ပေးရန်လို၏။ မကြာခဏပင် ထိုရောဂါမျိုးကို လုံးဝအဆီကင်းသော ခေါတ်စာမျိုးဖြင့် ကုသ၍၊ ရောဂါသက်သာမှ အဆီကို တစတစ တိုးပေးရန် လိုပေသည်။ လူနာကို ပရိုတင်း များများကျွေး၍၊ ကာဗိုဟိုက်ဒရိတ်ကို ရရှိစေရန် ဂလူးကိုကို ကျွေးထိုက်၏။ အထူးသဖြင့် ဗီတာမင် အေနှင့်ဒီ အပါအဝင်ဖြစ်သော ခေါတ်စာကို လူနာအား ကျွေးသင့်လေသည်။ ပြင်းထန်သော အသည်းရောင်ရောဂါတွင် အသားအရေ အလွန်ကြုံလှီလာတတ်၍၊ ပရိုတင်းနှင့် ကာဗိုဟိုက်ဒရိတ် ကြွယ်ဝသောခေါတ်စာဖြင့် အာဟာရဖြစ်မှု အခြေအနေကို တိုးတက်စေနိုင်ပေသည်။

ကျောက်ကပ်ရောင် ရောဂါ သို့မဟုတ် ဗရိုက် ရောဂါဖြစ်သောအခါ၊ ရောဂါ၏အဆင့်ဆင့်တွင် ခေါတ်စာဖြင့်ပြုစုရန် အရေးကြီးသည်။ ရောဂါဖြစ်စတွင် ရက်သတ္တတပတ်ခန့် အစာမကျွေးဘဲ ထားလျက် အလွန်အမင်း ရောင်လျက်ရှိသောကျောက်ကပ်ကို အားပြန်ရှိလာသည့်အချိန်ထိ၊ အနားပေးထားသင့်ပေသည်။ ရောဂါအလွန်မဆိုးသေးသည့် အခြေ၌၊ ဆီးတွင် အယ်လဗျူမင်များစွာ ပါသွားတတ်သဖြင့်၊ ပရိုတင်းကြွယ်ဝသောခေါတ်စာဖြင့် ယင်းကိုအစားဖြည့်ရန် လိုပေသည်။

ရောဂါနောက်ဆုံးအဆင့်သို့ ရောက်သောအခါ၊ ပရိုတင်းခေါတ်စာမှဖြစ်လာသော အဆိပ်ခေါတ်များကို အားလျော့နေသောကျောက်ကပ်က စစ်ထုတ် မပစ်နိုင်သဖြင့်၊ သွေးတွင် အဆိပ်စုနေတတ်၍၊ ပရိုတင်းနည်းသောခေါတ်စာကို ပေးရပေမည်။

အစာများစွာကို မှီဝဲသုံးဆောင်ခြင်းကြောင့်၊ လူ၏ကိုယ်ခန္ဓာအလေးချိန်သည် သာမန်အားဖြင့် တိုးတက်လာလေသည်။ ထိုအတူ အစာကို အနည်းငယ် မှီဝဲသုံးဆောင်ခြင်းကြောင့်၊ ကိုယ်ခန္ဓာ၏အလေးချိန်သည် လျော့ကျသွားတတ်သည်။ အလေးချိန်တိုးတက်လာခြင်း၊ လျော့ကျသွားခြင်းတို့သည် လူတို့၏ အရပ်အမောင်း၊ လုပ်ကိုင်ဆောင်ရွက်မှုနှင့် အခြားအချက်အလက်များပေါ်တွင် တည်၏။ ကိုယ်အလေးချိန်ကို ပြောင်းလဲသွားစေရန် မှီဝဲသင့်သောခေါတ်စာအတွက်မူ ဆရာဝန်၏ညွှန်ကြားချက်ကို ရယူသင့်၏။ (အစာ အာဟာရ — လည်းရှု။)

# ဘလောက်အဖုံဖုံ၊ လုပ်ငန်းစုံ

**စာတအုပ်တွင် ရုပ်ပုံများကား စိတ်ဝင်စားဖွယ် အကောင်းဆုံးသောအပိုင်း ဖြစ်ကြောင်းကို လူတိုင်းဝန်ခံရကြမည်။ ထိုကြောင့်ပင် ရုပ်ပုံ၊ ရုပ်စုံများကို ယခုစာအုပ်အတွင်းဝယ် မည်ကဲ့သို့ထည့်သွင်းရပုံ နည်းမျိုးစုံကို သိထိုက်လှ၏။**

**ခေါတ်စား ဘလောက် လုပ်နည်း။** ။ကျွန်ုပ်တို့ အမြဲဖတ်ရှုလျက်ရှိသော စာအုပ်၊ နေ့စဉ်သတင်းစာ၊ မဂ္ဂဇင်း၊ ဂျာနယ်တို့တွင် ခေါတ်ပုံပေါင်းများစွာ ပါဝင်သည်ကို တွေ့မြင်နေကျဖြစ်သော်လည်း၊ ထိုပုံများ မည်သို့ရိုက်နှိပ်ကူးယူကြောင်းကိုမူ သိသူ အလွန်နည်းပေလိမ့်မည်။ ခေါတ်ပုံကားတခုကို ဖြစ်စေ၊ ပန်းချီကားတခုကို ဖြစ်စေ ကြည့်လျှင်၊ ထိုပုံ၌ အရောင် အနုအရင့် အလင်းအမှောင် အမျိုးမျိုးပါဝင်သည်ကို တွေ့ရသည်။

ခေါတ်ပုံကားများကို ကူးယူရာတွင်၊ နက်ဂတစ်ကော်ပြားနှင့် ခေါတ်ပုံစက္ကူကိုထပ်၍ အလင်းရောင်ဖြင့် ကူးရလေရာ၊ တကြိမ်ကူးလျှင် တပုံကျသာ ရနိုင်သည်။ စာအုပ်၊ သတင်းစာ၊ မဂ္ဂဇင်း၊ ဂျာနယ်တို့တွင်ပါဝင်သည့် ပုံများမှာမူ၊ အဆက်မပြတ် လိုသလောက် ရိုက်နှိပ်ကူးယူနိုင်သော ပုံများဖြစ်၍၊ ထိုသို့ရိုက်နှိပ်နိုင်ရန်အတွက် ခေါတ်စားဘလောက်များကို အသုံးပြုရလေသည်။

ခေါတ်စားဘလောက်များတွင်၊ ဟပ်ဖတုန်းခေါ် သာမန်ခေါတ်ပုံဘလောက်ရိုးရိုး၊ ဖိုတိုဂရေဗြူအာ ဘလောက်၊ ဖိုတိုလစ်သို ဘလောက်၊ ရောင်စုံ ဘလောက် စသည်တို့ဖြင့် အများကို ပုံနှိပ်ကူးယူရန်အတွက် ယခုခေတ်၌ အသုံးအများဆုံးမှာ ဟပ်ဖတုန်း ဘလောက်များပင် ဖြစ်သည်။

**ဟပ်ဖတုန်း ဘလောက် လုပ်နည်း။** ပုံနှိပ်ဘလောက်ပြုလုပ်နည်းတွင် အချိုင့်ထွင်းနည်း၊ အကြွထွင်းနည်းနှင့် မျက်နှာပြင်ညီပုံဖေါ်နည်းဟူ၍ သုံးမျိုးရှိရာ၊ ဟပ်ဖတုန်းနည်းမှာ အကြွထွင်းနည်းဖြစ်သည်။ ထိုကြောင့် ခေါတ်ပုံဘလောက်ဟုခေါ်လေ့ရှိကြသော ဟပ်ဖတုန်းများသည် အမှန်အားဖြင့် အကြွထွင်း ခေါတ်စားဘလောက်မျိုးဖြစ်သည်။ ဤနည်းတွင် ရှေးဦးစွာ ဘလောက်လုပ်လိုသည့်ပုံကို ခေါတ်ပုံရိုက်ယူရသည်။ သို့သော် သာမန် ခေါတ်ပုံရိုက်သကဲ့သို့ မဟုတ်ဘဲ၊ အလွန်သေးငယ်သော ကန့်လန့်ဖြတ် မျဉ်းကြောင်းကလေးများ ဖေါ်ထားသည့် ‘စကရင်း’ ခေါ် မှန်တချပ်ကို ကြားခံထားရသည်။ ထိုမှန်မျိုးအချို့တွင် စတုရန်းတလက်မ အတွင်း မျဉ်းကြောင်းပေါင်း ၁၅၀ မှ ၂၀၀ အထိပင် ရှိတတ်၏။ ဤမှန်မျိုးခံ၍ ရိုက်ယူရရှိသောနက်ဂတစ်မှာ ရိုးရိုးနက်ဂတစ်များနှင့် မတူချေ။ ရုပ်ပုံသည် စကရင်းပေါ်ရှိ မျဉ်းများကြောင့် နက်ဂတစ်ပေါ်၌ သေးငယ်သော အစက်ပြောက်ကလေးများအနေနှင့် ထင်လာသည်။ သို့ရာတွင် ထိုအပြောက်ကလေးများသည် ပုံ၏ အလင်းအမှောင်အလိုက် အကြီး

အငယ်ကွဲပြား၍ထင်သောကြောင့်၊ ကူးလိုသောပုံသည် ပျက်ပြား၍မသွားပေ။ စက္ကရင်းခံ၍ရိုက်ထားသော နက်ဂတစ်ကိုဖြစ်စေ၊ ဘလောက်ပြုလုပ်ပြီးနောက် ထိုဘလောက်နှင့် ရိုက်နှိပ်ထားသော ပုံကိုဖြစ်စေ မှန်ဘီလူးဖြင့်ကြည့်လျှင်၊ အလင်းအမှောင်အတိုင်း ဖြစ်ပေါ်နေသည့် အဆိုပါ အစက်ကလေးများကို တွေ့ရပေမည်။ ထိုနက်ဂတစ်ကော်ပြားကို ပြောင်လက်ချောမွေ့သော ကြေးနီပြား၊ သို့မဟုတ် သွပ်ပြားပေါ်တွင် ပုံစွဲထင်စေသောဆေးရည်ကို ဦးစွာပဋ္ဌမ သုတ်လိမ်း၍၊ အလင်းရောင်ဖြင့် ကူးယူပြန်သည်။ ပုံစွဲထင်စေသော ဆေးရည်သည် အလင်းရောင်နှင့်ထိလျှင် မာသွား၍၊ အလင်းရောင် မကျရောက်သည့်နေရာများတွင် ပျော့မြဲပျော့နေ၏။ ထိုကြောင့် နက်ဂတစ်ကော်ပြားကို ပုံစွဲဆေး သုတ်ထားသော ကြေးပြားနှင့်ကပ်၍ အလင်းရောင်ပြပြီးနောက်၊ ကြေးပြားကို သင့်တော်သောအက်ဆစ် သို့မဟုတ် အခြားဓာတ်ဆေးရည်ဖြင့် ဆေးကြောပစ်သောအခါ၊ အလင်းအမှောင်အားအလိုက်ပျော့သည့်နေရာများကိုစားသွားပြီး၊ မာသောနေရာများမှာ အစားမခံရဘဲ ကျန်ရစ်သည်။ တနည်းအားဖြင့်ဆိုသော်၊ ပုံနှိပ်သောအခါ၊ သတ္တုပြားပေါ်၌ မင်စွဲ၍ ပုံထင်စေလိုသည့် အပိုင်းများသာလျှင် ကြွ၍ကျန်ရစ်ခဲ့တော့၏။ ဤသို့ ဓာတ်ဆေးဖြင့် စားပြီးနောက်၊ အောက်ခံသစ်သားခုံ တပ်ပေးလိုက်သောအခါ၊ ပုံနှိပ်ရန် အဆင်သင့်ဖြစ်သော ဘလောက်ပုံ ဖြစ်လာလေသည်။

ဟပ်ဖတုန်း ဘလောက် လုပ်ရာတွင် ပုံနှိပ်မည့် စက္ကူအမျိုးအစားကိုလိုက်၍ စက္ကရင်းတွင် မျဉ်းကွက်ကလေးများ အစိပ်အကျဲ အမျိုးမျိုးရှိသည်။ သတင်းစာများတွင်ပါဝင်သော ခပ်ကြမ်းကြမ်းပုံမျိုး၌ တလက်မလျှင် မျဉ်းကြောင်းရေ ၇၀ မှ ၈၀ ခန့်အထိ ရှိတတ်၍၊ အဖိုးတန်စာအုပ်များတွင် တွေ့ရတတ်သော ဓာတ်ပုံတမျှ ကောင်းမွန်သည့်ပုံများ၌မူ၊ ထိုထက်အနုစိတ်ရန် လိုသည့်အတိုင်း၊ တလက်မလျှင် မျဉ်းကြောင်းပေါင်း ၁၈၀ မှ ၂၀၀ အထိပင် ရှိတတ်လေသည်။

**ဓာတ်စား သွပ်ဘလောက် လုပ်နည်း။** တကြောင်းဆွဲ ရုပ်ပုံများကို ဓာတ်ပုံဘလောက်ပြုလုပ်သောအခါ၊ အရောင်အနုအရင့်နှင့် အလင်းအမှောင်ကို အဆင့်ဆင့်ခွဲခြားရန် မလိုသည့်အတိုင်း၊ စက္ကရင်းခံ၍ ရိုက်ကူးရန် မလိုချေ။ ရိုးရိုးနက်ဂတစ်နှင့် ပုံစွဲဆေးတင်ထားသော သွပ်ပြားပေါ်တွင် ကူးယူနိုင်သည်။ မူလပုံစံ၏ မျဉ်းများအတိုင်း အလင်းအမှောင် ပြတ်သားစွာထင်သဖြင့်၊ နက်ဂတစ်နှင့် ထပ်၍ကူးယူပြီးနောက် စားဆေးဖြင့် စိမ်လိုက်လျှင်၊ လိုသောပုံသည် ဘလောက်လုပ်မည့် သွပ်ပြားပေါ်၌ ပြတ်သားစွာပေါ်၍လာပေသည်။ တခါတရံတွင်လည်း အဆိုပါ သွပ်ဘလောက်များ၌ ဟပ်ဖတုန်းနည်းကိုပါ တွဲဖက်၍ အသုံးပြုလေ့ရှိသည်။

**ဖိုတိုဂရေဗြူအာ ဘလောက် လုပ်နည်း။** ဤဘလောက်မှာ ဟပ်ဖတုန်း ဘလောက်မျိုးနှင့် လုံးဝခြားနားသည်။ ဖိုတိုဂရေဗြူအာ ဘလောက်လုပ်နည်းတွင် ရှေးဦးစွာ ဘလောက်ပြုလုပ်လိုသည့်ပုံကို ဓာတ်ပုံရိုက်ယူရသည်။ သို့သော် ဟပ်ဖတုန်းနည်းမှာကဲ့သို့ စက္ကရင်းမခံရပေ။ ထို့နောက် ပေါ်ဇတစ်ပုံတူရအောင် ထပ်၍ကူးရပြန်သည်။ ပြီးမှ ဤပေါ်ဇတစ်အောက်၌ ကာဗွန်တစ်ရှူးပေပါခေါ် ပုံစွဲထင်သည့် စက္ကူခံ၍ အလင်းရောင်ဖြင့်ပုံကူးပြီးလျှင်၊ ပုံစွဲဆေးသုတ်ထားသည့်ကြေးနီပြားပေါ်သို့ လွှဲပြောင်းပေးရပြန်သည်။ ထို့နောက်ကြေးပြားကို ဟပ်ဖတုန်းနည်းမှာကဲ့သို့ပင် စားဆေးဖြင့် စားပစ်ရသည်။ ထိုအခါ စက္ကူပေါ်၌ထင်စေလိုသည့် အပိုင်းတို့သည် စားဆေးကြောင့် ချိုင့်ဆင်းသွားသည်။ ထို့ကြောင့် ဖိုတိုဂရေဗြူအာ ဘလောက်သည် အချိုင့်ထွင်း ဓာတ်စား ဘလောက်မျိုး ဖြစ်လေသည်။ ထူးခြားချက်တခုမှာ၊ ဟပ်ဖတုန်းနည်းမှာကဲ့သို့ စက္ကရင်းကို မသုံးသော်လည်း၊ စက္ကရင်းအစား ထင်းရှူးဆီအမှုန့်ကို သုံးခြင်းပင်ဖြစ်၏။ အသုံးပြုပုံမှာ၊ ကြေးနီပြားပေါ်တွင် ပုံမကူးမီ၊ အလွန်နုသော ထင်းရှူးဆီ အမှုန့်များကို ဖြူးပေးသည်။ ထို့နောက် မီးကင်ပေးသောအခါ၊ ထင်းရှူးဆီ အမှုန့်ကလေးများသည် အရည်ပျော်၍ ကြေးနီပြားပေါ်၌ ကပ်နေလေသည်။ ထင်းရှူးဆီကပ်နေသောနေရာကို စားဆေး မစားချေ။ ထိုကြောင့် အစားခံရသည့်နေရာများသည် မျဉ်းများ အစက်များကဲ့သို့ သိသာထင်ရှားခြင်း မရှိသည့် အတိုင်း၊ ဤဘလောက်မျိုးဖြင့် ပုံနှိပ်ရရှိသောပုံများသည် ဟပ်ဖတုန်းပုံများထက် ပို၍ညက်ညောသည်။

ဤဓာတ်ပုံဘလောက်မျိုးဖြင့် ပုံနှိပ်သောအခါ၊ ဘလောက်ကို မင်သုတ်ပြီးနောက်၊ စက်တွင်ရှိသော မင်ခြစ်ဓားက ဘလောက်မျက်နှာပေါ် ရှိမင်ကို ခြစ်ပစ်လိုက်သည်။ ထိုအခါ ချိုင့်နေသောနေရာများ၌ဝင်နေသည့် မင်များသာကျန်၍၊ ထိုမင်များက တဖန် စက္ကူပေါ်၌စွဲ၍ ပုံကိုထင်စေလေသည်။

**ဖိုတိုလစ်သို ဘလောက် လုပ်နည်း။** ဤနည်းမှာ ကျောက်ပုံနှိပ်အတတ်မှ ဓာတ်စားနည်းဖြင့် ပေါက်ဖွားလာသောနည်းသစ်ဖြစ်၍၊ မကြာမီကမှ လူတို့အသုံးပြုလာကြသည်။ ဤနည်းတွင် သွပ် သို့မဟုတ် ဒန်ပြားပေါ်၌ ဓာတ်ပုံ ဘလောက်နည်းတူပင် ပုံစွဲဆေး သုတ်ပေး၍၊ အလိုရှိသောပုံကို ပဋ္ဌမဦးစွာ ကူးယူရသည်။ ပြီးမှ ပုံထင်စေလိုသည့်နေရာတွင် မင်စွဲစေ၍၊ မထင်စေလိုသည့်နေရာတွင် မင်မစွဲအောင် ပြုလုပ်ပြီးလျှင်၊ လစ်သိုဘလောက်အတိုင်း ရိုက်နှိပ်ရလေသည်။ ဖိုတိုလစ်သိုဘလောက်မှာ လစ်သိုဘလောက်ကဲ့သို့ မျက်နှာပြင်ညီ ပုံဖော်ထားသော ဘလောက်မျိုးပင်ဖြစ်၏။ ဤဘလောက်မျိုးကို 'အော့ဖဆက်' ခေါ် တဆင့်ခံ ပုံနှိပ်နည်း

တွင်လည်း ယခုအခါ အသုံးပြုလျက်ရှိကြပေသည်။ (ကျောက်ပုံနှိပ်အတတ်။ ပုံထုထွင်းအတတ် — ရှု။)

**ရောင်စုံဘလောက်လုပ်နည်း။** ယခုခေတ် ဘလောက်လုပ်ငန်းတွင် ရောင်စုံဘလောက်များသည်လည်း အထူး တိုးတက်လျက် ရှိပေသည်။ ရှေးက ဆေးရောင်စုံဘလောက်များကို ပြုလုပ်ရာတွင်၊ ဆေးရောင်တမျိုးအတွက် ဘလောက်တခုစီ သီးခြား ပြုလုပ်ရ၍၊ ရောင်စုံပုံကိုရရန် အကြိမ်ကြိမ် ရိုက်နှိပ်ရလေသည်။ ယခုအခါတွင်မူ၊ လစ်သို ဘလောက်မျိုး ပြုလုပ်သည်ဖြစ်စေ၊ ဟပ်ဖတုန်းဘလောက်မျိုး ပြုလုပ်သည်ဖြစ်စေ၊ မည်သည့်အရောင်နှင့် မည်သည့်အရောင်ကို ရောစပ်ပေးက မည်သည့်အရောင်မျိုးရသည် ဟူသော အရောင်တို့၏ ရောစပ်မှုသဘာဝကို အခြေပြု၍၊ ယခင်ကနှင့် လုံးဝမတူသည့်နည်းကို တီထွင် အသုံးပြုကြလေသည်။ ထို့ကြောင့် ယခုအခါ အရောင်ရှိသမျှအတိုင်း ဘလောက်များပြုလုပ်ရန် မလိုတော့ဘဲ၊ ဘလောက်သုံးခု၊ သို့မဟုတ် လေးခုဖြင့်သာ လိုရာအရောင်အမျိုးမျိုးကိုရအောင် ပုံနှိပ်နိုင်ကြလေပြီ။ အရောင်အလိုက် သီးခြားဘလောက်တုံးများ ပြုလုပ်ရန်အတွက်၊ ပုံများကို ရှေးဦးစွာဓာတ်ပုံရိုက်ရာ၌၊ 'ဖစ်လတာ' ခေါ် ဆေးရောင်စစ်သည့်မှန် ခံ၍ ရိုက်ကူးရသည်။ အရောင်စစ်မှန်များတွင် 'ပြာ–စိမ်း' ရောင်၊ 'ဝါ–စိမ်း' ရောင်နှင့် 'နီ–လိမ်မော်' ရောင် သုံးမျိုးရှိသည်။ အဝါရောင်မင်ဖြင့် ရိုက်နှိပ်ရမည့်ဘလောက် ပြုလုပ်ရန်အတွက် 'ပြာ–စိမ်း' ရောင် ဖစ်လတာကိုင်း၊ အနီရောင် ဘလောက်အတွက် 'ဝါ–စိမ်း' ရောင် ဖီလတာကိုင်း၊ ပြာစိမ်းရောင် ဘလောက်အတွက် 'နီ–လိမ်မော်' ရောင် ဖစ်လတာကိုင်း အသီးအသီး အသုံးပြုကြရ၏။ အမည်းရောင်နှင့်ရိုက်နှိပ်ရမည့် ဘလောက်ဖြစ်မူ၊ မည်သည့် ဖစ်လတာမျှ မခံဘဲ ကြည်လင်သော မှန်ဘီလူးဖြင့်သာ ဓာတ်ပုံရိုက်ယူရသည်။ ဤနည်းမှာ အလင်းရောင်တို့၏ ပြုမူတတ်ပုံသဘောနှင့် ဆေးရောင်၊ မင်ရောင်တို့၏ ပြုမူတတ်ပုံသဘောကို အခြေပြုကာ၊ သိပ္ပံနည်းတကျ စမ်းသပ်တီထွင်ထားခြင်း ဖြစ်၍၊ အကျယ်သိလိုက 'အရောင်' အကြောင်းတွင် ကြည့်နိုင်သည်။ (အရောင် — ရှု။) အနီရောင်ရှိသည့် ဖစ်လတာနှင့် ဓာတ်ပုံရိုက်သောအခါ၊ မူရင်းပုံမှ အနီရောင်နှင့် နီးစပ်ရာအရောင်ရှိသော အပိုင်းတို့သာ ထင်သည်။ ထို့အတူ အဝါရောင်ပါရှိသည့် ဖစ်လတာခံ၍ ရိုက်လျှင်လည်း၊ အဝါပိုင်းသာ ထင်သည်။ ဆေးရောင် မင်ရောင်များတွင် အခြေခံအားဖြင့် အနီ၊ အပြာ၊ အဝါ၊ ဟူ၍ သုံးမျိုးသာရှိ၍၊ ဤသုံးမျိုးမှ အနုအရင့်အလိုက်သော်၎င်း၊ တရောင်နှင့် တရောင် ရော၍နှိပ်ခြင်းဖြင့် အခြားအရောင်များသော်၎င်း အမျိုးမျိုးပြား၍ ထွက်နိုင်သည်။ ထို့ကြောင့် ရောင်စုံဘလောက်များ ပြုလုပ်ရာတွင် အခြေခံဆေးရောင်များဖြစ်သော အနီ၊ အပြာနှင့်အဝါအပြင် အမည်းရောင်ပါလိုပါက ဘလောက်လေးခုသာ ပြုလုပ်ရန် လိုပေသည်။ ပုံနှိပ်သောအခါ၊ အဝါရောင်ကို ပဌမ၊ ထို့နောက် အမည်း၊ အနီနှင့် ပြာစိမ်းရောင် အစရှိသဖြင့်၊ အစီအစဉ်ထား၍ ရိုက်နှိပ်ရသည်။ ဆေးရောင်တခုနှင့်တခု ထပ်၍ရိုက်ရာတွင် ဖောက်ထွင်းမြင်နိုင်သော မင်အကြည်ကို သုံးရ၏။ ရောင်စုံ ဘလောက်ပြုလုပ်သူသည် ဆေးရောင်တို့၏သဘောကို ကောင်းစွာ နားလည်ကျွမ်းကျင်ရမည်ဖြစ်၍၊ ပန်းချီဆရာတမျှလည်း အမြင်စူးရှရန် လိုပေသည်။

**ဓာတ်စက်။** ။သိပ္ပံပညာအရဆိုလျှင်၊ အသံဟူ၍ ဖြစ်ပေါ်လာသည်မှာ ရုပ်ဝတ္ထုတို့၏ တုန်ခါမှုကြောင့်ဖြစ်၏။ (အသံ — ရှု။) ထိုတုန်ခါမှုတို့ကို ဝတ္ထုပစ္စည်းတခုခုပေါ်၌ အရာထင်အောင် ပြုလုပ်၍ ရနိုင်သည်။ ယင်းသို့အရာထင်နေသော အမှတ်အသားသည် အခြားဝတ္ထုပစ္စည်းတခုကို တုန်ခါသွားအောင် ဖန်တီးနိုင်သည်။ သို့နှင့်ပင် မူလကဖြစ်ပေါ်ခဲ့သော အသံကို အကြိမ်ကြိမ် အဖန်ဖန် ထပ်မံဖြစ်ပေါ်အောင် ပြုလုပ်ပေးနိုင်သည်။ ဤသဘောအရ၊ အသံကြောင့်ဖြစ်ပေါ်လာသော တုန်ခါမှုတို့ကို ဓာတ်လုံးခေါ် ဆလင်ဒါ (ပြောင်းလုံး) အပေါ်၌၎င်း၊ ဓာတ်ပြားပေါ်၌၎င်း အရာထင်အောင် ပြုလုပ်၍ ရနိုင်သည်။ ယင်းကဲ့သို့ တုန်ခါခြင်းကို အမှတ်အသားထင်အောင် ပြုလုပ်သည်ကို အရပ်သုံးစကားဖြင့် အသံသွင်းသည်ဟု ခေါ်သည်။ အသံသွင်းဓာတ်ပြားရှိ အပ်ကြောင်းများသည် တုန်ခါခြင်းကိုမှတ်သားသော လမ်းကြောင်းများ ဖြစ်သည်။ ထိုလမ်းကြောင်းများပေါ်တွင် အသံအိမ်နှင့် ဆက်သွယ်ထားသောအပ်ကို ရွေ့ရှားစေသော်၊ အပ်၏တုန်ခါမှုကြောင့် မူလအသံသည် တဖန် ဖြစ်ပေါ်လာပြန်သည်။ ထိုသို့အသံသွင်းထားသော ဓာတ်ပြားမှ အသံ တဖန် ပြန်ထွက်အောင် လုပ်ပေးသော စက်ကို အရပ်စကားဖြင့် ဓာတ်စက်ဟု ခေါ်ကြသည်။

ဓာတ်စက်ကို ဦးစွာ စတင်တီထွင်သူကား အမေရိကန်လူမျိုး ထောမတ် အယ်လဗာ အက်ဒီဆင် ဖြစ်သည်။ (အက်ဒီဆင်, တီ၊ အေ — ရှု။) ၁၈၇၇ ခုနှစ်တွင် ထိုပုဂ္ဂိုလ်ကြီး ကြံဆတီထွင်ခဲ့သော ဓာတ်စက်ကို ယခုအခါ အမေရိကန်ပြည်ထောင်စု ဝါရှင်တန်မြို့ရှိ စမစ်ဆိုနီယန် အင်စတီကျူးရှင်းခေါ် ပညာပြန့်ပွားရေးအဖွဲ့က အမြတ်တနိုး သိမ်းဆည်းထားရှိသည်။ သို့ရာတွင် အက်ဒီဆင် တီထွင်ခဲ့သောဓာတ်စက်မှာ ယခုခေတ်သုံး ဓာတ်စက်များနှင့် မတူချေ။ ထိုစက်ကို လက်လှည့် လက်ကိုင်ဖြင့် လှည့်ပေးရ၍၊ ဓာတ်ပြားဝိုင်းနေရာတွင်ပြောင်းလုံးပုံ ဆလင်ဒါဓာတ်လုံးမျိုးကို အသုံးပြုသည်။ ဓာတ်စက်၌ထိုကဲ့သို့ဆလင်ဒါဓာတ်လုံးနှင့် ဖွင့်ရသော ဓာတ်စက်မျိုးကို ဖိုနိုဂရပ်ဟု ခေါ်သဖြင့်၊ အက်ဒီဆင် တီထွင်

သောစက်မှာ ဖိုနိုဂရပ်ပင် ဖြစ်၏။ ဓာတ်ပြားဝိုင်းနှင့် ဖွင့်ရသောစက်မျိုးကိုမူ ဂရမ်မိုဖုန်းဟုခေါ်၍၊ ထိုစက်မျိုးကို နောက်မှ အေမီး ဗာလင်နာ ဆိုသူ ဂျာမန်လူမျိုးတဦးက တီထွင်ခြင်းဖြစ်လေသည်။

အခြေခံသဘောအားဖြင့် အက်ဒီဆင်၏တီထွင်ချက်မှာ တယ်လီဖုန်းရှိ နားထောင်ခွက်နှင့် စကားပြောခွက်များ အတိုင်းပင် ဖြစ်သည်။ (စကားပြော ကြေးနန်း — ရှု။) အသံသည် လေထဲ၌ အသံလှိုင်းများကိုဖြစ်ပေါ်စေ၍၊ ထိုအသံလှိုင်းများက ဒိုင်ယာဖရမ်ခေါ် ပါးလွှာသော ချပ်ပြားကို ရိုက်ခတ်သောအခါ၊ ချပ်ပြားသည် အသံလှိုင်းများ၏ အနေး အမြန် အပြင်း အပျော့နှင့် ကိုက်ညီအောင် တုန်ခါသည်။ ထိုသို့သော တုန်ခါမှုများကြောင့်၊ လေထဲ၌ လှိုင်းများဖြစ်ကာ၊ ထိုလှိုင်းများမှတဆင့် အသံကိုကြားနိုင်သည်။ အက်ဒီဆင်သည် ဤသဘောကို အခြေပြု၍၊ သူ၏ ဓာတ်စက်ကို ကြံစည်တီထွင်ခဲ့ခြင်း ဖြစ်၏။

ဓာတ်ပြားတွင် အသံသွင်းရန်အတွက် အက်ဒီဆင်သည် ဒိုင်ယာဖရမ် ချပ်ပြားတချပ်၏ အလယ်ချက်၌ အပ်တချောင်းကို တပ်ထားပြီးနောက်၊ ထိုအပ်ဖျားကို ပြောင်းလုံးပေါ်၌ ပတ်ထားသော သံဖြူပြားနှင့် ထိထားစေသည်။ ဆလင်ဒါကို လျင်မြန်စွာလည်အောင် လှည့်ပေးထား၍၊ တဖြည်းဖြည်း အလျားလိုက် ရွှေ့သွားအောင်လည်း ပြုလုပ်ထားသည်။ ဆလင်ဒါ လည်သောအခါ၊ ဆလင်ဒါပေါ်ရှိ သံဖြူတွင် အပ်ကြောင်းများ ထင်၍ကျန်ရစ်၏။ အက်ဒီဆင်သည် ဤနည်းအတိုင်း ဆလင်ဒါကို လည်နေစေပြီးသော်၊ ဒိုင်ယာဖရမ်မှတဆင့် အသံသွင်းလေသည်။ အသံသွင်းပုံမှာ၊ အသံလှိုင်းကို ဒိုင်ယာဖရမ်ပေါ်သို့ တိုက်ရိုက်ကျရောက်စေခြင်းဖြင့် ဒိုင်ယာဖရမ်ကို တုန်ခါစေသည်။ ဒိုင်ယာဖရမ် တုန်ခါသောအခါ၊ အပ်ကလည်း တုန်ခါသည့်အတွက် သံဖြူပြားပေါ်တွင် တုန်ခါမှုအလိုက်၊ တနေရာနှင့် တနေရာ အတိမ်အနက်ချင်း မညီညွတ်သော အပ်ကြောင်းများကို ထင်စေသည်။ ဆလင်ဒါမှာ လည်ရုံမက အလျားလိုက်လည်း နေရာရွှေ့လျက်ရှိသဖြင့်၊ အသံသွင်းပြီးသောအခါ၊ ဆလင်ဒါရှိ သံဖြူပေါ်၌ ဝက်အူရစ်ကဲ့သို့ တပတ်ပြီးတပတ် ရစ်သွားသော အပ်ကြောင်းများ ထင် ကျန်ရစ်လေသည်။ အပ်ကြောင်းထင်နေသော ဆလင်ဒါမှအသံကို ပြန်ဖော်ရန်မှာ မူလအသံသွင်းသည့်နည်းကို ပြောင်းပြန်ပြုလုပ်ရန်ပင် ဖြစ်သည်။ ထိုအတွက် ဆလင်ဒါကို လည်နေစေပြီးလျှင်၊ အပ်ကြောင်းပေါ်၌ အပ်တချောင်းကို တပ်ထားပေးရ၏။ ထိုအခါ ဆလင်ဒါ လည်လျက်ရှိစဉ် အပ်ကြောင်းများတွင် အတိမ်အနက်ဖြစ်နေသည့် မညီညွတ်မှုများအတိုင်း အပ်သည် တုန်ခါ၍နေသည်။ ဤကဲ့သို့ တုန်ခါလျက်ရှိသော အပ်ကို ဒိုင်ယာဖရမ်၌ တပ်ထားပေးခြင်းဖြင့်၊ ဒိုင်ယာဖရမ်တွင် အလားတူ တုန်ခါခြင်းများ ဖြစ်ပေါ်လာရာမှ မူလသွင်းထားသည့်အသံအတိုင်း ပြန်၍ကြားရလေသည်။

အက်ဒီဆင် စတင်အသုံးပြုခဲ့သော သံဖြူပြား၌ ချွတ်ယွင်းချက်တခု ရှိ၏။ ယင်းမှာ သံဖြူသည် နူးညံ့လွန်းသဖြင့် ရှစ်ကြိမ် ကိုးကြိမ်မျှ ဖွင့်ပြီးသောအခါ၊ အပ်ကြောင်းများ စားသွားသည့်အတွက် အသံမထွက်တော့ပေ။ ထိုကြောင့် အေမီး ဗာလင်နာသည် သံဖြူအစား ချိပ်၊ ကြေးနီ စသည်တို့ကို အထပ်ထပ် စမ်းသပ်ခဲ့ရာမှ၊ နောက်ဆုံးတွင် ယခုခေတ်သုံး ဓာတ်ပြားဝိုင်းမျိုးကို ပြုလုပ်ရာ၌ အောင်မြင်လာလေသည်။ အက်ဒီဆင်ကိုယ်တိုင်လည်း သံဖြူထက် ခိုင်ခံ့အသုံးခံသော ပစ္စည်းဖြင့် အခြားဆလင်ဒါဓာတ်လုံးများကို တီထွင်ခဲ့သေး၏။ သို့ရာတွင် အသုံးပြုရာ၌ ဆလင်ဒါဓာတ်လုံးမျိုးထက် ဓာတ်ပြားဝိုင်းက ပို၍ အကျိုးများသည့်အတွက် ဆလင်ဒါဓာတ်လုံးသည် တဖြည်းဖြည်း တိမ်ကောသွားပေသည်။ ဆလင်ဒါဓာတ်လုံးများကို ယခုအခါ နိုင်ငံကြီးများရှိ အချို့အလုပ်တိုက်များ၊ ရုံးများ၌ လက်နှိပ်စက် စာရေးများအား အသံကိုနားထောင်၍ ရေးကူးရန်အတွက် ဒစ်တာဖုန်းခေါ် နှုတ်တိုက်ချပေးသည့် စက်များတွင်သာ အသုံးပြုကြလေသည်။ ဓာတ်ပြားဝိုင်းကို သုံးခြင်းဖြင့် အကျိုးများပုံမှာ ဓာတ်ပြားဝိုင်းတွင် မျက်နှာနှစ်ဖက်စလုံး၌ အသံသွင်းနိုင်၍၊ နေရာကျဉ်းကျဉ်းနှင့် ဓာတ်ပြားများကို သိမ်းဆည်းနိုင်သည်။ ဓာတ်ပြားဝိုင်းများက ဆလင်ဒါဓာတ်လုံးထက် ကြာရှည်အသုံးခံသည်။ နောက်တချက်မှာ ဆလင်ဒါလုံးနှင့် ဖွင့်ရသော ဓာတ်စက်တွင် ဆလင်ဒါကို လည်စေရုံမက အလျားလိုက်လည်း တဖြည်းဖြည်းရွှေ့အောင် ပြုလုပ်ပေးရန်လို၍၊ ဓာတ်ပြားဝိုင်းသုံး ဓာတ်စက်တွင်မူ ဓာတ်ပြားကို လှည့်ပေးရုံ ပေးမည့်စက်ကိုသာ လိုပေသည်။ ထိုအပြင် ဖန်သို့မဟုတ် လချေးဒိုင်ယာဖရမ်များအစား ဒျူရာလူမင်ခေါ် သတ္တုရောတမျိုးဖြင့် ပြုလုပ်ထားသော ဒိုင်ယာဖရမ်ကို သုံးထားသည့်အတွက် ပို၍ကောင်းမွန်လေသည်။ သီဆို တီးမှုတ်သံ၊ စကားပြောသံများကို ဓာတ်ပြားသွင်းရာတွင်၊ ရှေးဦးစွာ ဓာတ်ပြားတချပ်တည်းနှင့်သာ မူလအသံများကို တိုက်ရိုက်သွင်းယူသည်။ ထိုနောက်မှ အီလက်ထရိုတိုက်ပင်းခေါ် လျှပ်စစ်ပုံသွန်းနည်းဖြင့် ထိုမူလဓာတ်ပြားမှ ဓာတ်ပြားအရေအတွက် လိုသမျှကို အမြောက်အမြား ရိုက်နှိပ်ကူးယူသည်။ ဤသို့ပုံသွန်းကူးယူရာ၌ ပလပ်စတစ်အမျိုးမျိုးကို အသုံးပြုကြလေသည်။ နောက်ဆုံးပေါ် ဓာတ်ပြားတမျိုးမှာ မကွဲနိုင်သော ဓာတ်ပြားမျိုးဖြစ်၍၊ ထိုဓာတ်ပြားမျိုးကို ဆဲလျူလွိုက် သို့မဟုတ် ဆဲလျူလိုဒြပ်ပေါင်းတမျိုးဖြင့် ပြုလုပ်ထားသည်။ အခြားတနည်း တီထွင်ပြုလုပ်ထားသော အလားတူဓာတ်ပြားမျိုးတွင်မူ စက္ကူပြားကို အောက်ခံထား၍၊ အပေါ်မှ သီးသန့်စိမ်ထားသော ချိပ်ရည်ဖြင့် သုတ်လိမ်း

ပေးထားလေသည်။ ဤဒုတိယဓာတ်ပြားမျိုးသည် ပေါ့၍ ပျော့ပျောင်းသည့်အပြင် အကိုင်အတွယ်ကိုလည်း ကောင်းမွန်စွာခံနိုင်လေသည်။ ဓာတ်စက်အပ်များကိုလည်း ယခင်ကထက် ပိုမိုကောင်းမွန်အောင် တီထွင်ပြုလုပ်နိုင်လာခဲ့ကြ၏။ ကြာရှည်ခံသော အပ်အချို့မှာ အထူးမာအောင် စီမံထားသောသံမဏိဖြင့် ပြုလုပ်ထား၍၊ ဓာတ်ပြားအချပ်ပေါင်း ငါးဆယ်တရာမျှအထိ တချောင်းတည်းဖြင့် ဖွင့်နိုင်သည်။ ထို့ပြင် တဇောင်းကြီးဆူးကို အပ်ကဲ့သို့ အသုံးပြုနိုင်သည်။ သို့သော် ယင်းကို တခါသုံးပြီးလျှင်၊ အဖျားချွန်အောင် သွေးပေးရသည်။ ဓာတ်ပြားအသံသွင်းရာ၌ အဓိကလိုအပ်သော အချက်များမှာ အသံများ ကြည်လင်ပြတ်သားစေရန်နှင့် ဓာတ်ပြားအရွယ်ကို မကြီးလွန်းစေရန်ပင်ဖြစ်သည်။ အသံသွင်းရာ၌ ပို၍ကောင်းမွန်စေရန် ယခုခေတ်တွင် မိုက်ကရိုဖုန်းခေါ် စကားပြောခွက်များနှင့် အခြားလျှပ်စစ်နည်းများကို အသုံးပြုလျက်ရှိပေပြီ။ (မိုက်ကရိုဖုန်း — ရှု။) ဓာတ်ပြားအရွယ် ငယ်စေရန်အတွက်မူ အပ်ကြောင်း သေးသေးနှင့်စိပ်စိပ် ထင်စေသောနည်းကို အသုံးပြုသဖြင့်၊ ယခုအခါ အသံကို ယခင်ကထက် နှစ်ဆမျှပို၍ သွင်းပေးနိုင်လေသည်။ ဓာတ်စက်ဖွင့်သောအခါ၊ အပ်ခြစ်သံနှင့်တကွ အခြားမလိုလားအပ်သော အသံများ ရောနှောထွက်ပေါ်လာခြင်း မရှိစေရန်အတွက်လည်း ဓာတ်စက်အိမ်များကို အမျိုးမျိုး ပြုပြင်စီမံပေးခဲ့ကြရသည်။ ထို့အတွက် ဓာတ်စက်အိမ်ရှိ အသံထွက်ရာပြွန်ထဲ၌ စူးရှသောအသံများကို စုတ်ယူနိုင်သည့် အသံစစ်ပစ္စည်းများကို ထည့်ထားပေးရလေသည်။ ဓာတ်ပြားကို မှန်မှန်လည်စေရန် အရေးကြီးသောကြောင့်၊ ထို့အတွက် အနှေး အမြန် လိုသလိုပြုပြင်နိုင်သည့်ခလုတ် ပါရှိသော သံပတ်စက်များကို တပ်ဆင်ပေးထားလေသည်။ ယခုအခါ သံပတ်စက်အစား လျှပ်စစ်ဓာတ်နှင့်လည်သော မိုတာစက်များလည်း ပေါ်ပေါက်နေလေပြီ။

နောက်ဆုံးပေါ် ဓာတ်စက်တမျိုးမှာ အော်တိုမက်တစ်ခေါ် သူ့အလိုအလျောက်ဖွင့်သည့် ဓာတ်စက်မျိုးဖြစ်၍၊ ထိုဓာတ်စက်မျိုးတွင် ဓာတ်ပြားများကို အလိုအလျောက် တပြားပြီး တပြား လဲ၍ဖွင့်နိုင်အောင် စီမံထားသည်။ ထိုကဲ့သို့စီမံထားသဖြင့်၊ တေးသီချင်းများကို အဆက်မပြတ် နားထောင်နိုင်သည်။ ရေဒီယိုကိုဖြစ်စေ၊ ဓာတ်စက်ကိုဖြစ်စေ၊ အလိုရှိသလို ဖွင့်နိုင်ရန်၊ ရေဒီယိုနှင့်ဓာတ်စက် နှစ်မျိုးလုံး ပူးတွဲထားသော စက်မျိုးကိုလည်း ယခုခေတ်တွင် တွေ့မြင်နိုင်ပေသည်။

ရေဒီယိုများ ပေါ်ပေါက်လာသောအခါ၊ ဓာတ်စက်သည် အနည်းငယ် ခေတ်မှိန်သွားသော်လည်း၊ ဓာတ်စက်ခေတ်ကုန်ပြီဟူ၍ကား မဆိုနိုင်ချေ။ ရေဒီယိုတွင် လွှင့်လိုက်သည့်အသံကို လွှင့်နေသည့်အချိန်တွင်သာ ဖမ်းယူနားထောင်နိုင်သည်။ ဓာတ်စက်၌ကား ဓာတ်ပြားများ အဆင်သင့်ရှိက ကြားလိုသည့်အသံကို အချိန်မရွေး ဖွင့်နိုင်ပေသည်။ ရေဒီယိုအသံလွှင့်ရုံများမှာပင် အချိန်အခါအလိုက် တဆင့် အသံလွှင့်နိုင်ရန်အတွက် ဓာတ်စက်နှင့်ဓာတ်ပြားမျိုးစုံကို အဆင်သင့်ထားရှိရ၏။ နောက်တချက်မှာ ဓာတ်စက်သည် ဖြေဖျော်မှုသက်သက်အတွက်သာ အသုံးဝင်သည်မဟုတ်၊ သင်တော်ရာအကြောင်းရပ်များနှင့် သင်ခန်းစာများကို အသံသွင်းထားသော ဓာတ်ပြားများဖြင့်လည်း၊ ကလေးသူငယ်များ၊ စာသင်သားများ၊ မျက်မမြင်နှင့် စာမတတ်သူများအား ပညာဗဟုသုတအမျိုးမျိုးကို သင်ကြားပို့ချနိုင်ပေသည်။ အထူးသဖြင့် ဓာတ်ပြားသည် အသံဖြင့်မှတ်တမ်းတင်သော ကရိယာဖြစ်လေရာ၊ တေးသီချင်းများကိုသာ မှတ်တမ်းတင်နိုင်သည်မဟုတ်၊ နောင်လာနောက်သားတို့ လေ့လာမှတ်သားထိုက်သော ပညာရှင်ကြီးများ၊ ခေါင်းဆောင်ကြီးများ၏ မိန့်ကြားချက်တို့ကိုလည်း မှတ်တမ်းတင်နိုင်သဖြင့်၊ လူ့လောက၏တိုးတက်ရေး၌ များစွာ အရေးပါအရာရောက်ပေသည်။

**ဓာတ်ဆား**။ ။ဓာတုဗေဒတွင် ဓာတ်ဆားသည် အရေးကြီးသော ပစ္စည်းတခုဖြစ်သည်။ အရပ်ခေါ် ဆားသည် ဟင်းခတ်ဆားကိုသာ ဆိုလိုသည်။ ဓာတုဗေဒပညာရှင်များသည် ရေ၌ပျော်ဝင်ပုံ၊ အရသာရှိပုံ၊ ပုံဆောင်ခဲသဏ္ဌာန်ရှိပုံ စသော ဂုဏ်သတ္တိများတွင် ဟင်းခတ်ဆားနှင့်တူသော ပစ္စည်းများကို ဓာတ်ဆားဟု ခေါ်ကြသည်။ ဓာတုဗေဒအလိုအားဖြင့် ဓာတ်ဆားသည် သတ္တုကသော်၎င်း၊ သတ္တုနေရာသို့ဝင်လာသော မူလစုကသော်၎င်း၊ အက်ဆစ်ထဲမှ ဟိုက်ဒရိုဂျင်ကို ထုတ်ဖယ်လိုက်ရာတွင် ဖြစ်ပေါ်လာသော ဒြပ်ပေါင်းကိုဆိုလိုသည်။ ပမာအားဖြင့် ဆိုဒီယမ် နိုက်ထရိတ်ဓာတ်ဆားသည် နိုက်ထရစ်အက်ဆစ်ထဲမှ ဟိုက်ဒရိုဂျင်ကို ဆိုဒီယမ်သတ္တုကဖယ်၍ နေရာယူလိုက်ရာတွင် ပေါ်ပေါက်လာသော ဓာတ်ဆားဖြစ်သည်။ အမ်မိုးနီးယမ်း ကလိုရိုက်ဓာတ်ဆားသည် ဟိုက်ဒရိုကလောရစ် အက်ဆစ်ထဲမှ ဟိုက်ဒရိုဂျင်ကို မူလစုကဖယ်၍ နေရာယူလိုက်ရာတွင် ပေါ်ပေါက်လာသော ဓာတ်ဆားဖြစ်သည်။

ဓာတ်ဆားများကို နည်းအမျိုးမျိုးဖြင့် ချက်ယူကြသည်။ အသုံးများသော နည်းတခုမှာ ဗေ့စ်နှင့်အက်ဆစ်တို့ ပေါင်းစပ်ရာမှ ဆားနှင့်ရေ ရရှိသောနည်းဖြစ်သည်။ ဤသို့ရရှိသော ဓာတ်ဆားသည် အက်ဆစ်နှင့်သော်၎င်း၊ ဗေ့စ်နှင့်သော်၎င်း၊ ဂုဏ်သတ္တိချင်း လုံးဝမတူပေ။ ပုံစံအားဖြင့် ဟိုက်ဒရိုကလောရစ်အက်ဆစ်နှင့်ပိုတက်ဆီယမ်ဟိုက်ဒရော့ဆိုက်တို့ ပေါင်းစပ်သောအခါ၊ ပိုတက်ဆီယမ် ကလိုရိုက်နှင့် ရေကို ရရှိသည်။

သတ္တုနှင့်အက်ဆစ် ပေါင်းစပ်ရာမှလည်း ဓာတ်ဆား ရရှိနိုင်ပေသည်။ ပုံစံအားဖြင့် သွပ်နှင့် ဆာလဖျူရစ် အက်ဆစ်တို့ ပေါင်းစပ်သောအခါ၊ ဇင့်ဆာလဖိတ် ဓာတ်ဆားနှင့် ဟိုက်ဒရိုဂျင်ကို ရရှိသည်။

ဓာတ်ဆားချက်ရာ၌ အသုံးများဆုံးသော နည်းတနည်းမှာ 'နှစ်ထပ်ခွဲနည်း' ဖြစ်သည်။ ထိုနည်းအရ ဆား ၂ မျိုး၏ ပျော်ဝင်ရည်တို့ကို ပေါင်းစပ်သောအခါ၊ ဓာတ်ဆားသစ် ၂ မျိုးကို ရရှိသည်။ ပုံစံအားဖြင့် ဗေရီယမ် ကလိုရိုက် ဓာတ်ဆားရည်ကို ဆိုဒီယမ် ဆာလဖိတ် ဓာတ်ဆားရည်ထဲသို့ လောင်းထည့်လျှင်၊ ဗေရီယမ် ဆာလဖိတ် ဓာတ်ဆားသည် အဖြူဖတ်များအဖြစ် ကျလာသည်။ ထိုပြင် ပျော်ဝင်ရည်ထဲ၌ ဆိုဒီယမ် ကလိုရိုက် (ဟင်းခတ်ဆား) လည်း ကျန်ရစ်ခဲ့လေသည်။

ဓာတ်ဆားများကို သာမန် ဓာတ်ဆား၊ အက်ဆစ် ဓာတ်ဆား၊ ဗေ့ ဓာတ်ဆားဟူ၍၊ ခွဲခြားပြလေ့ရှိသည်။ ဟိုက်ဒရိုဂျင် အက်တမ်တလုံးထက် ပို၍ပါသော အက်ဆစ်သည် ဗေ့နှင့် ဓာတ်ပေါင်းသောအခါ၊ ဟိုက်ဒရိုဂျင် လုံးဝမပါသော ဓာတ်ဆားကိုငင်း၊ ဟိုက်ဒရိုဂျင် ကျန်နေသော ဓာတ်ဆားကိုငင်း ရရှိတတ်သည်။ ဟိုက်ဒရိုဂျင် လုံးဝမပါသောဓာတ်ဆားသည် သာမန်ဓာတ်ဆားဖြစ်၍၊ ဟိုက်ဒရိုဂျင် ကျန်နေသော ဓာတ်ဆားသည် အက်ဆစ် ဓာတ်ဆားဖြစ်သည်။ အက်ဆစ် ဓာတ်ဆား၌ အက်ဆစ်သတ္တိ ရှိသေး၏။ ဆာလဖျူရစ်အက်ဆစ်သည် အက်ဆစ် ဓာတ်ဆား ဖြစ်နိုင်သည့်အပြင်၊ သာမန် ဓာတ်ဆားလည်း ဖြစ်နိုင်သည်။

မူလစု တစုထက် ပိုပါသောဗေ့သည် အက်ဆစ်နှင့် ဓာတ်ပေါင်းသောအခါ၊ မူလစုကျန်နေသော ဓာတ်ဆား ဖြစ်လာသည်။ ထိုဓာတ်ဆားမျိုးကို ဗေ့ ဓာတ်ဆားဟူ၍ ခေါ်သည်။ ဗစ်စမတ် နိုက်ထရိတ်သည် ဗစ်စမတ် ဟိုက်ဒရော့ဆိုက်မှ မူလစု တစုတည်းကို အက်ဆစ်မူလစုက ဖယ်ထုတ်ရာမှ ရရှိသော ဗေ့ ဓာတ်ဆားဖြစ်သည်။

အက်ဆစ် ဓာတ်ဆားသည် ယင်း၌ အက်ဆစ် ဟိုက်ဒရိုဂျင် ကျန်နေသေး၍၊ ဗေ့နှင့်ထပ်မံပေါင်းဖက်လိုက်ပါမူ၊ သာမန် ဓာတ်ဆား ဖြစ်လာနိုင်သည်။ ဗေ့ ဓာတ်ဆားသည် ယင်း၌ ဗေ့ မူလစု ကျန်နေသေး၍၊ အက်ဆစ်နှင့် ထပ်မံပေါင်းဖက်လိုက်ပါမူ၊ သာမန် ဓာတ်ဆား ဖြစ်လာနိုင်သည်။ သာမန် ဓာတ်ဆား၌ အက်ဆစ် ဟိုက်ဒရိုဂျင် နှင့် ဗေ့ မူလစုတို့ လုံးဝမပါရှိချေ။

ဓာတုဗေဒတွင် အင်ဩဂဲနစ် ဒြပ်ပေါင်းအမျိုး ၁၀,၀၀၀ ခန့်ရှိရာ၊ ယင်းတို့အနက် အများဆုံးတွေ့ရသည်မှာ ဓာတ်ဆားများပင် ဖြစ်သည်။ လူသိအများဆုံးသော ဓာတ်ဆားမှာ ဆိုဒီယမ် ကလိုရိုက် (ဟင်းခတ်ဆား) ပင် ဖြစ်သည်။ အခြားအသုံးဝင်သော ဓာတ်ဆားများမှာ ကယ်လဆီယမ် ကာဗွန်နိတ်၊ ပိုတက်ဆီယမ် နိုက်ထရိတ်၊ အမ်မိုးနီးယမ်း ကလိုရိုက် စသော ဓာတ်ဆားများဖြစ်သည်။

ဓာတ်ဆားများ၌ ဂုဏ်သတ္တိ အမျိုးမျိုးရှိသည်။ ယေဘုယျအားဖြင့် ဓာတ်ဆားများသည် အဖြူရောင် ပုံဆောင်ခဲများ ဖြစ်၍၊ ငန်သောအရသာ ရှိသည်။ အများအားဖြင့် ဓာတ်ဆားများသည် ရေ၌ ပျော်ဝင်နိုင်ကြသည်။ သို့သော် ထူးခြားသောဂုဏ်သတ္တိရှိသည့် ဓာတ်ဆားများလည်း ရှိသေးသည်။ ပုံစံအားဖြင့် ကော့ပါး ဆာလဖိတ် (ဒုတ္တာ) ၌ အပြာရောင်ရှိသည်။ ကယ်လဆီယမ် ကာဗွန်နိတ်သည် ရေ၌ မပျော်ဝင်ပေ။ (ဓာတုဗေဒ — လည်းရှု။)

**ဓာတ်ဆီ**။ ။မော်တော်ကား၊ မော်တော်ဘုတ်နှင့်တကွ အတွင်းမီးအား အင်ဂျင်စက်ဖြင့် ခုတ်မောင်းသောယာဉ်များ တိုးတက်လာသည့်အလျောက်၊ ဓာတ်ဆီ၏ အသုံးမှာလည်း တနေ့တခြား တိုးတက်၍ လာလေသည်။ ဓာတ်ဆီကို မီးထွန်းရန်နှင့် စက်ကရိယာများ မောင်းနှင်ရန် အသုံးပြုရုံမျှ မကသေး၊ ယာဉ်၊ ရထား၊ သင်္ဘော၊ လေယာဉ်ပျံ စသည်တို့ကို မောင်းနှင်ရန်လည်း အသုံးပြုသည်။ လေယာဉ်ပျံ မောင်းနှင်ရန်အတွက်မှာမူ အကောင်းဆုံး ဓာတ်ဆီမျိုးကို အသုံးပြုရလေသည်။

ဤမျှလောက် အသုံးဝင်သောဓာတ်ဆီကို ရရှိရန်အတွက် အဆင့်ဆင့် စီမံပြုလုပ်ရ၏။ ရေနံတွင်းမှ ရေနံကို ခေတ်မှီ စက်ကရိယာများဖြင့် တူးပြီးလျှင်၊ ပဋမဦးစွာ စုတ်ယူရ၏။ ဤသို့ ရေနံကိုရပြီးနောက်၊ ရေနံချက် စက်ရုံကြီးများရှိရာသို့ သယ်ဆောင်ရပြန်လေသည်။ တခါတရံ မြေအောက် ပိုက်လုံးများဖြင့်ပင် သွယ်ယူကြလေသည်။

ရေနံချက် စက်ရုံကြီးများသို့ ရောက်ပြန်သော်၊ ဓာတုဗေဒဆိုင်ရာ ဓာတ်အမျိုးမျိုးတို့ဖြင့် ခွဲစိတ် ပြုပြင်စီမံကာ ချက်လုပ်ခြင်းဖြင့်၊ ရေနံဆီရိုးရိုး၊ ဓာတ်ဆီရိုးရိုး၊ လေယာဉ်ပျံ ဓာတ်ဆီ စသည်တို့ကို ရရှိ၏။ ယခုအခါ ဓာတ်ဆီများသည် လောကဓာတ်ဆရာကြီးများ၏ အဆင့်ဆင့် တိုးတက်ကြံစည်မှုများကြောင့်၊ ရှေးကထက် ပိုမိုကောင်းမွန်လာလေသည်။

ဓာတ်ဆီရိုးရိုးဆိုရာ၌လည်း အမျိုးအစား၊ ခြားနားခြင်း ရှိသေးသည်တွင်၊ မော်တော်ကားအတွက် ဖြစ်မူ၊ မိုင်များစွာပို၍ ခုတ်မောင်းနိုင်သော ဓာတ်ဆီကို နှစ်သက်သူ များကြပေလိမ့်မည်။ ဓာတ်ဆီ၏ သတ္တိကြောင့်သာလျှင် မဟုတ်သေးချေ။ စက်ဆရာကြီးများကလည်း ဓာတ်ဆီ အစားနည်း၍၊ ခရီးတွင်ရန် မော်တော်ကား စက်ကရိယာများကို အမျိုးမျိုး ကြံဖန်တီထွင်ကြရသေး၏။ အေးသောနံနက်အခါတွင် လွယ်ကူစွာ စက်နှိုး၍ရသော ဓာတ်ဆီမျိုးကို အမျိုးကောင်း အစားဟု အမှတ်ပြုကြလေသည်၊ ထိုကြောင့် အချို့သူတို့သည် နွေဥတုတွင် ဓာတ်ဆီတမျိုးကို အသုံးပြု၍၊



ဓာတ်ဆီအမျိုးမျိုးရအောင် ရေနံကို ပြုပြင်စီမံကာချက်လုပ်သည့်ချောက်မြို့ရှိ ရေနံချက်စက်ရုံကြီး

ဆောင်းဥတုတွင် အခြားတမျိုးကို ပြောင်းလဲအသုံးပြုလေသည်။ ဆောင်းဥတုသုံး ဓာတ်ဆီကို နွေဥတုတွင် အသုံးပြုပြန်ပါက ခန်းလွယ်သောကြောင့်၊ အကုန် များမည် ဖြစ်လေသည်။ အချို့ဓာတ်ဆီများသည် ယာဉ်များကို မောင်းနှင်ရာတွင် အလွန်အကုန်များသောကြောင့်၊ ခရီးတာရှည်ပြေး၍ တွက်ခြေကိုက်စေရန်၊ လောကဓာတ်ပညာနည်းအားဖြင့်၊ သင့်လျော်သော ဓာတ်ဆေးများကို ရောစပ် ထည့်ထားလေသည်။

ဓာတ်ဆီကုမ္ပဏီများမှ၊ ဓာတ်ဆီရောင်းသောဆိုင်များကို မြို့ကြီးများ၏ စည်ကားရာ ရပ်ကွက်တိုင်းလိုလို၌ပင် တွေ့မြင်နိုင်သည်။ ဓာတ်ဆီဝယ်လိုသူတဦးသည် မိမိ၏ ယာဉ်ရထားကို ထိုဓာတ်ဆီတိုင်နားတွင်ရပ်၍ လိုအပ်သောအဖိုးကို ပေးလိုက်ပါက၊ မိမိ၏မော်တော်ကားအတွက် တခဏချင်းဖြင့် ဓာတ်ဆီကို ရနိုင်သည်။ ဤသို့အားဖြင့် မိမိ၏ မော်တော်ကားအတွင်း၌ ဓာတ်ဆီအမြောက်အမြားကို အပိုသယ်ဆောင်သွားရန် မလိုတော့ချေ။ (ရေနံ — ရှု။)

**ဓာတ်ပုံပညာ။** ။ဓာတ်ပုံပညာသည် နက်နဲကျယ်ဝန်းသည့် ပညာတရပ်ဖြစ်၏။ ယခုအခါ၌ မည်သည့်လုပ်ငန်း၌မဆို ဓာတ်ပုံပညာကို ကျော်ခိုင်း၍ မရပေ။ သတင်းစာ၊ မဂ္ဂဇင်း၊ ဂျာနယ်မှအစ စာအုပ်များ ထုတ်ဝေရေးလုပ်ငန်းများ၌ ဓာတ်ပုံများဖြင့် ဝေဝေဆာဆာ အမွန်းတင်ကြ၏။ ကြော်ငြာလုပ်ငန်းများ၌ ဓာတ်ပုံများ သုံးကြခြင်းဖြင့် ခရီးရောက်လှ၏။ စစ်ဘက်ဆိုင်ရာ လုပ်ငန်းများ၊ ဓာတ်သတ္တုပင်ရင်းများ ရှာဖွေရေး လုပ်ငန်းများ၌ အရေးပါလှသည့် ကောင်းကင်မြေတိုင်း ပညာမှာလည်း ဓာတ်ပုံပညာတရပ်ပင်ဖြစ်၏။ သိပ္ပံသုတေသနလုပ်ငန်းများ၌ ဓာတ်ပုံပညာသည် မပါလျှင် မဖြစ်သလောက် အကူအညီ ရရှိ၏။

အာကာသနှင့် အာကာသကောင်းကင်တန်ဆာများကို လေ့လာရာ၌ ဓာတ်ပုံပညာသည် များစွာ အထောက်အပံ့ ပြု၏။ မပျောက်ပျက်စေလိုသည့် စာအုပ်နှင့် စာရွက်စာတမ်းများကိုလည်း ဓာတ်ပုံရိုက်ကူး၍ မှတ်တမ်းတင်ထားကြ၏။ စုံထောက်ပုလိပ်လုပ်ငန်းများ၌လည်း အမှုအခင်းများကို မှတ်တမ်းတင်ရာ၌ ဓာတ်ပုံများကိုပင် သုံးကြ၏။ ဆေးသိပ္ပံပညာ၌ အသုံးပြုကြသည့်၊ အိတ်စရေးခေါ် ဓာတ်မှန်မှာလည်း ဓာတ်ပုံပညာတရပ်ပင် ဖြစ်၏။ သာမန်မျက်စေ့ဖြင့် မမြင်စွမ်းနိုင်သည့် ရောဂါပိုးများကို၊ မိုက်ကရိုစကုတ်များ၏ အကူအညီဖြင့် ပုံကြီးချဲ့၍၊ ဓာတ်ပုံများ ရိုက်ကူးယူကြပြီး လေ့လာကြ၏။

အင်္ဂလိပ်ဝေါဟာရအားဖြင့် ဓာတ်ပုံပညာကို ဖိုတိုဂရပ်ဖီဟု ခေါ်၏။ အဓိပ္ပါယ်မှာ အလင်းရောင်ကို အသုံးပြု၍၊ ရေးခြင်း၊ ဆွဲခြင်း၊ ကူးခြင်းဟူ၍ ဖြစ်၏။ တနည်းအားဖြင့်ဆိုသော် အလင်းရောင်ကြောင့် ဖြစ်ပေါ်လာသည့် အရိပ်၊ အလင်း၊ အမှောင်တို့ကို ကင်မရာခေါ် ဓာတ်ပုံရိုက် ကရိယာဖြင့် အရုပ်ထင်စေခြင်းပင် ဖြစ်၏။ (ကင်မရာ — ရှု။)

ဓာတ်ပုံပညာသည် ရူပဗေဒနှင့် ဓာတုဗေဒဟူသော သိပ္ပံပညာရပ် ၂ ရပ်အပေါ်၌ အမှီပြုရ၏။ ၁၇ ရာစုခေတ်ခန့်က စ၍ ဓာတ်ပုံပညာဆိုင်ရာ သုတေသနများကို ပြုလုပ်ခဲ့ကြပေသည်။ ၁၇၂၇ ခုနှစ်တွင် ဂျိုဟန်၊ အိတ်ရှတ်ဆိုသူ ဂျာမန်ဆရာဝန်တဦးသည်၊ မြေဖြူနှင့် စီလဗား ကာဘိုနိတ်တို့ကို ရောစပ်၍ ကော်တမျိုး ဖော်စပ်ကြည့်၏။ ထိုကော်ကို ဖလ်ပြွန်တွင်ထည့်၍၊ အလင်းပြကြည့်ရာ ကော်၏အရောင်မှာ မည်းသွားကြောင်း တွေ့ရှိခဲ့၏။ ဤသဘောကိုမှုတည်၍ ရုပ်ပုံများကို ကူးကြည့်ခဲ့၏။ ထိုမှတဖန် ၁၈၀၂ ခုနှစ်တွင် သောမတ် ဝက်ချဝုဒ်နှင့် ဟန်ဖရီ ဒေဗီဆိုသူ အင်္ဂလိပ်လူမျိုး သိပ္ပံပညာရှင် ၂ ဦးသည် ဂျိုဟန်၏ တွေ့ရှိမှုပေါ်၌ မှုတည်၍ ဆက်လက်ကြိုးစားကြည့်၏။ ရုပ်ပုံထင်အောင် ပြုလုပ်နိုင်ကြသော်လည်း၊ ရုပ်ပုံကို မပျက်စီးစေဘဲ၊ တည်မြဲနေအောင် မပြုလုပ်နိုင်ကြသေးပေ။

ထိုမှတဖန် ၁၈၃၉ ခုနှစ်တွင် ဒီဂါရီယိုတိုက်ခေါ် ရုပ်ပုံ ကူးနည်းတမျိုးကို အသုံးပြုလာကြ၏။ ထိုနည်းကို လူဝီး၊ ဂျေ၊ အမ် ဒီဂါးဆိုသူ ပြင်သစ်ပန်းချီဆရာတဦးက စတင်တီထွင်ခဲ့၏။ ဒီဂါးသည် ဂျိုးဆက်၊ အင်၊ နီးအက် ဆိုသူ ပြင်သစ်ပညာရှင်တဦးနှင့် ပူးပေါင်း၍ စမ်းသပ်ကြည့်ခဲ့၏။ နီးအက်၏ အကြံမှာ လီသိုဂရပ်နည်းဖြင့် ပုံကူးရာ၌၊ ကျောက်တုံးပေါ်၌ ရုပ်ပုံများ ဆွဲမည့်အစား၊ အလင်းရောင်ကို အသုံးပြုရန်ပင် ဖြစ်၏။ ထိုနည်းကို ဟယ်လီယိုဂရပ်ဖီဟု ခေါ်၏။ ဤနည်းမှာ ပုံနှိပ်လုပ်ငန်းအတွက် အကျိုးရှိသော်လည်း၊ ဓာတ်ပုံပညာ၌ အသုံးမပြုနိုင်ပေ။ ၁၈၂၉ ခုနှစ်တွင် ဒီဂါးနှင့် နီးအက်တို့သည် တဦးနှင့်တဦး ဖက်စပ်လုပ်၍ ဓာတ်ပုံကူးနည်းကို တီထွင်ကြ၏။ နီးအက် ကွယ်လွန်သွားပြီးနောက် ဒီဂါးတယောက်တည်းပင် ဆက်လက်ကြိုးစားခဲ့၏။

၁၈၃၁ ခုနှစ်မှစ၍၊ ဒီဂါးသည် ငွေပြားများပေါ်၌ ရုပ်ပုံကူးခြင်းကို စမ်းသပ်ခဲ့၏။ ပဌမ ငွေပြားများကို အိုင်အိုဒင်းအငွေ့များ မှုတ်ပေး၏။ ထိုအခါ ငွေပြားပေါ်၌ ဆီလဗား အိုင်အိုဒိုက်ခေါ် ဓာတ်ပစ္စည်းများ စွဲလာ၏။ ထိုနောက် ယင်းငွေပြားများကို ကင်မရာအောဘ်စကျူးရားခေါ် ဓာတ်ပုံရိုက်ကရိယာတွင် ထည့်၍၊ နှစ်ပေါင်းအတော်ကြာ အမျိုးမျိုး စမ်းသပ်ကြည့်၏။ ရုပ်ပုံထင်သော်လည်း၊ အလင်းပေးရသည့် အချိန်မှာ ကြန့်ကြာ၏။ ၁၈၃၇ ခုနှစ်တွင် အလင်းပေးချိန် အနည်းငယ်အတွင်း ရုပ်ပုံထင်စေမည့်နည်းကို တွေ့ရှိ၏။ ဤနည်း၌ တဖန် အလင်းပေးပြီးသည့် ငွေပြားများကို ပြဒါးငွေ့များ မှုတ်ပေး၏။ ပြဒါးများသည် အလင်းမိပြီးသည့် ငွေပြားများပေါ်၌ စွဲသွားပြီး၊ ရုပ်ပုံထင်လာ၏။ ရုပ်ပုံကို မြဲစေရန်အတွက် အလင်းမမိသည့် ဆီးလဗား အိုင်အိုဒိုက်များကို ရိုးရိုးဆားရည်ဖြင့် ဆေးပစ်၏။ ၁၈၃၉ ခုနှစ်တွင် ပြင်သစ်အစိုးရသည်၊ ဒီဂါး၏နည်းကို အပြီးအပိုင်ဝယ်ယူ၍၊ ဒီဂါးအားလည်း အငြိမ်းစားလစာများ ထောက်ပံ့ခဲ့၏။ ဤနည်းကို လူသုံးများလာခဲ့ပေသည်။

ဒီဂါးနှင့်တချိန်တည်း၌ပင်၊ ဝီလျံ၊ အိတ်၊ အက်၊ တယ်လဗော့ဆိုသူ အင်္ဂလိပ်လူမျိုးတဦးက၊ ၁၈၃၅ ခုနှစ်တွင် ပို၍ အလင်းရောင်တွေ့ထိမှုကြောင့် ဓာတ်ပြောင်းလွယ်သည့် ပုံကူးစာရွက်ကို တီထွင်ခဲ့၏။ တယ်လဗော့သည် ပုံကူးစာရွက်ကို ပို၍ဓာတ်ပြောင်းလွယ်စေရန် ထပ်တလဲလဲ ဆေးပေး၏။ ပဌမ ရိုးရိုးဆားရည်ဖြင့် ဆေး၏။ ထိုနောက် ဆီလဖားကလိုရိုက်များ ဖြစ်လာစေရန် ဆီလဗား နိုက်တြိတ်ဖြင့် ဆေးပေး၏။ ထိုနောက် ပုံကူးစက္ကူကို အခြောက်မခံဘဲ၊ အစိုအတိုင်းပင် ကင်မရာ၌ထည့်၍၊ တနာရီခန့် အလင်းပေးရာ၊ ရုပ်ပုံထင်လာ၏။ ရုပ်ပုံကိုမြဲစေရန် စီမံရာ၌၊ အလင်းမမိသည့် စီးလဗား ကလိုရိုက်များကို ဆားရည်ကျကျဖြင့် ဆေးပစ်၏။ ၁၈၃၉ ခုနှစ်တွင် ဟိုင်ပိုခေါ် ဆိုဒီယမ် သိုင်အိုဆာလဖိတ်ကို ချုပ်ဆေးအဖြစ် အသုံးပြု၏။ တယ်လဗော့သည် ဆက်လက်ကြိုးစားရာ၊ ၁၈၄၀ ခုနှစ်တွင် ဓာတ်ပုံကူးနည်းတမျိုးကို တွေ့ရှိပြန်သည်။ ထိုနည်းကို ပဌမ ကဲလိုတိုက်ဟုခေါ်ခဲ့ရာမှ နောင်အခါ တယ်လဗော့အား ဂုဏ်ပြုသောအားဖြင့် တယ်လဗိုတိုက်ဟု ခေါ်လာကြ၏။ ဤနည်း၌ ဆီးလဗား ကလိုရိုက်ကို သုံးသည့်အစား ဆီလဗား အိုင်အိုဒိုက်ကို သုံး၍ ပုံကူးစက္ကူကို အလင်းမပေးမီ ဆီလဗားနိုက်တြိတ်၊ အက်စက်တိတ် အက်စစ်နှင့် ဂဲလစ် အက်စစ် ဖျော်ရည်ထဲ၌ နှစ်ပေး၏။ ထိုစက္ကူကို တမိနစ်ခန့် အလင်းပေးပြီးနောက်၊ ဆီးလဗား နိုက်တြိတ်နှင့် ဂဲလစ် အက်စစ် ဖျော်ရည်ထဲ၌ နှစ်ပေးခြင်း

ဖြင့် ရုပ်ပုံများ မှေးမှေးပေါ်လာ၏။ တဖန် ထိုရုပ်ပုံကို ဓာတ်ပြောင်းလွယ်သည့် စက္ကူပေါ်၌ အထက်ပါနည်းအတိုင်း ကူးယူရာ၊ နောက်ဆုံး၌ ဓာတ်ပုံကို ရရှိပေသည်။ ဤမျှအထိ ဓာတ်ပုံပညာကို ဆောင်ရွက်နိုင်ခဲ့ခြင်းကြောင့်၊ တယ်လဗော့အား ဓာတ်ပုံပညာ ပါရဂူတဦးအဖြစ် ဂုဏ်ပြုခဲ့ကြ၏။

သို့သော် ပုံကူးစက္ကူများ ညှိဖျင်းမှုကြောင့်၊ ဓာတ်ပုံများမှာ ကြည်လင်ပြတ်သားခြင်း မရှိလှသေးပေ။ ၁၈၄၇ ခုနှစ်တွင် နီးအက် – ဒါ – စိန့်ဗစ်တာဆိုသူ ပြင်သစ်ပညာရှင်တဦးသည် ပို၍ကောင်းမွန်သည့် ပုံကူးမှန်ချပ်ကို တည်ထွင်အောင်မြင်ပြန်၏။ ပဌမ မှန်ချပ်ပေါ်၌ ဆီလဗားအိုင်အိုဒိုက် များများစွဲစေရန် ကြက်ဥအကာများကို သုတ်လိမ်းပေး၏။ ဓာတ်ပုံဆေးရာ၌ ဂါလစ်အက်စစ်ကိုပင် အသုံးပြု၏။ ရရှိသည့်ဓာတ်ပုံမှာ အထူးပင် ကြည်လင်ပြတ်သားသည်ဟု ဆို၏။

ထိုမှဆက်လက်၍၊ ၁၈၅၁ ခုနှစ်တွင် လန်ဒန်မြို့သား ဖရက်ဒါးရစ် အက် – အာချာဆိုသူသည် ကော်လိုဒီအုံးခေါ် ပလာစတစ်တမျိုးကို စတင်အသုံးပြု၏။ ဤနည်း၌ ကြက်ဥအကာအစား ကော်လိုဒီအုံးကို အသုံးပြု၍၊ ပုံကူးမှန်ချပ်ကို စီရင်၏။ ဤမှန်ချပ်ဖြင့် ရိုက်ကူးသည့် ဓာတ်ပုံများမှာ အထူးပင် ကောင်းမွန်လှသဖြင့် ၁၉၄၇ ခုနှစ်အထိပင်၊ ဓာတ်ပုံ ဘလောက်ဆရာများ အသုံးပြုခဲ့ကြ၏။ ဆက်လက်၍ ပို၍ကောင်းမွန်သည့် ပုံကူးစက္ကူနှင့် မှန်ချပ်များကို တီထွင်လာကြ၏။

ယနေ့အခြေအနေအထိ တိုးတက်လာသည့် ဓာတ်ပုံပညာကို မြေတောင် မြှောက်ပေးလိုက်သူမှာ ဂျော့ အီစမင်းဆိုသူ အမေရိကန်ပညာရှင်တဦး ဖြစ်၏။ ၁၈၈၃–၈၄ ခုနှစ်တွင် အီစမင်းသည် ယခုအခါ၌ အသုံးပြုနေကြသည့် ဖလင်လိပ် အတိုင်း အသုံးပြုသည့်နည်းကို စတင်တီထွင်ခဲ့ပေသည်။ ဤနည်း၌ စက္ကူစတခုအပေါ်၌ အလင်းမိရာ၌ ဓာတ်ပြောင်းလွယ်သည့် ဓာတ်ဆေးကို သုတ်လိမ်း၍၊ ရစ်လုံးပေါ်၌ လိပ်၍ ပတ်ထား၏။ ထိုရစ်လုံးကို ကင်မရာတွင်ထည့်၍ တပုံပြီး တပုံ ရိုက်ကူးနိုင်ပေသည်။ ထိုနောက် ဖလင်လိပ်ကို ထုတ်ယူ၍ တဆင့်ပြန်လည် ကူးယူရပေသည်။ သို့သော် ကူးယူရာ၌ အခက်အခဲများရှိ၏။ ထိုမှဆက်လက်၍ တီထွင်လာကြရာ၊ ကော်ပြားဖလင်များကို အသုံးပြုလာနိုင်ကြ၏။

ဓာတ်ပုံရိုက်ကူးရာ၌ အလင်းရောင်မှာ အထူးပင်အရေးကြီး၏။ ရိုက်ကူးမည့်ဝတ္ထုပေါ်သို့ ကျရောက်၍ ပြန်လာသည့် အလင်းရောင်ကို ကင်မရာရှိ မှန်ဘီလူးက ဖမ်းယူ၍၊ ကင်မရာထဲတွင် ထည့်ထားသည့်ဖလင်ပေါ်၌ အရိပ်ကို ထင်ရှားစွာ ကျရောက်စေ၏။ ဖလင်မှာ အလင်းတွေ့ထိမှုကြောင့် ဓာတ်ပြောင်းလွယ်၏။

မှန်ဘီလူးတိုင်း၌ အလင်းဆုံတိုင်း ရှိ၏။ အလင်းဆုံတိုင်းဆိုသည်မှာ အဝေးရှိ အရာဝတ္ထုတခုသည် ဖလင်ပေါ်၌ ပြတ်သားစွာ အရိပ်ထင်နေချိန်၌၊ မှန်ဘီလူးနှင့် ဖလင် အကွာအဝေးပင် ဖြစ်၏။ ဤအကွာအဝေးမှာ ရုပ်ပုံ ပြတ်သားစွာထင်စေရန် ဖလင်နှင့် မှန်ဘီလူးကြား အနည်းဆုံး အကွာအဝေး ဖြစ်၏။

မှန်ဘီလူး၏ အချင်းနှင့် ယင်း၏ အလင်းဆုံတိုင်းအလိုက် အမြန်နှုန်းရှိ၏။ အချင်းကျယ်သည့် မှန်ဘီလူးများသည် အလင်းရောင်များကို လျင်မြန်စွာ ဝင်စေ၏။ အချင်းကျဉ်းလျှင်၊ အလင်းကို ဘမ်းယူရာ၌ နှေးကွေး၏။ အချိုးအလိုက် မှန်ဘီလူး၏ အချင်းကို အကျဉ်းအကျယ် ပြုလုပ်ပေးနိုင်၏။ မှန်ဘီလူးမှဝင်လာသည့် အလင်းရောင်ကို အုပ်ထိမ်းပေးရန်အတွက် ကရိယာ ၂ မျိုး ရှိ၏။ ပဌမကရိယာမှာ ဒိုင်ယာဖရမ်ဖြစ်၍၊ ယင်းသည် မှန်ဘီလူး၏ အချင်းကို အကျဉ်းအကျယ် ပြုလုပ်ပေးနိုင်သည့် ကရိယာပိုင်းဖြစ်၏။ ဒုတိယကရိယာမှာ ရှပ်တာဖြစ်၍၊ ယင်းသည် အလင်းရောင် ဝင်စေရန် သူ့အချိန်အလိုက် အဖွင့်အပိတ် ပြုလုပ်ပေးသည့် ကရိယာပိုင်းဖြစ်၏။ တနည်းအားဖြင့်ဆိုသော် အလင်းဝင်ရာတံခါးနှင့် တူ၏။ ရိုးရိုးသေတ္တာကင်မရာများ၌ ဒိုင်ယာဖရမ်နှင့် ရှပ်တာကို အသေချိန်ထားပေးပြီး၊ မှန်ဘီလူးအချင်းကိုမူ ခပ်ကျဉ်းကျဉ်း ပြုလုပ်ပေးထား၏။ ရှပ်တာနှင့် မှန်ဘီလူးအကျဉ်းအကျယ် အချိုးကို တိကျမှန်ကန်စွာ ချိန်ပေးနိုင်လျှင် ဓာတ်ပုံကောင်းများ ရရှိနိုင်ပေသည်။ ယင်းအချိုးကို စိတ်မှန်းဖြင့်လည်း တွက်ယူနိုင်သည်။ ပို၍သေချာစေရန် အိတ်စပိုရှာမီတာခေါ် ကရိယာတမျိုးကို အသုံးပြုကြ၏။ ယင်းကရိယာသည် မှန်ဘီလူးအကျဉ်းအကျယ်၊ ရှပ်တာ အနှေးအမြန်ကို တွက်ပေးနိုင်၏။ သာမန်အားဖြင့် ဓာတ်ပုံရိုက်ကူးရာ၌ နေရောင်၏ အလင်းအားကိုသာ အားထားကြရ၏။ သို့သော် ယခုအခါ၌ နေရောင်ကို အားမကိုးကြတော့ဘဲ၊ ရုတ်ခြည်းလက်သည့် ဓာတ်မီးလုံးကရိယာများကို အသုံးပြုကြ၏။

ဓာတ်ပုံရိုက်ပြီးသော ဖလင်များကို တဖန်ပြန်၍ ကူးယူရ၏။ ဓာတ်ပုံကူးရာ၌ ပဌမ ဖလင်ကို ဒဲဗဲလော့ပါခေါ် ဆေးရည်ထဲတွင် နှစ်ပေးရ၏။ ယင်းနောက် ဟိုင်ပိုခေါ် ချုပ်ဆေးဖြင့် ဆေးပေးပြန်၏။ ဓာတ်ပုံကူးခြင်းကိစ္စများကို အမှောင်ခန်းထဲ၌သာ ပြုလုပ်ရ၏။ အလင်းမိလျှင် ပျက်စီးသွားပေမည်။ သို့သော် အချို့ဖလင်များမှာ အနီ သို့မဟုတ် အဝါအလင်းရောင်များ ပြနိုင်၏။ အကောင်းဆုံးမှာ လုံးဝ အလင်းရောင်မပေးခြင်းပင် ဖြစ်၏။ ချုပ်ဆေးနှင့် စီရင်ပြီးနောက်၊ ဖလင်ကို အလင်းပြနိုင်ပေပြီ။ ဤဖလင်၌ အရုပ်များကို ထင်ရှားစွာ မတွေ့ရသေးပေ။ ယင်းကို နက်ဂတစ်ဖလင်ဟု ခေါ်၏။

နက်ဂတစ်ဖလင်များမှ ရုပ်ပုံများကို ပုံကူးစက္ကူပေါ်၌ တဖန် ကူးယူကြရ၏။ ယင်းပုံကူးစက္ကူမှာ ဖလင်ကဲ့သို့ပင် အလင်းရောင်တွေ့ထိမှုကြောင့် ဓာတ်ပြောင်းလွယ်၏။ ဖလင်ကို ဖောက်၍ထိုးပေးသည့် အလင်းရောင်ကို ပုံကူးစက္ကူပေါ်သို့ ကျရောက်စေခြင်းဖြင့် ရုပ်ပုံများကို ကူးယူ၏။ နက်ဂတစ်ဖလင်ပေါ်၌ မည်းနေသည့် အကွက်အပြောက်များသည် အလင်းရောင်ကို ပိတ်စေ၍၊ အဖြူကွက်များက အလင်းကို ဖြတ်သွားစေ၏။ ထိုကြောင့် နက်ဂတစ်ပေါ်၌ မည်းနေသည့် နေရာသည်၊ ဓာတ်ပုံပေါ်၌ ဖြူနေ၍၊ ဖြူနေသည့် နေရာသည် မည်းနေ၏။ ပုံကူးစက္ကူပေါ်၌ ဓာတ်ပုံကူးခြင်းကို နက်ဂတစ်ပုံ ဆေးသကဲ့သို့ပင် အမှောင်ခန်းထဲ၌သာ ပြုလုပ်ကြရပေသည်။

ဓာတ်ပုံများရိုက်ကူးရာ၌ အလင်းပေးမှုအပြင်၊ အခြား အရေးကြီးသည့် အချက်အလက်များ ရှိပေသေးသည်။ ဓာတ်ပုံများရိုက်ကူးရာ၌ အသုံးပြုမည့် ဖလင်အမျိုးအစားမှာလည်း အရေးကြီး၏။ ရိုးရိုးအဖြူနှင့် အမည်းရောင်သာ ပါရှိသည့် ဓာတ်ပုံများ ရိုက်ကူးရန်အတွက် အော်သိုကရိုမက်တစ်နှင့် ပင်ကရိုမက်တစ်ဟူ၍ ဖလင် ၂ မျိုး ၂ စား ရှိပေသည်။ အထူးအားဖြင့် အော်သိုကရိုမက်တစ်ဖလင်သည် အပြာနှင့် အစိမ်းရောင်များကြောင့် ပို၍ ဓာတ်ပြောင်းလွယ်၏။ သို့သော် အနီရောင်၏ တွေ့ထိမှုကြောင့် လုံးဝ ဓာတ်ပြောင်းခြင်း မရှိပေ။ ပင်ကရိုမက်တစ်ဖလင်များမှာမူ အနီရောင်မှအစ အခြားအရောင်အားလုံးတို့၏ တွေ့ထိမှုကြောင့် ဓာတ်ပြောင်းလွယ်၏။ ထိုကြောင့် အနီရောင်ရှိသည့် အရာဝတ္ထုတခုကို အော်သိုကရိုမက်တစ်ဖလင်နှင့် ရိုက်ကူးလျှင်၊ ဓာတ်ပုံ၌ အမည်းရိပ်များသာ ထင်ရှိ၏။ သို့သော် ပင်ကရိုမက်တစ်ဖလင်နှင့် ရိုက်ကူးလျှင် အနီရောင်ဝတ္ထုသည် အခြားအရောင်များကဲ့သို့ပင်၊ ဓာတ်ပုံ၌ အလင်းအမှောင်အလိုက် အဖြူ အမည်းရောင် အလင်းအမှိန် ရှိ၏။

မိုးကောင်းကင်ရှိ အပြာရောင်တိမ်တိုက်များကို အော်သိုကရိုမက်တစ်ဖလင်ဖြင့် ရိုက်ကူးလျှင်၊ ဓာတ်ပုံသည် အဖြူအမည်း မပေါ်ဘဲ၊ ပကတိအဖြူရောင်သာ ထင်ပေမည်။

ယင်းကဲ့သို့မဖြစ်စေဘဲ၊ အဖြူရောင်တိမ်တိုက်တို့နှင့် အပြာရောင်ကောင်းကင်တို့ကို ပြတ်ပြတ်သားသား ထင်ရှားစေရန် နည်း ၂ နည်းရှိ၏။ ပဌမနည်းမှာ ချင့်ချိန်၍ အလင်းကို လျှော့ပေးရမည်။ ဒုတိယနည်းမှာ မှန်ဘီလူးနှင့် တွဲသုံးရသည့် ဇီလတာကို သုံးကြရမည်။ ဇီလတာဆိုသည်မှာ အရောင်ရှိသည့်မှန် သို့မဟုတ် ပလာစတစ်ကော်ပြားပင် ဖြစ်၍၊ ယင်းတို့ကို ကင်မရာမှန်ဘီလူးပေါ်၌ တပ်ဆင်၍ သုံးကြရ၏။ အဝါရောင်ဇီလတာသည် အပြာရောင်များကို သင့်တော်ယုံ ဖယ်ရှားပစ်၍၊ မိုးကောင်းကင်ပြာနှင့် တိမ်တိုက်ဖြူများကို ဓာတ်ပုံ၌ ပြတ်သားစွာ ထင်ပေါ်စေ၏။ အော်သိုကရိုမက်တစ်ဖလင်များနှင့် တွဲသုံးရန် ဇီလတာအမျိုးအစား အနည်းငယ်သာရှိ၍၊ ပင်ကရိုမက်တစ်ဖလင်များနှင့် တွဲသုံးရန်၊ လိမ္မော်၊ အနီ၊ အစိမ်း၊ အပြာရောင်ဇီလတာများ ရှိပေသည်။ ဇီလတာများသုံးခြင်းဖြင့် ဓာတ်ပုံသည် ပြတ်ပြတ်သားသား ရှိ၏။ ပင်ကရိုမက်တစ်ဖလင်နှင့် အနီရောင်ဇီလတာခံ၍ ကောင်းကင်ကို ဓာတ်ပုံရိုက်လျှင်၊ ကောင်းကင်သည် အမည်းရောင် ပေါ်လာပြီး၊ တိမ်တိုက်များ တောက်ပလာ၏။

သဘာဝအရောင်အတိုင်း ဓာတ်ပုံ၌ ဆေးရောင်စုံပေါ်သည့် ဖလင်များလည်း ရှိပေသေးသည်။ ယင်းဖလင်များနှင့် ရိုက်ကူးသည့်ဓာတ်ပုံများ၌ အရောင်ထည့်ပြီးသား ဖြစ်၏။ ယင်းရောင်စုံဖလင်များကို ရိုးရိုးကင်မရာများတွင်ထည့်၍ ရိုက်ကူးနိုင်ပေသည်။ သို့သော် ရောင်စုံဖလင်များဖြင့် ဓာတ်ပုံရိုက်ကူးရာ၌ အလင်းပေးမှုမှာ အထူးပင် တိကျဖို့လို၏။ အလင်းပေးများလျှင်သော်၎င်း၊ နည်းလျှင်သော်၎င်း၊ ယင်းဓာတ်ပုံများမှာ သဘာဝကျမည်မဟုတ်ပေ။ အလင်းကိုလည်း အညီအမျှပေးရန် လိုအပ်၏။ အရောင်များသည် မိမိတို့သဘာဝအလျောက် အရောင်အလင်း အမှိန်ကို ဖြစ်ပေါ်စေ၏။ ရောင်စုံဖလင်များမှာလည်း ၂ မျိုး ၂ စား ရှိပေသည်။ တမျိုးမှာ နေ့အလင်းရောင်နှင့် ရိုက်ကူးရန်ဖြစ်၍၊ နောက်တမျိုးမှာ လျှပ်စစ်ဓာတ်မီးရောင်များနှင့် ရိုက်ကူးရန်ဖြစ်၏။

ဓာတ်ပုံပညာသည် တစစ တိုးတက်လာသည့်အလျောက်၊ ယခုအခါ၌ ရုပ်လုံးကြွ ဓာတ်ပုံများကိုပင် ရိုက်ကူးပေးနိုင်သည့် ကင်မရာများပင် ရှိ၏။ ယင်းကင်မရာများမှာ ရိုးရိုးကင်မရာများကဲ့သို့ မှန်ဘီလူး ၂ ခုစီ ပါရှိ၏။ ယင်း မှန်ဘီလူး ၂ ခုဖြင့် ရုပ်ပုံ ၂ ပုံကို တပြိုင်နက် ရိုက်ကူး၏။ ကျွန်ုပ်တို့၏ မျက်လုံး ၂ ခုကြား အကွာအဝေးနှင့်အညီ မှန်ဘီလူးများမှာ တခုနှင့်တခု ၂ လက်မ ကွာဝေး၏။ ရိုက်ကူးပြီးသည့် ဓာတ်ပုံများကို အထူးပြုလုပ်ထားသည့် ကရိယာတွင် ထည့်ကြည့်လျှင် ညာဖက်မျက်လုံးသည် ညာဖက်ရုပ်ပုံကို မြင်၍၊ ဘယ်ဖက်မျက်လုံးသည် ဘယ်ဖက်ရုပ်ပုံကို မြင်၏။ ထိုအခါ စက္ခုအာရုံအသိ၌ ရုပ်ပုံ ၂ ပုံကို ရောချမြင်ရခြင်းဖြင့် ရုပ်ပုံများမှာ ရုပ်လုံးကြွလာပြီး၊ အပြင်၌ ရုပ်ပုံများကိုမြင်ရသည့် အတိုင်း မြင်ကြရ၏။

ရုပ်ရှင်ကားများကိုလည်း ဤကဲ့သို့သော ကင်မရာများဖြင့် ရိုက်ကူးကြ၏။ ပိတ်ကားပေါ်သို့ ထိုးပြသည့်ရုပ်ပုံများကို အထူးစီမံထားသည့် မျက်မှန်တမျိုးဖြင့် ကြည့်ကြရ၏။ ဤကဲ့သို့ ရုပ်ရှင်ကားများကို ပိတ်ကားပေါ်၌ အရိပ်ထိုးပြရာ၌၊ ရုပ်ရှင်ပြစက် ၂ လုံးဖြင့် ထိုးပေးကြရ၏။

ယခုအခါ၌ ဓာတ်ပုံပညာကို အနုပညာအနေနှင့် လိုက်စားနေသူများလည်း မနည်းလှပေ။




အိမ်နှင့်လမ်းမီးတို့အပြင် ခရီးသွား သတိပေးနှင့် ကြော်ငြာမီးများအဖြစ် ဓာတ်မီးကို အမျိုးမျိုးသုံးလျက်ရှိသည်။

**ဓာတ်မီးထွန်းခြင်း**။ ။ယခုအခါတွင် တိုင်းပြည်ကြီးတိုင်းရှိ မြို့ကြီးများ၌ လျှပ်စစ်ဓာတ်မီးများကို ထွန်းလေ့ရှိကြပြီဖြစ်သဖြင့်၊ လျှပ်စစ်ဓာတ်အားနှင့် မီးထွန်းခြင်းသည် ရိုးနေပြီဟုပင် ဆိုနိုင်ပေသည်။ သို့သော် လျှပ်စစ်ဓာတ်မီးမပေါ်မီက၊ ဆီ၊ ရေနံချေး၊ ရေနံဆီ၊ ဓာတ်ငွေ့တို့ဖြင့်သာ မီးထွန်းလေ့ရှိခဲ့ကြလေသည်။

သိပ္ပံကဝိကြီး ဆာ ဟမ်ဖရီ ဒေဗီသည် ပဌမဆုံး လျှပ်စစ်အတ်မီးအိမ် (ဝါ) ကာဗွန် မီးအိမ်ကို ၁၈၀၁ ခုနှစ်၌ တီထွင်နိုင်ခဲ့သည်။ (ဒေဗီ, ဆာ ဟမ်ဖရီ — ရှု။) သို့သော် ဒိုင်နမိုကို ကောင်းမွန်စွာ ပြုလုပ်နိုင်ကြသောအခါမှာမှ၊ ထိုမီးအိမ်ကို အများအပြား အသုံးပြုနိုင်ခဲ့ကြသည်။ ထိုမီးအိမ်များတွင် ကာဗွန်ချောင်းငယ် နှစ်ချောင်း ပါဝင်၍၊ ထိုကာဗွန်ချောင်းတို့၏ အစွန်းများသည် တခုနှင့်တခု ထိလုနီးပါး မျက်နှာချင်းဆိုင် တည်ရှိကြသည်။ လျှပ်စစ်ဓာတ်စီး ဖြတ်သန်းသွားသောအခါ၊ လျှပ်စစ်ဓာတ်စီးသည် ကာဗွန်ချောင်းတချောင်းမှ အခြားတချောင်းသို့ ခုန်ကူးသွားသည်။ ထိုအခါတွင် လျှပ်စစ်ဓာတ်စီးကြောင့်၊ ကာဗွန်ငွေ့တို့သည် ကာဗွန်ချောင်းများအကြားတွင် အပြာရောင်မီးခုံးကလေး ဖြစ်၍နေသည်။ လျှပ်စစ်အတ်မီးဟုခေါ်သော ထိုမီးခုံးမှ တောက်ပသည့် အလင်းရောင် ဖြာထွက်လာသည်။ လျှပ်စစ်အတ်မီးအိမ်များကို ၁၈၇၀ ပြည့်နှစ်တွင် စတင်၍ ဗောလတီမိုးမြို့လမ်းများ၌ ထွန်းခဲ့ကြလေသည်။ ထိုနောက် လမ်းများသာမက စက်ရုံများ၌လည်း ထွန်းလာခဲ့ကြသည်။ လျှပ်စစ်အတ်မီးသည် ပူပြင်း၍၊ အဖြူရောင်ထွက်သောအလင်းကို ပေးသည်။

သို့သော် လျှပ်စစ်အတ်မီးသည် အိမ်တွင်း၌ ဓာတ်မီးလုံးအငယ်စား အနေဖြင့် သုံးစွဲရန် မသင့်လျော်ချေ။ အိမ်တွင်းသုံးအတွက် လျှပ်စစ်ဓာတ်မီးလုံးများကို မိမိတို့ထွန်းလိုသောနေရာတွင် ထွန်းနိုင်အောင် ပြုလုပ်တီထွင်ဖို့ လိုပေသည်။ ဤအလိုကို ဖြည့်သောအားဖြင့်၊ ခရစ် ၁၈၈၀ ပြည့်နှစ်တွင် ထောမတ် အက်ဒီဆင်ဟူသော သိပ္ပံပညာရှင်တဦးသည် အဖြူရောင် အလင်းထွက်သော လျှပ်စစ်ဓာတ်မီးလုံးကို တီထွင်ဖန်တီးခဲ့လေသည်။ (အက်ဒီဆင်, တီ၊ အေ — ရှု။) ထိုမီးလုံးမျိုးကို အက်ဒီဆင် မဖန်တီးမီက လျှပ်စစ်အတ်မီးအိမ်များ၌ အခက်အခဲများ တွေ့ရသည်။ ထိုအခက်အခဲများမှာ ဒိုင်နမိုကို ထိုအချိန်က ကောင်းစွာ အသုံးမပြုနိုင်သေးသဖြင့်၊

ကုန်ခန်းလွယ်သော ဗက်ထရီအိုး၏ လျှပ်စစ်ဓာတ်အား ကိုသာ အမှီပြုရခြင်း၊ ကာဗွန်မီးစာမျှင်များသည် လေရှိသောနေရာ၌ လောင်ကျွမ်းလွယ်ကြသဖြင့်၊ မကြာခဏ လောင်ကျွမ်းတတ်ခြင်းတို့ ဖြစ်သည်။ အက်ဒီဆင်သည် မီးမှာ အောက်ဆီဂျင်ရှိ၍သာ လောင်ကျွမ်းနိုင်သည်။ အောက်ဆီဂျင်ဓာတ်ငွေ့မရှိလျှင် မလောင်ကျွမ်းနိုင်ဟူသော သဘောကို သိလာသဖြင့်၊ မီးလုံးဖန်သီးအတွင်း၌ မီးစာမျှင်ကို ထားပြီးနောက်၊ လေကို ကုန်အောင်စုတ်ထုတ်၍ အလုံပိတ်ထားလေသည်။ ထိုနည်းဖြင့် မီးအမျှင် အနီးပတ်ဝန်းကျင်၌ အောက်ဆီဂျင်ဓာတ်ငွေ့ မရှိသောကြောင့်၊ မီးစာသည် မလောင်ကျွမ်းတော့ဘဲ တောက်ပသည့် အလင်းရောင်ကိုသာ ပေးလေသည်။

ခေတ်မီးလုံးအတွင်း၌ ပလာနယ်မထားဘဲ၊ အောက်ဆီဂျင်ဓာတ်ငွေ့ မဟုတ်သည့် အခြားဓာတ်ငွေ့ ထည့်သွင်းခြင်းကိုမူ၊ ၁၉၀၁ ခုနှစ်၌ စတင်ခဲ့လေသည်။ ခေတ်မီးလုံးအတွင်းမှာ ပြဒါးဓာတ်ငွေ့ကို ထည့်သွင်းထားသောအခါ၊ အနီရောင် မပါဘဲ၊ လှပသော အပြာရောင်အလင်းကို ဖြစ်စေနိုင်သည်။ ထိုပြဒါးဓာတ်ငွေ့ ထည့်သွင်းသော အတ်မီးအိမ်သည် အာထရာဗိုင်အိုလက် ရောင်ခြည် (ဝါ) ခရမ်းဘေး ရောင်ခြည်များကိုလည်း ဖြစ်စေနိုင်သည်။

၁၉၀၇ ခုနှစ်မတိုင်မီက ခေတ်မီးလုံးများ၌ အက်ဒီဆင် အသုံးပြုသွားသည့်အတိုင်း ကာဗွန်မီးစာမျှင်များကိုသာ အသုံးပြုခဲ့ကြရာ၊ အဝါရောင် ဖျော့ဖျော့ ရှိသော အလင်းကိုသာ ပေးနိုင်ခဲ့သည်။ ၁၉၀၇ ခုနှစ်တွင် တန်စတင်ကို တွေ့ရှိသုံးစွဲမိသောအခါ ကျမှ၊ မီးအလင်းထွန်းရေးတွင် တိုးတက်မှု များစွာ ရှိလာခဲ့လေသည်။ တန်စတင်သည် ကာဗွန် မီးစာမျှင်ထက် ၃ ဆမျှပို၍ အလင်းသတ္တိ ပြည့်စုံသောကြောင့်၊ ယခင်က ကာဗွန်မျှင်သည် ဖယောင်းတိုင် တတိုင်အား အလင်းရောင်အတွက် လျှပ်စစ်အား ၃ ဝပ်မျှ သုံးစွဲရသော်လည်း၊ တန်စတင်မီးစာမျှင်သည် ဖယောင်းတိုင် တတိုင်အား အလင်းရောင်အတွက် ၁ ဝပ်သာ အသုံးပြုရပေသည်။

ယခုခေတ် လျှပ်စစ်မီးလုံး ဖန်သီး လုပ်ပုံမှာ ဤသို့ဖြစ်သည်။ လေကုန်အောင် စုတ်ထုတ်ထားသော ဖန်သီးထဲတွင် တန်စတင်မီးစာမျှင်ကို ပန်းဆိုင်းဆွဲသကဲ့သို့ ဆွဲ၍ထားသည်။ ထိုမီးစာမျှင်မှာ ဖန်သီးအရင်းတွင် တည်ရှိသော ဖန်သားတွင်း၌ ဖန်ကို အရည်ပျော်အောင် အပူတိုက်နည်းဖြင့် မြှုပ်နှံထားသော ကြေးနန်းကြိုးနှင့် ဆက်သွယ်ထားသည်။ ကြေးနန်းကြိုးနေရာတွင် ယခင်က ပလက်တီနမ်ကို အသုံးပြုခဲ့သော်လည်း၊ လွန်စွာ တန်ဖိုးကြီးသဖြင့်၊ ယခုအခါ ကြေးနီရည်စိမ် ဒန်သတ္တုရောကိုသာ အသုံးပြုကြသည်။ ထိုကြေးနန်းကြိုးကို ဖင်ပိတ်အဖုံးနှင့် ဆက်သွယ်ထားခြင်းဖြင့် လျှပ်စစ်ဓာတ်အားကို ဆက်သွယ်ယူနိုင်လေသည်။

သာမန်ပလာနယ်မီးလုံး၏ အလင်းသည် ဖြူဖွေး တောက်ပလွန်းသဖြင့်၊ မျက်စိကျိန်းစေနိုင်၍၊ နိုက်ထရိုဂျင်၊ အာဂွန် စသော ဓာတ်ငွေ့အများကို ထည့်သွင်းခြင်းဖြင့်၊ မျက်စိအကျိန်းကို သက်သာစေနိုင်သည်။ မီးလုံးကို နို့ရည်အရောင်ရှိသော ဆေးနှင့် သုတ်လိမ်းထားလေ့ရှိကြသည်။ ပလာနယ်မီးလုံးထဲတွင် မီးစာမျှင်အား ထောက်ခံပေးသည့် ကွင်းများကို တန်စတင်နှင့် ပြုလုပ်၍၊ ဓာတ်ငွေ့ပါသော မီးလုံးများထဲ၌ ထိုကွင်းများကို မိုလစ်ဒီနမ်နှင့် ပြုလုပ်သည်။ မိုလစ်ဒီနမ်သည် တန်စတင်လောက် နီးနီး အရည်ပျော်ခံပြီးလျှင်၊ အသုံးပြုရာ၌ တန်စတင်ထက်ပင် ပို၍ ကောင်းမွန်သည်။

ဓာတ်ငွေ့ပါသော မီးလုံးများတွင် နီယွန်မီးလုံးများသည် အခြားမီးလုံးများထက် ပို၍ လှပသော အလင်းရောင်ကို ပေးစွမ်းနိုင်ပေသည်။ ၁၉၁၁ ခုနှစ်တွင် နီယွန်ဓာတ်ငွေ့ ပါဝင်သော မီးလုံးကို စတင်၍ ပြုလုပ်ခဲ့သည်။ နီယွန်ဓာတ်ငွေ့သည် လျှပ်စစ်ဓာတ်စီး ဝင်လာသောအခါ၊ တောက်ပသော လိမ်မော်ရောင် အလင်းကို ပေးသည်။ အစပဌမ၌ နီယွန်ဓာတ်ငွေ့ကို အသုံးပြုခဲ့သော်လည်း၊ နောင်အခါ၌ အခြား ဓာတ်ငွေ့ရောများကို အသုံးပြုကြသည်။ သို့ရာတွင် နီယွန်အမည်ဖြင့်သာ ဆက်၍ ခေါ်ဝေါ်ကြသည်။ နီယွန်မီးလုံးများသည် ပြွန်ရှည်များဖြစ်၍၊ အလိုရှိသလို ချိုးကောက်ထားခြင်းဖြင့်၊ စာလုံးပုံ သို့မဟုတ် အလိုရှိရာ ပုံအမျိုးမျိုးကို ပြုလုပ်ယူနိုင်ပေသည်။ ထို့ကြောင့် ကုန်တိုက်ကြီးများ၏ ဆိုင်းဘုတ်များတွင် ကြော်ငြာရန်အတွက် နီယွန်မီးလုံးများကို အထူး သုံးစွဲလေ့ရှိကြသည်။ အချို့နီယွန်မီးလုံးများ၏ အရောင်မှာ အနီရောင် ဖြစ်သည်။ ညအခါတွင် ထိုအရောင်ကို ပိုမို တောက်ပစွာ မြင်ရသည်သာမက၊ နေ့အခါ၌လည်း ထူးခြားစွာ သတိပြုမိနိုင်ပေသည်။ အခြား အရောင်အမျိုးမျိုးကိုလည်း နီယွန်မီးလုံးများမှ ရရှိနိုင်ပေပြီ။ ပုံစံအားဖြင့် တောက်ပသည့် အဝါရောင်ကို လိုလျှင်၊ ပယင်းရောင်ရှိ မီးလုံးထဲ၌ ဟီလီယမ်ဓာတ်ငွေ့ကို ထည့်ထားခြင်းဖြင့်၎င်း၊ အစိမ်းရောင်ကို လိုလျှင်၊ အဝါရောင်ဖန်သီးထဲ၌ အပြာရောင် ပြဒါးငွေ့ကို ထည့်ထားခြင်းဖြင့်၎င်း ကြိုက်ရာအရောင်ကို ရရှိနိုင်ပေသည်။ (နီယွန် — ရှု။)

မီးလုံးများ လုပ်ရာတွင် အတော်ပင် တိုးတက်မှုရှိလာပြီဖြစ်သော်လည်း၊ မီးစာမျှင်၌ အလင်းရောင်ဖြစ်စေရန် အပူကို အသုံးပြုရသောကြောင့်၊ မျက်စိကို ထိခိုက်စေတတ်သည်သာမက အပူအားကိုလည်း ဖြုန်းတီးရာ ရောက်ပေသည်။ ဖလူးအိုရက်ဆင့် ခေတ်မီးများကို ၁၉၃၈ ခုနှစ်က စတင်၍ တီထွင်နိုင်ခဲ့သည်။ ထိုမီးလုံးများထဲ၌ ပြဒါးငွေ့များကို ဖိအားအနည်းငယ်နှင့် ထည့်သွင်းထား၍၊ မီးလုံးအတွင်းသားကို ဓာတ်ဆေးတမျိုးနှင့် သုတ်လိမ်းထားသည်။

လျှပ်စစ်ဓာတ်စီး ဖြတ်သန်းသောအခါ၊ ပြဒါးငွေ့မှ ဖြစ်ပေါ်လာသော မမြင်နိုင်သည့် အာထရာ ဗိုင်အိုလက် ရောင်ခြည်များသည် မီးလုံးအတွင်းသား၌ ရှိသော ဓာတ်ဆေးကို သွားရိုက်သည်တွင် ဓာတ်ဆေးသတ္တိဖြင့် မြင်နိုင်သော အလင်းရောင်ခြည်အဖြစ်သို့ ပြောင်းလဲသွားကြလေသည်။ ထိုရောင်ခြည်၏ အရောင်သည် ဓာတ်ဆေး အမျိုးအစားကိုလိုက်၍ ကွဲပြားခြားနားသည်။

ဖလူးအိုရက်ဆင့် မီးလုံးများသည် ယခင်က မီးစာမျှင်ထည့်ထွန်းရသော မီးလုံးများထက် သာ၍ ကောင်းမွန်ကြသည်။ ထိုမီးလုံးများ၌ အပူအဖြစ်ဖြင့် စွမ်းအင် ကုန်ပျောက်သွားခြင်း မရှိသလောက် ဖြစ်သည်။ ထိုသို့ အပူစွမ်းအင်အတွက် လျှပ်စစ်ဓာတ် မဆုံးရှုံးသောကြောင့်၊ လျှပ်စစ်ဓာတ် အတိုင်းအဆချင်း တူတူ၌၊ ဖလူးအိုရက်ဆင့်မီးလုံးက သာမန်မီးလုံးများထက် ၃ ဆမျှပိုသော အလင်းရောင်ကို ပေးစွမ်းနိုင်ပေသည်။ ထို့ပြင် သဘာဝအလင်းရောင်နှင့် အတူဆုံးသော အလင်းရောင် ဖြစ်သဖြင့်၊ မျက်စိအား ဘေးဥပါဒ် မဖြစ်စေနိုင်ပေ။ ဖလူးအိုရက်ဆင့်မီးကို ပဌမဆုံး နယူးယော့မြို့၌ ၁၉၃၈ ခုနှစ်တွင် စတင် အသုံးပြုခဲ့ကြ၍၊ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ စက်ရုံများတွင် သုံးစွဲခဲ့ကြလေသည်။ ယခုအခါတွင် မျက်စိအာရုံ၌ အေးမြသက်သာသော အလင်းရောင်ကို ဖြစ်စေသောကြောင့်၊ အိမ်တိုင်းလိုလို၌ပင် ဖလူးအိုရက်ဆင့်မီးကို သုံးစွဲလျက်ရှိကြလေသည်။

ယခုအခါ အသုံးပြုလျက်ရှိကြသော လျှပ်စစ်ဓာတ်မီးလုံးများ၏ အရွယ်များမှာ လက်နှိပ် ဓာတ်မီးငယ်ထဲက မီးလုံးအရွယ်မှ ရုပ်ရှင်စက်ထဲမီးပုံးထဲ၊ ရုံ၌ အသုံးပြုသော ဝပ် ၃၀,၀၀၀ အား မီးလုံးကြီးများအထိ အမျိုးမျိုး ရှိကြလေသည်။ ထိုမီးလုံးများသည် လျှပ်စစ်ဓာတ်ကို ရေတံခွန်အားဖြင့်၎င်း၊ ရေနွေးငွေ့ စက်အားဖြင့်၎င်း လည်သော ဒိုင်နမို စသော လျှပ်စစ်ဓာတ် ဖြန့်ချီသည့် စက်များမှ ရရှိကြလေသည်။

မြန်မာနိုင်ငံတွင် လျှပ်စစ်ဓာတ် ဖြန့်ချီရေးကို နိုင်ငံတော်အစိုးရသည် ပြည်သူပိုင်လုပ်ငန်း ပြုလုပ်၍ အမြို့မြို့၌ လျှပ်စစ်ဓာတ်အား ဖြန့်ချိလျက်ရှိလေသည်။

**ဓာတ်မှန်**။ ။အိပ်စရေးရောင်ခြည် — ရှု။

**ဓာတ်ရထားနှင့် ထရော်လီ**။ ။ဓာတ်ရထားနှင့် ထရော်လီတို့သည် လျှပ်စစ်ဓာတ်ဖြင့် ခုတ်မောင်းသော လူပို့ယာဉ်များ ဖြစ်ကြသည်။ ဓာတ်ရထား မပေါ်မီ ၁၇၃၂ ခုနှစ်က လူပို့ယာဉ်အတွက် သံလမ်းပေါ်၌ပြေးသော မြင်းရထားများကို အမေရိကန်ပြည်ထောင်စု၊ နယူးယော့မြို့တွင် စတင် တီထွင်ခဲ့သည်။ ဗြိတိန်နိုင်ငံတွင်ကား ၁၈၆၀ ပြည့်နှစ်လောက် ရောက်မှသာလျှင်၊ ထိုသံလမ်းပြေး မြင်းရထားများကို အသုံးပြုကြသည်။ သံလမ်းပြေး မြင်းရထား ပေါ်ပေါက်လာပြီးနောက်၊ မရှေးမနှောင်း ပင်လျှင်၊ ရေနွေးငွေ့အင်ဂျင်စက်ဖြင့် ခုတ်မောင်းသော လူပို့ယာဉ်များ ပေါ်ပေါက်လာပြန်သည်။ ထိုလူပို့ယာဉ်မျိုးကို ရန်ကုန်မြို့တွင် ၁၈၈၄ ခုနှစ်၌ စတင် အသုံးပြုခဲ့ဘူးသည်။ ထိုခေတ်က ထိုယာဉ်မျိုးကို အရပ်သားအခေါ် အားဖြင့် 'ပဲရထား' ဟု ခေါ်သည်။ ဤသို့ခေါ်ရခြင်း အကြောင်းမှာ မည်သည့်ခရီးသို့ သွားသွား၊ ဝေးနီးမဟူ ရထားခမှာ ပိုက်ဆံတပဲမျှသာ ပေးရသောကြောင့်ဖြစ်၏။ ၁၈၃၅ ခုနှစ်တွင် လျှပ်စစ်ဓာတ်ဖြင့် ခုတ်မောင်းသော ရထား (ဝါ) ဓာတ်ရထားကို အမေရိကန်နိုင်ငံတွင် ပန်းပဲသမား ထောမတ် ဒက်ဗင်ပိုက ပဌမဦးဆုံး အောင်မြင်စွာ စမ်းသပ်ပြခဲ့သည်။ သို့သော် ထိုဓာတ်ရထားနှင့်တကွ အခြား လက်ဦးပေါ် ဓာတ်ရထားများမှာ လျှပ်စစ်ဗက်ထရီအိုးများဖြင့် ခုတ်မောင်းရသဖြင့် စရိတ်အလွန်ကြီးလေး၏။ နောင် ဒိုင်နမို ပေါ်ပေါက်လာပြီးသောအခါမှ လျှပ်စစ်ဓာတ်အား ဈေးပေါလာသည့်အတွက်၊ ဓာတ်ရထားများကို အသုံးပြု များလာကြလေသည်။ ထိုကြောင့် ၁၈၈၀ ပြည့်နှစ်လောက်တွင် ဂျာမနီ၌၎င်း၊ ၁၈၈၅



ရန်ကုန်မြို့တွင် ၁၈၈၄ ခုနှစ်၌ စတင်အသုံးပြုခဲ့သည့် ရေနွေးငွေ့အင်ဂျင်စက်ဖြင့် ခုတ်မောင်းသော သံလမ်းပြေး 'ပဲရထား'




အင်္ဂလန်ပြည်တွင်အသုံးပြုခဲ့သော ဓာတ်ရထား

ခုနှစ်တွင် အင်္ဂလန်၌ရှင်း၊ ဓာတ်ရထားများ ပေါ်လာလေသည်။ မြန်မာနိုင်ငံရန်ကုန်မြို့တော်တွင်မူ ပဌမဆုံး ဓာတ်ရထားလမ်းကို ၁၉၀၆ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့၌ ဖွင့်လှစ်ခဲ့၍၊ ကြည့်မြင်တိုင်ဈေးကြီးလမ်းမှ သိမ်ကြီးဈေးသို့ စတင် ပြေးဆွဲခဲ့လေသည်။

ဓာတ်ရထား ပြေးပုံသည် ဤသို့ဖြစ်သည်။ မြေပြင်တွင် ဓာတ်ရထားပြေးရန် သံလမ်းရှိသည်။ သံလမ်း၏ အထက် ကောင်းကင်တွင် ရထားလမ်းတလျှောက်၌ လျှပ်စစ်ဓာတ်ကြိုးကို ဆွဲထားသည်။ ထိုလျှပ်စစ်ဓာတ်ကြိုးမှ လျှပ်စစ်ဓာတ်အားကို ရထားခေါင်မိုးပေါ်ရှိ လက်တံမှ တဆင့်သွင်းယူသည်။ လက်တံထိပ်တွင် ဘီးငယ် တပ်ဆင်ထား၍၊ ထိုဘီးငယ်သည် ဓာတ်ရထား သွားနေသည့်အခါတွင် ဓာတ်ကြိုးတလျှောက် အမြဲတမ်းလည်လျက် လိုက်ပါနေသဖြင့်၊ ဓာတ်ရထားအဖို့ လျှပ်စစ်ဓာတ်အားကို အဆက်မပြတ် ရရှိသည်။ ထိုလျှပ်စစ်ဓာတ်က ဓာတ်ရထားတွင် တပ်ဆင်ထားသော မိုတာကို လည်စေခြင်းအားဖြင့် ဓာတ်ရထားကို ရွေ့ရှားသွားစေလေသည်။ သို့သော် အချို့သောမြို့ကြီးများတွင် ဓာတ်ကြိုးများကို ဓာတ်ရထားသံလမ်းအကြားတွင် မြှုပ်နှံ၍၊ လျှပ်စစ်ဓာတ်အားကို ဓာတ်ရထားအောက်ခြေမှ တဆင့်သွင်းယူသည်လည်း ရှိ၏။ သို့ရာတွင် ဤနည်းမှာ ကုန်ကျစရိတ် ကြီးလေးလှသဖြင့်၊ ကောင်းကင်သွယ် ဓာတ်ကြိုးမှတဆင့် လျှပ်စစ်ဓာတ်အားကိုယူသော စံနစ်သာလျှင် အသုံးများသည်။

ဓာတ်ရထားသံလမ်းကို အများအားဖြင့် အောက်၌ အင်္ဂတေခံ၍ခင်းလေ့ရှိပြီးလျှင်၊ လမ်း၏အကျယ်မှာ ၄ ပေ ၈ လက်မခွဲ ရှိသည်။ မြို့တွင်း၌ သံလမ်းကို မြေတွင် မြှုပ်ထားလေ့ရှိ၍၊ မြို့ပြင်တွင် လူနှင့်ယာဉ် အသွားအလာနည်းသည့်အတွက် မြေပေါ်၌ဖေါ်၍ ဖောက်လုပ်လေ့ရှိသည်။ လူနေထူထပ်သော မြို့ကြီးများတွင် ၂ ထပ် ဓာတ်ရထားကို အသုံးပြုကြသည်။ ဓာတ်ရထားများတွင် လေဗရိတ်၊ လက်ဗရိတ်များအပြင်၊ လျှပ်စစ် သံလိုက်ဗရိတ်များလည်း တပ်ဆင်ပါရှိကြသည်။

ဓာတ်ရထားသည် တကြိမ်တည်းနှင့် ခရီးသည် မြောက်မြားစွာကို သယ်ယူပို့ဆောင်နိုင်သော ယာဉ်ဖြစ်သည်။ သို့ရာတွင် ခုတ်မောင်းသွားရာ၌ ဆူညံခြင်း၊ ရထား အတက်အဆင်းပြုရာ၌ ခရီးသည်များ အဖို့ လမ်းကူးခက်ခဲသဖြင့် အသက်ဘေးအတွက် စိုးရိမ်ရခြင်း၊ လမ်းခုလတ်၌ တစုံတရာ ချွတ်ယွင်းလျက် ရပ်ဆိုင်းနေရသောအခါ၌၊ နောက် ဓာတ်ရထားက ရှောင်တိမ်းမသွားနိုင်ခြင်း ဇသည့် ချွတ်ယွင်းချက်များရှိသည်။ ထရော်လီများ ပေါ်ပေါက်လာသောအခါ၊

ထိုချွတ်ယွင်းချက်များ ပြေပျောက်သွား၍၊ ခရီးသွားလာရေး ပိုမိုလျင်မြန် ကောင်းမွန်လာခဲ့သည်။

ထရော်လီတွင် ဓာတ်ရထားကဲ့သို့ပင် လျှပ်စစ်ဓာတ်အားကို ကောင်းကင်သွယ် ဓာတ်ကြိုးမှ ရရှိသည်။ သို့ရာတွင် လမ်းတလျှောက် ၂ ကြိုးပြိုင် သွယ်၍ထားသည်။ ထရော်လီ ခေါင်မိုးတွင် လက်တံ ၂ ခု တပ်ဆင်ထားသဖြင့်၊ လက်တံ တဖက်မှရရှိသော လျှပ်စစ်ဓာတ်သည် အခြားလက်တံ တဖက်သို့စီးဝင်သည်။ ထရော်လီတွင် သံလမ်းမရှိဘဲ သွားနိုင်သော လေထိုးဘီးများ တပ်ဆင်ပါရှိသည့်အတွက် စီးရာတွင် ညင်သာ၍၊ မော်တော်ကားကဲ့သို့ပင် ခရီးအသွားအလာများကို ရှောင်တိမ်းနိုင်သည့်အပြင်၊ လမ်းနံဘေး၌ရပ်၍၊ ခရီးသည်များကို သယ်ယူပို့ဆောင်နိုင်သည်။ ထရော်လီများကို ဂျာမနီနိုင်ငံတွင် ပဌမဆုံး အောင်မြင်စွာ စမ်းသပ်အသုံးပြုခဲ့ရာ၊ ဓာတ်ရထားထက် ပိုမိုကောင်းမွန်သဖြင့်၊ နိုင်ငံအများတွင် တိုးချဲ့အသုံးပြုခဲ့ကြသည်။ မြန်မာနိုင်ငံတွင် ၁၉၃၆ ခုနှစ်မှ စတင်၍၊ ဓာတ်ရထားကို တစတစ ဖျက်သိမ်းပြီးလျှင်၊ ထရော်လီကို အသုံးပြုခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးသည့်နောက်၌ကား၊ ထိုထရော်လီပြေးခြင်း စံနစ်ကို ပြန်လည်မသုံးစွဲတော့ချေ။

**ဓာတ်ရည်စိမ်ခြင်း**။ ။ဓာတ်ရည်စိမ်ခြင်းသည် လျှပ်စစ်ဓာတ်ဖြင့် သတ္တုမှုန့်များကို အခြားသတ္တုများပေါ်တွင် စွဲကပ်သွားအောင် ပြုလုပ်ခြင်းဖြစ်၏။ သတ္တုအိုင်ယွန်များ ပါရှိသော အရည်တွင် လျှပ်စစ်ဓာတ်ကို စီးသွားစေသော အခါ၊ ထိုအိုင်ယွန်များသည် ကက်သုတ် (ဓာတ်မတိုင်) တွင် စွဲကပ်ကြ၏။ အိုင်ယွန်ဆိုသည်မှာ လျှပ်စစ်ဓာတ် ဝင်နေသော သတ္တု၏အက်တမ်ကို ဆိုလိုသည်။ ဓာတ်ရည်စိမ်သော ပစ္စည်းများပေါ်တွင် သတ္တုရည်၏ ခိုင်ခံ့မှုသည် အလွန်အရေးကြီးရကား ဓာတ်ရည်စိမ်ရာ၌ စွဲသည်ထက် စွဲအောင် အလွန်ဂရုစိုက်ရသည်။ ဤသို့ စွဲအောင်ပြုလုပ်ပေးရန် တခုတည်းသောနည်းမှာ ဓာတ်ရည်မစိမ်မီ ဓာတ်ရည်စိမ်လိုသော ပစ္စည်းကို စင်ကြယ်နေအောင် ဆေးကြောတိုက်ချွတ်ပေးခြင်း ဖြစ်သည်။ အကယ်၍ မျက်နှာပြင်တွင် ချေး သို့မဟုတ် အောက်ဆိုက်တို့ဖြင့် ဖုံးနေလျှင်၊ သဲမှုတ်စက်ဖြင့် မှုတ်ပေးရသည်။ သို့မဟုတ် ကြေးမျှင်ဘီးဖြင့် တိုက်ပေးရသည်။ အမဲဆီကဲ့သို့ အညစ်အကြေးများကိုမူကား ပူနေသော အယ်လကာလီ ပျော်ဝင်ရည်ထဲ၌နှစ်၍ ဖယ်ရှားပစ်ရသည်။ ဤသို့ ဆေးကြောတိုက်ချွတ်ပြီးသော ပစ္စည်းများကို တဖန် သတ္တုရောင်ထွက်လာအောင် အက်ဆစ်ရည်တွင် နှစ်ပေးရသေးသည်။

ဓာတ်ရည်စိမ်ခြင်းကို အလွယ်တကူ နားလည်နိုင်အောင် နစ်ကယ်ရည်တွင် ကြေးဇွန်းတချောင်း စိမ်ယူပုံကို ဥဒါဟရဏ် ပြလိုသည်။ ပဌမဦးဆုံး ကြေးဇွန်းကို စင်ကြယ်အောင် တိုက်ချွတ်ဆေးကြော၍၊ နစ်ကယ်ဓာတ်ဆား ပျော်ဝင်ရည်တွင် နှစ်ပြီးလျှင်၊ ကက်သုတ်နှင့် ဆက်ပေးသည်။ ထို့နောက် နစ်ကယ်တုံးငယ်တတုံးကို ပျော်ဝင်ရည်တွင်နှစ်၍၊ အန်နုတ် (ဓာတ်ဖိုတိုင်) တွင် ဆက်ပြီးလျှင်၊ လျှပ်စစ်ဓာတ် ဖြတ်သန်းသွားစေသည်။ ပျော်ဝင်ရည်ထဲ၌ရှိသော နစ်ကယ်အိုင်ယွန်တို့သည် ကက်သုတ်ပေါ်၌ရှိသော ကြေးဇွန်းပေါ်တွင် သွားရောက်စွဲကပ်ပြီးနောက်၊ တဖက် အန်နုတ်တွင်ရှိသော နစ်ကယ်တုံးမှ နစ်ကယ်သည် အရည်ထဲတွင် ပျော်ဝင်သွားသည်။ ဤသို့ပျော်ဝင်သွားသည့် နစ်ကယ်အတိုင်းအဆမှာ ကက်သုတ်တွင် လာရောက်စွဲကပ်လာသည့် နစ်ကယ်အတိုင်းအဆနှင့် အညီအမျှဖြစ်သည်။ ဇွန်းပေါ်တွင် စွဲကပ်သည့် နစ်ကယ်ရည်အမျိုးအစားမှာ ဇွန်းကိုပြုလုပ်ထားသည့် သတ္တုပေါ်၌ငြင်း၊ အရည်၏ အပေါ့အပြင်းနှင့် အပူချိန်ပေါ်၌ငြင်း၊ လျှပ်စစ်ဓာတ်စီးအားပေါ်၌ငြင်း တည်သည်။ နောက်ပေါ် ဓာတ်ရည်စိမ်နည်းတွင် ဓာတ်ရည်စိမ်လိုသော ပစ္စည်းကို အန်နုတ်များကြား၌ စက်ဖြင့်လှည့်၍ ထည့်သွင်းပေးသည်။ ဤသို့ထည့်သွင်းပေးခြင်းမှာ သတ္တုမှုန့်ကို ညီညီညာညာ စွဲကပ်စေရန်ဖြစ်သည်။

**ဓာတ်လှေကား**။ ။ရှေးခေတ်အခါက ခွန်အားနှင့် အပန်းတကြီးပြုလုပ်ရသော အလုပ်များကို ယခုခေတ်အခါ၌ စက်ကရိယာများဖြင့် လွယ်ကူစွာ လုပ်ကိုင်နိုင်ကြပြီ ဖြစ်သည်။ ယခုအခါ အထက်သို့တက်လိုလျှင် အထက်သို့ရွှေ့သွားနေသော လှေကားပေါ်၌ မတ်တတ်ရပ်၍ လိုက်သွားရုံနှင့် တက်နိုင်ပေပြီ။ ဆင်းသက်ရာ၌လည်း အောက်ဖက်သို့ ရွှေ့သွားနေသောလှေကားပေါ်တွင် မတ်တတ်ရပ်၍ လိုက်သွားရုံနှင့် ဆင်းနိုင်ပေပြီ။

အနောက်နိုင်ငံများ၌ မြေအောက်မီးရထားဘူတာရုံများနှင့် အဆောက်အအုံကြီးများတွင် လှေကားရှင်များကို အသုံးပြုကြသည်။ လှေကားရှင်များသည် လှေကားရိုးရိုးကဲ့သို့ ပုံသဏ္ဍာန်ရှိသော်လည်း၊ လှေကားထစ်များသည် တနေရာတည်းတွင် ရပ်တည်မနေဘဲ၊ အထက်သို့ တဖြည်းဖြည်း ရွှေ့နေကြသည်။ ရွှေ့နေစဉ် လှေကားထစ်များသည် ပြင်ညီ တန်းနေကြ၍၊ လိုက်ပါလာသူများသည် လှမ်းတက် လှမ်းဆင်းသွားနိုင်ကြပေသည်။ လှေကားရှင်၏ လှေကားထစ် တခုစီတွင် ဘီးနှစ်စုံစီ တပ်ထားရာ၊ တစုံသည် အတက်အတွက် ဖြစ်၍၊ ကျန်တစုံမှာ အဆင်းအတွက် ဖြစ်သည်။ ထိုဘီးကလေးများကို သံလမ်းကြောင်းများပေါ်၌ တင်ထားသည်။ လှေကား ရွှေ့နေနိုင်ခြင်းမှာ ထိုဘီးကလေးများ သံလမ်းပေါ်၌ လိမ့်သွားခြင်းကြောင့်ပင် ဖြစ်သည်။ လှေကားဘေးဖက်၌ တပ်ဆင်ထားသော ချိန်းကြိုးသည် လှေကား



ခရီးသွားလွယ်ကူရန်အကျိုးပြုသော ဓာတ်လှေကားတခု

တဖက်တချက်ရှိ ခွေးသွားစိတ် ဘီးကြီးများကို ရစ်ပတ်၍ လည်နေသည်။ လှေကားထစ်သည် အရင်း၌ တညီတည်းရှိ၍၊ တက်သွားသောအခါ၌ တထစ်ပြီးတထစ် မြင့်တက်သွားသည်။ အဖျား၌လည်း လှေကားထစ်သည် တညီတည်းရှိ၍၊ လိုက်ပါလာသူသည် လိုရာသို့ လှမ်းလျှောက်သွားနိုင်သည်။ လှေကားတက်သူသည် လှေကားထစ်ပေါ်၌ ငြိမ်သက်စွာ မတ်တတ်ရပ်၍ လိုက်လိုက လိုက်သွားနိုင်သည်။ အလျင်လိုကလည်း ရွေ့နေသည့် လှေကားထစ်ပေါ်မှာပင် တထစ်ပြီးတထစ် လှမ်းတက် သွားနိုင်သည်။ လှေကားတခုလုံးသည် လျှပ်စစ်မိုတာကြောင့် ရွေ့ရှားနေသည်။

မြင့်မားသောအဆောက်အအုံများ၌ လှေကားရှင်များအစား၊ ဓာတ်လှေကားများကို အသုံးပြုလေ့ရှိကြသည်။ ဓာတ်လှေကား၏ အထက်ထိပ်၌ စက်သီးများ တပ်ဆင်ထားသည်။ လှေကားအိမ်ကို ခိုင်ခံ့တောင့်တင်းသော သံကြိုးကြီးများဖြင့် ဆွဲ၍၊ စက်သီးနှစ်ခု၌ နှစ်ထပ်ရစ်ပတ်ပြီးလျှင်၊ တဖက်အစက လှေကားအိမ်နှင့် အလေးချိန်တူညီသော မဲတင်းအလေးကို ဆွဲထားသည်။ စက်သီး၌ နှစ်ထပ်ရစ်ပတ်ခြင်းမှာ သံကြိုးများ ချော်မကျနိုင်အောင် ဖြစ်သည်။ အလေး များလေလေ၊ ကြိုးသည် ပိုကျပ်လေလေဖြစ်သည်။ လှေကားအိမ်၏ အလေးချိန်ထက်ပိုသော ခရီးသည်နှင့် ဝန်စည်စလယ်များ၏ အလေးချိန်ကို လျှပ်စစ်မိုတာက ဆွဲတင်သည်။ မဲတင်းအလေးရှိသဖြင့်၊ လှေကား ပြန်ကျရာ၌ မလျင်မြန်စေဘဲ၊ အရှိန်ကို ထိန်းထားနိုင်လေသည်။

လှေကားမောင်းနှင်ရာ၌ မိုတာကို လှေကားအိမ်မှ ခလုတ်များဖြင့် မောင်းနှင်ပေးရသည်။ အရှိန်သတ်သောခလုတ်လည်း ရှိရာ၊ ရပ်လိုလျှင် ထိုခလုတ်ကို အသုံးပြုရသည်။ ယခုခေတ် ဓာတ်လှေကားများတွင် ခလုတ်များကို တပ်ဆင်ထား၍၊ ခလုတ်ကို နှိပ်လိုက်ကာမျှနှင့် လိုရာအထပ်သို့ ဓာတ်လှေကားသည် တက်သွားနိုင်သည်။ ဓာတ်လှေကားကို ခရီးသည်များကိုယ်တိုင် အသုံးပြုနိုင်ကြသည်။ လှေကားအိမ်ကို ဖွင့်ထားလျှင်၊ ဓာတ်လှေကားကို မောင်းနှင်၍မရပေ။ ပိတ်ထားလျှင်လည်း၊ အထပ်တခုခုသို့ မရောက်မခြင်း ဖွင့်၍မရပေ။ လှေကားအိမ်ကို ကြိုးခြောက်ချောင်းဖြင့် ဆွဲထား၍၊ ထိုကြိုးတို့မှာ အလှန်ခိုင်ခံ့ကြသည်။ တကြိုးတည်းနှင့်ပင် လှေကားအိမ်ကို နိုင်နင်းစွာ ဆွဲထားနိုင်သည်။ အကယ်၍ ကြိုးများပြတ်သွားစေကာမူ၊ အရှိန်ပြင်းလျှင်၊

လှေကားသွားရာ သံလမ်းကြောင်းကို ဖမ်းညှပ်ထားနိုင်သည့် သံညှပ်ကြီးများ လှေကားအိမ်အောက်၌ ရှိသည်။ စက်အား ကုန်သွားလျှင်၊ အလိုလို ရပ်တန့်စေနိုင်သည့် အော်တိုမက်တစ် ဗရိတ်များလည်း ပါရှိသည်။ ထိုအပြင် အောက်ခြေ၌ ကူရှင်အခံများကိုလည်း တပ်ဆင်ထားသေးသည်။ ထိုကြောင့် အသက်ဘေးအတွက် စိတ်ချရသည်။

လျှပ်စစ်ဓာတ်အားနှင့် မောင်းနှင်သည့် ဓာတ်လှေကားအပြင်၊ ရေဖိအားနှင့်မောင်းနှင်သောလှေကားလည်း ရှိသေး၏။ ထိုလှေကား၌ လှေကားခန်းကို အခေါင်းပေါက်ပြွန်ကြီး အထက်၌ ထားရှိသည်။ ထိုအခေါင်းပေါက်ပြွန်သည် ခိုင်ခံ့သော သံပြွန်လုံးထဲတွင် တိတိကျကျ ဝင်နေ၍၊ ထိုသံပြွန်ကြီးသည် အဆောက်အအုံအမြင့်နှင့်အညီ မြေအောက်သို့ နစ်ဝင်နေရသည်။ အခေါင်းပေါက်ပြွန်၌ အပေါက်နှစ်ခု ရှိ၍၊ ထိုအပေါက်တို့မှာ ရေဝင်ပေါက်နှင့် ရေထွက်ပေါက်များ ဖြစ်သည်။ ရေဝင်ပေါက်ကို ဖွင့်လိုက်လျှင်၊ စက်အားဖြင့် သွင်းပေးလိုက်သည့် ရေသည် ဝင်ရောက်လာပြီးနောက် ရေဖိအားဖြင့် လှေကားအိမ်ကို အထက်သို့ မြင့်တက်စေသည်။ လိုသောအမြင့်သို့ ရောက်လျှင်၊ ရေသွင်းခြင်းကို ရပ်လိုက်၍၊ လှေကားအိမ်တက်ခြင်းကို ရပ်စဲစေနိုင်သည်။ ပြန်၍ဆင်းသက်လိုလျှင်၊ ရေထွက်ပေါက်ကို ဖွင့်ပေးရသည်။ ဤလှေကားမျိုး၌လည်း မဲတင်းအလေးကို တပ်ဆင်ထားသည်။

**ဓာတ်အားပေးစက်ရုံ**။ ။၂၀ ရာစုနှစ်မှအစပြု၍ လျှပ်စစ်ဓာတ်ထုတ်လုပ်ငန်းသည် အလွန်တိုးတက်လာခဲ့ရာ၊ ယခုအခါ တာဗိုအော်လတာနေတာခေါ် လျှပ်စစ်ဓာတ်အား ထုတ်စက် တခုတည်းမှ ရရှိသော လျှပ်စစ်ဓာတ်၏ ပမာဏသည် လွန်ခဲ့သည့်နှစ်ပေါင်း ၅၀ ခန့်က အင်္ဂလန်ပြည် တပြည်လုံးရှိ ဓာတ်အားပေးစက်ရုံများမှ ထုတ်လုပ်နိုင်ခဲ့သည့် လျှပ်စစ်ဓာတ်၏ ပမာဏထက် များပြားလေသည်။ လျှပ်စစ်ဓာတ်ကို အကျိုးရှိရှိနှင့် ထုတ်လုပ်နိုင်သည့် စက်နှစ်မျိုးမှာ ရေအားဖြင့် လည်သောစက်နှင့် ရေနွေးငွေ့အားဖြင့် လည်သောစက်များ ဖြစ်ကြသည်။ ယခုအခါ ဓာတ်ငွေ့ဖြင့် လည်သော တာဗိုင် ရဟတ်စက်များဖြင့်လည်း လျှပ်စစ်ဓာတ်အားကိုထုတ်ယူရန် စမ်းသပ်လျက် ရှိကြပေပြီ။ မကြာမီအတွင်း အနုမြူစွမ်းအားကိုပင် အသုံးပြု၍၊ လျှပ်စစ်ဓာတ်အားကို ထုတ်လုပ်ယူနိုင်လိမ့်မည်ဟု မြော်လင့်လျက်ရှိကြသည်။ (လျှပ်စစ်ဓာတ်။ ရေအားသုံး လျှပ်စစ်စက် —ရှု။)

ခေတ်သစ် ဓာတ်အားပေးစက်ရုံကို ဆောက်လုပ်ရန် ငါးနှစ် သို့မဟုတ် ငါးနှစ်ထက်ပို၍ ကြာ၏။ ကုန်ကျသည်မှာလည်း ငွေပေါင်း သန်းနှင့်ချီ၍ ကုန်ကျလေသည်။ ထိုစက်မျိုးသည် တနေ့လျှင် ကျောက်မီးသွေးတန်ချိန် ၂၀၀၀ နှင့် ရေဂါလံ ၁၀ သန်းမှ ၁၂ သန်းအထိ အသုံးပြုသည်။ (ဂရစ်လျှပ်စစ်စနစ် — ရှု။) စက်ရုံသည် လျှပ်စစ်ဓာတ်ကို အသုံးပြုသည့် အရပ်ဒေသနှင့် နီးကပ်စွာ ရှိရသည်။ စက်ရုံတည်ရာနေရာသည် ဝန်အလေးများစွာကို ဆောင်ထားနိုင်ရန်အတွက် အောက်ခြေခိုင်ခံ့ရပေသည်။ (တာဗိုင်စက်တခုတည်းပင်လျှင် ဗွိုင်လာအိုးများမပါဘဲ တန်ချိန် ၁၅၀၀ အထိ လေးသည်။)

ဓာတ်အားပေးစက်ရုံတွင် လုပ်ကိုင်သော အစီအစဉ်ကို ပုံဖြင့်ပြထားသည်။ စက်ရုံတွင် ကျောက်မီးသွေးရောက်သည့် အချိန်မှ စ၍၊ လျှပ်စစ်ဓာတ်ထွက်သည့် အချိန်အထိ ဖြစ်ပျက်ပုံကို လေ့လာနိုင်သည်။ စက်ရုံတွင် ရေနွေးငွေ့ ထုတ်ယူပုံကို ကြည့်ရှုကြပါစို့။

စက်ရုံတွင် ကျောက်မီးသွေးကို အလွန်များပြားစွာ အသုံးပြုသောကြောင့်၊ ယင်းကို ရေလမ်း သို့မဟုတ် မီးရထားလမ်းဖြင့် ယူဆောင်လာရသည်။ ရေလမ်းဖြင့် ယူဆောင်လာသော ကျောက်မီးသွေးကို သင်္ဘောမှ စက်မောင်းဖြင့် ချယူသည်။ မီးရထားဖြင့် ယူလာသော ကျောက်မီးသွေးကိုမူ မီးရထားတွဲလိုက် သွန်၍ယူသည်။ (ယခုခေတ်တွင် ကျောက်မီးသွေးကို ကော်ပြားဖြင့် ကော်ချနေလျှင် အချိန်ဖြုန်းရာကျပေမည်။) ဤကျောက်မီးသွေးများသည် စက်ဖြင့်လည်၍ ဗွိုင်လာရေနွေးအိုးခန်း သို့မဟုတ် ကျောက်မီးသွေး သိုလှောင်ခန်းသို့ ရောက်ရှိသွားသည်။ ယခုခေတ်စက်ရုံများတွင် ကျောက်မီးသွေးကို တန်ချိန် ၃၅၀၀၀ အထိ သိုလှောင်ထားတတ်ကြသည်။ အချို့စက်ရုံများတွင် အကယ်၍ ပြင်ပမှကျောက်မီးသွေးများ မရောက်ဘဲရှိခဲ့သော်၊ အကျပ်အတည်းနှင့် မတွေ့ရအောင် ကျောက်မီးသွေးအပိုသိုလှောင်ထားသော အခန်းများ ရှိလေသည်။

ကျောက်မီးသွေးသည် ဗွိုင်လာခန်းအပေါက်မှ ကျဆင်းသွား၍၊ အလိုအလျောက် မီးထိုးပေးသည့် မီးဖိုကြီးသို့ ရောက်ရှိသွားသည်။ ယင်းမီးဖိုကြီးတို့အနက် အသုံးများသည့်အမျိုးမှာ 'ကြိုးမီးဖိုကြီး' မျိုးပင် ဖြစ်သည်။ ဤမီးဖိုတွင် သံကြိုးများသည် လျှပ်စစ်ဓာတ်ဖြင့် ဘီးများကို လှည့်ပတ်နေကြသည်။ သံကြိုးပေါ်တွင် သံတန်းများပါရှိရာ၊ ကျောက်မီးသွေးသည် ထိုသံတန်းများပေါ်၌ မီးစွဲလောင်ကာ၊ တဖက်အစွန်းမှ လိုက်ပါသွားသည်။ အခြားတဖက်အစွန်းသို့ ရောက်သောအခါ၊ မီးကျွမ်းသွားပြီးလျှင်၊ ပြာမှုန့်များဖြစ်၍ အောက်သို့ကျသွားသည်။ အချို့စက်ရုံများတွင် မီးသွေးအမှုန့်ကို အသုံးပြုသည်။ အသုံးပြုပုံမှာ မီးသွေးကို ပဌမဦးစွာ အမှုန့်ဖြစ်အောင် ကြိတ်၍၊ မီးလောင်ခန်းအတွင်းသို့ မှုတ်သွင်းပေးလိုက်သည်။ ထိုအခါ မီးသွေးမှုန့်တို့သည် ဓာတ်ငွေ့ကဲ့သို့ လောင်ကျွမ်းသွားကြသည်။ မီးသွေးမှုန့်များကို အသုံးပြုရာ၌ စရိတ်ကြီးလေးသည့်အပြင်၊ အလွန်သေးငယ်သော ပြာမှုန့်များ ခေါင်းတိုင်သို့မရောက်

အောင် တားဆီးရသည့် အခက်အခဲနှင့် တွေ့ကြုံကြရလေသည်။ သို့သော် မီးကို အလိုရှိသကဲ့သို့ အုပ်ထိန်းထားနိုင်ခြင်းနှင့် ညှိဖျင်းသော ကျောက်မီးသွေးကို အသုံးပြုနိုင်ခြင်းတို့ကြောင့်၊ မီးသွေးမှုန့်ကိုလည်း သုံးကြရသည်။ ခေတ်စက်ရုံများတွင် မီးဖို၏ကြမ်းပြင်သည် သန့်ရှင်းလျက် ရှိသည့်အပြင်၊ မီးအကြောင်းကိုသိရှိရန် မီးဖိုကိုကြည့်ဖို့ မလိုချေ။ မီးဖိုတွင် တပ်ဆင်ထားသည့် ကရိယာများကို ကြည့်၍၊ ဗွိုင်လာအိုး၏ ဝန်၊ နေရာအနှံ့အပြားရှိ အပူချိန်၊ မီးခိုးတိုင်မှ ထွက်လာသည့် ဓာတ်ငွေ့များတွင် ပါရှိသော ကာဗွန် ဒိုင်အောက်ဆိုက် ရာခိုင်နှုန်း စသည်တို့ကို သိရှိရသည်။ (ကာဗွန် ဒိုင်အောက်ဆိုက်ရာခိုင်နှုန်းသည် လေအနည်းအများကို သိရှိစေသည်။) ဤအချက်သည် ဗွိုင်လာအိုးတွင် အလွန်အရေးကြီးသော အချက် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဗွိုင်လာအိုး၏ အစွမ်းအားသည် ယပ်ကြီးများဖြင့် လေကို မနည်းမများ ရအောင် မှန်မှန်သွင်းပေးနိုင်မှုအပေါ်တွင် တည်သောကြောင့်ဖြစ်သည်။ (ဗွိုင်လာအိုး — ရှု။)

ကျောက်မီးသွေးလောင်ကျွမ်း၍ ဖြစ်ပေါ်လာသည့်ဓာတ်ငွေ့များသည် ရေနွေးငွေ့ ထုတ်လုပ်ရာတွင် အပူကို တတ်နိုင်သလောက် ပေးလိုက်ရသဖြင့်၊ အတော်အတန် အေးသွားပြီးမှ အီကော်နိုမိုင်ဇာသို့ ရောက်ရှိသွားသည်။ အီကော်နိုမိုင်ဇာမှာ ပိုက်လုံးများဖြစ်၏။ ဗွိုင်လာအိုးတွင် သွင်းပေးရန်ရေသည် ထိုပိုက်လုံးများကို ဖြတ်သန်းသွားရသည်။ ထိုကြောင့် ထိုရေမှာ ဗွိုင်လာအိုးသို့ မရောက်မီ ပူသွားသည်။ အီကော်နိုမိုင်ဇာမှ ဓာတ်ငွေ့သည် လေသွင်းပေးသော ယပ်များဆီသို့ ရောက်ပြီးသောအခါ၊ ထိုယပ်များမှတဆင့် ချော်မှုန့်ဖမ်းကရိယာသို့ ရောက်သွားသည်။ အကယ်၍ ချော်မှုန့်များကို ပဌမဦးစွာ ဖယ်ရှားမပစ်ဘဲ၊ ခေါင်းတိုင်မှဓာတ်ငွေ့များကို မှုတ်လွှတ်လိုက်ပါမူ၊ အနီးအနား နေရာများတွင် ချော်မှုန့်များသည် နေ့စဉ် တန်နှင့်ချီ၍ ကျရောက်ပေလိမ့်မည်။ ထိုကြောင့် ချော်တုံးကြီးများကို ဆိုင်ကလုန်းခေါ် ကတော့ပုံအခန်းများတွင် ထုတ်ယူသည်။ ထုတ်ယူပုံမှာ ဓာတ်ငွေ့ကို ဆိုင်ကလုန်းအထဲ၌ အရှိန်ပြင်းစွာဖြင့် လှည့်ပတ်သွားစေသည်။ ချော်တုံးများသည် ဓာတ်ငွေ့ထက် လေးသဖြင့်၊ ဓာတ်ငွေ့မှ ခွဲထွက်လာပြီးလျှင်၊ ဆိုင်ကလုန်းအိမ်တွင်းရှိ အပေါက်များတွင် တင်ကျန်ခဲ့ကြသည်။ အလွန်ညက်သော အမှုန့်များကိုမူ အီလက်ထရိုစတက်တစ် အနည်ထိုင်စက်များဖြင့် ဖမ်းယူပြန်သည်။ လေပူကို ပြွန်တန်းများတွင် ဖြတ်သန်းသွားစေသည်။ ထိုပြွန်တန်းများတွင် လျှပ်စစ်ဗို့အား အလွန်ကြီးသော ဓာတ်လိုက်ပစ္စည်းများ ပါရှိရာ၊ ချော်မှုန့်များသည် ထိုဓာတ်လိုက်ပစ္စည်းများ၌ ကပ်၍ ကျန်ရစ်သည်။ ထိုချော်မှုန့်များကို ပုံးများတွင်စုရုံး၍ ဖယ်ရှားပစ်သည်။ ချော်မှုန့်များကို စစ်ထုတ်ပြီးသောအခါ၊ ဓာတ်ငွေ့ကို ခေါင်းတိုင်များမှ ထုတ်ပစ်လိုက်သည်။ ထိုခေါင်းတိုင်များသည် ပေ ၃၀၀ အထိပင် မြင့်မားတတ်ကြသည်။

ကျွန်ုပ်တို့အိမ်တွင် တနေ့လျှင် ပြာတပုံးခန့် ထွက်သည်ကိုပင် ရှင်းလင်းပစ်ရန် အနှောင့်အရှက် ဖြစ်ခဲ့သော်၊ တနေ့လျှင် တန်ချိန်နှစ်ရာ သို့မဟုတ် သုံးရာခန့်ထွက်သော ဓာတ်အားပေး စက်ရုံတွင် မည်မျှလောက် အနှောင့်အရှက်ဖြစ်မည်ကို ချင့်ချိန်ကြည့်နိုင်ပေသည်။ ဓာတ်အားပေး စက်ရုံများတွင် ပြာကို နည်းအမျိုးမျိုးဖြင့် ဖယ်ရှင်းပစ်သည်။ အလွန်အသုံးများသော နည်းတနည်းတွင် ပြာကို ရေဖြင့် တွင်းထဲသို့ မျှောချသည်။ ထိုတွင်းမှ ရေကိုထုတ်ယူပြီးနောက် တဖန် ပြာကို မျှောချရန် အသုံးပြုပြန်သည်။ တွင်းထဲမှပြာကိုမူ လော်ရီကားများဖြင့် သယ်၍ ဖယ်ရှားပစ်သည်။ အကယ်၍ ပြာကို အသုံးတမျိုးမျိုးအတွက် မရောင်းချနိုင်ခဲ့သော်၊ ထိုပြာကို ကျောက်တွင်းဟောင်းများတွင် ဖို့ပစ်လေ့ရှိသည်။

ကျွန်ုပ်တို့သည် ကျောက်မီးသွေးကို သယ်ယူလာသည်မှ ထိုမီးသွေးကို ချော်နှင့်ပြာ အဖြစ် စွန့်ထုတ်ပစ်လိုက်သည့် အထိ သိခဲ့ကြရပြီ။ ယခုကျွန်ုပ်တို့သည် ရေမှ ရေနွေးငွေ့ဖြစ်လာပုံနှင့် ရေနွေးငွေ့ကို အသုံးချပုံအကြောင်းကို စစ်ဆေးကြည့်ကြမည်။ ဗွိုင်လာသည် များသောအားဖြင့် ရေပြွန်များဖြစ်၍ အလွန်ကြီးမားသည်။ ယခုခေတ်သုံး ဗွိုင်လာသည် သာမန်အိမ်ထက်ပင် ကြီးသည်။ ထိုဗွိုင်လာများသည် တနာရီလျှင် ရေပေါင်ချိန် ၂၅၀,၀၀၀ ခန့်ကို အငွေ့ပျံစေနိုင်သည်။ ရေနွေးငွေ့၏ဖိအားသည် စတုရန်းတလက်မလျှင် ပေါင် ၆၀၀ မှ ၂၀၀၀ အထိ ရှိသည်။ အပူကဲထားသော ရေနွေးငွေ့၏အပူချိန်သည် ဖာရင်ဟိုက် ဒီဂရီ ၁၀၀၀ နီးပါးမျှပင် ရှိသည်။ တခါတရံ တာဗိုင်တခုတွင် ဗွိုင်လာသုံးလုံး တွဲထားတတ်သည်။

ဗွိုင်လာမှရေနွေးငွေ့သည် ပဌမဦးစွာ တာဗိုင်ဆီသို့ ရောက်သည်။ တာဗိုင်တွင် ရေနွေးငွေ့ စွမ်းအင်ကို ဒလက်များက ထုတ်ယူလိုက်၍၊ ထိုစွမ်းအင်သည် ရှပ်ခေါ် ဝင်ရိုးသို့ ရောက်ရှိသွားသည်။ တာဗိုင်အိမ်အတွင်း၌ ရေနွေးငွေ့သည် ပေအနည်းငယ်ခန့် သွားပြီးသောအခါ၊ အောက်ပါအတိုင်း ပြောင်းလဲသွားသည်။ ရေနွေးငွေ့သည် အလွန်ပြန့်ကျယ်သွား၍၊ ထိုရေနွေးငွေ့၏ အပူချိန်သည် ရေနွေးကရားမှထွက်သည့် ရေနွေးငွေ့အပူချိန်လောက် နိမ့်ကျသွားသည်။ ဖိအားသည်လည်း မူလက စတုရန်းတလက်မလျှင်ပေါင် ရာပေါင်းများစွာ ရှိခဲ့ရာမှ၊ ယခုအခါ လေထု၏ဖိအားအောက်သို့ လျှော့ကျနိမ့်ဆင်းသွားလေသည်။

အကယ်၍ တာဗိုင်တွင် ရေနွေးငွေ့ကို လေထု၏ဖိအားလောက် ပြန့်ကျယ်အောင် ပြုလုပ်ပေးပြီးနောက်၊ မီးရထား




ကျောက်မီးသွေးများ (၁) သိုလှောင်ခန်း (၂) မှတဆင့် ကြိုးမီးဖိုကြီး (၃) ထဲ၌ လောင်သောအခါ၊ ရေဆူ၍ ဗွိုင်လာ၌ ရေနွေးငွေ့ (၄၊ ၅) ဖြစ်လာသည်။ အပူလွန် ရေနွေးငွေ့တို့သည် တာဗိုင် (၆) ရှိ ဒလက်ကြီးများကို လည်စေလျက်၊ လျှပ်စစ်ဓာတ်စွမ်းအင်ကို ဂျင်နာရေတာ (၇) ၌ ဖြစ်ပေါ်စေသည်။ တာဗိုင်မှ ရေနွေးငွေ့တို့သည်၊ ပြင်ပမှ ရေအေး (ခ) ဖြတ်စီးနေသည့် ကွန်ဒင်ဆာ (က) သို့ စွန့်ထုတ်ခံရ၍၊ အအေးဓာတ်ကြောင့် အရည်ဖွဲ့ပြီးလျှင်၊ ဗွိုင်လာထဲသို့ ရေလှောင်ကန် (ဃ) မှတဆင့် ရေပြန်သွင်းခံရသည်။ ရေအေးပြွန် (ခ) ကို မြစ်မှဖြစ်စေ၊ အခြားရေအေးလှောင်ကန် (ဂ) မှဖြစ်စေ သွယ်ယူလေ့ရှိသည်။

စက်ခေါင်းမှာကဲ့သို့ ခေါင်းတိုင်မှ ထုတ်လွှတ်လိုက်သော်၊ လိုလားချက်နှင့် မကိုက်ညီသောအခြင်းအရာများ ဖြစ်ပေါ်လာပေလိမ့်မည်။ ပဌမအချက်မှာ တာဗိုင်သည် ရေနွေးငွေ့ကို လေထု၏ ဖိအားအောက် နိမ့်ကျသွားအောင် ပြန့်ကျယ်စေသဖြင့်၊ တာဗိုင်၏ စွမ်းအားသည် လျော့သွားဖွယ်ရာ အကြောင်းရှိသည်။ ဒုတိယအချက်မှာ ဗွိုင်လာကို ရေနွေးပူဖြင့်မဟုတ်ဘဲ ရေအေး ထည့်ပေးရသည့်အတွက်၊ အပူများစွာ ဆုံးရှုံးသွားပေမည်။ နောက်ဆုံးအချက်မှာ ဗွိုင်လာတွင် လိုသလောက်ရေကို ထည့်ပေးရန် ခဲယဉ်းသည့်အပြင်၊ ရေနွေးငွေ့ကို ထုတ်ပစ်ရာ၌လည်း အခက်အခဲနှင့် တွေ့ကြုံရပေမည်။ ထို့ကြောင့် တာဗိုင်မှထွက်လာသော ရေနွေးငွေ့များကို တာဗိုင်အောက်နားတွင်ရှိသော ကွန်ဒင်ဆာထဲသို့ ထုတ်လွှတ်သည်။ ကွန်ဒင်ဆာမှာ အခြားမဟုတ်၊ ပိုက်လုံးများပါရှိသော အခန်းတခန်းပင် ဖြစ်သည်။ ထိုပိုက်လုံးများ အပြင်ဖက်တွင် ရေအေးဖြတ်စီးလျက် ရှိရာ၊ ပိုက်လုံးများ အတွင်းသို့ ဝင်ရောက်လာသော ရေနွေးငွေ့သည် အရည်ဖွဲ့၍ ရေပူဖြစ်သွားသည်။ ဤရေပူကို အဲကော်နော်မိုင်ဇာမှ တဆင့် ဗွိုင်လာသို့ ပို့ပေးသည်။

ရေနွေးငွေ့တွင်ပါရှိသည့် ငွေ့ပျံအောင်းပူသည် အခန်းတွင်း၌ ဖြတ်သန်းလျက်စီးနေသော ရေသို့ ကူးစက်သွားသဖြင့်၊ အကယ်၍ ထိုရေမှအပူကို လျင်မြန်စွာ ထုတ်မပစ်ဘဲထားလျှင်၊ ထိုရေသည်လည်း ဆူလာပေမည်။ ဓာတ်အားပေး စက်ရုံသည် မြစ်ကမ်းပါး၌ရှိလျှင်၊ ရေကို တနာရီလျှင် ဂါလံပေါင်း သန်းနှင့်ချီ၍ စုတ်ယူအသုံးပြုပြီးလျှင်၊ ထိုရေကို မြစ်၏အောက်ပိုင်းတွင် ထုတ်လွှတ်လိုက်သည်။

အကယ်၍ ဓာတ်အားပေးစက်ရုံသည် မြစ်ကမ်းပေါ်၌ မရှိခဲ့သော်၊ စက်တွင်လိုသည့်ရေကို မည်သည့်ရေပေးကုမ္ပဏီမှ လုံလောက်စွာ မပေးနိုင်သဖြင့်၊ ရေကို အအေးခံပြီးလျှင် ထပ်တလဲလဲ အသုံးပြုကြရသည်။ ထိုသို့အအေးခံရာတွင် မျှော်စင်ကဲ့သို့ အဆောက်အအုံကြီးများကို သုံးလေ့ရှိသည်။ မျှော်စင်များကို သံခံအင်္ဂတေဖြင့် ဆောက်လုပ်ထားသည်။ မျှော်စင်၏အမြင့် သုံးပုံ တပုံခန့်၌ သေးငယ်သော အပေါက်များ ပါရှိသည့် ပိုက်လုံးများစွာ တပ်ထားသည်။ ဤပိုက်လုံးများတွင် ကွန်ဒင်ဆာ၌ အသုံးပြုခဲ့သည့်ရေကို ပန်း သွင်းပေးသည်။ ထိုအခါ ပိုက်လုံးများမှ ရေပန်းထွက်လာ၍၊ အောက်ဖက်၌ရှိသော ကန်ထဲသို့ ကျရောက်သည်။ ထိုသို့ ကျရောက်စဉ် လမ်း၌ လေအေးနှင့်ထိတွေ့သဖြင့် အေးသွားသည်။ မျှော်စင်ကို မီးခိုးတိုင်များကဲ့သို့ မြင့်မားစွာ ဆောက်လုပ်ထားခြင်းမှာ၊ ရေပူသည် လေကောင်းကောင်းရရှိ၍၊ အေးသွားစေရန်အတွက် ဖြစ်သည်။ ဤမျှော်စင်၏ အောက်ခြေတွင် လေဝင်ရောက်နိုင်အောင် အပေါက်များ ဖောက်ထားသည်။

အအေးပေးရာ၌ ရေကို ထပ်တလဲလဲ အသုံးပြုလျက် ရှိသော်လည်း၊ ထိုသို့အသုံးပြုရာ၌ အငွေ့ပျံတက်ခြင်းဖြင့် ရေအမြောက်အမြား ဆုံးရှုံးသည်။ ထိုသို့ဆုံးရှုံးသွားသည့် ရေကို အစားထိုးပေးရသည်မှာ တနာရီလျှင် ဂါလံ ၁၀၀,၀၀၀ ခန့်ပင် ရှိသဖြင့်၊ မြစ်ရေကိုသုံး၍ အအေးခံသည် ဖြစ်စေ၊ သို့မဟုတ် မျှော်စင်၌ အအေးခံသည် ဖြစ်စေ၊ ခေတ်အားပေးစက်ရုံသည် ရေအမြောက်အမြားကို လိုပေသည်။

ခေတ်အားပေးစက်ရုံတွင် လျှပ်စစ်ဓာတ် သုံးစွဲသည်မှာ တာဗိုင်ရှပ်နှင့် အော်လတာနေတာတို့ ဆက်ထားသည့် နေရာမှ အစပြုသည်။ ခေတ်ဓာတ်အားပေးစက်ရုံများတွင် အလည်မြန်သော စက်မျိုးကိုသာ အသုံးပြုသည်။ အသုံးများသော စက်နှစ်မျိုးမှာ တမိနစ်လျှင် အပတ်ပေါင်း ၁၅၀၀ မျှလည်နိုင်သော ပိုစွန်းလေးစွန်းရှိ စက်မျိုးနှင့် တမိနစ်လျှင် အပတ်ပေါင်း ၃၀၀၀ မျှလည်နိုင်သော ပိုစွန်းနှစ်စွန်းရှိ စက်မျိုးဖြစ်သည်။ မက်ဂါဝပ် ၆၀ (ကီလိုဝပ် ၆၀,၀၀၀) ရှိသော စက်မှာ အသုံးများသောစက်မျိုးဖြစ်သော်လည်း၊ တခါတရံ မက်ဂါဝပ် ၁၀၀ ရှိသည့် စက်ကိုလည်း အသုံးပြုကြသည်။

အော်လတာနေတာများကို ဟိုက်ဒရိုဂျင်ဖြင့် အအေးခံရန် အစီအစဉ်မှာ၊ မကြာသေးမီကမှ အောင်မြင်ခဲ့သော တိုးတက်မှုတရပ်ဖြစ်သည်။ ရစ်ပတ်ထားသည့်ဝိုင်ယာ၏ ခုခံအားသည် အပူအသင့်အတင့်ကို ဖြစ်ပေါ်စေသဖြင့်၊ ထိုအပူကို ဖယ်ရှားပစ်ရန် လိုပေသည်။ အော်လတာနေတာကို ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ပါသော အခန်းတွင် ပိတ်ထားသော အခါ၊ (ဟိုက်ဒရိုဂျင်တွင် အပူစွမ်းရည်သည် လေထက်ကြီးမားသောကြောင့်) အော်လတာနေတာသည် အေးလျက်နေသည့်အပြင်၊ အော်လတာနေတာမှ ထုတ်လုပ်ပေးသည့် ဗို့အားမှာ ၁၁,၀၀၀ ဖြစ်သည်။ တခါတရံ ဗို့အား ၃၃,၀၀၀ ထုတ်လုပ်ပေးသည့် အော်လတာနေတာများကိုပင် ဆောက်လုပ် အသုံးပြုကြသည်။

လျှပ်စစ်ဓာတ်ကို အော်လတာနေတာမှ စက်ရုံနှင့် တသီးတခြား ဆောက်လုပ်ထားသော ဆွစ်ဂီယာသို့ ပို့ဆောင်ပေးသည်။ ဓာတ်အားပေးစက်ရုံ၌ လျှပ်စစ်ဓာတ်ကို တသမတ်တည်း ပို့ဆောင်ပေးရန် အရေးအကြီးဆုံး ဖြစ်သဖြင့်၊ ခလုတ်များကို အကာအကွယ်များလုပ်၍ စီစဉ်ထားရသည်မှာ အလွန်တရာ ရှုပ်ထွေးပေသည်။

သင်၏အိမ်တွင် လျှပ်စစ်ဓာတ်ကြိုးကို စနစ်တကျ သွယ်ထားလျှင်၊ လျှပ်စစ်မီးဖို၊ သို့မဟုတ် မီးတိုင်၏ ချွတ်ယွင်းမှုကြောင့် ဖြစ်သော ရှော့ဆာကစ်သည် ဝိုင်ယာကြိုးများမှ တဆင့် အိမ်ကို မီးမလောင်စေဘဲ၊ ဖျူ့ခ်ကြိုး ကိုသာ လျှင် အရည်ပျော်စေသည်။ ထိုအခါတွင် လျှပ်စစ်ဓာတ် ဆာကစ်သည် ပြတ်သွား၍၊ ကျန် ဆာကစ်များမှာ အကောင်းပကတိ ကျန်ရစ်သည်။ ဆာကစ်သည် လျှပ်စစ်ဓာတ် လှည့်ပတ်သောလမ်း ဖြစ်သည်။ ထိုလမ်းစ ပြတ်သွားလျှင်၊ လျှပ်စစ်ဓာတ်ကြိုး ပြတ်တတ်သည်။ ဤအခြင်းအရာကို ရှော့ဆာကစ်ဟု အင်္ဂလိပ်လိုခေါ် သည်။

ဓာတ်အားပေးစက်ရုံတွင်လည်း ဤအတိုင်းပင် ဖြစ်သည်။ သို့သော် စီစဉ်ထားပုံမှာ အိမ်များမှာထက် ကြီးကျယ်သည်။ ဓာတ်အားပေးစက်ကရိယာများကို တည်ဆောက်ရာ၌ တတ်နိုင်သမျှ ဂရုတစိုက် ဆောက်လုပ်ထားသော်လည်း၊ ထိုကရိယာများမှာ မပျက်ဘဲမနေကြချေ။ မည်သည့်အကြောင်းကြောင့်ပင် ဖြစ်စေ စက်ပျက်သွားခဲ့သော်၊ ထိုပျက်စီးသွားရာကို ပြုပြင်ပေးရန် အစီအစဉ် အသင့်ရှိရပေမည်။ ပုံပမာ အော်လတာနေတာတွင် လျှပ်စစ်ဓာတ် ပျက်စီး၍ ရှော့ဆာကစ် ဖြစ်သွားသောအခါ၊ အသင့်ရှိသော အန္တရာယ်ထိန်းဂီယာသည် ဆိုင်ရာခလုတ်ကို ချက်ခြင်းပိတ်လိုက်၍၊ ထိုအော်လတာနေတာကို ဆာကစ်မှ ဖယ်ရှားပစ်လိုက်သည်။ ထိုပြင် အလိုအလျောက် မီးငြိမ်းသတ်သော စက်ကိုလည်း ဖွင့်ပေးလိုက်သည်။ အကယ်၍ ကြေးနန်းကြိုးတွင် ချွတ်ယွင်းမှု ပေါ် ပေါက်ခဲ့သော်၊ အခြားအပိုင်းကို အနှောင့်အရှက် မပြုရအောင်၊ ချွတ်ယွင်းနေသောအပိုင်းက ခလုတ်များကို ပိတ်၍၊ လျှပ်စစ်ဓာတ်စီးကို ဖြတ်တောက်ပစ်လိုက်သည်။ ထို့နောက် အင်ဂျင်နီယာများဖြင့် ချွတ်ယွင်းနေသောအပိုင်းကို ပြန်လည်ကောင်းမွန်လာအောင် ပြင်ဆင်ယူကြသည်။

ဆာကစ်ဖြတ်ခလုတ်များသည် အမ်ပီယာ ထောင်ချီ၍ရှိသော လျှပ်စစ်ဓာတ်စီးကို ဖြတ်တောက်နိုင်အောင် ကြီးမား၍ ခိုင်ခန့်ကြသည်။ အများအားဖြင့် ထိုခလုတ်များကို ဆီကန်တွင် စိမ်ထား၍၊ အုပ်ထိန်းသည့်အခန်းမှ နေပြီးလျှင် လျှပ်စစ်ဓာတ်ကို ပိတ်လိုက် ဖွင့်လိုက် ပြုလုပ်ပေးသည်။ ဤအခန်းတွင် ဆာကစ်ကြီးများမှ လျှပ်စစ်ဓာတ်ကို ဖြတ်တောက်ပစ်နိုင်သည့် ကရိယာများ၊ ချွတ်ယွင်းချက် တစုံတရာရှိလျှင် ထိုချွတ်ယွင်းချက်ကို သိနိုင်သည့် ကရိယာများ၊ လျှပ်စစ်ဓာတ်စီး ပြတ်တောက်မသွားရအောင် အလိုအလျောက်ထိန်းပေးသည့် ကရိယာများ၊ ဂျင်နာရေတာတခုစီ၌ရှိသော လျှပ်စစ်ဓာတ်ဝန်ကို သိနိုင်သော ကရိယာများ ရှိကြသည်။ ဤနေရာမှနေ၍ အင်ဂျင်နီယာများသည် လျှပ်စစ်ဓာတ်ကို အရပ်ရပ်သို့ ဖြန့်ချိပေးလေသည်။

**ဓမ္မစကြာသုတ္တန်**။ ။ဓမ္မစကြာသုတ္တန်ဟူသည် မြတ်စွာဘုရားသည် ဘုရားအဖြစ်သို့ ရောက်တော်မူပြီးနောက်၊ ဦးဦးဖျားဖျား ဟောကြားတော်မူသော တရားဒေသနာတော် ဖြစ်ပေသည်။

ဤဓမ္မစကြာသုတ္တန်ကို ကျွန်ုပ်တို့မြတ်စွာဘုရား တပါးတည်းသာ ဦးဦးဖျားဖျား ဟောကြားတော်မူခဲ့သည်မဟုတ်၊

ဂင်္ဂါဝါဠုသဲစုမက ပွင့်တော်မူကြသော ဘုရားရှင်များသည် လည်း၊ ဤဓမ္မစကြာသုတ္တန်ကိုပင် ဦးဦးဖျားဖျား ဟော ကြားတော်မူခဲ့ကြသည်။ ထိုမျှသာမက၊ နောင်ပွင့်တော်မူ မည့် ဘုရားရှင်များသည်လည်း၊ ဤဓမ္မစကြာသုတ္တန်ကိုပင် ဦးဦးဖျားဖျား ဟောကြားတော်မူမည် ဖြစ်သည်။ သို့ဖြစ်၍၊ ဤဓမ္မစကြာသုတ္တန်ကို ဘုရားရှင်တိုင်း ဦးဦးဖျားဖျား ဟော ကြားလေ့ရှိသဖြင့်၊ ထူးခြားသော တရားဒေသနာတော်ဟု ဆိုသင့်လေသည်။ (ဓမ္မစက္ကကို တရားစကြာဟု ခေါ်ဝေါ် သုံးစွဲသော်လည်း၊ အဋ္ဌကထာများ၌ ဉာဏ်တော်နှစ်ပါးကို ဆိုလတ္တံ့သော စကားစဉ်အတိုင်း ကောက်ပြထား လေသည်။)

ဤဓမ္မစကြာသုတ္တန်ကို ပိဋကတ်ကျမ်းဂန်များ၌ ဓမ္မစက္က ပဝတ္တနသုတ္တန်ဟုခေါ် ဆိုထားသည်ကိုတွေ့ရသည်။ ထိုစကား ၌ ဓမ္မစက္က၏အရမှာ အဋ္ဌကထာ၌ ဉာဏ်တော်ကို ဆိုလိုရင်း ဖြစ်ကြောင်း ပြဆိုထားသည်။ ထိုဉာဏ်တော်သည်

(၁) ပဋိဝေဓဉာဏ် = ထိုးထွင်းသိဉာဏ်

(၂) ဒေသနာဉာဏ် = ဟောပြောပြဉာဏ်ဟု နှစ်မျိုး နှစ်စား ရှိလေသည်။

ထိုနှစ်မျိုးနှစ်စားသော ဉာဏ်တို့တွင် ပဋိဝေဓဉာဏ်တော် သည် ဗောဓိမဏ္ဍိုင်၌ ဖြစ်ပေါ်ခဲ့သည်။ ဒေသနာဉာဏ် တော်ကား ဗာရာဏသီပြည် ဣသိပတန မိဂဒါဝုန်တော၌ ဖြစ်ပေါ်ခဲ့သည်။ ကိုယ်တော်တိုင် ပဋိဝေဓဉာဏ်တော်ဖြင့် ထိုးထွင်း၍သိတော်မူသော သစ္စာလေးပါးတရားမှန်တို့ကို သူ တပါးတို့အား သိစေရန် ဒေသနာဉာဏ်ဖြင့် ဟောပြော ပြသ တော်မူရသည်။

ပဝတ္တနဆိုရာ၌ ဖြစ်စေခြင်းဟု ဆိုလိုရာ၊ ဆိုခဲ့ပြီးသော ဉာဏ်တော်နှစ်ပါးကို ဖြစ်စေခြင်းဟု အဓိပ္ပါယ်ရလေသည်။

ထိုကြောင့် မြတ်စွာဘုရား၏ ထိုဉာဏ်တော်နှစ်ပါးကို ဖြစ် စေသော သုတ္တန်တရားတော်သည် ဓမ္မစက္ကပဝတ္တနသုတ္တန် တရားတော်ဖြစ်ကြောင်း သိရလေသည်။

ဤဓမ္မစက္ကပဝတ္တနသုတ္တန်၌ သစ္စာလေးပါးတရားမှန်တို့ကို မဟောကြားမီ၊ ရှေးဦးစွာ မလိုလားထိုက်သော အယူဝါဒ တို့ကို ဟောပြတော်မူ၏။

ထိုအယူဝါဒများကား (၁) ကာမသုခလ္လိကာနုယောဂ (၂) အတ္တကိလမထာနုယောဂဟု နှစ်မျိုးရှိရာ၊ ကာမ သုခလ္လိကာနုယောဂဆိုသည်မှာ လောကာယတဝါဒကို ဆို သည်။ ထိုဝါဒ၏ရည်ရွယ်ချက်မှာ မျက်မြင်လောက၌ စား ကြ၊ သောက်ကြ၊ ကာမဂုဏ်ချမ်းသာတို့ကို ခံစားပျော်ပါး ကြရန်ပင် ဖြစ်သည်။ လောကနိဗ္ဗာန်နှင့် ပျော်ပိုက်ရေးဝါဒ သာ ဖြစ်ပေသည်။ နောက် အတ္တကိလမထာနုယောဂဝါဒ ကား၊ နိဗ္ဗာန်ချမ်းသာ ရရှိရေးအတွက်၊ မိမိကိုယ်ကို ဒုက္ခပေး ရမည်ဟု ဆိုလိုရင်းဝါဒပင် ဖြစ်လေသည်။

ထိုဝါဒနှစ်မျိုးလုံးကို မြတ်စွာဘုရားသည် ချင်းချက်မရှိ ပယ်တော်မူခဲ့လေသည်။ သံသရာဝဋ်ဆင်းရဲမှ ထွက်မြောက် ရန် အရေးဖြင့်၊ လူ့လောကစီးပွား၊ လူ့လောကစည်းစိမ် များကို စွန့်လွှတ်၍၊ ရဟန်းပြုကြသူမှန်က၊ မည်သည့် ကာမ ဂုဏ် ချမ်းသာ၌မျှ ကပ်ငြိနေရန် မသင့်လျော်ချေ။ ကာမ ဂုဏ်၌ ကပ်ငြိတပ်မက်နေမှုသည် အတွင်းစိတ်သန္တာန်၏ ကြီး ပွားမှုကို တားမြစ်ပိတ်ပင်စေသည်။ စင်စစ်အားဖြင့်၊ အာရုံ မှန်ကို အောက်မေ့မှုသတိ၊ အပြားအားဖြင့် ကောင်းစွာသိမှု ဆင်ခြင်တုံပညာတို့ကိုလည်း၊ ပျက်ပြားချတ်ယွင်းစေ တတ်သည်။

ဘုရားအလိုတော်နှင့် ပင်ကိုယ်သဘာဝရင်းအရဆိုလျှင်၊ ထိုကာမဂုဏ်စည်းစိမ်ချမ်းသာကို ခံစားမက်မောတွယ်တာ ကပ်ငြိမှုသည် တခုသောအစွန်းလည်း ဖြစ်၏။ မမြတ်သော အကျင့်လည်း ဖြစ်သည့်ပြင်၊ တိုးတက်ခြင်း၏ အကြောင်း တရားလည်း မဟုတ်ချေ။

ကာမဂုဏ်ချမ်းသာ၌ မက်မောမှုသည် အစွန်းတခု ဖြစ် သကဲ့သို့ နိဗ္ဗာန်ချမ်းသာ ရရှိရန်အရေးဖြင့်၊ ခန္ဓာကိုယ်ကို သည်းထန်စွာ ဒုက္ခပေးမှုသည်လည်း၊ တခုသောအစွန်းပင်ဟု မြတ်စွာဘုရား ဟောတော်မူသည်။ ယင်းကို ဆင်းရဲဟူ၍ ၎င်း၊ အရိယာတို့၏ဥစ္စာ မဟုတ်ဟူ၍၎င်း၊ အကျိုးမဲ့ဟူ၍၎င်း ဟောတော်မူသည်။ သို့ရာတွင် ယင်းကို ဟီန = အယုတ် တရားဟု ဟောတော်မမူချေ။ မှန်ပေသည်။ မိမိကိုယ်ကို ဒုက္ခပေးတတ်သော အတ္တကိလမထာနုယောဂအကျင့်သည် စင်စစ်ပယ်စွန့်ရမည့် အစွန်းတခုမှန်သော်လည်း၊ ယင်းသို့ ဒုက္ခပေး၍၊ ပြင်းထန်သောအကျင့်များကို ကျင့်သုံးသူတို့ သည် လူသာမန်တို့ မဟုတ်သည့်ပြင်၊ ထိုအကျင့်များလည်း လူသာမန်တို့ ကျင့်သုံးနိုင်သော အကျင့်များ မဟုတ်ရကား၊ ဟီန = အယုတ်တရားဟု ဟောတော်မမူချေ။

ဤမိမိကိုယ်ကို ဒုက္ခပေးတတ်သော အကျင့်ကို ကိုယ်ခန္ဓာ အားနည်းလျှင် သတိပညာလည်း အားနည်းတတ်သည်ဖြစ် ရာ၊ အတွင်းစိတ်သန္တာန်၏ တိုးတက်ကြီးပွားခြင်းကို ပိတ်ဆီး တတ်သဖြင့်၊ တခုသောအစွန်း ဖြစ်သည့်အတိုင်း၊ ရဟန်း များ ပယ်စွန့်ရမည်ဟု ဟောတော်မူသည်။

ယင်းသို့ ဤအစွန်းများကို ပယ်စွန့်ရမည်ဟု ဟောတော်မူ ခြင်းသည် ရှင်တော်ဘုရား၏ ကိုယ်တွေ့အားဖြင့် သိတော်မူ ချက်များ ပင်ဖြစ်၍၊ ကိုယ်တွေ့များကို ဟောပြတော်မူခြင်း ဖြစ်ပေသည်။ ရှေးမဆွက မင်းစည်းစိမ် ခံစားတော်မူသော အခါ၊ ကာမသုခလ္လိကာနုယောဂကျင့်စဉ်ကို ကျင့်ခဲ့၍၊ ဒုက္ကရ စရိယာ ကျင့်တော်မူသောအခါ၊ အတ္တကိလမထာနုယောဂ ကျင့်စဉ်ကို ကျင့်ခဲ့သည်။ မှန်လှသည်။ အရမ်းမဲ့ယုံကြည် ဘို့ တစုံတရာ ဗုဒ္ဓဘာသာတရားတော်၌ မရှိချေ။

ဤသို့လျှင် ပယ်စွန့်ထိုက်သော နိဗ္ဗာန်ချမ်းသာ မရ

ကြောင်း အစွန်းနှစ်ပါးကို ပယ်စွန့်ရမည်ဟု ဟောတော်မူပြီးလျှင်၊ သဗ္ဗညုတဉာဏ်တော်ဖြင့် အထူးရှာဖွေ၍ရသော နိဗ္ဗာန်ချမ်းသာရကြောင်း ဉာဏ်မျက်စိကို ပြုပေးတတ်သော အကျင့်မြတ်တရားအလင်းရောင်ကိုလည်း ထွန်းလင်းပြတော်မူလေသည်။

သို့ထွန်းလင်းပြတော်မူသော ထိုတရားအလင်းရောင်သည်လည်း၊ ရှည်လျားလှစွာသောကာလက ဖုံးကွယ်နေသော ရှေးဟောင်းကျင့်စဉ် လမ်းရိုးပင်ဖြစ်လေသည်။ ထိုကျင့်စဉ်သည် ကိလေသာ ငြိမ်းရန်၊ စင်ကြယ်သောဉာဏ်အမြင်ရရန်၊ အမှန်ကို ထိုးထွင်းသိရန်၊ နိဗ္ဗာန်ကို မျက်မှောက်ပြုရန် တရားအလင်းရောင်ပင် ဖြစ်၍၊ ယင်း၏အမည်မှာ မဇ္ဈိမပဋိပဒါဟု တွင်လေသည်။ မဇ္ဈိမပဋိပဒါဟူသည် အလယ်အလတ် ကျင့်စဉ်ဖြစ်၏။ ယင်းသည့် မဇ္ဈိမပဋိပဒါ အမျိုးအစား အရေအတွက်ကား

(၁) သမ္မာဒိဋ္ဌိ = ကောင်းမြတ်စင်ကြယ်သော သိမြင်မှု
(၂) သမ္မာသင်္ကပ္ပ = ကောင်းမြတ်စင်ကြယ်သော ကြံစည်မှု
(၃) သမ္မာဝါစာ = ကောင်းမြတ်စင်ကြယ်သော ဝစီကံမှု
(၄) သမ္မာကမ္မန္တ = ကောင်းမြတ်စင်ကြယ်သော ကာယကံမှု
(၅) သမ္မာအာဇီဝ = ကောင်းမြတ်စင်ကြယ်သော အသက်မွေးမှု
(၆) သမ္မာဝါယာမ = ကောင်းမြတ်စင်ကြယ်သော အားထုတ်မှု
(၇) သမ္မာသတိ = ကောင်းမြတ်စင်ကြယ်သော အောက်မေ့မှု
(၈) သမ္မာသမာဓိ = ကောင်းမြတ်စင်ကြယ်သော တည်ကြည်မှု

ဟု ရှစ်မျိုးရှစ်ပါး ရှိလေရာ၊ ယင်းကိုပင် မဂ္ဂင် = မဂ်၏ အစိတ်အပိုင်းဟု ခေါ်လေသည်။

ဤရှစ်မျိုးသော လမ်းမှန်ကျင့်စဉ်များကို အရမ်းမဲ့ ဟောတော်မူသည် မဟုတ်၊ ကိုယ်တော်တိုင် ထိုးထွင်း၍သိပြီးမှ ဟောကြောင်းကို တထာဂတေန အဘိသမ္ဗုဒ္ဓါဟူသော စကားဖြင့် ထင်ရှားလေသည်။ မြတ်စွာဘုရားကိုယ်တော်တိုင် ထိုးထွင်းသိသည်ဟူသောအဓိပ္ပါယ်ပါရှိသည့် ထို တထာဂတေန အဘိသမ္ဗုဒ္ဓါဟူသော စကားရပ်ဖြင့်၊ အချို့ဟိန္ဒူပညာရှိများ ယူဆပြောဆိုနေသော ဗုဒ္ဓဘာသာဟူသည် ဟိန္ဒူဘာသာမှ ခွဲထွက်သွားသော ဘာသာရပ်ဖြစ်သည် ဟူသောစကားမှာ အခြေအမြစ် မခိုင်လုံသော ယင်းတို့၏ အတ္တနောမတိမျှသာ ဖြစ်ကြောင်းကိုလည်း ကောင်းစွာ သိသင့်ပေသည်။

မဇ္ဈိမပဋိပဒါအလယ်အလတ်ကျင့်စဉ်ဟု အမည်ပေးထားသဖြင့်၊ ဗုဒ္ဓဘာသာဟူသည် ပူဇော်မှု ယုံကြည်မှု သက်သက်မျိုး မဟုတ်ဘဲ၊ ကိုယ်တိုင်လုပ်ထုံးဖြင့် ကျင့်သုံးရသော နိဗ္ဗာန်လမ်းစဉ်မျိုး ဖြစ်ကြောင်းလည်း၊ ကောင်းစွာ ထင်ရှားလှ၏။

မဇ္ဈိမပဋိပဒါကြောင့် ရအပ်သော အကျိုးတရားမှာ ကိလေသာတို့ကို ဖျက်ဆီးသဖြင့် ရအပ်သော အလွန်စင်ကြယ်မွန်မြတ်သော ချမ်းသာအကျိုးတရားပင် ဖြစ်လေသည်။ ပဉ္စဝဂ္ဂီငါးဦးတို့အား ထိုနေ့က တရားအလင်းရောင် မဇ္ဈိမပဋိပဒါကို ထွန်းပြဟောတော်မူခဲ့သည်မှာ ယခုဘဝ၌သော်၎င်း၊ နောင်ဘဝတို့၌သော်၎င်း၊ ဘဝချမ်းသာ လောကစည်းစိမ်များကို ရစေနိုင်ရန် ထွန်းပြဟောကြားခဲ့သည် မဟုတ်ဘဲ၊ လောကုတ္တရာချမ်းသာကို ရရန်၊ လောကုတ္တရာချမ်းသာသို့ ဆောင်ပို့နိုင်သော တခုတည်း၊ တကြောင်းတည်း၊ တရောင်တည်းသော ဓမ္မနည်း လမ်းစဉ်အဖြစ်ဖြင့်၊ ဟောကြားခဲ့ကြောင်း၊ သိသင့်ပေသည်။

ဤသုတ္တန်ဒေသနာ၏အစပိုင်း၌ ပဉ္စဝဂ္ဂီငါးဦးတို့၏ အယူမှားကို ပယ်ဖျက်ပြီးလျှင်၊ တရားစစ်၏အခြေခံ သစ္စာလေးပါးကို အကျယ် ရှင်းလင်းဟောပြတော်မူ၏။ ထိုသစ္စာလေးပါးမှာ ဆင်းရဲအမှန်ဟူသော ဒုက္ခသစ္စာ၊ ဆင်းရဲဖြစ်ကြောင်းအမှန်ဟူသော သမုဒယသစ္စာ၊ ဆင်းရဲ ချုပ်ငြိမ်းရာအမှန်ဟူသော နိရောဓသစ္စာ၊ ဆင်းရဲ ချုပ်ငြိမ်းရာသို့ ရောက်ကြောင်းအမှန်ဟူသော မဂ္ဂသစ္စာဟူသော ဤလေးပါးတည်း။ ဤသစ္စာလေးပါးတရားကိုပင် အရမ်းမဲ့ ယုံကြည်စရာအရာ မဟုတ်၊ လက်တွေ့မျက်မှောက် ပြုရမည့်တရားများ ဖြစ်ကြောင်းကို မှတ်သားရပေမည်။

ဤသစ္စာလေးပါးတရား၌ ဆင်းရဲကို အရင်းခံထား၍ ဟောကြားသော်လည်း၊ ဆင်းရဲမှ လွတ်မြောက်ရာကိုလည်း ဟောပြလျက်ရှိ၏။ ဆင်းရဲကို မည်သူမျှအလိုမရှိ၊ ချမ်းသာကိုသာ လိုချင်ကြ၏။ သို့ရာတွင် လူအမျိုးမျိုး၊ နတ်အထွေထွေ ရှိနေကြသဖြင့်၊ တဦးအား ချမ်းသာဖြစ်သောအရာသည် အခြားတဦးအား ချမ်းသာဖြစ်လိမ့်မည်ဟု မုချဆိုနိုင်မည် မဟုတ်ချေ။ သို့ဖြစ်၍၊ မိမိလိုလားတိုင်းသော ချမ်းသာဟူသမျှ ပြည့်စုံနိုင်မည့် နိစ္စထာဝရဖြစ်သည့် ကောင်းကင်ဘုံမျိုး မရှိနိုင်။

ခံစားမှုဝေဒနာကို စွဲ၍ဖြစ်သော ချမ်းသာမျိုးသည် တည်မြဲသော ချမ်းသာမျိုး မဟုတ်ချေ။ ခံစားမှုနှင့်စပ်သော ချမ်းသာမျိုး၏ မမြဲပုံမှာ ကျွန်ုပ်တို့၏ ကိုယ်တွေ့ပင် ဖြစ်၍၊ ထင်ရှားလှ၏။ ရှင်တော်ဘုရား၏ တရားတော်အလို နိဗ္ဗာန်ချမ်းသာဟူသည် ဒုက္ခအားလုံး အကြွင်းမဲ့ချုပ်ငြိမ်းမှု–သန္တိကို စွဲ၍ ဖြစ်သော အေးငြိမ်းမှုဟူသော ချမ်းသာမြဲပင် ဖြစ်လေသည်။

ဒုတိယဖြစ်သော သမုဒယသစ္စာ၌ဝေဘန်ပြသော ပေါနောဗ္ဘဝိကာဟူသော စကားအရ၊ တဖန် ဘဝသစ်ကို ပေးတတ်၏ဟု အဓိပ္ပါယ်ကျရာ၊ သတ္တဝါတို့အား နောင်ဘဝ ရှိကြောင်း ဘုရားဝန်ခံတော်မူသည်။ ထိုစကားရပ်ဖြင့်၊ နောက်ဘဝမရှိဟု ယူလေ့ရှိကြသူ ဥစ္ဆေဒဝါဒသမားတို့အား ယင်းတို့၏ အယူမှားကြောင်းကို ဖြေကြားရာရောက်သည် ကိုလည်း၊ အထူး သတိပြုသင့်ပေသည်။

ဤသုတ္တန်ဒေသနာ၏ အလယ်ပိုင်း၌ ရှေးကမကြားစဖူး သော တရားထူးတို့၌ ဉာဏ်အလင်း ဖြစ်ပေါ်လာကြောင်း ဟောတော်မူ၏။ ထိုအတူပင် ထိုသစ္စာတို့နှင့် စပ်လျဉ်း၍ သစ္စဉာဏ်၊ ကိစ္စဉာဏ်၊ ကတဉာဏ် သုံးပါးဖြစ်ပုံနှင့် တဆယ့် နှစ်ပါးသော အခြင်းအရာတို့ကို အကျယ် ခွဲခြားပြတော် မူသည်။

သစ္စာလေးပါးတို့တွင်

ဒုက္ခသစ္စာကို ပိုင်းခြားသိရမည်။

သမုဒယသစ္စာကို ပယ်ပစ်ရမည်။

နိရောဓသစ္စာကို မျက်မှောက်ပြုရမည်။

မဂ္ဂသစ္စာကို ပွားများရမည်။

ဤသစ္စာလေးပါးနှင့် စပ်လျဉ်း၍၊ ရှင်းရှင်းလင်းလင်း အသိဉာဏ် မဖြစ်ပေါ်သေးသမျှ၊ သမ္မာသမ္ဗောဓိဉာဏ်ကို ရရှိကြောင်း လောက၌ ပြောပြတော်မမူ။ သစ္စာလေးပါး ကို ရှင်းရှင်းလင်းလင်း ပြည့်ပြည့်စုံစုံ သိမြင်တော်မူသောအခါ ကျမှ၊ သမ္မာသမ္ဗောဓိဉာဏ်ကို ရရှိတော်မူကြောင်း ဟော ပြတော်မူ၏ဟု သုတ်အဆုံး၌ မိန့်တော်မူ၏။

ဤကား ငါ၏အဆုံးစွန်သော ဘဝတည်း၊ နောင်တဖန် ဖြစ်ပေါ်ခြင်းမရှိဟု အဆုံးသတ်ဘဝအဖြစ်ကို ထင်ရှားစွာ ပြတော်မူပြီးလျှင်၊ ဤတရားဦးဒေသနာတော်ကို ပြီးဆုံးစေ တော်မူ၏။

ဒေသနာတော်၏အဆုံး၌၊ အရှင်ကောဏ္ဍညမထေရ်သည် ရှေးဦးစွာ နိဗ္ဗာန်ကို မျက်မှောက်ပြုကာ၊ သောတာပန် ဖြစ် လေသည်။ တရားအလင်းရောင်၏ အကြည်ဓာတ်ကို ခံယူ ရန်လာရောက်ကြသော ထောင်သောင်းမက များပြားလှစွာ သော နတ်ဗြဟ္မာတို့သည် ကောင်းချီးနုမော် သာဓုခေါ်ဆို ကြလေကုန်သတည်း။ (ပဉ္စဝဂ္ဂီငါးဦး — လည်းရှု။)

ဆရာဉာဏ်

**ဓမ္မစေတီမင်း** (မြန်မာ ၈၃၃–၈၅၄)။ ။ဓမ္မစေတီမင်း သည် ဘုရင်မ ရှင်စောပု၏ ရိုက်ရာကို ဆက်ခံ၍၊ ဟံသာဝတီ ပြည်ကို စိုးမိုးအုပ်ချုပ်သော မွန်ဘုရင်ဖြစ်သည်။ ဝါရီရုမင်း ဆက်တွင် ဘုန်းတန်ခိုး အကြီးဆုံးသော ဘုရင်တပါးလည်း ဖြစ်ပေသည်။ ငယ်စဉ်က ရဟန်းဝတ်နှင့် အင်းဝတွင် စာ သင်ကြားခဲ့ရာ၊ ရဟန်းဘွဲ့အားဖြင့် ဓမ္မဓရဟု တွင်သည်။ အင်းဝ၌ မွန်ဘုရင် ရာဇာဓိရာဇ်၏ သမီးတော် ရှင်စောပု သည် အင်းဝပြည့်ရှင် မိုးညှင်းမင်းတရား၏ မိဖုရားအဖြစ် နေ ထိုင်ရသည်ကို မပျော်ပိုက်၍၊ ဓမ္မဓရနှင့် အခြား မွန်ရဟန်း တပါးဖြစ်သော ဓမ္မဉာဏတို့ထံ ဟံသာဝတီသို့ပြန်လို ကြောင်း အကူအညီ တောင်းခံလေသည်။ သက္ကရာဇ် ၇၉၁ ခုနှစ်တွင် ဓမ္မဓရလည်း ဓမ္မဉာဏနှင့်အတူ မိဖုရားရှင်စော ပုကို ခိုးယူ၍၊ ဟံသာဝတီသို့ လှေနှင့် စုန်ဆင်းပြေး လေသည်။

သက္ကရာဇ် ၈၁၄ ခုနှစ်တွင် ရှင်စောပု သည် ဗညားကျန်း တော အမည်နှင့် ဟံသာဝတီဘုရင်မ ဖြစ်လာသောအခါ၊ ကျေးဇူးရှိခဲ့ဘူးသော ဓမ္မဓရ ရဟန်းအား လူဝတ်လဲစေ၍၊ မိမိ၏သမီးတော်နှင့် ထိမ်းမြားစေပြီးလျှင်၊ ဓမ္မစေတီဟူသော အမည်ကို ခံယူစေကာ၊ အိမ်ရှေ့အရာ အပ်နှင်းလေသည်။ သက္ကရာဇ် ၈၂၁ ခုနှစ်၌ ရှင်စောပုသည် သမက်တော် ဓမ္မ စေတီအား ထီးနန်းအပ်၍၊ ဒဂုံသို့ သွားရောက်နေထိုင်ယင်း၊ ထိုမြို့၌ပင် ၈၃၃ ခုနှစ်တွင် အနိစ္စရောက်သည်။ ထိုအခါမှစ၍ ဓမ္မစေတီလည်း ဘုရင်မ ရှင်းစောပု၏ အရိုက်အရာဖြစ်သော ဟံသာဝတီပြည်အလုံးကို ဆက်ခံအုပ်စိုးရလေသည်။ မင်း အဖြစ်သို့ ရောက်သောအခါ၊ ရာမာဓိပတိဟူသော ဘွဲ့ကို ခံ ယူ၏။

ဓမ္မစေတီမင်းသည် သာသနာပြု မင်းကောင်းတပါး ဖြစ် သည်။ အထူးထူးသောကျမ်းဂန်တို့ကို တတ်မြောက်သည်။ ဘုရားပုထိုးများစွာ တည်သည်။ ဝတ်ဖြူလဲ၍ သံဃာတော် တို့အား စာပေသင်ကြားပို့ချသည်။ တရားနှင့်အညီ မင်း ပြုသည်။ ဓမ္မစေတီမင်းသည် သက္ကရာဇ် ၈၃၇ ခုနှစ် တပို့ တွဲလတွင် ဟံသာဝတီသား မထေရ်မြတ်များကို တောင်း ပန်၍၊ သီဟိုဠ်ကျွန်းသို့ စေလွှတ်ကာ သိက္ခာသစ် တင်စေ သည်။ သက္ကရာဇ် ၈၃၈ ခုနှစ် ဒုတိယဝါဆိုလတွင် မထေရ် မြတ်များသည် ကလျာဏီမြစ်၌ မဟာဝိဟာရဝါသီ ဂိုဏ်း မြတ်၏ အဆက်အနွယ်ဖြစ်သော ရဟန်းသံဃာတော်များ ထံမှ ရဟန်းအဖြစ် ထပ်မံခံယူကြသည်။ မထေရ်မြတ်များ သည် ထိုနှစ် နတ်တော်လဆန်း ၈ ရက် တနင်္ဂနွေနေ့တွင် ဟံသာဝတီသို့ ပြန်လည် ဆိုက်ရောက်ကြသောအခါ၊ ကလျာ ဏီသိမ်တော်ကြီးကို တည်ကြသည်။ ကလျာဏီသိမ် တော်ကြီးသည် ပဲခူးမြို့ အနောက်မျက်နှာ မဇင်းချောင်း ရပ်ကွက် ရွှေသာလျောင်းဘုရား သွားရာလမ်းတွင် ယခုထက် တိုင် အထင်အရှားရှိသည်။ သက္ကရာဇ် ၁၃၁၆ ခုနှစ်၌ အဆို ပါ သိမ်တော်ကြီးကို ပြန်လည်မွမ်းမံပြင်ဆင်၍ သိမ်တော် ဖွင့်ပွဲကို စည်ကားသိုက်မြိုက်စွာ ကျင်းပသည်။ ဓမ္မစေတီ မင်းသည် ယင်းကလျာဏီသိမ်တော်ကြီးကို အကြောင်းပြု၍၊ သက္ကရာဇ် ၈၄၁ ခုနှစ်၌ ကျောက်စာရေးထိုးစိုက်ထူထားရာ၊ ကလျာဏီကျောက်စာဟု တွင်သည်။ (ကလျာဏီကျောက်

စာ — ရှ။) ထိုနောက် ဓမ္မစေတီမင်းသည် နိုင်ငံတော်အတွင်း ဝေးနီးအရပ်များရှိ ရဟန်းတို့အား ယင်းကလျာဏီသိမ်တော်ကြီးတွင် သိက္ခာသစ်တင်၍ ရဟန်းအဖြစ် ထပ်မံခံယူစေလေသည်။ သက္ကရာဇ် ၈၅၄ ခုနှစ်၌ ဓမ္မစေတီမင်းသည် သားတော်ဗညားရံ လုပ်ကြံ၍ အနိစ္စရောက်လေသည်။

ဤမင်း၏လက်ထက်၌ တိုင်းနိုင်ငံ ငြိမ်းချမ်းသာယာ၍ စည်ပင်ဝပြောသည်။ ဝါရီရုဓမ္မသတ်ကို ရှင်ဗုဒ္ဓဃောသ မထေရ်မြတ်က မြန်မာဘာသာသို့ ပြန်ဆိုသည်။ ထိုပြင် ဤမင်း၏လက်ထက်၌ သီဟိုဠ်မင်း၊ ကျည်းမင်းတို့နှင့် ရာဇသံအတုံ့အပြန် စေလွှတ်သည်။ ယူနန်ပြည်နှင့်လည်း မီးမသေရေမနောက် ချစ်ကြည်စွာ ဆက်ဆံသည်။ ဤမင်း၏ တရားစီရင်ထုံးများကို ဓမ္မစေတီမင်းဖြတ်ထုံးဟု ခေါ်တွင်လေသည်။ ထိုမင်း၏ ပညာရှိ အမတ်တဦးသည် သမိန်ဗရမ်းဖြစ်သည်။ (သမိန်ဗရမ်း — ရှု။)

**ဓမ္မတာသုံးဆယ်**။ ။ဓမ္မတာဆိုသည်မှာ ဖြစ်ရမြဲ သဘောတရား၊ ပြုလုပ်ရမြဲ သဘောတရားကို ဆိုသည်။ ဓမ္မတာသုံးဆယ်ကား ဘုရားရှင်တို့နှင့်သာ သက်ဆိုင်သော ဓမ္မတာဖြစ်၍၊ အလုံးစုံသော ဘုရားရှင်တို့ ဖြစ်ရမြဲ၊ ပြုလုပ်ရမြဲ သဘောတရား ဖြစ်သည်။

ပစ္ဆိမဘဝိကဖြစ်သော ဘုရားလောင်းတို့သည်

(၁) မယ်တော်ဝမ်း၌ ပဋိသန္ဓေနေတော်မူခြင်း
(၂) ထက်ဝယ်ဖွဲ့ကာ ပြင်ပသို့ မျက်နှာပြု၍ နေတော်မူခြင်း
(၃) မယ်တော်ရပ်လျက်သာ ဖွားမြင်တော်မူခြင်း
(၄) တောအရပ်၌သာ ဖွားမြင်တော်မူခြင်း
(၅) မြောက်အရပ်သို့ ခုနစ်ဖဝါးလှမ်းလျက်၊ ခြင်္သေ့မင်းကဲ့သို့ ရဲဝံ့စွာ သုံးခွန်းသောစကားကို ဆိုတော်မူခြင်း
(၆) နိမိတ်ကြီးလေးပါး ထင်၍ သားတယောက် မွေးဖွားပြီးမှသာ တောထွက်တော်မူခြင်း
(၇) အရဟတ္တဓိုလ်၏ တံခွန်ဖြစ်သော ရဟန်းအဖြစ်ကို ယူတော်မူခြင်း
(၈) အယုတ်အားဖြင့် ခုနစ်ရက် ဒုက္ကရစရိယာ ကျင့်တော်မူခြင်း
(၉) ဘုရားဖြစ်အံ့သောနေ့၌ ဂဏနို့ဆွမ်းကို ဘုဉ်းပေးတော်မူခြင်း
(၁၀) မြက်အခင်း၌နေ၍ ဘုရားဖြစ်တော်မူခြင်း
(၁၁) အာနာပါနဿတိ ကမ္မဋ္ဌာန်းကို စီးဖြန်း၍ မာရ်စစ်သည်ကို အောင်မြင်တော်မူခြင်း
(၁၂) ဗောဓိပင်၌သာ ဝိဇ္ဇာသုံးပါးကို အစပြု၍၊ ဆအာသာဓာရဏ စသော ဂုဏ်ကျေးဇူးတို့ကို ရတော်မူခြင်း
(၁၃) ဗောဓိပင်အနီး၌သာ ခုနစ်ရက် ခုနစ်လီ နေတော်မူခြင်း
(၁၄) တရားဟောရန် မဟာဗြဟ္မာ တောင်းပန်ခြင်း
(၁၅) ဣသိပတနမိဂဒါဝုန်တော၌ ဓမ္မစကြာတရားကို ဟောတော်မူခြင်း
(၁၆) တပို့တွဲလပြည့်နေ့၌သာ အာဏာပါတိမောက် ပြတော်မူခြင်း
(၁၇) ဇေတဝန်ကျောင်းတော်၌သာ အမြဲ သီတင်းသုံးတော်မူခြင်း
(၁၈) သာဝတ္ထိပြည်၌သာ ယမိုက်ပြာဋိဟာကို ပြတော်မူခြင်း
(၁၉) တာဝတိံသာနတ်ပြည်၌သာ အဘိဓမ္မာတရားကို ဟောတော်မူခြင်း
(၂၀) သင်္ကဿနဂိုရ်မြို့တံခါး၌သာ တာဝတိံသာ နတ်ပြည်မှ ဆင်းသက်တော်မူခြင်း
(၂၁) အမြဲမပြတ် ဖလသမာပတ်ကို ဝင်စားတော်မူခြင်း
(၂၂) ညဥ့်ဦးယာမ် မိုးသောက်ယာမ်တို့၌ ကျွတ်ထိုက်သော ဝေနေယျတို့ကို ကြည့်ရှုတော်မူခြင်း
(၂၃) အကြောင်းရှိလျှင် သိက္ခာပုဒ်ကို ပညတ်တော်မူခြင်း
(၂၄) အတ္ထုပ္ပတ္တိရှိလျှင် ဇာတ်ဒေသနာကို ဟောတော်မူခြင်း
(၂၅) ဆွေတော်မျိုးတော်တို့အစည်းအဝေး၌ ဗုဒ္ဓဝင်ဒေသနာကို ဟောတော်မူခြင်း
(၂၆) အာဂန္တုရဟန်းတို့နှင့် အစေ့အစပ် ပဋိသန္ထာရ ပြုတော်မူခြင်း
(၂၇) ဝါကျွတ်ပြီးသောအခါ ပင့်ဖိတ်သောဒါယကာတို့အား မပန်ကြားဘဲ ကြွတော်မမူခြင်း
(၂၈) နေ့တိုင်းနေ့တိုင်း ပုရေဘတ္တကိစ္စ၊ ပစ္ဆာဘတ္တကိစ္စ၊ ပဌမယာမကိစ္စ၊ မဇ္ဈိမယာမကိစ္စ၊ ပစ္ဆိမယာမကိစ္စတို့ကို ပြုတော်မူခြင်း
(၂၉) ပရိနိဗ္ဗာန်ပြုအံ့သောနေ့၌ သားပြွမ်းဆွမ်းကို ဘုဉ်းပေးတော်မူခြင်း
(၃၀) ကုဋေနှစ်သန်းလေးသိန်းသော ဖလသမာပတ်ကို ဝင်စား၍ ပရိနိဗ္ဗာန် ပြုတော်မူခြင်း။

(ဘုရား — ရှု။) ဦးကြီးဖေ

**ဓမ္မဒိန္နာထေရီ**။ ။ဓမ္မဒိန္နာထေရီသည် ဂေါတမမြတ်စွာဘုရား လက်ထက်တော်တွင် တရားဟောကြားရာ၌၊ တရား

ကျအောင် ရှင်းလင်းပြတ်သားစွာ ဟောကြားနိုင်စွမ်းရည်ကြောင့်၊ ဓမ္မကထိကအရာ၌ ဧတဒဂ်ရသော ထေရီတပါးဖြစ်သည်။ ထိုထေရီသည် ပဒုမုတ္တရမြတ်စွာဘုရား လက်ထက်ကစ၍ ပါရမီဆည်းပူးခဲ့ရာ၊ ဘဝများစွာ ကျင်လည်ပြီးနောက်၊ ကဿပမြတ်စွာဘုရားလက်ထက်တွင် ကိကီမင်း၏ သမီးတော် သုဓမ္မာမင်းသမီး ဖြစ်လေသည်။ တဖန် ဂေါတမမြတ်စွာဘုရားလက်ထက်တော်၌ ရာဇဂြိုဟ်ပြည် သဌေးကြီးတဦး၏ သမီး ဓမ္မဒိန္နာဟူ၍ ဖြစ်လာသည်။ အရွယ်ရောက်သောအခါ၊ ပညာသင်ဖက် မိတ်ဆွေ ဝိသာခါသဌေးနှင့် ဗိမ္ဗိသာရမင်းကြီးက လက်ထပ်ပေးသည်။ ဝိသာခါသဌေးကား သောတာပန်တည်ပြီးသော ပုဂ္ဂိုလ်ဖြစ်သည်။ ဝိသာခါ သဌေးသည် အမြဲသဖြင့် မြတ်စွာဘုရားထံသို့ သွားရောက်၍ တရားနာလေ့ရှိသော်လည်း၊ ဓမ္မဒိန္နာသည် မြတ်စွာဘုရားထံသို့ တကြိမ်တခါမျှ မလိုက်ပါဘဲ နေခဲ့သည်။

တနေ့သ၌ ဝိသာခါသဌေးသည် သောတာပန်စခန်းမှ အနာဂါမ်စခန်းသို့ ဆိုက်ရောက်ပြီး၍၊ အိမ်သို့ ပြန်ရောက်သော အခါ၊ ဓမ္မဒိန္နာအား ရွှင်ပျကြည်ဖြူစွာ မဆက်ဆံဘဲ နေလေ၏။ ဓမ္မဒိန္နာသည် လင်သဌေး၏ အမူအရာကို မေးသည့်အခါဝယ်၊ သဌေးက မိမိသည် မြတ်စွာဘုရားထံတွင် တရားနာယင်း အနာဂါမ်အဖြစ်ကို ရရှိပြီးဖြစ်ကြောင်းကို ပြောပြ၏။ ထိုမျှမက မိမိကို မောင်ဖွားကဲ့သို့ အောက်မေ့၍၊ ဓမ္မဒိန္နာသည် နောက်ထပ်အိမ်ထောင်ပြုလိုကလည်း ပြုလေဟု ခွင့်ပေးသည်။ ထိုအခါ ဓမ္မဒိန္နာသည် လွန်စွာ ပူဆွေးလျက် ငိုယိုပြီးနောက်၊ မိမိလင်ယောကျ်ားကပင် သံယောဇဉ်ကို ဖယ်ခွာနိုင်လျှင်၊ မိမိကလည်း အဘယ်ကြောင့် မခွာနိုင်အံ့နည်းဟု မာန်တက်ကာ၊ ဘိက္ခုနီမ ပြုခွင့်တောင်း၍၊ မြက်စွာဘုရား၏ ကျောင်းတော်သို့ သွားလေသည်။ ကျောင်းတော်သို့ ရောက်သောအခါ၊ လူဝတ်ကိုပယ်၍ ရဟန်းပြုရာ၊ လူအများက ခြီးကျူးအံ့သြကြရသည်။ များစွာသော အမျိုးသမီးတို့သည်လည်း အတုယူ၍ ရဟန်းပြုကြသည်။ ဓမ္မဒိန္နာသည် မကြာမီ တောသို့ထွက်၍ တရားအားထုတ်သဖြင့်၊ ပဋိသမ္ဘိဒါလေးပါးနှင့်တကွ ရဟန္တာဖြစ်လေသည်။ လူအများက မေးမြန်းသော တရားပုစ္ဆာများကိုလည်း ဖြေဆိုနိုင်၏။ ထိုနောက် ဓမ္မဒိန္နာသည် ဝိသာခါသဌေးအား မဇ္ဈိမနိကာယ်လာ စူဠဝေဒလ္လသုတ်ကို ဟောကြားသည်။ မြတ်စွာဘုရားသည်လည်း ဓမ္မဒိန္နာအား တရားဟောကြားရာတွင် တိကျပြတ်သား မှန်ကန်ခြင်းတို့ကြောင့် ဓမ္မကထိက ဧတဒဂ်ဘွဲ့ထူးဖြင့် ခြီးမြှင့်တော်မူလေသည်။

**ဓမ္မပဒ။** ။ဓမ္မပဒဆိုသည်မှာ၊ ပိဋကတ်သုံးပုံအပါအဝင် ခုဒ္ဒကနိကာယ်မှ ပါဠိတော်ပင် ဖြစ်သည်။ မြတ်စွာဘုရားသည် အခါအားလျော်စွာ ဟောကြားတော်မူအပ်သော တရားတော်တို့မှ လိုရင်းအချက်အလက်များကို ဂါထာဖြင့် အကျဉ်းချုံး၍၊ သီကုံးဖော်ပြထားသော ဗုဒ္ဓပါဝစနတရားတော်ရင်းများ ဖြစ်သည်။

ဓမ္မပဒပါဠိတော်တွင်၊ မဂ်တရား၊ ဖိုလ်တရားနှင့် လူ့လောကီ ကျင့်စဉ်တရား သင်ခန်းစာများကို ဥပမာ ဥပမေယျနှင့် ဖော်ပြထားသဖြင့်၊ ဓမ္မနီတိ ကျမ်းတဆူပင် ဖြစ်သည်။ ဂါထာပေါင်း ၄၂၃ ပုဒ် ပါရှိသည်။

ဓမ္မပဒပါဠိတော်ကို၊ မြန်မာဘာသာဖြင့် ပြန်ဆိုခဲ့ကြသည်များအနက်၊ မှတ်ချက်များပါသော သင်္ဂဇာဆရာတော်၏ ကျမ်းသည် တခုဖြစ်သည်။ ဓမ္မပဒကို ဥရောပတိုက်ရှိ လူများသိသာအောင် ၁၈၅၅ ခုနှစ်တွင် လက်တင်ဘာသာဖြင့် ပြန်ဆိုခဲ့သည်။ ထိုနောက်မှ အင်္ဂလိပ်၊ ဂျာမန်၊ ပြင်သစ် ဘာသာများသို့ ပြန်ဆိုခဲ့ကြသည်။

ဓမ္မပဒပါဠိတော်ကို တူညီသောအကြောင်းရပ်နှင့် တူညီသောဥပမာ စသည်တို့ကို စုပေါင်း၍ အစုလိုက်ဖော်ပြထား၏။ ယင်းအစုတခုကို ဝဂ္ဂဟုခေါ်သည်။ ယင်းသို့ အစုလိုက်ဖော်ပြထားသော ဝဂ္ဂပေါင်းမှာ ၂၆ ခုရှိသည်။ ယင်းတို့သည်ကား (၁) ယမကဝဂ္ဂ၊ အစုံအစုံသော တရားအကြောင်း၊ (၂) အပ္ပမာဒဝဂ္ဂ၊ မမေ့မလျော့ခြင်းအကြောင်း၊ (၃) စိတ္တဝဂ္ဂ၊ စိတ်အကြောင်း၊ (၄) ပုပ္ဖဝဂ္ဂ၊ ပန်းအကြောင်း၊ (၅) ဗာလဝဂ္ဂ၊ လူမိုက်အကြောင်း၊ (၆) ပဏ္ဍိတဝဂ္ဂ၊ ပညာရှိအကြောင်း၊ (၇) အရဟန္တဝဂ္ဂ၊ ရဟန္တာအကြောင်း၊ (၈) သဟဿဝဂ္ဂ၊ တထောင်ဥပမာအကြောင်း၊ (၉) ပါပဝဂ္ဂ၊ မကောင်းမှုအကြောင်း၊ (၁၀) ဒဏ္ဍဝဂ္ဂ၊ အပြစ်ဒဏ်အကြောင်း၊ (၁၁) ဇရာဝဂ္ဂ၊ အိုမင်းခြင်းအကြောင်း၊ (၁၂) အတ္တဝဂ္ဂ၊ မိမိကိုယ်အကြောင်း၊ (၁၃) လောကဝဂ္ဂ၊ လောကအကြောင်း၊ (၁၄) ဗုဒ္ဓဝဂ္ဂ၊ မြတ်စွာဘုရားအကြောင်း၊ (၁၅) သုခဝဂ္ဂ၊ ချမ်းသာခြင်းအကြောင်း၊ (၁၆) ပိယဝဂ္ဂ၊ ချစ်ခြင်းအကြောင်း၊ (၁၇) ကောဓဝဂ္ဂ၊ အမျက်အကြောင်း၊ (၁၈) မလဝဂ္ဂ၊ အညစ်အကြေးအကြောင်း၊ (၁၉) ဓမ္မဋ္ဌဝဂ္ဂ၊ တရား၌ တည်ခြင်းအကြောင်း၊ (၂၀) မဂ္ဂဝဂ္ဂ၊ မဂ်လမ်းအကြောင်း၊ (၂၁) ပကိဏ္ဏကဝဂ္ဂ၊ အထွေထွေအကြောင်း၊ (၂၂) နိရယဝဂ္ဂ၊ ငရဲအကြောင်း၊ (၂၃) နာဂ ဝဂ္ဂ၊ ဆင်အကြောင်း၊ (၂၄) တဏှာဝဂ္ဂ၊ တပ်မက်ခြင်းအကြောင်း၊ (၂၅) ဘိက္ခုဝဂ္ဂ၊ ရဟန်းအကြောင်း၊ (၂၆) ဗြာဟ္မဏဝဂ္ဂ၊ ဗြဟ္မဏအကြောင်းဟူ၍ ဖြစ်သည်။

**ဓမ္မရုံကြီး။** ။ဓမ္မရုံကြီးသည် ပုဂံရှိ ရှေးဟောင်းဂူ ဘုရားတဆူဖြစ်သည်။ ဦးကုလားမဟာရာဇဝင်တွင် ကောင်းမှုတော် ဓမ္မရံဟု ဖော်ပြထားသည်။ ပမာဏကြီးမားသည်ကို အစွဲပြု၍ ဓမ္မရံကြီးဟု နောင်သောအခါ တွင်ဟန်တူသည်။



ပုဂံဘုရားတို့တွင် ပမာဏအကြီးဆုံးဖြစ်သည့် ဓမ္မရံကြီးဂူဘုရား

ယင်းဂူဘုရားကို သက္ကရာဇ် ၅၂၉ ခုနှစ်တွင် နန်းတက်သော ပုဂံမင်း နရသူ တည်ခဲ့လေသည်။

ဓမ္မရံကြီး၏ပုံစံမှာ အာနန္ဒာဘုရားနှင့် ဆင်ဆင်တူ၏။ အာနန္ဒာ ဘုရားပုံစံကိုပင်ယူ၍ တည်ထားဟန်တူ၏။ သို့သော် အာနန္ဒာဘုရားကဲ့သို့ မသပ္ပါယ်ချေ။ နရသူမင်းကြီးသည် ဓမ္မရံကြီးကိုတည်ရာ၌၊ စေ့စပ်သေချာစေရန်အလို့ငှာ အကွပ်အကဲပြင်းထန်၏။ အုတ်နှစ်ချပ်အကြား၌ အပ်တဖျားဝင်သာရုံမျှ ဟနေလျှင်ပင်၊ ပန်းရံသမားတို့အား သေဒဏ်ဖြင့် စီရင်သောဟူ၏။ မင်းအာဏာဖြင့် ဤသို့ကွပ်ညှပ်သောကြောင့်၊ ယင်းဘုရား၏လက်ရာသည် အခြားသောပုဂံဘုရားများ၏ လက်ရာတို့ထက် ကောင်းမွန်သည်ကို တွေ့ရ၏။ သို့ရာတွင်၊ ရာဇဝင်အစောင်စောင်တို့က 'ကောင်းမှုတော်ဓမ္မရံလုပ်သည်လည်း၊ ကြောက်ရွံ့ခြင်းပြင်းသောကြောင့်၊ စေ့စပ်သေချာလွန်း၍ မပြီးလေ' ဟု မှတ်တမ်းတင်လေသည်။ ယင်းဘုရား၏ပမာဏမှာ ပုဂံဘုရားတို့တွင် အကြီးဆုံးဖြစ်၏။

**ဓမ္မက္ခန္ဓာ**။ ။ဓမ္မက္ခန္ဓာဟူသည် မြတ်စွာဘုရား ဟောကြားတော်မူအပ်သော တရားအဘို့အစုကို ဆိုသည်။

ထိုတရားအဘို့အစုဟု ဆိုအပ်သော ဓမ္မက္ခန္ဓာတို့သည် သင်္ချာအရေအတွက်အားဖြင့် ရှစ်သောင်းလေးထောင်မျှ ရှိသည်ဟု ကျမ်းဂန်တို့၌ ပြဆိုကြသည်။

မည်မျှလောက်တရားများကို သင်ကြားလေ့ကျက်ဆောင်ရွက်လေသနည်းဟု ဂေါပကပုဏ္ဏားကြီးသည် အရှင်အာနန္ဒာကို မေးလျှောက်သောကာလ၊ မြတ်စွာဘုရားထံမှ ဓမ္မက္ခန္ဓာရှစ်သောင်းနှစ်ထောင်၊ အရှင်သာရိပုတြာ စသောရဟန်းတို့ထံမှ ဓမ္မက္ခန္ဓာနှစ်ထောင်၊ ဤသို့ ဓမ္မက္ခန္ဓာ ရှစ်သောင်းလေးထောင်ကို မိမိဆောင်ရွက်ထားကြောင်း အရှင်အာနန္ဒာက ပြန်လည်ဖြေဆိုတော်မူ၏။

ထိုဓမ္မက္ခန္ဓာများရေတွက်နည်းကို ဤသို့သိအပ်၏။

သုတ္တန်၌ ဂါထာမဲ့ သုတ်တို့ဝယ် အနုသန္ဓေတခုလျှင် ဓမ္မက္ခန္ဓာတခုကျယူ၍ ဂါထာဗန္ဓတို့၌မူ အမေးတခုလျှင် ဓမ္မက္ခန္ဓာတခု၊ အဖြေတခုလျှင်လည်း ယင်းနည်းတူဓမ္မက္ခန္ဓာတခုကျ တွက်ယူရသည်။

အဘိဓမ္မာ၌ တိက်တခု၊ ဒုက်တခု၊ စိတ္တဝိဘာဂ တခုတခုကို အသီးအသီး ဓမ္မက္ခန္ဓာတခုစီ ယူရသည်။

ဝိနည်း၌ ဝတ္ထု၊ မာတိကာ၊ ပဒဘာဇနီ၊ အန္တရာပတ္တိ၊ အာပတ္တိဝါရ၊ အနာပတ္တိဝါရ၊ တိကပရိစ္ဆေဒတိုင်း အသီးအသီး ဓမ္မက္ခန္ဓာတခုစီယူ၍ ရေတွက်ရသည်။

ဤသို့ ဓမ္မက္ခန္ဓာရေတွက်နည်းကို ဝိနည်းအဋ္ဌကထာကြီး စသည်တို့၌ ပြဆိုထားပေသည်။

ပိဋကအားဖြင့် ဝိနည်း၌ ဓမ္မက္ခန္ဓာမည်မျှ၊ သုတ္တန်၌ မည်မျှ၊ အဘိဓမ္မာ၌ မည်မျှရှိ၏ဟု ပါဠိအဋ္ဌကထာ ကျမ်းကြီးကျမ်းခိုင်တို့၌ ပုံသေကားကျ ခွဲဝေပြထားသည်ကို မတွေ့ဘူးပေ။

သို့ရာတွင် ဝိနည်းပိဋက၌ ဓမ္မက္ခန္ဓာ နှစ်သောင်းတထောင်၊ သုတ္တန်ပိဋက၌ နှစ်သောင်းတထောင်၊ အဘိဓမ္မာပိဋက၌ လေးသောင်းနှစ်ထောင်ရှိ၏ဟူ၍ ခန့်မှန်းခြေ သတ်မှတ် ပိုင်းခြားထားသော အာစရိယ ဝါဒကား ရှိလေသတည်း။

ဆရာဥာဏ်



မြန်မာဗျည်း ၃၃ လုံးတွင် န သည် ၂၀ ခုမြောက် အက္ခရာဖြစ်သည်။ တ၊ ထ၊ ဒ၊ ဓ၊ န ဟူသော တ ဝဂ်တွင် ပါဝင်၍ န အသံ၏ ဖြစ်ရာဌာနမှာ ဒန္တဌာန် သွားအရပ်ဖြစ်သည်။ အက္ခရာ၏ အရွယ်ကိုလိုက်၍၊ န ငယ် ဟု အမည်တွင်သည်။ ဏ ကြီး ဟူသော အက္ခရာလည်း ရှိသေးရာ၊ အကြီးအငယ်ခွဲခြားလို၍ န ငယ် ဟု ခေါ်ခြင်းဖြစ်၏။ န အရေးအသား၏မူလမှာ ဗြာဟ္မီ အက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီအရေးအသား တွင် အောက်ဖက်ရှိ မျဉ်းသည် တဖြည်းဖြည်း အောက်သို့ကွေးလာပြီး၊ လက်ဝဲဖက်အစသည် တိုလာသည်။ ရေးဖန်များသောအခါ၊ လက်ဝဲဖက်တွင် ဝမ်းပိုက်သဏ္ဌာန်ပေါ်လာသည်။ ထိပ်တွင် လကျ်ာဖက်အတွင်းသို့ ကွေး၍၊ ဦးခေါင်းတပ်ပေးပြီး၊ အောက် မျဉ်း ကို ဆန့်လိုက်သောအခါ၊ မြန်မာအက္ခရာ န ဖြစ်ပေါ်လာသည်။ န အက္ခရာ၏ အဆင့်ဆင့် ပြောင်းလဲဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**နကျယ်ကောင်။** ။နကျယ်သည် ပျား၊ ပရွက်ဆိတ်၊ ပျားတူ စသည်တို့ပါဝင်သည့် 'ဟိုင်မင်နော့တာရာ' ခေါ် တိရစ္ဆာန်မျိုးစုတွင် ပါဝင်သော အင်းဆက်ပိုးမျိုးဖြစ်သည်။ အဆိုပါမျိုးစုတွင်ပါဝင်သော နကျယ်ကောင်ကို တဖန် အကြမ်းအားဖြင့် ၂ မျိုး ၂ စား ခွဲခြားနိုင်ပြန်၏။ ပျားကဲ့သို့ပင် နကျယ်သည် အစုအဝေးနှင့်ဖြစ်စေ၊ တကောင်တည်းဖြစ်စေ နေတတ်၏။ အစုအဝေးနှင့်နေသော နကျယ်မျိုးတွင် ကျွန်ုပ်တို့တွေ့မြင်နေကျ ဗက်စပါခေါ် နကျယ်မျိုးနှင့် ပျားတူတို့ ပါဝင်သည်။ အမည်နှင့်လိုက်အောင် ပျားတူသည် ပျားနှင့် ပုံပန်း အလွန်တူပြီးလျှင်၊ ပျားမှာကဲ့သို့ပင် ပျားတူဘုရင်မ၊ ပျားတူအလုပ်သမား၊ ပျားတူထီး စသည်တို့ အစုံအလင်ပါရှိသည်။ (ပျား — ရှု။) နကျယ်တို့သည် အံ့သြဖွယ်ကောင်းသော အသိုက်အအုံကြီးများ ပြုလုပ်တတ်ကြသည်။ သီဟိုဠ်ကျွန်း၌တွေ့ရသော နကျယ်အိမ်သည် ၆ ပေမျှ ရှည်လျား၏။ တောင်အမေရိကတိုက်ရှိ နကျယ်ကောင်များသည် စက္ကူပျော့ဖတ်ကို မြေကြီးနှင့်ရော၍ အသိုက် ဆောက်လုပ်ထားရာ၊ နကျယ်အိမ်မှာ အုတ်အင်္ဂတေနှင့်မခြား ခိုင်မာလှသည်ကို တွေ့ရ၏။

နကျယ်တို့သည် အများအားဖြင့် အသိုက်အိမ်ကို မြေကြီးအောက်တွင် သော်၎င်း၊ သစ်ပင်ခေါင်းထဲတွင် သော်၎င်း၊ ပြုလုပ်လေ့ရှိ၏။ နကျယ်ကောင်အနည်းငယ်မျှနေထိုင်သော နကျယ်အုံအငယ်စားကိုမူ၊ သစ်ပင်၏ အကိုင်းအခက်များတွင် ဖြစ်စေ၊ အိမ်တန်စက်မြိတ်အောက်တွင် ဖြစ်စေ၊ ပြုလုပ်လေ့ရှိသည်။ နကျယ်အိမ်မှန်လျှင် ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ နကျယ်ဘုရင်မကြီးက စတင် တည်ထောင်စမြဲဖြစ်သည်။ နကျယ်ဘုရင်မကြီးသည် နေရာကောင်းကို ရွေးချယ်ပြီးလျှင်၊ နကျယ်အိမ်၏အခြေခံ အုတ်မြစ်ကို ချပေးသည်။ ရှေးဦးစွာ နကျယ်ဘုရင်မသည် ပေါက်ဖွားလာမည့် နကျယ်ကောင်ကလေးများအတွက် အခန်းငယ်များ ပြုလုပ်သည်။ ထိုအခန်းငယ်များကို ပျားကဲ့သို့ ဖယောင်းဖြင့် မပြုလုပ်ဘဲ၊ သစ်ရွက်နှင့်သစ်သားကို ပျော့ဖတ်ဖြစ်အောင် ဝါးလိုက်ပြီးနောက် လိုရာပုံ ပြုလုပ်ယူသည်။ အလိုရှိသော အခန်းကလေးများ ပြီးလျှင်၊ နကျယ်ဘုရင်မသည် ဉများကို အုလေသည်။ ဉများမှ နကျယ်ကောင်ကလေးများ ပေါက်လာသောအခါ၊ နကျယ်ဘုရင်မကြီးသည် အလုပ်ရှုပ်လာတော့၏။ မွေးခါစ နကျယ်ပေါက်စကလေးများကို အစာကျွေးရပြီးလျှင်၊ အသိုက်အအုံကိုလည်း ပြုပြင်ပေးနေရ၏။

နကျယ်ပေါက်စများသည် ၁၄ ရက်ခန့်အကြာတွင်၊ နကျယ်လောင်းကောင်ကလေးများ ဖြစ်လာကြ၏။ နောက် ၁၀ ရက်ခန့် ကြာပြန်သောအခါ၊ နကျယ်လောင်းသည် အရွယ်ရောက်သော အလုပ်သမားနကျယ်အဖြစ်သို့ ရောက်ရှိလာသည်။ ထိုနကျယ်တို့ အလုပ်လုပ်ဖေါ်ရလာသောအခါတွင်၊ မိခင်နကျယ်ဘုရင်မကြီးသည် ခါတိုင်းထမ်းဆောင်ရ



နကျယ်အိမ် အတွင်းပိုင်းကို ဤသို့မြင်ရသည်။

သော တာဝန်များစွာ သက်သာရာရလေသည်။ ဤသို့ဖြင့် တနေ့တခြား နကျယ်ကောင်ရေ များပြားလာသောအခါ၊ နကျယ်အိမ်ကြီးသည်လည်း တိုးပွား ကြီးကျယ်လာလေသည်။

အလုပ်သမား နကျယ်ကောင်များသည် နံနက်အိပ်ရာထမှ ညအိပ်ရာဝင်အထိ၊ မအားမလပ်အောင် အလုပ်များကြ၏။ နကျယ်အိမ်၌ အစားအစာ များပြားလာအောင် ဆောင်ရွက်ကြရ၏။ နွေဥတု ကုန်ဆုံးလုနီးအချိန်တွင်၊ အလုပ်သမားနကျယ်များသည် ပဌမအခန်းထက် အတန်ငယ်ကြီးသော အခန်းကလေးများကို အပူတပြင်း ဆောက်လုပ်ကြသည်။ ထိုအခန်းများ၌ နကျယ်ဘုရင်မကြီးသည် ဥ အု၏။ အစားအစာ အလွန်ပေါလှိုင်လာသည့်အခါတွင်၊ လုပ်သားနကျယ်ကောင်များပင် ဥ အုနိုင်စွမ်း ရှိလာတတ်ကြသည်။

နွေပြောင်း၍ ဆောင်းအကူး တစတစ အေးမြလာသောအခါ၊ လုပ်သားနကျယ်တို့သည် အလုပ်မလုပ်နိုင်ဘဲ ပင်ပန်းနွမ်းနယ် လာကြတော့သည်။ စည်ကားလှုပ်ရှားလျက်ရှိသော နကျယ်အုံကြီးလည်း ဆိတ်သုန်းခြင်းသို့ ရောက်ရှိရလေသည်။ ဤဘေးဆိုးကြီးကို ခံနိုင်ရည်ရှိသူမှာ၊ နကျယ်ဘုရင်မကြီးသာဖြစ်၏။ နကျယ်ဘုရင်မမှလွဲ၍ ကျန်နကျယ်အားလုံး သေကြေပျက်စီးကြလေသည်။ နကျယ်ဘုရင်မသည် ဆောင်းရာသီ တရာသီလုံး အိပ်နေပြီးနောက်၊ နွေဦးပေါက်လာသောအခါ၊ နကျယ်အုံသစ် တည်ဆောက်ရေးကို ပြန်လည်လုံးပန်းပြန်လေသည်။

နကျယ်တို့တွင် အဖေါ်မရှာဘဲ၊ ထီးတည်းနေသော နကျယ်များ ရှိကြသည်။ လုပ်သားနကျယ်နှင့် နကျယ်ဘုရင်မတို့မှာကား သီးသန့်မနေကြဘဲ၊ နကျယ်ထီး၊ နကျယ်မတို့နှင့်သာလျှင် နေကြ၏။ ထိုနကျယ်ထီး၊ နကျယ်မတို့သည်လည်း သားငယ်သမီးငယ်များနှင့်အတူ အစားအစာရှာဖွေစုဆောင်းကာ နေထိုင်ကြလေသည်။ အချို့သော ထီးတည်းနေ နကျယ်တို့သည် ရွှံ့စေးစသည်တို့ဖြင့် အသိုက်ကို ပြုလုပ်၍၊ ကျောက်ဆောင်ကြီးများအောက်၌ လုံခြုံစွာ ဆောက်လုပ်ထားတတ်ကြသည်။ အချို့အကောင်များသည် တောင်နံရံနှင့် ပွရွနေသော သဲမြေများထဲတွင် အသိုက်အအုံ ဆောက်လုပ်တတ်ကြသည်။ နကျယ်ကောင်အမျိုးပေါင်း ထောင်သောင်းမက များပြားစွာ ရှိရာ၊ အချို့အကောင်များသည် ပျားတုလောက်ပင် ကြီးထွားကြသည်။ အချို့မှာမူ တလက်မ၏ ၄ ပုံ ၁ ပုံခန့်သာ ရှည်လျားကြသည်။ ယင်းတို့၏အရောင်မှာ အညိုရောင်၊ ကြက်သွေး

ရောင်၊ အဝါရောင်၊ အပြာရောင် စသည်ဖြင့် အရောင်မျိုးစုံ ရှိ၏။ ထိုအရောင်မျိုးစုံမှာ ဤအန္တရာယ်ပြုတတ်သော အဆိပ်ရှိ ပိုးကောင်ကို မစားမိစေရန် ငှက်သတ္တဝါများအား 'သတိပေး' သောအရောင်များပင် ဖြစ်သည်။

ထီးတည်းနေ နကျယ်တို့၏မိခင်သည် သားငယ်များ၏ အလိုကို အလွန်လိုက်ရရှာသည်။ သားငယ်များသည် အစားအသောက်တွင် များစွာလောဘကြီးကြ၏။ အရှင်လတ်လတ် သတ္တဝါတို့၏အသားကို စားရမှသာလျှင် ကျေနပ် နှစ်သိမ့်ခြင်းရှိကြ၏။ ထို့ကြောင့် မိခင်နကျယ်သည် နကျယ်ကလေးများကို လုံခြုံစွာ မွေးမြူပြုစုရသည့် တာဝန်မျှသာမက၊ နေ့ချင်း ရက်ချင်း ကြီးထွားလာမည့် နကျယ်ကလေးများအတွက် လတ်ဆတ်သောအစာကို အရံသင့် ရှာဖွေ သိုမှီးရသည့် တာဝန်ကိုပါ၊ ထမ်းဆောင်ရလေသည်။

မိခင်နကျယ်သည် အသိုက်ပြုလုပ်လိုသောအခါ၊ မြေကြီးကို တွင်းတူး၍ သော်၎င်း၊ ရွှံ့ဖြင့် အိမ်ထရံတွင်ကပ်၍ သော်၎င်း၊ ပြုလုပ်၏။ ထိုနောက် ပျံထွက်သွားပြီးလျှင်၊ သူ့ကိုယ်နီးပါးမျှ ကြီးမားသော ပေါက်ဖတ်တကောင်ကို သယ်ဆောင်လာကာ၊ အသိုက်အတွင်း၌ထားခဲ့၏။ တဖန် ပေါက်ဖတ် ၄၊ ၅၊ ၁၀ ကောင်ကို ဖမ်းယူပြီးလျှင်၊ အသိုက်ထဲသို့ ထည့်သိပ်ကာ၊ ထိုပေါက်ဖတ်ကောင်များအပေါ်၌ ဥတလုံး ဥလေသည်။ ထိုနောက် အသိုက်ကို သေချာစွာ ဖုံးအုပ်ထားခဲ့၍၊ အလိုရှိရာသို့ ပျံထွက်သွားလေသည်။

ဤအခြင်းအရာတို့တွင် အံ့ဩဖွယ် အကောင်းဆုံးမှာ၊ နကျယ်မကြီးသည် ထိုပေါက်ဖတ်ကောင်များကို မသေရုံ၊ အကြောသေရုံမျှသာ မိမိ၏အဆိပ်စွယ်ဖြင့် ထိုးနှံ့ထားခြင်း ဖြစ်၏။ ဥမှပေါက်လာသော နကျယ်ကောင်ငယ်ကလေးများသည် ထိုမသေမရှင်ပေါက်ဖတ်များကို အစာအဖြစ် စား၍ တစတစ ကြီးပြင်းလာကြသည်။ အချို့နကျယ်မျိုးသည် ပေါက်ဖတ်အစား၊ ယင်ကောင်၊ ပင့်ကူ စသည်တို့ကို ကျွေးမွေးတတ်ကြသည်။ အချို့ကမူ၊ ချေးထိုးပိုး၊ နှံကောင်၊ ပုရစ်၊ ပိုးဟပ်၊ ပိုးတုံးလုံးစသည်တို့ကို ကျွေးမွေးတတ်ကြသေးသည်။

နာမည်ကျော် ပြင်သစ်သဘာဝပညာရှင်ကြီး၊ ဇန်း အန်းနရီ ဖားဗရ ဆိုသူပုဂ္ဂိုလ်ကြီးက ဥရောပတိုက်တွင် ချေးထိုးပိုးကို လိုက်လံသတ်စားသော နကျယ်မျိုး ရှိကြောင်းကို ရေးသားဖော်ပြခဲ့ဘူး၏။ (ဖားဗရ, ဂျေ၊ အိပ် — ရှု။) အမေရိကန်ပြည်ထောင်စု အနောက်တောင်ဖက်ပြည်နယ်များရှိ နကျယ်မျိုးသည် အဆိပ်ပြင်းထန်သော တာရန်တိုပင့်ကူခေါ် ကျားပင့်ကူမျိုးကိုပင် ဖမ်းယူ သတ်ဖြတ်စားတတ်လေသည်။

'လက်သမားနကျယ်'၊ 'ပန်းရံသမားနကျယ်' ဟူ၍ ခေါ်ဆိုနိုင်သော နကျယ်များ ရှိသေး၏။ ယင်းတို့သည် နကျယ်အိမ်တည်ဆောက်ရာ၌၊ အံ့ဩဖွယ် ကောင်းလောက်အောင်၊ အထူး ကျွမ်းကျင်လိမ္မာကြသည်။ လက်သမားနကျယ်သည် တိုင်တို တိုင်ဟောင်း၊ သစ်ပင်တို သစ်ပင်ဆွေးများထဲတွင် အပေါက်ဖောက်၍၊ 'အိမ်' ဆောက်တတ်သည်။ ပန်းရံနကျယ်သည် အသိုက်အုံကို ကျောက်ခဲကလေးများဖြင့် သော်၎င်း၊ နေပူခံနိုင်သော ကျောက်ဖြင့် သော်၎င်း ပြုလုပ်လေ့ရှိကြသည်။ တခါတရံ ပြတင်းဘောင်အကွဲ အအက်ထဲတွင် ကျောက်မှုန့်ကလေးများနှင့် နကျယ်အိမ် ပြုလုပ်သည်ကို တွေ့ရ၏။

အနိမ့်တန်းစား သတ္တဝါကလေးများတွင် လက်နက်ကရိယာကို သုံးတတ်သောအမျိုးမှာ၊ တွင်းတူး နကျယ်ကောင် တမျိုးတည်းသာ ဖြစ်လိမ့်မည်ဟုဆိုသည်။ 'အယ်မိုဖီလာ' ခေါ် မျိုးစုတွင်ပါဝင်သည့် နကျယ်မျိုးသည် ခံတွင်း၌ ကျောက်စရစ်ခဲငယ်ကို ကိုက်ချီထား၍၊ ထိုခဲဖြင့် နကျယ်အိမ်ပေါ်ရှိ မြေကြီးကို ထုချ၏။ ထိုနောက် အောက်သို့ ကြွေမွကျလာသော မြေကြီးများကို တဖန်ယူ၍၊ ပြန်လည် စုပုံထားတတ်လေသည်။

အချို့နကျယ်ကောင်များသည် သစ်သီးနှင့် သစ်သားတို့ကို အတော်ပင် ဖျက်ဆီးပစ်သည်မှာ မှန်၏။ သို့သော် နကျယ်တမျိုးလုံးကို ခြုံကြည့်လျှင်၊ လူတို့အား များစွာ အကူအညီပေး၍၊ အကျိုးဖြစ်ထွန်းစေနိုင်သည်ဟု ဆိုရပေမည်။ အကူအညီပေးပုံမှာ၊ အန္တရာယ်ပြုတတ်သည့် အဆိပ်ရှိ ပိုးမွှားများ၏ ဘေးရန်မှ ကာကွယ်ပေးကြသည့်အပြင်၊ ပေါက်ဖတ်၊ ခူကောင် စသည်တို့ကိုလည်း သုတ်သင် ရှင်းလင်းပေးကြလေသည်။

**နဂဗာရီကျွန်းစု။** ။နီကိုဗာကျွန်းစု — ရှု။

**နဂါး။** ။နဂါးသည် ယခုခေတ်လူတို့ ဒိဋ္ဌမမြင်ဘူးသော်လည်း၊ ဘုရားဟောဇာတ်၊ ဒဏ္ဍာရီပုံပြင်တို့အရ ကောက်ယူရသော်၊ မြွေမျိုး ဖြစ်၍၊ အမောက်အတက်များဖြင့် ခန့်ညားသော သတ္တဝါတမျိုးဖြစ်သည်။ အမောက်တွင်ရှိသော ပတ္တမြားကြောင့်၊ တန်ခိုး အလွန်ကြီးသည်ဟုလည်း ဆိုကြသည်။ 'ပါဒေန နဂစ္ဆတီတိ နာဂေါ' ဟူသော ဝိဂ္ဂြိုဟ်အရ၊ ခြေဖြင့် မသွားသောကြောင့်၊ နဂါးဟု ခေါ်ဆိုကြသည်။ ထုံးဟောင်းပုံပြင်များတွင် ပါဝင်သော ထူးဆန်းသည့် သတ္တဝါများအနက် နဂါးထက်ပို၍ ရှေးကျသောသတ္တဝါ အလွန်နည်း၍၊ နဂါးလောက် ထင်ရှားသောသတ္တဝါ မရှိချေ။

နဂါး၏ ရုပ်ပုံသဏ္ဌာန်ကို တရုပ်နိုင်ငံ ဟန်မင်းများခေတ်က ထင်ရှားသော စာရေးဆရာကြီး ဝန်ဖူးက အောက်ပါအတိုင်း ရေးသားထားလေသည်။ 'နဂါး၏ ခေါင်း၌ ဒရယ်၏ ဦးချိုကဲ့သို့ ချိုရှိသည်။ ဦးခေါင်းသည် ကုလားအုပ်ခေါင်းနှင့်

တူ၍၊ မျက်လုံးသည် နတ်မိစ္ဆာမျက်လုံးနှင့် တူသည်။ လည်ပင်းမှာမူ မြွေနှင့် တူ၍၊ ဝမ်းပိုက်သည် ခုံးခွံနှင့် တူသည်။ အကြေးခွံသည် ငါးကြင်းအကြေးကဲ့သို့ ရှိနေ၍၊ လက်သည်းမှာမူ လင်းယုန်ငှက်၏ လက်သည်းမျိုး ဖြစ်သည်။ ဖဝါးသည် ကျားဖဝါးကဲ့သို့ ဖြစ်၍၊ နားရွက်မှာမူ၊ နွားနားရွက်နှင့် ဆင်သည်။'

မြန်မာစာပေကျမ်းဂန်များအရ၊ ယေဘုယျအားဖြင့် ရေနေ၊ မြေနေနှင့် တောင်နေနဂါးဟူ၍ သုံးပါးရှိသော်လည်း၊ အကျယ်အားဖြင့် နဂါးအမျိုး ၁၀၂၄ ပါး ရှိလေသည်။ ကိုက်ခဲသည်ရှိသော် ခန္ဓာကိုယ်သည် သစ်သားထင်းချောင်းကဲ့သို့ အဆစ်အမျက် မကွေးဆန့်နိုင်ဘဲ တံကျင်ကဲ့သို့ ခိုင်ခန့်စွာဖြစ်သော ကဋ္ဌ မုခ နဂါး၊ ကိုက်ခဲသည်ရှိသော် ခန္ဓာကိုယ်သည် မှည့်၍ပုပ်သော ပိန္နဲသီးကဲ့သို့ အရေယိုထွက်သော ပုတိ မုခ နဂါး၊ ကိုက်ခဲသည်ရှိသော် ခန္ဓာကိုယ်သည် မီးလောင်သကဲ့သို့ ဖယိုဖရဲရှိသော အဂ္ဂိ မုခ နဂါး၊ ကိုက်ခဲသည်ရှိသော် ကိုယ်သည် မိုးကြိုးကျသကဲ့သို့ ကွဲပြတ်ပျက်စီးသော သတ္တ မုခ နဂါး၊ ယင်း ၄ ပါးမှ တဖန် ကိုက်ရုံဖြင့် အထက်ပါအချင်းအရာတို့ ဖြစ်စေသောဒဋ္ဌ ဝိသ နဂါး၊ မြင်ရုံဖြင့် အထက်ပါအချင်းအရာ ဖြစ်စေသော ဒိဋ္ဌ ဝိသ နဂါးမျိုး၊ နှာချွဲလေမှုတ်ရုံဖြင့် အထက်ပါအချင်းအရာ ဖြစ်စေတတ်သော ဝိတ ဝိသ နဂါးမျိုးဟူ၍ အဆိပ်နဂါး လေးပါး ပြားသောကြောင့်၊ နဂါးအပြား ၁၆ ပါးဖြစ်၏။ ယင်း ၁၆ ပါးတွင် တဖန် အဆိပ် လျင်မြန်စွာ လာသော်လည်း အဆိပ်မပြင်းထန်သော အာဂတ ဝိသ နအာဂတ ဝိသ နဂါး၊ အဆိပ်ပြင်းသော်လည်း လျင်မြန်စွာမလာသော ဃောရ ဝိသ နအာဂတ ဝိသ နဂါး၊ အဆိပ်လည်း ပြင်း၍ လျင်မြန်စွာလည်း လာသော အာဂတ ဝိသ ဃောရ ဝိသ နဂါး၊ အဆိပ်လည်း မပြင်း လျင်မြန်စွာလည်း မလာသော နအာဂတ ဝိသ၊ နဃောရ ဝိသ နဂါးဟူ၍၊ လေးပါးစီ ပြားပြန်သောကြောင့်၊ ၆၄ ပါးဖြစ်သည်။ တဖန် ဥ၌ဖြစ်သော အဏ္ဍဇနဂါး၊ ရေကြည်၌ဖြစ်သော ဇလာ ဗုဇ နဂါး၊ အညှီကိုစွဲ၍ဖြစ်သော သံသေဒဇ နဂါး၊ ကိုယ်ထင်ဖြစ်သော ဩပ ပါတိက နဂါးဟူ၍၊ ပဋိ သန္ဓေအားဖြင့် ၄ ပါးစီပြားသောကြောင့်၊ ၂၅၆ ပါး ပြားပြန်သည်။ ယင်းမှတဖန် ရေနေနှင့် ကုန်းနေနဂါး ၂ ပါး ပြားပြန်သဖြင့် ၅၁၂ ပါး ဖြစ်သည်။ ယင်း ၅၁၂ ပါးတွင် ကာမဂုဏ် ခံစားသော ကာမ ရူပိ နဂါးမျိုးနှင့် မခံစားသော အကာမ ရူပိ နဂါးမျိုးတို့ ပြားပြန်ရာ၊ နဂါးမျိုးပေါင်း ၁၀၂၄ ပါးဖြစ်သည်။

နဂါးတို့သည် အိုင်ကြီးများ၊ သမုဒ္ဒရာကြီးများနှင့် တောင်ကြီးများအောက်တို့၌ ကျက်စားတတ်ကြောင်း တွေ့ရှိရသည်။ 'ဝေဘာရ တောင်၏ အောက်၌ မြေနေနဂါးတို့၏ ယူဇနာ ၅၀၀ ရှိသော နဂါးပြည်သည် နတ်ပြည်နှင့်တူ၍ မွေ့လျော်ဘွယ်ရှိသော မြေအပြင်နှင့် အရံဥယျာဉ်တို့ဖြင့် ပြည့်စုံ၏။ ထိုနဂါးတို့၏ ပျော်ပါးရာဖြစ်သော ရေအိုင်သည် ကြည်သောရေ၊ အေးသောရေ၊ မြိန်မြတ်သောရေ၊ စင်ကြယ်သောရေ ရှိ၏။ မှော်သေးမှော်ညှိ မရှိ၊ ကောင်းမြတ်သော ရေဆိပ်ရှိ၏။ မွေ့လျော်ဘွယ်ကို ဖြစ်စေ၏။ လှည်းဘီးဝန်းပမာဏရှိသော ပဒုမ္မာကြာတို့သည် ပွင့်ကုန်၏။ များစွာသော ငါးလိပ်တို့ ရှိကုန်၏။ ထိုအိုင်မှထွက်ခဲ့သော တပေါဒါမြစ်သည် ၂ ခုသော ရေကြီးတို့အကြားမှ စီးခဲ့၍၊ ရာဇဂြိုဟ်ပြည်ကို လှည့်လည်၍စီး၏။' ဟု ပါရာဇိကဏ် အဋ္ဌ ကထာ စတုတ္ထ ပါရာဇိက တပေါဒါ ဝတ္ထုအဖွင့်၌ ဆိုသည်။ စတုကနိပါတ် ဒဒ္ဒရ ဇာတ်၌ ဟိမ ဝန္တာ တော၊ ဒဒ္ဒရ တောင်ခြေရင်း၌ မြေနေနဂါးတို့၏ပြည် ရှိကြောင်း တွေ့ရသည်။

ဇိနလင်္ကာရဋီကာ၊ လောက ဒီပနီ ကျမ်းတို့၌မူ မြင့်မိုရ်တောင်၏ အောက်၌ သုံးခုသောအထွတ်တို့၏ အလယ်တွင် ပံသု ပထဝီ ရှိ၏။ ပံသု ပထဝီ အထက်အပြင် ရတနာ သဲစု၌ ယူဇနာ တသောင်းရှိသော အသူရာပြည်သည် ရှိ၏။ သုံးခုသောအထွတ်မှ ပြင် ပံသု ပထဝီ ထိပ်၌ ရတနာ သဲစုဖြင့် ပြည့်၏။ ထိုသဲစု၌ နဂါးတို့သည် နေကုန်၏။ အသုရာတို့သည် ၎င်း၊ နဂါးတို့သည်၎င်း သွားလာသောကာလ၌ ထိုအသုရာ နတ်နဂါးတို့၏ အာနုဘော်ကြောင့် ရေ၌ ခရီးလမ်းတို့သည် ထင်ကုန်၏။ ထိုရေသည် ယူဇနာ ရှစ်သောင်းလေးထောင် နက်၏ဟု လာသောကြောင့် မြင့်မိုရ် တောင်ခြေရင်း၌ နဂါးတို့သည် သီဒါရေထဲ၌ နေသည်ဟု သိသာသည်။ မြင့်မိုရ်တောင်၏ အာလိန်ငါးရပ်တွင်လည်း နဂါးတို့သည် ရေ၌ အားကြီးသောကြောင့် ပဌမအာလိန်၌ အစောင့်အရှောက်ထားကြောင်း ဆိုသည်။ ဓမ္မပဒကျမ်းတွင်လည်း အနဝတတ် အိုင်၌ ပဏ္ဍကနဂါးမင်းနေကြောင်း၊ မုစလိန္ဒ အိုင်၌ မုစလိန္ဒ နဂါး နေကြောင်း၊ ဥရုဝေလ မြစ်၌ ဥရုဝေလ နဂါး နေကြောင်း၊ ဂယာ မြစ်၌ အဂ္ဂိ ဒဟ နဂါးနေကြောင်း၊ ဂင်္ဂါမြစ်၌ ဘုရားသခင် ကူးတော်မူသောအခါ နဂါးတို့ လှေ ဖန်ဆင်း၍ ပို့ကြောင်း၊ နဂါးပြည်သို့ ဘုရားသခင်ကို ပင့်၍သွားကြောင်း၊ သင်္ဃမိတ္တာထေရီသည် ဗောဓိပင်ကိုဆောင်၍ သမုဒ္ဒရာကို ကူးသောအခါ နဂါးတို့ ရေမှနေ၍ မိမိတို့ပြည်သို့ ပင့်၍သွားကြောင်း၊ ဧရာပထ နဂါး ဂင်္ဂါမြစ်ထဲက ပေါ်လာကြောင်း၊ မဏိကဏ္ဍ နဂါး ရေထဲကပေါ်လာကြောင်းတို့ကို ဆိုသည်။ သို့ဖြစ်၍ နဂါးတို့ကို ရေနတ်မျိုးဟူ၍ ခေါ်ဝေါ်ကြသည်။ ပဏ္ဍာရက် နဂါးသည်၎င်း၊ အရှင် ရာဟုလာ အလောင်း ပထဝီသန္ဓရ နဂါးမင်းသည်၎င်း သမုဒ္ဒရာ၌နေသော ရေနေနဂါးမျိုး ဖြစ်ကြသည်။

နဂါးတို့သည် ခပ်သိမ်းသောရန်စစ်ကို ငြိမ်းနိုင်သည်ဟု အယူရှိကြသည်။ ဘုရားဟော ဝိသတိ နိပါတ် စမ္မေယျဇာတ်တွင် အင်္ဂမင်းနှင့် မဂဓ မင်း ၂ ပါး စစ်ဖြစ်ကြသည်ကာလ

မဂဓ မင်းဖက်မှ နဂါးမင်း စစ်ကူသောကြောင့် အင်္ဂမင်း ရှုံးလျှင် မဂဓ မင်းသည် နဂါးမင်းကျေးဇူးကိုထောက်၍ မဏ္ဍပ် ဆောက်ပြီးလျှင် နှစ်စဉ်မပြတ် အထူးသဖြင့်ပူဇော်ကြောင်း ဖြင့် လာသည်။ ပရိတ်ကြီး အာဋာနာဋိယ သုတ်၌ ဒေဝါ နာဂါ မဟိဒ္ဓိကာ စသည်ဖြင့် နဂါးတို့ ဘုန်းတန်ခိုးကြီးပုံကို ထည့်သွင်းဟောခဲ့သည့် အချက်ကိုရှင်း၊ ပုဂံရာဇဝင်တွင် ပျူ မင်းထီး နန်းတက်သောကာလ မယ်တော်နဂါးမက ရန်သူ တို့ကို နှိမ်နင်းနိုင်သော နဂါးလုလင် ၁၀၀ ပေးနှင်းကြောင်း၊ နဂါးလုလင် ၁၀၀ တို့သည် မင်းကြီး ထွက်တော်မူသည့်အခါ၊ လေ့ကားတို့၌ အမြဲစောင့်ရှောက်ရကြောင်း စသည်အချက် တို့ကိုရှင်း ထောက်၍၊ နဂါးတို့၏ တန်ခိုးကြီးပုံကို သိနိုင် သည်။ သို့ရာတွင် နဂါးတို့၏ ရန်ဖက်၊ နဂါးတို့အား နိုင်သူ ကား၊ ဂဠုန်ဖြစ်သည်။ ထိုကြောင့် ပျူမင်းထီးအား စောင့် ရှောက်ကြကုန်သော နဂါးလုလင်တို့သည် ဂဠုန်ကို ကြောက် သောအားဖြင့် ကျော့ကွင်းသဏ္ဌာန် ရှောင်ကွင်းထုံးစေ၍ ကြိမ်လုံးစွဲလျက် စောင့်ကြကြောင်း ဆိုကြသည်။

လူတို့သည် မီးကိုအသုံးပြုရ၍၊ မီး၏ကျေးဇူးကို ခံစားရ သောအခါ၊ မီးကို ကိုးကွယ်ကြသကဲ့သို့၊ မိမိတို့အား အကျိုး ပြုသော တိရစ္ဆာန်များကို ရိုသေသမှု ကိုးကွယ်ကြရာမှ၊ နဂါးကို ရှိခိုးသည့်အလေ့ ပေါ်ပေါက်လာလေသည်။ တရုပ် နိုင်ငံနှင့် ဂျပန်နိုင်ငံတွင် နဂါးကို ကိုးကွယ်သည့်အလေ့ ယခု တိုင် ရှိသေးကြောင်း တွေ့ကြရသည်။ မြန်မာနိုင်ငံ၌လည်း သက္ကရာဇ် ၂၇၉ ခု ပုဂံပြည် တောင်သူကြီးမင်းသည် မိမိ ယာခင်းအရပ်၌၊ ဥယျာဉ်ကြီး သာယာစွာပြုပြီးသော်၊ နဂါး ရုပ် ကြီးစွာလုပ်၍ထား၏။ ထိုကာလ နဂါးတို့ကို မင်းနှင့် တကွ မြတ်နိုးရိုသေ ပူဇော်ကိုးကွယ်ကြသည်ဖြစ်၍၊ နာဂ သမာန်း၊ နာဂဝဓုန အစရှိသော ဘွဲ့မည်များကို ပေးတော် မူကြသည်ဟု ယူသော် သင့်ရာ၏။

စစ်အောင်နိုင်သူတို့၏ ဒိုင်း သို့မဟုတ် ခေါင်းဆောင်းတို့၌ နဂါးရုပ်ထွင်းထားသည်ကို တွေ့ကြရ၏။ နော်မန်လူမျိုးတို့ မသိမ်းပိုက်မီက၊ အနောက်ဆက်ဆွန်နှင့် အင်္ဂလိပ်လူမျိုးတို့၏ အလံ၌ နဂါးရုပ်ပါလေသည်။ သတ္တမအိမ်ရှေ့စံ ဝေလမင်း သား၏ ရိုးရာဒိုင်းပါ တံဆိပ်တော်၌ နဂါးရုပ်ပါလေသည်။

နဂါးသည် တိရစ္ဆာန်ဖြစ်သော်လည်း၊ ဒုဂ္ဂတိအဟိတ်တို့ တွင် စည်းစိမ်ရှိသဖြင့်၊ ဒါနအမှုကို ဆောင်ရွက်အားထုတ် နိုင်သော သတ္တဝါတွင် တပါး အပါအဝင်ဖြစ်သည်။ မြတ်စွာ ဘုရားကိုယ်တော်တိုင်ကလည်း၊ နဂါးတို့အား သရဏဂုံ ပဥ္စ သီလ ပေးတော်မူဘူးကြောင်း အထောက်အထားရှိသည်။ ဘုရားသခင်၏ ဖြစ်တော်ပေါင်း ၅၅၀ အနက်၊ နဂါးဘဝတွင် သုံးကြိမ် ဖြစ်ခဲ့ဘူးလေသည်။ ဘုရားဖြစ်ခါနီး၊ အရင့်အမာ ဘဝတွင်ပင် ဘုရားအလောင်းတော်သည် ဘူရိဒတ် နဂါးမင်း ဘဝသို့ ရောက်ခဲ့ရသည်မှာ အထင်အရှားဖြစ်သည်။

**နဂါးဗွက်အိုင်။** ။နဂါးဗွက်အိုင်များကို ကမ္ဘာ့အနှံ့အ ပြား၌ တွေ့ကြရသည်။ ယင်းတို့ကို ရွှံ့မီးတောင်ဟူ၍လည်း ခေါ်တတ်ကြ၏။ များသောအားဖြင့် မြေအောက် ကျောက် လွှာများ ကြားရှိ၊ ရေနံများမှ ဖြစ်ပေါ်လာသည့် ဓာတ် ငွေ့တို့၏ ဖိအားကြောင့် မြေပြင်ပေါ်သို့ ရွှံ့များ တိုးတက် လာရာမှ ဖြစ်ပေါ်လာရသည့် ရွှံ့ဗွက်အိုင်ကြီးများပင် ဖြစ် သည်။ ကျောက်လွှာများကြား၌ဓာတ်ငွေ့များ ခိုအောင်း နေရာ၊ တဖြည်းဖြည်း ဖိအား များလာပြီးလျှင်၊ ထွက်ပေါက် ရှာ၍ မြေပြင်သို့ မှုတ်ထုတ်၏။ ထိုအခါ ဓာတ်ငွေ့များနှင့် အတူ ရွှံ့နှစ်၊ ရေနှင့် ရေမျာများလည်း ပါလာတတ်ပေသည်။

ယင်းတို့၏ တည်ဆောက်ပုံကို ကြည့်၍၊ နဂါးဗွက်အိုင်များ ကို ၂ မျိုး ၂ စား ခွဲခြားနိုင်၏။ ပဌမနဂါးဗွက်အိုင်မျိုးမှာ မြေပြင်ပေါ်၌ အင်တုံကဲ့သို့ ခွက်ဝင်နေ၏။ ထိုချိုင့်ခွက်ထဲ၌ ရွှံ့နှစ်များ ပြည့်နေပြီးလျှင်၊ အောက်ဖက်မှ ဓာတ်ငွေ့များ မပြတ်ထွက်နေခြင်းကြောင့် ဆူပွက်နေသကဲ့သို့ တဗွက်ဗွက် နှင့် ဖောင်ဖင်များ ထနေ၏။ အချို့နဂါးဗွက်အိုင်များသည် မပြတ် ပွက်နေတတ်ပြီးလျှင်၊ အချို့မှာမူ ရံဖန်ရံခါသာ ပွက် တတ်၏။ ဓာတ်ငွေ့များနှင့်အတူ ရောပါလာကြသည့် ရေနံ များကိုလည်း တွေ့ကြရ၏။

ဒုတိယနဂါးဗွက်အိုင်မျိုးမှာ တောင်ပို့ကဲ့သို့ ကတော့ပုံ သဏ္ဌာန် မြေပေါ်သို့ ထိုးထွက်နေတတ်၏။ ဤကဲ့သို့သော နဂါးဗွက်အိုင်များ၌ မြေအောက်မှဖြစ်ပေါ်လာသည့် ပြင်း ထန်သည့် ဓာတ်ငွေ့ဖိအားသည် ရွှံ့များကို အဖတ်လိုက် လေထဲသို့ မှုတ်ထုတ်၏။ ယင်းရွှံ့ဖတ်များသည် နံဘေးပတ် လည် ပြန်ကျလာပြီးသော်၊ မကြာမီ အတောအတွင်း၌ပင် ကတော့ပုံသဏ္ဌာန် တောင်ပို့ကြီး ဖြစ်လာ၏။ တောင်ပို့၏ အလည်တည့်တည့်၌ ထိပ်ဝအပေါက်ကြီးလည်း ဖြစ်လာ၏။ ဤကဲ့သို့သော နဂါးဗွက်အိုင်များကို မြန်မာနိုင်ငံ မင်းဘူး ခရိုင်၌ တွေ့ကြရ၏။ အချို့သည် ပေ ၄၀-၅၀ အထိပင် မြင့်၏။ သို့သော် ရွှံ့များမှာ ရွှံ့ပျော့များ ဖြစ်သဖြင့် မိုးရွာ လျှင် ရေတိုက်စား၍ ပျောက်ပျက်သွားလေ့ရှိ၏။

ပေ ၄၀ ခန့် အမြင့်ရှိသည့် အချို့နဂါးဗွက်အိုင်များ၌၊ အောက်မှ ဓာတ်ငွေ့ဖိအားသည် ရွှံ့များကို အထက်သို့ မှုတ် ထုတ်နိုင်လောက်အောင် အားမရှိတော့သဖြင့်၊ ရွှံ့ရည်များ သည် ထိပ်ဝမှ ဘေးသို့ ယိုစီးကျလျက် ရှိနေတတ်လေသည်။

အချို့နဂါးဗွက်အိုင်များသည် ကာလအတော်ကြာ ညိမ် နေပြီးမှ တဖန်ပြန်၍ ရွှံ့များကို မှုတ်ထုတ်ပေသည်။ ဤကဲ့သို့ သေလိုက်၊ ရှင်လိုက်နှင့် ကြိမ်ဖန်များစွာ ထပ်တလဲလဲ ဖြစ် နေတတ်သည်။

တောင်ပို့ပုံသဏ္ဌာန်ရှိသည့် နဂါးဗွက်အိုင်များမှ ထွက်လာ သည့် ရွှံ့နှစ်များသည် စိမ်းပြာရောင်ရှိ၍၊ ရေနံနှင့် မီး တောက်သည့် ဓာတ်ငွေ့များ ပါလာတတ်ပေသည်။





ကတော့ပုံသဏ္ဌာန် နဂါးဗွက်အိုင်၏ ထိပ်ဝ (ဝဲ) နှင့် အပြင်ပုံသဏ္ဌာန် (ယာ)

တပွက်ပွက် ဆူနေသည့် နဂါးဗွက်အိုင်

နဂါးဗွက်အိုင်များကို မြန်မာနိုင်ငံ၊ ရခိုင်ရိုးမ၏ အရှေ့နှင့် အနောက်ဖက်ဒေသများ၌ အနှံ့အပြား တွေ့ကြရ၏။ ရခိုင်ရိုးမ အရှေ့ဖက်ပိုင်းကျသည့် မင်းဘူး၊ ပြည်နှင့် ဟင်္သာတ ခရိုင်များ၌၎င်း၊ ရခိုင်ရိုးမ အနောက်ဖက်ကျသည့် ရမ်းဗြဲကျွန်း၊ မန်အောင်ကျွန်းနှင့် သံတွဲ၊ ကျောက်ဖြူခရိုင်များရှိ ကျွန်းများ၌၎င်း တွေ့ကြရသည်။ ရမ်းဗြဲကျွန်းနှင့် မန်အောင်ကျွန်းများတွင် တွေ့ကြရသည့် နဂါးဗွက်အိုင်များသည် မင်းဘူးခရိုင်ရှိ နဂါးဗွက်အိုင်များထက် ကြီးမား၏။ ယင်းနဂါးဗွက်အိုင်များမှထွက်သည့် ချော်ရည်များထဲ၌ ရေနံနှင့် ရိုးရိုးဆားများအပြင် ဆိုဒီယမ် ဆာလဖိတ်နှင့် ကယ်လစီယမ် ဆာလဖိတ် သတ္တုများ ဆားများလည်း ပါလာတတ်၏။

မြန်မာနိုင်ငံရှိ နဂါးဗွက်အိုင်များအနက် အချို့သောနဂါးဗွက်အိုင်များသည် ဆိတ်ငြိမ်စွာပင် ရွှံ့နှင့် ဓာတ်ငွေ့များ ထွက်နေတတ်သော်လည်း၊ အချို့မှာမူ ပြင်းထန်စွာ ပေါက်ကွဲတတ်၏။ ထိုသို့ပြင်းထန်စွာ ပေါက်ကွဲရာ၌ မိုးချိန်းသံကဲ့သို့ အသံမြည်ဟီး၍၊ ကျောက်တုံးကြီးများကိုပင် အထက်သို့ မြောက်တက်စေ၏။ ကျောက်တုံးကြီးများ တခုနှင့်တခု ပွတ်တိုက်မိရာ၌ မီးပွင့်လာပြီးသော်၊ ဓာတ်ငွေ့များကို မီးလောင်စေသဖြင့်၊ မီးခိုးမီးလျှံများ ထွက်လာတတ်၏။

ပင်လယ်ပြင်အောက်၌ပင်၊ နဂါးဗွက်အိုင်များကို တွေ့ကြရသည်။ ဤကဲ့သို့သော နဂါးဗွက်အိုင်များကြောင့်၊ ပင်လယ်တွင်း၌ ကျွန်းသစ်များပင် ပေါ်ထွန်းလာတတ်၏။ သို့သော်လှိုင်းများပုတ်ခတ်မှုကြောင့် ပျောက်ကွယ်သွားလေ့ရှိ၏။ ရခိုင်ရိုးမအနောက်ဖက် ဘင်္ဂလား ပင်လယ်အော်အတွင်း၌ ရေအောက် နဂါးဗွက်အိုင်များ ရှိနေသဖြင့် ယင်းတို့မှ ထွက်လာသည့် ရွှံ့နှစ်များကြောင့်၊ ရခိုင်ကမ်းရိုးတန်း တလျှောက်ရှိ ပင်လယ်သည်၊ ရေမနက်လှပေ။ ၁၉၀၆ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့က ဘင်္ဂလား ပင်လယ်အော်အတွင်း၌ ကျွန်းသစ်တကျွန်း ပေါ်ထွန်းခဲ့ဘူး၏။ ကက်စပီယမ် ပင်လယ်တွင်း၌လည်း နဂါးဗွက်အိုင်များကြောင့် ကျွန်းသစ်များ ပေါ်ထွန်းခဲ့ဘူးသည်ဟု ဆိုပေသည်။

ထို့ပြင် နဂါးဗွက်အိုင်များသည် မြေငလျင်နှင့် ရှေ့ဆင့်နောက်ဆင့် ဖြစ်ပေါ်လေ့ရှိသည်ဟု ဆို၏။ ဤသို့ဖြစ်ရခြင်းမှာ မြေငလျင်ကြောင့် မြေအောက်ရှိ ကျောက်လွှာများ ပြိုကျကုန်ပြီးလျှင်၊ အတွင်း၌အောင်းနေသည့် ဓာတ်ငွေ့များ ထွက်ပေါက်ရခြင်းကြောင့် ဟူ၍၎င်း၊ သို့မဟုတ်ကလည်း ဓာတ်ငွေ့များ ထွက်ပေါက်ရနေသည့်ကျောက်အက်ကြောင်းများကို ပိတ်ဆို့မှု ဖြစ်စေပြီးသော်၊ ဓာတ်ငွေ့များ၏ ဖိအားကို တိုးစေရာမှ ကျောက်လွှာများကို ပေါက်ကွဲစေသောကြောင့် ဟူ၍၎င်း ယူဆကြပေသည်။

မိုးတွင်းအခါ၌၊ နဂါးဗွက်အိုင်များ ပို၍လှုပ်ရှားတတ်သည်ဟု ဆို၏။ ဤကဲ့သို့ဖြစ်ရခြင်းမှာ မြေအောက်၌ အောင်းနေသည့် ရေများက ဓာတ်ငွေ့ဖိအားကို တိုးစေခြင်းကြောင့်ဟု ယူဆကြသည်။

**နဂိုးယာမြို့။** ။နဂိုးယာမြို့သည် ယခုခေတ် ဂျပန်နိုင်ငံရှိ အကြီးဆုံးမြို့များတွင် စတုတ္ထလိုက်သော မြို့ဖြစ်သည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီက တတိယအကြီးဆုံးမြို့ ဟူ၍ပင် ဆိုကြသည်။ လူဦးရေအားဖြင့် ၁,၀၃၀,၆၃၅ ရှိသည်။ ထိုမြို့သည် ဂျပန်နိုင်ငံ ဟွန်းရှူးကျွန်း အိုဝါရီခရိုင်၏ မြို့တော်ဖြစ်၍၊ တိုကျိုမြို့နှင့် အိုဆာကားမြို့ နှစ်မြို့၏ အလယ်ဗဟိုနီးနီးခန့်တွင် တည်ရှိသည်။ ထိုမြို့၌ အထည်အလိပ်၊ စက်ကရိယာနှင့် အခြားစက်မှုလက်မှု လုပ်ငန်းများ ထွန်းကားသည်။ ထိုမြို့မှ ၁၂ မိုင်ဝေးသော ဆေးတိုးအရပ်တွင် ကြွေထည်နှင့် ယွန်းထည်လုပ်ငန်းတို့ ထွန်းကားသည်။ မြို့ပတ်ဝန်းကျင်ရှိ စက်မှုလက်မှု လုပ်ငန်းတို့သည် မြို့အကျယ်အဝန်းနှင့် မလိုက်အောင် ပြည့်ကျပ်လျက် ရှိချေရကား၊ ဒုတိယကမ္ဘာစစ်အတွင်း၌ အမေရိကန် ဗုံးကြဲလေယာဉ်ပျံတို့သည် ထိုမြို့ကို ကြိမ်ဖန်များစွာ ဗုံးကြဲဖျက်ဆီးသဖြင့် မြို့၏ ၃ ပုံ ၁ ပုံသည် ပျက်စီးခဲ့လေသည်။ အထူးသဖြင့် ခရစ် ၁၆၁၀ ပြည့်နှစ်က အိုဝါရီနယ်စားကြီး တည်ဆောက်ခဲ့သော ရဲတိုက်သည် ဒုတိယကမ္ဘာစစ်အတွင်း ပျက်စီးခဲ့ရသည်။

**နပိုလီယန် ဘုရင်များ။** ။ပြင်သစ်နိုင်ငံသမိုင်း၌ နပိုလီယန် မင်းဆက် သုံးဆက်ရှိသည်။ ထိုမင်းဆက်တို့လက်ထက်တွင် ပြင်သစ်အင်ပိုင်ယာသည် ဥရောပတလွှား၌ တန်ခိုးကြီးခဲ့သည်။ နပိုလီယန်မင်းဆက်ခေတ် အထွတ်အထိပ်သို့ ရောက်သော ခရစ် ၁၈၁၂ ခုနှစ်တွင် ပြင်သစ်အင်ပိုင်ယာသည် စပိန်နိုင်ငံမှသည် ရုရှနိုင်ငံ နယ်စပ်အထိ ကျယ်ဝန်း၍၊ မြောက်ဖက်၌ နော်ဝေးနိုင်ငံအထိ၎င်း၊ တောင်ဖက်၌ ဣတလီနိုင်ငံအထိ၎င်း ကျယ်ပြန့်လေသည်။ ထိုခေတ်၌ ဗြိတိန်နိုင်ငံသည်၎င်း၊ ရုရှနိုင်ငံသည်၎င်း၊ ပြင်သစ်တို့၏ လွှမ်းမိုးခြင်းကို ခံရတော့မလောက် စိုးရိမ်ဖွယ်ရာ ဖြစ်ခဲ့၏။ သို့ရာတွင် နောက်ဆုံး၌ ဖရန်ကို ပရပ်ရှင်း စစ်ပွဲဟုခေါ်သော ပြင်သစ်နှင့် ဂျာမန်လူမျိုးတို့၏ စစ်ပွဲတွင် နပိုလီယန်ဘုရင်တို့တွင် နောက်ဆုံးဖြစ်သော လူဝီနပိုလီယန်သည် စစ်ရှုံး၍၊ ပြင်သစ်အင်ပိုင်ယာကြီး ပြိုကွဲပြီးလျှင်၊ ပြင်သစ်သမတနိုင်ငံ ဖြစ်ပေါ်လာလေသည်။

**နပိုလီယန်၊ ပဌမ** (ခရစ် ၁၇၆၉–၁၈၂၁)။ ။နပိုလီယန်မင်းဆက်ကို စတင်တည်ထောင်သူကား၊ ပြင်သစ်နိုင်ငံသမိုင်းတွင် နိုင်ငံပြု သူခမိန် အဖြစ်ဖြင့်၎င်း၊ စစ်သူကြီး အဖြစ်ဖြင့်၎င်း ဥဒါန်းတွင်သော ပဌမနပိုလီယန်ဖြစ်သည်။ သူ၏

အမည်ရင်းကား နပိုလီယန် ဗိုနာပတ် ဖြစ်သည်။ နပိုလီယန်သည် ဇာတိအားဖြင့် ပြင်သစ်မဟုတ်ချေ။ ကော်စီကားကျွန်းသား ဖြစ်သည်။ ၁၇၆၉ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ထိုကျွန်းရှိ အာယတ်ချိုမြို့တွင် အဖ ကာလိုမာရီးယာ ဒေ ဗိုနာပတ် အမိ လေတီးဆီယာရားမိုလီနိုတို့မှ မွေးဖွားသည်။ ကော်စီကားကျွန်းသူကျွန်းသားတို့ကို ပြင်သစ်တို့က နှိပ်စက်ညှဉ်းပန်းသည်ဟူသော အစွဲကြောင့်၊ နပိုလီယန်သည် မူလက ပြင်သစ်တို့ကို မုန်းတီးခဲ့သည်။ ထိုကြောင့် အသက် ၁၆ နှစ်ရွယ်အထိ ပြင်သစ် စစ်အတတ်သင်ကျောင်း၌ ပညာသင်ကြားခဲ့စဉ်ကပင်လျှင်၊ နပိုလီယန်၏ စိတ်ဓာတ်သည် သူ၏ ပတ်ဝန်းကျင်လောက၌ ထင်ရှားခဲ့လေသည်။ စစ်ကျောင်းမှထွက်သောအခါ၊ နပိုလီယန်သည် ပြင်သစ်စစ်တပ်၌ပင် ဝင်ရောက်အမှုထမ်းလေသည်။

၁၇၈၉ ခုနှစ်၌ ပြင်သစ်တော်လှန်ရေးကြီး ဖြစ်ပွားလေသည်။ မူလက နပိုလီယန်သည် တော်လှန်ရေးကို စိတ်မဝင်စားခဲ့ချေ။ တော်လှန်ရေးအစ၌ သူသည် ကော်စီကားကျွန်းတွင် ခွင့်နှင့်နေခဲ့သည်။ သို့သော် ထိုခွင့်နှင့်နေချိန်တွင် နိုင်ငံရေး အတွေးအခေါ်နှင့် စပ်လျဉ်းသော ရူးဆိုး၏ ကျမ်းများကို ဖတ်ရှုခြင်းဖြင့်၊ တော်လှန်ရေးဖက်သို့ စိတ်ညွတ်လာခဲ့သည်။ ထိုကြောင့် ဘုရင့်ဂိုဏ်းသားတို့နှင့် ဆန့်ကျင်ဖက် ဖြစ်လာလေ၏။ (ရူးဆိုး၊ ဂျေဂျေ — ရှု။ ပြင်သစ် တော်လှန်ရေး — လည်းရှု။)

၁၇၉၃ ခုနှစ်၌ နပိုလီယန်သည် ဘုရင့်ဂိုဏ်းသားများ အုပ်စီးထားသော တူးလွန်မြို့ကို အမြောက်တပ်နှင့် ဝိုင်းရံ ပစ်ခွင်း၍၊ ရန်သူများကို ရှင်းလင်း တိုက်ထုတ်ပစ်လိုက်သဖြင့်၊ နာမည် ကြီး၍ လာလေသည်။ သို့ရာတွင် သူနှင့်မိတ်ဆွေဖြစ်ခဲ့သော တော်လှန်ရေးသမားများမှာ ထိုအချိန်၌ တန်ခိုး မှိန်နေပြီဖြစ်သဖြင့်၊ သူ၏ တိုးတက်ကြီးပွားရေးသည် အခွင့်အလမ်း မသာခဲ့ချေ။ ၁၇၉၅ ခုနှစ်၌မူ သူသည် ဂျက္ကဗင်းနိုင်ငံရေးသမားများနှင့် အဆက်အသွယ် ရှိသည်ဆို၍၊ ရာထူးမှပင် ချထားခြင်းခံရပြီးလျှင်၊ ပါရစ်မြို့၌ ဆင်းရဲငြိုငြင်စွာ နေထိုင်ခဲ့ရလေသည်။

ထိုနှစ်၌ပင် သူ့ ဇာတာစန်းလက် ပြန်တက်လာလေသည်။ အောက်တိုဘာလတွင် ပါရစ်မြို့၌ ဘုရင့်ဂိုဏ်းသားများ ဆူပူထကြွခဲ့ရာ၊ အစိုးရက နပိုလီယန်၏ အကူအညီဖြင့် နှိမ်နင်းပစ်မှ ဆူပူသူများ ငြိမ်သွားလေသည်။ ထိုနောက်၌ကား၊ အစိုးရအဖွဲ့က နပိုလီယန်ကို ဣတလီပြည်၌ ဩစတြီးယန်းတို့နှင့် တိုက်ခိုက်နေသော ပြင်သစ်စစ်တပ်၏ ဗိုလ်ချုပ်အဖြစ် ခန့်လိုက်လေသည်။ သူသည် ဣတလီတိုက်ပွဲများ၌ ဆက်ကာ ဆက်ကာ အောင်ပွဲရ၍၊ များစွာ ထင်ရှားလာလေသည်။ ကပ်ကဲရသော ပြင်သစ်စစ်တပ်သည် ရိက္ခာချို့တဲ့နေသော်လည်း၊ ၁၇၉၆ ခုနှစ်၌ ဆာဒင်းနီးယား စစ်တပ်များကို အကြိမ်ကြိမ် တိုက်ခိုက်အောင်မြင်ခဲ့လေသည်။ ထိုနောက် နပိုလီယန်သည် အရှေ့ဖက်သို့ စစ်ဦးလှည့်၍၊ ဩစတြီးယန်းတို့ကို တိုက်ခိုက်ပြန်လေသည်။ ရန်သူတို့က မီးကုန် ယမ်းကုန် ခုခံတိုက်ခိုက်သော်လည်း၊ သူသည် ဩစတြီးယားပြည်ထဲသို့ ဒလကြမ်းချီတက် တိုက်ခိုက်သွားရာ၊ ဗီယင်းနာမြို့သို့ ရောက်ရန် မိုင် ၈၀ လောက် အလိုတွင်၊ ရန်သူတို့က စစ်ပြေငြိမ်းစာချုပ်အရ၊ ပြင်သစ်နိုင်ငံက ဗယ်လဂျီယမ်ကို ရခဲ့သည့်ပြင်၊ ရိုင်းမြစ်မှာ ပြင်သစ်နိုင်ငံ၏ အရှေ့ဖက် နယ်နိမိတ် ဖြစ်လာခဲ့လေသည်။

ပြင်သစ်နိုင်ငံကို ဥရောပတိုက်၌ တန်ခိုးအကြီးဆုံးနိုင်ငံဖြစ်အောင် ဖန်တီးရာ၌ အကြီးဆုံးသော ဆူးငြောင့်ခလုပ်မှာ အင်္ဂလန်ပြည်ပင် ဖြစ်သည်။ ဤအကြောင်းကို နပိုလီယန်ကောင်းစွာသိခဲ့၏။ သို့ဖြစ်၍၊ ၁၇၉၈ ခုနှစ်၌ နပိုလီယန်သည် အစိုးရကို သူ့ အကြံအတိုင်း လိုက်နာရန် တိုက်တွန်း၍၊ အီဂျစ်ပြည်သို့ ပြင်သစ်ရေတပ်နှင့် ချီတက်သွားလေသည်။ သူ့ အကြံမှာ အင်္ဂလန်သည် အိန္ဒိယကို သိမ်းယူအုပ်ချုပ်ထားသောကြောင့်၊ ရောင်းဝယ်ရေး ဖွံ့ဖြိုးကာ ကြီးပွားချမ်းသာနေ၍၊ စစ်ဒဏ် ခံနိုင်ရည်ရှိလေရာ၊ အိန္ဒိယသို့သွားသော ပင်လယ်လမ်းကို ပိတ်ဆို့ပြီးနောက်၊ အင်္ဂလန်၏ အရှိက်ကို ထိုးရန်ပင် ဖြစ်လေသည်။ သူသည် ကိုင်ရိုမြို့အနီး၌ အောင်ပွဲဆင်နွဲခဲ့၏။ သို့သော် နိုင်း ရေကြောင်းတိုက်ပွဲတွင် နယ်လဆင်ကြီးမှူးသော အင်္ဂလိပ်ရေတပ်နှင့် ယှဉ်ပြိုင်တိုက်ခိုက်ရာ၌မူကား၊ ပြင်သစ်ရေတပ် ပျက်စီး၍၊ နောက်ထပ်စစ်ကူများလည်း မရောက်လာနိုင်ခဲ့ချေ။ ထိုနောက် အီဂျစ်ပြည်၌ အခြေမလှသည့်ပြင်၊ ပြင်သစ်နိုင်ငံမှလည်း စိတ်မသက်သာစရာ သတင်းများ ကြားရသဖြင့်၊ နပိုလီယန်သည် ပြင်သစ်နိုင်ငံသို့ တိတ်တဆိတ် ပြန်သွားခဲ့လေသည်။ (နယ်လဆင်၊ ဟိုရေးရှိုး — လည်းရှု။)

ထိုစဉ်က ပြင်သစ်နိုင်ငံ၌ ငါးဦး အစိုးရအဖွဲ့သည် အအုပ်အချုပ် ညံ့ဖျင်းလှသဖြင့်၊ နာမည်ပျက်လျက်ရှိ၏။ ထိုကြောင့် ၁၇၉၉ ခုနှစ်၌ နပိုလီယန်သည် ငါးဦးအစိုးရအဖွဲ့ကို ဖြုတ်ချ၍၊ အစိုးရအဖွဲ့သစ်တခုကို ဖွဲ့စည်းလိုက်၏။ ထိုအဖွဲ့၌ ကွန်ဆာခေါ် ဝန်ကြီး ၃ ဦး ပါဝင်ရာ၊ နပိုလီယန်သည် ပဌမရာသက်ပန်ဝန်ကြီး ဖြစ်လေသည်။ ထိုအခါမှစ၍၊ သူသည် အချုပ်အချာအာဏာကို သူတဦးတည်း သိမ်းပိုက်ထားခဲ့ရာ၊ ပြင်သစ်နိုင်ငံ၏ အာဏာရှင်သဖွယ် ဖြစ်လာတော့သည်။

ထိုနောက် နပိုလီယန်သည် ဩစတြီးယားကို ထပ်မံတိုက်ခိုက်ရာ ဩစတြီးယန်းတို့သည် မရင်းဂိုးတိုက်ပွဲ (၁၈၀၀ ပြည့်နှစ်) ၌ အရေးရှုံးနိမ့်သွားလေသည်။ ၁၈၀၂ ခုနှစ် အမီယန်မြို့စာချုပ်အရ စစ်ပြေငြိမ်း၍၊ ပြင်သစ်နိုင်ငံသည် အခြား ဥရောပနိုင်ငံများနှင့် စစ်အတိုက်အခိုက် ရပ်စဲခဲ့လေ



နပိုလီယန်မင်းဆက်ကို စတင်တည်ထောင်သူ ပြင်သစ်ကေရာဇ်
ပဉ္စမ နပိုလီယန်

သည်။ သို့ရာတွင် ထိုငြိမ်းချမ်းရေးမှာ ယာယီမျှသာဖြစ်၏။ ၁၄ လမျှ အတိုက်အခိုက် ရပ်စဲနေစဉ်အတွင်း၊ နပိုလီယန်သည် ဣတလီပြည်၏ သမတအဖြစ်ကို ခံယူခဲ့သည့်ပြင်၊ ဆွစ်ဇာလန် ပြည်တွင်းရေးတွင်လည်း ပါဝင်ခဲ့လေသည်။ ပီးဒမွန့်၊ ပါးမားနှင့် အယ်လဗာကျွန်းများကိုလည်း သိမ်းယူခဲ့လေသည်။ ဤသို့ အခြားတိုင်းပြည်များကို သိမ်းပိုက်ဖန်များလတ်သော်၊ ဥရောပတိုက်၌ မကြာမီ စစ်မီးတောက်လေသည်။

သို့ရာတွင် ဥရောပနိုင်ငံများသည် နပိုလီယန်ကို ဝိုင်းဝန်းနှိမ်နင်းရန် မတတ်နိုင်ကြချေ။ သူသည် ဩစတြီးယား၊ ပရပ်ရှား၊ ရုရှတို့နှင့် ဆက်ကာ ဆက်ကာ တိုက်ခိုက် အောင်မြင်ခဲ့ရာ၊ မကြာမီ ဥရောပတိုက်ရှိ တိုင်းပြည်အားလုံးလိုလိုပင်၊ သူ့ ရှေ့မှောက်၌ ဒူးထောက်ရလေတော့သည်။ ၁၈၀၅ ခုနှစ်၌ သူသည် သူ့ကို ဆက်လက်အာခံနေသေးသော အင်္ဂလန်ပြည်ကို တိုက်ခိုက်ရန် စီစဉ်ခဲ့လေသည်။ သို့ရာတွင် နယ်လဆင်၏ လက်ချက်ကြောင့်၊ ပြင်သစ်နှင့်စပိန်ရေတပ်များ ထရာဖဲလဂါ ရေကြောင်းတိုက်ပွဲ၌ ပျက်စီးသွားသဖြင့်၊ အစီအစဉ် ပယ်ဖျက်လိုက်ရလေသည်။ (နယ်လဆင်၊ ဟိုရေးရှိုး — ရှု။ ထရာဖဲလဂါတိုက်ပွဲ — လည်းရှု။)

နပိုလီယန်သည် စစ်တိုက်ရာ၌သာမဟုတ်၊ တိုင်းပြည် အုပ်ချုပ်ရာ၌လည်း ထက်မြက်သည်။ သူသည် ပြင်သစ်နိုင်ငံတော်ဘဏ်ကို တည်ထောင်၍၊ နိုင်ငံ၏ လမ်းပန်းဆက်သွယ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်း၊ စက်မှုလက်မှု လုပ်ငန်းများကို တိုးတက်ကောင်းမွန်အောင် ဆောင်ရွက်သည်။ ထို့ပြင် နပိုလီယန်၏ကိုဓ ဥပဒေဟု ထင်ရှားသော တရားဥပဒေများကို တီထွင်၍၊ ဗရင်ဂျီဂိုဏ်းကို ပြန်လည်အားပေးသည်။

၁၈၀၄ ခုနှစ်၌ သူသည် ပြည်သူ့ဆန္ဒဖြင့် သုံးဦးအစိုးရအဖွဲ့ကို ဖျက်သိမ်း၍၊ ပြင်သစ်ကေရာဇ်ဘွဲ့ကို ခံယူလေသည်။ ၁၈၀၉ ခုနှစ်၌ ဩစတြီးယား ကေရာဇ်ဘုရင်၏ သမီးတော် မာရီ လွီဇနှင့် လက်ထပ်လေသည်။ ထိုနောက် ၁၀ နှစ် တိုင်တိုင် နပိုလီယန်သည် ကေရာဇ်အဖြစ်နှင့် ဥရောပတိုက်ဘုရင်များကို လက်ခုတ်တွင်းမှရေကဲ့သို့ သွန်လိုသွန် မှောက်လိုမှောက် လုပ်ခဲ့လေသည်။ သာသနာစောင့် ရောမနိုင်ငံတော်ကို ဖျက်သိမ်း၍၊ ဣတလီ၊ နေပယ်နှင့် စပိန်ပြည်များ၌ သူ့ဆွေမျိုးသားချင်းများကို ဘုရင်များအဖြစ် ခန့်ထား၏။ ထိုနောက် သူသည် ရုရှနိုင်ငံ ဇာဘုရင် အယ်လက်ဇန္ဒာနှင့် နှစ်ကိုယ့်တစိတ် ဖြစ်သွား၍၊ ဥရောပတိုက်ကို ခွဲဝေယူရန် နှစ်ဦးသဘောတူညီခဲ့ကြ၏။ သူသည် အယ်လက်ဇန္ဒာ၏ အကူအညီဖြင့်၊ ကူးသန်းရောင်းဝယ်ရေးကြောင့် အင်အားပြည့်လာရသော အင်္ဂလန်၏မာန်စွယ်ကို ချိုးနှိမ်ရန် ဆုံးဖြတ်ပြီးလျှင်၊ ဥရောပတိုက်ရှိ လက်အောက်ခံနိုင်ငံများအား အင်္ဂလန်နှင့် ကုန်မသွယ်ရဟု တချက်လွှတ်အမိန့်တရပ် ထုတ်ပြန်လိုက်လေ၏။ ထိုအမိန့်အရ သူ့ဩဇာခံနိုင်ငံများသည် အင်္ဂလန်နှင့် ကုန်မသွယ်ရတော့ချေ။

သို့ရာတွင် သူ၏အမိန့်မှာ ခုတ်ရာတခြား ရှရာတခြား ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော်၊ အင်္ဂလိပ်တို့သည် ရေတပ်အင်အား ကောင်းသဖြင့်၊ ကမ္ဘာ့အရပ်ရပ်နှင့် ဆက်လက်ကုန်သွယ်နေနိုင်၏။ ဥရောပတိုက်သို့ ကမ္ဘာ့အရပ်ရပ်မှလာသော ကုန်စည်များကိုလည်း ပိတ်ပင်နိုင်၏။ ထို့ကြောင့် ဥရောပနိုင်ငံများမှာ စီးပွားရေး ထိခိုက်၍၊ စားရေးသောက်ရေး ကျပ်တည်းလာကြသဖြင့်၊ များစွာ မကျေမနပ် ဖြစ်လာကြ၏။ အဖိနှိပ်ခံရသဖြင့်၊ ငုပ်နေသော မျိုးချစ်စိတ်ဓာတ်သည်လည်း မီးလောင်ရာ လေပင့်သလို ဖြစ်သွား၍၊ ၁၈၀၈ ခုနှစ်၌ စပိန်ပြည်က ပြင်သစ်တို့ကို စတင်တော်လှန်လေတော့သည်။ အင်္ဂလန်က စစ်တပ်များစေလွှတ်၍၊ စပိန်တို့နှင့် ပူးပေါင်းတိုက်ခိုက်ရာ၊ ပြင်သစ်စစ်တပ်များမှာ စပိန်နိုင်ငံမှ တဖြည်းဖြည်း ဆုတ်ခွာသွားကြရလေသည်။

ထိုအချိန်မှစ၍၊ နပိုလီယန်၏ ကံကြမ္မာမှာ ညှိုးမှိန်စပြုလာပြီဖြစ်၏။ သူသည် ဩစတြီးယန်းစစ်တပ်များကို ချေမှုန်းပြီးနောက်၊ သူ၏စီမံချက်ကို မနာယူသော ရုရှအား ဆုံးမရန် မော်စကိုမြို့သို့ ချီတက်ခဲ့လေသည်။ သို့ရာတွင် ရုရှတို့

သည် နပိုလီယန်ချီလာမည့် လမ်းတလျှောက်တွင်၊ မြေလှန်စံနစ်ကို သုံးကာ၊ အစာရေစာ အဆောက်အအုံဟူသမျှကို မီးတိုက် ဖျက်ဆီးပစ်ခဲ့ကြ၏။ သူတို့မြို့တော်ကိုလည်း မီးတိုက် ဖျက်ဆီးပြီးမှ ဆုတ်ခွာသွားကြသဖြင့်၊ ပြင်သစ်စစ်တပ်များသည် ဆိုးရွားလှသော ရုရှဆောင်းရာသီဒဏ်၊ ငတ်မွတ်ခြင်းဒဏ်ကို ကြာရှည်မခံနိုင်ဘဲ၊ ရုရှနိုင်ငံမှ ပြန်လည် ဆုတ်ခွာလာခဲ့ကြရ၏။ လမ်းတွင် စစ်သားကောင်းများစွာ ဆုံးရှုံးခဲ့ရလေသည်။

ပြင်သစ်နိုင်ငံသို့ ပြန်ရောက်ပြီးနောက်၊ မကြာမီ နပိုလီယန်သည် အင်အား အဆမတန်ကြီးမားသော ဩစတြီးယန်း၊ ရုရှ၊ ပရပ်ရှင်းနှင့် အင်္ဂလိပ်စစ်တပ်များကို ရင်ဆိုင်ရလေသည်။ ၁၈၁၃ ခုနှစ် လိုက်ပဆစ်တိုက်ပွဲ၌ စစ်ပန်းနေပြီဖြစ်သော ပြင်သစ်တို့ အရေးရှုံးနိမ့်ကာ၊ ၁၈၁၄ ခုနှစ် ဧပြီလ ၁၁ ရက်နေ့၌ နပိုလီယန်သည် ထီးနန်း စွန့်လွှတ်လိုက်ရပြီးနောက်၊ အယ်လဗာကျွန်း၌ အကျယ်ချုပ်ချထားခြင်း ခံရလေသည်။ သို့ရာတွင် ၁၈၁၅ ခုနှစ်၌ အယ်လဗာကျွန်းမှ တိတ်တဆိတ် ထွက်ပြေးလွတ်မြောက်လာ၍၊ ပြင်သစ်နိုင်ငံသို့ ရောက်သွားပြီးလျှင်၊ စစ်သည်ရဲမက်တို့ကို စုရုံးကာ၊ ရန်သူများကို တိုက်ခိုက်ပြန်၏။ ၁၈၁၅ ခုနှစ်၌ ဝါတာလူးတိုက်ပွဲတွင် ဥရောပနိုင်ငံများအားလုံးက သူ့ကို ဝိုင်းဝန်းတိုက်ခိုက်သဖြင့်၊ မရှုမလှ အရေးရှုံးနိမ့်သွားလေသည်။

ဤအကြိမ်၌ကား သူ့ကို အတ္တလန္တိတ်သမုဒ္ဒရာ တောင်ပိုင်းရှိ စိန် ဟယ်လီနာကျွန်းသို့ ပို့ထားရာ၊ ထိုကျွန်း၌ပင် ၁၈၂၁ ခုနှစ်တွင် ကွယ်လွန်လေသည်။

**နပိုလီယန်၊ ဒုတိယ** (ခရစ် ၁၈၁၁–၁၈၃၂)။ ။ဒုတိယနပိုလီယန်ကား ပဌမနပိုလီယန်နှင့် ဩစတြီးယန်းမင်းသမီး မာရီ လွီဇတို့မှ မွေးဖွားသော သားဖြစ်၏။ မူလက ဒုတိယနပိုလီယန်သည် ရိုက်စတတ်နယ်စား ဒျူ ဘွဲ့ရသူဖြစ်သည်။ ပဌမနပိုလီယန်နန်းကျသောအခါ၊ ပဌမနပိုလီယန်သည် သူ၏သား ရိုက်စတတ်နယ်စားကို ထီးနန်းလွှဲပေးသည်။ သို့ရာတွင် ပြင်သစ်ဆီနိပ်အဖွဲ့သည် ၁၈ ဆက်မြောက် လူဝီဘုရင်ကို နန်းတင်သည်။ ထိုကြောင့် ဒုတိယနပိုလီယန်သည် မိခင်နှင့်အတူ မိခင်၏ ဌာနေဖြစ်သော ဩစတြီးယား၌ နေထိုင်ရသည်။ အသက် ၂၁ နှစ်အရွယ်တွင် ကွယ်လွန်၍၊ ဗီယင်းနားမြို့၌ သင်္ဂြိုဟ်သည်။ ၁၉၄၀ ပြည့်နှစ်တွင် ဟစ်တလာသည် ဒုတိယနပိုလီယန်၏ ရုပ်ကလာပ်ကို ပဲရစ်မြို့တော်သို့ ရွှေ့၍၊ ပဌမနပိုလီယန်၏ သင်းချိုင်းနှင့်ယှဉ်၍ မြှုပ်နှံ သင်္ဂြိုဟ်သည်။

**နပိုလီယန်၊ တတိယ** (ခရစ် ၁၈၀၈–၁၈၇၃)။ ။တတိယနပိုလီယန်သည် ဧကရာဇ် ပဌမနပိုလီယန်၏ညီဖြစ်သော ဟော်လန်ဘုရင် လူဝီ၏ သားဖြစ်သည်။ ၁၈၀၈ ခုနှစ်တွင် ပါရစ်မြို့တော်ရှိ တျူလာရီနန်းတော်တွင် ဖွားမြင်သည်။ ပဌမနပိုလီယန်သည် တူတော်မင်းသားကလေးအား သားအရင်းနှင့် မခြား ချစ်ခင်၏။ စိန် ဟယ်လီနာကျွန်းတွင် သူ့အား အကျဉ်းချထားသောအခါ၊ လူဝီနပိုလီယန် မင်းသားသည် ၇ နှစ်မျှသာ ရှိသေးသည်။ ပြင်သစ်နိုင်ငံတွင် ဗူဗွန်မင်းဆက် ပြန်လည်စိုးစံနေစဉ်၊ လူဝီနပိုလီယန်သည် အိုးအိမ်အတည်တကျ မရှိဘဲ၊ ဆွစ်ဇာလန်၊ ဆဗွိုင်း၊ ဂျာမနီနိုင်ငံ တို့သို့ လှည့်လည်နေထိုင်ခဲ့ရလေသည်။ သို့ရာတွင် မယ်တော် ဩတန်းမင်းသမီး၏ စီမံချက်ကြောင့်၊ ဂျာမနီတွင် စာပေသင်ကြားခဲ့ရ၍၊ ပညာထူးချွန်ခဲ့သည်။ ပဌမနပိုလီယန် နန်းကျသွားချိန်မှစ၍၊ ပြင်သစ်နိုင်ငံတွင် နပိုလီယန်အား ကြည်ညိုလေးစား အားထားသူ အတော်ပင်များပြားလာပြီးလျှင်၊ တနေ့နေ့တွင် နပိုလီယန် ပြန်လာလိမ့်ဦးမည်ဟု စောင့်မျှော်နေခဲ့ကြ၏။ ၁၈၂၁ ခုနှစ်၌ နပိုလီယန် ကွယ်လွန်သောအခါ၊ သူတို့၏မျှော်လင့်ချက်သည် အလဟဿဖြစ်ခဲ့ရလေသည်။ သို့သော် နပိုလီယန် မင်းဆက်ကို ပြန်လည် ထူထောင်လိုလှသော လူဝီနပိုလီယန်မင်းသားသည် ပြင်သစ်လူထု၏ ဆန္ဒကို ကြား သိ ရ သည် တွင်၊ အခွင့်ကောင်းယူကာ၊ အားထုတ်စပြုလေသည်။

၁၈၃၀ ပြည့်နှစ်တွင် ဗူဗွန်မင်းဆက် ဒသမ ချားဘုရင်၏ ထီးမွေနန်းမွေကို လူဝီ ဖိလစ်က ဆက်ခံလေသည်။ သို့ရာတွင် ပြင်သစ်လူထုသည် ဗူဗွန်ဆက် ဘုရင်များကို မုန်းတီး



ပြင်သစ်နိုင်ငံ နပိုလီယန်မင်းဆက် နောက်ဆုံးဘုရင် တတိယ နပိုလီယန်

လာကြ၍၊ နပိုလီယန်နှင့် မာရီ လွီဇတို့၏သား ရိုက်စတတ်မင်းသား (ဒုတိယနပိုလီယန်ဟု ခေါ်သည်) ကို နန်းတင်ရန် လိုလားလျက်ရှိကြသည်။ သို့သော်လည်း ၁၈၃၂ ခုနှစ်တွင် ရိုက်စတတ်မင်းသား ကွယ်လွန်သည့်အခါ၊ လူဝီ နပိုလီယန်သည် ပြင်သစ်ထီးနန်းကို ကြံစည်ရန် အခွင့်အလမ်း ပိုသာလာလေသည်။

လူဝီ နပိုလီယန်သည် ၁၈၃၆ ခုနှစ်တွင် တကြိမ်၊ ၁၈၄၀ ပြည့်နှစ်တွင် တကြိမ်၊ နှစ်ကြိမ်တိုင်တိုင် ပြင်သစ်ထီးနန်းကို ကြံစည်ခဲ့သော်လည်း၊ မအောင်မြင်ခဲ့ချေ။ ဒုတိယအကြိမ်တွင် ပြင်သစ်အစိုးရက လက်ရဖမ်းဆီးမိသဖြင့်၊ ထောင်သွင်းအကျဉ်းချထားခြင်းကိုပင် ခံရလေသည်။ ၆ နှစ်မျှ အကျဉ်းခံခဲ့ပြီးနောက်၊ ထောင်မှ ထွက်ပြေးလွတ်မြောက်သွား၍၊ အင်္ဂလန်ပြည်တွင် ခိုလှုံကာ၊ ပြင်သစ်ထီးနန်းကို ဆက်လက်ကြံစည်ခဲ့လေသည်။ ၁၈၄၈ ခုနှစ်တွင် ပြင်သစ်နိုင်ငံ၌ တော်လှန်မှုကြီးတခု ပေါ်ပေါက်ခဲ့သည်။ လူဝီ နပိုလီယန်သည် အခွင့်ကောင်းကြုံပြီဟု၊ ပြင်သစ်နိုင်ငံသို့ ပြန်လာခဲ့ရာ၊ လူဝီ ဖိလစ်ဘုရင်ကို နန်းချ၍၊ သမတနိုင်ငံ ထူထောင်ကာ၊ ယာယီအစိုးရအဖွဲ့ ဖွဲ့စည်းပြီးဖြစ်သည်ကို တွေ့ရလေသည်။ ယာယီအစိုးရအဖွဲ့သည် လူဝီ နပိုလီယန်ကိုမယုံသည်နှင့် သူက အကူအညီပေးပါမည်ဟု ဆိုလာသည်ကိုပင် လက်မခံဘဲ၊ ပြည်နှင်ဒဏ် ပေးလိုက်လေသည်။

မကြာမီ ပြင်သစ် ဥပဒေပြုလွှတ်တော် ရွေးကောက်ပွဲများ ကျင်းပလေရာ၊ လူဝီ နပိုလီယန်သည် ပြည်နှင်ဒဏ်ခံနေယင်း၊ အရွေးခံခဲ့လေသည်။ မဲဆန္ဒနယ် ၅ နယ်မှ အရွေးခံရပြီးနောက်၊ ပြင်သစ်နိုင်ငံသို့ ပြန်လာခွင့်ရသည်နှင့် ပြန်လာခဲ့လေသည်။ ထိုနှစ် (၁၈၄၈ ခုနှစ်) ဒီဇင်ဘာလတွင် လူဝီ နပိုလီယန်သည် သမတအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရလေသည်။

လူဝီ နပိုလီယန်သည် ပြင်သစ်နိုင်ငံကို ဘုရင်အဖြစ် အုပ်စိုးရန် အကြံရှိသူဖြစ်၍၊ သမတအဖြစ်နှင့် မရောင့်ရဲနိုင်ချေ။ ထိုကြောင့် သူ၏လက်ထက်တွင် ရှိသမျှသော အခွင့်အရေးအာဏာတို့ဖြင့် ထင်ပေါ်ကျော်စောမှုကို ရရှိရန်၊ ဆင်းရဲသား အလုပ်သမားလူထုကို အခွင့်အရေး များစွာပေးကာ၊ နောက်လိုက်အင်အား စုလေသည်။ သူ့နောက်တွင် ထောက်ခံမည့်သူ အလုံအလောက်ရှိပြီဟု ယူဆသည်နှင့် တပြိုင်နက်၊ ၁၈၅၂ ခုနှစ်၌ ပြင်သစ်နိုင်ငံ ကေရာဇ် တတိယနပိုလီယန်ဟူသောဘွဲ့ကို ခံယူလိုက်လေသည်။

အချုပ်အချာအာဏာကို လက်ဝယ်ရရှိပြီဖြစ်သဖြင့်၊ တတိယနပိုလီယန်သည် ပြည်တွင်းဆက်သွယ်ရေးအတွက် မီးရထားလမ်းများ တိုးချဲ့ဖောက်လုပ်ခြင်း၊ ကုန်သင်္ဘောများ တည်ဆောက်ခြင်း၊ ငွေစုဘဏ်များ၊ ဆေးရုံများ ဖွင့်လှစ်ခြင်း၊ သင်္ဘောဆိပ်ကမ်းများကို တိုးတက်ကောင်းမွန်စေရန် ပြုပြင်ခြင်း၊ တူးမြောင်းများ ဖောက်လုပ်ခြင်း စသည်ဖြင့်၊ နိုင်ငံတိုးတက်စည်ကားအောင် ဆောင်ရွက်ခဲ့လေသည်။ ထိုသို့ဆောင်ရွက်ရာတွင်၊ သူ၏ အဓိကရည်ရွယ်ချက်မှာ၊ တိုင်းသူပြည်သားတို့သည် သူ အာဏာရှင်သဖွယ် အုပ်စိုးလျက်ရှိသည်ကို အမှတ်မထင် နှစ်လိုလာစေရန်ပင် ဖြစ်ပေသည်။

တတိယနပိုလီယန်သည် ပြင်သစ်နိုင်ငံတွင် ထင်ရှားလာသော်လည်း၊ စစ်ရေးစစ်ရာတွင်ကား ပဌမနပိုလီယန်ကဲ့သို့ မကျွမ်းကျင်ပေ။ ထိုပြင် အုပ်ချုပ်ရေးတွင်လည်း၊ ၁၈၅၃ ခုနှစ်၌ လက်ထပ်ခဲ့သော ယူဇေးနီး မိဖုရားက အမြဲထိန်းသိမ်းပေးခဲ့ရ၏။ ထိုနောက် သူ၏အခြေကို စစ်အောင်ပွဲများဖြင့် ပို၍ခိုင်မာအောင်ပြုပြင်ရန် ရည်ရွယ်ပြီးလျှင်၊ သူသည် ကရိုင်းမီးယားစစ်ပွဲတွင် ဝင်ရောက်တိုက်ခိုက်ခဲ့၏။ ထိုပြင်လည်း ဩစတြီးယားနိုင်ငံနှင့် စစ်မက်ယှဉ်ပြိုင် တိုက်ခိုက်ခဲ့သည်။ ထိုစစ်ပွဲအပြီးတွင်၊ ပြင်သစ်နိုင်ငံသည် ရန်သူများ၍လာခဲ့လေသည်။ တဖန်တုံလည်း၊ မက္ကဆီကို နိုင်ငံတွင် လက်အောက်ခံ နိုင်ငံတခု ချဲ့ထွင် တည်ထောင်ရန်အကြံနှင့် ဩစတြီးယန်းမင်းသားကြီး မက္ကဆီမီလျံကို နန်းတင်ရန်ကြိုးပမ်းခဲ့ရာတွင်လည်း၊ မအောင်မြင်ခဲ့ချေ။ ဤသည်မှစ၍ သူ၏နာမည်သည် အတော်ပင် ပျက်ခဲ့လေသည်။ သူ၏ရန်သူများတွင် အင်အားအကောင်းဆုံးမှာ ဂျာမနီဖြစ်၏။ ဂျာမနီနိုင်ငံသည် ဗစ်ဇမတ်မင်းသား ခေါင်းဆောင်၍၊ စစ်အင်အား စုဆောင်း ပြင်ဆင်ထားပြီး ဖြစ်သဖြင့်၊ ၁၈၇၀ ပြည့်နှစ်တွင်ဖြစ်ပွားသော ပြင်သစ်ဂျာမန်စစ်ပွဲကြီးတွင် ပြင်သစ်တို့ မရှုမလှ အရေးနိမ့်ရလေတော့သည်။ (ဗစ်ဇမတ် — ရှု။) တတိယနပိုလီယန်သည်လည်း ဂျာမန်တို့က သုံ့ပန်းအဖြစ် ဖမ်းဆီးရမိသွားလေသည်။ မိဖုရားကြီးမှာမူ၊ အင်္ဂလန်ပြည်သို့ ထွက်ပြေးရ၏။ နပိုလီယန်အား ဂျာမန်တို့က လွတ်လိုက်သောအခါ၊ သူ၏မိဖုရားကြီးရှိရာ အင်္ဂလန်ပြည်သို့ သွားရောက်နေထိုင်လေသည်။

ထိုနောက် ၁၈၇၃ ခုနှစ်တွင် အင်္ဂလန်ပြည် ကင့်နယ်တွင် နတ်ရွာစံလေသည်။ သူ၏သားတော်မှာလည်း တောင်အာဖရိကတိုက်၊ ဇူးလူးစစ်ပွဲ၌ အင်္ဂလိပ်တို့ဖက်မှ ဝင်ရောက်တိုက်ခိုက်ရာတွင်၊ ကျဆုံးခဲ့သောကြောင့်၊ နပိုလီယန် မင်းဆက်သည် လုံးဝပြတ်သွားလေသည်။

**နပန်းလုံးခြင်း။** ။ကစားနည်းအမျိုးမျိုးတွင် နပန်းလုံးခြင်းသည် ကျန်းမာရေးကိုကောင်းစွာဖြစ်စေနိုင်သော ကစားနည်းတမျိုး ဖြစ်သည်။ ရှေးခေတ်ဂရိတို့သည် နပန်းလုံးခြင်းကို အရေးပါ အရာရောက်သော ကစားနည်းဟု ယူဆကြ၏။ နပန်းလုံးခြင်းသည် ဘီစီ ၃၀၀၀ ခန့်ကပင် အီဂျစ်နှင့် ဗက်ဗီလုံးနီးယားပြည်တို့တွင် ပေါ်ပေါက်ခဲ့၏။ ဤကစားနည်းသည် ဦးခေါင်းမှ ခြေဖျားတိုင်အောင် ရှိသမျှသော



နပန်းလုံးရာ၌ ကျင်လျင်မှုသည် ခွန်အားထက် အရေးကြီးသည်။

ကြွက်သားတို့ကို လှုပ်ရှားစေသဖြင့်၊ အလွန်ပင် အညောင်းအညာ ပြေစေသည်။ နပန်းလုံးရာ၌ ခွန်အားကြီးခြင်း၊ ကိုယ်အလေးချိန် များခြင်းတို့သည် ပဓာနမဟုတ်၊ ကျင်လျင်မှုသာလျှင် ပဓာနဖြစ်သည်။ မျက်စိရှင်ခြင်းနှင့် ဖျတ်လတ်ခြင်းတို့ကို အထူးလိုအပ်လှ၏။ တဖက်လူ၏ အတုပ်အနှောင် အချုပ်အချယ်ကို ကျင်လျင်စွာ ရှောင်တိမ်းနိုင်သူသည် ထိုသူကို ချက်ကောင်းဖမ်း၍ ပြန်အုပ်နိုင်သည်။ တဖက်လူသည် မိမိထက် မည်မျှပင် ခွန်အားကြီးစေကာမူ၊ မိမိ၏ ကျင်လျင်မှုဖြင့် သူ့ကို ပြန်လည်ချေပနိုင်သည်။

နပန်းလုံးခြင်းသည် တဦးနှင့်တဦး လည်မျိုကို ညှစ်ခြင်း၊ ခေါင်းနှင့် ဆောင့်ခြင်း၊ ကန်ကြောက်ခြင်းဖြင့် နာကျင်စေသည်။ ထို့ကြောင့် နပန်းလုံးသူများသည် ခံနိုင်ရည်ရှိအောင် အင်အားမွေးမြူကြရ၏။ နပန်းလုံးခြင်း၌ နည်းအမျိုးမျိုး ရှိသည်။ လန်ကရှိုင်ယာနည်းဟု ခေါ်သော နပန်းလုံးနည်းမှာ နပန်းလုံးမည့်သူနှစ်ဦးသည် တဦးနှင့်တဦး မျက်နှာချင်းဆိုင်ရပ်၍၊ စလျှင်စခြင်း တရှိန်တည်း တွန်းလှဲနိုင်အောင် ဖမ်း၍သတ်ခြင်းဖြစ်၏။ ထိုလန်ကရှိုင်ယာနည်းကို 'မိအောင်ဖမ်းနည်း' ဟုလည်း ခေါ်သည်။ နပန်းလုံး၍ လဲကျသွားသောအခါတွင် တဖက်သောသူသည် လဲသူအား မထနိုင်အောင် ပခုံးမှဖိထားရ၏။ ဤနပန်းလုံးနည်းမျိုးသည် နာမည်ကြီးသော နည်းဖြစ်၍ လူကြိုက်များလေသည်။

ဂရိကိုရိုမန်နည်းခေါ် နပန်းလုံးနည်းတမျိုးလည်း ရှိသေး၏။ ယင်းမှာ အထူးသဖြင့် မတ်တတ်ရပ်၍ သတ်ရသည်က များသည်။ နပန်းလုံးသူများသည် ခါးထိအောင်သာ ဖက်၍ နပန်းလုံးသတ်နိုင်သည်။ ခါးအောက် မည်သည့်နေရာကိုမျှ ကိုင်တွယ်ခွင့် မပြုချေ။ အကယ်၍ တယောက်က တဖက်လူ၏ပခုံးနှစ်ဖက်ကို တပြိုင်တည်းကိုင်၍ မြေသို့ကျအောင် နှိမ်ချနိုင်လျှင်၊ ထိုသူကျသွားပြီဟု ယူဆနိုင်လေသည်။ ဤ ဂရိကိုရိုမန်နပန်းလုံးနည်းသည် အလွန်ရှေးကျ၍၊ ပြင်သစ်လူမျိုးများ အထူးသဖြင့် ကစားလေ့ရှိကြ၏။ ဂရိကိုရိုမန်ဟု အမည်ပေးထားသော်လည်း၊ ဂရိနှင့်ရောမတွင် ကစားသောနည်း မဟုတ်ချေ။

အခြားကစားနည်းမျိုးများမှာ ကမ်ဗာလန်နည်းနှင့် ဝက်စမိုလန်နည်းခေါ် နပန်းလုံးနည်းများ ဖြစ်ကြသည်။ ထိုနပန်းလုံးနည်းမျိုးတွင် နပန်းစ၍မသတ်မီ ကိုယ်ကို မြဲမြဲကိုင်ထားရ၏။ မတ်တတ်ရပ်၍ လုံးခြင်းဖြစ်သောကြောင့်၊ ခြေဖဝါးနှင့်မြေကြီး ထိနေရသည်မှအပ၊ အခြားကိုယ်အင်္ဂါ အစိတ်အပိုင်း တခုခုသည် မြေပြင်သို့ထိလိုက်သည်နှင့် တပြိုင်နက်၊ ထိုသို့ မြေပြင်ကိုထိသူသည် အရှုံးပေးရလေသည်။ ဒက်ဗွန်နှင့် ကွန်းဝေါနည်းမှာ မြေပြင်ပေါ်၌လှဲ၍ နပန်းလုံးခြင်းကို လုံးဝတားမြစ်ထား၏။ ပခုံးနှစ်ဖက်နှင့် တင်ပါး ဖြစ်စေ၊ တင်ပါးနှစ်ဖက်နှင့် ပခုံး ဖြစ်စေ၊ နှစ်ခုစလုံး မြေပြင်ပေါ်သို့ တပြိုင်တည်း ကျရောက်သောအခါတွင် အနိုင်ရလေသည်။

ဂျပန်နိုင်ငံတွင်မူ ဂျူးဂျစ်ဆူခေါ် နပန်းလုံးနည်း ခေတ်

စား၏။ (ဂျူးဂျစ်ဆူအတတ် — ရှု။) ထိုကစားနည်းသည် အပျော်ကစားခြင်း မဟုတ်ဘဲ၊ အသက်အန္တရာယ်ကို ကာကွယ်ရန်အတွက် လေ့ကျင့်ခြင်းဖြစ်၏။ ဂျူးဂျစ်ဆူ နပန်းလုံးသူများသည် ကျင်လျင်မှု ရှိရသည့်ပြင်၊ လူကိုယ်ခန္ဓာ အစိတ်အပိုင်းကို ကောင်းစွာနားလည်ထားရသည်။ သို့မှသာ ချက်ကောင်းကို ဖမ်းနိုင်၍ ရန်သူကို အသေအလဲ ထိုးသတ်နိုင်သည်။ ဤနည်းသည် ရန်သူနှင့် ရင်ဆိုင်တွေ့သောအခါ လက်နက် မကိုင်မဆောင်၊ သွေးထွက်သံယိုမဖြစ်စေဘဲနှင့် ရန်သူကို ခုခံနိုင်သည်။ ရန်သူကို ကာကွယ်သော ကစားနည်းတမျိုးဟု ယူဆကာ ဂျပန်တိုင်းလိုလိုပင် ထိုနပန်းလုံးနည်းကို လေ့ကျင့်ထားကြ၏။

နပန်းလုံးခြင်းကို အာရှတိုက်သားတို့သည် ပိုမို၍ ဝါသနာပါကြသည်။ နပန်းလုံးခြင်းကို အချင်း ၁၂ ပေခန့်ကျယ်သော စီးဝိုင်းတွင် ကြိုးကာ၍ လုံးကြသည်။ အချို့တိုင်းပြည်များတွင်မူ မြေကြီးပေါ်၌ပင် လုံးလေ့ရှိ၏။ ရှေးခေတ်ကတည်းက နာမည်ထင်ရှားနေသော နပန်းလုံးခြင်းမှာ ယခုခေတ်ကာလတိုင်အောင် ပပျောက်တိမ်ကောသွားခြင်း မရှိဘဲ၊ တိုးတက်လျက် ရှိချေရကား၊ အိုလံပစ်ကစားပွဲ၌ပင်လျှင် အရေးကြီးသော ကစားနည်းအဖြစ်ဖြင့် အသိအမှတ်ပြုကာ လက်ခံလေသည်။

**နဖားကြီး**။ ။နဖားကြီးသည် ပါဏဗေဒအလိုအားဖြင့် 'ကော်ဗီဒီ' မျိုးရင်းမှ တဆင့်ခွဲသော 'ကရစ်ဆီရီးနား' မျိုးစိတ်တွင် ပါဝင်သည့် ငှက်မျိုးဖြစ်သည်။ မြန်မာ နဖားကြီးငှက်အပြင်၊ ချင်းတောင် နဖားကြီး၊ တနင်္သာရီ နဖားကြီး စသော မျိုးတူငှက်များ ရှိသေးသည်။

နဖားကြီး၏ ကိုယ်ထည်အလျားမှာ ၁၈ လက်မခန့် ရှိသည်။ အမြီးတခုတည်းကပင် ၉ လက်မခန့် ရှိသည်။ ပျံသန်းသောအခါ အတောင်အောက်ဖက်တွင် အဖြူကွက်ကြီးကို ထင်ရှားစွာ မြင်ရပြီးလျှင် တောင်ပံရိုက်လိုက်၊ ထိုးဆင်းလိုက်နှင့် ဆူညံစွာ အသံပြုလေ့ရှိသည်။ နဖားကြီးသည် နားဝင်ဆိုးအောင် စူးရှစွာ အော်တတ်သော်လည်း၊ တခါတရံ သာယာစွာ မြည်တွန်တတ်သေးသည်။

နဖားကြီးသည် များသောအားဖြင့် ပန်းရုံ ဆူးချုံများတွင် ကျက်စားသော ငှက်ဖြစ်သည်။ အလွန်မြင့်သော သစ်ပင်ခေါင်ဖျားမ၊ ချုံဖုတ်များတွင်သာ သွားလာနေထိုင်၍၊ မြေကြီးပေါ် သို့ ဆင်းခဲသည်။ ထိုငှက်မျိုးကို ကျွန်းတောများနှင့် ကွင်းပြင်များတွင်သော်၎င်း၊ ပန်းခြံများထဲတွင်သော်၎င်း၊ တွေ့ရ၏။ အစုလိုက်အအုပ်လိုက် အသင်းဖွဲ့၍ဖြစ်စေ၊ ဖိုမစုံညီ ယှဉ်တွဲလျက်ဖြစ်စေ၊ နေလေ့ရှိသည်။ သို့ရာတွင် မိုးဥတုအခါများ၌ အကောင် ၁၀ ကျော်ခန့် အအုပ်အသင်းဖွဲ့၍ သစ်ပင်တပင်မှ တပင် သို့၊ တကောင်နောက်တကောင်လိုက်ကာ၊ လူးလာပျံသန်းကြ၏။ နဖားကြီး၏ အစာကား သစ်ဥသစ်ဖုများနှင့် ပိုးကောင်မွှားကောင်များ ပါဝင်သော အစာမျိုးစုံပင် ဖြစ်သည်။ နဖားကြီးသည် ငှက်ပေါက်စများနှင့် ဥများကို အဖျက်ဆီးဆုံးသော ငှက်မျိုးဖြစ်သည်။

မတ်လနှင့်ဧပြီလအတွင်းတွင် နဖားကြီးငှက်ငယ်များ အဥ အုလေ့ရှိသည်။ အချို့သည် တခါတရံ မေလတိုင်အောင် နှောင်းတတ်သည်။ အသိုက်များကို သစ်ပင်ငယ် ထိပ်ခွဆုံတွင်သော်၎င်း၊ ချုံဖုတ်ထဲတွင် သော်၎င်း၊ ပြုလုပ်ထား၍ ရန်သူမမြင်အောင် သစ်ရွက်များဖြင့် ဖုံးကွယ်ထားတတ်သည်။ အသိုက်များကို ခွက်သဏ္ဌာန် ခပ်ချိုင့်ချိုင့် ပြုလုပ်၍၊ သစ်ကိုင်းခြောက်များ၊ သစ်မြစ်များ၊ ဆူးပါးသော သစ်ခက်များကို အောက်ခံထားကာ၊ ဘေးပတ်လည်တွင် မြက်များ၊ အမွှေးအမှင်များ၊ ကောက်ရိုးများဖြင့် ကာရံထားသည်။

တမြုံလျှင် ၂ ဥ မှ ၅ ဥ အထိရှိ၍၊ အစိမ်းဖျော့အရောင်တွင် ညိုမဲ့မဲ့ အပြောက်များပါသော ဥနှင့် အဖြူတွင် နီကြန့်ကြန့် အရောင် ရော၍ အနီဝိုင်းကလေးများပါသော ဥနှစ်မျိုးကို အုတတ်သည်။ အရွယ်မှာ ပျမ်းမျှအလျား ၁.၁၇ လက်မနှင့် ပြက် ၀.၈၇ လက်မ ဖြစ်သည်။

နဖားကြီးငှက်ကို မြန်မာနိုင်ငံ၌ တောင်ခြေများ တောင်မြင့်မြင့်များတွင် တွေ့ရ၍၊ ရာသီဥတုကောင်းမွန်သော ဒေသများတွင်ကား ပေ ၇၀၀၀ ခန့်မြင့်သည့် နေရာများ၌ပင် တွေ့ရသည်။

တောင်နဖားကြီးငှက်သည် နဖားကြီးထက် ကိုယ်လုံးကိုယ်ထည် အနည်းငယ်သေးသည်။ တောင်စခန်းများဖြစ်သော မိုးကုတ်ကျောက်ပြင်၊ မေမြို့နှင့် သံတောင်မြို့များ၌ တွေ့ရသည်။ မြေနိမ့်ဒေသတွင် တွေ့ရခဲ၍၊ တောင်ပေါ်ဒေသ၌သာ ကျက်စားလေ့ရှိသည်။ အသိုက်နှင့်ဥများမှာ နဖားကြီးငှက်၏ အသိုက်နှင့်ဥများအတိုင်းပင် ဖြစ်၍၊ သီသီငယ်သည်။ သားပေါက်ချိန်မှာ ဧပြီလမှ ဇွန်လအတွင်း ဖြစ်သည်။

**နဖားကြူး**။ ။နဖားကြူးကို အမြီးဝိုင်းငှက်ဟုလည်း ခေါ်ကြသည်။ ထိုငှက်၏ အမြီးသည် ၇ လက်မမှ ၈ လက်မခန့်အထိ ရှည်၍၊ တကိုယ်လုံးမှာ ၁၂ လက်မခန့် ရှည်သည်။ လည်ချောင်းတွင် မည်းနက်နေ၍၊ အောက်ပိုင်းနှင့် အပေါ်ပိုင်းများသည် အနီရောင် ပေါက်နေသည်။ ပျံသန်းသည့်အခါ တောင်ပံရိုက်သံကို ကောင်းစွာကြားရသည်။

နဖားကြူးသည် ခြောက်သွေ့သော တောများကို ပိုမိုနှစ်သက်၍၊ လယ်စောင်း ယာစောင်းတွင် ပေါက်ရောက်နေသော အပင်များ၌သာ ကျက်စားလိုသည်။

နဖားကြူးငှက်ငယ်များသည် ဧပြီလနှင့် မေလလောက်

တွင် ပေါက်ကြသည်။ အသိုက်အအုံများကို ဆူးချုံ သစ်ပင်ငယ်များတွင် သစ်ကိုင်းခြောက်များ၊ သစ်မြစ်များ၊ နွယ်များဖြင့် ခပ်ချိုင့်ချိုင့် ပြုလုပ်ထားတတ်သည်။ နဖားကြူး အသိုက်မှာ အခြားငှက်သိုက်များထက် ပို၍ သပ်ရပ်သည်။ ဥ၏အရွယ်မှာ ပျမ်းမျှအလျား ၀.၉၁ လက်မနှင့် ပြက် ၀.၇၁ လက်မရှိသည်။

နဖားကြူးသည် မြန်မာနိုင်ငံ အပူပိုင်းဒေသတွင် တွေ့ရသော ငှက်မျိုးဖြစ်သည်။ မုံရွာမှ မြစ်ကြီးနားတလျှောက်ထိ ဒေသတို့တွင် တွေ့ရတတ်သည်။ ယိုးဒယားနိုင်ငံနှင့် မလေးကျွန်းဆွယ် မြောက်ပိုင်းတို့၌လည်း တွေ့ရတတ်သည်။ ထိုငှက်သည် 'ကော်ဗီဒီ' မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အမည်အားဖြင့် 'ကရစ်ဆီရီးနား ကျူကူလာတာ' ဟု ခေါ်သည်။

**နယူး ဂင်းနီကျွန်း။** ။နယူး ဂင်းနီကျွန်းသည် ကမ္ဘာပေါ်ရှိ ကျွန်းများအနက်၊ ဂရင်းလန်းကျွန်းမှအပ၊ အကြီးဆုံး ကျွန်းဖြစ်၏။ စတုရန်းမိုင် ၃၄၂,၀၀၀ ခန့် ကျယ်ဝန်းသည်။ ထိုကျွန်း၏ အတွင်းပိုင်းကျသော ဒေသတို့တွင် လူသားစားလူရိုင်းများ၊ ခေါင်းဖြတ်လူရိုင်းများ နေထိုင်ရာဖြစ်သဖြင့်၊ လူသူအရောက် နည်းပါးသည်။ ထိုကျွန်းသည် ဩစတြေးလီးယားကျွန်း၏ မြောက်ဖက်တွင် တည်ရှိ၍၊ အီကွေတာ၏ တောင်ဖက်ကျပြီးလျှင်၊ အလျားမိုင် ၁၅၀၀၊ အနံမိုင် ၄၅၀ ခန့် ရှိ၏။ အရှေ့ပိုင်းကို ဗြိတိသျှတို့က ပိုင်၍၊ ဩစတြေးလီးယားအစိုးရက အုပ်ချုပ်ပြီးလျှင် အနောက်ပိုင်းကို ဒပ်ချတို့ ပိုင်သည်။ လူဦးရေ ၂,၃၀၀,၀၀၀ မျှရှိသည့်အနက်၊ တိုင်းရင်းသားမှာ အများဆုံး ဖြစ်ပြီးလျှင်၊ ဥရောပတိုက်သား၊ တရုပ်၊ ပသျှူးနှင့် အခြားလူမျိုးများလည်း တသောင်းခန့် ရှိ၏။ ကျွန်း၏အလယ်ပိုင်းတွင် မြင့်မားသော တောင်တန်းကြီးများ ရှိရာ၊ အချို့တောင်ထိပ်များသည် ဆီးနှင်းများ ဖုံးအုပ်လျက်ရှိ၏။ မြစ်ချောင်းများစွာတို့သည် ဤတောင်တန်းကြီးများမှ စီးဆင်း၍၊ သစ်တောကြီးများ၊ ရွှံ့နွံထူထပ်သော ဒေသများကို ဖြတ်သန်းပြီးလျှင်၊ ပင်လယ်ထဲသို့ စီးဝင်ကြ၏။ မိုးများသဖြင့်၊ အင်းအိုင်များလည်း ပေါ်များလှရာ၊ အချို့ဒေသများ၌ ဆက်လူနီးပါးမျှရှိသည်။ ဖလိုင်းမြစ်သည် ကွေ့ကောက်လျက်၊ မိုင်ပေါင်း ၆၅၀ ကျော်ခန့် ရှည်လျားစွာ စီးဆင်းလျက်ရှိ၏။ အချို့တောင်စဉ်တောင်တန်းများသည် ပင်လယ်အထိ ထိုးထွက်လျက်ရှိရာ၊ ထိုနေရာများရှိ ကမ်းရိုးတန်းသည် ကျောက်ဆောင် ထူထပ်ပေါများပြီးလျှင်၊ အခြားနေရာများ၌မူ၊ နုံးမြေများသာ ဖြစ်လေသည်။

မိုးအခါတွင် လေပြင်းမုန်တိုင်း ကျရောက်တတ်၏။ ပူအိုက်စွတ်စိုသဖြင့် သစ်ပင်မျိုးစုံ ပေါက်ရောက်သည်။ တော




နယူးဂင်းနီကျွန်း တည်နေရာပြ မြေပုံ



နယူးဂင်းနီကျွန်းရှိ ပါပူယန်ကျေးရွာ ရှုခင်းတရပ်

ကြီးထဲ၌ ဖြတ်သန်းသွားလာရန် ခက်ခဲလှ၏။ ထိုကြောင့် ခရီးလမ်းပန်း အဆက်အသွယ်သည် မြစ်ကြောင်းခရီးဖြင့်သာ ဆက်သွယ်နိုင်၏။ သစ်ပင်ကြီးများပေါ်တွင် ကျီးပေါင်းပင်၊ သစ်ခွပန်းပင်၊ ကိုင်းပင် နွယ်ပင်ကြီးများဖြင့် ရှုပ်ထွေးလျက်ရှိရာ၊ တောလမ်းခရီး မပေါက်နိုင်ချေ။ ပိုးမွှားတိရစ္ဆာန်နှင့်အဆိပ်ရှိသတ္တဝါများ ပေါများလှသည့်ပြင်၊ ခြင်ကောင်များသည် ပျားအုံကဲ့သို့ ဝိုင်းရံကိုက်ခဲတတ်၏။ ရေထဲတွင် မြွေ၊ ကျွတ်၊ မိကျောင်း၊ မြွေကင်း စသော ဥပါဒ်ပေးတတ်သည့်သတ္တဝါတို့ ပေါများ၏။ အလွန်လှပ၍ အရောင်မျိုးစုံသောလိပ်ပြာနှင့်ငှက်များလည်း ပေါများလေ၏။ ထိုကျွန်းရှိငှက်ကုလားအုပ်တမျိုးမှာ အလွန်ကြီးမား သန်စွမ်း၍၊ ခွေးတကောင်ကို ခြေဖြင့်ခတ်ရုံမျှဖြင့် သေစေနိုင်၏။ လိပ်များလည်း အလွန်ပေါများသည်။

နယူး ဂင်းနီကျွန်းရှိ လူရိုင်းများသည် အာဖရိကတိုက်မှာကဲ့သို့ အမျိုးမျိုးအဖုံဖုံ ကွဲပြားသည်။ အချို့မှာ အရပ်အမောင်း ထွားကြိုင်းသန်မာ၍၊ အချို့မှာ လူပုကလေးများသာ ဖြစ်၏။ အသားအရေမှာလည်း ကပ္ပလီနှင့် မခြားလှချေ။ အချို့မှာ တံငါမုဆိုးလုပ်လျက် အသက်မွေးမြူ နေထိုင်ကြသော်လည်း၊ အချို့မှာ လူသားစား လူရိုင်း၊ ခေါင်းဖြတ်လူရိုင်းဘဝမှ မတက်သေးချေ။ ယင်းတို့တွင် အထင်အရှားဆုံးမှာ ဗြိတိသျှတို့အုပ်စိုးသည့် တောင်ဖက်ပိုင်းရှိ ပါပူယန်များ ဖြစ်ကြသည်။ ထိုသူတို့ကား သန်စွမ်းတောင့်တင်း၍ ကွေးကောက် ရှည်လျားသော ဆံပင်များ ရှိပြီးလျှင်၊ မျက်နှာသွယ်၍ နှာခေါင်း ပိ၏။ ပါးရိုး မြင့်၍၊ နဖူး မောက်၏။

ပါပူယန်များသည်၊ သစ်ပင်မြင့်ကြီးများပေါ်တွင် အိမ်များကို လင့်စင်များသဖွယ် ဆောက်၍ နေတတ်ကြ၏။ အိမ်ရှေ့၌၊ အမျိုးဘာသာအလိုက် ကခုန်ရန်၊ မြေရာကွက်လပ်များ ထားရှိ၏။ အိမ်အတွင်း၌မူ၊ မိမိတို့စွဲသုံးသည့် ဓား၊ လှံ၊ လေး၊ မြား၊ ဓားမြှောင်နှင့် လှေတက်များကို ဆွဲချိတ်ထားတတ်လေသည်။ ပင်လယ်ကမ်းခြေတဝိုက်တွင်၊ လူသားစားသည့် အလေ့အကျင့်များ ကွယ်ပျောက်သွားပြီဖြစ်သော်လည်း၊ အတွင်းကျသော နေရာများ၌မူ ကျန်ရှိသေး၏။ လူယဉ်များအိမ်တွင် အရုပ်ကားများ ဆွဲချိတ်ထားသကဲ့သို့၊ လူရိုင်းများအိမ်တွင်၊ လူ၏ဦးခေါင်းခွံများကို အလှအပ ချိတ်ထားလေ့ရှိရာ၊ ဤသည်တို့မှာ အိမ်ရှင် ကိုယ်တိုင် တိုက်ခိုက်အောင်မြင်ခဲ့သော ရန်သူများ၏ ဦးခေါင်းခွံများဖြစ်သည်။ ထိုကျွန်း၌ ရွှေ၊ ငွေ၊ ကြေးနီ စသောသတ္တုများ၊ ကျောက်မျက်ရွဲများ ထွက်၏။ သို့သော် တောများ အလွန်နက်သဖြင့် ယူရန် ခဲယဉ်းလှ၏။

နယူး ဂင်းနီကျွန်းကို ခရစ် ၁၅၁၁ ခုနှစ်တွင် စတင် တွေ့ရှိသူသည် ပေါ်တူဂီလူမျိုး ပင်လယ်ကူး ခရီးသည်တဦး ဖြစ်သည်ဟု အဆိုရှိ၏။ သို့သော် ထိုကျွန်းပေါ်သို့ ၁၅၄၅ ခုနှစ်၌ ဥရောပတိုက်သားထဲမှ ဦးစွာ တက်ရောက်၍ ကြည့်ရှုခဲ့သူ

မှာ စပိန်လူမျိုး ဖြစ်သည်။ ၁၆၆၀ ပြည့်နှစ်၌ ဒပ်ချလူမျိုးတို့၏ အရှေ့အိန္ဒိယကုမ္ပဏီသည် ထိုကျွန်းကို စိုးမိုးစပြုခဲ့သည်။ ၁၈၂၈ ခုနှစ်၌မူကား နယ်သာလန် အစိုးရသည် နယူးဂင်းနီကျွန်း အနောက်ပိုင်းကို သိမ်းပိုက်လိုက်လေသည်။ အရှေ့ဖက်၌ကား ဗြိတိသျှတို့ နေထိုင်အုပ်စိုးကြ၍၊ ဒပ်ချနှင့်ဗြိတိသျှအစိုးရတို့သည် ၁၈၈၄ ခုနှစ်တွင် နယူး ဂင်းနီကျွန်းကို နယ်ခြားသတ်မှတ်၍၊ နှစ်ဦးသဘောတူ ခွဲဝေယူကြ၏။ အရှေ့မြောက်ပိုင်းဒေသ၌ ဂျာမန်လူမျိုးတို့သည် နယ်သစ်တည်ထောင်ကြသည်။ ပါပူယန်လူမျိုးတို့ နေထိုင်ရာ ပါပူယာဒေသကိုမူ ၁၈၈၆ ခုနှစ်တွင် ဗြိတိသျှတို့ သိမ်းပိုက်အုပ်စိုးသည်။ ပဌမကမ္ဘာစစ်ကြီး ပြီး၍၊ ၁၉၂၀ ပြည့်နှစ်သို့ရောက်သော်၊ နိုင်ငံပေါင်းချုပ်အသင်းသည် ထိုပါပူယာဒေသကို သြစတြေးလီးယားအစိုးရသို့ ပြောင်းလွှဲပေးအပ်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ဂျပန်တို့သည် နယူး ဂင်းနီကျွန်း၏ အရှေ့မြောက်ပိုင်းကို တက်ရောက် သိမ်းပိုက်ခဲ့ဘူးသည်။ ဒုတိယကမ္ဘာစစ် ပြီးသောအခါ၊ ဒပ်ချအစိုးရသည် ၁၉၅၀ ပြည့်နှစ်တွင် အင်ဒိုနီးရှားနိုင်ငံကို လွတ်လပ်ရေး ပေးခဲ့သော်လည်း၊ ယင်းတို့ပိုင်ဆိုင်သော နယူး ဂင်းနီနယ်ကိုမူ အင်ဒိုနီးရှားနိုင်ငံထဲသို့ သွတ်သွင်း၍ မပေးခဲ့ချေ။ သို့သော် အင်ဒိုနီးရှားနိုင်ငံက ထိုဒပ်ချပိုင် နယူး ဂင်းနီကျွန်းနယ်မြေကိစ္စကို ရှင်းလင်းပေးရန်အတွက် ကုလသမဂ္ဂသို့ တိုင်ကြား အစီရင်ခံခဲ့သည်။ ထိုပြဿနာကို ယနေ့တိုင် ပြီးပြတ်အောင် မဖြေရှင်းနိုင်ကြသေးသဖြင့်၊ နယူး ဂင်းနီကျွန်း အနောက်ပိုင်းကို ဒပ်ချတို့ ပိုင်မြဲပိုင်လျက်ရှိသည်။

**နယူး ဂျာစီပြည်နယ်။** ။နယူး ဂျာစီပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ မူရင်းပြည်နယ် ၁၃ နယ်တွင် အပါအဝင်ဖြစ်၏။ ၁၆၆၄ ခုနှစ်တွင် ဟဒ်ဆန်မြစ်နှင့် ဒဲလဝဲယားမြစ်နှစ်ခုတို့၏အကြားရှိ နယ်မြေကို ယော့ မြို့စား ဂျိမ်းကဆာ ဂျော့ ကာတာရက်နှင့် လော့ ဗာကလေတို့ကို ပေးခဲ့သည်။ ဆာ ဂျော့သည် သူ၏ ဇာတိရပ်မြေဖြစ်သော အင်္ဂလိပ်ရေလက်ကြားရှိ ဂျာစီကျွန်းကိုအစွဲပြု၍၊ ထိုပြည်နယ်ကို နယူး ဂျာစီဟု အမည်မှည့်ခဲ့လေသည်။

နယူး ဂျာစီပြည်နယ်၏ မြောက်ဖက်၌ နယူး ယော့ပြည်နယ် တည်ရှိ၍၊ တောင်ဖက်၌ ဒဲလဝဲယားပင်လယ်အော် တည်ရှိ၏။ အရှေ့ဖက်၌ ဟဒ်ဆန်မြစ်နှင့် အတ္တလန္တိတ်သမုဒ္ဒရာတို့ တည်ရှိပြီးလျှင်၊ အနောက်ဖက်၌မူကား ဒဲလဝဲယား ပြည်နယ်နှင့် ပင်ဆီလဗေးနီးယားပြည်နယ်တို့ တည်ရှိလေသည်။ ဒဲလဝဲယားမြစ်သည် ဤပြည်နယ်၏ အနောက်ဖက် နယ်နိမိတ် ဖြစ်၏။

နယူး ဂျာစီပြည်နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၇၈၃၆ မိုင်ဖြစ်သည်။ နယူး ဂျာစီပြည်နယ်ကို အပိုင်းကြီး ငါးပိုင်း ခွဲခြားနိုင်သည်။ အနောက်မြောက်ဖက် ဒဲလဝဲယားမြစ်နှင့် ယှဉ်ပြိုင်လျက် တည်ရှိသည့် အပိုင်းသည် သစ်တောများ ထူထပ်စွာ ပေါက်ရောက်လျက်ရှိသော ကစ်တာတင်နီတောင်တန်း ဖြစ်သည်။ ယင်းသည် ပေပေါင်း ၁၈၀၀ အထိ မြင့်လျက်၊ နွေရာသီတွင် လူအများ အပန်းဖြေ သွားရောက်လည်ပတ်ရာဌာန ဖြစ်လေသည်။ ယင်းသည့် တောင်တန်းများ၏ တောင်ဖက်တွင် ကျယ်ဝန်းသည့်



နျူးအတ်မြို့သည် နယူးဂျာစီပြည်နယ်တွင် အကြီးဆုံးသောမြို့ဖြစ်ရုံမျှမက အချက်အခြာဆိပ်ကမ်းမြို့ကြီးလည်း ဖြစ်သည်။



နယူးဂျာဇီပြည်နယ်ရှိ ကမ်မဒင်မြို့နှင့် ပင်ဆီလဗေးနီးယားပြည်နယ်ရှိ ဖီလဒဲဖီးယားမြို့တို့ကို ဆက်သွယ်ထားသော ၂ မိုင်ရှည်လျားသည့် ဒဲလဝဲယား မြစ်ကူး တန်တားကြီး

တောင်ကြားဒေသ တည်ရှိ၏။ စိုက်ပျိုးလုပ်ကိုင်ရန်အတွက် အကောင်းဆုံးသောဒေသ ဖြစ်သည်။ တတိယအပိုင်းမှာ တောင်ကုန်းဒေသ ဖြစ်၍၊ ယင်း၏တောင်ဖက်တွင်ကား ဖူးပြောင်း၊ သစ်သီးနှင့် ဟင်းသီးဟင်းရွက်များ ထွက်သည့် ပိဒမန့်လွင်ပြင် တည်ရှိ၏။ တောင်ဖက်အဆုံးတွင်ကား ပြည်နယ်တခုလုံး၏ ထက်ဝက်ခန့်မျှကျယ်ဝန်းသည့် ကမ်းမြောင်လွင်ပြင် တည်ရှိလေသည်။

နယူး ဂျာစီပြည်နယ်တွင် အကြီးဆုံးသောမြစ်သည် ရယ်ရီတန်ပင်လယ်အော်အတွင်းသို့ စီးဝင်သည့် ရယ်ရီတန်မြစ်ဖြစ်၏။ ပင်လယ်ကမ်းရိုးတန်းတလျှောက်ရှိ မြစ်များတွင် အရေးအပါဆုံးသောမြစ်များမှာ ဟက်ကင်ဆက်မြစ်နှင့် ပဆေးအစ်မြစ်တို့ ဖြစ်လေသည်။ မြောက်ဖက်ရှိ သစ်တောများ ဖုံးလွှမ်းနေသည့် တောင်ကုန်းများအကြားတွင် ရေအိုင်ပေါင်း တရာခန့်ရှိရာ၊ ယင်းတို့အနက် ရေအိုင်ကြီးများဖြစ်သည့် ဟိုပက်ကွန်း၊ ဂရင်းဝုနှင့် ဂရင်းပွန်းတို့သည် အပန်းဖြေ သွားရောက်လည်ပတ်ရာ စခန်းများ ဖြစ်လေသည်။

နယူး ဂျာစီပြည်နယ်၏ ရာသီဥတုသည် မပြင်းထန်လှပေ။ သို့သော်လည်း ပျမ်းမျှအပူချိန်သည် အနောက်မြောက်ပိုင်းရှိ တောင်ကုန်းများတွင်၊ ကမ်းမြောင်လွင်ပြင်မှာထက် ပိုမိုနည်းပါး၏။ အက်ပလက်ချီယန် တောင်တန်းဒေသနှင့် တောင်ကြားဒေသတွင် အနောက်ဖက်နှင့် မြောက်ဖက်ဆီမှ မုန်တိုင်းများ မကြာခဏ ကျရောက်တတ်သည်။ အတ္တလန္တိတ် စီတီမြို့နှင့်တကွ အခြား ပင်လယ်ကမ်းခြေ စခန်းသာ မြို့များသည် ပင်လယ်ပြင်မှ တိုက်ခတ်သော လေပြေလေညှင်းများကြောင့်၊ နွေရာသီတွင် အေး၍ ဆောင်းရာသီတွင် နွေးသည်။ တနယ်လုံးတွင် စိုက်ပျိုးလုပ်ကိုင်နိုင်အောင် အလုံအလောက် မိုးရွာသွန်း၏။ သို့သော် ပိုမိုမြင့်သောအပိုင်းများတွင် မိုးသည် ပို၍ရွာသွန်းလေသည်။

နယူး ဂျာစီပြည်နယ်၏ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ်တွင် ခန့်မှန်းခြေ ၄,၈၃၅,၃၂၉ ယောက်ဖြစ်၏။

နယူး ဂျာစီပြည်နယ်သည် ဗဟိုကျသော အနေအထားကြောင့်ရင်း၊ သယ်ယူပို့ဆောင်ရေး ကောင်းသောကြောင့်ရင်း ယခုအခါ ကုန်ထုတ်လုပ်ရာပြည်နယ်အဖြစ် အလွန် ထင်ရှားလျက်ရှိသည်။ နယူး ယော့မြို့တော်အနီးရှိ မြို့ကြီးများမှ နယူး ဂျာစီပြည်နယ်၏ မြို့တော် ထရင်တန်မြို့အထိ မီးရထားလမ်းများတလျှောက်တွင်ရင်း၊ ထရင်တန်မြို့တော်မှ တဖန် တောင်ဖက် သင်္ဘောကျင်းများတည်ရှိရာ ကမ်မဒင်မြို့အထိ ဒဲလဝဲယားမြစ်တလျှောက်တွင်ရင်း၊ စက်ရုံကြီးများ အနှံ့အပြား တည်ရှိလေသည်။ စက်မှုလက်မှုလုပ်ငန်း ထွက်ကုန်များမှာ အထည်၊ အဝတ်၊ ဓာတုဗေဒပစ္စည်း၊ ရေနံထွက်ပစ္စည်း၊ ချေးချွတ်ပြီးကြေးနီ၊ စက်ကရိယာ၊ သားရေထည်နှင့် ကြက်ပေါင်စေးထည် စသည်တို့ဖြစ်၏။

စိုက်ပျိုးရေးလုပ်ငန်းသည် အရေးပါသော လုပ်ငန်းကြီးတရပ် ဖြစ်၏။ ပြည်နယ်တခုလုံးတွင် မြေဧက ၂,၀၀၀,၀၀၀ ကျော် စိုက်ပျိုးလုပ်ကိုင်သည်။ ထွက်ကုန်များမှာ ဟင်းသီး ဟင်းရွက်၊ သစ်သီးနှင့် ဗယ်ရီသီး၊ အာလူး၊ ပြောင်းဖူး၊ ကြက်နှင့် ကြက်ဥ၊ နို့ထွက်ပစ္စည်း စသည်တို့ ဖြစ်လေသည်။

နယူး ဂျာစီပြည်နယ်၏မြို့တော်သည် လူဦးရေ ၁၂၈,၀၀၉ ယောက်နေထိုင်သည့် ထရင်တန်မြို့ဖြစ်၏။ သို့သော် နျူးအတ်မြို့သည် နယူး ဂျာစီပြည်နယ်တွင်အကြီးဆုံးသော မြို့ဖြစ်သည်။ လူဦးရေ ၄၃၈,၇၇၆ ယောက် နေထိုင်သည့် အပြင်၊ ကမ္ဘာပေါ်ရှိ အကြီးဆုံးသောလေဆိပ်များ၌ အပါအဝင်ဖြစ်သည့် လေဆိပ်တခုရှိလေသည်။ ထိုနျူးအတ်မြို့နှင့်တကွ၊ ဟိုဗိုကင်မြို့၊ ဂျာစီ စီတီမြို့နှင့် အယ်လစ်ဇဗက်မြို့တို့သည် နယူး ယော့မြို့ကြီး၏ ဆင်ခြေဖုံးရပ်ကွက်များ သဖွယ် ဖြစ်၏။ အရှေ့ဖက်ကမ်းခြေတောင်ပိုင်းရှိ အတ္တလန္တိတ် စီတီမြို့မှာ တနှစ်ပတ်လုံး ကစားပွဲများ ကျင်းပရာ ဌာနဖြစ်၍၊ နှစ်စဉ် လူပေါင်းမြောက်မြားစွာ လာရောက်သည်။

ပြည်နယ်အတွင်းရှိ ပြည်သူ့အခလွတ်ကျောင်းများမှာ ထူးခြားထင်ရှားသည်။ ထိုကျောင်းများသို့ အသက်အရွယ် ၅ နှစ်မှ ၂၀ အထိဖြစ်သော ကလေးသူငယ်များ တက်ရောက်သင်ကြားနိုင်၍၊ ၇ နှစ်မှ ၁၆ နှစ်အကြားရှိ ကလေးသူငယ်များအဖို့သော်ကား မသင်မနေရပညာရေးစံနစ်ဖြင့် သင်

ကြားရလေသည်။ နယူး ဂျာစီပြည်နယ်တွင် တည်ရှိသော တက္ကသိုလ်ကျောင်းများမှာ ပရင့်စတန်တက္ကသိုလ်၊ ရတ်ဂျာ တက္ကသိုလ်၊ ချူးအတ်တက္ကသိုလ်နှင့် ဒရူးတက္ကသိုလ်တို့ ဖြစ်သည်။

နယူး ဂျာစီပြည်နယ်၏ ပင်လယ်ကမ်းခြေတလျှောက်တွင် ပဌမဆုံးအကြိမ် ရွက်လွှင့်သွားလာခဲ့သူဥရောပတိုက်သားမှာ ပြင်သစ်အစိုးရ အမှုထမ်းတဦး ဖြစ်သော ဣတာလျံ လူမျိုး ဂျီဗန်နီ ဒေ ဗေရာဇာနိုဆိုသူဖြစ်၏။ ထိုသူသည် ၁၅၂၄ ခုနှစ်၌ ဆန် ဒီဟွတ်အနီး ဒေသတခုသို့ ဆိုက်ရောက်ခဲ့သည်။ ၁၆၀၉ ခုနှစ်၌ ဒပ်ချအရှေ့အိန္ဒိယကုမ္ပဏီတွင် အမှုထမ်းလျက် ရှိသော ဟင်နရီ ဟဒ်ဆင်သည် ယခု နယူး ယော့ဆိပ်ကမ်း တည်ရာသို့ ဆိုက်ရောက်လာခဲ့ပြီးနောက်၊ စူးစမ်း ရှာဖွေရေး အဖွဲ့တခုကို ချူးအတ်ပင်လယ်အော်တလျှောက်၌ လှည့်လည် ရှာဖွေရန် စေလွှတ်လိုက်၍၊ သူကိုယ်တိုင်ကမူ ဟဒ်ဆန် မြစ်ကြောင်းတလျှောက် ဆန်တက်သွားခဲ့၏။ လေးနှစ်ခန့် ကြာသောအခါ၊ ဒပ်ချတို့သည် ဗာဂျင် (ယခု ဂျာစီ စီတီမြို့) တွင် ပဌမဆုံးအခြေစိုက်ကာ နေထိုင်ခဲ့ကြသည်။ သို့ဖြစ်၍ ယခု နယူး ဂျာစီပြည်နယ် တည်ရှိရာနယ်ပယ်သည် နယူး နယ်သာလန်ပြည်နယ်၏ တစိတ်တဒေသဖြစ်ခဲ့လေသည်။ နယူး နယ်သာလန်ဆိုသည်မှာ ယခု နယူး ယော့မြို့ တည်ရှိရာ ဒေသအနီးတွင် ဒပ်ချတို့ရှေးဦးစွာ အခြေ စိုက် နေထိုင်ခဲ့သော နယ်ပယ်ဒေသကို ခေါ်ဝေါ်လေသည်။ ပြည်မကြီး နှင့် နယူး အမ်စတာဒမ် (နယူး ယော့) မှ တောင်သူ လယ်လုပ်များနှင့် ကုန်သည်များသည် ဗာဂျင်နှင့် ဟဒ်ဆန် ကောင်တီများတွင် လာရောက်အခြေစိုက်နေထိုင်ခဲ့ကြ၏။ ထိုနောက်တွင် ဆွီဒင်ပြည့်ရှင် ဂပ်စတားဗပ် အဒေါဖတ်ဘုရင် သည် ထိုနယ်ပယ်ဒေသကို ဒပ်ချတို့လက်မှ ရယူရန်အတွက် ဆွီဒင်လူမျိုးနယ်သစ်ရှာသူတို့ကို စေလွှတ်ခဲ့ရာ၊ ယင်းတို့သည် ဒဲလဝဲယားမြစ်ဝှမ်းတလျှောက်တွင် အခြေစိုက်နေထိုင် ခဲ့ကြ၏။

များမကြာမီ အင်္ဂလိပ်နှင့်ဒပ်ချတို့ ကိုလိုနီနယ်သစ်များ အရေးနှင့် စပ်လျဉ်း၍ စစ်မက်အကြိမ်ကြိမ်ဖြစ်ပွားခဲ့ရာ၊ ၁၆၆၄ ခုနှစ်တွင်၊ ဂျာစီနယ်ပယ်များအပါအဝင် ကမ္ဘာသစ်ရှိ ဒပ်ချ ပိုင်နယ်များသည် အင်္ဂလိပ်တို့၏ လက်တွင်းသို့ ကျရောက် သွားလေသည်။ ဂျာစီနယ်ပယ်များကို လော့ ဂျွန် ဗာကလေနှင့် ဆာ ဂျော့ ကာတာရက်တို့အား ပေးခဲ့၏။ အသင့်အတင့် လွတ်လပ်သော အုပ်ချုပ်ရေးမျိုးကို တည်ထောင် ထားရှိခဲ့သဖြင့်၊ နယူး အင်္ဂလန်မှ လူအမြောက်အမြား လာရောက်အခြေစိုက်နေထိုင်ခဲ့ကြသည်။ ဆာ ဂျော့ ကာတာရက်က ဂျာစီအရှေ့ပိုင်းကို ကြီးကြပ်အုပ်ချုပ်ခဲ့၍၊ လော့ ဗာကလေက ဂျာစီအနောက်ပိုင်းကို ကြီးကြပ်အုပ်ချုပ်ခဲ့ သည်။ သို့သော်လော့ ဗာကလေသည် ဂျာစီအနောက်ပိုင်း တွင် မိမိရရှိထားသော အကျိုးခံစားခွင့်တို့ကို သူတပါးအား ရောင်းစားလိုက်လေသည်။ ၁၇၀၂ ခုနှစ်တွင် ဂျာစီ အနောက်ပိုင်းနှင့်အရှေ့ပိုင်းတို့ကို ကရောင်းကိုလိုနီနယ်အဖြစ် ပူးပေါင်းလိုက်သည်။

အမေရိကန် လွတ်မြောက်ရေး စစ်ပွဲကြီးအတွင်းက နယူး ဂျာစီပြည်နယ်တွင် သဘောကွဲလွဲမှုများ ရှိခဲ့၏။ အင်္ဂလန် ပြည်အပေါ် တွင် သစ္စာမြဲသူ ရှိသင့်သလောက်ရှိခဲ့သော်လည်း၊ အများအားဖြင့် တော်လှန်မှုကြီးကို သဘောကျ ခဲ့သဖြင့်၊ ၁၇၇၆ ခုနှစ် ဇူလိုင်လ ၂ ရက်နေ့တွင် လွတ်လပ်ရေး ကျေညာစာတမ်းတစောင် ထုတ်ပြန်ခဲ့လေသည်။ ထိုပြင် ပြည်နယ်တွင်းဝယ် တိုက်ပွဲပေါင်း တရာနီးပါးဖြစ်ပွားခဲ့၏။

စစ်ပွဲကြီးအပြီးတွင် အခြေခံဥပဒေကို ရေးဆွဲကြသည့် အခါ၊ နယူး ဂျာစီပြည်နယ်က ပြည်နယ်ကလေးများ၏ အကျိုးကို ရှေ့ဆောင်ရှေ့ရွက်ပြုကာ ပြောဆိုခဲ့သည်။ ထိုကြောင့် ပြည်ထောင်စု၏ ဆီးနိတ်ခေါ် အထက်လွှတ်တော် သို့ ပြည်နယ်မရွေး ကိုယ်စားလှယ်တော်ဦးရေ ညီတူညီမျှ စေလွှတ်ခွင့် ရရှိခဲ့၏။ ၁၇၈၇ ခုနှစ်တွင် နယူး ဂျာစီပြည်နယ် သည် အခြေခံဥပဒေကို အတည်ပြုခဲ့ရာ၊ ထိုသို့အတည်ပြုခဲ့ သော ပြည်နယ်များတွင် တတိယမြောက် ပြည်နယ်ဖြစ် လေသည်။

၁၉ ရာစုနှစ်အစလောက်တွင် နယူး ဂျာစီပြည်နယ်သည် အယ်လက်ဇန္ဒာ ဟယ်မီလတန်ခေါင်းဆောင်သော ပြည်ထောင်စုဂိုဏ်းသားနှင့် ပြည်နယ်များ၌ အာဏာအများဆုံး ရှိ ရ မည် ဟု ဆို သော အယ်ရွန် ဗား ခေါင်းဆောင်သည့် ဂိုဏ်းသားတို့၏ နိုင်ငံရေးအချင်းများမှုတွင် အချက်အခြာ ဖြစ်ခဲ့၏။ ၁၈၁၂ ခုနှစ်စစ်ပွဲတွင် နယူး ဂျာစီပြည်နယ်ကို ဖြတ်သန်း၍၊ စစ်သားများကို ကုန်းကြောင်းသယ်ဆောင်ခဲ့ရ လေသည်။ ထိုကြောင့်ပင်လျှင် အမေရိကန်ပြည်ထောင်စု တွင် မီးရထားလမ်း ဖောက်လုပ်ခွင့်အမိန့်ကို ပဌမဆုံးအကြိမ် ထုတ်ပေးခဲ့၏။ အမေရိကန်ပြည်တွင်းစစ်ပွဲ ဖြစ်ပွားခဲ့စဉ်က နယူး ဂျာစီပြည်နယ်သည် မြောက်ပိုင်းကို အားပေးခဲ့သည်။ သို့ရာတွင် ပြည်တွင်းစစ်ဖြစ်ပွားသည်ကို မလိုလားသည့် 'ကော့ပါးဟက်' ခေါ် အင်အားကောင်းသော အုပ်စုတစု လည်း ထွန်းကားလာခဲ့သည်။

နယူး ဂျာစီပြည်နယ်သည် ၁၈၇၀ ပြည့်နှစ်အတွင်းမှ အစပြု၍ အကြီးအကျယ် ကြီးပွားတိုးတက်လာခဲ့သည်။ မြို့ကြီး များသည် မယုံကြည်နိုင်လောက်အောင်ပင် လျင်မြန်စွာ တိုးတက်ခဲ့၏။ ကုန်ထုတ်လုပ်ငန်းနှင့် စိုက်ပျိုးရေးလုပ်ငန်းများ လည်း အပြိုင်အဆိုင် အကြီးအကျယ် တိုးတက်လာခဲ့သည်။ ၁၉၀၀ ပြည့်နှစ်လောက်မှအစပြု၍၊ နယူး ဂျာစီပြည်နယ် သည် ခေတ်သစ်တွင် နေရေးထိုင်ရေးအတွက် လိုအပ်သမျှ အားလုံးလိုလိုကို ဖြည့်စွက်ပေးနေသည့် နိုင်ငံ၏ အလုပ်ရုံကြီး

တခုသဖွယ် ဖြစ်လာခဲ့လေသည်။ ပဌမကမ္ဘာစစ်ကြီးအတွင်းက ထောင်ပေါင်းများစွာသော အမေရိကန်စစ်သားများကို ဟိုဗိုကင်မြို့မှတဆင့် နိုင်ငံခြားစစ်မြေပြင်များသို့ စေလွှတ်ခဲ့သည်။ ပြည်နယ်အတွင်း၌လည်း စစ်သားများကို လေ့ကျင့်သင်ကြားပေးခဲ့၏။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ စစ်သားများစုဆောင်းပေးရုံသာမက၊ စစ်သုံးပစ္စည်းများကိုလည်း လုပ်ဆောင်ပေးခဲ့၏။

**နယူး ဆောက်သဝေး ပြည်နယ်**။ ။နယူး ဆောက်သဝေးပြည်နယ်သည် ဩစတြေးလီးယားတိုက်တွင် လူဦးရေ အများဆုံးပြည်နယ် ဖြစ်သည်။ ထိုပြည်နယ်ကို အခြားသော ပြည်နယ်တို့ထက် ဦးစွာတည်ထောင်သည်။ တည်ရာဌာနမှာ အရှေ့တောင်ဖက်ကမ်းခြေ၊ ကွင်းစလန်ပြည်နယ်နှင့် ဝိတိုရိယပြည်နယ်တို့အကြားဖြစ်၏။ ပြည်နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၃၀၉,၄၃၃ မိုင်ရှိသည်။ ထိုပြည်နယ်တွင် ဂရိတ် ဒီဗိုက်ဒင်း တောင်တန်းကြီးနှင့် ကျောက်ဆောင်ပေါများသော ပင်လယ်ကမ်းရိုးတန်းတို့အကြား၌ မြေဩဇာကောင်းမွန်သည့် ကမ်းမြောင်ဒေသတည်ရှိသည်။ ထိုဂရိတ် ဒီဗိုက်ဒင်းတောင်တန်းကြီးသည် ကမ်းရိုးတန်းနှင့် ယှဉ်၍၊ တောင်မှမြောက်သို့ တန်းလျက်တည်ရှိလေသည်။ ထိုတောင်တန်းကြီးတွင် အမြင့်ဆုံးသော တောင်သည် ၇၃၂၈ ပေမြင့်သော ကောရှုပ်စကိုတောင်ဖြစ်၏။ ထိုတောင်တန်း၏ အနောက်ဖက်တွင် ကုန်းပြင်မြင့်တည်ရှိပြီးလျှင်၊ ထိုကုန်းပြင်မြင့်၏ အနောက်ဖက်တွင် မြက်ခင်းပြင်များတည်ရှိလေသည်။

မာရေးမြစ်သည် နယူး ဆောက်သဝေးပြည်နယ်တွင် အကြီးဆုံးမြစ်ဖြစ်၏။ ထိုမြစ်သည် နယူး ဆောက်သဝေးပြည်နယ်နှင့် ဝိတိုရိယပြည်နယ်တို့ကို ပိုင်းခြားထားသည်။ ထိုမြစ်၏ မြစ်လက်တက်များသည် ပြည်နယ်ကို ဖြတ်သန်းကာ စီးဆင်းနေကြသော၊ ဒါလင်၊ ဗီလဗုန်၊ မာရမ်ဗစ်ဂျီနှင့် လက်ခလန်တို့ဖြစ်၏။ ထိုပြင် အရှေ့ဖက်တောင်ခြေများမှ၊ ကမ်းရိုးတန်းဖက်သို့စီးဆင်းသော မြစ်ချောင်းများစွာလည်း ရှိပေသေးသည်။

နယူး ဆောက်သဝေးပြည်နယ်၏ ပင်လယ်ကမ်းရိုးတန်းသည် အလွန် ကွေ့ကောက်၍၊ ကျောက်ဆောင်ထူထပ်သဖြင့်၊ သင်္ဘောဆိပ်ကောင်းများစွာရှိလေသည်။ ထိုအထဲတွင် ပြည်နယ်၏ မြို့တော်ဖြစ်သော ဆစ်ဒနီမြို့နှင့် ပို့ဂျက္ကဆန်တို့လည်း ပါဝင်၏။ ဆစ်ဒနီမြို့သည် ဩစတြေးလီးယားတိုက်၏ အကြီးဆုံးမြို့ဖြစ်သည့်ပြင်၊ ကမ္ဘာ့ တောင်ပိုင်း၌ ဗြိတိသျှတို့၏ အကြီးကျယ်ဆုံးသော ကူးသန်းရောင်းဝယ်ရေးဌာနလည်း ဖြစ်သည်။

နယူး ဆောက်သဝေးပြည်နယ်သည် သမပိုင်းတွင် ကျရောက်သော ပြည်နယ်ဖြစ်သည့်အတိုင်း၊ ရာသီဥတု ညီညွတ်မျှတသည်။ သို့သော် ခြောက်သွေ့ပူပြင်းသော အနောက်ဖက်ရှိ လွင်ပြင်များနှင့် အပူအအေး မျှတသော ကမ်းခြေတလျှောက်အကြားတွင်မူ၊ ရာသီဥတုသည် အမျိုးမျိုးဖြစ်



နယူးဆောက်သဝေးပြည်နယ် ဆစ်ဒနီမြို့တော်သည် ဩစတြေးလီးယားတိုက်၏ အကြီးဆုံးမြို့လည်း ဖြစ်သည်။



**ဆစ်ဒနီမြို့ လမ်းတလမ်းရှုခင်း**

သည်။ ထိုဒေသ၌ တနှစ်လုံးလိုလိုပင် မိုးရွာသွန်း၏။ သို့သော် ကမ်းခြေတလျှောက်တွင် မိုးရေချိန် ၆၄ လက်မ ရွာသွန်းရာမှ၊ အတွင်းဖက်ကျလေလေ တဖြည်းဖြည်းလျော့နည်းသွားလေလေဖြစ်ပြီးလျှင်၊ အနောက်ဖက် လွင်ပြင်များ၌ကား၊ ၁၀ လက်မခန့်သာ ရွာသွန်းတော့သည်။

နယူး ဆောက်သဝေးပြည်နယ်သည် အဖိုးတန်တွင်းထွက်သတ္တု အမြောက်အမြားထွက်သည်။ ရွှေကို ထိုနယ်၌ ပဌမဦးဆုံး တွေ့ရှိခဲ့ရ၍၊ ထိုနယ်မှ အများဆုံးထွက်ခဲ့သည်။ သို့သော် ယခုအခါ ငွေမှာ ရွှေကဲ့သို့ပင် အမြောက်အမြားထွက်နေလေသည်။ ဗရုတ်ကင်းဟီးမြို့ အနီးမှ သံနှင့် ခဲ အမြောက်အမြားထွက်၍၊ ထိုသတ္တုများသည် ဩစတြေးလီးယားတိုက်၌ ပဌမဦးဆုံးတွေ့ရှိသော သတ္တုများဖြစ်ကြသည်။ နျူးကပ်ဆဲမြို့သည် ကျောက်မီးသွေးထွက်ရာဒေသ၏ ဗဟိုဌာနဖြစ်၏။ ထိုပြည်နယ်မှ ထွက်သော အခြားသတ္တုများမှာ သွပ်၊ ကြေးနီ၊ သံ၊ သံဖြူ၊ ခဲ၊ ပလက်တီနမ်၊ မက်ဂနီဆိုက်နှင့် ရွှဲများဖြစ်၏။ ထိုပြည်နယ်မှ တနှစ်လျှင် ကျောက်မီးသွေးတန်ချိန် ၁၂ သန်းခန့် ထွက်သည်။ ဩစတြေးလီးယားတတိုက်လုံးမှထွက်သော တွင်းထွက်သတ္တုများ၏ ထက်ဝက်မှာ နယူး ဆောက်သဝေးပြည်နယ်မှဖြစ်သည်။ ပြည်နယ်၏ လေးပုံတပုံသည် သစ်တောကြီးများဖြင့် ဖုံးအုပ်လျက်ရှိ၍၊ ယင်းသစ်တောများမှ အဖိုးတန်သစ်များထွက်၏။

လူဦးရေမှာ ၁၉၅၄ ခုနှစ်တွင် ခန့်မှန်းခြေအရ ၃,၄၂၃,၅၂၉ ယောက်ဖြစ်သည်။ ဆစ်ဒနီမြို့တော်တွင် ထိုလူဦးရေ၏ ထက်ဝက်ကျော်နေထိုင်ကြ၏။ ထိုပြည်နယ်တွင် နေထိုင်ကြသူများသည် ဗြိတိသျှလူမျိုးတို့၏ အနွယ်များသာ များပြားသည်။ သို့သော် အခြားဥရောပတိုက်သားအနွယ်များလည်း ရှိကြ၏။ ထိုဒေသ၏ တိုင်းဦးသားလူမျိုးများကား၊ ရာပေါင်းအနည်းငယ်ခန့်သာ ကျန်ရှိလေတော့၏။ သိုး၊ နွား၊ မြင်းမွေးခြင်းသည် ထိုပြည်နယ်၏ ကြီးကျယ်သောလုပ်ငန်းတရပ် ဖြစ်လေသည်။ အနောက်ဖက်ရှိ မြက်ခင်းပြင်ကြီးများ၊ မြောက်ဖက် ရိဗာရီးနားခရိုင်နှင့် တောင်ဖက်ရှိ ဒါလင်ကုန်းပြင်မြက်ခင်းကြီးများသည် စားကျက်ကောင်းကြီးများ ဖြစ်ကြသည်။ ထို့ပြင် ပြည်နယ်တခုလုံး၏ စိုက်ပျိုးဧရိယာသည် ဧကပေါင်း ၇ သန်းမျှဖြစ်သည်။ ဂျုံကို အများဆုံးစိုက်ပျိုးသည်။ အခြားကောက်ပဲသီးနှံများမှာ မြက်ခြောက်၊ ပြောင်း၊ ကျွဲနွားစာ၊ အုတ်ဂျုံ၊ အာလူးနှင့်ဆေးတို့ဖြစ်၏။ ကြံ၊ ငှက်ပျော စသော အပူပိုင်းပေါက် အပင်မျိုးများကို မြောက်ပိုင်းတွင် စိုက်ပျိုးကြသည်။

ထိုပြည်နယ်၏ အဓိကထွက်ကုန်များမှာ သိုးမွေး၊ ထောပတ်၊ ဂျုံ၊ သစ်သီးများ၊ အမဲသား၊ သားရေစိမ်းနှင့် သားရေခြောက်များ၊ ခဲ၊ သံ၊ သံမဏိ၊ စက်ကရိယာ၊ ဘယဆေးများနှင့် အထည်အလိပ်များ ဖြစ်၏။ ဝင်ကုန်များမှာ ကုန်ချောများသာဖြစ်လေသည်။

နယူး ဆောက်သဝေးပြည်နယ်၏ အုပ်ချုပ်ရေးအကြီး



**ဆစ်ဒနီမြို့ ရေချိုးဆိပ်**



နယူး ဆောက်သဝေးပြည်နယ် စားကျက်ကောင်းရာ ကုန်းပြင်မြင့်ပိုင်းဒေသ ရှုခင်း

အကဲသည် ဗြိတိသျှဘုရင်မင်းမြတ်က ခန့်ထားသော ဘုရင်ခံဖြစ်သည်။ သို့သော် အကယ်စင်စစ်အားဖြင့်ကား၊ ဝန်ကြီးချုပ်ကသာ အုပ်ချုပ်ရေးကို စီမံခန့်ခွဲလေသည်။ ဝန်ကြီးချုပ်အား ကူညီရန် ဝန်ကြီးအဖွဲ့ရှိသည်။ ဥပဒေပြု လွှတ်တော်နှစ်ရပ် ပါဝင်သော ပြည်နယ်ပါလီမန်လည်း ရှိ၏။ အထက်လွှတ်တော်တွင်အမတ်ပေါင်း ၆၀ ပါဝင်၍၊ အောက်လွှတ်တော်တွင်အမတ်ပေါင်း ၉၀ ပါဝင်လေသည်။ အောက်လွှတ်တော်အမတ်များကို ပြည်သူလူထုက ရွေးကောက်တင်မြှောက်၏။ အထက်လွှတ်တော်အမတ်များအနက် ၄ ပုံ ၁ ပုံကို ၃ နှစ်တကြိမ် အလှည့်ကျ လွှတ်တော်နှစ်ရပ်လုံးက ရွေးကောက်တင်မြှောက်လေသည်။

အသက် ၁၅ နှစ်အောက် ကလေးသူငယ်တိုင်း ကျောင်းများတွင် တက်ရောက်ပညာသင်ကြားရလေသည်။ အစိုးရကျောင်းပေါင်း ၃၀၀၀ ခန့် ရှိသည့်ပြင်၊ အလွတ်ပညာသင်ကျောင်းများလည်း ရှိသေးသည်။ ဆစ်ဒနီမြို့ရှိ အစိုးရတက္ကသိုလ်တွင် နှစ်စဉ်တက်ရောက်သင်ကြားသည့် ကျောင်းသားပေါင်းမှာ ၁၀,၂၂၂ ယောက် ဖြစ်လေသည်။ ထို့ပြင် အလွတ်ပညာသင် ကောလိပ်ကျောင်း ၅ ကျောင်းရှိ၍၊ အစိုးရ ဆရာအတတ်သင်ကောလိပ်ကျောင်း ၂ ကျောင်းလည်း ရှိ၏။

ဤဒေသတဝိုက်ကို ၁၇၇၀ ပြည့်နှစ်တွင် ကက်ပတိန်ကွတ်က စတင်တွေ့ရှိခဲ့ပြီးလျှင်၊ နယူး ဆောက်သဝေးဟု အမည်မှည့်ခဲ့လေသည်။ (ကွတ်၊ ကက်ပတိန် — ရှု။) ထိုစဉ်က နယူး ဆောက်သဝေးနယ်မှာ ဩစတြေးလီးယားတိုက် အရှေ့ပိုင်းတခုလုံးကို ဆိုလို၍၊ ယခု ကွင်းစလန်ပြည်နယ်၊ ဝိတိုရိယပြည်နယ်ဟု ခေါ်နေကြသောဒေသများနှင့် တောင် ဩစတြေးလီးယားပြည်နယ် တစိတ်တဒေသ ပါဝင်လေသည်။ နောက် ၁၈ နှစ်ကြာသောအခါ၊ ယခု ဆစ်ဒနီမြို့တည်ရာနေရာအနီးရှိ ပို့ဂျက်ဆန်တွင် ပဌမဆုံး အကျဉ်းသမားစခန်းတခု ဖွင့်လှစ်၍၊ ထိုဒေသကို အကျဉ်းသမားများ ပို့ထားရာ တကျွန်းအဖြစ်အသုံးပြုခဲ့၏။ ၁၉ ရာစုအစလောက်တွင် အကျဉ်းသမားမဟုတ်သူ လူလွတ်များလည်း အခြေစိုက်နေထိုင်ရန် စတင်ရောက်ရှိလာကြလေသည်။ ၁၈၅၁ ခုနှစ်တွင် ထိုပြည်နယ်၌ ရွှေများတွေ့ရှိခဲ့ရာ၊ လူဦးရေနှင့် စီးပွားရေးအခြေအနေ တိုးတက်လာလေသည်။ ၁၈၄၂ ခုနှစ်တွင် အခြေခံဥပဒေတရပ်ပြဋ္ဌာန်းခဲ့သော်လည်း၊ ၁၈၅၆ ခုနှစ်ကျမှသာလျှင် ကိုယ်ပိုင်အုပ်ချုပ်ရေး ရရှိခဲ့လေသည်။ ၁၈၅၁ ခုနှစ်တွင် ဝိတိုရိယနယ်ကို နယူး ဆောက်သဝေးပြည်နယ်မှ ခွဲထုတ်ပြီးသော်၊ သီးခြားပြည်နယ်အဖြစ် တည်ထောင်ခဲ့၏။ ၁၈၅၉ ခုနှစ်တွင် တဖန် ကွင်းစလန်နယ်ကို ခွဲထုတ်ပြီးလျှင်၊ သီးခြားပြည်နယ်အဖြစ် တည်ထောင်ခဲ့ပြန်လေသည်။ ၁၉၀၁ ခုနှစ်တွင် နယူးဆောက်သဝေးပြည်နယ်သည်၊ ဩစတြေးလီးယား ဓနသဟာယ ပြည်ထောင်စုနိုင်ငံတွင် ပါဝင်ခဲ့လေသည်။ ယခုအခါတွင်ကား နယူး ဆောက်သဝေးပြည်နယ်သည် ဩစတြေးလီးယားတိုက်တွင် စက်ကရိယာကြီးများ ထုတ်လုပ်ရာ၌ အရေးပါသော ဗဟိုဌာနတခုဖြစ်သည့်ပြင်၊ သိုးမွေး၊ ဂျုံနှင့် သတ္တုများအထွက်တွင် ရှေ့တန်းမှ လိုက်နေလေသည်။

**နယူးဇီလန်နိုင်ငံ။** ။နယူးဇီလန်နိုင်ငံသည် ဩစတြေးလီးယားနိုင်ငံ၏ အရှေ့တောင်ဖက် မိုင် ၁၂ဝဝ ကျော်အကွာ၊ ပစိဖိတ်သမုဒ္ဒရာတောင်ပိုင်းတွင် တည်ရှိသည့် မြောက်ကျွန်းနှင့် တောင်ကျွန်းဟု ခေါ်သော ကျွန်းကြီးနှစ်ကျွန်းနှင့် ကျွန်းငယ်အမြောက်အများတို့ကို စုပေါင်းကာ ဖွဲ့စည်း တည်ထောင်ထားသော၊ ဗြိတိသျှ ဓနသဟာယအဖွဲ့ဝင် နိုင်ငံတနိုင်ငံဖြစ်သည်။ အကျယ်အဝန်းမှာ ကျွန်းငယ်များပါ စတုရန်းမိုင် ၁ဝ၃,၇၃၆ မိုင်ဖြစ်၏။ ကျွန်းများအလိုက် အကျယ်အဝန်းမှာ မြောက်ကျွန်းသည် စတုရန်းမိုင် ၄၄,၂၈၁ မိုင် ကျယ်၏။ တောင်ကျွန်းသည် ၅၈,ဝ၉၃ မိုင် ကျယ်၏။ စတူးဝပ်ကျွန်းသည် မိုင် ၆၇ဝ ကျယ်၏။ ချက်တမ်ကျွန်းသည် ၃၇၂ မိုင် ကျယ်၏။ အခြားကျွန်းငယ်များမှာ စတုရန်းမိုင် ၃၂ဝ ကျယ်၏။ မြောက်ကျွန်းနှင့် တောင်ကျွန်းတို့သည် ကွတ် ရေလက်ကြားကလေးတခုမျှသာ ခြားနေသော်လည်း၊ သွင်ပြင်နေထားခြင်းကား မတူညီကြချေ။ မြောက်ကျွန်းသည် တောင်ကျွန်းထက် သေးငယ်သော်လည်း၊ တောင်ကျွန်းထက် ပိုနွေးသည့်အပြင်၊ လယ်ယာစိုက်ပျိုးလုပ်ကိုင်ရန် ပိုမိုသင့်လျော်သော မြေများရှိသည်။ ယင်း၏ မြောက်ဖက်ပိုင်းသည် အပူပိုင်းဆန် ဒေသဖြစ်၏။



ရေတံခွန်စိမ့်စမ်းတို့ဖြင့် လှပတင့်တယ် ရှုချင့်စဖွယ် ဖြစ်သော
နယူးဇီလန်နိုင်ငံ၏ ရှုခင်းတရပ်




နယူးဇီလန်နိုင်ငံ တည်နေရာပြမြေပုံ၊

အလယ်ပိုင်းကုန်းပြင်မြင့်၌ မီးတောင်များရှိ၍၊ ရိုတိုရူးအားမြို့အနီးအနားတဝိုက်တွင် ရေပူစမ်းများ၊ ရေပူပန်းများနှင့် နဂါးဗွက်အိုင်များရှိလေသည်။ မြောက်ကျွန်း၏ အတွင်းပိုင်းသည် တောင်ထူထပ်သည်။ ထို့ကြောင့်ပင် မြို့ကြီးများသည် ပင်လယ်ကမ်းခြေတလျှောက်တွင်သာ တည်ထွန်းပေါ်ပေါက်လာခဲ့ပေသည်။ တောင်ကျွန်း၏ မြေမျက်နှာပြင်သည် မြောက်ကျွန်းထက် ပိုမိုမညီမညွတ်ရှိ၏။ ထိုကျွန်း၏ အနောက်တောင်ဖက်ကမ်းခြေတွင် လှပတင့်တယ် ရှုချင့်စဖွယ်ဖြစ်သော ဖီအော့များ ရှိသည်။ တောင်ပိုင်း အဲ့လပတောင်တန်းသည် နယူးဇီလန်နိုင်ငံတွင် အကြီးဆုံးသော တောင်တန်းဖြစ်၍၊ တောင်ကျွန်း တောင်ဖက်ဖျားမှ မြောက်ဖက်ဖျားအထိ တကျွန်းလုံးကို ဖြတ်သန်းကာ တည်ရှိလေသည်။ ထိုတောင်တန်းတွင် အမြင့်ဆုံးသော တောင်ထွတ်မှာ ၁၂,၃၄၉ ပေမြင့်သည့် ကွတ် တောင်ထွတ်ဖြစ်သည်။

မြောက်ကျွန်းနှင့် တောင်ကျွန်းနှစ်ကျွန်းစလုံးရှိ မြစ်များသည် နက်၍ ရေစီးသန်၏။ ထင်ရှားသော မြစ်များမှာ ဝေါ်င်ဂါနူးအီး၊ ကလူးသာ၊ ဝိုင်ရိုးအာ၊ တိုင်အာရီးနှင့် ဝိုင်နူးအီးအိုမားတားတို့ ဖြစ်လေသည်။ တောင်ကျွန်းအရှေ့ပိုင်းဆင်ခြေလျှောများတွင် အိုင်ငယ်ကလေးများ အနှံ့အပြားရှိ၏။ မြောက်ကျွန်းတွင်ကား တောင်ကျွန်းလောက် အိုင်များ မပေါများလှပေ။ ထင်ရှားသော အိုင်များမှာ



နယူးဇီလန်နိုင်ငံရှိ တီးအာနာအူးအိုင်

တောင်ပို့၊ တေးအာနော်၊ ဝါးကားတီးပူးနှင့် ဝါးနကား တို့ဖြစ်၏။

နယူး ဇီလန်နိုင်ငံ၏ ဒေသတိုင်းမှာလိုလိုပင် ရာသီဥတုမှာ မကြမ်းတမ်းလှပေ။ ပင်လယ်မှ လေပြေ လေညှင်းများ တိုက်ခတ်သောကြောင့်၊ နွေရာသီတွင် အေး၍၊ ဆောင်းရာသီတွင် အသင့်အတင့် နွေးလေသည်။ လွင်ပြင်များတွင် နှင်းများကျခဲ့သော်လည်း၊ တောင်တန်းများမှာကား တနှစ်ပတ်လုံး နှင်းများ ဖုံးအုပ်လျက်ရှိ၏။ တနိုင်ငံလုံး အညီအမျှပျံ့နှံ့စွာ မိုးရွာသွန်း၏။ သို့သော်လည်း အနောက်ဖက်ကမ်းခြေဒေသများမှာ တနှစ်လုံးလိုပင် မိုးကောင်းလျက်၊ အရှေ့ဖက်ကမ်းခြေရှိ အချို့သောဒေသများတွင်မူ ၂၅ လက်မမျှသာရွာသွန်းသည်။ သို့ဖြစ်၍ ယခင်က နယူးဇီလန်နိုင်ငံထက်ဝက်ခန့်မှာ သစ်တောကြီးများဖြင့် ဖုံးလွှမ်းနေခဲ့ရာ၊ စားကျက်များ ပြုလုပ်ရန်အတွက် ခုတ်ထွင်ရှင်းလင်းပစ်ခဲ့သဖြင့်၊ ယခုအခါတွင် သစ်တောများမှာ တနိုင်ငံလုံး၏ ၅ ပုံ ၁ ပုံခန့်သာ ကျန်လေတော့သည်။

နယူး ဇီလန်နိုင်ငံတွင် ၁၈၆၁ ခုနှစ်၌ စတင်တွေ့ရှိခဲ့သည့် အချိန်မှစ၍ ရွှေကို တူးဖေါ်ခဲ့၏။ ထို့ပြင် ဘော်၊ ရေနံ၊ ကျောက်မီးသွေးနှင့် သံတို့ကိုလည်း တူးဖေါ်ရရှိခဲ့သည်။

နယူး ဇီလန်နိုင်ငံ၏ လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၂,၁၇၄,၀၆၂ ယောက်ဖြစ်၏။ ယင်းတို့အနက် ၁၃၇,၁၅၁ ယောက်မှာ မာအိုရီလူမျိုးများနှင့် ယင်းတို့၏ အဆက်အနွယ်များဖြစ်လေသည်။ မာအိုရီလူမျိုးများကား၊ အင်္ဂလိပ်တို့ ရောက်မလာသေးမီကပင်၊ နယူး ဇီလန်ကျွန်းများတွင် နေထိုင်ခဲ့ကြသော တိုင်းဦးသားများဖြစ်သည်။ ယင်းတို့သည် ၁၃၅၀ ပြည့်နှစ်လောက်တွင် ပေါ်လီနီးရှင်းကျွန်းစုအရှေ့ပိုင်းမှ လာရောက်နေထိုင်သည်ဟုဆို၏။ အရပ်ရှည်၍ ကိုယ်လက်တုတ်ခိုင်ပြီးလျှင်၊ နှာခေါင်း ပြားသည်။ အသား မည်း၍၊ ဆံပင် နက်သည်။ အင်္ဂလိပ်တို့ ရောက်လာစက၊ ယင်းတို့၏ ယဉ်ကျေးမှုသည် နဝသေလခေတ် အခြေမျိုးတွင်သာ ရှိနေသေးသော်လည်း၊ သစ်သားနှင့် ကျောက်တုံးများကို ထွင်းထုရာတွင် အတော်ပင် ကျွမ်းကျင်နေကြပြီဖြစ်သည့်အပြင်၊ အဝတ်အထည်များကိုပင် အကွက်ဖေါ်ကာ ရက်လုပ်တတ်နေကြပြီ ဖြစ်၏။ အများအားဖြင့် မိန်းမ များက လယ်ယာစိုက်ပျိုးမှုကို လုပ်ကိုင်ကြ၍၊ ယောကျ်ားများ၏ အဓိကလုပ်ငန်းမှာ စစ်တိုက်ခိုက်မှုပင် ဖြစ်သည်။ ၁၈၄၀ ပြည့်နှစ်လောက်တွင် မာအိုရီလူမျိုး လူဦးရေမှာ ၄၀၀,၀၀၀ ခန့် ရှိခဲ့သော်လည်း၊ နောက်အနှစ် ၅၀ ခန့် ကြာသောအခါ၊ ၄၀,၀၀၀ ခန့်သာ ရှိတော့သည်။ ထိုအချိန်လောက်မှာပင် မာအိုရီလူငယ်ပါတီက မိမိတို့လူမျိုး ထွန်းကားတိုးတက်ရေးကို စတင်ဆောင်ရွက်လာခဲ့၏။ မာအိုရီလူမျိုးများသည် ခေတ်သစ်စိုက်ပျိုးရေးနှင့် စက်မှုလက်မှုလုပ်ငန်းနည်းနိသျှည်းတို့ကို လက်ခံကျင့်သုံးလာခဲ့သဖြင့်၊ လူဦးရေမှာ တဖြည်းဖြည်း ပြန်လည်တိုးတက် များပြားခဲ့၏။ ယခုအခါတွင် မာအိုရီတို့မှာ အခွင့်အရေးတူညီခံစားရသော နိုင်ငံသားများ ဖြစ်နေကြလေပြီ။ နယူး



မာအိုရီ အမျိုးသား



မာအိုရီ အမျိုးသမီး

ဇီလန် ပြည်သူ့လွှတ်တော်သို့ မာအိုရီလူမျိုးများ၏ ကိုယ်စားလှယ် ၄ ဦး စေလွှတ်ခွင့် ရခဲ့ပြီဖြစ်သည့်အပြင်၊ အချို့မှာ ကက်ဘိနက်အဖွဲ့ဝင် ဝန်ကြီးရာထူးများကိုပင် ထမ်းဆောင်ခဲ့ကြပြီဖြစ်၏။

နယူး ဇီလန်နိုင်ငံရှိ ဒေသများ၏ ၃ ပုံ ၂ ပုံခန့်တွင် တောင်သူလယ်သမားများ နေထိုင်လျက် ရှိကြ၏။ နယူးဇီလန်နိုင်ငံသည် မြေဩဇာ ကောင်းမွန်သည့်ပြင်၊ တိရစ္ဆာန်များကို ပြင်ပတွင် တနှစ်ပတ်လုံးထားနိုင်သည့် ရာသီဥတုမျိုးလည်း ရှိရကား၊ နွား၊ သိုး၊ ဝက်နှင့် မြင်းများကို မွေးမြူကြ၏။ သို့သော် သိုးမွေးမြူခြင်းမှာ အဓိကလုပ်ငန်း ဖြစ်သည်။ ယခုမူ သိုးမွေးအတွက်သာမဟုတ်တော့ဘဲ၊ သားရေနှင့် အသားအတွက် မွေးမြူကြသည်။ နို့ထွက်ပစ္စည်းလုပ်ငန်းမှာလည်း ထင်ရှားသော လုပ်ငန်းဖြစ်သည်။ အဓိကကောက်သီးကောက်နှံများမှာ ဂျုံ၊ မုယော၊ ဖူးပြောင်း၊ အာလူးနှင့် ကြက်သွန်တို့ ဖြစ်၏။ သစ်သီးပင်များကိုလည်း အချို့သော ဒေသများတွင် စိုက်ပျိုးလေသည်။ သိုးသားထုတ်လုပ်ရေးလုပ်ငန်းနှင့် နို့ထွက်ပစ္စည်းလုပ်ငန်းများမှာ အဓိကစက်မှုလက်မှုလုပ်ငန်းများ ဖြစ်သည်။ အခြားသော စက်မှုလက်မှုလုပ်ငန်းများသည်ကား ပြည်တွင်းလုံလောက်ရုံသာ ထုတ်လုပ်ပေးနိုင်လေသည်။ အဓိကထွက်ကုန်များမှာ ထောပတ်၊ ဒိန်ခဲ၊ ရေခဲစိမ်သိုးသား၊ သားရေစိမ်း၊ သိုးမွေးနှင့် သစ်သော့သီး ဖြစ်၏။ ဝင်ကုန်များမှာ ကုန်ချောအမျိုးမျိုးဖြစ်လေသည်။

နယူး ဇီလန်နိုင်ငံတွင် အသက် ၇ နှစ်နှင့် ၁၄ နှစ် အကြားရှိ ကလေးသူငယ်များ အားလုံး မသင်မနေရ အခမဲ့ တက်ရောက်သင်ကြားရသော ပညာရေးစံနစ်ကို ပြဋ္ဌာန်းထားရှိ၏။ မာအိုရီလူမျိုး များပြားရာ ရပ်ကွက်များတွင် ယင်းတို့၏ ကလေးသူငယ်များအတွက် သီးခြားကျောင်းများ အခမဲ့ဖွင့်လှစ်ထားရှိပေးသည်။ မြို့ကြီးများဖြစ်သော အော့ကလန်၊ ခရိုက်စ ချပ်၊ ဒန်နီဒင်နှင့် ဝယ်လင်တန်တို့တွင် တက္ကသိုလ်ကျောင်း တကျောင်းစီ ရှိ၍၊ ပါးမာစတန်၊ နော့မြို့နှင့် လင်ကွန်းမြို့တို့တွင်ကား၊ စိုက်ပျိုးရေးကောလိပ်ကျောင်း တကျောင်းစီ ရှိလေသည်။

နယူး ဇီလန် နိုင်ငံသည် လူမှု ဖူလုံရေးအတွက် အက်ဥပဒေများ ပြုလုပ်ပေးရာတွင် ရှေ့ဆောင်ဖြစ်ခဲ့၏။ ပမာဆောင်ရသော်၊ ၁၈၉၈ ခုနှစ်တွင် သက်ကြီးရွယ်ရင့် အငြိမ်းစားရိက္ခာစံနစ်ကို စတင်အသုံးပြုခဲ့ရာ၊ ထိုစံနစ်ကို အသုံးပြုခဲ့သော နိုင်ငံများတွင် နယူး ဇီလန်နိုင်ငံသည် ပဌမ ဦးဆုံးနိုင်ငံဖြစ်ခဲ့လေသည်။ ထို့ပြင် သက်ကြီးရွယ်ရင့်များ၊ အလုပ်လက်မဲ့များနှင့် နာမကျန်းဖြစ်နေသူများအတွက် အနည်းဆုံး ဝင်ငွေကို ပြဋ္ဌာန်းသတ်မှတ်ပေးခဲ့ရုံမျှမက၊ အခမဲ့ ဆေးဝါး ကုသပေးရေးနှင့် အခြားသော လူမှုဖူလုံရေး အစီအမံများကိုလည်း စီစဉ်ထားရှိပေးလေသည်။ အလုပ်သမားများအတွက်လည်း အလုပ်သမားဥပဒေ အများအပြား ပြဋ္ဌာန်းထားရှိပေး၏။

နယူး ဇီလန်နိုင်ငံ၏ မြို့တော်သည် ဝယ်လင်တန်မြို့ဖြစ်၍၊ မြောက်ကျွန်းတောင်ဖက်စွန်း၊ ကွတ် ရေလက်ကြားပေါ်တွင် တည်ရှိ၏။ လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ

၂၂၄,၃၅၀ ယောက် နေထိုင်လျက် ရှိသည်။ လူဦးရေ ၃၇၁,၀၆၃ ယောက် (၁၉၅၆) ရှိသော၊ မြောက်ကျွန်းရှိ အော့ကလန်မြို့သည် နယူး ဇီလန်နိုင်ငံတွင် အကြီးဆုံးသော မြို့ဖြစ်၍၊ နိုင်ငံခြား ကုန်သွယ်မှုအတွက် အဓိကဆိပ်ကမ်း မြို့ကြီးလည်း ဖြစ်လေသည်။ တောင်ကျွန်းတွင် အကြီးဆုံး သော မြို့မှာ လူဦးရေ ၁၉၃,၃၆၇ ယောက် နေထိုင်လျက် ရှိသော ခရိုက်စ ချပ်မြို့ ဖြစ်၏။ ယင်းသည် စက်မှုလက်မှု ထွန်းကားရာမြို့ ဖြစ်သည့်အပြင်၊ ကူးသန်းရောင်းဝယ်မှု အတွက် ဗဟိုဌာနလည်း ဖြစ်လေသည်။ အိုတားဂိုဆိပ်ကမ်း ပေါ်ရှိ ဒန်နီဒင်မြို့သည် အသွင်အပြင်တွင်၎င်း၊ ရာသီဥတု တွင်၎င်း စကော့တလန်ပြည်ရှိ အက်ဒင်ဗာရာမြို့နှင့် တူလေ သည်။ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ ၉၉,၃၇၀ ယောက် ဖြစ်လေသည်။

ဒပ်ချ လူမျိုး ပင်လယ်ရေကြောင်းခရီးလှည့်သမား အေဗယ် ယန်းဆွန် တပ်စမန်သည် ၁၆၄၂ ခုနှစ်တွင် နယူး ဇီလန်ကျွန်းစုကို ဥရောပတိုက်သားများထဲမှ ပဌမ ဦးဆုံး တွေ့ရှိခဲ့ပြီးနောက်၊ ယခု တွင်လျက်ရှိသောအမည်ကို ပေးခဲ့ သည်။ ထိုသို့တွေ့ရှိခဲ့သော်လည်း၊ ဒပ်ချတို့သည် နယူး ဇီလန် ကျွန်းစုတွင် အခြေစိုက် နေထိုင်ခြင်း မပြုခဲ့ပေ။ ၁၇၆၉ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ပင်လယ်ရေကြောင်းခရီးလှည့် သမား ကက်ပတိန် ကွတ်သည် နယူး ဇီလန်ကျွန်းစုကို တဖန် တွေ့ရှိခဲ့ပြန်ပြီးလျှင်၊ ကျွန်းများပေါ် သို့တက်ရောက်ကြည့်ရှု ကာ၊ ကမ်းခြေများတလျှောက် လှည့်လည်စူးစမ်းရှာဖွေ ခဲ့၏။ ထိုနောက်တွင်လည်း ကက်ပတိန်ကွတ်သည် နယူး ဇီလန်ကျွန်းသို့ ၃ ကြိမ်တိုင်တိုင်ရောက်ရှိခဲ့သေးသည်။ သို့ သော် ဗြိတိသျှအစိုးရသည် ထိုနယ်ပယ်သစ်ကို နိုင်ငံတော် အတွင်းသို့ သိမ်းသွင်းလိုသည့်ဆန္ဒ များစွာမရှိခဲ့ချေ။ ဩစတြေးလျ ပင်လယ်ကွေ့မှ ထွက်ပြေးလာသော အကျဉ်းသား များနှင့် ငါးဖမ်းသင်္ဘောများမှ ထွက်ပြေးလာသူများ လောက်သာ ကျွန်းများပေါ် တွင်နေထိုင်ခဲ့ကြ၏။ ထိုပြင် စွန့်စားသူအချို့တို့သည် ဥပဒေမဲ့ရပ်ကွက်များ တည် ထောင်ကာ နေထိုင်ခဲ့ကြသည်။ သို့ဖြစ်၍ စက်ဆုပ်ဖွယ်ရာ ရမ်းကားမှုများ ပေါ်ပေါက်ခဲ့သော်လည်း ဗြိတိသျှအစိုးရ သည် ထိုနယ်မြေကို လက်ရသိမ်းယူရန် ငြင်းဆန်နေခဲ့ လေသည်။

၁၈၁၄ ခုနှစ်တွင် သာသနာပြုအဖွဲ့များ ပဌမဆုံးအကြိမ် ရောက်ရှိလာခဲ့၏။ သို့သော်လည်း ၁၈၃၂ ခုနှစ်အထိ ကျွန်းများပေါ် တွင် ဗြိတိသျှအစိုးရ၏ ကိုယ်စားလှယ်တော် တဦးတယောက်မျှ ခန့်ထားခြင်း မရှိခဲ့သေးပေ။

၁၈၃၉ ခုနှစ်တွင် နယူး ဇီလန်ကျွန်းစုအတွက် ဗြိတိသျှ အစိုးရတို့က ဒုတိယဘုရင်ခံတဦးခန့်ထားစေလွှတ်ခဲ့ရာ၊ ယင်း ဆိုက်ရောက်ခဲ့ပြီးနောက် တပတ်ခန့်အကြာတွင်၊ နယူး ဇီလန် ကျွန်းတွင်နယ်သစ်စိုက်ထူရေးအတွက် ဖွဲ့စည်းထားခဲ့သော နယူး ဇီလန်ကုမ္ပဏီက နယ်သစ်စိုက်သမားများနှင့်တကွ



နယူးဇီလန်နိုင်ငံ၏မြို့တော် ဝယ်လင်တန်မြို့ရှိ ပါလီမန်အဆောက်အအုံ



နယူးဇီလန်နိုင်ငံတွင် အကြီးဆုံးမြို့ဖြစ်၍၊ နိုင်ငံခြားကုန်သွယ်မှုအတွက် အဓိကဆိပ်ကမ်းမြို့ကြီးလည်းဖြစ်သော အော့ကလန်မြို့၏ ဆိပ်ကမ်း

စေလွှတ်လိုက်သော သင်္ဘော ၄ စင်းအနက် ပဌမဆုံး သင်္ဘောသည် ဝယ်လင်တန်သို့ ဆိုက်ရောက်လာခဲ့၏။ ထို ဘုရင်ခံသည် မာအိုရီအကြီးအကဲများနှင့် ဝိုင်တန်ဂီစာချုပ် တရပ် ချုပ်ဆိုခဲ့ပြီးလျှင်၊ နယူး ဇီလန်ကျွန်းစုကို ဝိတိုရိယ ဘုရင်မကြီး၏ ကိုယ်စား သိမ်းပိုက်လိုက်လေသည်။ ၁၈၄၁ ခုနှစ်တွင် နယူး ဇီလန်ကျွန်းစုကို နယူး ဆောက်သဝေးပြည်နယ်မှ သီးခြားခွဲထုတ်လိုက်လေသည်။ ထိုနောက်တွင် နယ်သစ်စိုက်ထူရေးကို စတင်လုပ်ဆောင်ခဲ့၍၊ သိုးများ အကြီးအကျယ်မွေးမြူရေးလုပ်ငန်းကို စတင်လုပ်ကိုင်ခဲ့လေသည်။

၁၈၅၂ ခုနှစ်တွင် ကိုယ်ပိုင်အုပ်ချုပ်ရေးရရှိခဲ့၏။ မာအိုရီ လူမျိုးများသည် မိမိတို့၏ ဒေသများ ဆုံးရှုံးရသည်ကို မကျေမနပ်ဖြစ်ကာ၊ ၁၈၄၅ ခုနှစ်မှ ၁၈၄၈ ခုနှစ်အထိ တကြိမ်၊ ၁၈၆၁ ခုနှစ်မှ ၁၈၇၁ ခုနှစ်အထိ တကြိမ် ပုန်ကန်ထကြွခဲ့ကြသည်။ ပါလီမန်လွှတ်တော်သို့ ကိုယ်စားလှယ်များ စေလွှတ်ခွင့်အပါအဝင်အခွင့်အရေးများ ပေးအပ်မှသာလျှင်၊ အေးချမ်းသွားခဲ့လေသည်။

နယူး ဇီလန်ကျွန်းစုတွင် နေထိုင်လျက်ရှိသော လူဦးရေမှာ တဖြည်းဖြည်းသာ တိုးတက်လာခဲ့ရာ၊ ၁၈၆၁ ခုနှစ်၌ အိုတာဂို အလယ်ပိုင်းတွင်၎င်း၊ တောင်ကျွန်း အနောက်ဖက်ကမ်းခြေနှင့် အော့ကလန်မြို့ အနီး တင်း ခရိုင်တို့တွင်၎င်း ရွှေများ တွေ့ရှိခဲ့သဖြင့်၊ လူအမြောက်အမြား နယူး ဇီလန်ကျွန်းစုသို့ ရောက်လာကြလေသည်။ ယင်းသို့ ရောက်လာကြသူ အများအပြားပင်၊ နယူး ဇီလန်ကျွန်းစု၌ အခြေစိုက်နေထိုင်ခဲ့ကြ၏။

ထိုနောက် ၁၈၇၀ ပြည့်နှစ်လွန် နှစ်များတွင် ဆာဂျူးလယပ် ဗိုဂယ်သည် ပြည်သူ့လုပ်ငန်းဝါဒဖြင့်၊ နယူး ဇီလန်ကျွန်းစုများသို့ လူများလာရောက်နေထိုင်ရေးကို အားပေးကူညီခဲ့ပြန်ရာ၊ လူအမြောက်အမြား လာရောက်နေထိုင်ခဲ့ပြန်သည်။ သို့သော် ဆာဂျူးလယပ် ဗိုဂယ်သည် ယင်း၏ ဝါဒကို အကောင်အထည်ဖေါ်ရန်အတွက်၊ အင်္ဂလန်ပြည်မှ ငွေများ အများအစားချေးငှားခဲ့ရသည်။ ၁၈၇၉ ခုနှစ်တွင် ထိုသို့ချေးငှား၍ မရတော့သဖြင့်၊ ထိုအချိန်မှစ၍ နိုင်ငံတွင်း ဝင်ရောက်နေထိုင်ခြင်းမှာ ယခင်ကလောက် မများလှတော့ပေ။

၁၈၇၉ ခုနှစ် နောက်နှစ်များသည် နယူး ဇီလန်နိုင်ငံအဖို့ စီးပွားရေးတွင် အကျပ်အတည်းတွေ့ခဲ့ရသော နှစ်များ ဖြစ်လေသည်။ ၁၈၉၀ ပြည့်နှစ်တွင် လစ်ဗရယ်လေဗာပါတီသည် နိုင်ငံရေးအာဏာရရှိခဲ့၏။ ယင်းသည့်ပါတီသည် ကျယ်ပြန့်သော စီမံကိန်းတရပ်ကို ရေးဆွဲကာ အကောင်အထည်ဖေါ်ခဲ့ရာ၊ အမျိုးသမီးများ မဲဆန္ဒပေးခွင့်ရရှိခဲ့သည့်အပြင် အခြားသော ပြုပြင်ရေးလုပ်ငန်း အများအပြားကိုလည်း လုပ်ကိုင်ခဲ့သည်။ ထိုပြုပြင်ရေးလုပ်ငန်းများမှာ ခြံကြီးများကို ပြန်လည်ဝယ်ယူခြင်း၊ ဝါဏိဇ္ဇပဋိပက္ခမှုများကို ခုံအဖွဲ့သို့

မတင် မနေ တင်စေကာ အဆုံးအဖြတ် ခံယူစေခြင်း၊ စက်ရုံ ဥပဒေများ ပြုလုပ်ပေးခြင်း၊ သက်ကြီးရွယ်ရင့် အငြိမ်းစားရိက္ခာ စံနစ် တီထွင်ပေးခြင်း စသည်တို့ ဖြစ်လေသည်။ ယင်းသို့သော ပြုပြင်ရေးလုပ်ငန်းများမှာ ထိုအချိန်အခါအဖို့ ခေတ်ရှေ့ပြေးလုပ်ငန်းများ ဖြစ်နေလေရာ၊ တကမ္ဘာလုံးကပင် နယူး ဇီလန်နိုင်ငံကို အာရုံစူးစိုက်လာရပြီးလျှင်၊ နယူးဇီလန်အားလည်း လူမှုဖူလုံရေးဆိုင်ရာ စမ်းသပ်မှုများ ပြုလုပ်ရာ ဓာတ်ခွဲခန်းဟူ၍ပင် ခေါ်ဝေါ်ခဲ့ကြလေသည်။

ယင်းသို့စမ်းသပ်ပြုလုပ်ခဲ့သည့် အချိန်ကာလသည် ၁၉၀၆ ခုတွင် အပြီးသတ်ခဲ့သည်။ ဤတွင် နယူး ဇီလန်နိုင်ငံသည် ဆက်လက်တိုးတက်ကြီးပွားခဲ့၏။ သာမန်အားဖြင့်၊ ထွက်ကုန်ဈေးနှုန်းများ တိုးတက်လာသောကြောင့်၎င်း၊ ပြည်တွင်း ကုန်ထုတ်လုပ်ငန်း အထူးသဖြင့်နို့ထွက်ပစ္စည်းလုပ်ငန်းသည် တဖြည်းဖြည်းတိုးတက်လာသောကြောင့်၎င်း ကြီးပွားခဲ့ခြင်းဖြစ်လေသည်။ ထိုအတွင်း နိုင်ငံရေးအာဏာသည် တောင်သူလယ်သမားအငယ်စားများ၏ ကိုယ်စားလှယ်များလက်တွင်းသို့ ရောက်သွားပြီးလျှင်၊ သီးခြားလေဗာပါတီကိုလည်း တည်ထောင်ခဲ့၏။ ပါလီမန်တွင် လေဗာပါတီဝင် ကိုယ်စားလှယ်ဦးရေမှာလည်း တစတစ တိုးတက်လာခဲ့၏။ သို့သော်လည်း နိုင်ငံရေးပါတီဟောင်းများသည်သာလျှင် တလှည့်စီ အစိုးရအဖွဲ့ ဖွဲ့စည်းနိုင်ခဲ့ရာ၊ ၁၉၂၉ ခုနှစ်တွင် စတင်ခဲ့သော စီးပွားရေးကျပ်တည်းမှုကြောင့်၊ ညွန့်ပေါင်းအစိုးရအဖွဲ့ ဖွဲ့စည်းခဲ့ရလေသည်။ လေဗာပါတီလည်း တဖြည်းဖြည်း အင်အားကောင်းလာပြီးလျှင်၊ ၁၉၃၅ ခုနှစ် ရွေးကောက်ပွဲကြီးတွင် အပြတ်အသတ်အနိုင်ရရှိခဲ့လေသည်။

ထိုအချိန်အခါမှစ၍ လူမှုဖူလုံရေးဥပဒေများကို တဖန်ပြန်လည်၍ စမ်းသပ်လုပ်ကိုင်ခဲ့ပြန်လေသည်။ စီးပွားရေးအကျပ်အတည်းကျနေခိုက်တွင် ဝါဏိဇ္ဇ ပဋိပက္ခမှုများကို ခုံရုံးသို့ မတင်မနေ တင်စေကာ အဆုံးအဖြတ်ခံယူစေခြင်းကို ရပ်ဆိုင်းလာခဲ့ရာမှ ပြန်လည်ဖေါ်ထုတ်ခဲ့သည်။ အလုပ်လက်မဲ့ပြဿနာကို သက်သာရာ ရစေရန်အတွက် ဆောင်ရွက်ခဲ့၏။ နို့ထွက်ပစ္စည်းလုပ်ငန်း ထုတ်ကုန်များနှင့် အခြားထွက်ကုန်များ၏ ဈေးနှုန်းများအတွက်လည်း အာမခံချက်များ ထားရှိပေးခဲ့သည်။ လူမှုရေးအာမခံစံနစ်၊ ကျန်းမာရေးအာမခံစံနစ်နှင့် အငြိမ်းစားရိက္ခာစံနစ်များကိုလည်း တီထွင်ပေးခဲ့ပြီးလျှင်၊ သီးသန့်ဘဏ်ကိုလည်း ပြည်သူပိုင် ပြုလုပ်ခဲ့လေသည်။ ထို့ပြင် ဝင်ကုန်များကို ကန့်သတ်ရန်အတွက် အရေးယူ ဆောင်ရွက်ကာ၊ ပြည်တွင်း စက်မှုလက်မှုလုပ်ငန်းများကို အားပေးရန် စတင်လုပ်ကိုင်ခဲ့၏။

ပဌမ ကမ္ဘာစစ်ကြီးအတွင်းက နယူး ဇီလန်နိုင်ငံသားများသည် ဂလစ်ပိုလီကို တိုက်ခိုက်ခဲ့သည့် အန်ဇက်တပ်မတွင် ပါဝင်ခဲ့ပြီးနောက်၊ ပြင်သစ်နှင့် ဗဲလဂျီယမ် စစ်မြေပြင်များတွင် ပါဝင်ဆင်နွှဲခဲ့လေသည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းကလည်း ဗြိတိန်တိုက်ပွဲ၊ မြောက် အာဖရိက၊ ဂရိနိုင်ငံ၊ ကရိကျွန်းနှင့် ဣတလီနိုင်ငံတို့တွင် ရှုတ်ရှုတ်ချုံချုံပါဝင်အမှုထမ်းခဲ့လေသည်။ ထို့ပြင် နယူး ဇီလန်နိုင်ငံက စားနပ်ရိက္ခာများနှင့် လက်နက်ပစ္စည်းများကိုလည်း ထောက်ပံ့ခဲ့၏။

ယခုအခါ နယူး ဇီလန်နိုင်ငံသည် ဗြိတိသျှ ဓနသဟာယအဖွဲ့ဝင် နိုင်ငံတနိုင်ငံဖြစ်လာ၏။ ဗြိတိသျှဘုရင်မင်းမြတ်က ခန့်ထားသော ဘုရင်ခံချုပ်သည် ယင်း၏ကိုယ်စားလှယ်တော် အဖြစ် နယူး ဇီလန်နိုင်ငံတွင် ဆောင်ရွက်ရလေသည်။ နယူး ဇီလန်ပါလီမန်လွှတ်တော်သည် ကမ္ဘာပေါ်တွင် ဒီမိုကရေစီစံနစ် အကျဆုံး ဥပဒေပြုလွှတ်တော်တရပ်ဖြစ်ပေ၏။ ရွေးကောက်ပွဲများကို သုံးနှစ်တကြိမ် ကျင်းပ၍၊ ကျားမမရွေး အရွယ်ရောက်သူတိုင်း မဲပေးနိုင်သည်။ အစိုးရအဖွဲ့သည် အောက်လွှတ်တော်၏ ထောက်ခံမှုကို ရရှိရမည်ဖြစ်၏။ အစိုးရအဖွဲ့ခေါင်းဆောင် ဝန်ကြီးချုပ်သည်သာလျှင်၊ နိုင်ငံအုပ်ချုပ်ရေးကို ကြိုးကိုင်ချယ်လှယ်လေသည်။ ထိုသို့ အောက်လွှတ်တော်၏ ထောက်ခံမှုကို မရတော့သောအခါ၊ ဝန်ကြီးချုပ်သည် ရာထူးမှ နုတ်ထွက်ရ၏။ ထိုအခါ ဘုရင်ခံချုပ်သည် အတိုက်အခံခေါင်းဆောင်ကို ခေါ်ယူလျက်၊ အစိုးရအဖွဲ့ ဖွဲ့စည်းခိုင်းသည်။ အကယ်၍ အောက်လွှတ်တော်၏ ထောက်ခံမှုကို မရသဖြင့် မဖွဲ့နိုင်ခဲ့သော်၊ လွှတ်တော်ကို ဖျက်သိမ်း၍ ရွေးကောက်ပွဲအသစ် ထပ်မံကျင်းပရန် အကြံပေးလေသည်။

နယူး ဇီလန်ပါလီမန်တွင် ယခင်က အထက်လွှတ်တော်နှင့် အောက်လွှတ်တော်ဟူ၍ လွှတ်တော်နှစ်ရပ် ရှိခဲ့ရာ၊ အထက်လွှတ်တော်ကို ၁၉၅၁ ခုနှစ် ဇန်နဝါရီလ ၁ ရက်နေ့တွင် ဖျက်သိမ်းခဲ့လေသည်။ ထို့ကြောင့် ယခုအခါ ပြည်သူ့ကိုယ်စားလှယ်အဖွဲ့ဟူသော လွှတ်တော်တရပ်သာရှိသည်။ ထိုလွှတ်တော်၌ မာအိုရီလူမျိုးစုကိုယ်စားလှယ် ၄ ဦး အပါအဝင် ကိုယ်စားလှယ်အမတ်များ ဦးရေအားဖြင့် ၈၀ ရှိ၏။ လွှတ်တော်သက်တမ်းမှာ ၃ နှစ် ဖြစ်သည်။

**နယူး ဗရန်းဇွစ် ပြည်နယ်။** ။နယူး ဗရန်းဇွစ် ပြည်နယ်သည် ကနေဒါနိုင်ငံရှိ ပင်လယ်ကမ်းရိုးတန်းနယ်တနယ်ဖြစ်သည်။ စိန် လောရင့်ပင်လယ်ကွေ့၏ အနောက်တောင်ဖက်တွင် တည်ရှိ၍၊ အရှေ့တောင်ဖက်တွင် ရှစ်ဂနက်တိုးကျွန်းဆက်သည် နယူး ဗရန်းဇွစ် ပြည်နယ်နှင့် နိုဗာ စကိုးရှားပြည်နယ်တို့ကို ဆက်စပ်ထားသည်။ ယင်းသည့် ပြည်နယ် နှစ်နယ်အကြားတွင် ဖန်ဒီပင်လယ်အော် တည်ရှိ၏။ နယူးဗရန်းဇွစ် ပြည်နယ်၏ အနောက်ဖက်တွင်မူ အမေရိကန် ပြည်



ဖရက်ဒရစ်တန်မြို့ရှိ နယူး ဗရန်းဇွစ်ပြည်နယ် ဥပဒေပြုလွှတ်တော် အဆောက်အအုံ

ထောင်စုနိုင်ငံတွင် ပါဝင်သော မိန်း ပြည်နယ်တည်ရှိ၍၊ မြောက်ဖက်တွင်ကား ကွီဗက် ပြည်နယ်တည်ရှိသည်။ နယူး ဗရန်းဇွစ် ပြည်နယ်သည် စကော့တလန် ပြည်တမျှ ပမာဏ ရှိ၍၊ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၂၇,၈၇၅ မိုင် ဖြစ်သည်။ မြောက်မှ တောင်သို့ မိုင်ပေါင်း ၂၃၀ ခန့် ရှည်လျား၍၊ အရှေ့မှ အနောက်သို့ မိုင်ပေါင်း ၁၈၀ ခန့် ကျယ်ဝန်းသည်။ ပင်လယ်ကမ်းရိုးတန်းသည် မိုင်ပေါင်း ၇၅၀ ခန့် ရှည်၏။

နယူး ဗရန်းဇွစ် ပြည်နယ်သည် မြစ်ချောင်းအင်းအိုင် ပေါများသော လွင်ပြင်ဒေသဖြစ်သည်။ အက်ပလက်ချီယန် တောင်တန်းမှ တောင်ရိုးတဆွယ်သည် ယင်းပြည်နယ်ကို အနောက်တောင်ဖက်မှ အရှေ့မြောက်ဖက်သို့ ဖြတ်သန်းတည်ရှိသည်။ ထိုတောင်ရိုး၏ ပျမ်းမျှအမြင့်မှာ ပေပေါင်း ၁၀၀၀ မှ ၁၅၀၀ အတွင်း ရှိသည်။ ထိုတောင်ရိုးမှ အရှေ့ဖက်နှင့် အနောက်ဖက်တို့သို့ မြစ်များ ဖြာ၍စီးဆင်းသည်။ ထိုတောင်ရိုးရှိသည့်အတွက် နယူး ဗရန်းဇွစ် ပြည်နယ်တွင် အရှေ့ဖက်ပိုင်း ဒေသနှင့် အနောက်ဖက်ပိုင်း ဒေသဟူ၍ သဘာဝအပိုင်းအခြား နှစ်ခု ဖြစ်ပေါ်လာသည်။ အနောက်ဖက်ပိုင်း ဒေသတခုလုံးလိုလိုမှာပင် သစ်တောများ ဖုံးလွှမ်းလျက် ရှိ၍၊ မြေပြင်သည်လည်း အက်ပလက်ချီယန် တောင်တန်းဆီသို့ မြင့်၍ မြင့်၍ လာသည်။ အရှေ့ဖက်ပိုင်း ဒေသမှာမူ မြေဩဇာကောင်းမွန်သော မြေနိမ့်လွင်ပြင်ဖြစ်၍၊ တောင်ကုန်းငယ်များ ကြိုးကြားတည်ရှိသည်။ အရှေ့ဖက်နှင့် မြောက်ဖက်တို့တွင် မြေပြင်သည် စိန့် လောရင့် ပင်လယ်ကွေ့ ကမ်းခြေဆီသို့ နိမ့်ဆင်းသွား၏။ တောင်ဖက်ရှိ ဖန်ဒီ ပင်လယ်အော်ကမ်းခြေတလျှောက်၌မူ၊ ကျောက်တောင်ရိုးတခု တည်ရှိလေသည်။ နယူး ဗရန်းဇွစ် နယ်ရှိ မြစ်ချောင်းအားလုံးလိုလိုသည် အက်ပလက်ချီယန်တောင်မှ မြစ်ဖျားခံသည်။ ယင်းတို့အနက် အရှေ့ဖက်ပိုင်းဒေသရှိ စိန့်ဂျွန်းမြစ်သည် နယူး ဗရန်းဇွစ် ပြည်နယ်၏ အချက်အခြာ ရေကြောင်းလမ်းမကြီးပင် ဖြစ်သည်။ ထိုမြစ်၏အဝရှိ ရီဗားဆင်း ဖော အမည်တွင်သော ရေတံခွန်တခုသည် ဖန်ဒီ ပင်လယ်အော်မှ ဒီရေအတက် ပြင်းသောကြောင့်၊ ရေများ နောက်ပြန်စီးဆင်းလေသည်။ မီရာမီရှီး မြစ်သည်လည်း အရှေ့ဖက်ပိုင်း ဒေသတွင် အရေးပါသော မြစ်တစင်း ဖြစ်သည်။ ရက်စတီဂူမြစ်မှာ အနောက်ဖက်ပိုင်း ဒေသတွင် အကြီးဆုံးသော မြစ်ဖြစ်သည်။ နယူး ဗရန်းဇွစ် ပြည်နယ်တွင်ရှိသော ရေအိုင်ကြီးများ အနက် ဂရင်း အိုင်နှင့် စကစ် အိုင်တို့သည် အလှပ အတင့်တယ်ဆုံး ဖြစ်သည်။

နယူး ဗရန်းဇွစ် ပြည်နယ်၏ ရာသီဥတုမှာ ပူလွန်း အေးလွန်းသည်။ နွေဥတုတွင် အမြင့်ဆုံးအပူချိန်မှာ ၈၅° ရှိ၍၊ ဆောင်းဥတု၌ အနိမ့်ဆုံးအပူချိန်မှာ ၂၅° ဒီဂရီ ရှိသည်။

ယင်းသည့်ပြည်နယ်၏ မြောက်ပိုင်းတွင် နှင်းများ သည်းစွာ ကျရောက်သည်။ နယူး ဗရန်းဇွစ် ပြည်နယ်တခုလုံးရှိ သစ်တောများတွင် အဖိုးတန်သစ်ပင်များ ပေါက်ရောက်သည်။ ကျောက်မီးသွေး၊ နှမ်းဖတ်ကျောက်၊ ခနောက်စိမ်း၊ ခဲမသော၊ ထုံးကျောက်၊ သဲကျောက်နှင့် ရေနံစသော အဖိုးတန် တွင်းထွက် ဓာတ်သတ္တုများလည်း ယင်းနယ်တွင် ထွက်ရှိသည်။

နယူး ဗရန်းဇွစ် ပြည်နယ်၏ အဓိကလုပ်ငန်းမှာ စိုက်ပျိုးရေးဖြစ်သည်။ မြစ်ဝှမ်းဒေသများ၌ မြက်ခြောက်၊ မြေမြင့်ပိုင်း၌ ဂျုံ၊ မြင်းစားဂျုံ စသည်တို့ကို စိုက်ပျိုးသည်။ ဤပြည်နယ်ထွက် အာလူးများသည် အမျိုး ကောင်းသဖြင့် ကျော်စောသည်။ သကြားမုန်လာနှင့် သစ်သော့သီး၊ ဗယ်ရီသီးများမှစ၍ သစ်သီးမျိုးစုံကို စိုက်ပျိုးကြသည်။ သိုး၊ နွားတို့ကို တနယ်လုံးတွင် မွေးမြူကြသည်။ သစ်လုပ်ငန်းသည်လည်း ထိုနယ်၏ အချက်အခြာလုပ်ငန်းကြီးပင် ဖြစ်သည်။ ဓာတ်သတ္တုတူးဖေါ်ရေးလုပ်ငန်းများအနက် ကျောက်မီးသွေး တူးဖေါ်ရေးသည်သာလျှင် ထင်ရှားသော လုပ်ငန်းဖြစ်သည်။ စိုက်ပျိုးရေးနှင့် နို့ထွက်ပစ္စည်းများ ထုတ်လုပ်ရေးလုပ်ငန်းတို့၌ နယူး ဗရန်းဇွစ် ပြည်နယ်သည် ကမ်းရိုးတန်းနယ်များအနက် ထိပ်ဆုံးမှ လိုက်သည်။ ငါးလုပ်ငန်းနှင့် သစ်တောထွက်ကုန်ပစ္စည်းများ ထုတ်လုပ်ရေးလုပ်ငန်းတွင်လည်း ထင်ရှားသော ပြည်နယ်တခုဖြစ်၏။ အဓိကထွက်ကုန်များမှာ ကောက်စပါး၊ သစ်ပျော့ဖတ်၊ ငါးသေတ္တာနှင့် အာလူးတို့ဖြစ်၍၊ ဝင်ကုန်အဖြစ် စက်ကရိယာများ၊ အဝတ်အထည်နှင့် အခြားကုန်ချောအမျိုးမျိုးတို့ကို တင်သွင်းသည်။ မြို့တော်မှာ ဖရက်ဒရစ်တန်မြို့ ဖြစ်၍၊



ဖရက်ဒရစ်တန်မြို့ရှိ ခရစ်ယာန်ဘုရားရှိခိုးကျောင်း

တောင်ဖက် ကမ်းခြေရှိ စိန် ဂျွန်းမြို့ မှာ အရေးပါသော သင်္ဘောဆိပ်မြို့ ဖြစ်၏။ ဆောင်းရာသီတွင် ကနေဒါနိုင်ငံရှိ အခြား သင်္ဘောဆိပ်မြို့များသည် ရေခဲများ ပိတ်ဆို့၍ အသုံးမပြုနိုင်သော်လည်း၊ စိန် ဂျွန်း သင်္ဘောဆိပ်မှာ ရေခဲ



စိန် ဂျွန်းမြို့ သင်္ဘောဆိပ်



နယူး ဗရန်းဇွစ်ပြည်နယ် ပင်လယ်ကမ်းခြေ၌ ဆာဒင်းငါးများကို ပိုက်နှင့်သဲ့ယူနေစဉ်

ခြင်းမှ ကင်းလွတ်သောကြောင့် အထူးအားထားရပေသည်။

နယူး ဗရန်းဇွစ် ပြည်နယ်၏ လူဦးရေမှာ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ၅၁၅,၆၉၇ ယောက် ဖြစ်သည်။ ယင်းအနက် ဖရက်ဒရစ်တန်မြို့တော်၌ လူဦးရေ ၁၆,၀၁၈ ယောက်၊ စိန် ဂျွန်း မြို့၌ ၅၀,၇၇၉ ယောက်နှင့် မွန်တန်မြို့၌ ၂၇,၃၃၄ ယောက် အသီးအသီးရှိ၏။ ၁၉၅၅ ခုနှစ် ခန့်မှန်းခြေ အရ ပြည်နယ်၏လူဦးရေမှာ ၅၃၅,၀၀၀ ယောက် ဖြစ်သည်။ နယူး ဗရန်းဇွစ် ပြည်နယ်တွင် တိုင်းရင်းသား အင်ဒီးယန်း လူမျိုးအုပ်စု နှစ်စုကို တွေ့ရသည်။ ယင်းတို့သည် ယခုတိုင် အရေအတွက်အားဖြင့် ၂,၀၀၀ ခန့် ရှိ၏။ ပြင်သစ်စကားပြောဆိုသော ကနေဒီယန်လူမျိုးများမှာ လူဦးရေ၏ ၃ ပုံ ၁ ပုံခန့် ရှိ၍၊ ကျန် လူဦးရေမှာ အင်္ဂလိပ်၊ အိုင်းရစ်နှင့် စကော့လူမျိုးအဆက်အနွယ်များ ဖြစ်သည်။

၁၅၃၄ ခုနှစ်တွင် နယူး ဗရန်းဇွစ်ပြည်နယ်၏ မြောက်ဖက်ကမ်းရိုးတန်းကို ဇက် ကာတီယေးဆိုသူ စတင်တွေ့ရှိခဲ့သည်။ ၁၆၀၄ ခုနှစ်တွင် တဖန် ဆယ်မြူယယ် ဒီ ရှမ်ပလိန် ခေါင်းဆောင်သော ပြင်သစ် နယ်သစ်ရှာဖွေ အဖွဲ့တဖွဲ့သည် ဖန်ဒီပင်လယ်အော်တွင်းသို့ ရောက်ရှိလာကာ၊ စိန် ဂျွန်း မြစ်အတွင်း ဆန်တက်လှည့်လည်ရှာဖွေခဲ့ပြီးနောက်၊ စိန် ကရွား မြစ်အတွင်းရှိ ကျွန်းတကျွန်းပေါ်တွင် နေထိုင်ခဲ့ကြသည်။ ထိုနောက် အနှစ်တရာအတွင်း နောင်အခါ နယူး ဗရန်းဇွစ် ပြည်နယ် ဖြစ်လာမည့်ဒေသသို့ ပြင်သစ်လူမျိုး အများအပြား လာရောက်နေထိုင်ကာ၊ အမဲလိုက်ခြင်း၊ ငါးဖမ်းခြင်း လုပ်ငန်းများကို လုပ်ကိုင်၍၊ ကုန်သွယ်စခန်းများ တည်ထောင်ခဲ့၏။ ယင်းတို့၏ အဆက်အနွယ်များကို ယခုတိုင် ပြည်နယ်မြောက်ပိုင်းနှင့် အရှေ့ပိုင်းတို့တွင် တွေ့နိုင်ပေသေးသည်။ ၁၇၁၃ ခုနှစ်တွင် ထိုစဉ်က အာကေးဒီးယားဟု တွင်ခဲ့သော နိုဗာ စကိုးရှားနှင့် နယူး ဗရန်းဇွစ်တို့သည် ဗြိတိသျှတို့လက်တွင်းသို့ ရောက်ရှိခဲ့၏။ သို့သော် ၁၇၆၃ ခုနှစ်ကျမှ



နယူး ဗရန်းဇွစ် ပြည်နယ်တွင် ဆယ်မန် ငါးများကို ဤသို့ လှယ်ကူပေါ်မျာ်းစွာ ဖမ်းယူနိုင်ပေသည်။



နယူး ဗရန်းဇွစ်ပြည်နယ် အာလူးရွေး စက်ရုံတရုံတွင်

ပင် အင်္ဂလိပ်များသည် နယူး အင်္ဂလန်မှ နယူး ဗရန်းဇွစ် ပြည်နယ် စိန့် ဂျွန်း မြစ်ပေါ်ရှိ မေ့ဂါဗီးဒေသသို့ ပြောင်းရွှေ့ နေထိုင်လာကြသည်။ ထိုနောက် အနှစ် ၂၀ ခန့်အကြာ ၁၇၈၃ ခုနှစ်တွင် ဗြိတိသျှအစိုးရ၏ သစ္စာတော်ကို စောင့်သိ ရိုသေသော အင်္ဂလိပ်ကိုလိုနီနယ်သားများသည် အမေရိကန် ပြည်ထောင်စုရှိ မူလ ၁၃ နယ်မှ ခွဲထွက်၍၊ နယူး ဗရန်းဇွစ် ပြည်နယ်ဒေသသို့ ပြောင်းရွှေ့ခိုဝင်လာကြသည်။ ယင်းတို့ကို အကြောင်းပြု၍၊ နောင်အခါ၌ နယူး ဗရန်းဇွစ်ပြည်နယ်ကို 'သစ္စာရှိ ပြည်နယ်' ဟု ရံဖန်ရံခါတွင် ခေါ်လေ့ရှိသည်။ ဗရန်းဇွစ်ဟူသော အမည်မှာလည်း အင်္ဂလန်ပြည်ကို စိုးစံသော ဟန်နိုဗာမင်းဆက် ဗရန်းဇွစ် လျူးနီဗု မင်းမျိုး မင်းနွယ်တို့ကိုစွဲ၍ မှည့်ခေါ်ခဲ့ခြင်းဖြစ်၏။ ရှေးကမူ နိုဗာ စကိုးရှားပြည်နယ်၊ ပရင့်စ အက်ဒဝပ် ကျွန်းနှင့် နယူး ဗရန်းဇွစ် ပြည်နယ်တို့ကို စုပေါင်း၍ အာကေးဒီးယားဟု တွင်ခဲ့သည်။ ၁၇၈၄ ခုနှစ်တွင်မှ ယင်းနယ်ကို ပြည်နယ်နှစ်ခုခွဲ၍၊ နိုဗာ စကိုးရှားနှင့် နယူး ဗရန်းဇွစ်ဟူ၍ ခေါ်ဝေါ်ခဲ့ကြသည်။ ထို အချိန်မှစ၍ နယူး ဗရန်းဇွစ်ပြည်နယ်သည် တစတစကြီးပွား တိုးတက်လာခဲ့ရာ၊ ၁၈၂၅ ခုနှစ်တွင် မီးအကြီးအကျယ် လောင်၍ လူပေါင်း ၁၅,၀၀၀ ခန့် အိုးအိမ်မဲ့ ဖြစ်ခဲ့ရသည်။ အမေရိကန်ပြည်ထောင်စုရှိ မိန်းပြည်နယ်နှင့်လည်း နယ်နိမိတ်သတ်မှတ်ရေးကိစ္စအတွက် မသင့်မတင့်ဖြစ်ခဲ့ရာ၊ ၁၈၄၂ ခုနှစ်တွင်မှ ကျေအေးပြီးပြတ်၏။ နယူး ဗရန်းဇွစ်ပြည်နယ်သည် ၁၈၆၇ ခုတွင် ကနေဒါနိုင်ငံ၏ မူရင်းပြည်နယ်တခုအဖြစ်သို့ ရောက်ရှိခဲ့သည်။ သစ်လုပ်ငန်း၊ ငါးဖမ်းလုပ်ငန်းနှင့် သတ္တုတူးဖော်ရေးလုပ်ငန်းများလည်း လျင်မြန်စွာ တိုးတက်ကြီးပွားလာခဲ့၏။ ၁၈၇၀ ပြည့်နှစ်တွင် ပြည်နယ်တွင်းသို့ မီးရထားလမ်း နှစ်သွယ် တိုးချဲ့ဖောက်လုပ်ခဲ့သည်။ စိန့် ဂျွန်း မြို့သည်လည်း ကနေဒါနိုင်ငံ၏ ဆောင်းရာသီ အဓိကဆိပ်ကမ်းမြို့ ဖြစ်လာ၏။

ပဌမ ကမ္ဘာစစ်ကြီးနှင့် ဒုတိယ ကမ္ဘာစစ်ကြီးများအတွင်း နယူး ဗရန်းဇွစ်ပြည်နယ်မှ လက်နက်ကိုင်တပ်ဖွဲ့များသို့ လူပေါင်း ထောင်သောင်းများစွာဖြည့်တင်းပေးခဲ့သည်။ သစ်ပျော့ဖတ်နှင့် စက္ကူလုပ်ငန်းသည် ဒုတိယ ကမ္ဘာစစ်ကြီး အပြီးတွင် များစွာကြီးပွားလာခဲ့လေသည်။

**နယူး မက္ကဆီကို ပြည်နယ်။** ။နယူး မက္ကဆီကို ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင် ပါဝင်သော ပြည်နယ် တနယ်ဖြစ်၍၊ အမေရိကန်ပြည်ထောင်စု၏ အနောက် တောင်ဖက်ပိုင်း၊ အလယ်ဗဟိုလောက်တွင် တည်ရှိသည်။ နယူး မက္ကဆီကို ပြည်နယ်၏ မြောက်ဖက်တွင် ကော်လိုရားဒိုးပြည်နယ်၊ အရှေ့ဖက်တွင် တက်ဆက်ပြည်နယ်နှင့် အိုကလာဟိုးမားပြည်နယ်၊ တောင်ဖက်တွင် တက်ဆက်ပြည်နယ်နှင့် မက္ကဆီကိုနိုင်ငံ၊ အနောက်ဖက်တွင် အယ်ရီဇိုးနာ ပြည်နယ်တို့ အသီးအသီးတည်ရှိလေသည်။ နယူး မက္ကဆီကို ပြည်နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၂၁,၆၆၆ မိုင်



နယူး မက္ကဆီကို ပြည်နယ် ပွဲဗလို အင်းဒီးယန်းတို့၏ ကွင်း အက

ဖြစ်၍၊ အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် စတုတ္ထအကြီးဆုံး ပြည်နယ်ဖြစ်သည်။

နယူး မက္ကဆီကို ပြည်နယ်အတွင်း၀ယ် ပျံ့ပျူးခြောက်သွေ့သော လွင်ပြင်ကြီးများ၊ မြင့်မားသော တောင်ကုန်းများ၊ တင့်တယ်လှပသော ကုန်းပြင်မြင့်များနှင့် တောင်တန်းကြီးများ ရှိ၏။ ကွန်တီနင်တယ် ဒီဗိုက်တောင်တန်းသည် ပြည်နယ်အနောက်ဖက်ပိုင်းတွင် မြောက်မှ တောင်သို့ ဖြတ်သန်းတည်ရှိလေသည်။ နယူး မက္ကဆီကို ပြည်နယ်၏ အရှေ့ဖက်ပိုင်းတွင် လွင်ပြင်ကြီးများ ရှိ၏။ ယင်းသည့် အပိုင်းတွင် နွားများနှင့် သိုးများ မွေးမြူကြ၏။ ထိုအပိုင်းရှိ ပေးကပ်မြစ်ဝှမ်းတွင် အဝီစိတွင်းများမှရင်း၊ ပေးကပ် မြစ်မှရင်း၊ ရေသွင်း၍ စိုက်ပျိုးသဖြင့်၊ ပြည်နယ်တွင်း အကောင်းဆုံးသော သစ်သေ့သီးခြံများရှိသည်။ ပြည်နယ်၏ မြောက်ဖက် အလယ်ပိုင်းရှိ ရော့ကီး တောင်တန်းဒေသမှာ ပြည်နယ်အတွင်း အလှပဆုံးသော ရှုမျှော်ခင်းများ ရှိရာ အပိုင်းဖြစ်သည့်အပြင်၊ ပြည်နယ်အတွက် ပိုမိုအရေးပါသော အပိုင်းလည်းဖြစ်၏။ ဆောင်းရာသီ၌ တောင်စောင်းများတွင် တင်နေသော နှင်းများသည် နွေကူးရာသီတွင် အရည်ပျော်၍၊ မြေဩဇာကောင်းသည့် မြေနိမ့်ပိုင်းများဆီသို့ စီးဆင်းသွားသည်။ သို့ဖြစ်ရာ ထိုအပိုင်းတွင် ကောက်သီးကောက်နှံ၊ သစ်သီးနှင့် ဟင်းသီးဟင်းရွက်အမျိုးအပြားစိုက်ပျိုးနိုင်လေသည်။ ထိုအပိုင်းတွင် တည်ရှိသော ဆန်ဟွမ်းတောင်တန်းနှင့် ဆန်းဂရီ ဒါ ခရစ္စတိုး တောင်တန်းတို့မှာ စပရု ထင်းရှူးပင်၊ ပိုင်း ထင်းရှူးပင်နှင့် ဖား ထင်းရှူးပင်များ ပေါက်ရောက်သော သစ်တောများဖြင့် ဖုံးအုပ်လျက်ရှိ၏။ နယူး မက္ကဆီကို ပြည်နယ် အနောက်မြောက်ပိုင်းတွင် ကော်လိုရားဒိုး ကုန်းပြင်မြင့် တည်ရှိလေသည်။

နယူး မက္ကဆီကို ပြည်နယ် တွင် အဓိကမြစ်ကြီးသည် ရီးအိုဂရန်ဒီမြစ် ဖြစ်သည်။ အခြား ထင်ရှားသော မြစ်များမှာ ကနေဒီယန် မြစ်၊ ပေးကပ် မြစ်နှင့် ဆန်ဟွမ်း မြစ်တို့ ဖြစ်လေသည်။

နယူး မက္ကဆီကို ပြည်နယ်၏ ရာသီဥတုသည် အပူအအေးမျှတ၍၊ ခြောက်သွေ့သည်။ ထို့ကြောင့် အဆုတ်နှင့် သက်ဆိုင်သော ရောဂါသည်များအတွက် အပန်းဖြေကျန်းမာရေးစခန်းတခုဖြစ်သည်။ ပြည်နယ်အလယ်ပိုင်းနှင့် တောင်ပိုင်းတို့တွင် တနှစ်ပတ်လုံးတွင် ရက်ပေါင်း ၃၀ ခန့်မျှသာ မိုးရွာသွန်းသည်။ သို့သော် မြောက်ပိုင်းတောင်တန်းများပေါ်တွင် မိုး သို့မဟုတ် နှင်းများ ၄ လခန့်မျှ ကျတတ်သည်။ ဇူလိုင်လနှင့် ဩဂုတ်လများတွင် မုန်တိုင်းများ ပြင်းထန်စွာ ကျတတ်၏။



နယူး မက္ကဆီကိုပြည်နယ်သားတို့ ရှေးက နေထိုင်ခဲ့ကြရာ ကျောက်ဂူများ



ဆန်တာဖေးမြို့တော် ရှေးဟောင်းစပိန် ဂူဘုရားရှိခိုးကျောင်း

နယူး မက္ကဆီကို ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင် စတုတ္ထအကြီးဆုံး ပြည်နယ်ဖြစ်သော်လည်း၊ လူဦးရေနည်းပါးလှ၏။ ၁၉၅၀ ပြည့်နှစ် ခန့်မှန်းချက်အရ လူဦးရေမှာ ၇၉၅,၀၀၀ ယောက် ဖြစ်လေသည်။ ယင်းတို့အနက် မက္ကဆီကိုနိုင်ငံမှ လာရောက်နေထိုင်ကြသူများမှ ဆင်းသက်ပေါက်ပွားလာသည့် စပိန် အမေရိကန်များမှာ ၃ ပုံ ၁ ပုံခန့်ရှိ၏။ တိုင်းရင်းသား အင်ဒီးယန်းလူမျိုးများမှာ ၄၁,၉၀၀ ခန့် ရှိ၍၊ ကပ္ပလီလူမျိုး ၈၄၀၀ ခန့် ရှိပြီးလျှင်၊ ကျန် လူဦးရေမှာ အများအားဖြင့် အင်္ဂလိပ် သို့မဟုတ် စကော့လူမျိုးများမှ ဆင်းသက်ပေါက်ပွားလာသူများဖြစ်၏။

လယ်ယာစိုက်ပျိုးရေးသည် အဓိကလုပ်ငန်းဖြစ်သည်။ ကောက်သီးကောက်နှံနှင့် ဟင်းသီးဟင်းရွက်အမျိုးမျိုးတို့ကို အခြောက်စိုက်ပျိုးနည်းဖြင့်၎င်း၊ ရေသွင်းစိုက်ပျိုးနည်းဖြင့်၎င်း စိုက်ပျိုးလုပ်ကိုင်ကြသည်။ အဓိကထွက်ကုန်များမှာ ဝါဂွမ်း၊ မြက်ခြောက်၊ ဂျုံ၊ မြေပဲ၊ ဖူးပြောင်း၊ လူဆန်ပဲပင်၊ သကြားမုန်လာ၊ ပြောင်းကြီး၊ သစ်သော့သီး၊ သပျက်သီးနှင့် မုန်လာဥဝါ၊ ငရုတ်၊ ပဲတောင့်၊ ဂေါ်ဖီထုပ်၊ ကန်စွန်းဥစသော ဟင်းသီးဟင်းရွက်များ ဖြစ်၏။ စိုက်ပျိုးလုပ်ကိုင်ရန်အတွက် ခြောက်သွေ့လွန်းသော ဒေသများတွင် နွားများနှင့် သိုးများကို အကြီးအကျယ် မွေးမြူကြသည်။

နယူး မက္ကဆီကို ပြည်နယ်မှထွက်သည့် ထင်ရှားသော ဓာတ်သတ္တုတို့ကား ကြေးနီ၊ သွပ်၊ ခဲ၊ ဘော်၊ ရွှေ၊ မိုလစ်ဒီနမ်၊ မန်ဂနိ၊ ပိုတက်၊ ဖလူအိုစပါး၊ ဂျစ်ပဆမ်၊ ကျောက်မီးသွေး၊ ဆား၊ လချေး၊ ယူရေးနီးယမ်း၊ ရေနံ၊ သဘာဝဓာတ်ငွေ့နှင့် သဘာဝဓာတ်ဆီ စသည်တို့ဖြစ်၏။ အနုမြူဓာတ်အားကော်မီရှင်က နယူး မက္ကဆီကို ပြည်နယ်တွင် ယူရေးနီးယမ်းဓာတ်သတ္တုသည် အမေရိကန်ပြည်ထောင်စု တနိုင်ငံလုံးအတွက် ခန့်မှန်းခြေ၏ ၆၈ ရာခိုင်နှုန်းမျှ ထွက်မည်ဟု ခန့်မှန်းလေသည်။

နယူး မက္ကဆီကို ပြည်နယ်တွင် မူလတန်းပညာသင်ကြားခြင်းမှာ ၇ နှစ်မှ ၁၆ နှစ်အရွယ်အထိ ကလေးသူငယ်များအတွက် မသင်မနေရဖြစ်ပြီးလျှင်၊ ၅ နှစ်အရွယ်မှ အသက် ၂၀ အရွယ်အထိ ကလေးသူငယ်များသည် အခမဲ့သင်ကြားနိုင်လေသည်။ ထို့ပြင် အထက်တန်းပညာရပ်များ သင်ကြားရန်အတွက် နယူး မက္ကဆီကို တက္ကသိုလ်၊ နယူး မက္ကဆီကို စိုက်ပျိုးရေးနှင့် စက်မှုအတတ်သင်ကောလိပ်၊ နယူး မက္ကဆီကို ဟိုင်းလင်း တက္ကသိုလ် စသည့် တက္ကသိုလ်ကျောင်းများလည်း ရှိသည်။

နယူး မက္ကဆီကို ပြည်နယ်၏ မြို့တော်မှာ ၁၉၅၀ ပြည့်နှစ်တွင် လူဦးရေ ၂၇,၉၉၈ ယောက်ခန့်ရှိသော ဆန်တာ ဖေး မြို့ဖြစ်၏။ ပြည်နယ်အတွင်း အကြီးဆုံးမြို့ဖြစ်သော အဲဗျူကားကီးမြို့တွင် နိုင်ငံတော်တက္ကသိုလ်ကျောင်း ရှိသည်။ လူဦးရေမှာ ၁၉၅၅ ခုနှစ်တွင် ခန့်မှန်းခြေ ၉၆,၈၁၅ ယောက်ဖြစ်၏။ ဆန်တာ ဖေး ၏ အနောက်မြောက်ဖက် လော့အယ်လာမို့စ သဲကန္တာရတွင် အနုမြူသုတေသန ဗဟိုဌာနတခု တည်ရှိခဲ့၍၊ အဲလဗျူကားကီးမြို့၏ အရှေ့တောင်ဖက် ၁၂၅ မိုင်အကွာရှိ အယ်လမိုဂေါဒို လေယာဉ်စခန်းတွင် ၁၉၄၅



နယူး မက္ကဆီကိုပြည်နယ် ခြောက်သွေ့သောဒေသပိုင်း ရှုခင်း

ခု ဇူလိုင်လ ၁၆ ရက်နေ့၌ ပဌမဆုံးအကြိမ် အနုမြူဗုံးကို စမ်းသပ်ဖောက်ခွဲကြည့်ခဲ့၏။

နယူး မက္ကဆီကို ပြည်နယ်သည် ယခင်က ကျောက်ဆောင်ဂူနေလူများနှင့် ပွဲဗလို အင်ဒီးယန်းလူမျိုးများနေထိုင်ရာဖြစ်ခဲ့၏။ ပွဲဗလို အင်ဒီးယန်းများမှာ ယခု အမေရိကန်ပြည်ထောင်စုဟု တွင်နေသော နယ်မြေဒေသကြီးအတွင်း၌ အယဉ်ကျေးဆုံးသော အင်ဒီးယန်းလူမျိုးများ ဖြစ်လေသည်။

ကာဗေးသား သေ ဗားကားဆိုသူသည် နယူး မက္ကဆီကိုဟုတွင်နေသောဒေသသို့ ပဌမဆုံးအကြိမ်ရောက်ရှိခဲ့ဟန်တူ၏။ ၁၅၂၈ ခုနှစ်တွင် ဖလော်ရီဒါသို့ နယ်လှည့်ရှာဖွေရန် စေလွှတ်ခြင်းခံခဲ့ရသော ကာဗေးသား သေ ဗား ကား နှင့် စပိန်လူမျိုးတစုသည် အင်ဒီးယန်းတို့၏ တိုက်ခိုက်ခြင်းကို ခံရသဖြင့်၊ ယင်း နှင့် အပေါင်း ၃ ဦးတို့သာ လျှင် ထွက်ပြေးလွတ်မြောက်ကာ၊ ၁၅၃၆ ခုနှစ်တွင် မက္ကဆီကို စီတီ မြို့တော်သို့ ပြန်လည်ရောက်ရှိခဲ့သည်။ မက္ကဆီကို စီတီတွင် မြောက်ဖက်ရှိ ပွဲဗလို အင်ဒီးယန်းများ ကြွယ်ဝချမ်းသာပုံကို မစားရ ဝခမန်း ပြောပြခဲ့ရာ၊ စပိန်လူမျိုး မက္က ဆီကိုဘုရင်ခံချုပ်က နယ်သစ်ရှာဖွေရန် လူတစုကို စေလွှတ်လေသည်။ ထိုသူတို့သည် နယူး မက္ကဆီကိုပြည်၌ ရွှေတွင်းများရှိသည်ဟု သတင်းလွှင့်ခဲ့လေသည်။

၁၅၈၁ ခုနှစ်တွင် ပွဲဗလို အင်ဒီးယန်းများကို ခရစ်ယန်သာသနာပြုရန်အတွက် ဖရန်စစ္စကန်ဂိုဏ်းဝင် သာသနာပြု ၃ ဦးနှင့် စစ်သားအနည်းငယ်တို့သည် ရီးအို ဂရန်ဒီမြစ်ကို ဆန်တက်လာခဲ့ကြ၏။ သာသနာပြုဘုန်းကြီးများမှာ အင်ဒီယန်းများ၏ သတ်ဖြတ်ခြင်းကို ခံခဲ့ရသော်လည်း၊ စစ်သားများသည် မက္ကဆီကို ပြည်သို့ ပြန်လည်ရောက်ရှိသွားသည်။ ယင်းတို့က နယူး မက္ကဆီကိုပြည်နယ်အကြောင်း ပြောပြကြပြန်သဖြင့်၊ တဖန် စိတ်ဝင်စားလာကြပြန်ကာ၊ စပိန်ဘုရင်မင်းမြတ်ကလည်း နယူး မက္ကဆီကို ပြည်နယ်ကို ယင်း၏ ပိုင်နက်အတွင်း သွတ်သွင်းရန် အမိန့်ပေးခဲ့လေသည်။

၁၅၉၈ ခုနှစ်တွင် ဟွမ် သေ အိုညားတေး ဆိုသူသည် ထိုနယ်တွင်းသို့ ဝင်ရောက်လှည့်လည်ရှာဖွေခဲ့ပြန်သည်။ ယင်းသည် ပွဲဗလို အင်ဒီးယန်းများကို အောင်မြင်ခဲ့ပြီးနောက် ချာမာ မြစ်ပေါ် တွင် ပဌမဆုံးနယ်သစ်စိုက်ခဲ့၏။ သူ ကိုယ်သူလည်း နယူး မက္ကဆီကို၏ ဘုရင်ခံအဖြစ် ကျေညာခဲ့၏။ ၁၆၀၉-၁၁ ခုနှစ် ဆောင်းရာသီတွင် ဘုရင်ခံ ပါရယ်လတာသည် ဆန်တာ ဖေး မြို့ကို နယူး မက္ကဆီကို၏ မြို့တော်အဖြစ် တည်ထောင်ခဲ့သည်။

နယ်သစ်သို့ စစ်သားများနှင့်အတူ သာသနာပြုများလည်း လိုက်ပါလာကြသည်။ ယင်းတို့သည် ပွဲဗလို အင်ဒီးယန်းများအား ခရစ်ယန် အယူဝါဒကို ဟောပြောလျက်၊ ရီးအို ဂရန်ဒီ မြစ်ဝှမ်းတလျှောက်တွင် သာသနာပြုစခန်းများ တည်ထောင်ခဲ့လေသည်။ သို့သော် အပက်ချီ၊ နက်ဗဟိုနှင့် ဥတီ အင်ဒီးယန်းများသည် လူဖြူများ ရောက်လာသည်ကို မကျေနပ်သဖြင့်၊ စပိန်တို့အား မကြာခဏ တိုက်ခိုက်နေခဲ့သောကြောင့်၊ နယူး မက္ကဆီကို ပြည်နယ်သည် နှစ်ပေါင်း ၂၀၀ ကျော်မျှ စပိန်နိုင်ငံတော်ကြီး၏ ရှေ့ပြေး ကင်းစခန်းအနေမျိုးသာ ဖြစ်ခဲ့ရ၏။ လူဖြူဦးရေမှာလည်း ၄၀,၀၀၀ လောက်သာ ရှိခဲ့၏။ မက္ကဆီကိုနိုင်ငံက ၁၈၂၁ ခုနှစ်တွင် လွတ်လပ်ရေးကြေညာသောအခါ၊ နယူး မက္ကဆီကိုသည် မက္ကဆီကိုနိုင်ငံ၏ ပြည်နယ်တခုဖြစ်လာလေသည်။

နယ်ခြားနှင့် စပ်လျဉ်း၍ အခြင်းများမှုတို့ကြောင့် ၁၈၄၆ ခုနှစ်တွင် မက္ကဆီကိုစစ်ပွဲကြီးဖြစ်ပွားခဲ့သောအခါ၊ အမေရိကန်တပ်များသည် လားဗေးဂတ်နှင့် ဆန်တာ ဖေးတို့ကို အေးချမ်းစွာ သိမ်းပိုက်လိုက်၏။ စစ်ပွဲအပြီးတွင် အမေရိကန် ပြည်ထောင်စုနိုင်ငံသည် နယူး မက္ကဆီကို အပါအဝင် နယ်ပယ်အတော်များများကို ရရှိခဲ့လေသည်။

၁၈၅၀ ပြည့်နှစ်တွင် သီးခြားနယ်ပယ်အဖြစ် ဖွဲ့စည်းခဲ့စဉ်က၊ ယခု အယ်ရီဇိုးနားနှင့် ကောလိုရားဒိုးပြည်နယ်များတွင် ပါဝင်လျက်ရှိသည့် နယ်မြေအတော်များများပါဝင်ခဲ့၏။ ပြည်တွင်းစစ်ပွဲ ဖြစ်ပွားခဲ့စဉ်က ထိုနယ်တို့ကို ၁၈၆၁ ခုနှစ်တွင် သူပုန်တို့သည် ခေတ္တမျှ သိမ်းပိုက်ထားခဲ့သေး၏။

နယူး မက္ကဆီကို ပြည်နယ်တွင် မီးရထားလမ်းများ ဖောက်လုပ်ခဲ့ခြင်းကြောင့်၊ ၁၈၈၀ ပြည့်နှစ်လွန် နှစ်များအတွင်း၊ သိုးနွားမွေးမြူရေးလုပ်ငန်းများ အကြီးအကျယ်ထွန်းကားတိုးတက်ခဲ့လေသည်။

၁၈၅၀ ပြည့်နှစ်တွင် သီးခြားနယ်ပယ်အဖြစ်ဖွဲ့စည်းခဲ့ပြီးနောက်၌၊ နယူး မက္ကဆီကိုသည် ပြည်နယ် ဖြစ်လာရန် ကြိုးစားခဲ့ရာ၊ ၁၉၁၂ ခုနှစ် ဇန်နဝါရီလ ၆ ရက်နေ့တွင်မှ ၄၇ ခုမြောက် ပြည်နယ်အဖြစ် ပြည်ထောင်စုအတွင်း ပါဝင်ခွင့်ရခဲ့လေသည်။ ထိုကြောင့် နယူး မက္ကဆီကိုပြည်နယ်ကို ၁၉၁၂ ခုနှစ်တွင် ရေးဆွဲသော ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ အုပ်ချုပ်သည်။

ပဌမ ကမ္ဘာစစ်ကြီးနှင့် ဒုတိယ ကမ္ဘာစစ်ကြီးများအတွင်းက နယူး မက္ကဆီကိုပြည်နယ်သည် ယင်း၏ နွားခြံကြီးများနှင့် သိုးခြံကြီးများအားဖြင့် အမေရိကန်တပ်များအတွက် စားနပ်ရိက္ခာနှင့် အဝတ်အထည်များဖြည့်တင်းပေးခဲ့၏။ ယင်းမှထွက်သည့် ဓာတ်သတ္တုများကိုလည်း သင်္ဘောများ၊ လေယာဉ်ပျံများ၊ တင့်ကားများနှင့် ယမ်းဘီလူးများ ပြုလုပ်ရာတွင် အသုံးပြုခဲ့၏။ ပြည်နယ်အတွင်း ပြည်ထောင်စုအနုမြူ တိုးတက်လုပ်ဆောင်ရေးဌာနများနှင့် လေယာဉ်စခန်းများ တည်ထောင်ခဲ့သောကြောင့်လည်း၊ ပြည်နယ်၏ စီးပွားရေးအခြေ တိုးတက်ကောင်းမွန်လာခဲ့၏။ သဘာဝ

ခေတ်ငွေ၊ သဘာဝဓာတ်ဆီနှင့် ယူရေးနီးယမ်းများ တိုးတက် ထုတ်လုပ်ခဲ့သဖြင့်လည်း၊ ၁၉၅၀ ပြည့်နှစ်လွန် နှစ်များတွင် အလုပ်အကိုင်နှင့် စီးပွားရေးအခွင့်အလမ်းများ ပိုမို ပေါ်ပေါက်လာခဲ့လေသည်။

**နယူး ယော့ ပြည်နယ်။** ။နယူး ယော့ ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ အစည်ပင်ဆုံးသော ကူးသန်း ရောင်းဝယ်ရေး ဗဟိုသော့ချက်ပြည်နယ်တနယ်ဖြစ်၍၊ အတ္တလန္တိတ်ကမ်းခြေအလယ်ပိုင်းတွင် တည်ရှိသည်။ နယူး ယော့ ပြည်နယ်၏ မြောက်ဖက်တွင် အွန်တေးရီးယိုး အိုင်နှင့် ကနေဒါပြည်နယ်များ၊ အရှေ့ဖက်တွင် ဗားမောင့်ပြည်နယ်၊ မက်စချူးဆက်ပြည်နယ်နှင့် ကွန်နက်တီကတ်ပြည်နယ်၊ တောင်ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာ၊ နယူး ဂျာစီ ပြည် နယ်နှင့် ပင်ဆီလဗေးနီးယားပြည်နယ်၊ အနောက်ဖက်တွင် နိုင်အဂ္ဂရာရေတံခွန်နှင့်အီရီအိုင်တို့က အသီးအသီး နယ်နိမိတ် သတ်မှတ်ထားလေသည်။

နယူး ယော့ ပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၄၉,၅၇၆ မိုင် ရှိ၏။ ပုံသဏ္ဌာန်မှာ တြိဂံကဲ့သို့ဖြစ်၍၊ အရှေ့မှ အနောက်သို့ ၃၂၆.၄၆ မိုင် ကျယ်ပြီးလျှင်၊ မြောက်မှ တောင်သို့ မိုင် ၃၀၀ ရှည်သည်။ နယ်အတွင်း၌ မှီတင်း နေထိုင်သော လူဦးရေမှာ ၁၉၅၅ ခုနှစ် ခန့်မှန်းခြေအရ ၁၅,၄၃၃,၀၀၀ ယောက် ရှိသည်။ နယူး ယော့ ပြည်နယ် သည် သေးငယ်သော ပြည်နယ်ကလေးပင် ဖြစ်လင့်ကစား၊ လူဦးရေအားဖြင့်၎င်း၊ စီးပွားရေးအားဖြင့်၎င်း ပဌမတန်း ပြည်နယ်တနယ် ဖြစ်ရကား၊ ယင်းကို နိုင်ငံတော်ပြည်နယ် ဟူ၍ပင် ခေါ်စမှတ်ပြုကြသည်။

နယူး ယော့ ပြည်နယ်သည် တောတောင် မြစ်ချောင်း အင်းအိုင်များ ထူထပ်လှ၏။ ပြည်နယ်၏မြေမျက်နှာပြင်မှာ တောင်တန်းကြီးနှစ်သွယ်အားဖြင့် ကွဲပြားလျက်ရှိ၏။ တောင်တန်းတသွယ်မှာ အရှေ့မြောက်ဖက်၌ ရှိပြီးလျှင်၊ အဒီရွန်ဒက်တောင်များဟု တွင်၏။ ထိုတောင်များတွင် မောင့်မာစီသည် အမြင့်ဆုံးဖြစ်၍၊ ၅၃၄၄ ပေ မြင့်၏။ တောင်ဖက်ခပ်ကျကျ ဟဒ်ဆန်မြစ်၏ အနောက်ဖက်တွင် ကား၊ ကက်စကီးတောင်များရှိ၍၊ ယင်းတို့သည် မမြင့်မား လှချေ။ နယူး ယော့ ပြည်နယ်၏ ကမ်းခြေဒေသများသည် မြေသြဇာထက်သန်၍၊ ရာသီဥတုညီမျှသောကြောင့်၊ ကောက်ပဲသီးနှံစိုက်ပျိုးရန် သင့်တော်ပေသည်။ အတ္တလန္တိတ် ကမ်းခြေတွင် အကြီးဆုံးဖြစ်သော လောင်းကျွန်း၊ မန် ဟက်တန်ကျွန်းနှင့် စတေတင်ကျွန်းများသည် နယူး ယော့ ပြည်နယ်အတွင်း ပါဝင်သည်။ ထင်ရှား၍ များစွာအသုံး



နယူး ယော့ ပြည်နယ်၏ အကြီးဆုံး မြို့ဖြစ်သည့် နယူးယော့မြို့



နယူး ယော့ ပြည်နယ်ရှိ နာမည်ကျော် ဂျော့ ဝါရှင်တန် ကြိုးတန်တားကြီး

ဝင်သော မြစ်နှစ်သွယ်မှာ ဟာဒ်ဆန်မြစ်နှင့် မိုဟော့မြစ်တို့ဖြစ်၏။ မိုဟော့မြစ်သည် ဟာဒ်ဆန်မြစ်၏ မြစ်လက်တက်ဖြစ်၍၊ နယူး ယော့ ပြည်နယ်အလယ်ပိုင်းကို ဖြတ်သန်း စီးဆင်းကာ၊ ပြည်နယ်နှင့် လူမျိုး တိုးတက်ရေးတွင် ရှေ့တန်းမှ ပါဝင်ထမ်းဆောင်နေလေသည်။ နယူး ယော့ ပြည်နယ်မှ မြစ်များသည် ကျောက်တောင်များကို ဖြတ်သန်းစီးဆင်းလာကြရသဖြင့်၊ အရှိန်ကြီးမားသော ရေတံခွန်ကြီးများ ဖြစ်ထွန်းပေါ် ပေါက်စေ၏။ ထင်ရှားသော ရေတံခွန်မှာ နိုင်အဂ္ဂရာရေတံခွန်ဖြစ်၏။ (နိုင်အဂ္ဂရာရေတံခွန် — ရှု။) ထိုကဲ့သို့သောရေတံခွန်များမှ ရေအားဖြင့် လျှပ်စစ်ဓာတ်အားထုတ်ယူကာ၊ ပြည်နယ်တွင်း စက်မှုလက်မှုလုပ်ငန်းများတွင် အသုံးပြုလေသည်။

နယူး ယော့ ပြည်နယ်၏ ရာသီဥတုမှာ တနေရာနှင့် တနေရာ တူညီမှုမရှိချေ။ နွေရာသီ၌ ပူ၍၊ ဆောင်းရာသီတွင် အလွန်အေးတတ်၏။ သို့ရာတွင် ပင်လယ်ပြင်နှင့် နီးကပ်နေသော လောင်း ကျွန်းနှင့် နယူး ယော့ မြို့များမှာမူ ပင်လယ်လေကြောင့် အပူအအေးမျှတလေသည်။ တနှစ်လုံးအတွက် မိုးရေချိန်လက်မမှာ ၄၀ နှင့် ၅၀ အကြားတွင် ရှိ၏။

နယူး ယော့ ပြည်နယ်၏သဘာဝထွက်ကုန်များမှာ သဘာဝဓာတ်ငွေ့၊ ရေနံ၊ ဂျစ်ပဆမ်ကျောက်၊ ကျောက်ဖြူ၊ ထုံးကျောက်၊ ဂဒံကျောက် စသည်တို့ဖြစ်၏။ ဂျစ်ပဆမ်ကိုမူ အများဆုံးတွေ့ရှိပေသည်။ နယူး ယော့ ပြည်နယ်တွင် လယ်ယာစိုက်ပျိုးရေးလုပ်ငန်းနှင့် သိုးနွား၊ ဘဲကြက် မွေးမြူရေးလုပ်ငန်းများကို တဖြည်းဖြည်းတိုးတက်အောင် လုပ်ကိုင်လျက် ရှိသည်။ ထွက်ကုန်များမှာ နို့လုပ်ငန်းထွက်ပစ္စည်းများ၊ မြက်ခြောက်၊ ကြက်ဘဲနှင့် ဥများ၊ နွား၊ အာလူး၊ သိုးနှင့် သိုးမွေး၊ မြင်းစားဂျုံ၊ ပြောင်းဖူး၊ ဂျုံ၊ မုယောစပါး၊ ရိုင်းဂျုံ၊ သစ်သီး စသည်တို့ ဖြစ်၏။ နယူး ယော့ ပြည်နယ်သည် စက်မှုလက်မှုလုပ်ငန်းများ အထူး တိုးတက်ထွန်းကားသော ပြည်နယ်ဖြစ်သည့်အလျောက်၊ စက်မှုလက်မှုလုပ်ငန်း ထွက်ကုန်များမှာ အထည်အလိပ်မှစ၍ လေယာဉ်ပျံအထိ အမျိုးအမည်များပြားလှလေသည်။

အမေရိကန်ပြည်ထောင်စု၏ ထွက်ကုန် သုံးပုံတပုံသည်၎င်း၊ အမေရိကန်ပြည်ထောင်စုသို့ ဝင်ကုန်၏ သုံးပုံနှစ်ပုံသည်၎င်း၊ နယူး ယော့ ပြည်နယ်၏ မြို့ကြီးတမြို့ဖြစ်သော နယူး ယော့ မြို့ဆိပ်ကမ်းမှ ထွက်ဝင်ရလေသည်။ ပဌမကမ္ဘာစစ်ကြီးပြီးဆုံးပြီးသည်မှစ၍၊ ကမ္ဘာ့ဘဏ္ဍာရေး အချက်အခြာနေရာမှာ နယူး ယော့ ပြည်နယ်ရှိ၊ နယူး ယော့ မြို့မှ ဝေါ လမ်းပင်ဖြစ်လေသည်။ နယူး ယော့ ပြည်နယ်ရှိ အခြားမြို့ကြီးများဖြစ်သော ရော့ချက်စတာ၊ ဗတ်ဖလို၊ ဆိုင်ရာကျူနှင့် အယ်လဗနီတို့သည်လည်း ထင်ရှား သော ကူး သန်းရောင်းဝယ်ရေးဗဟိုဌာနများ ဖြစ်သည်။

နယူး ယော့ မြို့သည် နယူး ယော့ ပြည်နယ်တွင်သာမက၊ ကမ္ဘာပေါ် ရှိ အကြီးဆုံးသော မြို့များ၌လည်း ပါဝင်သည်။ သို့ရာတွင် နယူး ယော့ မြို့သည် နယူး ယော့ ပြည်နယ်၏ မြို့တော်မဟုတ်ပေ။ နယူး ယော့ ပြည်နယ် မြို့တော်မှာ အယ်လဗနီမြို့ ဖြစ်၏။

နယူး ယော့ ပြည်နယ်တွင် စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားသဖြင့်၊ ကမ္ဘာအရပ်ရပ်မှ လူမျိုးပေါင်းစုံတို့သည် အသက်မွေးဝမ်းကျောင်းအလို့ငှာ လာရောက်နေထိုင်ကြ၏။ လူမျိုးပေါင်းစုံနီးနီးမျှ မှီတင်းနေထိုင်သော ပြည်နယ်ဖြစ်လေသည်။ သို့ရာတွင် နယူး ယော့ ပြည်နယ်သို့ ပဌမဦးဆုံး လာရောက်နေထိုင်သော လူမျိုးကား ဒပ်ချလူမျိုးဖြစ်၏။

နယူး ယော့ ပြည်နယ်ရှိ ဟာဒ်ဆန်မြစ်နှင့် မိုဟော့မြစ်တို့သည် ပင်လယ်နှင့် အိုင်ကြီးများအကြားတွင် အဓိက ကုန်သွယ်ရေးလမ်းကြောင်းကြီးများ ဖြစ်လေသည်။ ၁၈၂၅ ခုနှစ်တွင် ဖောက်လုပ်ခဲ့သော အီရီတူးမြောင်းသည် နယူး ယော့ ပြည်နယ်သာမက အမေရိကန်ပြည်ထောင်စု၏ ကူးသန်းရောင်းဝယ်ရေးနှင့် စီးပွားရေးတိုးတက်မှုအတွက်များစွာ အရေးပါအရာရောက်ခဲ့ပေသည်။ ယင်းသို့သော ရေလမ်း အဆက်အသွယ်များ အပြင်၊ ကုန်းလမ်း အဆက်အသွယ်များနှင့် လေကြောင်းအဆက်အသွယ်များ ထူးခြားကောင်းမွန်မှုတို့ကြောင့်၊ နယူး ယော့ ပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် ထိပ်တန်းပြည်နယ်တနယ် ဖြစ်နေလေသည်။

နယူး ယော့ ပြည်နယ်သည် မသင်မနေရပညာရေးစံနစ်ကို ၁၈၇၄ ခုနှစ်တွင် စတင်ပြဋ္ဌာန်းခဲ့၏။ ပညာရေးတိုးတက်ကောင်းမွန်ရန်လည်း ပစ္စည်းဥစ္စာကုံလုံကြွယ်ဝသူတို့က ရန်ပုံငွေများ ဖွင့်ကာ အားပေးလျက်ရှိ၏။ နယူး ယော့ ပြည်နယ်၌ ဆရာဖြစ်သင် ကောလိပ်ကျောင်းပေါင်း ၁၁ ကျောင်း၊ အခြား တက္ကသိုလ်နှင့် ကောလိပ်ကျောင်းပေါင်း ၅၂ ကျောင်းနှင့် သက်မွေးဝမ်းကျောင်း အတတ်သင် ဌာနကြီး ၁၉ ဌာန ရှိလေသည်။

၁၈၉၄ ခုနှစ်တွင် အတည်ပြု ပြဋ္ဌာန်းခဲ့သော ဖွဲ့စည်း အုပ်ချုပ်ပုံအခြေခံဥပဒေအရ၊ နယူး ယော့ ပြည်နယ်ကို အုပ်ချုပ်သည်။ ပြည်နယ်ဆိုင်ရာ ဥပဒေပြုလွှတ်တော်တွင်၊ အဖွဲ့ဝင် ၅၈ ဦး ပါဝင်သော အထက်လွှတ်တော်နှင့် အဖွဲ့ဝင် ၁၅၀ ပါဝင်သော အောက်လွှတ်တော်ဟူ၍၊ လွှတ်တော်နှစ်ရပ်ရှိသည်။ ထိုလွှတ်တော်နှစ်ရပ်လုံး၏ သက်တမ်းမှာ ၂ နှစ်ဖြစ်၏။ ပြည်နယ်အုပ်ချုပ်ရေး အကြီးအကဲများဖြစ်သော ဘုရင်ခံနှင့် လက်ထောက်ဘုရင်ခံတို့ကို လေးနှစ်တကြိမ် ရွေးကောက်တင်မြှောက်သည်။ ဒေသန္တရအုပ်ချုပ်ရေးအတွက် ပြည်နယ်ကို ကောင်တီနယ် ၆၂ နယ် ခွဲခြားထားလေသည်။ ပြည်နယ်မှ ပြည်ထောင်စုအထက်လွှတ်တော်သို့ ကိုယ်စားလှယ်တော် ၂ ယောက်နှင့် အောက်လွှတ်တော်သို့ ကိုယ်စားလှယ်တော် ၄၃ ယောက် အသီးအသီးစေလွှတ်ခွင့်ရသည်။

ယခု နယူး ယော့ ပြည်နယ်တည်ရှိရာဒေသသို့ ဥရောပတိုက်သားများ မရောက်လာမီက၊ ထိုဒေသတွင် အယ်လဂွန်ကင်အင်ဒီးယန်းများနှင့် အီရိုကွိုင်းအင်ဒီးယန်းများ နေထိုင်ခဲ့ကြသည်။ ထိုဒေသသို့ ပဌမဦးဆုံးရောက်ရှိလာခဲ့သော ဥရောပတိုက် သားမှာ ဣတာလျံ လူမျိုး ရေကြောင်းခရီး သည် ဂျီဗန္နီးဒါဗဲရာဇာနိုဆိုသူဖြစ်၍၊ ယင်းသည် ၁၅၂၄ ခုနှစ်တွင် ရောက်ရှိခဲ့၏။ ၁၆၀၉ ခုနှစ်တွင် ဒပ်ချကုမ္ပဏီတခု၏ ဝန်ထမ်းဖြစ်သူ အင်္ဂလိပ်လူမျိုး ဟင်နရီ ဟဒ်ဆန်သည် ဟဒ်ဆန်မြစ်တလျှောက် လှည့်လည်စုံစမ်းရှာဖွေခဲ့သည်။ ထိုအချိန်လောက်မှာပင် ရှမ်ပလိန်သည် ကနေဒါမှ ဝင်ရောက်လာခဲ့လေသည်။ (ရှမ်ပလိန် — ရှု။)

ဒပ်ချတို့သည် ၁၆၂၄ ခုနှစ်တွင် ယခု အယ်လဗနီတည်ရာဒေသ၌ ဖို့ဩရိန်းအမည်ရှိ ကုန်သွယ်စခန်းတခုကို တည်ထောင်ခဲ့ပြီးလျှင်၊ ၁၆၂၅ ခုနှစ်တွင် မန်ဟက်တန်ကျွန်းပေါ်၌ အခြေစိုက် နေထိုင်ခဲ့သည်။ မန်ဟက်တန်ကျွန်းရှိ ယင်းတို့၏ စခန်းကို နယူး အမ္မစတာဒမ်ဟု ခေါ်တွင်စေခဲ့၏။ ၁၆၆၄ ခုနှစ်တွင် နောင်အခါ ဒုတိယ ဂျိမ်း ဘုရင်ဖြစ်လာသူ ယော့မြို့စားက အင်္ဂလိပ်ရေတပ်တတပ်ကို စေလွှတ်ကာ၊ နယူး အမ္မစတာဒမ်မြို့ကို တိုက်ခိုက်သိမ်းယူစေခဲ့သည်။ ထိုသို့ သိမ်းယူပြီးနောက်တွင် ယော့မြို့စားအား ဂုဏ်ပြုသော အနေဖြင့် နယူး အမ္မစတာဒမ်မြို့ကို နယူး ယော့ မြို့ဟု ပြောင်းလဲမှည့်ခေါ် ခဲ့၏။ ၁၆၈၉ ခုနှစ်မှ ၁၇၆၀ ပြည့်နှစ်အထိဖြစ်သော နှစ်များအတွင်း အင်္ဂလိပ်တို့သည် နယူး ယော့ နယ်ပယ်ဒေသတဝိုက်တွင် ပြင်သစ်တို့နှင့်ၡင်း၊ အင်ဒီးယန်းတို့နှင့်ၡင်း၊ စစ်အပွဲပွဲ ဆင်နွှဲတိုက်ခိုက်ခဲ့ရသည်။ ၁၇၆၃ ခုနှစ်ရောက်မှသာလျှင် နယ်ပယ်ဒေသတခုလုံးသည် အင်္ဂလိပ်တို့လက်တွင်းသို့ ကျရောက်ခဲ့လေသည်။ အမေရိကန် လွတ်လပ်ရေး စစ်ပွဲဖြစ်ပွားသည့် အခါ၊ နယူး ယော့ ပြည်နယ်သည် ၁၇၇၇ ခုနှစ်တွင် လွတ်လပ်ရေး ကြေညာခဲ့၍၊ ပြည်နယ်သည်လည်း စစ်မြေပြင်ဖြစ်ခဲ့လေသည်။ ၁၇၈၈ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် နယူး ယော့ ပြည်နယ်သည် ပြည်ထောင်စု အခြေခံဥပဒေကို အတည်ပြု ပြဋ္ဌာန်းခဲ့ရာ၊ ပြည်ထောင်စု၏ မူလ ၁၃ ပြည်နယ်တွင် အပါအဝင်ဖြစ်လာခဲ့၏။ နယူး ယော့ မြို့သည် ၁၇၈၅ ခုနှစ်မှ ၁၇၉၀ ပြည့်နှစ်အထိ ပြည်ထောင်စုမြို့တော်ဖြစ်ခဲ့သည်။

ထိုနောက်တွင် နယူး ယော့ ပြည်နယ်သည် တဖြည်းဖြည်း တိုးတက်ကြီးပွားလာခဲ့သည်။ ပြည်တွင်းစစ်ပွဲအပြီးတွင် နယူး ယော့ ပြည်နယ်အနှံ့ အပြားတွင် စက်မှုလက်မှု ဗဟိုဌာနများ ထွန်းကားပေါ် ပေါက်ခဲ့သည်။ နယူး ယော့ မြို့သည် ပြည်ထောင်စု၏ ဘဏ္ဍာရေးနှင့် ယဉ်ကျေးမှုဆိုင်ရာ အချက်အခြာဌာန ဖြစ်လာခဲ့၏။ စက်မှုလက်မှုလုပ်ငန်းများ တိုးတက်ထွန်းကားလာသည်နှင့်အမျှ၊ လူမှုရေး ပြဿနာများတိုးတက်များပြားလာရကား၊ သက်ဆိုင်ရာ ဥပဒေများကို ပြဋ္ဌာန်းပေးခဲ့ရသည်။ ပဌမ ကမ္ဘာစစ်ကြီး အတွင်း၌ၡင်း၊ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ၡင်း နယူး ယော့ ပြည်နယ်သည် ပြည်ထောင်စုကို လူအားပစ္စည်းအားတို့ဖြင့် ထောက်ပံ့ကူညီခဲ့လေသည်။

**နယူးယော့မြို့။** ။နယူးယော့မြို့သည် အမေရိကန်ပြည်ထောင်စုတွင် အကြီးဆုံးမြို့ဖြစ်၍၊ ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးမြို့လည်း ဖြစ်သည်။ နယူးယော့မြို့ကို နယူး ယော့ ပြည်နယ်၏ အရှေ့တောင်ဖက်စွန်းရှိ ဟဒ်ဆန်မြစ်ဝမှ စတေတင်ကျွန်း၊ မန်ဟက်တန်ကျွန်းနှင့် လောင်းကျွန်း သုံးကျွန်းအပေါ် ဝယ် တည်ဆောက်ထားသည်။ ထိုကျွန်းများကိုလည်း မြစ်များ၊ ပင်လယ်အော်များက ပိုင်းခြားထားပြန်ရာ၊ နယူးယော့မြို့သည် ကမ္ဘာပေါ်တွင် သင်္ဘောဆိပ်ကမ်း အကောင်းဆုံးမြို့ဖြစ်၏။ သင်္ဘောဆိပ်သည် ဟဒ်ဆန်မြစ်ဝ၌ အချက်ကျစွာတည်ရှိခြင်းကြောင့်လည်း၊ ကမ္ဘာပေါ်တွင် ထိပ်တန်းကျသော မြို့ကြီးတမြို့ဖြစ်လာရလေသည်။

နယူးယော့မြို့တွင်၊ မန်ဟက်တန်၊ ဗရွန်၊ ကွင်း၊ ဗရွတ်ကလင်နှင့် ရစ်ချမွန်ဟူသော ရပ်ကွက်ကြီးငါးခု ပါဝင်သည်။ နယူးယော့မြို့၏ အကျယ်အဝန်းမှာ ၃၂၂·၈၃ စတုရန်းမိုင်ဖြစ်သည်။ နယူးယော့မြို့၏ လူဦးရေမှာ ၇,၈၉၁,၉၅၇

ယောက်ဖြစ်၍၊ လူမျိုးပေါင်းစုံရောနှောနေထိုင်သည်။ ရပ်ကွက်ကြီး ငါးကွက်အနက်၊ မန်ဟက်တန်ကျွန်းပေါ်တွင် တည်ရှိသော မန်ဟက်တန်ရပ်ကွက်ကား၊ အစည်ကားဆုံးသော ရပ်ကွက်ဖြစ်လေသည်။ အလျား ၁၂ မိုင်ခွဲမျှ ရှည်လျား၍၊ အနံအားဖြင့် ၂ မိုင်ခွဲမျှသာ ကျယ်ဝန်းသော ဤမန်ဟက်တန်ကျွန်းကလေးပေါ်တွင်၊ လူဦးရေ ၂ သန်းနီးပါးမျှ နေထိုင်ကြ၏။ ထို့ကြောင့်ပင်လျှင်၊ နယူးယော့မြို့ မန်ဟက်တန်ရပ်ကွက်ကြီး၌ မိုးထိတိုက်ကြီးများ စွင့်စွင့်ကားကား ပေါ်ထွက်နေရခြင်း ဖြစ်ပေသည်။ မန်ဟက်တန်ကျွန်းသည် နယူးယော့မြို့တော်၌ အရေးပါအရာရောက်၍၊ စီးပွားရေးအချက်အခြာဒေသဖြစ်ရကား၊ အနီးအနားရှိ စတေတင်ကျွန်း၊ လောင်းကျွန်းနှင့် အမေရိကန်ပြည်မရှိ ဂျာစီမြို့များမှ နေ့စဉ်မပြတ်ဆက်သွယ်နေရလေသည်။ ယင်းသို့ ဆက်သွယ်ရာ၌ များပြားလှသော လူဦးရေနှင့် အညီအညွတ်ဖြစ်စေရန်၊ ကူးတို့သင်္ဘောများ ထားရှိရုံသာမက၊ မြစ်ဖြတ် တန်တားကြီးများ၊ မြစ်အောက် ဥမင်လိုဏ်ခေါင်း ကားလမ်းကြီးများကိုပါ တည်ဆောက်ဖောက်လုပ်ထားရ၏။

မန်ဟက်တန်ကျွန်းအနောက်ဖက်တွင် ဟဒ်ဆန်မြစ်ရှိ၏။ ထိုမြစ်ကို ဖြတ်ကာ၊ ဂျော့ ဝါရှင်တန် ကြိုးတန်တား၊ လင်ကွန်း ဥမင်လိုဏ်ခေါင်း၊ ဟော်လန် ဥမင်လိုဏ်ခေါင်းများ ဖောက်လုပ်ထား၏။ ထို့ကြောင့် အမေရိကန်ပြည်မပေါ်ရှိ ဂျာစီမြို့နှင့် အဆက်အသွယ်လွယ်ကူသည်။

မန်ဟက်တန်ကျွန်းအရှေ့ဖက်တွင် အီစမြစ်ရှိ၏။ ထိုမြစ်ကို ဖြတ်ကာ၊ ဗရွတ်ကလင် တန်တား၊ ကွင်းစဗာရာ တန်တားနှင့် ဗရွတ်ကလင် ဗက်တရီ ဥမင်လိုဏ်ခေါင်း၊ ကွင်းစမစ်ဒတွန်း ဥမင်လိုဏ်ခေါင်းတို့ကို ဖောက်လုပ်ဆက်သွယ်ထား၏။ ထို့ကြောင့် အီစမြစ်၏ အရှေ့ဖက်ကမ်းရှိ ဗရွတ်ကလင် ရပ်ကွက်၊ ကွင်းစ ရပ်ကွက်၊ ဗရွန့် ရပ်ကွက်တို့နှင့် ဆက်သွယ်ရေးကောင်းမွန်သည်။

မန်ဟက်တန်ကျွန်း၏ တောင်ဖက်၊ နယူးယော့ ပင်လယ်အော်အလယ်ပိုင်းလောက်ရှိ ဗက်ဒလို ကျွန်းပေါ်တွင် လွတ်လပ်ရေးကျောက်ရုပ်ကြီးကို တည်ထား၏။ နယူးယော့မြို့သို့ ဝင်ရောက်လာကြသော ခရီးသည်တို့သည် ထိုကျောက်ရုပ်ကြီးကို အဝေးမှပင် လှမ်း၍ မြင်နိုင်ပေသည်။ လွတ်လပ်ရေးကျောက်ရုပ်ကြီးကို ညဥ့်အခါတွင် ဘေးပတ်လည်မှ ရောင်စုံဆလိုက်မီးများ ထိုးပေးထားရာ၊ များစွာ လှပတင့်တယ်လှပေသည်။

နယူးယော့မြို့သို့ လာရောက်နေထိုင်ကြသော နိုင်ငံခြားသား လူဦးရေမှာ မနည်းလှချေ။ အချို့မှာ လူမျိုးအလိုက် ရပ်ကွက်များ ခွဲခြားနေထိုင်ကြလေရာ၊ နေထိုင်သည့် လူမျိုးစု အလိုက် ရပ်ကွက်များကို အမည်မှည့်ခေါ်ကြလေသည်။ ထို့ကြောင့် နယူးယော့မြို့တွင်၊ တရုပ် ရပ်ကွက်၊ ဣတာလျံ ရပ်ကွက် စသည့်ရပ်ကွက်များနှင့် အခြား ပြင်သစ်၊ ဂျာမန်၊ ရုရှ စသည့် လူမျိုးများ၏ သီးခြားရပ်ကွက်များလည်း



နယူးယော့မြို့ရှိ ကမ္ဘာပေါ်တွင်အမြင့်ဆုံး ' အင်ပိုင်ယာ နိုင်ငံတော် အဆောက်အအုံ ' ပေါ်မှနေ၍ မြောက်ဖက်သို့မြော်ကြည့်လိုက်သည့်ရှုခင်း

ရှိသည်။ နီဂရိုး လူမျိုးများသည် ဟာလမ်ရပ်ကွက်၌ အနေများ၍၊ ယဟူဒီ လူမျိုးများကား၊ လိုဝါ အီဆိုက် (ဝါ) အရှေ့အောက်ပိုင်း ရပ်ကွက်၌ စုဝေးနေထိုင်ကြသည်။

နေရာဒေသသည် ကျဉ်းမြောင်း၍၊ မှီတင်းနေထိုင်သော လူဦးရေမှာ များပြားလှရကား၊ နယူးယော့မြို့ရှိ အဆောက်အအုံများကို အထပ်များ ဆင့်ကာဆင့်ကာ ဆောက်လုပ်ကြရ၏။ ထို့ကြောင့် နယူးယော့မြို့တွင် ကမ္ဘာပေါ်၌ အမြင့်မားဆုံးသော တိုက်တာကြီးများ ရှိလေသည်။ ယင်းတိုက်တာကြီးများထဲတွင် 'အင်ပါယာ နိုင်ငံတော် အဆောက်အအုံ' ကား၊ အမြင့်ဆုံးနှင့် အကြီးမားဆုံးဖြစ်ပေသည်။ ယင်းအဆောက်အအုံမှာ မန်ဟက်တန်ကျွန်းပေါ်၌ တည်ရှိ၍၊ အထပ်ပေါင်း ၁၀၂ ထပ် ရှိပြီးလျှင်၊ ပေပေါင်း ၁၂၅၀ မြင့်၏။ နောက်ဆုံးစိုက်ထူလိုက်သော ရုပ်မြင်သံကြားစက် မြှော်စင်နှင့်ပါ ဆိုလျှင် ၁၄၇၂ ပေ မြင့်လာသည်။ နယူးယော့မြို့ မန်ဟက်တန်ရပ်ကွက်တွင် ပေ ၅၀၀ ကျော်မြင့်သော မိုးထိတိုက်ကြီးပေါင်း ၃၀ ကျော်မျှ ရှိသည်။

နယူးယော့မြို့တွင် ဂုဏ်ယူဖွယ်ရာအဆောက်အအုံကြီးများ အနက် အထင်ရှားဆုံးမှာ နယူးယော့ ပြည်သူ့ စာကြည့်တိုက်နှင့် အနုပညာပြတိုက်ကြီးတို့ ဖြစ်၏။ နယူးယော့ ပြည်သူ့ စာကြည့်တိုက်တွင် စာအုပ်ပေါင်း ၅,၀၀၀,၀၀၀ ရှိ၍၊ တနှစ်လျှင် လူပေါင်း ၄,၀၀၀,၀၀၀ ကျော်မျှ ငှားရမ်းကြည့်ရှုကြလေသည်။

မန်ဟက်တန်ကျွန်းပေါ်ရှိ လမ်းများအနက်၊ ကမ္ဘာနှင့်ချီ၍ လူသိများသောလမ်းမှာ ဝေါလမ်းပင်ဖြစ်၏။ လွန်စွာကျဉ်းမြောင်း၍၊ အလျား မိုင်ဝက်မျှပင် မရှိသော်လည်း၊ အမေရိကန်ပြည်ထောင်စုကြီး တခုလုံးနှင့် ကမ္ဘာ့ငွေရေးကြေးရေးကိစ္စ အဝဝကို ထိုလမ်းကျဉ်းကလေးကပင် ကြိုးကိုင်ထားသည်။ အခြား နာမည်ကျော် လမ်းဖြစ်သော ဗရော့ဒဝေး လမ်းမကြီးကား၊ နယူးယော့အား တောင်မှ မြောက်သို့ ဖြတ်သန်းဖောက်လုပ်ထားသော လမ်းရှည်ကြီးဖြစ်၍၊ နာမည်ကျော် ဟိုတယ်ကြီးများ၊ ဇာတ်ရုံကြီးများ၊ ဆိုင်ကြီး ဆိုင်ငယ် အသွယ်သွယ်တို့ဖြင့် ပြည့်နှက်စည်ကားလှပေသည်။ ထိုလမ်းမကြီး၏ အောက်ပိုင်းတွင် ထရင်နီတီ ဘုရားရှိခိုးကျောင်း၊ စိန်ပေါ ဘုရားရှိခိုးကျောင်း အစရှိသည့် နာမည်ကျော်အဆောက်အအုံကြီးများ ရှိသည်။ နယူးယော့မြို့တွင် အလှပဆုံးလမ်းမကြီးမှာ ပဉ္စမရိပ်သာလမ်းမကြီးဖြစ်၏။ ထိုလမ်းတလျှောက်တွင် ဈေးဆိုင်တန်းများ၊ ဘုရားရှိခိုးကျောင်းများ၊ ကလပ်များ၊ ဟိုတယ်များနှင့် မင်းစိုးရာဇာ သဌေးသူကြွယ်များ နေထိုင်ရာ အဖိုးတန်အိမ်ဂေဟာများ ရှိ၍၊ များစွာစည်ကားသည်။

နိုင်ငံငယ်တခုခန့်မျှ လူဦးရေ များပြား၍၊ တိုက်တာ အိမ်ခြေတို့ဖြင့် ပြွတ်သိပ်နေသော မြို့တော်ကြီး၌၊ မြို့တော်သူ မြို့တော်သားတို့အဖို့ အသက်ရှူပေါက် ရကြစေခြင်းငှာ၊ မြို့တော်အတွင်း၌ ပန်းခြံဥယျာဉ်များ၊ အပန်းဖြေရိပ်သာများကို ပြုလုပ်ပေးထားသည်။ ကလေးသူငယ်များ လွတ်လပ်စွာ မြူးထူးပျော်ပါး ကစားနိုင်ကြစေရန်၊ ရာပေါင်းများစွာသော ကစားကွင်းများကိုလည်း ပြုလုပ်ပေးထား၏။ မန်ဟက်တန်ကျွန်း၏ အလယ်ဗဟိုတွင် ရှိသော ဗဟိုပန်းခြံကား၊ ဧကပေါင်း ၈၄၀ ခန့် ကျယ်ဝန်း၍၊ နေ့စဉ် လူ ၁၀၀,၀၀၀ ခန့် လာရောက်လည်ပတ်ကြည့်ရှုကြလေသည်။ နယူးယော့မြို့၏ အခြား လည်ပတ်ကြည့်ရှုဖွယ်ရာဒေသများကား၊



နယူးယော့ မြို့ပတ်ရိပ်သာ လမ်းတလျှောက် တွေ့မြင်ရသော စီးပွားရေးလုပ်ငန်းဆိုင်ရာ အဆောက်အအုံများ

ဗက်ထရီ ပန်းခြံ၊ ဗရွတ်ကလင် ကလေးသူငယ်များ ပြတိုက်၊ ကော်နီ ကျွန်း၊ ဂရင်းနစ် ရွာနှင့် ဖို့ တော့တင် စသည်တို့ ဖြစ်ပေသည်။

နယူးယော့မြို့တွင် အခမဲ့ပညာသင်ကျောင်းပေါင်း ၇၆၃ ကျောင်းမျှ ရှိ၍၊ အထက်တန်းကျောင်းပေါင်း ၇၅ ကျောင်းမျှ ရှိလေသည်။ တက္ကသိုလ်နှင့် ကောလိပ်ကျောင်းပေါင်း ၁၇ ခု ရှိ၍၊ ယင်းတို့အထဲတွင် အကျော်ကြားဆုံးနှင့် အမေရိကန် ပြည်ထောင်စု မြောက်ပိုင်းတွင် ရှေးအကျဆုံး ကိုလမ္ဗီယာတက္ကသိုလ်လည်း ပါဝင်လေသည်။

နယူးယော့မြို့တော်တွင် မြို့တော်ဝန်မှာ အုပ်ချုပ်ရေးဆိုင်ရာ အကြီးအမှူးဖြစ်၍၊ အုပ်ချုပ်ရေးအတွက် တာဝန် အရှိ

ဆုံးသော ပုဂ္ဂိုလ်ဖြစ်ပေသည်။ မြို့တော်ဝန်အား ၄ နှစ်တကြိမ်ကျ ရွေးကောက်တင်မြှောက်ရ၏။ ယင်းမြို့တော်ဝန်အောက်တွင် ရပ်ကွက်ကြီးများမှ ရွေးကောက်တင်မြှောက်ကြသော ဥက္ကဋ္ဌများ ရှိလေသည်။ ထို့ပြင် စီမံခန့်ခွဲရေးဘုတ်အဖွဲ့နှင့် မြို့တော်ကောင်စီဟူ၍ ရှိသေး၏။ စီမံခန့်ခွဲရေးဘုတ်အဖွဲ့သည် မြို့တော်၏ ဘဏ္ဍာရေးကိစ္စအဝဝကို ကျွန်အောင် စီမံရ၍၊ မြို့တော်ကောင်စီမှာမူ ဥပဒေပြုရေးကိစ္စတို့ကို ဆောင်ရွက်ရလေသည်။ ယင်း ဘုတ်အဖွဲ့နှင့် ကောင်စီတို့ကိုလည်း ၄ နှစ်တကြိမ်ကျပင် ရွေးကောက်တင်မြှောက်လေသည်။

ဒပ်ချပ် အရှေ့အိန္ဒိယကုမ္ပဏီဝန်ထမ်းတဦးဖြစ်သူ ဟင်နရီ ဟဒ်ဆန်သည် ယခုဟဒ်ဆင်မြစ်ဟု အမည်ရသောမြစ်နှင့် မန်ဟက်တန်ကျွန်းတို့ကို တွေ့ရှိခဲ့ပြီးနောက်၊ ဒပ်ချလူမျိုးများသည် ၁၆၂၅ ခုနှစ်တွင် မန်ဟက်တန်ကျွန်းပေါ်၌ အခြေစိုက်နေထိုင်ခဲ့ကြ၏။ မန်ဟက်တန်ကျွန်းရှိ ယင်းတို့၏ စခမ်းကို နယူး အမ္မစတာဒမ်ဟု ခေါ်တွင်စေခဲ့သည်။ ၁၆၆၄ ခုနှစ်တွင် အင်္ဂလိပ်တို့က နယူး အမ္မစတာဒမ်ကို သိမ်းပိုက်ခဲ့၍၊ နယူးယော့ဟု အမည်သစ်ပေးခဲ့၏။ အမေရိကန် လွတ်လပ်ရေးစစ်ပွဲကြီးအတွင်းက နယူးယော့မြို့သည် များစွာ အရေးပါအရာရောက်ခဲ့၏။ ၁၇၈၉ ခုနှစ်၌ နယူးယော့မြို့တွင် ဂျော့ ဝါရှင်တန်သည် အမေရိကန်ပြည်ထောင်စု၏ ပဌမ ဦးဆုံး သမတအဖြစ် ကျမ်းသစ္စာကျိန်ဆိုခဲ့လေသည်။ ၁၇၈၉–၉၀ ပြည့်နှစ်တွင် အမေရိကန်ပြည်ထောင်စု၏ မြို့တော်ဖြစ်ခဲ့၏။ နယူးယော့မြို့သည် ယခုအခါ ကမ္ဘာပေါ်တွင် အကြီးဆုံး မြို့တမြို့ဖြစ်သော်လည်း၊ အမေရိကန် လွတ်လပ်ရေးစစ်ပွဲကြီးမတိုင်မီကမူ၊ ဗော့စတွန်မြို့နှင့် ဖီလဒဲဖီးယားမြို့တို့လောက် ကုန်စည်ကူးသန်းရောင်းဝယ်ရေး၌ ကြီးကျယ်ထင်ရှားခြင်း မရှိသေးချေ။ ၁၇၈၃ ခုနှစ်လောက်သို့ရောက်လာမှသာလျှင် တရှိန်တည်း တိုးတက်လာခဲ့လေသည်။

၁၉၄၆ ခုနှစ်တွင် ဂျွန်၊ ဒီ၊ ရော့ကီးဖဲလား အငယ်က ကမ္ဘာ့ကုလသမဂ္ဂသို့ မန်ဟက်တန်ကျွန်း အရှေ့ဖက်ကမ်းရှိ မြေကေ ၈၀ ကို လှူဒါန်းခဲ့၏။ ယင်းနေရာတွင် ကမ္ဘာ့ကုလသမဂ္ဂ အဆောက်အအုံကြီး ဆောက်လုပ်ခဲ့ရာ၊ ယခုအခါ နယူးယော့မြို့သည် ကမ္ဘာ့ကုလသမဂ္ဂကြီး၏ အမြဲတမ်းရုံးစိုက်ရာဒေသ ဖြစ်လာလေသည်။

**နယူး ဟမ့်ရှိုင်ယာပြည်နယ်။** ။နယူး ဟမ့်ရှိုင်ယာပြည်နယ်သည် အမေရိကန်ပြည်ထောင်စုနိုင်ငံ၏ မူရင်း တဆဲ့သုံးပြည်နယ်တွင် အပါအဝင်ဖြစ်၍ မြောက်ဖက်အကျဆုံးတည်ရှိသော ပြည်နယ်ဖြစ်သည်။ မူလက ထိုပြည်နယ်ကို အင်္ဂလန်ပြည် ဟမ့်ရှိုင်ယာနယ်သား ဂျွန် မေဆန် ဆိုသူ ပိုင်သည်။ ပိုင်ရှင်၏ ဇာတိဌာနေဖြစ်သော ဟမ့်ရှိုင်ယာကို အစွဲပြု၍ နယူး ဟမ့်ရှိုင်ယာဟု အမည်မှည့်ခေါ်ခဲ့လေသည်။ နယူး ဟမ့်ရှိုင်ယာပြည်နယ်၏ မြောက်ဖက်တွင် ကနေဒါနိုင်ငံ၌ ပါဝင်သော ကွီဗက်ပြည်နယ် တည်ရှိ၍၊ တောင်ဖက်တွင် မက်စချူးဆက်ပြည်နယ်တည်ရှိ၏။ အရှေ့ဖက်တွင်ကား မိန်းပြည်နယ်နှင့် အတ္တလန္တိတ်သမုဒ္ဒရာတို့ တည်ရှိ၍၊ အနောက်ဖက်တွင်မူ ဗားမောင့်ပြည်နယ်တည်ရှိလေသည်။

နယူး ဟမ့်ရှိုင်ယာပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၉၃၀၄ မိုင် ရှိ၏။ ပြည်နယ်တခုလုံးလိုလိုပင် တောင်ကုန်းထူထပ်သည်။ ဝှိုက်တောင်တန်းရှိ ပေပေါင်း ၆၂၈၈ ပေ မြင့်သော ဝါရှင်တန်တောင်ထွတ်သည် ထိုပြည်နယ်တွင် အမြင့်ဆုံးဖြစ်၏။ နယူး ဟမ့်ရှိုင်ယာပြည်နယ်တွင် ထင်ရှားအရေးပါသော မြစ်များမှာ ကွန်နက်တီကတ်မြစ်၊ မယ်ရီမက်မြစ်၊ ပစ္စကတ္တာကွမြစ်၊ အင်ဒရော့ကော့ဂင်မြစ်နှင့် ဆာကိုမြစ်များဖြစ်၍ ယင်းတို့မှ ရေအားရရှိသည်။ ကွန်နက်တီကတ်မြစ်ပေါ်ရှိ နာမည်ကျော် '၁၅ မိုင် ရေတံခွန်' ၏ အောက်ဖက်တွင် တည်ရှိသော ရေအားသုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံကြီးသည် မြောက်အမေရိကတိုက်ရှိ လျှပ်စစ်ဓာတ်အားပေးစက်ရုံကြီးများတွင် အပါအဝင်ဖြစ်လေသည်။ နယူး ဟမ့်ရှိုင်ယာပြည်နယ်တွင် ရေအိုင်ပေါင်း ၁၃၀၀ ခန့် ရှိသည့်အနက် ဝင်နီပီးဆောကီးအိုင်သည် အကြီးဆုံးဖြစ်၏။ ယင်းသည့် ရေအိုင်များကို ဝန်းရံလျက် သစ်တောများ ပေါက်ရောက်လေရာ ပြည်နယ်တခုလုံး၏ ၈၀ ရာခိုင်



နယူး ဟမ့်ရှိုင်ယာပြည်နယ် ဝါရှင်တန်တောင်ထွတ်ကမ်းပါးယံတွင် ပျော်မွေ့စွာတက်နေကြသူ အမျိုးသမီး ၂ ဦး

## နယူး ဟမ့်ရှိုင်ယာ ပြည်နယ်



နယူး ဟမ့်ရှိုင်ယာပြည်နယ် ဗသမြို့ရှိ ပေါင်းမိုးတန်တား

နှန်းခန့်သည် သစ်တောကြီးများဖြင့် ဖုံးလွှမ်းနေလေသည်။ ထိုသစ်တောကြီးများတွင် ထင်ရှူးဖြူပင်၊ စပရူထင်ရှူးပင်၊ ဘုဇပတ်ပင်၊ သင်းဝင်ပင်၊ မေပယ်ပင်၊ ဝက်သစ်ချပင်နှင့် အဲလင်းပင်များ ပေါက်ရောက်သည်။

နယူး ဟမ့်ရှိုင်ယာပြည်နယ်တွင် ဆောင်းရာသီ တာရှည်၍ နှင်းများ ထူထပ်စွာ ကျရောက်တတ်သဖြင့်၊ ဆောင်းရာသီ ကစားကွင်း များစွာရှိ၏။ မြောက်ဖက်တောင်ကုန်းများ တွင် နှင်းများသည် ၇ ပေ၊ ၈ ပေခန့်အထိ ထူထပ်စွာကျ ရောက်တတ်သည်။ ထို့ပြင် မြောက်ဖက်ပိုင်းသည် ပင်လယ် ကမ်းခြေအနီးအနားရှိဒေသများထက် အအေးဓာတ် လွန်ကဲ ၏။ ထိုမျှမကသေး၊ နွေရာသီတွင်လည်း ထိုဒေသများ၌ ညဦးအချိန် မီးဖိုထားရလေသည်။ နယူး ဟမ့်ရှိုင်ယာပြည် နယ်တွင် လယ်ယာစိုက်ပျိုးရေးအတွက် မိုးအလုံအလောက် ရွာသွန်း၏။ သို့သော် စိုက်ပျိုးလုပ်ကိုင်ရသည့် အချိန်မှာ တိုတောင်းလှသည်။

နယူး ဟမ့်ရှိုင်ယာပြည်နယ်တွင် သဘာဝ ပင်ရင်းအခြေ အမြစ်များ ပေါများ၏။ ပင်လယ်ရိုးတန်း၏ သဘာဝအနေ အထားကြောင့် ပို့စမတ်မြို့သည် အတ္တလန္တိတ်သမုဒ္ဒရာ မြောက်ပိုင်းတွင် အကောင်းဆုံးသော ဆိပ်ကမ်းမြို့ ဖြစ် သည်။ မြစ်ချောင်းများကလည်း စိုက်ပျိုးရေး အတွက် အထောက်အပံ့ပြု၏။ ရေတံခွန်များမှ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရန်အတွက် ရေအားကို ရရှိလေသည်။ ထို့ပြင် လည်း နှမ်းဖတ်ကျောက်၊ လချေး၊ သင်ပုန်းကျောက်၊ ဖဲလစပါးနှင့် ကန့်ကူဆံ စသည်တို့လည်း ထွက်သည်။ သစ် တောများမှ သစ်နှင့် သစ်ပျော့ဖတ်များ ရရှိ၏။

နယူး ဟမ့်ရှိုင်ယာပြည်နယ်၏ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် တွင် ခန့်မှန်းခြေ ၅၃၃,၂၄၂ ယောက် ဖြစ်သည်။ နယူး ဟမ့်ရှိုင်ယာပြည်နယ် တောင်ကုန်းဒေသများသည် မြေဩဇာညံ့ဖျင်း၍ စိုက်ပျိုးလုပ်ကိုင်ရန် မဖြစ်သော ကြောင့်၊ ပြည်နယ်တခုလုံး၏ လေးပုံ တပုံသာသာမျှသာ စိုက်ပျိုးလုပ်ကိုင်လေသည်။ စိုက်ပျိုးလုပ်ကိုင်ရာဒေသများ မှာလည်း ပင်လယ်ကမ်းခြေတလျှောက်တွင် တည်ရှိ၏။ ဖူး ပြောင်း၊ အာလူး၊ ဟင်းသီးဟင်းရွက်များ၊ သစ်သော့သီးနှင့် ဗယ်ရီသီးများ ထွက်သည်။ နို့လုပ်ငန်းခြံကြီးများသည် အရှေ့ဖက်ရှိ မြို့ကြီးများကို နွားနို့နှင့် ထောပတ် ဖြည့်စွမ်း ပေး၏။ ကြက်ငှက်မွေးမြူရေးလုပ်ငန်းသည်လည်း အရေး ပါသောလုပ်ငန်း ဖြစ်သည်။

နယူး ဟမ့်ရှိုင်ယာပြည်နယ်တွင် အဓိကစက်မှုလက်မှု လုပ် ငန်းမှာ ခြည်ထည်ရက်လုပ်ရေးလုပ်ငန်းဖြစ်၍၊ ဖိနပ်လုပ်ငန်း သည် ဒုတိယအရေးပါသော စက်မှုလက်မှုလုပ်ငန်း ဖြစ် သည်။ အခြား စက်မှုလက်မှုလုပ်ငန်းများမှာ စက္ကူနှင့်သစ် ပျော့ဖတ်လုပ်ငန်း၊ သိုးမွေးထည်လုပ်ငန်း၊ အထည်စက် လုပ်

ငန်း၊ သေတ္တာလုပ်ငန်း စသည်တို့ ဖြစ်လေသည်။ စက်မှုလက်မှုလုပ်ငန်းများမှာ အများအားဖြင့် ပြည်နယ်၏ တောင်ပိုင်းနှင့် အလယ်ပိုင်းများတွင် တည်ရှိလေသည်။

နယူး ဟမ့်ရှိုင်ယာပြည်နယ်၏ မီးရထားလမ်းများသည် မိုင်ပေါင်း ၁၂၀၀ ခန့်ရှိ၍၊ လမ်းများမှာ မိုင်ပေါင်း ၁၄၀၀ ခန့် ရှိ၏။ ထိုပြင် လေဆိပ် ၂၅ ခုရှိ၍ ပြည်တွင်း ပြည်ပ လေကြောင်းအဆက်အသွယ်များ ရှိလေသည်။

ကွန်ကော့မြို့သည် နယူး ဟမ့်ရှိုင်ယာပြည်နယ်၏ မြို့တော်ဖြစ်၍ လူဦးရေ ၂၇,၉၈၈ ယောက် ရှိသည်။ သို့သော် ပြည်နယ်တွင် အကြီးဆုံးသော မြို့ကား လူဦးရေ ၈၂,၇၃၂ ယောက်ရှိသော မန်ချက်စတာမြို့ ဖြစ်၏။ အခြား မြို့ကြီးများမှာ ပို့စမတ်၊ နက်ရှူးအားနှင့် ဘာလင်မြို့များ ဖြစ်လေသည်။ ကွန်ကော့မြို့ရှိ စိန်ပေါကျောင်းသည် အမေရိကန်ပြည်ထောင်စုနိုင်ငံရှိ နာမည်အကျော်ဆုံးသော ယောကျ်ားကလေးကျောင်းများတွင် အပါအဝင်ဖြစ်၏။ ဒါရမ်မြို့ရှိ နယူး ဟမ့်ရှိုင်ယာတက္ကသိုလ်နှင့် ဟန်နိုဗာမြို့ရှိ ဒါ့တမတ်ကောလိပ်တို့သည်လည်း အထိုက်အလျောက် ထင်ရှားလေသည်။

၁၆၂၂ ခုနှစ်တွင် မယ်ရီမက်မြစ်နှင့် ကင်နီဗက်မြစ်တို့ အကြားရှိ နယ်မြေကို အင်္ဂလန်ပြည့်ရှင် ပဌမ ဂျိမ်းဘုရင်က ဆာ ဖာဒီနန် ဂေါ့ဂျက်နှင့် ဂျွန် မေဆန်တို့အား ပေးခဲ့၏။ ထိုနယ်မြေသည် ကမ်းခြေမှ အတွင်းဖက်သို့ မိုင်ပေါင်း ၆၀ ရှည်လျား၍၊ မူလက 'မိန်းပြည်နယ်' ဟု တွင်သည်။ နောက် ခုနစ်နှစ်ခန့် ကြာသောအခါ မယ်ရီမက်မြစ်နှင့် ပစ္စကတ္တာကွမြစ်တို့အကြားရှိ နယ်မြေကို ဂျွန် မေဆင်တဦးတည်းသို့ ပေးခဲ့ပြန်လေသည်။ ယခု ပို့စမတ်မြို့တည်ရှိရာ နယ်မြေအနီးတွင် ၁၆၂၃ ခုနှစ်၌ အင်္ဂလိပ်လူမျိုးများ ပဌမဦးဆုံး အခြေစိုက်ကာ နေထိုင်ခဲ့၍၊ တချိန်တည်းမှာပင် ဒိုဗာတွင်လည်း အခြေစိုက်နေထိုင်ခဲ့၏။ ၁၆၃၉ ခုနှစ်တွင် မက်စချူးဆက် ပြည်နယ်က ထိုပြည်နယ်သို့ ပေးအပ်ခဲ့သော ဘုရင့်ချာတာ စာချုပ်တွင် နယူး ဟမ့်ရှိုင်ယာနှင့် မိန်းနယ်တို့လည်း ပါဝင်သည်ဟု ဆိုကာ၊ ထိုနှစ်မှစ၍ နယူး ဟမ့်ရှိုင်ယာနယ်ကိုပါ သွတ်သွင်းအုပ်ချုပ်ခဲ့၏။ ၁၆၇၉ ခုနှစ်တွင် နယူး ဟမ့်ရှိုင်ယာပြည်နယ်သည် သီးခြား ဘုရင့်ချာတာစာချုပ်တရပ် ရရှိခဲ့သော်လည်း၊ ၁၆၈၆ ခုနှစ်မှ ၁၆၉၈ ခုနှစ်အထိ နယူး အင်္ဂလန် ဒိုမီနီယန်တွင် ပါဝင်ခဲ့သည်။ ၁၆၉၉ ခုနှစ်မှ ၁၇၄၁ ခုနှစ်အထိ မက်စချူးဆက်နှင့်အတူ ဘုရင်ခံတဦးတည်း၏ လက်အောက်တွင် ရှိနေခဲ့၏။ ၁၇၄၁ ခုနှစ်တွင် သီးခြား ပြည်နယ်ဖြစ်လာသည်။ သို့သော်လည်း ရက် အင်ဒီးယန်းများ၏ တိုက်ခိုက်မှုများကြောင့် တိုးတက်သင့်သလောက် မတိုးတက်ဘဲ ရှိခဲ့ရလေသည်။

အမေရိကန်လွတ်မြောက်ရေးစစ်ပွဲဖြစ်ပွား၍၊ ၁၇၇၆ ခုနှစ်တွင်၊ နယူး ဟမ့်ရှိုင်ယာပြည်နယ်သည် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေတရပ်ရေးဆွဲကာ ပဌမဦးဆုံး လွတ်လပ်သော အစိုးရအဖွဲ့ကို ဖွဲ့စည်းတည်ထောင်ခဲ့၏။ ၁၇၈၈ ခုနှစ်တွင် ပြည်ထောင်စု ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို လက်ခံ အတည်ပြုခဲ့သည်။

၁၈၀၀ ပြည့်နှစ်ရောက်လျှင်၊ စက်မှုလက်မှုလုပ်ငန်း အကြီး



နယူး ဟမ့်ရှိုင်ယာပြည်နယ် ဝှိုက်တောင်တန်းခြေ ဆောင်းရာသီရှုခင်း

အကျယ် တိုးတက်ထွန်းကားစပြုလာသည်။ လူအများတို့သည် လယ်ယာခြံမြေများကို စွန့်ခွာလျက် စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားရာဌာနများသို့ ပြောင်းရွှေ့နေထိုင်ကြ၏။ ပြည်တွင်းစစ်ပွဲအပြီးတွင် စက်မှုလက်မှုလုပ်ငန်းမှာ ပြည်နယ်တွင်း အရေးအပါဆုံးသော လုပ်ငန်းဖြစ်လာလေသည်။ နယူး ဟမ့်ရှိုင်ယာပြည်နယ်သည် ပြည်တွင်းစစ်ပွဲကြီးအတွင်း ပြည်ထောင်စုဖက်မှ ပါဝင်တိုက်ခိုက်ရန်အတွက် လူပေါင်း ၃၉,၀၀၀ ခန့် ဖြည့်စွမ်းပေးခဲ့၏။

နယူး ဟမ့်ရှိုင်ယာပြည်နယ်တွင် ၁၉ ရာစုနှစ် နောက်ပိုင်းအထိ စက်မှုလက်မှုလုပ်ငန်းများ ဆက်လက် ကြီးပွား တိုးတက်ခဲ့သဖြင့်၊ မြို့ကြီးပြကြီးများ ထွန်းကားလာသည်။ ၁၉၀၀ ပြည့်နှစ်ကျော်လွန်လာသည့်အခါ၊ လျှပ်စစ်အင်ဂျင်နီယာအတတ် ထွန်းကားလာ၍ နယူးဟမ့်ရှိုင်ယာ၏ ကြွယ်ဝလှသည့် ရေအား ပင်ရင်းအခြေအမြစ်များကို ကောင်းစွာ အသုံးပြုနိုင်ပြန်ပြီးလျှင် စက်ရုံများ ပိုမိုများပြားလာသည်။

ပဌမကမ္ဘာစစ်ကြီးအတွင်းက အမေရိကန်ပြည်ထောင်စုနိုင်ငံ၏ လက်နက်ကိုင်တပ်ဖွဲ့များတွင် အင်အားဖြည့်တင်းပေးရန်အတွက် လူပေါင်း ၂၀,၀၀၀ ကျော် စေလွှတ်ခဲ့၏။ စစ်အသုံးအဆောင်ပစ္စည်းများကိုလည်း အမြောက်အမြားလုပ်ဆောင်ပေးခဲ့၏။ ပို့စမတ်ရှိ ရေတပ်သင်္ဘောကျင်းတွင်လည်း စစ်သင်္ဘောနှင့် ရေငုပ်သင်္ဘော အများအပြား တည်ဆောက်ပေးခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းကလည်း ထိုကဲ့သို့ပင် ကူညီခဲ့၏။ နယူး ဟမ့်ရှိုင်ယာမှ ထောင်ပေါင်းများစွာ ချုပ်လုပ်ပေးခဲ့သော ဖိနပ်များနှင့် စစ်ဝတ်စုံညီများကို မဟာမိတ်တပ်သားများ ဝတ်ဆင်အသုံးပြုခဲ့ရလေသည်။

**နယူး အော်လီယန်းမြို့။** ။နယူး အော်လီယန်းမြို့သည် အမေရိကန်ပြည်ထောင်စုအပါအဝင်၊ လူဝီဇီယန္နားပြည်နယ်၏ မြို့ကြီးတမြို့ဖြစ်၍၊ မစ်စစ်စပီမြစ်၏ လက်ဝဲဖက်ကမ်းတွင်၊ ထိုမြစ်ဝမှ ၁၀၇ မိုင်အကွာ၌ တည်ရှိသည်။ သင်္ဘောများ ဝင်ထွက်သွားလာရန် လွယ်ကူသည့် သင်္ဘောဆိပ်မြို့ ဖြစ်သောကြောင့်၊ အမေရိကန်ပြည်ထောင်စု၏ ကုန်သွယ်ရောင်းဝယ်ရာ ဗဟိုဌာနတခုလည်း ဖြစ်သည်။ နယူး အော်လီယန်းမြို့သည် စတုရန်းမိုင် ၃၆၃.၅ မိုင် ကျယ်ဝန်း၍၊ မြို့ဟောင်းပိုင်းနှင့် မြို့သစ်ပိုင်းဟူ၍ ၂ ပိုင်း သီးခြားတည်ရှိ၏။ မြို့ဟောင်းပိုင်းတွင် အထူးသဖြင့် 'ကရီအို' ခေါ် အမေရိကန်ပြည်ပေါက် ပြင်သစ်နှင့် စပိန်လူမျိုးတို့၏ အနွယ်များ နေထိုင်ကြသည်။ ယင်းတို့သည် ယခုထက်တိုင် သူတို့၏ မိရိုးဖလာဘာသာစကားများကို ပြောဆိုကြ၍၊ မိရိုးဖလာဓလေ့ထုံးစံများကို ထိန်းသိမ်းစောင့်ရှောက်ကာ နေထိုင်ကြ၏။ မြို့သစ်ပိုင်းမှာမူ အမေရိကန်ပြည်ထောင်စု မြောက်ပိုင်းရှိ ခေတ်ဆန်သော မြို့ကြီးများနှင့် မည်သို့မျှ မခြားနားလှပေ။ ခေတ်မီအဆောက်အအုံများရှိ၍၊ အရောင်းအဝယ်ပြုရာ ဗဟိုဌာနဖြစ်လေသည်။

နယူး အော်လီယန်းမြို့တွင် လူဦးရေ ၅၇၀,၄၄၅ ယောက်



နယူး အော်လီယန်း မြို့၌ ကျင်းပသည့် ရောမကက်သလစ်တို့၏ မားဒီဂရား ခေါ် ကာနီဗယ်ပွဲတော်သည် အမေရိကန်ပြည်ထောင်စုတွင် အခမ်းနား အကြီးကျယ်ဆုံး ဖြစ်သည်။



နယူး အော်လီယန်းမြို့ရှိ ရှေးဟောင်းဂေဟာ

ခန့် နေထိုင်လျက်ရှိ၍၊ ထိုလူဦးရေ၏ လေးပုံတပုံ ကျော်ကျော်သည် ကပ္ပလီများ ဖြစ်ကြ၏။ ထိုသူတို့၏ ပညာရေးအတွက် သီးသန့်ကျောင်းများ၊ တက္ကသိုလ်များ ရှိလေသည်။ နယူး အော်လီယန်းမြို့သည် လုပဆန်းကျယ်သော ဘုရားရှိခိုးကျောင်းကြီးများကြောင့်၊ ကမ္ဘာ ကျော်သည်။ ထိုဘုရားရှိခိုးကျောင်းကြီးများ အနက်၊ အထင်ရှားဆုံးမှာ စိန့် လူဝီ ကသီးဒရယ်ဖြစ်၏။ ထိုမြို့တွင် တူလိန်းတက္ကသိုလ်၊ လူဝီဇီယန္နားပြည်နယ်တက္ကသိုလ်တွင် အဝင်အပါဖြစ်သော လူဝီဇီယန္နားဆေးကျောင်း၊ ဆိုဖီ နျူးကမ်း အမျိုးသမီး ကောလိပ်ကျောင်း၊ လွိုင်ယိုးလား တက္ကသိုလ်၊ ဒစ်လတ် တက္ကသိုလ်နှင့် ဇေးဗီးယား တက္ကသိုလ်အစရှိသည့် အထက်တန်းပညာရပ်များ သင်ကြားရာဌာနကြီးများ ရှိလေသည်။

နယူး အော်လီယန်းမြို့၏ မျက်နှာပြင်သည် မစ်စစ်စပီမြစ် ရေအတက်ဆုံးအမှတ်အောက် နိမ့်နေသောကြောင့်၊ မြစ်ရိုး တလျှောက် ရေကာတာကြီးများကို ဆောက်လုပ်ထားရလေသည်။ နယူး အော်လီယန်းမြို့သည် အမေရိကတိုက်တွင် ဝါဂွမ်း အကြီးအကျယ် အရောင်းအဝယ်ပြုရာ ဌာနဖြစ်၍၊ အမေရိကန်ပြည်ထောင်စုတောင်ပိုင်းရှိ စက်မှုလက်မှုထွန်းကားရာ အကြီးဆုံးသောမြို့များတွင်လည်း အပါအဝင်ဖြစ်လေသည်။ ထင်ရှားသော စက်မှုလက်မှုလုပ်ငန်းများမှာ စပါး ကြိတ်ခြင်း၊ ရေနံချက်ခြင်းနှင့် ကာဖီမှုန့် ကြိတ်ခြင်းတို့ဖြစ်၏။ ယင်း၏ ထွက်ကုန်များတွင် အဝတ်အထည်၊ အိမ်ထောင် ပရိဘောဂ၊ သုတ်ဆေးများ၊ သကြားနှင့် ချည်ထည်တို့ ပါဝင်သည်။

နယူး အော်လီယန်းမြို့ ယခုတည်ရှိရာဒေသသို့၊ ၁၇၁၇ ခုနှစ်ခန့်တွင်၊ ရှေးဦးစွာ ပြင်သစ်လူမျိုးများ လာရောက် အခြေစိုက်နေထိုင်ကြ၏။ ယင်းတို့သည် ထိုစဉ်က ပြင်သစ်နိုင်ငံကို ရင်ခွင်ပိုက်အုပ်စိုးနေသူ အော်လီယန်း မြို့စားကြီးကို အစွဲပြု၍၊ ထိုဒေသကို နယူး အော်လီယန်းမြို့ဟု မှည့်ခေါ်ခဲ့ကြသည်။ သို့သော်၊ နောင်အခါ ထိုဒေသကို စွန့်လွှတ်လိုက်ပြီးလျှင်၊ ၁၇၂၂ ခုနှစ်တွင် ပြန်လည်အခြေစိုက်နေထိုင်ခဲ့သည်။ ထိုမှစ၍ နယူး အော်လီယန်းမြို့သည် ပြင်သစ်ပိုင် လူဝီဇီယန္နားနယ်၏ မြို့တော်ဖြစ်လာခဲ့၏။ ၁၇၆၃ ခုနှစ်တွင် ထိုမြို့သည် စပိန်လူမျိုးများ လက်တွင်းသို့ သက်ဆင်းခဲ့၍၊ ၁၈၀၀ ပြည့်နှစ်တွင် ပြင်သစ်တို့ ပြန်လည်ရရှိခဲ့သည်။ နောက်ဆုံး၌ ၁၈၀၃ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသည် ပြင်သစ်တို့ထံမှ ထိုမြို့ကို လူဝီဇီးယန္နားနယ် ကျန်အပိုင်းများနှင့်အတူ ဝယ်ယူခဲ့ရာတွင်၊ အမေရိကန် ပြည်ထောင်စု အဝင်အပါ မြို့ကြီးတမြို့ဖြစ်လာခဲ့လေသည်။

**နယုန်လ။** ။မြန်မာတဆယ့်နှစ်လတွင် နယုန်လသည် တတိယ လဖြစ်သည်။ ပုဂံခေတ်ထိုးကျောက်စာတို့တွင် နယုန်ကို နံယုန်ဟု ရေးသည်။ နံမျုန်ဟူသော အရေး အသားကိုမူ အင်းဝခေတ်ထိုး ကျောက်စာအချို့တွင်သာ တွေ့ရသည်။ နယုန်လအကြောင်းကို ဝေါဟာရလိနတ္ထဒီပနီကျမ်းတွင် 'နရယုဂသဒ္ဒါပျက်၍၊ နယုန်ဖြစ်သည် ယူရန်ရှိ၏။ နရယုဂ အနက်အဓိပ္ပါယ်မှာ၊ မိန်းမယောကျ်ားအစုံကို ဆိုလိုသည်' ဟူ၍ ဖေါ်ပြထားလေသည်။ နယုန်လ၏ရာသီရုပ်မှာ ယောကျ်ားမိန်းမရုပ်များဖြစ်သည်။ ထိုပြင်လည်း နယုန်၏ အနက်အဓိပ္ပါယ်ကို မိုးရွာချိန်၊ မိုးကျချိန်၊ မိုးရွာချိန်လ၊ မိုးကျချိန်လဟူ၍ အကြောင်းယုတ္တိဖြင့် ကြံဆကြသည်လည်း ရှိ၏။ နယုန်လကို ဗေဒင်အခေါ် အားဖြင့် မေထုန်ရာသီဟုခေါ်သည်။ ထိုရာသီတွင် ဇေဋ္ဌနက္ခတ်နှင့် လမင်းသည် ယှဉ်ပြိုင်ကာ မွန်းတည့်၏။ မိဂသီနက္ခတ်နှင့် နေမင်းလည်း ယှဉ်ပြိုင်လေသည်။ ဤကိုရည်၍ ဆယ့်နှစ်ရာသီဘွဲ့ လူးတား နယုန်လဘွဲ့တွင်

'အာကာပြင်က၊ ကြယ်ဇေဋ္ဌနှင့်၊ တောက်ပရောင်စို၊ ဂြိုဟ်တနလ်ာ၊ ကြွသောခါလျှင်၊ တာရာအသ၊ ရံဝန်းခ၍၊ ထွန်းပ ရှင်လန်း၊ ဥဒေါင်းနန်းလည်း၊ မြန်းရွှေစက်ချီ၊ မိဂသီနှင့်၊ တူညီတကွ၊ မွန်းတည့်ကလည်း၊ ကောဘဝါး၊ မိုးသားထစ်ကြိုး၊ ကျေးငှက် မြူးသော်၊ ပွင့်ဖူး ရိုးသွယ်၊ စမ္ပာယ်မုလေး၊ သင်းပျံ့မွှေး၍' ဟူ၍ ရေးစပ်ထားလေသည်။

နယုန်လ၏ ရာသီပန်းကား စပယ်မြတ်လေးပန်း ဖြစ်၏။ နယုန်လတွင် ရှေးမြန်မာမင်းများရှိစဉ်အခါက စာတော်ပြန်ပွဲများ ကျင်းပပြုလုပ်လေ့ရှိ၏။ ဤသည်တို့ကိုရည်၍၊ ဖိုးသူတော် ဦးမင်းက

'ရွှေစာတော်ပြန်မေးလို့၊ မြတ်လေးတဲ့စမွယ်။ မေထုန်ဆို ရာသီကူး၊ ပွင့်ဖူးဝတ်မှုန်နှံ့၊ သင်းပျံ့တော့တယ်။ ကောင်းကင် လယ်၊ ထက်ဝယ်ဘုံက။ ဇေဋ္ဌခေါ် ရွှေကြယ်မင်း၊ လင်း တဲ့ ချိန်ပ။' ဟူ၍ ရေးစပ်ခဲ့၏။ ဦးအောင်ကြီးကမူ အင်းဝ မြို့ဘွဲ့ ဆယ့်နှစ်ရာသီလူးတား နယုန်လဘွဲ့၌

'သာစွလေ။ ။ညောင်ရေသဘင်၊ ပွဲစဲးလျှင်ကား၊ ကောင်းကင်မိုးလ၊ ကြယ်ဇေဋ္ဌနှင့်၊ ပြည့်ဝစင်ကြယ်၊ စံပယ် မြတ်လေး၊ ပင်တိုင်းမွေး၍၊ တွေးတွေးမောင်းနီ၊ ညွန့်ချင်း စီ၍၊ ရာသီမေထုန်၊ လနယုန်မူ၊ မြူးခုန်ပျော်ရွှင်၊ မိုးဃံးလုင် လည်း၊ ရွာချင်ခြိမ့်မျှ၊ ရေငန်းပြလျက်၊ သီလသမ္ဘာ၊ မြတ် သံဃာတို့၊ သဒ္ဒါရှစ်စုံ၊ သုံးပုံပိဋကတ်၊ ရုပ်ဓာတ်ပြည့်နှံ့၊ အခန်းခန်းကို၊ ရွှေနန်းတော်တောင်၊ မြတ်မရ်အောင်ဝယ်၊ မြားမြောင်စုဝေး၊ ဇာမေးသဘင်၊ မွမ်းမွမ်းဖြင်သည်၊ လူရှင် ရပ်ထက်ဝန်းတည့်လေ။ ။ပွင့်လင်းစည်သည်၊ ရွှေပြည် ရွှေဝနန်းတည့်လေ။' ဟူ၍ စပ်ခဲ့ပေသည်။

မြင်းတာရာထွန်းပသည့် နယုန်လရာသီတွင်၊ နံနက် စက် နာရီ ၅ နာရီ မိနစ် ၂၀ ခန့်တွင် နေထွက်၍၊ ညနေစက်နာရီ ၆ နာရီ မိနစ် ၄၀ ခန့်တွင် နေဝင်လေသည်။ မြန်မာနာရီ အားဖြင့် နေ့ ၃၄ နာရီရှိ၍၊ ည၌ ၂၆ နာရီရှိ၏။ ဤကို ရည်၍ ဦးယာက

'တသိန်းငါးသောင်း၊ စက်ပေါင်းအကုန်၊ မေထုန်ရာသီ၊ တိမ်နီတိမ်ပန်းဆန်းစလေ။ ဒွေးဒေဟာချီ၊ သည်ရာသီတွင်၊ နာရီနှစ်ဖြာ၊ နေ့မှာသုံးဆယ်၊ စွန်းကယ်စတု၊ ည၌ဘို့ ရှု သော်၊ တွက်စုနှစ်ဆယ်၊ ခြောက်ဝယ်စွန်းကာ၊' ဟူ၍စပ်ဆို ထားသည်။

နယုန်လတွင် တနင်္ဂနွေနှင့် တနင်္လာနေ့များမှာ ပြဿဒါး ရက်များဖြစ်ကြ၍၊ အင်္ဂါနှင့် ကြာသပတေးနေ့များမှာ ရက် ရာဇာနေ့များ ဖြစ်သည်။ နယုန်လမှာ ရက်မစုံကွယ်သော လ ဖြစ်သောကြောင့် ရက်ပေါင်း ၂၉ ရက်သာ ရှိ၏။

**နရပတိ**။ ။နရပတိဟူသည်မှာ မြန်မာဘုရင်အချို့တို့ ခံယူ လေ့ရှိသော ဘွဲ့နာမံဖြစ်သည်။ နရပတိဟူသောဘွဲ့မှာ ပါဠိ စကားဖြစ်၍၊ လူတို့၏ အရှင်သခင်ဟု အဓိပ္ပါယ်ရသည်။

မြန်မာ့သမိုင်းတွင်ထင်ရှားသော နရပတိဘွဲ့ခံမင်းများမှာ အင်းဝ ထူပါရုံဒါယကာ နရပတိကြီး (၈၀၄–၈၃၀)။ အင်း ဝ ရွှေနန်းကြော့ရှင် နရပတိ (၈၆၃–၈၈၈)။ ပြည်ဘုရင် နရပတိ (၈၉၄–၉၀၀)။ မိုးဗြဲ နရပတိ (၉၀၇–၉၁၃) ဟူ၍ လေးပါးရှိသည်။

အင်းဝ ထူပါရုံဒါယကာ နရပတိကြီးသည် မိုးညှင်း မင်း တရား၏သားတော် အငယ်ဖြစ်သည်။ ခမည်းတော် လက် ထက်တွင် ပြည်မြို့ကို စားရသည်။ ယင်းနရပတိကြီး လက် ထက်တွင် မိုးကောင်းကို ရ၍၊ စော်ဘွားသိုင်ဘွားကို ဆက် သခြင်း ခံရသည်။ သုံးဆယ်စော်ဘွား၊ အုန်းဘောင် စော် ဘွားနှင့် ရမည်းသင်းစားတို့ ခိုဝင်လာကြသည်။ ထိုနောက် ရမည်းသင်းမှ မင်းငယ်ကျော်ထင် ခြားနားပုန်ကန်ပြန်သည်။ မင်းငယ်ကျော်ထင်ကား မင်းရဲကျော်စွာ၏ သားတော်ဖြစ် သည်။ ၈၀၆ ခုနှစ်တွင် တရုပ်တို့နှင့် စစ်ဖြစ်ရာ အနိုင် ရသည်။ တဖန် ၈၀၇ ခုနှစ်တွင် တရုပ်တို့ စစ်ချီလာပြန်ရာ စေ့စပ်ပြေငြိမ်းသည်။ ၈၀၉ ခုနှစ်တွင် စစ်ကိုင်းထူပါရုံ စေတီတော်ကြီးကို ဌာပနာတော်မူသည်။ ထိုဘုရား ထီး တင်ပွဲသို့ သီဟိုဠ်၊ ဟံသာဝတီ၊ ယိုးဒယား၊ လင်းဇင်း၊ တရုပ် စသော နိုင်ငံတို့မှ ပရိသတ် အမြောက်အမြားလာရောက်ကြ သည်။ ၈၁၆ ခုနှစ်တွင် ရခိုင်ဘုရင် အလီခန်နှင့် ဘိုးခေါင် နွယ်ငန်းတောတွင် တွေ့ဆုံ၍ မဟာမိတ်ပြုကြသည်။ နိုင်ငံ အပိုင်းအခြားကိုလည်း မှတ်သားကြသည်။ သံတွဲမြို့ ကျွန်ခံ လာသည်။ ၈၁၇ ခုနှစ်တွင် သီဟိုဠ်ကျွန်းရှိ မြတ်စွာဘုရား၏ စွယ်တော်ဓာတ်ကို လှူဒါန်းရန် ရွှေသပိတ် ငွေသပိတ် စသော လှူဖွယ်ဝတ္ထုတို့ကို အပို့စေလွှတ်တော်မူသည်။ စွယ် တော်ကို ဖူးမြော်ရန် ရောက်လာကြသော သင်္ဃာတော်တို့ အား ဆွမ်းကပ်လှူရန် စရိတ်အတွက် သီဟိုဠ်တွင် လယ်မြေ ဝယ်၍၊ မြေခွန်မြေခကို လှူတော်မူသည်။ သားတော် အိမ်ရှေ့မင်း၏ သားတော် သတိုးကျော်က မားနှင့် ခုတ် သဖြင့်၊ ယင်းဒဏ်ရာနှင့်ပင် သက္ကရာဇ် ၈၃၀ ပြည့်နှစ်တွင် နတ်ရွာစံတော်မူသည်။

ရွှေနန်းကြော့ရှင် နရပတိကား အင်းဝ ဒုတိယမင်းခေါင်၏ သားတော်အငယ်ဖြစ်သည်။ ၈၇၁ ခုနှစ်တွင် အလွန် ကျစ် လျစ်လှပသော ရွှေနန်းတော်ကြီးကို ဆောက်လုပ်၍ စံသော ကြောင့် ရွှေနန်းကြော့ရှင် နရပတိဟု တွင်သည်။ ဤမင်း လက်ထက် မြောက်ဖက် မြေဒူးနယ်ကို မိုးညှင်းရှမ်းတို့ အကြိမ်ကြိမ်တိုက်ခိုက်လာသည်။ တောင်ဖက်မှလည်း ပြည် ဘုရင် သတိုးမင်းစောနှင့် တောင်ငူဘုရင် မင်းကြီးညိုတို့က တိုက်ခိုက်ရန် ချီတက်လာကြရာ၊ နရပတိသည် အုန်းဘောင် စော်ဘွားနှင့် ပူးပေါင်းနှိမ်နင်းရ၏။ စလေပုံတောင်အရပ် တွင် စစ်နိုင်သဖြင့်၊ သျှင်မဟာရဋ္ဌသာရသည် ပုံတောင်နိုင် မော်ကွန်းကို ဖွဲ့ဆိုရေးသားခဲ့သည်။ ၈၈၆ ခုနှစ် မိုးညှင်းစလုံ ချီတက်တိုက်ခိုက်လာသည်တွင် ဆုတ်ခွာရသည်။ စလုံလည်း အင်းဝတွင် ပြည်ဘုရင် သတိုးမင်းစောကို နန်းတင်ခဲ့၍၊ ဆင် ကောင်း မြင်းကောင်းတို့ကို သိမ်းယူလျက် ပြန်လေသည်။ စလုံပြန်လျှင်၊ သတိုးမင်းစောလည်း အင်းဝတွင် ရှိသော အကြီးအကဲတို့ကိုယူ၍၊ ပြည်မြို့သို့ ပြန်သည်။ ဤတွင် ရွှေနန်းကြော့ရှင် နရပတိ အင်းဝသို့ ပြန်၍၊ အင်အားအသစ် ထူထောင်ကာ နေသည့်အတွင်း၊ သက္ကရာဇ် ၈၈၈ ခုနှစ်တွင် မိုးညှင်းစလုံနှင့် သား သိုဟန်ဘွားတို့ ကြီးစွာသော အလုံး အရင်းနှင့် ချီလာပြန်သည်။ အင်းဝကို ဝန်းရံသည်တွင် မြို့

ပေါက်၍၊ နရပတိမင်း ဆင်နှင့်ထွက်ရာ၊ အမြောက် ကျည်ဆန် သင့်သဖြင့်၊ ဆင်ဦး၌ပင် ကံတော်ကုန်လေသည်။

ပြည်ဘုရင် နရပတိသည် မင်းငယ်တပါးသာ ဖြစ်သည်။ သက္ကရာဇ် ၇၉၄ ခုနှစ်တွင် ခမည်းတော် ပြည်ဘုရင်ထွေးကို မိုးညှင်းစလုံတို့ ဖမ်းယူသွားရာတွင် ထီးနန်းဆက်ခံရသည်။ ပြည်ဘုရင်ထွေးကို မိုးညှင်းစလုံသည် ဒီပဲရင်းအရပ်မှ လွှတ်လိုက်၍ ပြန်လာရာ၊ ပြည်တွင် နန်းတက်နှင့်သော သားတော် နရပတိက မြို့တံခါးကို ပိတ်ထား၍ မဝင်ရသည်နှင့်၊ နဝင်းချောင်းတဖက်တွင် နေရသည်။ တလခန့် ကြာသော် မကျန်းမာ၍၊ ဘုရင်ထွေးသည် ကွယ်လွန်လေသည်။ သက္ကရာဇ် ၈၀၀ ပြည့်တွင် အင်းဝဘုရင် သိုဟန်ဘွား၊ ဟံသာဝတီဘုရင် သုရှင်တကာရွတ်ပိတို့နှင့် ပူးပေါင်း၍ မင်းတရားရွှေထီးကို စစ်ပြိုင်ရာ အရေးနိမ့်သည်။ ထိုနှစ်တွင်ပင် နရပတိမင်း နတ်ရွာစံသဖြင့် ညီတော်ရှင်သရက်သည် မင်းခေါင်အမည်ခံ၍ မင်းပြုသည်။

မိုးဗြဲ နရပတိသည် သက္ကရာဇ် ၉၀၇ ခုနှစ်၌၊ ခမည်းတော် အုန်းဘောင်ခံမှိုင်း ကွယ်လွန်ပြီးနောက်၊ အင်းဝတွင် နန်းတက်သည်။ ရှမ်းမင်း ဖြစ်သော်လည်း၊ ရှမ်းအမျိုးသားတို့၏ ဓလေ့ထုံးစံထက် မြန်မာတို့၏ ထုံးစံဓလေ့တို့ကို ပိုမိုနှစ်သက်သည်။ ထိုမင်းလက်ထက် စစ်ကိုင်း စည်သူကျော်ထင်နှင့်မပြတ်စစ်ထိုးရသည်။ သက္ကရာဇ် ၉၁၃ ခုနှစ်၌ အရေးမလှသဖြင့်၊ ပြည်မြို့ ဟံသာဝတီဆင်ဖြူများရှင် မင်းတရားရှိရာသို့ အလုံးအရင်းနှင့်တကွ ခိုဝင်ရာတွင် နန်းကျလေသည်။

**နရပတိစည်သူမင်း** (မြန်မာ ၅၃၆–၅၇၃)။ ။နရပတိစည်သူမင်းသည် ပုဂံမင်းဆက်တွင် ထင်ရှားသော မင်းတပါးဖြစ်၏။ သက္ကရာဇ် ၅၃၆ ခုနှစ်တွင် နောင်တော် မင်းယဉ် နရသိင်္ခကို လုပ်ကြံ၍နန်းတက်သော မင်းတည်း။ ကုလားကျမင်း နရသူ၏ သားတော်အငယ်ဖြစ်သည်။

လုပ်ကြံခြင်းအကြောင်းကား ဤသို့ဖြစ်သည်။ ရှမ်းပြည်မှ ပျော့လူမျိုးတို့ လာရောက်ဆက်သသည့် ဝေဠုဝတီ သတို့သမီးငယ်ကို မင်းယဉ်နရသိင်္ခ မနှစ်သက်လေသောကြောင့်၊ နားကျယ်နှင့် ဝမ်းပျက်လိလိဟု မိန့်တော်မူ၍၊ အိမ်ရှေ့စံ ညီတော်နရပတိစည်သူကို ပေးတော်မူ၏။ နရပတိစည်သူက ဝေဠုဝတီကို သိမ်းပိုက်သောအခါ၊ နရပတိစည်သူ၏ မယ်တော်သည် ဝေဠုဝတီ၏ နားရွက်ကို တန်ရုံဖြတ်၍ ပြုပြင်ပေး၏။ ထိုကြောင့် ဝေဠုဝတီ၏ အဆင်းပြင်လျာသည် လှပတင့်တယ်လာ၏။ ဤသည်ကို နောင်တော် မင်းယဉ်နရသိင်္ခ မြင်သောအခါ၊ ဝေဠုဝတီ၌ တပ်မက်သော စိတ်ဖြင့်၊ ဥပါယ်တံမျဉ်ကြံ၍ ငဆောင်ချမ်းအရပ်၌ စစ်ထနေသည်၊ သွား၍ နှိမ်လေဟု ညီတော်ကို စေတော်မူ၏။ ညီတော် မရှိသည့်နောက်တွင် နရသိင်္ခသည် ဝေဠုဝတီအား သိမ်းပိုက်လေ၏။ နရပတိစည်သူလည်း ထိုသတင်းကို ကြားလျှင် နောင်တော်ကို လုပ်ကြံ၍ နန်းတက်လေ၏။

နရပတိစည်သူမင်းကြီးသည် နိုင်ငံတော်ကို စံနစ်တကျ အုပ်ချုပ်နိုင်စွမ်းရှိသူဖြစ်၏။ နိုင်ငံတော်အတွင်း၌ ကောက်ခံရရှိသော အခွန်အတုတ်များကို စာရင်းအင်း သေချာစွာ ရေးမှတ်၍ သွင်းစေ၏။ အမှုထမ်းတို့အား လစာရိက္ခာများကို နေရာတကျ စီစဉ်ပေးကမ်းထောက်ပံ့တော်မူ၏။ နောင်တော်အား အလွယ်တကူလုပ်ကြံနိုင်သည်ကို အကြောင်းပြု၍၊ အတွင်းကိုယ်ရံတော် အပြင်ကိုယ်ရံတော်ဟူ၍ အသီးအသီး သင်းဖွဲ့တော်မူပြီးသော်၊ နန်းတော်ပတ်လည်တွင် အထပ်ထပ် စောင့်နေစေ၏။

ထိုပြင် မင်းတရားကြီးသည် နိုင်ငံတော် စည်ပင်ရေးကို ရှေးရှု၍၊ တိုင်းခန်းလှည့်လည်ကာ၊ ကန်ချောင်း ဆည်မြောင်း များစွာပြုစုတော်မူ၏။ ကျောက်ဆည်ခရိုင်နှင့် ရွှေဘိုခရိုင်တို့တွင် မင်းတရားကြီး၏ ဆောင်ရွက်ချက်များဖြစ်သော ဆည်ကြီး တူးမြောင်းကြီးတို့သည် ယနေ့တိုင် ထင်ရှား တည်ရှိသည်။

နရပတိစည်သူမင်း၏ ကုသိုလ်ကောင်းမှုတော်များအနက်၊ ပုဂံနေပြည်တော်ရှိ စူဠာမဏိစေတီ၊ ကန်တော့ပလ္လင်ဘုရားနှင့် သမထီးအရပ်ရှိ ဓမ္မရာဇိကဘုရားတို့မှာ အလွန် ထင်ရှားသည်။ ထိုပြင် လှေတော်သက်နက်ဦး စကားရွှက်ကို ဘုရားကိုးဆူပြု၍၊ မြို့ကိုးမြို့တွင် တည်ထားကိုးကွယ်စေသည်။ နေပြည်တော်ဝန်းကျင်၌ သီတင်းသုံးနေသော ပါဠိ အဋ္ဌကထာ ဋီကာကျမ်းတတ်ရဟန်းမြတ်တို့အားလည်း ပစ္စည်းလေးပါး ထောက်ပံ့တော်မူ၍၊ ဘုရားသခင်၏ ပရိယတ္တိသာသနာကို တိုးပွားစေ၏။

နရပတိစည်သူမင်းကြီးကား မင်းကျင့်တရားနှင့်အညီကျင့်တော်မူ၍၊ ပညာရှိတို့ လျှောက်သောစကားကိုလည်း ယူတော်မူ၏။ သို့သော် သတိလက်လွတ်ပြုမူချက်များလည်း အနည်းအကျဉ်းရှိခဲ့၏။ နောင်တော်ကို လုပ်ကြံ၍ နန်းတက်စအခါ၌၊ နောင်တော်၏ အထိန်းတော်သား အနန္တသူရိယကိုလည်း ဖမ်းယူသတ်စေခဲ့၏။ ထိုအမှုအတွက် လက်လွန်ပြီးမှ နောင်တဖြစ်တော်မူရ၏။ (အနန္တသူရိယ — ရှု။) နောင်တော်ကို လုပ်ကြံပေးသော အောင်စွာငယ်အား၊ မရီးတော်တပါးပါးနှင့် လက်ဆက်ပေးမည်ဟု ကတိပြုထားပြီးဖြစ်သည်ကို၊ မရီးတော်များ လာရောက်တောင်းပန်သဖြင့်၊ စကားပြင်၍ဆိုရာတွင် အောင်စွာငယ် မထိမဲ့မြင်ပြုလေသောကြောင့်၊ ကွပ်မျက်စေသည်မှာလည်း၊ မင်းကြီးအမှားတရပ် ဖြစ်လေသည်။ ယောက်ဖတော် သုဘရာဇ်၏ ဇနီးအား တပ်မက်မိသဖြင့်၊ သိမ်းပိုက်တော်မူခြင်းသည်လည်း၊ ကာမဂုဏ်လိုက်စားမိမှားခြင်းဖြစ်၏။

မင်းကြီးသည် ချီးမြှောက်သင့်သူအား ချီးမြှောက်

တော်မူ၏။ တခါသော် ရွှေကြက်ယက်ဘုရားနှစ်ဆူကို ထီးတင်တော်မူမည်ဟု ရွှေဖောင်နှင့် ဆန်တော်မူရာတွင်၊ မိကျောင်းတကောင်သည် ဖောင်ကိုချုပ်ကိုင်ထားလေ၏။ ရန်မန်ငထွေးဟူသော သူရဲကောင်းသည် ရေဝယ်ငုပ်၍ သန်လျက်နှင့် ထိုးသတ်ရာ၊ မိကျောင်း သေလေသည်။ ယင်းကဲ့သို့ပင် ကျားကို တယောက်ချင်း သတ်စေ၏။ ဆင်ကို တယောက်ချင်း သတ်စေ၏။ မင်းကြီးလည်း ရန်အောင်ဖန်များသောသူဖြစ်၍ ရန်မန်ငထွေးကို အနန္တသူရိယဟူသော ဘွဲ့ကို ပေးတော်မူ၏။ အခါတပါး၌ မင်းကြီးလက်တွင် ခူနာရှိ၍ ဆေးဝါးထည့်သော်လည်း အနာမည့် ပြင်းပြစွာကိုက်ခဲ၍ ရှိတော်မူ၏။ ထိုအခါ ဥယျာဉ်သည်သမီးဖြစ်သော မိဖုရားငယ် တယောက်သည် မင်းကြီးလက်ကို မိမိခံတွင်း၌ ငုံထားမှ အနာသက်သာရ၏။ ငုံဖန်များ၍ ခံတွင်းတွင် ပြည်ပေါက်လေသော်၊ ထွေးပစ်လျှင် မင်းကြီးနိုးလာအံ့ဟူ၍ မထွေးဘဲ ပြည်ကိုမျိုလေသည်။ မင်းကြီးသည် အကြောင်းကို သိလတ်၍ လိုရာဆု တောင်းခွင့်ပြု၏။ မိဖုယားငယ်လည်း သားတော် ဇေယျသိခ်အား အိမ်ရှေ့လွှဲတော်မူပါဟု တောင်းခံသော်၊ ကျေးဇူးကိုထောက်၍ ချီးမြှောက်ရန်ရှိသည့်အတိုင်း ပေးတော်မူ၏။

နရပတိစည်သူမင်းကြီးလက်ထက်တွင် သံဃာတော်များ ဂိုဏ်းကွဲကြကုန်၏။ တခါသော် မင်းကြီး၏ ဆရာတော် ဉတ္တရာဇီဝမထေရ်သည် သီဟိုဠ်ကျွန်းသို့ ဘုရားဖူးကြွရာတွင် ပုသိမ်ကျေးလက်မှ ဆပဋ္ဌရွာသား သာမဏေတပါးအားလည်း ခေါ်ဆောင်သွား၏။ ထိုသာမဏေအား သီဟိုဠ်တွင်ပင် ပဉ္စင်းခံပေးတော်မူသည်။ ဆပဋ္ဌထေရ်လည်း ဆရာ ဉတ္တရာဇီဝနှင့် ပြန်လိုက်မလာသေးဘဲ၊ ပိဋကတ်သုံးပုံကို လေ့လာ၍နေရစ်၏။ ထိုနောက်တွင် ဆပဋ္ဌထေရ်သည် အခြား မထေရ်လေးပါးကို ဆောင်၍ ပုဂံပြည်သို့ပြန်လာရာ၊ ဆရာ အသျှင်ဉတ္တရာဇီဝမထေရ် ပျံလွန်တော်မူပြီဖြစ်၍၊ ပုဂံသားရဟန်းတို့နှင့် မရောဘဲ၊ သီးခြား၍ သံဃာကံဆောင်ကုန်ကြ၏။ ထိုအခါ ပုဂံတွင်ရှိနှင့်ပြီးသော ရှင်အရဟံအနွယ် သံဃာတို့အား ပုရိမသံဃာ၊ သီဟိုဠ်မထေရ်အနွယ်တို့အား ပစ္ဆိမသံဃာဟူ၍ ခေါ်ဝေါ်ကြ၏။ ထိုနောက်တွင် ပစ္ဆိမသံဃာများအနက် မထေရ် ၃ ပါးတို့တွင်လည်း အချင်းချင်း မညီညွတ်ကြသည်ဖြစ်၍ သုံးဂိုဏ်းကွဲကြပြန်၏။

ဤကဲ့သို့သံဃာများ ဂိုဏ်းကွဲလေသော်လည်း၊ ပရိယတ္တိစာပေကျမ်းဂန်များကား ထွန်းကားတိုးတက်လျက်ပင်ရှိ၏။ နရပတိစည်သူမင်းကြီးလက်ထက်တွင် ဒလမြို့မှ ရဟန်းမည် ရှင်သာရိပုတ္တရာ တံဆိပ်မည် ဓမ္မဝိလာသ ပုဂ္ဂိုလ်သူမြတ်သည် မနုရင်း ဓမ္မသတ်ကိုမှီ၍ ဓမ္မသတ်ကျမ်းတစောင် ပြုစု၏။ ဓမ္မဝိလာသ ဓမ္မသတ်ဟု တွင်သည်။ ရှေးက ကျောက်စာများကို ပါဠိနှင့် မွန်စာများနှင့်သာ ရေးထိုးလေ့ရှိရာမှ ယခုသော် မြန်မာစာနှင့်ပင် အများအပြားရေးထိုးလာကြ၏။ မြန်မာအက္ခရာ အမြောက်အမြား ပေါ်၏။ မြန်မာစကား အသုံးအနှုန်းလည်း ကျယ်ပြန့်တိုးပွားလာ၏။ ပါဠိစကားများကိုပင် မြန်မာအနက်ပြန်၍ သုံးခဲ့၏။ အရေးအသား သီကုံးနှုန်းဖွဲ့မှုလည်း တိုးတက်လာ၏။ အသတ်ခံရဆဲဆဲ အနန္တသူရိယအမတ် စီကုံးခဲ့သော 'သူတည်းတယောက်၊ ကောင်းဘို့ ရောက်မူ' အစချီလင်္ကာမှာ နရပတိစည်သူမင်းကြီး လက်ထက် မြန်မာစာပေအဆင့်အတန်းကို ထင်ရှားစွာ ဖေါ်ပြလေသည်။ (အနန္တသူရိယ — ရှု။)

ဤကဲ့သို့ သာသနာတော်၏ စီးပွား၊ နိုင်ငံ၏ စီးပွား၊ ကိုယ်တော်တိုင်နှင့်တကွ သားစဉ်မြေးဆက်တို့၏ စီးပွားကိုပါ ဆောင်တော်မူသော နရပတိစည်သူမင်းတရားကြီးသည် သက်တော် ခုနစ်ဆယ့်လေးနှစ်တွင် နာတော်မူရာ၊ သားတော်များအား မင်းကျင့်တရားနှင့် ရာဇပရိယာယ် အသွယ်သွယ်တို့ကို ညွှန်ပြ ဆုံးမတော်မူပြီးနောက်၊ သက္ကရာဇ် ၅၇၃ ခုနှစ်တွင် နတ်ရွာစံတော်မူလေသတည်း။

**နရသီဟပတေ့မင်း** (မြန်မာ ၆၁၇-၆၄၇)။ ။နရသီဟပတေ့မင်းသည် တရုပ်တို့၏ဘေးရန်ကြောင့် ပုဂံပြည်မှ ထွက်ပြေးရသော မင်းဖြစ်သည်။ ထိုမင်းသည် ဥဇနာမင်း၏ သားတော်အငယ်ဖြစ်သည်။ ခမည်းတော်လက်ထက် မင်းခွေးချေးဟု ခေါ်စမှတ်ပြုသည်။

သက္ကရာဇ် ၆၁၇ ခုနှစ်တွင် ခမည်းတော်ဥဇနာမင်း နတ်ရွာစံသော် အမတ်ကြီး ရာဇသင်္ကြန်၏ ကူညီချက်ဖြင့် မင်းဖြစ်ရသည်။ မင်းဖြစ်ပြီးသော် ရာဇသင်္ကြန်ကို အမျက်ရှိ၍ ဒလသို့ ပို့သည်။ ထိုအခါတွင် မစ္ဆဂိရိနှင့် မုတ္တမတို့က ပုန်ကန်သောင်းကျန်းသဖြင့် မိဖုရားစော လျှောက်တင်ချက်အရ ရာဇသင်္ကြန်ကို ပြန်၍ခေါ်ကာ မြို့စားရွာစားပေးအပ်ပြန်သည်။ (စော၊ မိဖုရား — ရှု။) ရာဇသင်္ကြန်သွားရောက်တိုက်ခိုက်၍ မုတ္တမကို ရသည်။

ထိုမင်းလက်ထက်တွင် တရုပ်မင်းက လက်ဆောင်ဆက်သပါဟု သံစေလွှတ်သည်။ တရုပ်သံတို့ မခြေမင်ပြု၍ သတ်သည်တွင် တရုပ်တို့နှင့် စစ်ဖြစ်ရသည်။

သက္ကရာဇ် ၆၄၆ ခုနှစ်တွင် အရေးမသာသဖြင့် ပုသိမ်မြို့အထိ ဆုတ်ခွာသည်။ မွန်ပြည်တွင် ၅ လမျှ စံနေပြီးနောက်၊ တရုပ်တပ်များ ဆုတ်ခွာပြီ ကြားသည်နှင့် ပုဂံသို့ ဆန်တက်ရာ၊ လမ်းခုလတ် ပြည်မြို့တွင် သားတော်ငယ် ပြည်မင်း သီဟသူက အဆိပ်ဆေး ခတ်၍ ပွဲတော်ဆက်ကာ အတင်းအကျပ် ပွဲတော်တည်စေသဖြင့် နတ်ရွာစံသည်။

တရုပ်စစ်ကို ရှောင်သောကြောင့် တရုပ်ပြေးမင်းဟု တွင်သည်။ ထိုမင်းသည် ဟင်းခွက် ၃၀၀ မျှ ပွဲတော်တည်ကြောင်းနှင့် ကျောက်စာတွင် ရေးထိုးထားသည်။

**နဝဒေး**။ ။နဝေဒေးဟူသည်မှာ ပြည်ဘုရင်က စစ်ကိုင်း ထောင်သင်းမှူးကို ပေးအပ်သော ဘွဲ့အမည်တည်း။ ထိုဘွဲ့ အဓိပ္ပါယ်ကား အပြစ်ဆိုဘွယ်ရာမရှိသော ပညာရှိစာဆို ဟူ၏။ ထို့ကြောင့် နဝဒေးဟူသောဘွဲ့သည် စာဆိုတော်တို့ အတွက် ထူးခြားသော ဘွဲ့ဖြစ်သည်ဟု ယူဆအပ်၏။ ထို ဘွဲ့ကို နှောင်းအခါ၌ ဘိုးတော်မင်းတရားသည် ဝက်မစွတ် မြို့စားကြီးကိုလည်း ပေးဘူးသည်။ ဤနည်းနှင်နှင်၊ ဘုရင် မင်းမြတ် အစဉ်အဆက်တို့သည် ခြီးမြှင့်အပ်သော စာဆို တော်တို့ကို နဝဒေးဟူသောဘွဲ့ကို ပေးအပ်သောအလေ့ ဖြစ် ထွန်းလာရာ၊ မြန်မာစာပေသမိုင်းတွင် နဝဒေးဘွဲ့ရ စာဆို တော်များ ငါးဦးခန့်မျှ ရှိခဲ့သည်။ ထိုငါးဦးအနက် ပြည်နဝ ဒေးကို နဝဒေးကြီးဟု အမှတ်သညာပြုကြ၍၊ ဝက်မစွတ်မြို့ စား နဝဒေးကို ဒုတိယနဝဒေးဟု အမှတ်သညာပြုကြသည်။ ကျန် နဝဒေးတို့အကြောင်းသည် သမိုင်းအမှတ်အသား အထင်အရှား အပြည့်အစုံ မရှိချေ။

**နဝဒေးကြီး**။ ။'စစ်ကိုင်း ထောင်သင်း၊ စလင်း လကျာ၊ ပြည်မှာ နဝဒေး' ဟု တွင်သော တောင်ငူခေတ် စာဆိုကျော် နဝဒေးကြီးသည် သက္ကရာဇ် ၇၉၄ ခု ပြည်မြို့တွင် မင်းပြုသော ဘုရင်နရပတိ၏ ယောက်ဖ မင်းဘစော၏ အထိန်းတော် သားဖြစ်၏။ မင်းဘစောကို ပွတ်လယ်ရွာ၌ ပြည်ဘုရင် နရပတိက ကွပ်မျက်၍၊ နှမတော်ကို စည်သူကျော်ထင်သို့ ပေးလိုက်ရာ၊ ဘုရင့်နှမတော်နှင့်အတူ စလင်းမြို့တွင် လိုက်နေ လေသည်။ ထိုစဉ်က မင်းလကျာဘွဲ့ကို ရသည်။ ထိုနောက် စလင်းမြို့ပျက်၍၊ သက္ကရာဇ် ၈၀၇ ခုနှစ်တွင် စစ်ကိုင်းမြို့သို့ ရောက်သောအခါ၊ မင်းလကျာသည် ထောင်သင်းကို ကြီး မှူးရသဖြင့် ထောင်သင်းမှူးဟု တွင်ပြန်၏။ သက္ကရာဇ် ၈၁၃ ခုနှစ်တွင် စစ်ကိုင်း စည်သူကျော်ထင်သည် နရပတိ အမည်ဖြင့် အင်းဝရွှေနန်းကို စိုးစံ၍ ၃ နှစ် ကြာသော်၊ ဟံသာဝတီ ဆင်ဖြူများရှင်က လုပ်ကြံသဖြင့် အင်းဝပျက် လျှင်၊ ပြည်ဘုရင် သတိုးဓမ္မရာဇာက ဆင်ဖြူများရှင်ထံ ထောင်သင်းမှူးကို တောင်းယူသောကြောင့် ထောင်သင်း မှူးသည် ပြည်မြို့သို့ ရောက်ရလေသည်။ ပြည်တွင် ထောင် သင်းမှူးသည် နဝဒေးဘွဲ့ကို ရသည်။

နဝဒေးသည် ကဗျာလင်္ကာ အဖွဲ့အနွဲ့များကို ငယ်စဉ်က ပင် လိုက်စားဆည်းပူးခဲ့၏။ များသောအားဖြင့် ရတုများ ကို ရေးသားခဲ့၍ ရတု နဝဒေးကြီးဟု တောင်ငူခေတ်၌ ထင် ရှားလေသည်။ နှောင်းအခါတွင် တောင်ငူခေတ် ရတု ဆရာများပင်လျှင် နဝဒေး၏ နည်းကို ခံယူကြရလေသည်။ နဝဒေးကြီးကား ရတုပေါင်း ၃၀၀ ကျော်ခန့် ရေးသားခဲ့၏။

နဝဒေးကြီးသည် စာဆိုတော်သာမက စစ်သားလည်း ဖြစ်သဖြင့် စစ်သားစာဆိုတော်ဟု ခေါ်ထိုက်၍၊ စစ်ချီရတု၊ ဘုရားတိုင်ရတုများစွာကို ရေးသားခဲ့၏။ ဘုရားတိုင်ရတု များ၌ မိမိဖွဲ့လိုသော ဘုရား၏ သမိုင်းချုပ်တို့ကို ရတု စာကိုယ်တွင် ထည့်သွင်းဖွဲ့နွဲ့သည်မှာ နဝဒေး၏ ထူးခြား သော အဖွဲ့အနွဲ့ဖြစ်၏။ ပုံစံပြရမည်ဆိုသော်

'ယုက်လျှံမှောင်လည်၊ ချမ်းကြေည်သား၊ မြရည်စတေ၊ ပတ်ခွေရံဝန်း၊ မြင်းမိုရ်ထွန်းသို့၊ အောင်ကျွန်းသန်လျက်၊ မင်းဝံချက်၌၊ ရွေးဆက်မြင့်ရှည်၊ မင်းဖျားတည်သည်၊ နတ် ပြည် မယွန်း၊ ရွှေဝနန်းဝယ်၊ ရိုက်မွန်းအာဏာ၊ မင်းကြီးစွာ ဟု၊ သစ္စာလေးဆင့်၊ ပွင့်အံ့အမှန်၊ ထွတ်ဘုန်းဝန်လျှင်၊ ငါး မာရ်ပယ်ချေ၊ ရှင်တော်မေ့ကို၊ စံရွှေသိင်္ဂါ၊ ကိုးဖြာမျက်စုံ၊ ယုက်ရုံရစ်လည်၊ တင့်ကြောင်းတည်သည်၊ ခြောက်မည် ရောင်စုံ ရွှေစည်းခုံ။' ဟူ၍ ဘုရားသမိုင်း အတိုချုပ် ဖွဲ့နွဲ့ ပုံကို ထောက်ရှုရာသည်။ စစ်ချီရတုများတွင်ကား စစ်ရပ် စစ်ခြေများ မပါဘဲ၊ အိမ်သူသက်ထားကိုသာ လွမ်းဆွတ် ကြောင်း ဖွဲ့နွဲ့ထားလေသည်။ နဝဒေးကား ရတုများကို 'ရတုချဖွယ်၊ အသွယ်သွယ်၊ ခြောက်ဆယ်ကရိယာ' အတိုင်း အမျိုးမျိုးထွင်၍ စပ်ခဲ့သူဖြစ်၏။

မိမိကိုယ်တိုင်ကပင် နန်းတွင်းသား ဖြစ်၍၊ သိမ်မွေ့နူးညံ့ သော သဘောနှင့် ပြည့်ဝလေရကား၊ ပြည်ဖွဲ့ နန်းဖွဲ့ မင်္ဂလာ အခမ်းအနားဖွဲ့များ စပ်ဆိုရာ၌၊ အခြားဆရာတို့ထက် သာ လွန် ကောင်းမွန်အောင် ဖွဲ့ဆိုနိုင်သည်။ ဘုရားတိုင်ရတုများ ကို ကောင်းမွန်စွာ ဖွဲ့ဆိုနိုင်ခြင်းကား၊ မိမိအရှင်သခင်နှင့် အတူ စလင်း၊ စစ်ကိုင်း၊ ပင်းယ၊ အင်းဝ စသော ဌာနရပ်ရွာ များသို့ အရောက်အပေါက်များသဖြင့် ဒေသန္တရ ဗဟု သုတ ပြည့်ဝကုံလုံသည့်ပြင်၊ ကိုယ်တိုင်ကလည်း ဘုရားတရား တွင် ကြည်ညိုဟန်တူ၍၊ ဘုရားစေတီများကို ဖူးမြင်ရာ၌ သေချာနှံ့စပ်သောကြောင့်ဖြစ်သည်ဟူ၍ ယူဆသင့်၏။ ထို ကြောင့် ဘုရားဖွဲ့များမှာ ပိုမိုကောင်းမွန်၏။ မိုးဖွဲ့ရတုများ တွင်ကား ဖွဲ့နွဲ့စပ်ဆိုပုံသည် ရိုး၏။ ဥဒါဟရဏ်အားဖြင့်

'ချစ်တင့်နိုးလွန်၊ ဘုန်းချင်းညွှန်၍၊ နတ်ဟန်ရုပ်ရည်၊ မြတ် မူနည်ကို၊ မည်သည်ဖြစ်အင်၊ ဆံမျှင်မခြား၊ သစ်သစ်ပွား၍၊ သည်းဖျားဝှန်လှိုက်၊ လွမ်းစဉ်ကြိုက်ဝယ်၊ တိမ်တိုက် ထက် ဆိုင်၊ ကြူးကာအိုင်လျက်၊ သံပြိုင်သံပြီ၊ လူလျှင်သီသို့၊ မိုး ချီ သန်လျက်၊ ဆင်းသက်ဘနန်း၊ လှည့်ဝန်းအာကာ၊ ရင့်သန် ဝါနှင့်၊ ဗျာပါစိမ့်မည် ဆင်ဘိသည်။' ဟူ၍ အရိုးခံအတိုင်း ဖွဲ့နွဲ့သည်ကို ထောက်ရှုရာသည်။

အထက်ဖော်ပြရာပါ ရတုများကိုသာမက 'မင်းတရားမယ် တော် ချေင်း' နှင့် 'ယိုးဒယားမိဖုရား ချေင်း' တို့ကိုလည်း ရေးစပ်ခဲ့ရာ၊ ဤချေင်းများ၌ နဝဒေးကြီးသည် မင်းစဉ် မင်း ဆက်ပေါက်ဖွားလာပုံကို ရှေးချေင်းဆရာများထက်သေချာ ကျနအောင် စေ့စေ့စပ်စပ်ဖွဲ့ဆိုခဲ့၏။ မနော်ပျို့ဟောင်း တစောင်နှင့် ရာဇဗျူဟာပျို့တို့ကိုလည်း ရေးသားခဲ့သေး၏။

ဤသို့ စာပေအမြုတေများကို တိုင်းပြည်အား အမွေပေးခဲ့ပြီးနောက်အသက် ၉၀ ကျော်မှ အနိစ္စရောက်လေသည်။

**နဝဒေး** (ဝက်မစွတ်မြို့စား)။ ။ဝက်မစွတ်မြို့စား ဒုတိယနဝဒေးသည် စစ်ကိုင်းမြို့နယ် မြောက်လက် ဆားတောင်ငါးရွာအပါအဝင် ရွာဝေး ရွာသူကြီးရိုးဖြစ်၏။ ငယ်မည်မှာ ဦးနုတွင်၍ သူကြီးဘွဲ့ ဗလနန္ဒသူဖြစ်၏။ သက္ကရာဇ် ၁၁၁၇ ခုနှစ်တွင် ဖွားမြင်သည်။ ဘိုးတော်မင်းတရား၏ သားတော် ပုခန်းမင်းသား၏ ကျွန်တော်ရင်း ဖြစ်သည်။ ၁၁၅၀ ခုနှစ်တွင် မိတ္ထီလာကန်တော်သို့ ဆည်ဖို့ရန် ဘိုးတော်ဘုရားထွက်ကြွတော်မူသောအခါ၊ 'ရှုလေဘွဲစဥ်ရှည်' ချီ မိတ္ထီလာကန်တော်မော်ကွန်းကို ဆက်သွင်းသဖြင့် ဘုရင်မင်းမြတ်၏ ချီးမွမ်းထောမနာပြုခြင်းခံရ၏။ သားတော် သမီးတော်တို့၏ လက်ထပ်ရတုများ၊ နားထွင်း သျှောင်ထုံး ရတုများ၊ ဘုန်းတော်ဘွဲ့ ရတုများကို အမြဲလိုလိုပင် ဆက်သွင်းလေရာ၊ ဘိုးတော် မင်းတရားကြီး လွန်စွာ နှစ်ခြိုက်တော်မူသဖြင့် နဝဒေးဘွဲ့ကို သနားတော်မူသည်။ ထိုနောက် မြို့တိုက်သံတော်ဆင့်အရာဖြင့် စုံမြဲထမ်းရွက်ရပြန်၏။ မကြာမီပင် ဝက်မစွတ်မြို့ကို အပိုင်စားအသနားတော်မြတ်ခံရလေသည်။

တွင်းသင်းတိုက်ဝန် မဟာစည်သူ ကွယ်လွန်ခါနီး၌၊ ဘိုးတော်မင်းတရားကြီးက ဝမ်းနည်းကြည်ကွဲစွာ မည်သူအားဆရာတင် ကိုးကွယ်ရပါအံ့နည်းဟု မိန့်သည်တွင်၊ တွင်းသင်းမင်းကြီးကိုယ်တိုင်က 'ဆားတောင်ဆားလည်း ငန်ပါဘိခြင်း' ဟု မြွက်ကြားသွားလေသည်။ ဤသို့ တွင်းသင်းတိုက်ဝန်၏ နှုတ်ဖျားမှ၊ မိမိ၏ နေရာကိုဆက်ခံထိုက်ကြောင်း အတိအလင်းကျေညာသွားရာ၊ ဝက်မစွတ်မြို့စားမှာ တော်ရုံစာဆိုမဟုတ်ကြောင်း ထင်ရှားလေသည်။ နဝဒေးသည် တွင်းသင်းမင်းကြီး၏ နေရာကို အသနားတော်မြတ် ခံရသည့်ပြင်၊ မဟာသခ်ယာစည်သူ၊ မဟာသီရိစည်သူ ဟူသောဘွဲ့နှစ်ထပ်ကိုလည်း ချီးမြှင့်ပေးသနားခြင်း ခံရလေသည်။ အိုမင်းမစွမ်းရှိသောအခါ၊ တွင်းသင်းမင်းကြီးကဲ့သို့ပင် ပတ္တမြားကျောက်စီတောင်ဝှေး သနားတော်မြတ် ခံရ၍၊ တံခါးနီအရောက် ပေါင်းယဉ်စီး၍ ဝင်ခွင့်ရရှိလေသည်။

ဝက်မစွတ်မြို့စား နဝဒေးသည် မော်ကွန်းပေါင်း မြောက်မြားစွာ စပ်ဆိုခဲ့သောကြောင့် မော်ကွန်းနဝဒေးကြီးဟု ပို၍ကျော်စောသေး၏။ အာသံနိုင် မော်ကွန်း၊ တရုပ်သံရောက် မော်ကွန်း၊ ဝိလာသိနီ မော်ကွန်း စသော မော်ကွန်းပေါင်း ၂၀ ခန့် ရေးသားခဲ့၏။ ဝိလာသိနီမော်ကွန်းသည် နဝဒေး၏ အကောင်းဆုံး လက်ရာဖြစ်၍၊ ပဥ္စမတန်းစား မော်ကွန်း အဆင့်အတန်းတွင် ထားသင့်သည်။ နဝဒေးရေးသော မော်ကွန်းအစောင်စောင်ကို ကြည့်ခြင်းဖြင့် လောကီရေးတွင် အဘယ်မျှ ကျွမ်းကျင်ကြောင်း သိသာနိုင်လေသည်။




ဝက်မစွတ်မြို့စား ဒုတိယ နဝဒေး
(ရွှေနန်းလက်သုံးပုံ ပုရပိုက်မှ)

သာဓကကိုပြရလျှင်၊ နက္ခတ်ဗေဒင်အကြောင်း၊ လူ့လောကသဘာဝကြီး၏ ဆန်းကြယ်ပုံ အကြောင်း၊ မင်းမှုရေးရာအခမ်းအနားအကြောင်းတို့ကို ဗာဝရီ မော်ကွန်း၊ လောကဝိဒူ မော်ကွန်း၊ တရုပ်သံရောက် မော်ကွန်း စသည်တို့တွင် စပ်ဆိုဖော်ပြထားသည်။ ထိုပြင် ဆင်ဖြူရှင်မယ် ချေင်းကိုလည်း ရေးသား၏။ မင်းနဝဒေးသည် စာပေအရေးအသား၌ ထင်ရှားကောင်းမွန်လှသောကြောင့် ဘုရင်မင်းမြတ်၏ အမိန့်တော်များကို စီစဥ်ရေးသား ပြန်ကြားရသော အတွင်းသံတော်ဆင့်ကြီး ရာထူးကို အပ်နှင်းခြင်းခံရလေသည်။ ဗဟုသုတနှင့် ပြည့်စုံ၍၊ စကားပရိယာယ် လွန်စွာကြွယ်ဝသူဖြစ်သည်။ ယင်းသို့ အဖက်ဖက်၌ နှံ့စပ်သေချာတတ်သိလိမ္မာလှသောကြောင့် နောက်ဆုံး၌ မင်းကြီး ဥတ္တမသီရိဘွဲ့ကို အပ်နှင်း ချီးမြှင့်ခြင်း ခံရသည်တိုင်အောင် အထွတ်အထိပ်သို့ ရောက်ခဲ့သည့် စာဆိုကျော် ဝက်မစွတ်နဝဒေးကြီးကား၊ ရွှေဘိုမင်းလက်ထက် ၁၂၀၂ ခုနှစ် ပြာသိုလဆန်း ၂ ရက်နေ့ အသက် ၈၅ နှစ်တွင် ကွယ်လွန်လေသည်။

**နဝရတ်**။ ။နဝရတ်ဟူသည် နဝရတနဟူသော ပါဠိမှ လာ၍ ရတနာကိုးပါးဟု အနက်ရသည်။ ထိုကိုးပါးသော ရတနာတို့ကား ပုလဲ၊ သန္တာ၊ နီလာ၊ စိန်၊ ကြောင်၊ မြ၊ ဥဿဖယား၊ ပတ္တမြားနှင့် ဂေါ်မိတ်တို့ဖြစ်ကြသည်။ ယင်းသည့် ရတနာကိုးပါးစလုံးသည် ကျောက်မျက်မျိုးတွင် အဝင်အပါရတနာ

များ ဖြစ်သည်။ ယင်းတို့အနက် စိန်၊ ပတ္တမြား၊ မြနှင့် နီလာတို့သည် အဖိုးအတန်ဆုံးဖြစ်ကြသည်။

ပုလဲနှင့်သန္တာသည် တွင်းထွက်ကျောက်မျက်များ မဟုတ်ဘဲ၊ ပုလဲကို ကမာ သို့မဟုတ် မုတ်ကောင်၏ ကိုယ်တွင်းမှရ၍ သန္တာကို သန္တာကောင်များရှိသော သန္တာကျောက်တန်းများမှရသည်။ (ပုလဲ။ သန္တာ — ရှု။) နီလာနှင့် ပတ္တမြားကား ကျောက်မျက်အမာမျိုး တမျိုးတည်းပင် ဖြစ်၍ အသွေးအရောင်၌သာ ခြားနားခြင်းရှိကြသည်။ ပတ္တမြားသည် သွေးကဲ့သို့နီသော အရောင်ရှိ၍၊ နီလာသည် တောက်ပသော အပြာရောင် ရှိသည်။ စိန်ကို ကျောက်မျက်တို့၏ ဘုရင်ဟုပင် ခေါ်သည်။ ကျောက်မျက်အမျိုးပေါင်း ၁၂၀ ခန့် ရှိသည့်အနက် စိန်သည် အမာဆုံးသော ကျောက်မျက်ဖြစ်သည်။ ကြောင်ကို ကြောင်မျက်ရွဲဟုလည်း ခေါ်ကြသည်။ မြတွင် ကြည်လင်စိမ်းမြသော အရောင်ရှိသည်။ သို့သော် စိန်၊ နီလာနှင့် ဥဿဖယားတို့လောက် မမာချေ။ ဂေါ်မိတ်သည် ကျောက်သလင်းနှင့်ရော၍ တွေ့ရတတ်သော ကျောက်မျိုးဖြစ်သည်။

အထက်ပါ ရတနာကိုးပါး စီခြယ်အပ်သော လက်စွပ်ကို နဝရတ်လက်စွပ်ဟု ခေါ်သည်။ ကဝိလက္ခဏာ သတ်ပုံကျမ်းတွင် ‘ မျက်စုံလည်း သတ်၊ နဝရတ်၊ စီခတ်အမွမ်းတင် ’ ဟု တွေ့ရသည်။ လူတို့သည် နဝရတ်လက်စွပ်ကို ကျက်သရေ မင်္ဂလာနှင့် ပြည့်စုံသည်ဟု ယုံကြည်၍ ဆင်ယင်လေ့ ရှိသည်။

ရှေးပဝေဏီကပင် ကျောက်မျက်များ၌ ထူးခြားသော တန်ခိုးများရှိသည်ဟု လူတို့အယူရှိခဲ့ကြသည်။ နဝရတ်တွင် အပါအဝင် ကျောက်မျက်ရတနာတပါးတပါး၏ တန်ခိုးအာနိသင်မှာ အောက်ပါအတိုင်း ဖြစ်သည်ဟု ယူဆကြသည်။

‘ပတ္တမြား ဘုန်းတောက်၊ မြကျောက် ချေမ်း၊ စိန်စွမ်း ဂုဏ်ရောင်၊ ကြောင်ကား သိဒ္ဓိ၊ မဏိနီလာ၊ မေတ္တာကဲချုပ်၊ ဂေါ်မုတ် ခွန်အား၊ ဥဿဖယား ကျန်းမာ၊ သန္တာ ကြီးကဲ၊ ပုလဲ ကျက်သရေ၊ ကိုး ဂုဏ်ဝေသည်၊ ကိုးထွေ နဝရတ် စွမ်းရည်တည်း။’

**နာဂတောင်တန်းခရိုင်**။ ။နာဂတောင်တန်းခရိုင်သည် မြန်မာနိုင်ငံ အနောက်မြောက်ပိုင်းတွင်၊ တောင်နှင့်မြောက် တန်းလျက်တည်ရှိသည်။ ယင်းခရိုင်သည် မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့၏ နယ်စပ်ဒေသဖြစ်သည်။ နာဂတောင်တန်းခရိုင်၌ (က) နာဂတောင်တန်း (ခ) ဇင်္ဂလိန်ခန္တီးစော်ဘွားနယ်နှင့် လီဆိုင်နယ် (ဂ) ဆုမ္မရာနယ် (ဃ) သောင်ထွတ်စော်ဘွားနယ်နှင့် (င) ဟုမ္မလင်းတိုင်းခွဲတို့ ပါဝင်သည်။ ၈၄၇၉ စတုရန်းမိုင်ခန့် ကျယ်ဝန်း၍၊ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ၊ လူဦးရေ ၁၇၃၅၈၀ ယောက်ခန့် ရှိသည့်အနက်၊ အများစုမှာ နာဂလူမျိုးများဖြစ်၏။

နာဂတောင်တန်းသည် ပတ်ကိုင်တောင်တန်းနှင့် ချင်းတွင်းမြစ် အကြား၌ တည်ရှိ၏။ အနောက်ဖက်နှင့် မြောက်ဖက်တို့တွင် ပတ်ကိုင်တောင်တန်း၊ အရှေ့ဖက်တွင် ချင်းတွင်းမြစ်နှင့် တောင်ဖက်တွင် နန်းတလိပ်ချောင်းတို့က ဝန်းရံလျက်တည်ရှိ၏။ နာဂတောင်တန်းတွင် ထင်ရှားသော ချောင်းမကြီး ၃ သွယ်ရှိ၏။ နမ်းခေါ်ချောင်းသည် နာဂတောင်တန်း၏ အလယ်ဗဟိုခန့်တွင် အနောက်မှ အရှေ့သို့ ဖြတ်သန်းစီးဆင်း၏။ နမ်းဖွတ်ချောင်းမှာမူ မြောက်မှ တောင်သို့ စီးဆင်းလေသည်။ နမ်းချာရင်ချောင်းသည် အနောက်မှတောင်သို့ စီးဆင်း၍၊ ဇင်္ဂလိန်ခန္တီးမြို့၏ အထက် ၉ မိုင်အကွာတွင် နမ်းဖွတ်ချောင်းနှင့် ပေါင်းဆုံမိလေသည်။

နာဂတောင်တန်းတွင် ရာသီဥတုပြင်းထန်လှ၏။ မိုးများ၍ အစဉ်အေး၏။ ဆီးနှင်းမှုခိုး၊ တောင်ခိုးများ အမြဲ မှိုင်းဝေ၍ နေလေသည်။ ဆောင်းနှင့်မိုးဥတု နှစ်မျိုးသာလျှင် ထင်ရှားပေသည်။ တပေါင်း တန်ခူးကစ၍ မိုးရွာ၏။ နေ တရက်ပူလျှင် မိုးနှစ်ရက်ရွာ၍ သုံးရက်ခန့်အေး၏။ နှင်းမှုန်များ အမြဲ မှိုင်းရီနေတတ်သည်။ မိုးပေါက်ကြီးများ ရွာသွန်းပြီးနောက်၊ မိုးစဲသွားလျှင်၊ နှင်းမှုန်တဖွဲဖွဲဆက်ကျကာ၊ လေအေးတိုက်ရာ၊ ရိုးတွင်းခြင်ဆီ ခိုက်အောင် အေးလေသည်။ ပြာသိုတပို့တွဲလများ၌ ဆောင်းဒဏ်သည် ပြင်းထန်လာ၍ ရေခဲလေသည်။

တောင်ကုန်းဒေသဖြစ်သည့်အလျောက်၊ သစ်ပင်ကြီးများကို ခုတ်ထွင်၍၊ တောင်ယာစိုက်ပျိုးကြသည်။ နာဂတောင်တန်း၏ အရှေ့မြောက်ဖက်ပိုင်းတွင်မူ၊ ပြောင်းတမျိုးတည်းကိုသာ စိုက်ပျိုး၍ ကျန်ဒေသများတွင်မူ ယာစပါးကို စိုက်ပျိုးလေသည်။ သို့သော် နမ်းချာရင်ချောင်းနှင့် ချင်းတွင်းမြစ်အကြားတွင်သာ စပါးအလုံအလောက် စိုက်ပျိုးရရှိလေသည်။ ကျန်ဒေသများမှာမူ အနည်းအကျဉ်းမျှသာ ထွက်သဖြင့်၊ နာဂတောင်တန်းတခုလုံးမှ စုစုပေါင်း ထွက်ရှိသောစပါးသည် လူအားလုံးအတွက် မလောက်ငချေ။ ဘိန်းပင်ကိုလည်း စိုက်ပျိုးကြသည်။ ထို့အပြင် အခြားဟင်းသီးဟင်းရွက်ဖြစ်သော ဗူး၊ ဖရုံ၊ ပဲအမျိုးမျိုး၊ ပိန်းဥ၊ ဆပ်ပြောင်း၊ ငရုတ်၊ ဂျင်းနှင့် မုန်ညင်းတို့ကိုလည်း စိုက်ပျိုးသေး၏။ နာဂလူမျိုးတို့သည် တောင်ယာမှရသော ပြောင်းဖူးဖက်နှင့် တောမှရသော ပျားရည်နှင့် မျှစ်တို့ကို ခန္တီးမြို့သို့ သွားရောက် ရောင်းချလေ့ရှိ၏။ အပြန်တွင် ဆားကိုဝယ်၍ ပြန်ကြ၏။ ကျွဲနွားရှားပါးသည့်အလျောက်၊ စိုက်ပျိုးရေးတွင် အခက်အခဲတွေ့ရလေသည်။ လမ်းပန်းအဆက်အသွယ်ကလည်း ခက်ခဲလှသည့်အပြင်၊ လူသွားလမ်းများသည်



နာဂတောင်တန်းဒေသရှိ ရှုခင်းသာယာလှသည့် နာဂဟတ္ထိ စံပြရွာ

တကြိမ်သွားပြီးသည့်နောက်တွင်၊ မြက်ပင်များ ဖုံးလွှမ်းသွားတတ်ခြင်းကြောင့်၊ လမ်းစ ပျောက်သွားတတ်လေသည်။

နာဂတောင်တန်းတွင် ရေရှားပါးခြင်းမှာ၊ အခက်အခဲတရပ်ပင် ဖြစ်တော့သည်။ ရေတံခွန်ကြီးများ ရှိသော်လည်း၊ မိုးတွင်းအခါ၌၊ ရေတံခွန်မှ ရေလုံးကြီးများ လိမ့်ဆင်းလာသောအခါ၊ ရွာလုံးကျွတ် မြောပါသွားလေ့ရှိသဖြင့်၊ ရေတံခွန်အနီးတွင် ရွာတည်၍ မနေဝံ့ကြချေ။ ရေတံခွန်ကြီးများနှင့် ဝေးရာ၊ တောင်ထိပ်များတွင် နေကြပြီးလျှင်၊ ရေကို ဝါးဘိုးကျည်တောက်များနှင့် သွားရောက်သယ်ယူလေ့ရှိကြသည်။ ချင်းလူမျိုးတို့ကဲ့သို့ပင်၊ ပလိုင်းထဲ၌ ဝါးကျည်တောက်များကို ထည့်၍၊ ပလိုင်းကို နဖူးမှသိုင်း၍၊ ကြောပေါ်တွင် ပိုးထားလေ့ရှိ၏။

အေးချမ်းသော ရာသီဥတုအတွက် စောင်အလုံအလောက်မရှိသဖြင့်၊ မီးလှုံ၍သာ နေကြရ၏။ မီးလှုံရန် ထင်းကို နေ့စဉ် တတောင်ဆင်း တတောင်တက် သယ်ယူကြရလေသည်။ အဖိုးတန် သစ်ပင်များ ရှိသော်လည်း၊ ထင်းအဖြစ် သစ်ပင်များကို ခုတ်လှဲပစ်သည့်အပြင်၊ တောင်ယာစိုက်ပျိုးရေးအတွက်လည်း တောရှင်းပစ်သဖြင့်၊ သစ်တောများ ပြုန်းတီး ပျက်စီးရလေသည်။ ထိုကြောင့် နာဂတောင်တန်း၌ ထင်း အလွန်ရှားသည်။

ဇက်လိန်ခန္တီးစော်ဘွားနယ်နှင့် လီဆိုင်နယ်တို့သည် ချင်းတွင်းမြစ်နှင့် မြစ်ကြီးနားခရိုင်အကြား၌ တည်ရှိ၏။ တောင်ဖက်သို့ ဟုမ္မလင်းနယ်အထိ ကျယ်ပြန့်လေသည်။ ချင်းတွင်းမြစ်ပေါ်တွင် တည်ရှိသည့်အတွက်၊ မြန်မာပြည်မကြီးမှာကဲ့သို့ပင်၊ စိုက်ပျိုးလုပ်ကိုင်နိုင်၏။ မုယင်းနှင့် ကောက်ကြီးစပါးတို့ကို စိုက်ပျိုးလေသည်။ သို့သော် မြေဩဇာကောင်းမွန်ရေးကို ဂရုမထားသည့်အပြင်၊ အလုပ်အကိုင် ပေါ့လျော့မှုတို့ကြောင့်၊ စပါးအညံ့များသာ ထွက်သည်။ ထွက်ရှိသမျှစပါးသည် နယ်သူနယ်သားများအတွက် စားသုံးရန် မလုံလောက်ချေ။ တောမှရသော မျောက်ဥ၊ သစ်ဥ စသည်တို့နှင့် ရောဖက်၍၊ စားကြရ၏။ မုန်ညင်း၊ ချဉ်ပေါင်၊ ပဲပုပ်၊ ဖရုံစသော ဟင်းသီးဟင်းရွက်အနည်းငယ်ကိုလည်း စိုက်ပျိုးကြ၏။ လီဆိုင်နယ်တွင် ကချင်များ နေထိုင်ကြ၏။ ထိုနယ်တွင် ဘိန်းပင်အမြောက်အမြား စိုက်ပျိုးလေသည်။

ဇက်လိန်ခန္တီးနယ်တွင် နေသူများမှာ ရှမ်းဟုဆိုသော်လည်း ရှမ်းစစ်စစ်မဟုတ်ချေ။ နာဂနှင့်မြန်မာ သွေးနှောနေသော ရှမ်းများသာ ဖြစ်ပေသည်။ ခမ်းမတီးတွင် နာဂရွာ အနည်းငယ်ရှိလေသည်။ စစ်မဖြစ်မီက ဇက်လိန်ခန္တီးတနယ်လုံးတွင် ရွာပေါင်း ၁၈ ရွာနှင့် လူဦးရေ ၁၈၀၀ ခန့် ရှိခဲ့၏။ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ ၂၅၇၄ ယောက် နေထိုင်လျက်ရှိလေသည်။

ဆုမ္မရာနယ်သည် မဏိပူရနယ်စပ်မှ နန်းတလိပ်ချောင်းအထိ ကျယ်ပြန့်၏။ တောင်ဖက်တွင် ဟုမ္မလင်းခရိုင်ခွဲ



မြန်မာတိုင်းရင်းဖွား နာဂလူမျိုးများ

တွင် ပါဝင်သည့် တမန်သည်ရွာသည် နယ်ခြားဖြစ်သည်။ ဆုမ္မရာနယ်တွင် စပါးများစွာဖြစ်၏။ တောင်စောင်းတွင် လှေကားထစ်များသဖွယ် ပြု၍ရှင်း၊ တောများကို ခုတ်ထွင် ရှင်းလင်း၍ရှင်း စိုက်ပျိုးလေ့ရှိ၏။ တနယ်လုံးအတွက် စားသောက်ရန် လုံလောက်ရုံမျှမက၊ ပိုလျှံသည်တို့ကို ဟုမ္မလင်းခရိုင်ခွဲသို့လည်း သွားရောက်ရောင်းချရသေး၏။ ပြောင်းနှင့် ဟင်းသီးဟင်းရွက်များကိုလည်း စိုက်ပျိုး၏။ ပျားရည်နှင့် ပျားဖယောင်းတို့လည်း ထွက်သည်။ ဖျာကိုလည်း ရက်လုပ်ရောင်းချကြ၏။

ဆုမ္မရာနယ်တွင် နာဂလူမျိုးများအပြင်၊ ခေါင်ဆိုင်ခေါ် ကုကီချင်းလူမျိုးများလည်း နေကြသည်။ နာဂရွာပေါင်း ၁၈ ရွာခန့် ရှိ၍၊ ခေါင်ဆိုင်ရွာပေါင်း ၄၅ ရွာ ရှိပေသည်။ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၉၅၂၀ ဖြစ်သည်။

အထက်ချင်းတွင်းခရိုင်နှင့် ဆုမ္မရာနယ်အကြား၌ တည်ရှိသော သောင်ထွတ်စော်ဘွားနယ်တွင်မူ မြေပြန့်များရှိသည့် အလျောက်၊ စိုက်ပျိုးရေးတွင် အထူးကောင်းမွန်၍ အဆင်ပြေလေသည်။ တနယ်လုံးအတွက် လုံလောက်သည်ထက် ပိုမိုထွက်ရှိသဖြင့်၊ ယင်းတို့ကို အထက်ချင်းတွင်းခရိုင်နှင့် မုံရွာမြို့များသို့ တင်ပို့ရောင်းချရလေသည်။ အားလူးနှင့် ဟင်းသီး ဟင်းရွက်မျိုးစုံတို့လည်း၊ အမြောက်အမြားပင် ထွက်ရှိ၏။ တနယ်လုံးတွင် သစ်တောများ ဖုံးလွှမ်းလျက်ရှိသဖြင့်၊ တောသစ်အရောင်းအဝယ် အတော်ထွန်းကားသည်။ သစ်တောကြိုးဝိုင်းများလည်း အနှံ့ အပြားရှိလေသည်။

သောင်ထွတ်နယ်တွင် နေထိုင်သူများကား ရှမ်းလူမျိုးများဖြစ်၏။ ထင်ရှားသော ရွာကြီးများမှာ သောင်ထွတ်၊ တုန်းဟဲနှင့် ကက်သာရွာတို့ဖြစ်သည်။ လူဦးရေမှာ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ ၈၆၃၅ ဖြစ်၏။

ဟုမ္မလင်းတိုင်းခွဲသည် တောင်ထူထပ်သောဒေသ ဖြစ်ပေသည်။ (ဟုမ္မလင်းမြို့ — ရှု။) မြစ်ကမ်းချောင်းနံဘေးများ၌ ရှမ်းများနေထိုင်ကြသည်။ ချင်းလူမျိုးအချို့ကား၊ တောင်ထူထပ်သော ဒေသများ၌ နေထိုင်ကြ၏။ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ ဟုမ္မလင်းတိုင်းခွဲတွင် လူဦးရေ ၅၅၂၁၀ ရှိလေသည်။

မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးသည့်နောက်တွင် အဆိုပါ ငါးနယ်ပါဝင်စေလျက် နာဂတောင်တန်းခရိုင်ကို ဖွဲ့စည်းကာ၊ စစ်ကိုင်းတိုင်းတွင် ထည့်သွင်းလိုက်ပြီးလျှင်၊ ခရိုင်ရုံးစိုက်ရာမြို့အဖြစ် ဇင်္ဂလိန်ခန္တီးမြို့ကို သတ်မှတ်ထားရှိ၏။ လဟယ်တိုင်း ခွဲနှင့် ရန်စီတိုင်းခွဲတို့တွင် တောင်းတန်းဝန်ထောက် တယောက်ကျစီ ခန့်ထား၏။ ခန္တီးစော်ဘွားနယ်တွင် အုပ်ချုပ်ရေးမှူး တယောက် ထားရှိရာ၊ နာဂတောင်တန်းခရိုင်၊ မြို့မဝန်ထောက်ကြီးက အုပ်ချုပ်ရေးမှူးအဖြစ် ဆောင်ရွက်ရ၏။ ဟုမ္မလင်းနယ်တွင် သောင်ထွတ်နှင့် ဆုမ္မရာကို ပူးပေါင်း ထည့်သွင်းထား၏။ ဟုမ္မလင်းနယ်ပိုင်ဝန်ထောက်သည် သောင်ထွတ်စော်ဘွားနယ် အုပ်ချုပ်ရေးမှူးလည်း ဖြစ်၏။ ဆုမ္မရာနယ် တောင်တန်းဝန်ထောက်လည်း ဖြစ်လေသည်။

**နာဂလူမျိုး။** ။နာဂလူမျိုးသည် မြန်မာနိုင်ငံ အနောက်မြောက်ဖက်၊ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံနယ်စပ်ရှိ၊ နာဂတောင်တန်းတွင် နေထိုင်ကြသူများဖြစ်သည်။ သီးခြားနေထိုင်သော အုပ်စုလေးများကို လိုက်၍၊ နာဂ အမျိုးစုပေါင်း များစွာကွဲပြားလျက်ရှိသည်။ လူမျိုးအားဖြင့် တမျိုးတည်း ဖြစ်သော်လည်း၊ ယင်းတို့နေထိုင်ရာဒေသ၏ ပထဝီဝင်အနေအထားကိုလိုက်၍၊ စကားနှင့်ဓလေ့ထုံးစံများ အနည်းငယ်စီ ခြားနားကွဲလွဲနေပေသည်။

ထင်ရှားသောနာဂအမျိုးစုများမှာ မြန်မာနိုင်ငံဖက်ရှိ နာဂတောင်တန်းတွင် နေထိုင်ကြသော နောက်ကော် နာဂ၊ ထန်ဂန် နာဂ၊ ဟေမြဲ နာဂ၊ ရန်ပန် နာဂ၊ တန်ခူး နာဂ၊ ပါရာ နာဂ၊ ခေါင်ဆိုင် နာဂ၊ ရာရာ နာဂ၊ ရာစာ နာဂနှင့် မက်ဝဲယား နာဂများဖြစ်ကြသည်။ အာသံနယ်ဖက်ရှိ နာဂတောင်တန်းတွင်မူ၊ အန်ဂါမီ နာဂ၊ ကွန်ယက် နာဂ၊ အောအို နာဂ၊ ကာလယိုကန်ဂျူ နာဂ၊ လိုတာ နာဂ၊ ဆန်တန် နာဂ၊ ဆီမာ နာဂ စသည်တို့ ထင်ရှား၏။ နောက်ကော်နှင့် ထန်ဂန်နာဂတို့သည် နမ်းချာရင်ချောင်းနှင့် ချင်းတွင်းမြစ်ပေါ်ရှိ ဟိန်ဆမ်နှင့် ကောင်းဟိန်ရွာများအနီး၊ တောင်ခြေတဝိုက်တွင် နေထိုင်၍၊ ချေမ်းဘော်ရွေသော စိတ်ထားရှိ၏။ နန်းဖွတ်ခါချောင်းအနီးတွင် ဟေမြဲ နာဂ၊ ရန်ပန် နာဂ၊ ရာရာနှင့် ရာစာနာဂများ ရွာတည်၍၊ နေထိုင်ကြသည်။ ဟေမြဲ နာဂတို့သည် လူ့ခေါင်းကိုဖြတ်၍၊ ယဇ်နတ် ပူဇော်လေ့ရှိသည်။ ရန်ပန် နာဂတို့ကို နာဂတောင်တန်း၏ အရှေ့မြောက်အစွန်းဆုံး၌လည်း တွေ့ရသည်။ ယင်းတို့သည် ဝမ်းပိုက်တွင် ကြိမ်ခွေများ စွပ်ထားလေ့ရှိ၏။ ဘိန်းကိုစွဲနေကြသဖြင့်၊ တိုက်ရေးခိုက်ရေးတွင် သုံးမရနိုင်တော့ချေ။ ယင်းတို့သည် ရှေးက ကချင်အကြီးအကဲနှစ်ဦး၏ လက်အောက်၌ နှစ်ပေါင်းများစွာ နေခဲ့ရဘူးသည်။ ၁၉၂၆ ခုနှစ်တွင် ကျေးကျွန်စံနစ်ကို ဖျက်သိမ်းလိုက်သည်တွင်မှ လွတ်မြောက်ခဲ့ခြင်း ဖြစ်၏။ တန်ခူး နာဂ၊ ပါရာ နာဂနှင့် ခေါင်ဆိုင်နာဂတို့မှာမူ ဆုမ္မရာနယ်တွင် နေထိုင်ကြသည်။ တန်ခူး နာဂများမှာ ထိုဒေသတွင် လူဦးရေအများဆုံးဖြစ်၍၊ ရွာ ၁၈ ရွာမျှပင် ရှိသည်။ လီဆိုင်အနီးတွင် ပါရာ နာဂရွာ ၃ ရွာခန့် ရှိသည်။ လီဆိုင်နှင့် ၁၀ မိုင်အကွာ၌ ယီဒုန်၊ ဒင်ဝရင်းနှင့် ချီရာ နာဂ ရွာများရှိသည်။ ဟူးကောင်းတောင်ကြားဒေသနှင့် စန်ပန်ဗွမ်တောင် အရှေ့ဘက်တောင်စောင်းများ၌လည်း နာဂ

လူမျိုးအချို့ကို တွေ့ရသည်။ စာရာမေထိတောင်တဝိုက်တွင် မက်ဝဲယားနာဂလူမျိုးများ ရွာတည်၍ နေထိုင်၏။ ယင်းတို့အနက် မက်ဝဲယားရွာ ၁ ရွာ၊ ထန်ရွာ ၂ ရွာ၊ ထန်မုန်ရွာ ၁ ရွာတို့မှာ အကြီးဆုံးပင်ဖြစ်၏။ နာဂတောင်တန်းအလယ်ခန့် အာသံနယ်နှင့် နီးကပ်သောအပိုင်းတွင် ပုန်ညို နာဂ၊ ဇော်လော နာဂ၊ ဇက်ပလော် နာဂ နှင့် ဝီလမ်နာဂများ နေထိုင်ကြသည်။ ယင်းတို့သည် အတိုက်အခိုက်ဝါသနာထုံသူများဖြစ်၍၊ အခြားလူမျိုးစုများကပင်ကြောက်ရွံ့ကြရသည်။ ၁၉၂၆ ခုနှစ်တွင် ပုန်ညိုနာဂများသည် ဟိဂွမ်ရွာမှနေ၍၊ ဗြိတိသျှအစိုးရတပ်တတပ်ကို ၅ ရက်ကြာမျှ ခုခံတိုက်ခိုက်သည်။ ယင်းတို့ အရေးနိမ့်ခဲ့သော်လည်း၊ ပုန်ညိုနောက်ကွန်းဆိုသူ ဦးစီး၍၊ ၁၉၂၉ ခုနှစ်တွင် တဖန် အစိုးရကို ထပ်မံပုန်ကန်ကြပြန်သည်။ ဇော်လောနောက်ကွန်းရွာမှ နာဂများသည်လည်း ၁၉၃၇၊ ၁၉၃၉ ခုနှစ်များ၌ ရွာအချို့ကို ဝင်ရောက်တိုက်ခိုက်၍၊ လူခေါင်း ၁၇၀ ကို ဖြတ်သွား၏။ ၁၉၄၁ ခုနှစ်၌လည်း ဇော်လောနှင့် ဇက်ပလော နာဂများသည် လူပေါင်း ၁၅၀ ကို ခေါင်းဖြတ်ခဲ့ပြန်သည်။ ဝီလမ်နာဂများသည် အိမ်ခြေငါးရာခန့်ရှိသော ပန်းရှာရွာ၌ နေထိုင်သည်။ အခြားရွာများကို ဝင်တိုက်၍၊ ဖမ်းဆီးမိသူများကို ကျွန်အဖြစ် ရောင်း၏။ အာသံနယ်ရှိ တောင်ကုန်းများတွင် အန်ဂါမီနာဂများ ရွာဖွဲ့၍နေကြသည်။ ရွာတည်ပုံမှာ တောင်ကုန်းပေါ်၌ အဆင့်ဆင့် တအိမ်နှင့်တအိမ် တပြေးတည်းမရှိဘဲ၊ မြင့်၍မြင့်၍ တည်ရှိသည်။ ရွာကိုလည်းပတ်လိုလျှင်၊ လှေခါးထစ်တက်ရသကဲ့သို့၊ အဆင့်ဆင့် တက်သွားရသည်။ အိမ်များပေါ်တွင် ကျဲနွားတိရစ္ဆာန်ပုံများ၊ ယောကျ်ားမိန်းမတို့၏ပုံများကို ပန်းပုထွင်းထားသည်ကို တွေ့ရသည်။ သစ်သားအော်လံများတပ်ထားသောအိမ်ဆိုလျှင်၊ အလှူပွဲကြီးများပေးခဲ့ကြောင်းကို သိနိုင်သည်။ ရပ်ရွာလူကြီးများသည် အစိုးရအမှုထမ်းဝတ်သော ဝတ်ရုံနီများ ခြုံထားသည်။ ကိုယ်ပေါ်တွင် ရိုးရာအလိုက်၊ ခါး၌ ကြိမ်ခွေနှင့် အနက်ရောင်ပိတ်စယ်တခုကို အရှက်လုံရုံမျှ ဝတ်ဆင်ထားခြင်းမျှသာရှိ၏။ မိန်းမများမှာ အပြာရောင်အင်္ကျီဝတ်သည်။ မွန်ဂိုလူမျိုးနှင့် ဆင်ဆင်တူ၍၊ မျက်နှာ ဝိုင်းသည်။ မိန်းကလေးများသည် အပျိုဆိုလျှင်၊ ဆံပင်အရှည်မထား၊ ကတုံးနီးပါးခန့် ရိတ်ထား၏။ အိမ်ထောင်ပြုမှသာလျှင်၊ ဆံပင်အရှည်ခံရ၏။ ယောကျ်ားများသည် ခြေထောက်နှင့်ခါးတွင် ကြိမ်ကွင်းများ ဆင်ယင်သည်။ နားပေါက်၌ ခြည်မျှင်စများ သွင်းထားသည်။ ပုတီးကုံးများ၊ ခရုခွံများကို ကျားရောမပါ တပ်မက်စွာဆင်ယင်ကြသည်။ ခိုနိုမာ နာဂများသည် အန်ဂါမီနာဂများအတွက် အဝတ်အစား အသုံးအဆောင် လက်ဝတ်တန်ဆာများလုပ်၍ ရောင်းသည်။ တခါကမူ ထိုနာဂများသည် စစ်ရေးတွင် ဗိုလ်ဆွဲခဲ့ကြ၏။ ထိုရွာမှ ၂၅ မိုင်ပတ်လည်ရှိရွာများမှ ခိုနိုမာ ရွာသို့ အခွန်ဆက်ရသည်။ ကွန်ယက် နာဂလူမျိုးများမှာ ရွာအများအပြားပင် တည်၍ နေထိုင်ကြရာ၊ ဝက်ချင်းရွာရှိ ကွန်ယက် နာဂများမှာမူ၊ အင်အားအကြီးဆုံးဖြစ်၍၊ အခြား ကွန်ယက်ရွာ ၁၄ ရွာက အခွန်ဆက်ကြေးပေးနေရလေသည်။ ထိုရွာကြီးမှ ကွန်ယက်များသည် အရပ်အမောင်း ကာယဗလ အချိုးကျ ပြေပြစ်သည်။ ဆံပင်ကို အတိုထားသည်။ နားပေါက်၌ ပန်းပွင့်များ ပန်လေ့ရှိသည်။ ဝါခြည်ဖြင့် အဝတ် ရက်၍ နံငယ်ပိုင်းမျှ ဝတ်ကြသည်။ ဖျာရက်၍ မြေပြန့်နှင့် ကုန်ကူးသန်းရောင်းဝယ်သည်။ မြေပြန့်နှင့် အဆက်အသွယ်မရှိသော အခြားကွန်ယက်များမှာမူ အဝတ်အစားဟူ၍ လုံးဝမဝတ်ချေ။ ခါးတွင် ကြိမ်ခွေမျှသာ ပတ်ထားသည်။ ရှီအွန်ရွာရှိ ကွန်ယက်များသည် ဝက်ချင်းရွာမှ ကွန်ယက်များနှင့် စကားမတူချေ။ ယောကျ်ားများသည် မျက်နှာတွင် ပါးရဲထိုးသည်။ ဆံရှည်ခြင်းကို ဂုဏ်ယူသည်။ ဆံပင်ကို နောက်တွဲ ထုံးလေ့ရှိသည်။ မိန်းမများမှာ လက်တဝါးခန့်အဝတ်စယ်ကိုသာ ဝတ်ကြသည်။ အိုတင်ရွာမှ ကွန်ယက်များမှာမူ ၁၅ နှစ် ၁၆ နှစ်အရွယ်ထိ ဘာမျှမဝတ်ဘဲ၊ ထိုအရွယ်မှ ကျော်လွန်သော်၊ လက်တဝါးခန့်သာ ဝတ်၍ အရွယ်ရောက်ကြောင်းကို ဖော်ပြသည်။ မိန်းကလေးများကို မိဘရှင်များက လက်မထပ်စေလိုသေးကြောင်းကို ခဲနားဆွဲ ဝတ်ထားပါက သိသာနိုင်သည်။ လက်ထပ်ရန် သဘောတူပါက ကြေးနားဆွဲ ဆင်ပေးသည်။ အိမ်ထောင်ပြုရာ၌ အမျိုးစုတူချင်း လက်မထပ်ရချေ။ တမ်ဗလူနှင့်ကန်ချင်ရွာတို့မှ ကွန်ယက်များမှာမူ အမေရိကန်တို့၏ သာသနာပြု လုပ်ငန်းကြောင့်၊ ယခုအခါ ဗက်ပတစ်ခရစ်ယန်သာသနာဂိုဏ်းဝင်များ ဖြစ်နေကြလေပြီ။ ကွန်ယက်ဒေသ၏ တောင်ဖက်ရှိ အေအို နာဂများအနက် ချုန်တိုဂေ၊ လုန်မီစာ၊ မွန်ဆန်ယင်မတီစသည့် ရွာများရှိ အေအို နာဂများသည်လည်း၊ ဗက်ပတစ်ခရစ်ယန်ဂိုဏ်းဝင် ဖြစ်လာကြပြီးလျှင်၊ သမရိုးကျ ဝတ်စားဆင်ယင် နေထိုင်ပြုမူပုံများကိုပင် စွန့်ပစ်နေကြသည်ကို တွေ့ရသည်။ ကလယိကန်ဂျူ နာဂများမှာမူ၊ နေ့ကလက်ရွာ၊ ယင်ပန်ရွာတို့တွင် နေထိုင်ကြ၏။ ပတ်ကိုင်တောင် အနောက်ဖက် တောင်စောင်းများ၌လည်း၊ နေထိုင်ကြသည်ဟု သိရသည်။ ယင်းတို့၏ ရုပ်ရည်မှာ မွန်ဂိုလူမျိုးနှင့် ပို၍တူသည်။ ဦးခေါင်း လုံးသည်။ အလှွန်ဆိုးသွမ်း၍ အတိုက်အခိုက် ဝါသနာကြူးသည်။ ကျွန်ကုန်ကူး၍ စီးပွားရှာကြသည်။ နေ့ကလက်ဒေသတဝိုက်၌ မဲနယ်ပင်များ ပေါက်ရောက်သဖြင့်၊ အဝတ်များကို အပြာရောင်ဆိုး၍ ဝတ်ကြသည်။ ချုန်း နာဂများသည် ကလယိကန်ဂျူတို့နှင့် ရန်ဘက်ဖြစ်၍၊ အမြဲလိုလိုပင် တိုက်ခိုက်နေ



တိုင်းရင်းသား ဝတ်စုံ ဆင်ယင်ထားသည့် နာဂလုင်ပျိုများ

ကြသည်။ ချန်တန်ရွာ၊ ယင်ပန်ရွာတို့၌ နေထိုင်ကြ၏။ ယင်စွန်ဂါရွာမှ နာဂများသည် ချန်း နာဂနှင့် ဆင်ဆင်တူ၏။ နာဂတောင်တန်းရှိ ဟဲလီဖုန်တောင်၌ ဆီမာ နာဂ၊ ဆန်တန် နာဂ၊ ရန်ဂမာ နာဂ၊ ဟိုလုန်ဂါ နာဂများ နေထိုင်ကြသည်။ ဆီမာ နာဂတို့သည် တိုက်ခိုက်ရေး လိုလားသူများ ဖြစ်ကြသည်။ ဆန်တန် နာဂများမှာမူ ဆီမာ နာဂတို့ တိုက်ထုတ်သဖြင့်၊ ဆန်တန်ရွာ၌ လာရောက် အခြေစိုက်ကြရခြင်းဖြစ်သည်။ ထိုဒေသ၌ အေအို နာဂတို့နှင့် ဝတ်စားဓလေ့ဆင်တူသော နာဂများလည်း ရှိသည်။ ဟိုလုန်ဂါ နာဂများမှာ အခြား နာဂများထက် အလုပ်အကိုင် ခဲယဉ်းငြိုငြင်စွာ လုပ်ကိုင် စားသောက်ကြရသည်။

နာဂတမျိုးလုံးကို ခြုံကြည့်လျှင်၊ ရုပ်ရည်မှာ မြန်မာနှင့် အလွန်တူ၏။ ကိုယ်လုံးကိုယ်ထည် တောင့်တင်း၍၊ အရပ်မြင့်၏။ မိန်းမများသည်လည်း ယောကျ်ားများကဲ့သို့ပင် ကာယဗလ အချိုးကျပြေပြစ်သည်။ ယောကျ်ားများကဲ့သို့ပင် သန်မာထွားကြိုင်းသည်။ နာဂတို့၏ အလုပ်အကိုင်မှာ မိုးအခါတွင် တောင်ယာစိုက်ပျိုး၏။ တောင်ယာရိပ်သိမ်းပြီးသည့်အချိန်တွင် အိမ်မိုးရန် အိမ်ပြင်ရန်အတွက် သစ်ဝါးခုတ်ရ၏။ နွေစဉ်လုပ်ငန်းမှာ ရေနှင့်ထင်း သယ်ယူရခြင်းဖြစ်သည်။ နာဂတို့၏ အိမ်မှာ တဲတန်းရှည်မြေစိုက် အမိုးကုပ်ကုပ်နှင့် ဒိုးယိုတံခါးပေါက် ဖေါက်ထားသည်။ အိမ်အမိုးကို ထန်းလက်၊ အုန်းလက် စသည်ကဲ့သို့သော အလက်များနှင့်မိုးသည်။ အချို့ဒေသများ၌ ကျောက်ပြားနှင့် အိမ်အမိုးမိုးထားသည်ကို တွေ့ရသည်။ တဲ၏အလည် တနေရာတွင် မြေကြီးများကို ဘောင်ခတ်၍ ထည့်ထားပြီးလျှင်၊ မီးဖို ၃–၄ ဖိုမျှ ပြုလုပ်၍ မီးအမြဲထည့်ထား၏။ အိပ်ရာအတွက် ခံတင်သဖွယ် အိပ်စင်မြင့်မြင့်လုပ်၍၊ အောက်မှ မီးဖို ဖိုထားသည်။ အိပ်စင်တခုလျှင် မီးဖိုတခု ရှိမြဲဖြစ်၏။ များသောအားဖြင့် တဲများကို တခုနှင့်တခု မျက်နှာချင်းဆိုင် ဆောက်လေ့ရှိသည်။

ရွာများမှာ ရေတံခွန်များ၊ မြစ်ချောင်းများနှင့် ခပ်လှမ်းလှမ်းတွင် တည်ရှိလေ့ရှိ၏။ ရွာတိုင်းတွင် အတိုင်ပင်ခံဇရပ်ဟု ဆိုနိုင်သော ယောကျ်ားဆောင်များနှင့် ချစ်ဂေဟာများ ထားရှိလေ့ရှိသည်။ အတိုင်ပင်ခံဇရပ်များမှာ အမျိုးအုပ်စုအလိုက် သီးခြား ဆောက်လေ့ရှိသည်။ တဆောင်နှင့်တဆောင် ဂုဏ်ပြိုင်လေ့ရှိ၏။ ထိုဇရပ်များတွင် ယောကျ်ားများ စုဝေး၍၊ ရပ်မှုရွာမှုကိစ္စအရပ်ရပ်ကို နံနက်တိုင်း ဆွေးနွေးလေ့ရှိကြသည်။ ထိုနောက်မှ လယ်ကွင်းသို့ ဆင်းကြ၏။ ဇရပ်တွင် ကုလားတက်သဘွယ် သစ်သားကို ထွင်း၍လုပ်ထားသော စည်ကြီးများရှိ၏။ အဝအကျယ်မှာ ၁၂ လက်မမှ ၁၈ လက်မခန့်အထိ ရှိ၍၊ ကျည်ပွေ့သဘွယ် တုတ်တံနှင့် ထုနှက်ရသည်။ ရန်သူလာလျှင်ဖြစ်စေ၊ ဝမ်းသာသော အထိမ်းအမှတ်ဖြင့်ဖြစ်စေ စည်ကိုထုနှက်ကြသည်။ အရှိန်ယူ၍ ထွင်းလုပ်ရသည်ဖြစ်၍၊ ရွာမီးလောင်ရာတွင်၊ ယင်းစည်ကို မီးထဲမပါစေရန် မီးလွတ်မည့်နေရာ၌ ထားလေ့ရှိသည်။ ဇရပ်နှင့်မနီးမဝေး သစ်ပင်ပေါ်တွင် လင့်စင်တခုထားရှိ၍၊ ကင်းစောင့် ချထားလေ့ရှိသည်။ ရွာပတ်လည်၌လည်း ကင်းတဲများ ထားသည်။ ရန်သူလာမည်ဟု သတင်းရထားလျှင်၊ ကင်းစောင့် ချထားလေ့ရှိ၏။ ချစ်ဂေဟာများမှာမူ လူနှစ်ယောက်နေသာရုံ အခန်းငယ်

လေးများ ဖွဲ့ထားသည်။ တဲအလယ်ရှိ မီးဖိုမှ အလင်းရောင်သာရှိ၍၊ အခြား အလင်းရောင် မရှိ၊ မှောင်မဲလျက်ရှိ၏။ ညနေစောင်းသည်နှင့် တပြိုင်နက်၊ နာဂသမီးရီးစားများ အလျှိုအလျှိုနှင့် လာရောက်၍၊ ချစ်တင်းနှောကြသည်။ အချို့တဲများမှာ မြေအောက်တွင် တွင်းတူး၍ဆောက်ထားသည်။ အချို့မှာ ရွာနှင့် မလှမ်းမကမ်းရှိ၊ စပါးကျီများသို့ သွားရောက်၍၊ ချိန်းတွေ့ကြသည်။

နာဂတို့သည် စပါး စ ပျိုးသောအခါတွင်၊ ရွာတည်ထောင်သူ အကြီးအကဲ၏အဆက်အနွယ်တဦးဦးက ဦးဆောင်၍၊ ဆုတောင်းပြီးမှ၊ စပါးစေ့များကို ကြဲ၏။ ထိုနောက်မှ ရွာသူရွာသားများက ပျိုးကြရ၏။ စပါးစိုက်သည့်လယ်မှာပင် ပိန်းဥပင်များကို ရောနှောစိုက်ပျိုးသည်။ ပိန်းဥမှာ နာဂတို့၏ မူလသမရိုးကျအစာ ဖြစ်သော်လည်း၊ ပိန်းဥကိုစိုက်ခြင်းသည် ယောကျ်ားများအဘို့ ဂုဏ်ငယ်သည်ဟု ယူဆကြသဖြင့်၊ မိန်းမများကပင် စိုက်ရသည်။ တူးရသည်။ သယ်ယူရသည်။ စပါးပင်များပေါက်လာသော်၊ ပေါင်းသင်ရ နှုတ်ရသည်မှာလည်း၊ နာဂတို့အတွက် ဒုက္ခတရပ်ပင် ဖြစ်သည်။ စပါးအတွက် ကောင်းရန်နှင့် ပျိုးအောင်ရန် ပေါင်းမြက်များကို မပြတ်နှုတ်ပေးရသည်။ အချို့လယ်များ၌ လူငှား၍ပင်နှုတ်ရသည်။ အချို့လယ်၌မူ မိန်းကလေးများနှင့် ယောကျ်ားလေးများ ပူးပေါင်း၍၊ မိမိတို့လယ်များကို တလှဲ့စီ ပေါင်းနှုတ်ကြသည်။ ပေါင်းနှုတ်ချိန် ပြီးမြောက်သော်၊ လယ်တဲများ၌ အကျွေးအမွေး လှိုင်နေတော့၏။ မိမိလယ်ကို ကူညီပေးသောသူအား၊ မိန်းကလေးဖြစ်စေကာမူ၊ ဆန်အရက်ကို သတိလစ်လုမတတ်ဖြစ်အောင်၊ အဝတိုက်၍ ကျေးဇူးဆပ်ကြသည်။ ရွာတဲ၌လည်း အထူးဧည့်ခံကျွေးမွေးပွဲများ လုပ်သည်။ လပြည့်နေ့ ကျရောက်သည့်အခါ၌လည်း၊ ပျော်ပွဲများ ကျင်းပသည်။ စပါးရိတ်သိမ်းချိန်၌လည်း ထိုနည်းတူပင် ကျင်းပကြသည်။ ပျော်ပွဲရွှင်ပွဲများကျင်းပနေစဉ်အတွင်း မည်သူ့ကိုမျှ ရွာထဲသို့ အဝင်မခံ၊ ရွာလုံးကျွတ်လည်း အလုပ်မလုပ်ဘဲ သောက်စားကခုန်ကြလေ့ရှိသည်။

ထိုပွဲများအပြင်၊ အလှူပေးပွဲဟူ၍လည်း ရှိသေးသည်။ ယင်းမှာ တဦးချင်းက ပြုလုပ်သောပွဲ ဖြစ်သည်။ နာဂတဦးတယောက်သည် လူဂုဏ်တန်ကြေးရည်တက် ဖြစ်လာလိုပါက ဤကဲ့သို့ အလှူပေးရသည်။ ရှေးဦးစွာ ကျောက်တုံးဆွဲပွဲကို ကျင်းပရ၏။ အလှူရက်မတိုင်မီ အလှူရှင်သည် ကျောက်တုံး ၂ တုံးကို ကြိုတင်ရှာဖွေထားရ၏။ အလှူနေ့တွင် နံနက် မိုးလင်းသည်နှင့် တပြိုင်နက်၊ နာဂ ယောကျ်ားများသည် အိမ်ရှေ့သို့ထွက်၍ အစွမ်းကုန် ဖီးလိမ်းပြင်ဆင်ကြသည်။ ယောကျ်ားများနှင့် ပိုမိုသက်ဆိုင်သောနေ့ ဖြစ်သဖြင့်၊ မိန်းမများမှာ သင့်ရုံသာ ပြင်ဆင်၏။ ပြီးလျှင် အလှူရှင်အိမ်သို့ အစုလိုက်သွားကြသည်။ ရှေးဦးစွာ နွား ၂ ကောင်ကိုသတ်၍၊ အမဲဖျက်ပြီးလျှင်၊ ဝေငှပေးသည်။ အလှူရှင်မှာ ပေါင် ၁ ချောင်းကိုရသည်။ ၁၄ ရက်လုံးလုံး ထိုပေါင်သားကိုသာ စားရမည်ဖြစ်၏။ ထိုနောက် ရွာမှ နတ်ဝင်သည်ကို ပင့်ခေါ်၍၊ ငှက်ပျောရွက်ခွက်နှင့် ထည့်ထားသော ဆန်အရက်ကိုတိုက်သည်။ နတ်ဝင်သည်က ‘ သင့်ကောက်စပါးများ၊ ပေါများစေသော်ဝ်၊ အရက်များလည်း မကုန်ခန်းနိုင်အောင် ပေါများစေသောဝ်၊ ဘေးအပေါင်းမှ ကင်းလွတ်ချမ်းသာစေသောဝ် ’ ဟု ဆုမွန်ကောင်း တောင်း၏။ ထိုနောက် ကျွဲနွားများကို ထပ်၍ သတ်ဖြတ်ဝေငှပြန်သည်။ နေအတော်မြင့်လျှင် အလှူရှင်မောင်နှံစုံ ခေါင်းဆောင်၍၊ ယောကျ်ား ၃၀–၄၀ ခန့်သည် တောင်ရိုးပေါ်ရှိ တောအုပ်သို့ ဝင်ကြသည်။ တောထဲ၌ ကြိုတင်ရှာဖွေထားသော ကျောက်တုံးနှစ်တုံးကို ကြိမ်ကြိုးချွေများနှင့် ရစ်ပတ်ချီနှောင်လျက်၊ သစ်သားစွပ်ဖားပေါ် သို့ တင်၍ဆွဲယူကြသည်။ လမ်းပန်းမပြေပြစ်သည့် နေရာများ၌ ညာသံပေး၍၊ ဟီးတိုက်ဆွဲကြသည်။ နေအတော်စောင်းမှပင် လယ်ကွင်းများဆီသို့သွားသော လမ်းအနီးသို့ ရောက်လာကြ၏။ ထိုနေရာတဝိုက်တွင် အခြားအလှူရှင်များ ပစ်ချထားသော ကျောက်တုံးကြီးများရှိသည်။ အလှူရှင်သည် ကြိုတင်တူးဖော်ထားသော တွင်း ၂ တွင်းထဲသို့ သယ်ယူလာသော ကျောက်တုံးနှစ်တုံးကို ပစ်ချစေသည်။ ထိုနောက် အလှူရှင်က ကျောက်တုံးကြီးပေါ် သို့၊ သူ၏ဇနီးက ကျောက်တုံးငယ်ပေါ် သို့၊ အသီးအသီး အရက်အနည်းငယ်စီ လောင်းချ၏။ ထို့ပြင် ယဇ်ပူဇော်သောနွား၏ သွေးဖြင့် မျက်နှာကို သုတ်လိမ်းကြပြီးနောက်၊ ‘ ကျွန်ုပ်တို့၏ ဆန်ရေစပါး စားသုံးမကုန်အောင် ပေါများပါစေသောဝ် ’ ဟု နှစ်ဦးလုံး ဆုတောင်းကြသည်။ ဤသို့ဖြင့် ကျောက်တုံးဆွဲ အခန်းအနားပြီးလတ်သော်၊ ပျော်ရွှင်စွာ အောင်သံဟစ်ကြွေးတော့၏။ လူအုပ်ကြီးလည်း လှံများ ဓားမတိုများကို လေထဲတွင် ပစ်လွှင့်ကစား၍၊ ကခုန်သီဆိုလျက်၊ ရွာသို့ပြန်လာလေသည်။ ထိုညဉ့်တွင် ညဉ့်လုံးပေါက် သောက်စားပျော်ပါးကြ၏။ ရက်များမကြာမီ အလှူရှင်၏ အိမ်မြင့်မိုး၌ သစ်သားအော်လံသဖွယ် အချွန်နှစ်ခုကို တပ်ဆင်လိုက်သည်။ ထိုအရာကိုကြည့်ခြင်းဖြင့် အိမ်ရှင်သည် အလှူပွဲကြီးပေးခဲ့ကြောင်းကို သိသာနိုင်၏။ ထိုအရာနှင့် ကျောက်တုံးများသည် အလှူရှင်အား လူဂုဏ်တန် ကြေးရည်တက်ဖြစ်ကြောင်းကို ဖော်ပြကြ၏။ ပို၍ဂုဏ်တက်လိုပါက ဤနည်းနှင်နှင် အလှူပေး၍၊ ကျောက်တုံးများကို ၂ တုံးမှ ၈ တုံး ၁၀ တုံးအထိ ဆက်၍ စိုက်ထူနိုင်၏။ သို့သော် အကုန်အကျများလွန်းသဖြင့်၊ ဆုံးခန်းတိုင် ပြုလုပ်နိုင်သူ ရှား၏။ အလှူရှင် သေလွန်သောအခါ၊ သူ၏ ဝိညာဉ်တစိတ်တဒေသသည်



နာဂအမျိုးသမီးတို့သည် အားလပ်ချိန်တွင် ယက်ကန်းရက်ကြသည်။

ကျောက်တုံး၌ နေသည်ဟု ယူဆကြ၏။ အချို့နာဂရွာများ၌ ကျောက်တုံးအစား၊ ကျောက်ပြားများကို စက်ဝိုင်းသဏ္ဌာန် ဝိုင်း၍ စီထား၏။

နာဂလူမျိုးများသည် သင်းချိုင်းဂူများကို ရွာထဲ၌၎င်း၊ ရွာလမ်းနံဘေး၌၎င်း တည်ထားကြသည်။ ဂူပေါ်တွင် တင်ထားသောကျောက်တုံးကြီးများကို ကြည့်ရှုပါက၊ ထိုသူအသက်ရှင်စဉ်က ခေါင်းဖြတ်ခဲ့သမျှကို သိရှိနိုင်၍၊ ကျောက်တုံးငယ်များမှာမူ သူ၏ ချစ်သူများကို ဖော်ပြထားခြင်းဖြစ်၏။ အချို့ဂူများ၌ ကျောက်တုံးငယ် ၆၀ ခန့်ပင် တွေ့ရ၏။

နာဂလူမျိုးများ ကိုင်ဆောင်သော လက်နက်မှာ လှံ၊ တုတ်ရှည်ထိပ်တွင် ဓားမတိုသဖွယ် တပ်ထားသောအရာနှင့် လေးမြားတို့ဖြစ်၏။ လှံတံ၌ ဆိတ်မွေးများကို အရောင်စုံ ဆေးဆိုး၍၊ တပ်ထား၏။ လှံသွားတွင် အဆိပ်လူးလေ့ရှိ၏။ ပေ ၃၅ မှ ၄၀ အတွင်း လက်မှန်းတည့်အောင် ပစ်နိုင်၏။ မြားတံများ၌လည်း အဆိပ်လူးလေ့ရှိ၏။ နာဂတို့သုံးသော အဆိပ်မှာ သစ်ပင်များမှရသော အဆိပ်နှင့် မြွေအဆိပ်များကို ရောနှော၍ထားခြင်းဖြစ်သည်။ ၁၉၂၇ ခုနှစ်ခန့်က ဗြိတိသျှတို့သည် ထိုအဆိပ်ကို ဓာတ်ခွဲကြည့်စေခဲ့ရာ၊ အဆိပ်ပေါင်းစုံပါဝင်ကြောင်း သိခဲ့ရသည်။ မြားဆိပ်သင့်လျှင်၊ ချက်ချင်းပင် ထိုအဆိပ်သင့်သောနေရာကို လှီးထုတ်မှသာ၊ အသက်ဘေးမှ လွတ်မြောက်နိုင်ဘွယ်ရာရှိသည်ဟု ဆို၏။ ကူကီစပ် နာဂများနှင့် အခြား နာဂများသည် ဝါးဘိုးငြောင့်များကို မြေတွင်စိုက်၍၊ ရန်သူကို အနှောက်အယှက်ပြုကြသည်။ ကျောက်ခဲများ၊ ကျောက်တုံးများကိုလည်း၊ တောင်ကုန်းထိပ်တွင် စုပုံ၍ ကြိမ်ကြိုးနှင့် တွဲချီထားသည်။ ကြိုးကိုဖြတ်လိုက်လျှင်၊ ကျောက်တုံးများသည် အောက်ရှိလူသွားလမ်းပေါ် သို့ ကျလာအောင် လုပ်ထားခြင်းဖြစ်၏။ နာဂရွာတရွာသို့ သွားလိုပါက၊ လမ်းတွင် ဆူးများနှင့် လှံတချောင်းချထားသည်ကိုတွေ့လျှင်၊ ထိုရွာသည် လူစိမ်းများကို လာခွင့်ပြုမည်မဟုတ်ကြောင်း၊ ဖော်ပြခြင်းဖြစ်၏။ တခါတရံ ရွာအကြီးအကဲအား မိတ်ဆက်လက်ဆောင်ပေးပို့ပါက၊ ထိုလက်ဆောင်နှင့် အတူ၊ ဆူးငြောင့် တခု ပြန်ပို့လာလျှင်၊ မိတ်ဆက်ခြင်းကို လက်မခံကြောင်း သိရ၏။ အကယ်၍ လှံတချောင်းဖြစ်စေ၊ တုံးနေသော ဆူးတခုကိုဖြစ်စေ၊ ပြန်ပေးပါက၊ မိတ်ဆက်ခြင်းကို လက်ခံကြောင်း သိရ၏။ လက်နက်ချသောအခါ၌၊ ဆူးအချွန်တုံး ၁ ခု၊ တိုက်ပွဲဆောင်းခမောက်၊ ကျွဲသားရေ နွားသားရေနှင့်လုပ်သော ဒိုင်းနှင့် လှံ ၁ ချောင်းကို ပေးလေ့ရှိ၏။

နာဂတို့စစ်တိုက်နည်းမှာ ညဉ့်ဘက်တွင် ရွာ ၁ ရွာကိုဝိုင်းထားပြီး၊ နံနက်လင်းသည်နှင့် ရုတ်တရက် ဝင်တိုက်ခြင်းဖြစ်၏။ အုပ်စုတစုက ရွာထဲသို့ဝင်၍၊ မြင်မြင်သမျှကို ခေါင်းဖြတ် တိုက်ခိုက်၏။ အခြားအုပ်စုက ရွာနှင့်မလှမ်းမကမ်းရှိ စပါးကျီများကို မီးတင်ရှို့၏။ ရုတ်ရုတ်သဲသဲဖြစ်နေဆဲတွင် ရွာထဲသို့ဝင်တိုက်သောသူများ ထွက်ပြေးလာတော့၏။ အကယ်၍ ရွာပတ်လည် ဆူးများချထားပါက၊ ရွာအပြင်ချောင်းနံဘေး တောခြုံများ၌ ပုန်းအောင်းနေပြီးလျှင်၊

နံနက်လင်းသောအခါ၊ ရေခပ်လာသော မိန်းမများကို ဆီး၍ တိုက်ခိုက်ခေါင်းဖြတ်ယူလေသည်။ အချို့လွတ်ထွက်သွားသောသူများ ရွာကိုပြန်၍ သတင်းပို့လျှင်၊ တပ်ခေါက်၍ ပြန်လေတော့သည်။ ခေါင်းဖြတ်ခြင်းမှာ ဤသို့ခေါင်းဖြတ်ခြင်း အားဖြင့်၊ မှော်အတတ်ကို ရရှိနိုင်သည်ဟု ယူဆကြသောကြောင့်ဖြစ်၏။ အချို့ခေါင်းအရနည်းလျှင်၊ ခေါင်း ၁ လုံးတည်းကိုပင် ဝေခြမ်းယူကြရ၏။ ခေါင်းများများ ဖြတ်နိုင်သူသည် လူရည်ချွန်ဖြစ်တော့၏။ ထိုသူ၏ အိမ်ပေါက်ဝ၌ ခေါင်းများကို ကြိမ်ကြိုးနှင့်ချီလျက်၊ ဆွဲချိပ်ထားသည်ကို တွေ့နိုင်၏။

**နာစစ်ဆပ်ပင်**။ ။'အမာရစ်လစ်' မျိုးရင်းတွင်ပါဝင်သော ပန်းမျိုးစုကြီးကို နာစစ်ဆပ်ဟူ၍ခေါ်သည်။ နာစစ်ဆပ် ဟူသောအမည်မှာ ဂရိထုံးဟောင်းပုံပြင်တွင်ပါရှိသော နာစစ်ဆပ် အမည်ရှိ လုလင်ပျို ကိုအစွဲပြု၍ ခေါ်သော အမည်ဖြစ်၏။ နာစစ်ဆပ် ပင်သည် အာရှတိုက်နှင့် ဥရောပတိုက်တို့တွင် ပေါက်ရောက်သည်။ နာစစ်ဆပ် ပန်းမှာ ရွှေဝါရောင်၊ အဖြူရောင် စသည်ဖြင့် အရောင်အမျိုးမျိုးရှိသည်။ အချို့ပန်းများသည် ရနံ့အလွန်သင်း၍၊ အချို့ပန်းများမှာ ရနံ့အလျှင်းမရှိကြချေ။ ဒက်ဖိုဒီး ပန်းသည် နာစစ်ဆပ် ပန်းမျိုးတွင် ပါဝင်သည်။

နာစစ်ဆပ် မျိုးအားလုံး၌ သေးသွယ်ရှည်လျားသော အရွက်များရှိကြသည်။ မျိုးယူရာ၌ ပန်းဥကိုယူရ၏။ ပန်းဥများကို တခုနှင့်တခု သုံးပေခန့်ခြား၍ စိုက်ရသည်။ ပန်းဥများပေါ်တွင် အတော်အသင့်ကောင်းမွန်သော မြေဆီလွှာကို လေးလက်မခန့် ဖုံးထားရသည်။ ထိုမြေဆီလွှာများမှာ ရေစီးလွယ်ကူရပေမည်။ ရနံ့အလွန်သင်းသော နာစစ်ဆပ် ပန်းဖြူမျိုးကို ကျောက်ခဲကလေးများထည့်ထားသောခွက်တွင် ရေလောင်း၍ စိုက်ပျိုးတတ်ကြ၏။ အမြစ်ကောင်းကောင်းထွက်သည့်တိုင်အောင် အေးသောနေရာတွင် ထားပြီးနောက်၊ နေရောင်လာသောပြတင်းပေါက်၌ ချထားရသည်။ နာစစ်ဆပ် ပန်းအမျိုးမျိုးကို ဖန်မိုးဖန်ကာ အိမ်များတွင်လည်း အများအပြားစိုက်ပျိုးတတ်ကြသည်။ နာစစ်ဆပ် ပန်းများကို ပြင်ပ၌ စိုက်ပျိုးလျှင်၊ တနှစ်ထက်တနှစ် များပြားလာကြသည်။ အရိုင်းလိုက် ပေါက်နေသော ဤနာစစ်ဆပ် ပန်းများသည်လည်း တမျိုးကြည့်၍ ကောင်းပေသည်။

**နာဇီ**။ ။နာဇီဟူသောဝေါဟာရသည် ဂျာမန်စကားအတိုကောက် နတ်ဆီကို မြန်မာလို အသံလှယ်၍ခေါ်ဝေါ်သော အမည်ဖြစ်သည်။ နတ်ဆီမှာ ဂျာမန်ဘာသာဖြင့် အသံထွက် အမှန် ပင် ဖြစ်သော်လည်း၊ မြန်မာတို့က အင်္ဂလိပ်ဘာသာမှ တဆင့်ယူလိုက်သောအခါ၊ နာဇီဟူသောစကားသည် အများသုံးစကား ဖြစ်လာသည်။ နတ်ဆီမှာ



နာစစ်ဆပ် ပန်းသည် မျိုးတူ ဒက်ဖိုဒီးပန်းကဲ့သို့ပင် ဆောင်းရာသီဒဏ်ကို ကောင်းစွာခံနိုင်သော ပန်းမျိုးဖြစ်သည်။



နာဇီပါတီကို ထည်တောင်သူ ဟစ်တလာသည် အမျိုးသားရေးဝါဒဖြင့် ဤသို့လှုံ့ဆော်စည်းရုံးခဲ့သည်။

'ဂျာမန်လူမျိုး နေရှင်နယ် ဆိုရှယ်လစ် အလုပ်သမား ပါတီ' ဟူသော ဂျာမန်စကား အတိုကောက်ဖြစ်သည်။

အဲဒေါ့ ဟစ်တလာသည် ၁၉၁၉ ခုနှစ်တွင် နာဇီပါတီကို တည်ထောင်သည်။ (ဟစ်တလာ, အဲဒေါ့ — ရှု။) နာဇီပါတီကို အမျိုးသားဆိုရှယ်လစ်ပါတီဟု သမုတ်ခဲ့သော်လည်း၊ ပါတီ၏ လမ်းစဉ်မှာ ဆိုရှယ်လစ်လမ်းစဉ်မဟုတ်ချေ။ ၁၉၂၀ ပြည့်နှစ် ဖေဖွာရီလ ၂၄ ရက်နေ့တွင် ထုတ်ပြန်သော ပါတီကျေညာစာတမ်းအရ ရည်ရွယ်ချက်များမှာ စက်မှုလက်မှုလုပ်ငန်းကြီးများ၌ အလုပ်သမားတို့က အမြတ်ခွဲဝေခံစားခွင့်ရရှိရေး၊ သက်ကြီးအလုပ်သမားတို့၏ အခြေအနေတိုးတက်ရေး၊ အခြေအနေကောင်းသော လူလတ်တန်းစားဖန်တီးရေး၊ မြေယာပြုပြင်ရေး၊ ပြည်သူ့ကျန်းမာရေး စသည့်အချက်များ ပါဝင်သော်လည်း၊ ကားလ မတ် ချမှတ်ခဲ့သော ဆိုရှယ်လစ်ဝါဒကို ချေမှုန်းတိုက်ဖျက်ရန် ရည်သန်ပေသည်။ (မတ်, ကားလ။ ဆိုရှယ်လစ်ဝါဒ — လည်း ရှု။) ထိုပြင် နာဇီပါတီ၏ ရည်မှန်းချက်တရပ်မှာ ဂျာမနီနိုင်ငံ၏ စစ်အင်အားကို ကြီးထွားဖွံ့ဖြိုးစေ၍၊ ကမ္ဘာကို ဂျာမန်လူမျိုးတို့ကသာလျှင် လွှမ်းမိုးရန်ဖြစ်သည်။ အတိုက်အခံ ပါတီဟူ၍ မရှိစေရဘဲ၊ နိုင်ငံရေးအာဏာကို ပါတီခေါင်းဆောင်တို့၏လက်၌သာ ထားရှိပြီးလျှင်၊ တနိုင်ငံလုံးကို အာဏာစက်ဖြင့်သာ အုပ်ချုပ်သောစံနစ်ကို နာဇီပါတီက အားပေး အားမြှောက် ပြုလေသည်။ ထိုပြင် အလွန်အယူသည်းသော မျိုးချစ်ဝါဒကို လက်ခံ၍၊ မြောက်ပိုင်းဥရောပလူမျိုးများဖြစ်သော အာရိယန်လူမျိုးတို့သည်သာလျှင် အခြားသောလူမျိုးတို့ထက် သာလွန်သည်၊ မြင့်မြတ်သည်ဟူ၍ အယူရှိသည်။ နာဇီဝါဒသည် စင်စစ်အားဖြင့် ၁၉၃၀ ပြည့်နှစ်တဝိုက်၌ ထွန်းကားလာသော ဖစ်ဆစ်ဝါဒ၏ အဆွယ်အပွားဖြစ်လေသည်။ (ဖက်ဆစ်ဝါဒ — ရှု။)

၁၉၂၀ ပြည့်နှစ် ပါတီကျေညာစာတမ်းအရ ဂျာမန်လူမျိုးတို့ကို တဖက်သတ်ချုပ်ချယ်သည်ဟုဆိုသော ဗာဆေးစာချုပ်ကို နာဇီတို့က ချိုးဖောက် ဖျက်ဆီးကြသည်။ ထို့ပြင် ယဟူဒီလူမျိုးတို့၏ လွတ်လပ်ခွင့်ကို ပိတ်ပင်ချုပ်ချယ်ရုံမျှ မကသေး၊ ဂျာမနီနိုင်ငံသားအဖြစ်ကိုပင် မပေးအပ်သင့်ဟု ယူဆသဖြင့်၊ ကမ္ဘာကျော် သိပ္ပံပညာရှင် အိုင်စတိုင်းသည် ဂျာမနီနိုင်ငံမှ ထွက်ပြေးတိမ်းရှောင်ခဲ့ရသည်။ (အိုင်စတိုင်း, အဲလဗတ် — ရှု။) ပြင်းထန်သော ဂျာမန်အမျိုးသားရေး ဝါဒကို ဂျာမန်လူမျိုးတို့က သဘောကျနှစ်သက်လေရာ၊ နာဇီဝါဒသည် တဖြည်းဖြည်းနှင့် ထွန်းကားလာလေသည်။ စက်မှုလက်မှုလုပ်ငန်းရှင်များကလည်း၊ ဆိုရှယ်လစ်နှင့် ကွန်မျူနစ်ဝါဒတို့ကို တိုက်ဖျက်ခြင်း၌ သဘောကိုက်ညီကြလေရာ၊ နာဇီပါတီကို အားပေးကြသည်။ အလုပ်သမားသမဂ္ဂဖွဲ့စည်းခြင်းကို အလုပ်ရှင်တို့က ခုခံတိုက်ဖျက်နိုင်ရန် ရည်သန်၍လည်း၊ နာဇီပါတီကို ထောက်ခံကြသည်။ ထို့ကြောင့် ၁၉၃၂ ခုနှစ်တွင် ဂျာမန်ရိုက်စတတ်ခေါ် ပါလီမန်၌ နာဇီ



နာဇီအလံကို ဟစ်တလာ အမှမ်းတင်နေစဉ်

ပါတီဝင်ပေါင်း ၁၉၆ ဦးတို့သည် အမတ်ဖြစ်လာကြသည်။ ထိုဦးရေသည် စင်စစ်အားဖြင့် လူနည်းစုမျှသာဖြစ်သည်။ သို့သော် လူများစုထဲတွင် သဘောကွဲလွဲမှုများရှိသဖြင့်၊ ၁၉၃၃ ခုနှစ် ဇန္နဝါရီလ ၃၀ ရက်နေ့တွင် နာဇီပါတီခေါင်းဆောင် ဟစ်တလာသည် ချန်ဆလားခေါ် ဝန်ကြီးချုပ်ဖြစ်လာလေသည်။ ၁၉၃၃ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် ဂျာမန်ပါလီမန်၌ အာဏာရှင်အစိုးရ ဖွဲ့စည်းသည့်ဥပဒေကို ပြဋ္ဌာန်းလိုက်လေသည်။ ၁၉၃၄ ခုနှစ် ဇွန်လ ၃၀ ရက်နေ့တွင် နာဇီတို့သည် ယင်းတို့၏ အတိုက်အခံများကို ဖယ်ရှား သုတ်သင်ခဲ့လေသည်။ ၁၉၃၉ ခုနှစ်တွင် ဒုတိယကမ္ဘာစစ်ကြီးကို မကျေညာမီ၊ နာဇီပါတီသည် အစိုးရအဖွဲ့ကိုင်း၊ စက်ရုံအလုပ်ရုံတို့ကိုင်း၊ နိုင်ငံခြားရေး ပေါ်လစီ ဝါဒကိုင်း၊ ပညာရေးနှင့် ဘာသာရေးကိုင်း၊ ယဉ်ကျေးမှုနှင့် အနုပညာတို့ကိုင်း၊ လွှမ်းမိုးလာခဲ့ရာ၊ ဟစ်တလာ၏ အာဏာရှင်စံနစ် တည်မြဲစေရန်အလို့ငှာ သိန်းသန်းမကသော ဂျာမန်လူမျိုး တို့သည် လက်နက်ဖြင့် နှိပ်ကွပ်ခြင်းကို ခံခဲ့ရလေသည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးမှသာလျှင်၊ နာဇီပါတီကို မဟာမိတ်တို့က လုံးဝဖျက်သိမ်းနိုင်ခဲ့သည်။

နာတာလူးမွဲတော်။ ။ခရစ္စမတ် — ရှု။

**နာတဲပြည်နယ်။** နာတဲပြည်နယ်သည် တောင်အာဖရိကပြည်ထောင်စုနိုင်ငံတွင် ပါဝင်သော အငယ်ဆုံးပြည်နယ်ဖြစ်၍၊ အာဖရိကတိုက်၏ အရှေ့တောင်ဖက်အစွန်းတွင် တည်ရှိသည်။ ယင်း၏ အနောက်တောင်ဖက်နှင့် အနောက်ဖက်တို့တွင် ကိပ်ပြည်နယ်နှင့် ဗာဆူးတိုလန်နယ်တို့ တည်ရှိ၍၊ အနောက်မြောက်ဖက်တွင် ဩရိန်းဖရီးစတိတ် တည်ရှိ၏။ မြောက်ဖက်တွင် ထရန်စဗားပြည်နယ်နှင့် ပေါ်တူဂီပိုင် မိုဇမ်ဗစ်နယ်တို့ တည်ရှိကာ၊ အရှေ့ဖက်တွင် အိန္ဒိယသမုဒ္ဒရာ တည်ရှိလေသည်။

နာတဲပြည်နယ်၏ အကျယ်အဝန်းသည် ဇူလူးလန်းအပါအဝင် စတုရန်းမိုင်ပေါင်း ၃၅,၂၈၄ မိုင်ဖြစ်၏။ ထိုပြည်နယ်၏ ရာသီဥတုနှင့် သဘာဝသွင်ပြင်နေထားတို့သည် တနေရာနှင့် တနေရာ များစွာကွဲပြားခြားနားလေသည်။ ကမ်းခြေတလျှောက်၌ တည်ရှိသော မြေနိမ့်ရပ်ဝန်းသည် မိုင် ၂၀ ခန့် ကျယ်ပြန့်၏။ ထိုနေရာတွင် ရာသီဥတုမှာ ပူနွေး၍ စွတ်စိုထိုင်းမှိုင်းသည်။ ထိုရပ်ဝန်း၏ အတွင်းဖက်တွင် ပေ ၂၀၀၀ မှ ၄၀၀၀ အထိ မြင့်သော မစ်ဒလန်ခေါ် ကုန်းတွင်း ရပ်ဝန်းဒေသ တည်ရှိရာ၊ ထိုဒေသမှာ ရာသီဥတု ပိုမိုမျှတသည်။ ထိုဒေသမှ လွန်သော် ကုန်းမြင့်များသည် မြင့်မားလှသည့် ဒရက်ကင်စဗတ် တောင်တန်းအထိ တည်ရှိလေသည်။ တောင်ကုန်းဒေသတွင် သမပိုင်းရာသီဥတုမျိုးရှိ၍၊ ညဉ့်အခါတွင် နှင်းပေါက်ခဲများ ကျတတ်လေသည်။

နာတဲပြည်နယ်၏ အကြီးဆုံးသောမြစ်သည် တူဂေလ မြစ်ဖြစ်၏။ မြစ်များသည် ကျောက်ထူထပ်၍ ရေစီးသန်သောကြောင့်၊ ကူးသန်းသွားလာရန်အတွက် အသုံးမဝင်လှချေ။

နာတဲပြည်နယ်၏ လူဦးရေမှာ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ၂,၄၁၅,၃၁၈ ယောက်ခန့် ဖြစ်လေသည်။ ဗန်တူလူမျိုး လူဦးရေမှာ လူဖြူလူဦးရေ၏ ၉ ဆခန့်ရှိ၏။ ဗန်တူလူမျိုးနှင့် ဥရောပတိုက်သားများအပြင်၊ ပြည်နယ်အတွင်း ယခင်ကလာရောက် နေထိုင်ခဲ့သော အိန္ဒိယလူမျိုးများမှ ဆင်းသက်ပေါက်ဖွားလာသူများလည်း နေထိုင်လျက်ရှိ၏။

နာတဲပြည်နယ်သည် မြေဩဇာ အလွန်မကောင်းလှသော်လည်း၊ ပင်လယ်ကမ်းခြေတလျှောက်ရှိ ပူနွေးသော ဒေသများတွင် အပူပိုင်းဒေသ သစ်သီးပင် အမျိုးမျိုးအစားစား အမြောက်အမြား စိုက်ပျိုးနိုင်၏။ ထိုဒေသများတွင် လက်ဖက်၊ ကာဖီ၊ ကြံ နှင့် ဝါဂွမ်းတို့ကို စိုက်ပျိုးသည်။ ကျောက်မီးသွေးမှာ နာတဲပြည်နယ်မှ ထွက်သော ဓာတ်သတ္တုများတွင် အရေးအပါဆုံးဖြစ်၍၊ သံကိုလည်း ကျောက်မီးသွေးတွင်းများနှင့် မလှမ်းမကမ်းတွင် အမြောက်အမြား တူးဖေါ်



ဗိုးဝါးတို့တည်ထောင်ခဲ့သည့် နာတဲပြည်နယ် ပီတာမာရစ်ဇဗတ်မြို့တော်

ရရှိ၏။ ရွှေကိုလည်း တူးဖော်ရရှိပြီးလျှင်၊ အွမ်ဇင်ကူလူ မြစ်ဝတွင် စကျင်ကျောက်ကျင်းများ ရှိလေသည်။

လူဦးရေ ၃၃၉,၀၀၀ ခန့် နေထိုင်လျက်ရှိသည့် ဒါဗန်မြို့သည် အကြီးဆုံးသော ဆိပ်ကမ်းမြို့ဖြစ်၍၊ အကြီးဆုံးသော ကုန်သွယ်မှုဗဟိုဌာနနှင့် မီးရထားလမ်းဆုံလည်း ဖြစ်သည်။ ထိုမြို့တွင် အကောင်းဆုံးသော သင်္ဘောကျင်းများနှင့် ရေချိုးဆိပ်ကမ်းများ ရှိလေသည်။ ပီတာ မာရစ်ဇဗတ်မြို့သည် နာတဲပြည်နယ်၏ မြို့တော်ဖြစ်သည်။ နာတဲပြည်နယ်သည် ဩရိန်းနယ်၊ ထရန်းစဗား နယ်တို့နှင့် မီးရထားလမ်း အဆက်အသွယ်ရှိသည်။

ပေါ်တူဂီလူမျိုး ကမ္ဘာလှည့် ရေကြောင်းခရီးသည်ကြီး ဗတ်ရှကူး သဂါမသည် ယခုနာတဲပြည်နယ်ခေါ်တွင်နေသော ဒေသကို ၁၄၉၇ ခုနှစ် ခရစ္စမတ်ပွဲတော်နေ့တွင် ရှေးဦးစွာ တွေ့ရှိခဲ့၍၊ တဲရား နာတဲလစ်ဟု အမည်ပေးခဲ့သည်။ ထို အမည်မှဆင်းသက်၍ ယခုနာတဲဟု ခေါ်ဝေါ်နေကြခြင်း ဖြစ်လေသည်။ ၁၇၆၃ ခုနှစ် ပါရစ်စာချုပ်အရ နာတဲနယ်ကို ဂရိတ်ဗြိတိန်နိုင်ငံက ရရှိခဲ့၏။ သို့သော် ၁၈ ရာစုနှစ် လွန်မှသာလျှင် ဗြိတိသျှကုန်သည်အချို့ နာတဲနယ်တွင် လာရောက် အခြေစိုက်နေထိုင်နိုင်ခဲ့ကြ၏။ ၁၈၃၇ ခုနှစ်တွင် ဗိုးဝါးတို့သည် ဒရက်ကင်စဗတ်တောင်တန်းကို ဖြတ်ကျော်လျက်၊ နာတဲနယ်အတွင်းသို့ ဝင်ရောက်အခြေစိုက်၍၊ ဇူးလူးများက တော်လှန်သည်ကို နှိမ်နင်းပြီးလျှင်၊ ပီတာ မာရစ် ဇဗတ်မြို့ကို တည်ထောင်ခဲ့၏။ ထိုပြင် ယင်းတို့နေထိုင်ရာ နယ်ပယ်ဒေသကို သမတနိုင်ငံအဖြစ် ကျေညာခဲ့၏။ သို့သော် ဗြိတိသျှတို့က အသိအမှတ်မပြုခဲ့ပေ။ ဗိုးဝါးတို့နှင့် ဗြိတိသျှတို့လည်း စစ်ပြိုင် တိုက်ခိုက်ခဲ့ရပြီးနောက် ၁၈၄၄ ခုနှစ်ရောက်သော်၊ နာတဲနယ်သည် ဗြိတိသျှပိုင် ကိုလိုနီနယ် ဖြစ်လာ၍၊ ဂွတ်ဒဟုပ် အငူ ပြည်နယ်နှင့် ပူးပေါင်းလိုက်လေသည်။ သို့သော် ၁၈၅၆ ခုနှစ်တွင် သီးခြားကိုလိုနီနယ် ဖြစ်လာပြန်သည်။ ၁၈၉၃ ခုနှစ်တွင် နာတဲနယ်သည် ကိုယ်ပိုင် အုပ်ချုပ်ရေးရရှိခဲ့၍၊ ဗိုးဝါးစစ်ပွဲ (၁၉၀၀–၁၉၀၂) အပြီးတွင် ထရန်စဗားပြည်နယ်၏ တစိတ်တဒေသ ဖြစ်သော ဇူးလူးလန်းနယ်ကို ရရှိခဲ့လေသည်။ ၁၉၁၀ ခုနှစ်တွင် နာတဲနယ်သည် အသစ်ဖွဲ့စည်းလိုက်သော တောင်အာဖရိက ပြည်ထောင်စုတွင် ပြည်နယ်တနယ်အဖြစ် ပါဝင်ခဲ့လေသည်။ ဒတ်ချ လူမျိုး နိုင်ငံသားများကိုလည်း အခွင့်အရေး အပြည့်အစုံ ပေးအပ်ခဲ့လေသည်။

**နာနတ်သီး။** ။နာနတ်သီးကို သစ်သီးဟု အမည်တပ်၍ ခေါ်သော်ငြားလည်း၊ စင်စစ်အားဖြင့် သစ်သီးမဟုတ်ချေ။ အသားထူပွနေသော နာနတ်ပွင့်၏ အညှာတံကြီးဖြစ်လေသည်။ နာနတ်သီး၏ အခွံ၌ စီရရီကပ်လျက်နေသည့် မျက်ကွင်းဟုခေါ်သော အရာကလေးများမှာ နာနတ်ပွင့်များ ဖြစ်ကြသည်။ ထိုအပွင့်တို့သည် မအောင်မမြင်ရှိသဖြင့်၊ အသီးမသီးနိုင်ကြချေ။ ထို့ကြောင့် နာနတ်ပင်မှ မျိုးဆက်ပွားယူရန် အစေ့များ မရနိုင်။



အသီးမဟုတ်ဘဲ အပွင့်၏ ညွှာတံကြီးသာဖြစ်သည့် နာနတ်သီး

စပိန်လူမျိုးများ၊ တောင်အမေရိကတိုက် ဗရာဇီးနယ်သို့ ရောက်စအခါက၊ နာနတ်ပင်များကို တွေ့ရှိကြသော်လည်း၊ ထိုအပင်၏ အသီးကို စားရကောင်းသည်ဟူ၍ မထင်မမှတ်၊ အရည်ရွှမ်း၍ အရသာနှင့် ပြည့်စုံသည့် အသီးဟူ၍လည်း မသိရှိခဲ့ကြချေ။ သို့ရာတွင် နာနတ်ပင်ကို တဖြည်းဖြည်း ပြုပြင်၍ စိုက်ပျိုးလာရာ၊ လွန်ခဲ့သည် အနှစ်ငါးဆယ်အတွင်း နာနတ်ပင် စိုက်ပျိုးသည့်လုပ်ငန်းသည် သိသိသာသာ တိုးတက်၍လာပေသည်။ ထိုနှစ်များအတွင်း၌ သစ်သီးများကို စည်သွတ်သည့်လုပ်ငန်း ထွန်းကား၍လာသဖြင့်၊ အနောက်အိန္ဒိယကျွန်းစု၊ အဇိုးကျွန်းစု၊ ကနေရီကျွန်းစုနှင့် ဟာဝိုင်းယန်း ကျွန်းစုများတွင် နာနတ်ပင်စိုက်ပျိုးသည့်လုပ်ငန်းမှာ များးစွာ တိုးတက်လာလေသည်။ အပူပိုင်းနှင့် အပူပိုင်းမကျတကျ တိုင်းနိုင်ငံများမှလည်း နာနတ်သီး ထွက်သည်။ သို့ရာတွင်၊ ဟာဝိုင်းယန်းကျွန်းစုသည် ကမ္ဘာပေါ်တွင် နာနတ်ပင် အကြီးအကျယ်စိုက်သော ဒေသဖြစ်လေသည်။ ထိုကျွန်းစုတွင်၊ နာနတ်ခင်းများအနီးအပါး၌ သစ်သီးများကို စည်သွတ်သည့် စက်ရုံများ ဆောက်လုပ်၍ ထားသည်။ ထို ကြောင့် သမပိုင်းတွင်နေထိုင်သူတို့သည် စည်သွတ်ထားသော နာနတ်သီးများကို ဝယ်ယူစားသုံးကြရသည်။ ဖိလစ်ပိုင် ကျွန်းစုတွင် နာနတ်ပင်များကို အနှံ့အပြား စိုက်ပျိုးလျက်ရှိကြသော်လည်း၊ အသီးရလိုမှုအတွက် မဟုတ်ဘဲ၊ ထိုအပင်၏ အရွက်များမှရရှိသော လျှော်အတွက်သာ စိုက်ပျိုးကြသည်ကို တွေ့ရ၏။ ယင်းသို့ လျှော်အတွက်စိုက်ပျိုးကြသဖြင့်၊ အရွက်ရှည်များထွက်ရန် နာနတ်ပင်များကို တပင်နှင့် တပင် အလွန်နီးနီးကပ်ကပ်စိုက်ပျိုးထားတတ်ကြသည်။ ထိုသို့ နာနတ်ပင်များ ကျပ်တည်းလွန်းသဖြင့်၊ အပင်များတွင် အသီးကင်းလျက်ရှိနေတတ်သည်သာ များ၏။ ဖိလစ်ပိုင် ကျွန်းသူ၊ ကျွန်းသားတို့သည်၊ နာနတ်လျှော်မှရသော ခြည်နှင့်ဖြင့် ခိုင်ခံ့ချောမွတ်သော အထည်များကို ရက်လုပ်ကြသည်။

နာနတ်ပင်သည် ငှက်ပျောကဲ့သို့ တခါသာလျှင် အသီးသီး၏။ သို့ရာတွင် အပင်ရင်းတွင် သားတက်များ ထွက်နေသဖြင့်၊ ထိုသားတက်များကို ပြန်လည်စိုက်ပျိုး၍၊ မျိုးပွားယူရလေသည်။ အသီးတိုင်း၏ ထိပ်တွင် အရွက်စုများ ပါမြဲဖြစ်ရာ၊ ထိုအပိုင်းကိုဖြတ်၍လည်း ပြန်လည်စိုက်ပျိုးနိုင်သည်။ နာနတ်ခင်းများ သက်တမ်းမှာ ၈ နှစ်မှ ၁၀ နှစ်အထိရှိလေသည်။ ထိုသက်တမ်း ကုန်ဆုံးသည့်အခါ၊ စိုက်ခင်းများကို ထွန်ယက်ပြုပြင်၍ မြေဩဇာဖြည့်စွက်ပြီးလျှင်၊ အပင်သစ်များဖြင့် ပြန်လည်စိုက်ပျိုးထားလေ့ရှိကြသည်။

နာနတ်ရွက်စောင်းများ၌ ဆူးတက်များရှိသဖြင့်၊ အသီးများကို ဆွတ်ခူးရသည့်လုပ်ငန်းမှာ လွယ်ကူသည်ဟု မဆိုနိုင်ချေ။ အထက်သို့ ထိုးထောင်နေသည့်အရွက်များ၏ ဗဟိုချက်မှ အသီးများထွက်လာသည်။ ထို့ကြောင့် နာနတ်သီးကို ဆွတ်ခူးသည့်အခါ၊ အလယ်တွင်ရှိသောအသီးကို ကာကွယ်ထားသော စူးရှသည့်အရွက်များကို ဖယ်ရှားပြီးမှ အသီးညှာကို ဖြတ်ယူနိုင်သည်။ နာနတ်ပင်များကို အကြီးအကျယ် စိုက်ပျိုးကြသော တိုင်းနိုင်ငံများတွင် နာနတ်သီးဆွတ်ခူးသူတို့သည် ဖိနပ်၊ လက်အိတ် စသည့် ထူထဲသော ဝတ်စားတန်ဆာများကို ဝတ်ဆင်၍ အသီးများကို စုသိမ်းကြသည်။

မြန်မာနိုင်ငံအောက်ပိုင်းတွင် ပိန္နဲခြံနှင့် သရက်ခြံများအတွင်း၌ အပင်ကြီးများအောက်ဝယ် နာနတ်ပင်များ တောကလေးတမျှ ပေါက်ရောက်လျက်ရှိလေသည်။ များမကြာမီက ' ကယူး ' ခေါ် ပလောပီနံအရွက်ချော၊ ဆူးမရှိ နာနတ်မျိုးကို၊ တနင်္သာရီတိုင်း၊ ပဲခူးတိုင်းနှင့် ဧရာဝတီတိုင်းများ၌ စံနစ်တကျ စိုက်ပျိုးလျက်ရှိကြသည်။ တောင်ငူခရိုင်နှင့် ရမည်းသင်းခရိုင်ရှိ အချို့အပိုင်းများ၌လည်း၊ ထိုနာနတ်မျိုးကို စိုက်ပျိုးကြသည်။ ဤနာနတ်မျိုးမှာ၊ ရှိရင်းစွဲမျိုးများထက် အလုံးပိုထွား၍၊ အရသာ ပိုပြည့်လေသည်။

သို့ရာတွင်၊ မြန်မာနိုင်ငံ၌၊ သစ်သီးများကို စည်သွတ်သည့် လုပ်ငန်း မတွင်ကျယ်သေးသဖြင့်၊ နာနတ်သီးမှည့်များကို အသီးမှည့်အတိုင်း ဖြစ်စေ၊ ယိုထိုး၍ ဖြစ်စေ အများအား ဖြင့် စားသုံးကြသည်။ နိုင်ငံခြားမှ စည်သွတ်ထားသော နာနတ်သီးများကိုလည်း မြန်မာနိုင်ငံတွင်းသို့ တင်ပို့ရောင်း ချလျက်ရှိသည်။

နာနတ်ပင်၏ ရုက္ခဗေဒအမည်မှာ 'အနာနတ် ဆတိဗတ်' ဖြစ်သည်။

**နာမဝိသေသန**။ ။အမည်တပ်၍ခေါ်ဝေါ်သော ပုဂ္ဂိုလ်၊ အကြောင်းအရာ၊ ပစ္စည်း၊ သက်ရှိသက်မဲ့အလုံးစုံသော နာမ် ပုဒ်တို့ကို အထူးပြုသောပုဒ်၊ ထင်ရှားအောင် ဖော်ပြသော ပုဒ်တို့ကို နာမဝိသေသနဟု ခေါ်သည်။ ဝိသေသနသည် ထူးခြားစေသော၊ ချဲ့တွင်စေသော၊ အထူးပြုသောဟူ၍ အနက်ရသည်။

နာမဝိသေသနအမျိုးမျိုး၊ အစားစား ခွဲခြားထားသည်။ (က) ကြိယာ နာမဝိသေသန၊ (ခ) နာမ် နာမဝိသေသန၊ (ဂ) မျိုးပြအရေအတွက် နာမဝိသေသန၊ (ဃ) အညွှန်း နာမဝိသေသန၊ (င) ပမာဏပြ နာမဝိသေသန၊ (စ) မေခွန်း နာမဝိသေသနတို့ ဖြစ်ကြသည်။

(က) ကြိယာကို နာမဝိသေသနအဖြစ် သုံးနိုင်၍၊ ကြိယာ နာမဝိသေသနဟုခေါ်သည်။ ကြိယာ နာမဝိသေသန နှစ်မျိုးရှိသည်။

(၁) ဂုဏ်ရည်ပြ နာမဝိသေသန။ 'လုပသော ပန်းကို ပန်သည်။' ဟုဆိုရာ၌၊ 'လုပသော' သည် 'လုပသည်' ဟူသော ဂုဏ်ရည်ပြ ကြိယာမှဆင်းသက်လာ၍၊ 'ပန်း' ကို ထူးခြားစေသောကြောင့်၊ ဂုဏ်ရည်ပြ နာမဝိသေသန ဟုခေါ်သည်။

(၂) အသုံးပြ နာမဝိသေသန။ 'လက်ဆေးပန်းကန် ပေးပါ' ဟုဆိုရာ၌၊ 'လက်ဆေးပန်းကန်' သည် လက် ဆေးရာ၌ အသုံးချရသည့်ပန်းကန်ကို ဆိုလိုသည်။ 'လက် ဆေး' ဟူသော ကြိယာ နာမဝိသေသနသည် အသုံးပြုပုံ ကိုပြ၍၊ 'ပန်းကန်' ဟူသော နာမ်ပုဒ်ကို အထူးပြု လေသည်။

(ခ) နာမ် နာမဝိသေသန။ နာမဝိသေသနအဖြစ် နာမ် ကိုလည်း အသုံးပြုနိုင်၍၊ ယင်းကို နာမ် နာမဝိသေသနဟု ခေါ်သည်။ သုံးနည်း လေးမျိုးရှိသည်။

(၁) နာမ် နှစ်ခုကိုပေါင်းရာ၊ ရှေ့နာမ်သည် နောက် နာမ်ကို ထူးခြားစေသည်။

ပြယုဂ်။

'ပိုက်ဆံအိတ်' ဟုဆိုလျှင်၊ ပိုက်ဆံထည့်သော အိတ်ကို ဆိုလိုကြောင်း သိကြရလေသည်။

(၂) နာမ်နှစ်ခုပေါင်းရာ၊ နောက်နာမ်သည် ရှေ့နာမ်ကို ထူးခြားစေသည်။

ပြယုဂ်။

'ငှက်ကုလားအုပ်' ဟုဆိုရာ၌ ကုလားအုပ်နှင့် တူသော ငှက်ကို ဆိုကြောင်း နားလည်ကြသည်။

(၃) ရှေ့က နာမ်ပုဒ်သည် နောက်က နာမ်ကို နာမ ဝိသေသနကဲ့သို့ ထူးခြားစေသည်။

ပြယုဂ်။

'ဝန်ကြီးချုပ်၏ ဇနီး' ဆိုရာ၌၊ 'ဝန်ကြီးချုပ်၏' ဟူသော နာမ်ပုဒ်သည် 'ဇနီး' ဟူသော နာမ်ကို ထူးခြားစေသည်။

(၄) ကြိယာနာမ်ကို နာမဝိသေသနအဖြစ် သုံး နိုင်သည်။

ပြယုဂ်။

'အအေးခန်း' ဆိုရာ၌ 'အအေး' သည် နာမ်သတ္တိ ထင်ရှားသော ကြိယာ နာမ်ဖြစ်၍၊ ပကတိနာမ်ကဲ့သို့ပင် '(အ) ခန်း' ဟူသော နာမ်ကို ရှေ့ကနေ၍ ထူးခြားစေသည်၊ အအေးဓာတ် လွှတ်ထားသောအခန်းကို ဆိုလိုသည်။

'ခြင်း'၊ 'ဘွယ်'၊ 'ရာ'၊ 'ရန်'၊ 'စရာ' စသည် တွဲသော ကြိယာ နာမ်တို့သည်လည်း နောက်နာမ်တို့ကို ထူးခြားစေ သော နာမဝိသေသနများ ဖြစ်လာကြသည်။

ပြယုဂ်။

'**လာရောက်ရခြင်း** ကိစ္စကို ပြောကြားစေလိုပါတယ်။'

'ပြုဘွယ်ကိစ္စဟူသမျှကို ပြီးဆုံးစေသည်။'

'**မင်္ဂလာမဏ္ဍပ်ဆောက်ရန်** သစ်ဝါးကြိမ်တို့ကို အသည် သားတို့က ရင်းဖျားမမှားစေရ။'

'သမီးတော် **နှစ်သက်ရာ** သူကို ထီးနန်းနှင်းလေ။'

'**နေစရာ**ပျဉ်ငယ်ကို အရှင်အသျှင်အား ခင်း၏။'

(ဂ) မျိုးပြအရေအတွက် နာမဝိသေသန။

(၁) ပုဂ္ဂိုလ် အရာဝတ္ထုတို့၏ အရေအတွက်ကို ပြလို လျှင်၊ တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး၊ ခြောက်၊ ခုနစ်၊ ရှစ်၊ ကိုး၊ ဆယ်တို့ကိုငှင်း၊ ဆယ်ဆ တိုး ကိန်း မ ဟုတ်သော အထက်အရေအတွက်တို့ကိုငှင်း၊ ဆိုင်ရာနာမ်နောက် က တွဲပြီးလျှင်၊ ယင်းနာမ်၏ အမျိုးအစား၊ အသုံးအစွဲ၊ ပုံသဏ္ဌာန် အစရှိသည်တို့ကို ဖော်ပြသော စကားလုံးကို အရေအတွက် နောက်ကတွဲရသည်။ ယင်းသို့ တွဲသော စကားလုံးကို မျိုးပြဟုခေါ်၏။

သို့ဖြစ်၍ 'ငှက် သုံးကောင် နားနေသည်' ဟူရာ၌ 'သုံး' သည် အရေအတွက် 'ကောင်' သည် မျိုးပြဖြစ်

သည်။ ယင်းစကား၌ သုံးကောင်သည် ငှက်နာမ်ပုဒ်ကို ထူးခြားစေသော နာမဝိသေသနဖြစ်၏။ မျိုးပြ နာမဝိသေသနများ များပြားလှသည်၊ ဆိုင်ရာနာမ်ပုဒ်နှင့် သင့်လျော်အောင် သုံးရသည်။

ပြယုဂ်။

မင်း တပါး၊ ပန်း တပွင့်၊ ဆဲ့ကြိုး တကုံး၊ ကိတ်မုံ့ ရှစ်လုံး၊ မော်တော်ကား တစီး၊ ခဲတံ ကိုးချောင်း၊ မြစ်ကြီး ငါးစင်း။

(၂) ၂၀၊ ၃၀၊ ၄၀၊ အစရှိသည့် ဆယ်ဆတိုးကိန်းများကို နာမ်ရှေ့က 'သော' နှင့် ဖြစ်စေ၊ နာမ်နောက်က တိုက်ရိုက်ဖြစ်စေ တွဲနိုင်သည်။

ပြယုဂ်။

'တသိန်းရှစ်သောင်းသော အသပြာတို့ကို စွန့်ကြဲလျက်၊'
'ဆင်အစီးသုံးဆယ်ကျော်တို့ ခြံရံထားသည်၊'

(၃) နာမ်မပါဘဲ အရေအတွက်နှင့် မျိုးပြတို့ကို သုံးနည်း။

ပြယုဂ်။

'ခုနစ်ယောက် စေ့အောင် ရှာပေလော့၊' ဟုဆိုရာ၌ 'ခုနစ်ယောက်' သည် ဖေါ်ပြပြီးသော ပုဂ္ဂိုလ်မျိုးတို့ကို ဆိုလိုသည်။

(၄) နှစ်ခါထပ် နာမ်အကြားတွင် အရေအတွက်ကို သုံးနည်းလည်း ရှိသေးသည်။

ပြယုဂ်။

'မြို့တမြို့ကို အပိုင်စားပေးသည်။'
'မြင်းရှစ်တပ်' သည် 'မြင်းတပ်ရှစ်တပ်' ကို ဆိုလိုသည်။

(၅) အလေးချိန် အတိုင်းအထွာကို ပြခြင်း။

ပြယုဂ်။

'နွားနို့ လေးပိဿာ ရနိုင်မည်လား'
'အချင်းယူဇနာခြောက်ဆယ်ရှိသော'
'ခဲတပစ်'၊ 'ငါးတရိုက်'၊ 'မျက်စိတမှိတ်' စသည်တို့၌ (၁) နာမ် (၂) အရေအတွက် (၃) ယင်းနာမ်နှင့် ဆိုင်သော ကြိယာဟူသော အစီအစဉ်ကိုလိုက်သည်။

(၆) အချိန်ကာလကို ပြခြင်း၊ အချိန်ကာလကိုပြသော နာမ်ရှေ့က အရေအတွက်ကို တိုက်ရိုက် ထားရသည်။

ပြယုဂ်။

'ဆယ်နှစ် ဆယ်မိုး စိုးမိုးခဲ့သောကာလအတွင်း'
'သုံးနာရီခန့် ကြာပါပြီ'

(ဃ) အညွှန်း နာမဝိသေသန။ မည်သည့် ပုဂ္ဂိုလ်၊ မည်သည့် အရာဝတ္ထုကိုဆိုလိုသည်ဟု ညွှန်ပြသည့် နာမဝိသေသနကို အညွှန်း နာမဝိသေသနဟုခေါ်သည်။ အညွှန်း နာမဝိသေသနတို့ကား၊ ထို၊ ဤ၊ ထိုထို၊ ဤဤ၊ ထိုမျှလောက်သော၊ အကြင်မျှလောက်သော၊ ယင်း၊ အခြား၊ တစုံတယောက် စသည်တို့ ဖြစ်သည်။ နာမ်၏ ရှေ့တွင် ထား၍ သုံးသည်။

ပြယုဂ်။

'အကြင်မိန်းမတို့၌အပြစ် ၆ ပါးရှိသည်'။
'ထိုအရပ်သည် မနေအပ်။'

(င) ပမာဏ နာမဝိသေသန။ ပုဂ္ဂိုလ်၊ အရာဝတ္ထုတို့၏ အနည်းအများပမာဏကိုပြသော နာမဝိသေသနတို့လည်း ရှိသေးသည်။

ပြယုဂ်။

'အနည်းငယ်သော ချောင်းတို့သာလျှင် မခန်းခြောက်ပေ။'
'လူများစွာ သေကြေပျက်ပြုန်းရသည်။'
ပမာဏ နာမဝိသေသနတို့သည် (သော) ပစ္စည်း တွဲလျှင်၊ နာမ်၏ ရှေ့ကနေသည်။ (သော) ပစ္စည်း မပါလျှင်၊ နာမ်၏ နောက်ကနေ၍၊ နာမ်ကို ထူးခြားစေလေသည်။

(စ) မေးခွန်း နာမဝိသေသန။ မေးခွန်း နာမဝိသေသနများလည်း ရှိသေးသည်။

ပြယုဂ်။

'ဘုန်းကြီး ဘယ်နှစ်ပါး ကြွမည်နည်း။'
'အဘယ်ကျမ်းကို ဆိုလိုပါသနည်း။'
'မည်သည့်အရပ်သို့ လှည့်လည်မည်နည်း။'
'အဘယ်မျှလောက်သော အခြင်းအရာတို့ဖြင့်ပြည့်စုံစေရပါမည်နည်း။'

**နာရဒဇာတ်တော်ကြီး။** ။နာရဒ ဇာတ်တော်ကြီးသည် ဇာတ်ကြီး ဆယ်ဖွဲ့တွင် ရှစ်ခုမြောက် ဇာတ်တော်ဖြစ်၏။ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်အနီး နွယ်ချိုတောတွင်၊ သိတင်းသုံးတော်မူစဉ်၊ ဥရုဝေလ တောတွင်း၌၊ ဥရုဝေလ ကဿပ၊ နဒီ ကဿပ၊ ဂယာ ကဿပတည်းဟူသော ရသေ့ညီနောင် သုံးယောက်နှင့်တကွ တပည့်များအား မိစ္ဆာဒိဋ္ဌိ အယူမှ ချွတ်သည်ကို အကြောင်းပြု၍၊ နာရဒ ဇာတ်တော်ကြီးကို ဟောကြားတော်မူသည်။ ထိုဇာတ်တော်ကြီးကား အောက်ပါအတိုင်းဖြစ်၏။

ရှေးလွန်လေပြီးသောအခါ၊ ဝိဒေဟရာဇ်တိုင်း မိဓိလာ

ပြည်၌၊ အင်္ဂတိအမည်ရှိသော မင်းသည် မင်းပြု၏။ ထိုမင်းသည် မင်းကျင့်တရားဆယ်ပါးနှင့် ပြည့်စုံ၏။ တရားကိုလည်း စောင့်၏။ ထိုမင်းတွင် အလွန်အဆင်းလှသော ရုစာအမည်ရှိ သမီးတော် တပါးတည်းသာ ရှိ၏။ ထိုသမီးတော်အား အလှူပေးစိမ့်သောငှာ ဥစ္စာတထောင်ကို လခွဲတကြိမ်ပေးတော်မူသည်။ ထိုမင်း၏ အမတ်ကြီး ၃ ပါးမှာ ဝိဇယ၊ သုနာမ၊ အလာတတို့ဖြစ်ကြ၏။

တခုသော တန်ဆောင်မုန်းလပြည့်နေ့ ကြတ္တိကာနက္ခတ်သဘင်အခါတွင်၊ မင်းကြီးသည် နန်းပြာသာဒ်ထက်မှ ဖြူစင်စွာ ထွန်းတောက်သော လပြည့်ဝန်းကို မြင်၍၊ အထူး စိတ်ကြည်နူးမိ၏။ ထိုညဥ့်မျိုးတွင် အဘယ်ကဲ့သို့ မွေ့လျော်ရသော် ကောင်းအံ့နည်းဟု အကြံဖြစ်၍၊ အမတ်တို့အား နှစ်သက်ရာကို တင်လျှောက်စေသည်။ ထိုအခါ စစ်သူကြီးဖြစ်သော အလာတအမတ်က စစ်ပြုရန်လျှောက်၏။ သုနာမအမတ်က ကာမဂုဏ်တို့၌ မွေ့လျော်ရန်လျှောက်၏။ ဝိဇယအမတ်က အကြားအမြင်နှင့်ပြည့်စုံသော ရဟန်းပုဏ္ဏားတို့ထံဆည်းကပ်လျက်၊ ယုံမှားခြင်းတို့ကို ပယ်ဖျောက်ရန်လျှောက်၏။ မင်းကြီးလည်း ဝိဇယအမတ်စကားကို နှစ်သက်သဖြင့်၊ အလာတအမတ်ညွှန်ကြားရာ မိဂဒါဝုန်တောရှိ ကဿပတက္ကတွန်းတို့ထံသို့ ဗိုလ်ပါများနှင့် သွားရောက်လေသည်။ ရောက်လျှင် မင်းကြီးက မိဖ၊ ဆရာ၊ သားမယား၊ သက်ကြီးရွယ်အို၊ ရဟန်းပုဏ္ဏား၊ မျူးမတ်ဗိုလ်ပါ၊ ပြည်ရွာအပေါ် တွင် ကျင့်ရမည့် တရားတို့ကိုငင်း၊ နတ်ရွာ ရောက်ကြောင်း၊ ငရဲ လွတ်ကြောင်းတရားတို့ကိုငင်း၊ မေးမြန်း၏။ ကဿပတက္ကတွန်းကား အမေးနှင့်လျော်သောအဖြေကို မသိနားမလည်၍ မဖြေချေ။ ကောင်းကျိုး မကောင်းကျိုး ဟူ၍ငင်း၊ တမလွန်လောက ဟူ၍ငင်း၊ မိဖ၊ ဆရာ ဟူ၍ငင်း မရှိ။ အလှူပေးခြင်းဖြင့် အကျိုးမရှိ။ မီး၊ မြေ၊ ရေ၊ လေ၊ ချမ်းသာ၊ ဆင်းရဲ၊ အသက် ဤခုနစ်ပါးသည် မြဲကုန်သည်။ သတ္တဝါတို့သည် ၈၄ ကမ္ဘာစေ့မှ စင်ကြယ်မည်။ ထိုအတွင်း ကောင်းမှုပြုသော်လည်း မစင်ကြယ်နိုင်၊ မကောင်းမှုပြုသော်လည်း ထိုခဏကို မလွန်နိုင်ကုန်ဟု ဟောကြားလေသည်။

အလာတအမတ်ကလည်း မိမိရှေးဘဝက မကောင်းမှုပြုခဲ့သော်လည်း၊ ယခုအခါ ကောင်းကျိုးကိုသာ ခံစားရပုံကို ပြောပြလျက်၊ ထိုစကားကို ထောက်ခံ၏။ ကဿပတက္ကတွန်းထံတွင် ဆည်းကပ်နေသော မိမိလာပြည်သား ဗီဇက သူဆင်းရဲကလည်း၊ မိမိသည် အတိတ်ဘဝက သဌေးအဖြစ်ဖြင့် အလှူကောင်းမှုပြုပါသော်လည်း၊ ယခုဘဝတွင် သူဆင်းရဲဖြစ်လာကြောင်းကို တင်ပြသောအားဖြင့်၊ အလာတ အမတ်၏စကားကို ထောက်ခံလေသည်။ ထိုအခါမှ စ၍ မင်းကြီးသည် ပြည်ထဲရေးကို အမတ်တို့အား လွှဲပြီးသော်၊ ကာမဂုဏ်စည်းစိမ်ကိုသာ ခံစား၏။ အလှူစရပ်တို့ကိုလည်း ဖျက်စေ၏။ ပြည့်ရှင်မင်းကြီး အယူမှားသည်ကို တပြည်လုံး အုတ်အုတ်ကျက်ကျက် ပြောဆိုကြလေသည်။

ထိုအကြောင်းကို ရုဇာမင်းသမီး ကြားလတ်သော်၊ ခမည်းတော်၏ အယူမှားကို ပယ်ရှားအံ့ဟု အခွင့်ကို စောင့်လင့်၏။ ရုဇာမင်းသမီးကား ရှေးဘဝနှင့် နောက်ဘဝတို့ကို သိမြင်နိုင်သောသူတည်း။ အချိန် ကျရောက်သော် မင်းကြီးထံသို့ဝင်၍၊ အလှူပြုရန် ရမြဲရိက္ခာကို တောင်းလေသည်။ ထိုအခါ မင်းကြီးက အလှူကို မယုံကြည်တော့၍၊ အပြစ်ပြကာ တားမြစ်၏။ သမီးတော်က ခမည်းတော် အယူမှားနေပုံ၊ တက္ကတွန်းတို့ အပြောနှင့်အကျင့် မညီပုံများ၊ မိမိ၏ အတိတ်နှင့် အနာဂတ်ဘဝအကြောင်းများကို ရှင်းလင်းပြောပြလေသည်။ သို့သော် မင်းကြီးကား မိစ္ဆာအယူကို မစွန့်ချေ။ ထိုအခါ မင်းသမီးက နတ်ဗြဟ္မာများအား ကူညီရန် သစ္စာအဓိဋ္ဌာန်ပြု၏။ ထိုသို့ ပြုလတ်သော် နာရဒဗြဟ္မာကြီးသည် မင်းကြီးကိုချွတ်အံ့ဟု ရဟန်းအသွင်ဖြင့် ရောက်လာသည်။

မင်းကြီးလည်း ဗြဟ္မာကြီးအား တန်ခိုးရှိခြင်း၏ အကြောင်းရင်းကို မေး၏။ ကုသိုလ်ကောင်းမှုသာ အကြောင်းရင်းဖြစ်သည်ဟုဗြဟ္မာကြီးကဖြေသည်။မင်းကြီးက သိလို၍ မေးသမျှသော ပြဿနာတိုင်းကိုလည်း၊ မင်းကြီးစိတ်ကျေနပ်အောင် ဥပမာသာဓကများစွာဖြင့် ဖြေ၏။ ထိုနောက် ငရဲအကြောင်း၊ ရှေးမင်းမြတ်တို့ကျင့်စဉ် အကြောင်းစသည်တို့ကို ဟောကြားလေသည်။ ဤသို့ အယူမှားကို ပယ်ရှားစေရန် ဟောကြားပြီးနောက်၊ မင်းကြီးအား သီလ၌ တည်စေ၏။ ရုဇာမင်းသမီးကိုလည်း များစွာသော အကြောင်းတို့ဖြင့် ချီးမွမ်း၏။ မင်း၊ မိဖုရား၊ မောင်းမမိဿံတို့ကိုလည်း အဆုံးအမကို ပေး၏။ ထိုနောက် ပရိသတ်တို့မြင်စဉ်ပင်လျှင်၊ နာရဒဗြဟ္မာကြီးသည် ဗြဟ္မာပြည်သို့ ပြန်သွားလေသည်။

ဇာတ်ပေါင်းသော် အလာတအမတ်သည် ဒေဝဒတ်၊ သုနာမအမတ်သည် ဘဒ္ဒဇိ၊ ဝိဇယအမတ်သည် သျှင်သာရိပုတ္တရာ၊ ဗီဇက သူဆင်းရဲသည် သျှင်မဟာမောဂ္ဂလာန်၊ ကဿပတက္ကတွန်းသည် လိစ္ဆဝီမင်းသား သုနက္ခတ္တ၊ အင်္ဂတိမင်းကြီးသည် ဥရုဝေလ ကဿပ၊ ရုဇာမင်းသမီးသည် သျှင်အာနန္ဒာ၊ နာရဒဗြဟ္မာကြီးကား မြတ်စွာဘုရား အသီးအသီး ဖြစ်လာကြသည်ဟု ဟောကြားတော်မူသည်။

နာရဒဇာတ်တော်ကို ၁၁၄၄ ခုနှစ်တွင်၊ မင်းပူး လေသာကျောင်းနေ အရှင်ဦးဩဘာသသည် စန္ဒကုမာရဇာတ်တော်နှင့်တနှစ်တည်း ရှေးဦးစွာ မြန်မာဘာသာ ပြန်ဆိုရေးသားခဲ့သည်။ စာအရေးအသားနုစဉ်ကပင် ရေးသားသောစာ ဖြစ်လင့်ကစား၊ အရှင် ဦးဩဘာသ၏ စကားပြေအရေး

အသားသည် မြန်မာဆန်ဆန်ဖြင့် မြန်မာ့စိတ်ကြိုက် ဖြစ်စေသည်။ နာရဒဇာတ်တော်ကြီးတွင် ဟောကြားတော်မူသော တရားအနှစ်ကား၊ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ တည်းဟူသော လမ်း၌ ကိုယ်တည်းဟူသော ရထားသည် ပြေးလတ်သည်ရှိသော်၊ ပညာတည်းဟူသော လှံကန်ဖြင့် မစောင်းမတိမ်းရအောင်ပြု၍၊ ထိုကိုယ်တည်းဟူသောရထား၌ မိမိစိတ်သည်ပင်လျှင် ရထားထိန်း ဖြစ်စေအပ်၏ဟူလေသည်။ ထိုတရား၏အနှစ်ကို ပြေပြစ်ကျစ်လျစ်သော မြန်မာစကားပြေဖြင့်၊ အရှင် ဦးဩဘာသသည် မြန်မာတို့ နားလည်လွယ်အောင်၊ ရေးသားစီရင်နိုင်လေသည်။

**နာရီ။** ။နေသည် ကမ္ဘာဦးမှစ၍ အချိန်ကာလကို ပိုင်းခြားပြခြင်းကြောင့်၊ လူတို့၏ ပဌမဦးဆုံးနာရီဖြစ်သည်ဟု ဥပစာစကားဖြင့် ဆိုနိုင်ပေသည်။ ရှေးအခါက နေကိုကြည့်၍ အချိန်ကို မှန်းဆယူကြလေသည်။ နေထွက်ချိန်နှင့် နေဝင်ချိန်တို့ကို အလွယ်တကူမှတ်သားနိုင်ခဲ့သော်လည်း၊ နေမွန်းတည့်ချိန်ကို မှန်းဆရန်မှာ အတန်ငယ်ခက်ခဲသည်။ နေထွက်ချိန်နှင့် နေမွန်းတည့်ချိန် ကြား၊ နေမွန်းတည့်ချိန်နှင့် နေဝင်ချိန် ကြား အချိန်တို့ကို မှတ်သားရန်မှာမူ သာ၍ပင် ခက်ခဲလေသည်။

ထိုနောက် နေ့အခါ၌ နေထိုးသောအရပ်သည် အရှည် အတိုပြောင်းသည့်အပြင်၊ နေရာလည်း ရွေ့တတ်ကြောင်းကို လူတို့သိလာကြသည်။ နေကိုမကြည့်ဘဲ အရိပ်ကို ကြည့်ခြင်းအားဖြင့်၊ အချိန်ကို ပို၍မှန်ကန်စွာ ပြောနိုင်သည်ကိုလည်း၊ သိရှိလာကြသည်။ ဤအချက်ကို သိရှိကြရာမှ နေနာရီထွင်ရန် လမ်းစကို ရရှိလာကြလေသည်။



အချို့ကျေးလက်တောရွာများတွင် တွေ့မြင်နိုင်သေးသည့် နေနာရီ

ပဌမဦးဆုံး နေနာရီသည် မြေ၌စိုက်ထားသော တိုင်တချောင်းပင် ဖြစ်ပေလိမ့်မည်ဟု မှန်းဆရပေသည်။ ထိုနေနာရီကိုအသုံးပြုပုံမှာ၊ တနေ့လုံး တိုင်ပတ်လည်၌ ဖြစ်ပေါ်သော အရိပ်များကို ကျောက်ခဲများချ၍ မှတ်သားသည်။ ထိုအမှတ်အသားများကိုကြည့်၍၊ နေ့အချိန်များကို ပြောနိုင်ကြလေသည်။ နေနာရီသည် မည်သည့်အခါကစ၍ ပေါ်ပေါက်လာသည်ကို အတိအကျမပြောနိုင်ကြချေ။ သို့ရာတွင် ဘီစီ ၇၀၀ လောက်တွင် ပေါ်ပေါက်လာခဲ့တန်ရာ၏ဟု အဆိုရှိသည်။

နေနာရီသည် နေကိုအကြောင်းပြုနေသဖြင့်၊ နေမရှိသော ညဉ့်အခါတွင်၎င်း၊ နေကိုမမြင်ရသည့် မိုးအုံ့နေသော အခါများတွင်၎င်း၊ အချိန်ကို သိနိုင်ကြတော့မည် မဟုတ်ချေ။ ထိုအပြင် အစဉ်လှုပ်ရှား၍နေသော ရေပြင်ပေါ်၌လည်း၊ နေနာရီကို အသုံးပြုနိုင်မည် မဟုတ်ချေ။ ထိုပြင် နေသည် နှစ်ရက်ဆက်၍ တချိန်တည်း၌ ထွက်ပြီးလျှင်၊ တချိန်တည်းတွင်လည်း မဝင်သောကြောင့်၊ တနေ့တွင် ကျောက်ခဲတခုသို့ အရိပ်ရောက်အချိန်သည် ၉ နာရီဖြစ်ခဲ့လျှင်၊ နောက်တနေ့၌ ၉ နာရီနောက်သော်လည်း ကျလိမ့်မည်။ သို့မဟုတ် ၉ နာရီထက် စော၍သော်လည်း ကျလိမ့်မည်။ ထိုကဲ့သို့သော ခြားနားချက်များသည် နွေမှ လသို့ ကူးသွားသောအခါတွင် မှတ်သားထားသောစာရင်းနှင့် များစွာ ကွာခြား၍နေပေမည်။

ထိုအဖြစ်ကို ဘီစီ ၃၀၀ ပြည့်နှစ်လောက်တွင် ဗက်ဗီလုံးမြို့မှ ဗရော့ဆပ်ဆိုသည့် ဘာသာရေးဆရာတဦးက သိရှိခဲ့လေသည်။ ထိုသူသည် အခေါင်းရှိသော လုံးခြမ်းတခုကို ခွက်ပုံသဏ္ဌာန်ပြုလုပ်ထားပြီးလျှင်၊ ထိုခွက်ပေါ်တွင် အရိပ်ဖြစ်ပေါ်စေရန် အလုံးကလေးတလုံး ထား၏။ အလုံး၏ အရိပ်သည်ကောက်လျက်ရှိသောခွက်၏မျက်နှာပြင်ကိုဖြတ်၍၊ တနေ့လျှင် တခါကျ ရောက်သည်။ ထိုသို့ဖြစ်၍သွားသော လမ်းကြောင်းကို ၁၂ စိတ် စိတ်ပြီးလျှင်၊ ခွက်၏ မျက်နှာပြင်ပေါ်တွင် မျဉ်းကောက်များကို ဆွဲထားသည်။ ထိုကဲ့သို့ စီစဉ်ထားသည့်အတွက် တနေ့တွင် တူညီသောအစိတ်ပေါင်း ၁၂ စိတ် ပိုင်းခြားထားနိုင်သည်။ ဤနည်းဖြင့် အချိန်နာရီကို သိနိုင်လေသည်။

ထိုသို့သိနိုင်သော်လည်း၊ အခက်အခဲကို တွေ့ကြရပြန်၏။ တနှစ်လုံးရှိ နေ့တာများမှာ မတူညီကြချေ။ ဆောင်းအခါတွင် နေသည် ကောင်းကင်၌ ၁၀ နာရီမျှသာ နေ၍၊ နွေအခါတွင်ကား ၁၄ နာရီမျှ နေ၏။ နေ၏ အရိပ်သည် အချိန်အနည်းငယ်အတွင်းတွင် အစိတ်ပေါင်း ၁၂ စိတ်ကို ဖြတ်ရသဖြင့်၊ လျှင်မြန်စွာ သွားရမည်မှာ ထင်ရှား၏။ ထိုသို့သွားသောအခါတွင်၊ ထိုအချိန်အခါရှိ အချိန်နာရီသည် တိုတောင်းမည်ဖြစ်၏။ နွေအခါ၌ နေသည် ပို၍ တာရှည်စွာ

သွားသောအခါတွင်၊ ထိုနာရီအချိန်သည် ကြာရှည်မည် ဖြစ်၏။ ထိုကြောင့် တနေ့တနေ့လျှင် နေ၏ အလင်း ၁၂ နာရီရှိသော်လည်း၊ နွေအခါတွင် နေ့တာသည် ဆောင်း အခါ နေ့တာထက် ရှည်မည်ဖြစ်လေသည်။ ထိုအခက်အခဲ မှာ ဗရော့ဆပ်၏ လုံးခြမ်းတွင် တွေ့ရသော အခက်အခဲပင် ဖြစ်သည်။ ထိုအခက်အခဲရှိသော်လည်း၊ ဗရော့ဆပ်၏ နေနာရီကို ရာစုနှစ်ပေါင်း များစွာပင် ဂရိနှင့်ရောမနိုင်ငံတို့ တွင် အသုံးပြုခဲ့ကြလေသည်။

တခါတရံ ထိုနေနာရီမျိုးကို ငယ်ငယ်ပြုလုပ်လေ့ရှိကြ၍ တခါတရံ အိမ်ဝင်းတခုလုံး ပြည့်လောက်အောင် ကြီးကြီးပြု လုပ်လေ့ရှိသည်။ တခါတရံ မှောင်သော ဂူအတွင်းတွင် နေ၏အလင်းကို ထိပ်အပေါက်တခုမှယူ၍၊ ထိုနေနာရီမျိုးကို ပြုလုပ်လေ့ရှိကြ၏။ ခွက်နေသော ထိုနေနာရီကို အတော် ပင် ခဲယဉ်းစွာ ကြည့်ရသဖြင့်၊ နာရီခွက် ငယ်လျှင် အချိန် နာရီကိုကြည့်နိုင်ရန် ခဲယဉ်းမည်။ ထိုကြောင့် ခွက်သော နေနာရီအစား၊ မျက်နှာပြင်ပြန့်သော နေနာရီမျိုးကို တဖန် ကြံစည်ကြရပြန်၏။ အလယ်ခေတ်တလျှောက်လုံးတွင် နေ နာရီကို အမျိုးမျိုး ကြံစည်အားထုတ်ရုံသာမက၊ အသေး စိတ် စီမံခဲ့ကြလေသည်။ ထိုနောက်တွင် နေနာရီများကို အချိန်ကြည့်ရန်အတွက် အသုံးမပြုကြတော့ဘဲ၊ ဥယျာဉ် များအတွင်း၌ အလှအပအဖြစ်နှင့်သာလျှင် ထားကြ လေသည်။

ညဥ့်အခါ၌၎င်း၊ မိုးအုံ့သောအခါ၌၎င်း၊ ရေပြင်ပေါ် သွား လာသောအခါ၌၎င်း၊ အချိန်ကိုသိနိုင်ရန် နည်းအမျိုးမျိုး ဖြင့် ကြံစည်လေသည်။ ထိုသို့ ကြံစည်ခဲ့ကြသည့် နည်းမျိုး များတွင် ရေနာရီသည် ထင်ရှားခဲ့၏။ ပဌမဦးစွာ ရေနာရီ သည် သာမန်မြေအိုးတခုမျှသာဖြစ်၍၊ ဖင်ဖက်တွင် အပေါက်ငယ်ကလေး တပေါက် ရှိ၏။ ထိုအိုးတွင် အပြည့် ထည့်ထားလိုက်သောအခါတွင်၊ အပေါက်ငယ် ကလေးမှရေသည် တစက်စီ ဖြည်းညှင်းစွာ ကျနေ၏။ ရေ ကုန်သည်အထိ မည်မျှကြာသည်ကို သိနိုင်၏။ ပဌမဦးဆုံး ကျသည့်ရေစက်မှ နောက်ဆုံးကျသည့်ရေစက်အထိ အချိန် သည် အစဉ်သဖြင့်တူသည်ကို တွေ့ရ၏။ ရေနာရီကို မြေအိုး ဖြင့် ပြုလုပ်လျှင်၊ အချိန်တချိန်တွင် ရေမည်မျှထွက်သွား ကြောင်းနှင့်၊ အချိန်မည်မျှကြာပြီဖြစ်ကြောင်းကို သိနိုင်ရန် ခဲယဉ်းသဖြင့်၊ ထိုခဲယဉ်းမှုကို ပပျောက်စေရန် မြေအစား ဖန်ဖြင့်ပြုလုပ်သောအိုးကို အသုံးပြုလာကြသည်။

ထိုသို့ ဖန်ဖြင့်ပြုလုပ်ရာ၌ အခက်အခဲကို တွေ့ရပြန်၏။ ထို အခက်အခဲမှာ အခြားမဟုတ်၊ ဖန်အိုးတွင် ရေပြည့်နေသော အခါ၌၊ ရေသည် လျှင်မြန်စွာ ကျပြီးလျှင်၊ ရေနည်းသွား၍ ကုန်ခါနီးသောအခါတွင်၊ ရေအကျ နှေးသွားခြင်းပင် ဖြစ်၏။ ထိုကြောင့် အိုးအတွင်း၌ ရေအပြည့် အစဉ်ထည့်



ယခုခေတ် တိမ်ကောလျက်ရှိပြီဖြစ်သော သဲနာရီ

ထားရန်နှင့် အောက်ဖက်တွင်ထားသည့် အိုးအတွင်းသို့ကျ ဆင်းသောရေကို တိုင်းတာရန်စီစဉ်ကြရတော့၏။ ထိုကဲ့သို့ ပြုလုပ်ကြသော်လည်း၊ ရေနာရီဖြင့် အချိန်မှန်ကို မသိနိုင်ကြ ချေ။ ထိုပြင် ရေစက်ကျသောအပေါက်သည်လည်း ဆို့သွား တတ်သောကြောင့်၊ ရေစက်များမကျနိုင်သဖြင့်၊ အချိန် မမှန် ဖြစ်ရတတ်သည်။

ရေနာရီကိုပြုလုပ်ရာတွင် လှပစွာ ပြုလုပ်လေ့ရှိကြ၏။ အချို့ ရေနာရီများသည် လှပရုံမျှမက၊ အဖိုးလည်း များစွာ ထိုက်တန်၏။ ဘုရင်များအဖို့ လက်ဆောင်ပဏ္ဏာအဖြစ် ဖြင့် ပေးထိုက်လောက်အောင်ပင် ကောင်းမွန်လေသည်။ တခါတရံ ရေနာရီကို ကောင်းစွာ ကြံစည်ပြုလုပ်ထားလေ့ ရှိကြသည်။ ဘီစီ ၁၄၀ ပြည့်နှစ်လောက်တွင် အယ်လက် ဇန္ဒြီးယားမြို့မှ တီဆစ်ဗီယပ် ဆိုသူသည် ရေနာရီပြုလုပ်ရာ တွင် ခွေးသွားစိတ်ကဲ့သို့ အထစ်ကလေးများ ထားပြီးလျှင်၊ ထိုအစိတ်ကလေးမှတဆင့် လက်တံဖြင့် အချိန်ကိုပြခဲ့၏။ ရှေးခေတ် နာရီတို့အနက် ထိုရေနာရီသည် ယခုခေတ် နာရီ နှင့် အတူဆုံးဖြစ်သည်။ သို့သော် ရေနာရီသည် အချိန် အတိအကျ မပြနိုင်ချေ။

ရေနာရီအတွင်းရှိ ရေသည် ဆောင်းဥတုတွင် ခဲ၍ သွား တတ်သည်။ သဲနာရီတွင် ဤသို့ မဖြစ်ချေ။ အဘယ် ကြောင့်ဆိုသော် သဲနာရီတွင် ရေကိုအသုံးမပြုဘဲ၊ သဲကို

သာ အသုံးပြုသောကြောင့် ဖြစ်၏။ ထို သဲနာရီတွင် နူးညံ့သောသဲမှုန့်များသည် သေးငယ်သောအပေါက်မှ မှန်မှန်ကျကြ၏။ သဲနာရီကိုပြုလုပ်ရာတွင် ဖန်ပြွန် တုတ်တုတ်တခုကို ခါးပိုင်းတွင် အပေါက်ငယ်ကလေးကျန်သည့်တိုင်အောင် ညှစ်၍ထားသည်။ အပေါ်ပိုင်း ပြွန်ရှိ သဲများ အပေါက်ငယ်မှကျ၍ အောက်ပိုင်းပြွန်သို့ ရောက်သောအခါတွင် ဖန်ပြွန်ကို အထက်အောက်လှန်၍ ပေးသည်။ အပေါ်ပိုင်းပြွန်မှ သဲ ကုန်သောအခါသည် တနာရီပင်ဖြစ်၏။ ဖန်ပြွန်တိုင်းတွင် သဲ ကျဆင်းသည်မှာ တနာရီမကြာချေ။ တခါတရံ အပေါ် ပိုင်းပြွန်အတွင်းရှိ သဲများ ကုန်သောအခါ၊ နာရီဝက်မျှသာကြာ၏။ သဲနာရီပြုလုပ်ရာတွင်၊ ဖန်ပြွန်၏ အကြီးအသေးပေါ် တွင်အကြောင်းပြု၍ အချိန်ကြာသဖြင့် သဲနာရီကို တမိနစ်မှအစ နာရီပိုင်းအထိကြာအောင် ပြုလုပ်နိုင်လေသည်။

သဲနာရီသည် မည်သည့်အချိန်အခါကစ၍ ပေါ်လာသည်ကို အမှန်မပြောနိုင်ကြချေ။ သို့သော် ဘီစီ ၃၀၀ ပြည့်နှစ်လောက်က ရေးဆွဲထားသော ရောမမြို့ရှိ သဲနာရီပုံတပုံရှိလေသည်။ သဲနာရီကို ခေတ်နာရီများပေါ် လာသည့်တိုင်အောင် အသုံးပြုခဲ့ကြသည်။ တရားဟောသူများသည် တရားဟောချက်များကို သဲနာရီဖြင့် အချိန်မှတ်လေ့ရှိခဲ့ကြ၏။ ယနေ့တိုင်ပင်လျှင် အင်္ဂလန်ပြည် အောက်လွှတ်တော်တွင် သဲနာရီကို အသုံးပြုလျက်ရှိသေး၏။ ထို သဲနာရီတွင် ၂ မိနစ်ကြာမျှသာလျှင် သဲ ကျဆင်း၏။ မဲပေးရန်ရှိသောအခါတွင်၊ လွှတ်တော်ဥက္ကဋ္ဌသည် သဲနာရီမှ သဲကို ကျဆင်းစေပြီးလျှင်၊ ခေါင်းလောင်းကို တီးစေ၏။ ခေါင်းလောင်းတီးခြင်းသည် လွှတ်တော်အမတ်များအား သဲနာရီအတွင်းရှိ သဲများ မကုန်မီ နှစ်မိနစ်အတွင်း မဲပေးရမည့်အကြောင်း၊ သတိပေးခြင်းပင်ဖြစ်ပေသည်။

အချိန်ကိုသိစေနိုင်သော အခြားနည်းလမ်းများလည်း ရှိသေး၏။ တခါတရံ လူတို့သည် မီးထွန်းထားသည့် ဖယောင်းတိုင်တတိုင်ဖြင့် အချိန်ကို မှတ်လေ့ရှိကြ၏။ ဖယောင်းတိုင် မီးလောင်ရာတွင် လေကို ကာကွယ်ပေးနိုင်လျှင်၊ ဖယောင်းတိုင်သည် အချိန်မှန်မှန် မီးလောင်သည်ကို တွေ့ရပေမည်။ ဖယောင်းတိုင် မီးလောင် တနာရီကြာတိုင်း၊ အလားတူဖယောင်းတိုင်မျိုး၌ အစိတ်အပိုင်းများ ပြုလုပ်ကာ မှတ်သားရ၏။ ဤသို့ ကောင်းမွန်သေသပ်စွာ မှတ်သားထားလျှင်၊ ဖယောင်းတိုင်သည် အံ့သြလောက်အောင်ပင် အချိန်မှန်မှန် လောင်တတ်သည်။ သို့သော် ချွတ်ယွင်းချက်များကား ရှိ၏။ ထိုဖယောင်းတိုင်နာရီအားဖြင့်၊ မည်သည့်အချိန် ကျရောက်ကြောင်းကို မသိနိုင်ချေ။ ပုံမှာ ၆ နာရီသော်လည်းကောင်း၊ ၁၂ နာရီသော်လည်းကောင်း ရှိပြီဟူ၍ သိနိုင်မည်မဟုတ်ချေ။ ဖယောင်းတိုင်ထွန်းလိုက်သည့် အချိန်မှစ၍ မည်မျှကြာပြီဖြစ်ကြောင်းလောက်ကိုသာလျှင် သိနိုင်ပေမည်။

နေ နာရီ၊ ရေ နာရီ၊ သဲ နာရီ၊ ဖယောင်းတိုင် နာရီတို့တွင် ချွတ်ယွင်းချက်များ အသီးအသီး ရှိသဖြင့်၊ လူတို့သည် ထိုကရိယာများထက်ကောင်းမွန်သော ကရိယာရှိရန် လိုအပ်ကြောင်းကို သိလာကြလေသည်။ ထိုအချိန်သည် အလယ်ခေတ် ကုန်ဆုံးချိန်လောက်ပင် ဖြစ်ပေလိမ့်မည်။ ထိုအချိန်တွင် ခရစ်ယန်ဘုရားဝတ်ပြုကျောင်းကြီးများ၌ ဘုရားဝတ်ပြုရန် နှိုးဆော်သည့် ခေါင်းလောင်းတီး စက်များရှိနေပြီဖြစ်သည်။ အစပဌမ၌ ထိုခေါင်းလောင်းတီး စက်သည် နာရီကြီးမဟုတ်သေးချေ။ အချိန်ကို ညွှန်ပြသည့်လက်တံများ မရှိသည့်ပြင်၊ နာရီဒိုင်ခွက်မည်း မရှိသေးချေ။ ထိုပြင် အချိန်ရောက်သောအခါ၊ တီးခေါက်ခြင်းလည်း မရှိသေးချေ။ ခေါင်းလောင်းတီးခြင်းမျှသာ ရှိသေး၏။ သို့ရာတွင် ထိုခေါင်းလောင်းတီး စက်သည် နာရီကြီးများ၏ အရင်းခံပင်ဖြစ်လေသည်။

ထိုခေါင်းလောင်းတီး စက်တွင် လေးလံသော အလေးချိန်များ တပ်ဆင်ထားသည်။ ထိုအလေးချိန်များက ဘီးအချို့ကိုလည်စေ၍၊ ထိုဘီးများ တနေရာသို့ ရောက်သောအခါတွင် ခေါင်းလောင်းကို မြည်စေသည်။ တခါတရံ ထိုအချိန်၌ လူရုပ်တခု စက်အတွင်းမှ ထွက်လာစေပြီးလျှင်၊ တူဖြင့် မောင်းကို ထုစေသည်။ ထိုလူရုပ်ကို 'နာရီမှူးဂျက်' ဟု ခေါ်ကြလေသည်။ နာရီကြီးများကို မည်သူကစ၍ ပြုလုပ်သည့်အကြောင်းနှင့် မည်သည့်အချိန်ကစ၍ ပေါ်လာသည့်အကြောင်းကိုကား အမှန်မပြောနိုင်ချေ။ သို့ရာတွင် ခရစ် ၁၃၀၀ ပြည့်နှစ်လောက်မှစ၍၊ ယခုခေတ် နာရီကြီးများကို တွေ့မြင်ခဲ့ကြရသည်ဟု ဆိုလေသည်။

၁၃၇၉ ခုနှစ်လောက်တွင် ယခုခေတ်နာရီများ၏ ဖခင်ကြီးဟုခေါ် ထိုက်သော နာရီကြီးတခု ပေါ်ပေါက်လာ၏။ ထိုနာရီကြီးသည် ပြင်သစ်ဘုရင်မင်းမြတ်က အန်းရီ ဒါဗစ်ဆိုသူအား ပါရစ်မြို့တော်ရှိနန်းတော်တွင်ထားရန် တီတွင်စေသော နာရီကြီးဖြစ်သည်။ ထိုပုဂ္ဂိုလ်လုပ်သောနာရီကြီးသည် ယခုတိုင်ပင် ရှိသေးသည်။ ထိုနာရီကြီးကို အလေးချိန် ပေါင် ၅၀၀ လေးသော အလေးတခုက သွားစေ၏။ လက်တံမှာ တခုသာလျှင်ရှိ၏။ သို့ရာတွင် ထိုနာရီကြီး၏ အခြေခံသဘောကို ယခုခေတ်တွင်ရှိသောနာရီကြီးများက အတုခိုးကြရလေသည်။ ထိုနာရီကြီးနောက် နှစ်ပေါင်း ၂၀၀ ခန့် နာရီများတွင် အပြောင်းအလဲ တစုံတရာမျှ မကြုံစည်နိုင်ခဲ့ကြချေ။ ထိုနောက်မှ နာရီချိန်သီး၏ အကြောင်းရင်းကို စုံစမ်းနိုင်သူ ပေါ်ပေါက်လာလေသည်။

၁၅၈၁ ခုနှစ်တွင် ဣတာလျံလူမျိုး လူငယ်တဦးသည် ဆေးအတတ်ပညာကို သင်အံ့ဆဲဆဲတွင် ပီဆာမြို့ရှိ ဘုရားဝတ်ပြု



ယခုခေတ်တိုင် လူသုံးများလျက်ပင်ရှိသည့် တိုင်ကပ်နာရီ

ကျောင်းကြီးတွင် လေတိုက်ခတ်သဖြင့် လွဲလျက်ရှိသော မီးအိမ်များကို စိတ်ဝင်စားစွာ ကြည့်ရှုမိ၏။ မီးအိမ်တို့သည် အစပဌမ၌ အနည်းငယ်မျှသာ လွဲပြီးလျှင်၊ လေတိုက်ခတ်သောအခါ ပို၍ လွဲသည်ကို ထိုလူငယ် ဂရုစိုက်မိဟန်ရှိ၏။ ထိုလူငယ်ကား အခြားမဟုတ်ပေ။ နောင်အခါ၌ ကမ္ဘာကျော် သိပ္ပံကဝိကြီး ဂယ်လီလေအို ဖြစ်မည့် သူငယ်ပင် တည်း။ (ဂယ်လီလေအို — ရှု။)

ဂယ်လီလေအို ဂရုစိုက်၍ သိခဲ့သည်မှာ မီးအိမ်သည် မည်မျှပင် ဝေးကွာစွာလွဲသော်လည်း၊ ပြန်၍ လွဲလာသောအချိန်မှာ ပဌမလွဲသောအချိန်နှင့် အစဉ် တူခြင်းပင်ဖြစ်၏။ အနည်းငယ်သာ လွဲသောအခါတွင် အချိန် ပို၍ကြာပြီးလျှင်၊ အလွဲများသောအခါတွင် မြန်သည်ကို သတိပြုမိခဲ့၏။ ထိုတွေ့ရှိချက်သည် သိပ္ပံဖက်ဆိုင်ရာတွင် အရေးကြီးသော တွေ့ရှိချက်ဖြစ်၏။ ချိန်သီးသည် ထိုအချက်ကိုအရင်းခံ၍ ပေါ်လာ၏။ ဂယ်လီလေအိုသည် ချိန်သီးကို နာရီတွင် ချက်ခြင်း ထည့်မသုံးသေးချေ။ ဆရာဝန်များကိုသာလျှင် သွေးတိုးခြင်းကို ချိန်သီးဖြင့် ရေတွက်နိုင်ကြောင်းကို ပြောခဲ့၏။ ဂယ်လီလေအို၏ တွေ့ရှိချက်ကို အကြောင်းခံကာ ၁၆၅၇ ခုနှစ်၌ ဒပ်ချသိပ္ပံကဝိ ဟွိုင်းဂင်ဆိုသူသည် ချိန်သီးပါသော နာရီကြီးကို ပဌမဦးဆုံး ပြုလုပ်နိုင်သည်။ ထိုနာရီကြီးဖြင့် ကြယ်များရွေ့ရှားသောအချိန်ကို မှတ်သားခဲ့လေသည်။

ယခုအခါ ကမ္ဘာတွင် မည်သည့်ကိစ္စနှင့် ပတ်သက်သည့်အချိန်ကိုမဆို တိကျမှန်ကန်စွာသိနိုင်သော နာရီကြီးများ ပေါ်ပေါက်လျက်ရှိလေပြီ။ နာရီကြီးငယ်များ ပေါ်ပေါက်၍လာသော်လည်း၊ နာရီကြီးတလုံး မည်ကဲ့သို့ အလုပ်လုပ်ပုံကိုကား၊ ယခုတိုင် မသိသူ အများအပြားပင် ရှိပေမည်။ နာရီကိုပြုလုပ်စီမံထားပုံမှာ အလွန်ပင်ရှုပ်ထွေးလှ၏။ ထိုသို့ဖြစ်သော်လည်း၊ အခြေခံသဘောမှာ အတူတူပင် ဖြစ်၏။

နာရီတွင် ဘီးများကိုလည်စေမည့်အား လို၏။ ထိုအားကို အောက်သို့ဆွဲချသည့်အလေးချိန်တခုက ပေး၏။ ဘီးများကို မြန်မြန်လည်း မလည်စေရန်၊ နှေးနှေးလည်း မလည်စေရန် ပြုလုပ်ဘို့လို၏။ တနည်းအားဖြင့် အစဉ် အချိန်မှန် ဘီးများ လည်နေစေရပေမည်။ ထိုကိစ္စကို ချိန်သီးကပြုလုပ်၍ပေး၏။ ထိုနောက် ခွေးသွားစိတ်များ အမျိုးမျိုးရှိသည့် ဘီးများရှိရန်လို၏။ ထိုဘီးများသည် ချိန်သီးလွှဲသည့်အခါတွင် အလုပ်ကို အတူတူလုပ်ကြသော်လည်း၊ လည်ပုံချင်းမှာ တခုနှင့် တခု တူကြမည်မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် နာရီလက်တံသည် နှေးနှေးလှည့်ရမည်ဖြစ်၍၊ မိနစ်လက်တံသည် နာရီလက်တံထက် ပို၍ မြန်မြန်လှည့်မည်ဖြစ်ပြီးလျှင်၊ စက္ကန့်လက်တံသည် မိနစ်လက်တံထက် ပို၍ မြန်မြန်လှည့်မည်ဖြစ်သောကြောင့်ပင်တည်း။

အဆိုပါလက်တံတို့သည် တခုထက် တခု အကြိမ်ပေါင်း ၆၀ စီ ပို၍မြန်ကြသည်။ အလေးချိန်က ဘီးကြီးတခုကိုဆွဲ၍ လည်စေ၏။ လည်စေရာ၌ နှေးနှေးသာလျှင် လည်နိုင်အောင် ခွေးသွားစိတ်များကို ပြုပြင်၍ထားရ၏။ ဘီးများ၌ လိုသလို ခွေးသွားစိတ်များ စိတ်၍ထားခြင်းဖြင့်၊ အရွယ်အမျိုးမျိုးရှိသော ဘီးများကို အမြန် အမျိုးမျိုးဖြင့် လည်စေနိုင်၏။ ဘီးများလည်စေရန် အချိန်မှန်မှန်လွဲသော ချိန်သီးက ပြုလုပ်ပေးသည်။ ထိုသို့ပြုလုပ်နိုင်ခြင်းမှာ ချိန်သီး၏ ထိပ်တွင် ငါးကြင်းမြီးခွတခုရှိသောကြောင့် ဖြစ်၏။ (ချိန်သီး — ရှု။)

ငါးကြင်းမြီးခွက ဘီးရှိ ခွေးသွားစိတ်များကို တခုပြီးတခု ချိတ် ချည်၊ လွှတ် ချည်ပြုခြင်းဖြင့်၊ ဘီးကြီးကို ထိန်းထားသည်။ ချိန်သီးလွှဲတိုင်း ခွေးသွားစိတ်တခုကို လွှတ်၍ပေး၏။ ထိုသို့ လွှတ်ပြီးသည့်နှင့် တပြိုင်နက် ခွေးသွားစိတ်တွင်း၌ ငါးကြင်းမြီးခွရှိနေ၏။ ချိန်သီး ပြန်၍လွှဲသောအခါ၊ ဘီးကို ရှေ့သို့ တထစ် ရွှေ့စေ၏။ ချိန်သီးလွှဲရာတွင် အချိန်မှန်မှန်လွှဲသဖြင့်၊ ခွေးသွားစိတ်လွှတ်ရာတွင်လည်း၊ အချိန်မှန်မှန်ပင် လွှတ်၏။ အခြားဘီးများသည် ခွေးသွားစိတ်များဖြင့်၊ တခုနှင့်တခု ဆက်၍နေကြသောကြောင့်၊ ဘီးတိုင်းပင် အချိန်မှန်မှန်လည်နိုင်သည်။

နာရီကြီး၏ ချိန်သီးရပ်၍မသွားခြင်းမှာ၊ ငါးကြင်းမြီးခွက တွန်း၍ပေးသောကြောင့်ဖြစ်၏။ နာရီကြီးသည် မြန်လွန်း



စာပွဲတင်နာရီများကို အချိန်ပြရန်အပြင် မြင်ပန်းလှအောင်လည်း ပုံသဏ္ဍာန်အမျိုးမျိုး တီထွင်ရောင်းချလျက်ရှိသည်။

လျှင်၊ ချိန်သီးကို ပို၍ရှည်စေခြင်းဖြင့်၎င်း၊ နှေးလွန်းလျှင်၊ ချိန်သီးကို တိုစေခြင်းဖြင့်၎င်း ပြုပြင်၍ပေးနိုင်လေသည်။ ချိန်သီးကို ပို၍ရှည်စေနိုင်ရန်နှင့် ပို၍တိုစေနိုင်ရန် ဝက်အူဖြင့် ပြုလုပ်ပေးရသည်။ ချိန်သီး တိုလျှင် လွှဲချိန်မြန်၏။ ချိန်သီး ရှည်လျှင် လွှဲချိန်နှေး၏။ ဤအချက်တို့ကား နာရီကြီး၏ အခြေခံအကြောင်းချက်ဖြစ်လေသည်။

ရှေးနာရီကြီးများတွင် အလေးချိန်နှင့် ချိန်သီးတံများကို တွေ့မြင်နိုင်ပြီးလျှင်၊ ယင်းတို့ အလုပ်လုပ်ပုံကိုလည်း ကြည့်ရှုလေ့လာနိုင်ပေသည်။ ဤသို့ဖြင့် တဖြည်းဖြည်း စုံစမ်းရှာဖွေလာခဲ့ကြရာ၊ နောင်အခါ အချိန်ကိုသာမက၊ အခြားခက်ခဲနက်နဲ၍ အံ့သြဖွယ်ကောင်းသည့်ကိစ္စများကို ဆောင်ရွက်နိုင်သော နာရီကြီးများကို ထွင်လာနိုင်ကြလေသည်။

ပြင်သစ်နိုင်ငံ စထရပ်ဇဘူးမြို့တွင် ၁၃၅၂ ခုနှစ်က တည်ဆောက်သောနာရီကြီးသည် အချိန်နာရီကိုသာလျှင် သိရှိစေနိုင်သည်မဟုတ်၊ ရက်သတ္တပတ်အတွင်းရှိနေ့များကိုလည်း သိရှိစေနိုင်၏။ ထိုမျှမက လများကိုလည်း သိရှိစေနိုင်သေးသည်။ ထိုနာရီကြီးသည် နေ၊ လနှင့် ဂြိုဟ်များ၏ တည်နေရာများကိုလည်း သိရှိစေနိုင်သည့်အပြင်၊ နေ၊ လတို့ကြတ်မည့်အချိန်ကိုလည်း တင်ကြို၍သိရှိစေနိုင်လေသည်။ လန်ဒန်မြို့က 'ဗစ်ဗင်' နာရီကြီးသည် အချင်း ၂၃ ပေခန့်ရှိ၍၊ ချိန်သီး၏အလေးချိန်မှာ ပေါင် ၄၅၀ နီးပါးမျှ ရှိသည်။ ထိုနာရီကြီးထက် ၂ ဆကျော်ကျော်မျှ ကြီးသော 'ကောလဂိတ်' နာရီကြီးသည် နယူးယောက်မြို့၌ရှိ၏။ ထိုနာရီကြီး၏ မိနစ်လက်တံသည် ၃၇ ပေမက ရှည်လေသည်။

နာရီကြီးများတွင် ချိန်သီးများရှိကြသော်လည်း၊ နာရီငယ်များတွင်ကား ချိန်သီးများမရှိကြချေ။ ချိန်သီးများမရှိဘဲနှင့် နာရီကလေးများ သွားကြသည်မှာ အံ့သြဖွယ်ပင်ဖြစ်သော်လည်း၊ နာရီကြီး၏ အကြောင်းကိုသိပြီးသောအခါတွင်ကား၊ နာရီကလေးများ၏ အကြောင်းကိုသိရန်မှာ မခဲယဉ်းတော့ပေ။ နာရီ ကြီးငယ်တွင် ဘီးများကိုလည်စေသည့် အား ရှိဖို့လို၏။ ထိုဘီးများ၏ အမြန်ကိုလည်း တိကျမှန်ကန်အောင် ပြုလုပ်ပေးရန်လို၏။ နာရီကြီးများတွင် အား အတွက် အလေးချိန်ရှိ၏။ နာရီငယ်များတွင် အလေးချိန်အစား၊ သံပတ်ထည့်၍ပေးနိုင်၏။ သံပတ်၏ တွန်းကန်သောအား ဖြင့် ဘီးများကို လည်စေနိုင်၏။ အချိန်ကို တိကျမှန်ကန်အောင်ထိန်းဖို့အတွက် နာရီကြီးများတွင် နာရီချိန်သီးရှိ၏။ နာရီငယ်များတွင်ကား ချိန်သီးအစား၊ ဆံခြည်တပ် ဘီးတခုထည့်ပေးနိုင်၏။ သံပတ်နှင့် ဆံခြည်တပ် ဘီးများကို နာရီကလေးများနောက်ပိတ်ကိုဖွင့်၍ကြည့်လျှင် တွေ့နိုင်၏။ ထိုပစ္စည်းနှစ်ခုသည် နာရီကြီး၏ ချိန်သီးပေါ်ပြီးနောက် မကြာမီ ပေါ်လာနိုင်သဖြင့်၊ သေးငယ်သောနာရီများကို ပြုလုပ်လာနိုင်ခြင်း ဖြစ်လေသည်။

ရှေးခေတ်က နာရီငယ်များကိုပြုလုပ်ရာတွင် ပရာဟာမြို့မှ ဂျက်ကော့ဇက် ဆိုသူနှင့် ဆွစ်ဇာလန်မှ ဂရူးအီး ဆိုသူတို့သည် ကျော်ကြားခဲ့ကြ၏။ ၁၅၅၀ ပြည့်နှစ်လောက်တွင် ဆဋ္ဌမ အက်ဒွပ်ဘုရင်သည် နာရီငယ်တလုံးကိုရရှိ၍၊ အင်္ဂလိပ်ဘုရင်များအနက် ပဌမဆုံး နာရီငယ်ပိုင်ဆိုင်သော ဘုရင်ဖြစ်သည်ဟု ဆိုလေသည်။

၁၇၀၄ ခုနှစ်တွင် နစ်ကလတ် ဖတ်ချို ဆိုသူသည် နာရီငယ်၏ ဆုံလည်များကို မာသည့်ကျောက်မျက်များပေါ်တွင် လည်စေလျှင်၊ ပွတ်အား ခံနိုင်မည့်အကြောင်းကို သိရှိလေသည်။ ထိုနောက်တွင် နာရီငယ်များ၌ ဆုံလည်အောက်ခံကို ပတ္တမြား၊ သို့မဟုတ် နီလာကျောက်တုံးကလေးများဖြင့် ပြုလုပ်ခဲ့ကြ၏။ သာမန်အရွယ်ရှိနာရီတွင် ကျောက်မျက်တုံးကလေးပေါင်း ၂၁၁ လုံးရှိ၏။ ယခုအခါ အချို့နာရီများကို ညဥ့်ကြည့်၍ရအောင်၊ မျက်နှာတွင် ရေဒီယမ်ဆေးဖြင့် မှတ်သားထားကြ၏။ အချို့နာရီစက်ကလေးများမှာ အလွန်သေးငယ်၍ သိမ်မွေ့သောကြောင့် လက်ကောက်ထဲတွင်ပင် မြှုပ်ထား၍ရ၏။ အချို့လက်ပတ်နာရီများသည် လက်ကိုလှုပ်လိုက်ရုံနှင့် အလိုအလျောက် သံပတ်ပေးပြီးဖြစ်သည်။ နာရီအိမ်ကို ဖွင့်လိုက်လျှင် သံပတ်ပေးပြီးဖြစ်သော နာရီကလေးမျိုးများလည်း၊ ယခုအခါ ပေါ်ပေါက်လျက်ရှိပေပြီ။



ရန်ကုန်မြို့အတွင်းဝန်များရုံးရှိ လျှပ်စစ်နာရီကြီး

၂၀ ရာစုနှစ်သို့ ရောက်လာသောအခါ၊ လျှပ်စစ်ဓာတ်အားဖြင့် သွားရသော လျှပ်စစ်နာရီများကို တီထွင်လာကြ၏။ ယင်းနာရီများ၌ နာရီကိုသံပတ်ဖြင့်မလည်စေဘဲ၊ လျှပ်စစ်ဓာတ်အားဖြင့် လည်စေ၏။ လျှပ်စစ်ဓာတ်အားကို ဗက်ထရီမှရင်း၊ လျှပ်စစ်ဓာတ်အားပေးရုံမှရင်း ရရှိစေ၏။ လျှပ်စစ်ဓာတ်အားသည် လျှပ်စစ်မိုတာကို လည်ပတ်စေ၍၊ နာရီကို သွားစေသည်။ အချို့လျှပ်စစ်နာရီများ၌ အချိန်ကို တိကျမှန်ကန်စေရန်၊ ဗဟိုဌာန တနေရာမှ အလိုအလျောက် ထိန်းပေးနိုင်၏။ ဤကဲ့သို့သော နာရီများကို အလုပ်ရုံများ၌ သုံးလေ့ရှိ၏။

သလင်းကျောက်ခရစ္စတယ်များထဲမှ ထုတ်လွှတ်ပေးသော ပိုင်အီဇို လျှပ်စစ်ဓာတ်အားကို သုံး၍လည်း၊ လျှပ်စစ်နာရီများ ပြုလုပ်ကြ၏။ (ပိုင်အီဇို လျှပ်စစ် — ရှု။) ယင်းကဲ့သို့သော လျှပ်စစ်နာရီများမှာ အထူးပင် တိကျကောင်းမွန်လှသဖြင့်၊ နှစ်ပေါင်း ၃၀၀၀ ကြာအချိန်၌ပင်၊ အချိန်သည် တစက္ကန့်ထက် ပို၍ လွဲလိမ့်မည်မဟုတ်ဟု အဆိုရှိသည်။

**နားရွက်။** ။မြည်း၊ ခွေး၊ မြင်းတို့သည် လူထက်ပို၍ အသံကိုကြားနိုင်သည်။ ထိုသို့ ကြားနိုင်ခြင်းအကြောင်းတရပ်မှာ နားကို လှုပ်ရှားနိုင်ခြင်းကြောင့်ပင် ဖြစ်သည်။ အသံတခုခုကို ကြားသောအခါ၊ ခွေး ဖြစ်စေ၊ မြင်း ဖြစ်စေ နားစွင့်တတ်သည်ကို သတိပြုမိကြပေလိမ့်မည်။ ထိုသို့ နားစွင့်ခြင်းမှာ အသံလှိုင်းကို ဖမ်းယူနိုင်စေရန်ပင် ဖြစ်သည်။ လူတို့မှာကား ထိုတိရစ္ဆာန်များမှာကဲ့သို့ နားကို မလှုပ်နိုင်ကြသဖြင့်၊ ခေါင်းတခုလုံးကို လှည့်ပေးကြရသည်။

နားကို အပြင်နား၊ အလယ် နား၊ အတွင်း နားဟူ၍ သုံးပိုင်း ပိုင်းခြားထားသည်။ ကတော့ပုံသဏ္ဍာန်ရှိသော အပြင်နားကို ကျွန်ုပ်တို့ မြင်နိုင်ကြသည်။ ထိုကတော့ပုံ အပိုင်းတွင် ကျဉ်း၍ ရှည်သော ပြွန်တခုရှိသည်။ ထိုပြွန်သည် ဦးခေါင်းရိုးနှင့် ဆက်နေ၏။ စကားပြောလိုက်သောအခါ၊ အပြင်မှ အသံလှိုင်းသည် ထိုပြွန်ထဲသို့ ဝင်လာသည်။

အသံသည် နားကတော့ကို ဖြတ်ပြီးသော် နားစည်ကို သွား၍ ရိုက်၏။ အလယ်နားကို နားစည်ဟု ခေါ်သည်။ နားစည်၏ အပြင်ဖက်တွင် အမြှေးပါးဖုံးထား၏။ နားစည်၏ အတွင်းဖက်၌ ကြက်ဥပုံသဏ္ဍာန် အပေါက်နှင့် အဝိုင်းပုံသဏ္ဍာန် အပေါက်ကလေးနှစ်ပေါက်ရှိသည်။

တဖက်ကနားစည်မြှေး၏ အလယ်ပိုင်းကို အခြား တဖက်က ကြက်ဥပုံသဏ္ဍာန်အပေါက်နှင့် အရိုးငယ်ကလေး သုံးခုအားဖြင့် တွယ်ထား၏။ ထိုအရိုးကလေး သုံးခုသည် ပုံသဏ္ဍာန်အားဖြင့် တူ၊ ပေ၊ နင်းကွင်းတို့နှင့် တူ၏။ ထို့ကြောင့် အရိုးကလေးတို့ကို တူ၊ ပေ၊ နင်းကွင်းဟူ၍ပင် မှတ်သားရသည်။ တူ၌ လက်ကိုင်နှစ်ခုရှိသည်၊ အတိုဆုံးလက်ကိုင်သည် နားစည်မြှေးနှင့် ဆက်နေ၍၊ တူခေါင်းသည် ပေကိုရိုက်ဟန်ပြုသကဲ့သို့ရှိသည်။ တဖန် ပေသည် နင်းကွင်း

နှင့်ဆက်နေပြီးလျှင်၊ ထိုနှင်းကွင်းသည် ကြက်ဥပုံသဏ္ဌာန် အပေါက်နှင့် ဆက်လျက်ရှိသည်။

တစုံတယောက်သောသူသည် စကားပြောသောအခါ၊ အသံလှိုင်းများသည် နားစည်မြှေးပေါ်တွင် ရိုက်ခတ်ပြီးလျှင်၊ နားစည်မြှေးကို လှုပ်ရှားစေသည်။ နားစည်မြှေး လှုပ်သောအခါ၊ တူ၏ လက်ကိုင်သည်လည်း အလားတူ လှုပ်လာသည်။ ထိုအခါ တူသည် ပေကို ရိုက်သဖြင့်၊ ပေက နှင်းကွင်းကို လှုပ်ရှားစေသည်။ နှင်းကွင်း လှုပ်သောအခါတွင် ကြက်ဥပုံသဏ္ဌာန်အပေါက်၏ အဖုံးသည်လည်း တုန်ခါ၍ လာသည်။ အပြင်နားကတော့ကို ဖြတ်၍လာသော အသံလှိုင်းများသည် ထိုအရိုးငယ်သုံးခု၏ အကူအညီဖြင့်၊ အဆင့် ဆင့် အတွင်း နားသို့ ရောက်လာကြသည်။ (အသံ — ရှု။)

အသံလှိုင်းများသည် အပြင် နားနှင့် အလယ် နားတို့ကို ဖြတ်၍လာကြရသဖြင့်၊ အားနည်း၍ အသံတိုးသွားမည်ဟု ထင်ရ၏။ သို့သော်ထိုသို့ မဖြစ်ဘဲ၊ ကနဦးထက်ပင် ပို၍ အားများလာကြသည်။ အသံလှိုင်းများ အားကောင်းလာခြင်းမှာ အရိုးကလေး သုံးခု၏ ကူညီမှုကြောင့်ပင် ဖြစ်သည်။

နားစည်တွင် ကြွက်သားငယ် နှစ်ခုရှိသည်။ ကြွက်သား တခုသည် နားစည်မြှေးနှင့်ပူးနေ၍၊ အခြား တခုသည် နှင်းကွင်းနှင့် ပူးနေသည်။ ကြွက်သားကလေးများ ကျုံ့သွားသောအခါ၊ နားစည်မြှေးနှင့် ကြက်ဥပုံသဏ္ဌာန်အပေါက်ရှိ အဖုံးတို့ တင်း၍လာသည်။ ထို့ကြောင့် အသံလှိုင်းများသည်လည်း ပို၍ အားကောင်းလာကြသည်။ ထိုကြွက်သားကလေးတို့ကြောင့်ပင် အလွန် တိုးသော အသံများကိုရင်း၊ ဝေးသောနေရာများမှလာသော အသံများကိုရင်း ကြားနိုင်ကြခြင်းဖြစ်သည်။

အလယ် နားနှင့် လည်ချောင်းသည် ပြွန်တခုဖြင့် ဆက်နေသည်။ ထိုပြွန်ကို 'ယူစတေးကီးအင်ပြွန်' ဟု ခေါ်သည်။ ထိုပြွန်၏ လည်ချောင်းအဆုံးနေရာတွင် အပိတ်ကလေး တခုရှိသည်။ ထိုအပိတ်ကလေးသည် အစာကိုမျိုလိုက်သောအခါ၌ ဖြစ်စေ၊ သမ်းဝေသောအခါ၌ ဖြစ်စေ ပွင့်လာသည်။ အစာကို မျိုလိုက်သောအခါ၊ လေသည် လည်ချောင်းတွင်းသို့ ဝင်သွား၏။ ထိုလေအချို့သည် ယူစတေးကီးအင်ပြွန်မှ တဆင့် နားအလယ်ပိုင်းသို့ ရောက်သွားသည်။ ထိုလေသည် နားစည်မြှေး၏ အပြင်ဖက်ရှိ လေဖိအားနှင့် အတွင်းဖက်ရှိ လေဖိအားကို တူညီစေရန် ညှိပေးသည်။ နားစည်မြှေး၏ ပြင်ဖက်နှင့် အတွင်းဖက်၌ လေဖိအားသည် အစဉ် တူညီနေသောကြောင့်၊ နားစည်မြှေးသည် မခွက်နိုင်၊ မကွဲနိုင်ဘဲရှိသည်။

တခါတရံ ဥမင်များ၌ရင်း၊ သတ္တုတွင်းများ၌ရင်း လေဖိအားသည် သာမန်လေဖိအားထက် များတတ်သည်။ ထိုသတ္တုတွင်းထဲရှိ လူ၏နား၌ အပြင်လေဖိအားသည် အတွင်းလေဖိအားထက် များနေသည်။ ထိုအခါ ယူစတေးကီးအင်ပြွန်အတွင်းတွင် လေပို၍လိုကြောင်းကို နားဝ၌ ခံစားရသောဝေဒနာဖြင့် ချက်ချင်းသိနိုင်၏။ ယူစတေးကီးအင်ပြွန်တွင် လေပိုရနိုင်ရန် တခုခုကို မကြာခဏ မျိုပေးရသည်။ အားပါးတရ သမ်းပေးခြင်းဖြင့်လည်း လေပိုကို ရရှိနိုင်ပေသည်။

နားအနီး၌ သေနတ်ပစ်ဖောက်၍၊ နားစည် ပေါက်ကွဲပြီးလျှင်၊ နားမကြားရသူများ ရှိလေသည်။ ထို့ကြောင့် သေနတ်ပစ်ဖောက်သောအခါ၊ ခေါင်းနောက်ဖက်၌ကပ်၍ မပစ်ဖောက်ရန် သတိမူအပ်ပေသည်။ သေနတ်ပစ်သောအခါ၊ ပစ်သူသည် ပါးစပ်ကို ဖွင့်ထားလေ့ရှိ၏။ ပါးစပ်ဖွင့်ထားခြင်းမှာ ပြွန်အတွင်းသို့ လေများများဝင်စေ၍၊ နားစည် မကွဲအောင် ကာကွယ်ခြင်းဖြစ်သည်။ အလွန်အေးသောရာသီတွင် တခါတရံ အချို့လူများသည် ခေတ္တမျှ နားမကြားဘဲ နေတတ်ကြသည်။ ထိုသို့ ဖြစ်ရခြင်းမှာ ယူစတေးကီးအင်ပြွန်သည် ချွဲများဖြင့်ပိတ်ဆို့နေ၍၊ လေဖြတ်မသွားနိုင်သောကြောင့်ပင်ဖြစ်သည်။ ထိုအခါ နားစည်မြှေးသည် ကောင်းမွန်စွာ မတုန်ခါနိုင်တော့ချေ။ ယူစတေးကီးအင် ပြွန်အတွင်းသို့ လေမှုတ်သွင်းပေး၍၊ ပိတ်ဆို့နေသောချွဲများကို ထုတ်ပစ်လိုက်သောအခါမှ၊ နား ပြန်ကြားရသည်။

အတွင်း နားသည် အလွန်သိမ်မွေ့သည်။ ထိုအတွင်းနားကို နှစ်ပိုင်း ပိုင်းထား၍၊ နှစ်ပိုင်းစလုံးပင် ဦးခေါင်းရိုးနှင့် ဆက်နေကြသည်။ ထိုနှစ်ပိုင်းအနက် တပိုင်းသာလျှင် နားကြားသောအပိုင်းဖြစ်၍၊ ပုံသဏ္ဌာန်အားဖြင့် ခရုပုံသဏ္ဌာန်ရှိသည်။ ထိုအပိုင်းကို 'ကော့ခလီယာ' ဟု ခေါ်သည်။ ထိုအပိုင်းတွင် လေမရှိဘဲ အရည်ရှိ၏။ ကြက်ဥပုံသဏ္ဌာန်အပေါက်၏ အပြင်မျက်နှာပြင်သည် တုန်ခါလာသောအခါ၊ အတွင်း နားရှိ အရည်သည်လည်း တုန်ခါ၍လာသည်။ ထိုအရည်၏လှိုင်းများသည် ကော့ခလီယာပြွန်အစွန်းတိုင်အောင် ရိုက်ခတ်သွားသည်။ ထိုနောက် အခြားဖက်မှ ပြန်ဆင်း၍၊ အဝိုင်းပုံသဏ္ဌာန်အပေါက်သို့ ရောက်လာသည်။

နား၌ အသံကြားရပုံမှာ ဤသို့တည်း။ အသံလှိုင်းသည် ကော့ခလီယာ ပြွန်တွင်းသို့ဝင်လာစဉ်၊ ထိုပြွန်လိမ် အလယ်ပိုင်းရှိ ရေအိတ်ကို တိုက်ခတ်သည်။ ထိုအခါ ရေ၌ လှိုင်းထသွားသည်။ ရေအိတ်အောက်ခြေတွင် မွေးညှင်းစွန်း ဆံများ စီတန်းလျက်ရှိ၏။ ထိုမွေးညှင်းစွန်း ဆံများသည် သိမ်မွေ့သော နာဗ်ကြောများမှတဆင့် ဦးနှောက်နှင့် ဆက်နေ၏။ ရေလှိုင်းတို့သည် မွေးညှင်းစွန်း ဆံများကို ရိုက်ခတ်သောအခါ၊ မွေးညှင်းစွန်း ဆံများလည်း တုန်ခါကြသည်။

ထို တုန်ခါမှုသည် နာဗ်ကြောများမှတဆင့် ဦးနှောက်သို့ ရောက်သွားသည်။ ထိုအခါ အသံကို ကြားရလေသည်။

**နိကာယ်ငါးပါး**။ ။နိကာယ်ဟူသည် နိကာယဟူသော ပါဠိမှလာသောစကားဖြစ်၏။ နိကာယသဒ္ဒါသည် အပေါင်း အစုဟူသော အနက်ကိုဟော၏။ ပါဠိတော်များကို သဘော တူရာ ပေါင်းစုထားသည်ကို နိကာယ်ဟု ခေါ်သည်။ ထို နိကာယ်သည် ငါးပါးရှိလေသည်။ ထိုငါးပါးကား

၁။ ဒီဃ နိကာယ်

၂။ မဇ္ဈိမ နိကာယ်

၃။ သံယုတ္တ နိကာယ်

၄။ အင်္ဂုတ္တရ နိကာယ်

၅။ ခုဒ္ဒက နိကာယ် ဟူသတည်း။

ထိုငါးပါးတို့တွင်

၁။ ရှည်လျားသော သုတ်တို့ကို ပေါင်းစုထားသော နိကာယ်ကို ဒီဃ နိကာယ်ဟုခေါ်၏။ ထိုဒီဃနိကာယ်၌ ဗြဟ္မဇာလသုတ် စသော သုတ်ပေါင်း ၃၄ ခုရှိ၏။ ဝဂ်အား ဖြင့် သီလက္ခန္ဓ ဝဂ်၊ မဟာ ဝဂ်၊ ပါထိက ဝဂ်ဟု သုံးမျိုးရှိ၏။

၂။ အလယ်အလတ်ဖြစ်သော သုတ်တို့ကို ပေါင်းစုထား သော နိကာယ်ကို မဇ္ဈိမ နိကာယ်ဟု ခေါ်၏။ ထိုမဇ္ဈိမ နိကာယ်၌ မူလ ပရိယာယသုတ် စသော သုတ်ပေါင်း ၁၅၂ ခုရှိ၏။ ပဌမ ပဏ္ဏာသက၊ ဒုတိယ ပဏ္ဏာသက၊ တတိယ ပဏ္ဏာသကဟု အပိုင်းသုံးခုရှိ၏။ ပဏ္ဏာသက တခုတခု၌ သုတ်ပေါင်း ငါးဆယ်စီ ရှိ၏။ သို့ရာတွင် တတိယ ပဏ္ဏာသက ၌ကား ငါးဆယ်နှစ်သုတ်ရှိ၏။ ပဏ္ဏာသက တခုခု၌ ဝဂ် ငါးခုစီ ရှိ၏။

၃။ အကြောင်းအရာအားဖြင့် စပ်ယှက်နေသော သုတ် တို့ကိုစုပေါင်းထားသော နိကာယ်ကို သံယုတ္တ နိကာယ်ဟု ခေါ်သည်။ ထိုသံယုတ္တ နိကာယ်၌ ဩဃတရဏသုတ် စသော သုတ်ပေါင်း ခုနစ်ထောင့် ခုနစ်ရာ ခြောက်ဆယ် နှစ် သုတ်ရှိ၏။ ကျမ်းအားဖြင့် သဂါထာဝဂ္ဂ သံယုတ်၊ နိဒါနဝဂ္ဂ သံယုတ်၊ ခန္ဓဝဂ္ဂ သံယုတ်၊ သဠာယတန ဝဂ္ဂ သံယုတ်၊ မဟာ ဝဂ္ဂ သံယုတ်ဟူ၍ ငါးကျမ်းရှိလေသည်။

၄။ အကြောင်းတခုကိုသာ ဟောသောသုတ်တို့ကို ပေါင်း စုထားသော အစုကို ဧကကနိပါတ် ဟူ၍၎င်း၊ အကြောင်း နှစ်ခုကိုသာ ဟောသောသုတ်တို့ကို ပေါင်းစုထားသောအစု ကို ဒုကနိပါတ် ဟူ၍၎င်း ခေါ်၏။ ဤနည်းအတိုင်း အင်္ဂါ တခုတခု တိုး၍တိုး၍ ဟောသောသုတ်တို့ကို ပေါင်းစုထား သောနိကာယ်ကို အင်္ဂုတ္တရနိကာယ် ဟုခေါ်၏။ ထိုအင်္ဂုတ္တရ နိကာယ်၌ စိတ္တပရိယာဒါနသုတ် စသော သုတ်ပေါင်း ကိုး ထောင့် ငါးရာ ခုနစ်သုတ်ရှိ၏။ ကျမ်းအားဖြင့် ဧကင်္ဂုတ္တရ မှစ၍ ဧကာဒသကင်္ဂုတ္တရအထိ ဆယ့်တစ်ကျမ်းရှိလေသည်။

၅။ ဤနိကာယ်လေးရပ်မှကြွင်းသော ဝိနည်း ပိဋက၊ အဘိဓမ္မာ ပိဋကနှင့် ကြွင်းကျန်သည့် အထွေထွေအားလုံး သော ဘုရားစကားတော်များသည် ခုဒ္ဒက နိကာယ် အဝင် အပါဖြစ်၏။ ဝိနည်း ငါးကျမ်း၊ အဘိဓမ္မာ ခုနစ်ကျမ်းမှ တပါး ခုဒ္ဒကနိကာယ် အဝင်ကျမ်းတို့သည် ခုဒ္ဒက ပါဌ၊ ဓမ္မ ပဒ၊ ဥဒါန၊ ဣတိ ဝုတ္တက၊ သုတ္တနိပါတ၊ ဝိမာနဝတ္ထု၊ ပေတ ဝတ္ထု၊ ထေရဂါထာ၊ ထေရီဂါထာ၊ ဇာတက၊ နိဒ္ဒေသ၊ ပဋိ သမ္ဘိဒါမဂ္ဂ၊ အပဒါန၊ ဗုဒ္ဓဝံသ၊ စရိယာပိဋကဟူ၍ ဆယ့်ငါး ခု ရှိလေသည်။

နိကာယ်ယူနည်း တမျိုးမှာကား၊ ဝိနည်း ပိဋကနှင့် အဘိ ဓမ္မာ ပိဋကတို့ကို ခုဒ္ဒကနိကာယ်၌ ထည့်သွင်း၍မရေတွက်ဘဲ သီးခြားခွဲထားခြင်းဖြစ်သည်။

ဆရာဥာဏ်

**နိဂဏ္ဌနာတပုတ္တ** (မဟာဝီရ)။ ။နိဂဏ္ဌဟူသည် ‘ငါတို့မှာ ကိလေသာ အဖုအဆစ် (ဂဏ္ဌ) မရှိ (နိ) ’ဟုဆိုလေ့ရှိသော တိတ္ထိတို့၏ နာမည်ဖြစ်လေသည်။ နာတပုတ္တကား ထိုတိတ္ထိ ဂိုဏ်းကြီး၏ ဆရာဖြစ်လေသည်။ ဤနာတပုတ္တဆရာကြီး သည် ဝေသာလီပြည် လိစ္ဆဝီမင်းမျိုးဝယ် နာတအနွယ်၌ ဖြစ်၏။ ဝေသာလီပြည်အနီး နာတိကနယ်ကို အစိုးရသော သိဒ္ဓတ္ထမည်သောမင်းသည် ခမည်းတော်ဖြစ်၍၊ တိသာလာ မိဖုရားသည် မယ်တော်ဖြစ်ခဲ့၏။

မြတ်စွာဘုရားပွင့်တော်မူချိန်တွင် အိန္ဒိယနိုင်ငံ၌ ထင်ရှား သောတိတ္ထိဆရာကြီး ခြောက်ဦးရှိခဲ့ရာ၊ နာတပုတ္တသည် တဦးအပါအဝင်ဖြစ်ခဲ့၏။ ထိုဆရာကြီးသည် မဟာဝီရ၊ ဝဒ္ဓ မာန၊ ဇိနဟူသော အမည်တို့ဖြင့် ထင်ရှားကျော်ကြားခဲ့၏။ မြတ်စွာဘုရားပွင့်တော်မမူမီ အနှစ် ၂၅၀ လောက်ကစ၍၊ ပဿနာထမည်သော ဂျိန်း ဆရာကြီး၏လက်ထက်မှ စ၍၊ လိစ္ဆဝီတိုင်းပြည်၌ ဂျိန်းအယူဝါဒ ပြန့်နှံ့လျက်ရှိခဲ့ရာ၊ နာတ ပုတ္တဆရာကြီး ဖြစ်ပေါ်လာပြီးနောက်၊ ထိုဂျိန်းအယူဝါဒ သည် ပို၍ ထွန်းကားလာခဲ့လေသည်။ ထိုသို့ ထွန်းကား လာရာ၌ ထိုဆရာကြီး၏ ထင်ရှားသော မင်းမျိုး၌ဖြစ်ခဲ့ခြင်း သည် လွန်ကဲသောအကြောင်းရင်းတရပ်ဖြစ်သည်ဟု ယူဆ ထိုက်ပေသည်။ ထိုဆရာကြီး၏ အယူဝါဒသည် စတုယာမ သံဝရ (ဝါ) လေးမျိုးသော စောင့်စည်းခြင်းဖြင့် စောင့်စည်း ခြင်းမျိုး ဖြစ်ကြောင်း ဒီဃနိကာယ် သာမညဖလသုတ်၌ လာ ရှိ၏။ နိဂဏ္ဌအယူဝါဒနှင့် စပ်လျဉ်း၍ မြတ်စွာဘုရား၏ ဝေဖန်တော်မူချက်များသည် မဇ္ဈိမ နိကာယ် ဒေဝဒဟ သုတ်၌ လာရှိ၏။

နာတပုတ္တဆရာကြီးကို ကိုးကွယ်သောသူတို့တွင် ဥပါလိ သူကြွယ်သည် ထင်ရှားသော ဒါယကာတဦးဖြစ်ခဲ့၏။ သူ သည် မြတ်စွာဘုရားနှင့် ဝါဒချင်း ပြိုင်ဆိုင်ရန်သွားခဲ့ရာတွင်

မြတ်စွာဘုရား၏ တပည့်သာဝကအဖြစ်သို့ ရောက်ရှိခဲ့၏။ ဥပါလိသူကြွယ်ကဲ့သို့သော ဒါယကာတဦး ဗုဒ္ဓအယူဝါဒီဖြစ်ကြောင်း ကြားသိရသည့်အခါ၊ နာတပုတ္တဆရာကြီးသည် မယုံကြည်နိုင်ဘဲ ရှိခဲ့၏။ ထိုကြောင့် မိမိကိုယ်တိုင် ဥပါလိသူကြွယ်အိမ်သို့သွား၍ 'အသင်သည် မည်သူ၏ တပည့်သာဝကနည်း' ဟု မေးမြန်း၏။ ဥပါလိသူကြွယ်က မည်သူ့ တပည့်သာဝကဖြစ်ကြောင်း နာလေ့ဟုဆို၍ 'ဓီရဿ ဝိဂတ မောဟဿ' စသော ဆယ်ဂါထာတို့ဖြင့် မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးများကို ရွတ်ဆိုပြလေ၏။

နာတပုတ္တဆရာကြီးသည် မြတ်စွာဘုရားထက် အသက်အားဖြင့် ကြီးရင့်၏။ ထိုဆရာကြီးသည် ပါဝါပြည်၌ မြတ်စွာဘုရား သီတင်းသုံးတော်မူစဉ်၊ ထိုပါဝါပြည်၌ပင် ကွယ်လွန်လေ၏။ ဥပါလိသူကြွယ် ဗုဒ္ဓအယူဝါဒသို့ ပြောင်းလဲသွားခြင်းကြောင့်ဖြစ်သော စိတ်၏ ထိခိုက်မှုသည် နာတပုတ္တဆရာကြီးကွယ်လွန်ခြင်း၏ အကြောင်းဖြစ်သည်ဟု မဇ္ဈိမနိကာယ် အဋ္ဌကထာ၌ ပြဆိုထား၏။

နာတပုတ္တဆရာကြီးကွယ်လွန်သောအခါ၊ တပည့်သာဝကတို့သည် နိဂဏ္ဌအယူဝါဒနှင့် စပ်လျဉ်း၍ အငြင်းပွားခဲ့ကြ၏။ ဤအကြောင်းကိုကြားသိရသော အရှင်သာရိပုတြာ မထေရ်မြတ်သည် ဘုရားတရားတော်နှင့် စပ်လျဉ်း၍ ဤကဲ့သို့ငြင်းခုံမှုများ မဖြစ်ပေါ်စေရန် မြတ်စွာဘုရား၏ ခွင့်ပြုတော်မူချက်အရ ဘုရားစကားတော်ကို အကျဉ်းချုံး၍ ဒီဃနိကာယ်လာ သင်္ဂီတိသုတ္တန်ကို ဟောကြားတော်မူ၏။

နာတပုတ္တဆရာကြီးကြောင့် ထွန်းကားလာသော ဂျိန်းသာသနာမှ တပါး အခြားတိတ္ထိဆရာကြီးငါးဦးတို့၏ သာသနာများသည် တစတစ မှေးမှိန်ပျောက်ပျက်၍ သွားခဲ့ကြသည်။ ဂျိန်းအယူဝါဒကို အယူသည်းလွန်းသည်ဟု ပညာရှိများ မနှစ်သက်ကြသော်လည်း၊ ထိုအယူဝါဒီတို့ကား ယနေ့တိုင်အောင်ပင် အိန္ဒိယနိုင်ငံ၌ အမြောက်အမြားရှိကြလေသည်။

၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ အိန္ဒိယနိုင်ငံ၌ ဂျိန်းအယူဝါဒီများ၏ လူဦးရေသည် ၁,၂၅၂,၁၀၅ ယောက်ရှိသည်။ ယခုခေတ်၌ ခန့်မှန်းခြေအားဖြင့် လူပေါင်း တသန်းခွဲသည် ဂျိန်းအယူဝါဒကို ယူကြသည်ဟုဆိုသည်။ ထိုအယူဝါဒကို ယူသူများမှာ များသောအားဖြင့် ကုန်သည်များဖြစ်ကြသည်။ ထိုကြောင့် ကုန်သည်များပေါများသည့် ဂူဂျရတ်နယ်၊ မာလဗာကမ်းခြေဒေသ၊ ရာဇပုတ္တနနယ် စသည်တို့တွင် ဂျိန်းအယူဝါဒီတို့ကို အများအပြားတွေ့နိုင်သည်။ ဂျိန်းအယူဝါဒအရ ပါဏာတည်းဟူသော သတ္တဝါတိုင်း၌ ဇီဝဟူသော အသက်ရှိသောကြောင့် ဂျိန်းအယူဝါဒီတို့သည် ပါဏာကို သတ်ဖြတ်ခြင်းတည်းဟူသော ပါဏာတိပါတကံကို အထူးလုံ့ခြုံအောင် စောင့်ရှောက်ရသည်။ ဂျိန်းသူတော်စင်တို့သည် မိမိတို့၏ ပါးစပ်မှ ထွက်သက် ဝင်သက်လေကြောင့် သတ္တဝါတို့ မပျက်စီးရလေအောင်၊ တရားကျင့်သည့်အခါ ပါးစပ်ကို အဝတ်ဖြင့် ပိတ်၍ ကျင့်လေ့ရှိသည်ဟုဆိုသည်။ ဂျိန်းဝါဒ၌ အဟိံသတရားသည် အရေးကြီးသော မူလတရားဖြစ်၏။ အဟိံသကား သူတပါးကို သတ်ဖြတ်ညှဉ်းဆဲခြင်း မပြုရသည့် တရားဖြစ်သည်။

ဆရာဉာဏ်

**နိဒါန်း**။ ။နိဒါန်းဟူသည် နိဒါနဟူသော ပါဠိမှ ဆင်းသက်လာသော ပါဠိပျက်စကားဖြစ်၏။ အကြောင်းရင်းဟု အဓိပ္ပါယ်ရ၏။ မည်သို့မည်ပုံဖြစ်ပေါ်လာသည်ဟု မူလအခြေအမြစ်နှင့် တကွ ဖော်ပြသောစကားမျိုးကို နိဒါန်းဟုဆိုသည်။

အရှင်မဟာဗုဒ္ဓဃောသ စသော ကျမ်းပြုဆရာကြီးတို့သည် ပိဋကတ်တော်များကို ဖွင့်ဆိုရေးသားသည့်အခါ အခြေအမြစ်ခိုင်လုံကြောင်းကိုပြဆိုလိုသဖြင့် ကျမ်း၏အစ၌ နိဒါန်းကို ရေးသားလေ့ရှိကြကုန်၏။ ဥပမာအားဖြင့်ဆိုသော် ဇာတ်အဋ္ဌကထာ၌ ထိုနိဒါန်းကို ဒူရေနိဒါန်း၊ အဝိဒူရေနိဒါန်း၊ သန္တိကေနိဒါန်းဟူ၍ သုံးမျိုး ခွဲခြားလျက် ပြဆိုလေ့ရှိသည်ကို တွေ့ရလေသည်။ ထိုသုံးမျိုးတို့တွင် (၁) အလောင်းတော်မြတ်သည် ဒီပင်္ကရာ မြတ်စွာဘုရား၏ခြေတော်ရင်း၌ ဆုတောင်းပတ္ထနာပြုသောအချိန်မှ တုသိတာနတ်ပြည်၌ သေတကေတုနတ်သားဖြစ်သည့်အချိန်အတွင်း ဖြစ်ပျက်သောအကြောင်းအရာတို့ကို ဖော်ပြသောစကားအစဉ်သည် ဒူရေနိဒါန်းမည်၏။ အဝေးအကြောင်းဟု ဆိုလိုသည်။

(၂) တုသိတာနတ်ပြည်၌ နတ်သားဖြစ်သည့်အချိန်မှ ဗောဓိပင်ရင်း၌ သဗ္ဗညုတဉာဏ်တော် ရရှိသည့်အချိန်အတွင်း ဖြစ်ပျက်သောအကြောင်းအရာတို့ကို ဖော်ပြသောစကားအစဉ်သည် အဝိဒူရေနိဒါန်းမည်၏။ မဝေးလွန်းသော အကြောင်းဟု ဆိုလိုသည်။

(၃) မဟာဗောဓိပင်ရင်းမှစ၍ ပစ္စုပ္ပန်ဝတ္ထု ဖြစ်ပေါ်လာသည့်အချိန်အတွင်း ဖြစ်ပျက်သောအကြောင်းအရာတို့ကို ဖော်ပြသော စကားအစဉ်သည် သန္တိကေနိဒါန်းမည်၏။ အနီးဖြစ်သော အကြောင်းဟု ဆိုလိုသည်။

ထိုထိုသုတ္တန်ပါဠိတော်တို့၌ ဧဝံမေသုတံ စသော စကားရပ်များကို သုတ္တနိဒါန်း၊ ထိုထိုဆေးကျမ်းတို့၌ ရောဂါဖြစ်ခြင်းအကြောင်းကို ဖော်ပြသောစကားရပ်တို့ကို ရောဂနိဒါန်း စသည်ဖြင့် နိဒါန်း အမျိုးမျိုးရှိကြောင်းများကိုလည်း သိသင့်လှပေသည်။

**နိပ္ပွန်**။ ။ဂျပန်နိုင်ငံ — ရှု။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။ ‘ န ’ အက္ခရာနှင့်သက်ဆိုင်သော ဝေါဟာရ နှင့် အသံလှယ်အမည်များကို အတွဲ ၆ တွင် ထည့်သွင်းဖော်ပြထားပါလိမ့်မည်။

## ဝေါဟာရများ

| | |
|---|---|
| ‘ ကမိလီယာပန်း ပန်ဆင်သူ ’ | ‘ La Dame Aux Camelias ’ |
| ကလဲယာ အရှေ့ပိုင်း | East Clare |
| ကာဗွန် မီးစာမျှင် | Carbon Filament |
| ကာရာကိုရမ် တောင်တန်း | Karakoram Range |
| ‘ ကာရာမာဇော့ညီနောင် ’ | ‘ Brothers Karamazov ’ |
| ‘ ကာလာဗဲရတ်မြို့နယ်မှ ဖားပျံကျော်နှင့် အခြားဝတ္ထုတိုများ ’ | ‘ The Celebrated Frog of Calaveras County ’ |
| ကီလီမန်ဂျာရိုးတောင် | Kilimanjaro, Mount |
| ကုလသမဂ္ဂ အပြည်ပြည်ဆိုင်ရာ ကလေးများ အရေးပေါ်ရံပုံငွေအဖွဲ့ (ယူနီဆက်) | United Nations Children’s Emergency Fund (U.N.I.C.E.F.) |
| ကော့စဝေါတောင်တန်း | Cotswold Hills |
| ကက်စကီးတောင်များ | Catskill Mountains |
| ကက်သုတ်ရောင်ခြည်ပြွန် | Cathode Tube |
| ‘ ကန္တာရ၏ ပုလဲ ’ | ‘ Pearl of the Desert ’ |
| ‘ ကမ္ဘာတပတ်ပတ်သောခရီးစဉ်သစ် ’ | ‘ A New Voyage Round the World ’ |
| ကျောရိုးတီဘီ | Pott’s Disease or Spine T.B. |
| ကျောက်ကပ်ရောင်ရောဂါ | Nephritis |
| ကြေးမျှင်ဘီး | Wire Brush |
| ကြိုးတန်တား | Suspension or Hanging Bridge |
| ကြိုးမီးဖိုကြီး | Chain Grate Stoker |
| ‘ ကြောက်မက်ဖွယ်ကောင်းသောဖွတ် ’ | ‘ The Terrible Lizard ’ |
| ကွမ်တိုလွင်ပြင် | Kwanto Plain |
| ကျွဲနွားစွဲ တျူဗာကယ် | Bovine Tubercle |
| ကျွဲနွားစွဲ သန်း | Livestock Lice |
| ‘ ကျွန်ုပ်၏စက်ရုံမှပေးပို့သောစာများ ’ | ‘ Letters From My Mill ’ |
| ‘ ခရစ်မယ်တော် ဘုရားရှိခိုးကျောင်းကြီး ’ | ‘ Church of our Lady ’ |
| ခေါက်ရိုးညီပုံထုပ် | Symmetrical Shape (Beam) |
| ခန်းဖွင့် | Span |
| ချက်ဆပိ ပင်လယ်အော် | Chesapeake Bay |
| ခုံးတန်တား | Arch Bridge, The |
| ခုံးတန်တားစံနစ် | Arch Principle |
| ချော်မှုန့်ဖမ်း ကရိယာ | Grit Arrester |
| ‘ ခြင်္သေ့မိသားစု၏ စွန့်စားခြင်း ’ | ‘ Adventures of a Lion Family ’ |
| ဂလစ်ဆရင်းဒြပ်ပေါင်း | Glycerin Compound |
| ဂယ်ဗာနိုမီတာ နန်းကြိုး | Galvanometer Suspension |
| ဂျပန် ပိုးတောင်မာ | Japanese Beetle |
| ဂျီတပ်စု | G. Company |
| ငွေ့ပျံအောင်းပူ | Latent Heat of Vaporisation |

| | |
|---|---|
| ငွေ့ရည်ဖွဲ့ခြင်း | Condensation |
| 'ငွေလမ်း' | 'Silver Street' |
| ငှက်စွဲ တျူဗာကယ် | Avian Tubercle |
| စတီတန် ဒိန်ခဲ | Stilton Cheese |
| စပက်ထရိုစကုပ် ဓာတုဗေဒ | Spectroscopic Chemistry |
| စပင်ဆာကွေ့ | Spencer's Gulf |
| 'စားတော်ပွဲ' | 'The Banquet' |
| စက်စွမ်းအား | Mechanical Power |
| 'စိုက်ပျိုးရေးဓာတုဗေဒ သိမှတ်စရာများ' | 'Elements of Agricultural Chemistry' |
| 'စစ်နှင့်ငြိမ်းချမ်းရေး' | 'War and Peace' |
| 'စစ်ဖြစ်ရခြင်းအကြောင်း' | 'Cause and Conduct of the War' |
| စစ်ရထား | War Chariot |
| စန့် ဆီယာ စစ်ကျောင်း | St. Cyr Military School |
| 'စိန့် ဂျရုမ်း စာကြည့်နေပုံ' | 'St. Jerome in his study' |
| 'စွန့်စားခြင်းနှင့်စိတ်ကူးယဉ်ခြင်း' | 'Adventure and Romance' |
| ဆာကစ် ခလုတ် | Circuit Bearer |
| ဆဲလျူလိုမျှင် | Cellulose Fibres |
| 'ဆော်လမုန်သိုက်' | 'King Solomon's Mines' |
| ဆိုဖီ နယူးကမ်း အမျိုးသမီးကောလိပ်ကျောင်း | Sophie Newcomb College for Women |
| ဆက်တစ်ရှူး | Connective Tissue |
| ဆက်တံ | Connecting Rod |
| ဆောက်ဆီးမြို့ | Southsea |
| ဆောင်းကူးဥတု | Autumn |
| ဆန်တို ဒိုမင်ဂိုကျွန်း | Santo Domingo |
| ဆုံလည်တန်တား | Swinging Bridge |
| ဆုမ်းတိုက်ပွဲ | Battle of Somme |
| ဇေးဗီးယား တက္ကသိုလ် | Xavier University |
| ဇွင်းဂါး ပြတိုက် | Zwinger Museum |
| ညီမျှကိန်း | Equation |
| 'ညီအစ်ကိုနှစ်ဦး၏ ကဗျာများ' | 'Poems by Two Brothers' |
| ညှို့ဓာတ်ဖြင့်အပူပေးခြင်း | Induction Heating |
| တဆက်တည်းထုပ် | Continuous Beam |
| တဇောင်းကြီးဆူး | Cactus Thorn |
| 'တနင်္လာနေ့ ပုံပြင်များ' | 'Monday Tales' |
| တဖက်ထိန်းထုပ် | Cantilever (Beam) |
| 'တမန်တော် ၄ ဦး' | 'Apocalypse' (The Four Apostles) |
| တူလိန်း တက္ကသိုလ် | Tulane University |
| တူးနားငါး | Tuna |
| တောငန်း | Bar headed goose |
| တောရင်း အိုင် | Lake Torrens |
| တိုက်ဖွိုက်ဖျား | Typhoid |
| တိုင်ထူစံနစ် | Pier Principle, The |
| တိုင်းပြည်ပြုလွှတ်တော် | Constituent Assembly |
| တောင်ခါ | Brown Breasted Hill Partridge |
| တောင်ငုံး | Blue Winged Pitta |
| တောင်ပိုင်းတရုပ်ပင်လယ် | South China Sea |
| တည်ပင် | Persimmon |
| တန်တားရှင် | Movable Bridge |
| တန်းဒြသမင် | Reindeer |
| တန်းနိငါး | Tunny |

တိန်ညင်းငှက် Kingfisher

တုန်မြန် လျှပ်စစ်ဓာတ်စီး High Frequency Current

တွန်ဂါကျွန်းစု (ဝါ) မိတ်ဆွေကျွန်းစု Tonga or Friendly Islands

တိမ်တောင် Cumulus

တိမ်မြင့် (ဝါ) တိမ်မျှင် Cirrus

တိမ်မြင့်တောင် Cirro Cumulus

တိမ်မြင့်လွှာ Cirro Stratus

တိမ်လတ်တောင် (ဝါ) တိမ်လိပ် Alto-cumulus

တိမ်လတ်လွှာ Alto-Stratus

တိမ်လွှာ Stratus

တုံးပျံအားတပ် တော်ပီဒို Rocket Powered Torpedo

တျူဗာကူလင် အရေပြားစမ်းသပ်နည်း Tuberculin Skin test

တွင်းထွက်ပစ္စည်းပညာ Minerology

ထုထည်လိုက် ဓာတ်ခွဲနည်း Volumetric Analysis

ထပ်ကိန်းနှင့် ကိန်းရင်းများ Powers and Roots

ထွင်ခြင်း Invention

'ထူးဆန်းသောဧည့်သည်' 'The Mysterious Stranger'

ထောပတ်ချို Sweet Butter

ထိန်းသိမ်းခံနယ် Trust Territory

ထပ်တရာပန်း Marigold

ဒရေးကင်စဗာ့ တောင်တန်း Drakensberg Mountains

ဒီမိုကရက်တစ်အဖွဲ့ Democratic Party

ဒုတိယ နန်းခွေ Secondary Coil

ဒေဗီမီးအိမ် Davy's Lamp

ဒေးဗစ် ဖလား Davis Cup

ဒေါ်မင်နိုကစားခြင်း Dominoes

ဒေါမောက်ကြွက် Dormouse

ဒိုမိနီကန် သမတနိုင်ငံ Dominican Republic

ဒိုင်အီလက်ထရစ်ပစ္စည်းကို အပူတိုက်ခြင်း Dielectric Heating

ဒစ်လတ် တက္ကသိုလ် Dillard University

ဒဏ်ခံကြိုး Fuse

ဒြပ်ရော Mixture

ဓာတုဗေဒ, ကော်လွိုက် Chemistry, Colloid

ဓာတုဗေဒ, ကုန်ထုတ်ရေး Chemistry, Industrial

ဓာတုဗေဒ, ကျန်းမာရေး Chemistry, Sanitary

ဓာတုဗေဒ, စက္ကူလုပ်ငန်း Chemistry, Paper

ဓာတုဗေဒ, စိုက်ပျိုးရေး Chemistry, Agricultural

ဓာတုဗေဒ, ဆေးစပ် Chemistry, Pharmaceutical

ဓာတုဗေဒ, ဆေးဖက် Chemistry, Medical

ဓာတုဗေဒ, ဆိုးဆေး Chemistry, Dye

ဓာတုဗေဒ, မြေသြဇာလုပ်ငန်း Chemistry, Fertile

ဓာတုဗေဒ, ရုပ်ပိုင်း Chemistry, Physical

ဓာတုဗေဒ, လောင်စာ Chemistry, Fuel

ဓာတုဗေဒ, သတ္တု Chemistry, Metallurgical

ဓာတုဗေဒ, အသုံးချမှု Chemistry, Applied

ဓာတုဗေဒ, အာဟာရ Chemistry, Food

'ဓာတုဗေဒနှင့် ယထာဘူတ သုတေသနလုပ်ငန်းများ' 'Researches, Chemical, and Philosophical'

ဓာတ်ချိုးဆတိုးနိယမ Multiple Proportions

ဓာတ်ချိုးမှန်နိယမ Definite Proportions

ဓာတ်ခွဲခြင်းပညာ (ဓာတုဗေဒ) Analytical Chemistry

| | |
|---|---|
| ဓာတ်ဂုဏ် | Chemical Property |
| ဓာတ်ငွေ့စစ်ပွဲ | Gas Warfare |
| ဓာတ်စား ဘလောက်လုပ်နည်း | Process Engraving |
| ဓာတ်စား သွပ်ဘလောက်လုပ်နည်း | Zincography |
| ဓာတ်စာပညာ | Dietics |
| ဓာတ်ပေါင်းခြင်းပညာ (ဓာတုဗေဒ) | Synthetic Chemistry |
| ဓာတ်ဖောက်ပြန်မှု | Reaction |
| နီယွန်ဓာတ်ငွေ့ | Neon Gas |
| နီးစပ်နား | Adjacent Side |
| နော်ဝီဂျင်လူမျိုး | Norwegian |
| ' နန်းများထွဋ်ခေါင် ' | ' Crown of Palaces ' |
| နာဗ်ကြောတစ်ရှူး | Nerve Tissue |
| ' နှင်းဆီစစ်ပွဲများ ' | ' War of the Roses ' |
| နှင်းခဲလျှော | Avalanche |
| နှစ်ချက်ခုတ် | Two Stroke Cycle |
| နှစ်ချက်ခုတ်အင်ဂျင် | Two Cycle Engine |
| နှစ်ထပ်ခွဲနည်း | Double Decomposition |
| ' နှစ်ပေါင်း ၂၀–လွန်ခဲ့ပြီးနောက် ' | ' Twenty Years After ' |
| ပရိုဂျူဆာ ဓာတ်ငွေ့ | Producer Gas |
| ပါရစ်ကြေညာချက် | Declaration of Paris |
| ပါဝါပတ် | Power Revolution |
| ပါဝါထိုးချက် | Power Stroke |
| ပါးနက်ဆပ် တောင် | Mount Parnassus |
| ပိုကိုမုတ်ညွှန်ပြင်ကြီး | The Great Pocomoke Swamp |
| ပိုစွန်း | Pole |
| ပိုးသတ်ဆေး | Insecticide |
| ပေါင်းကူးတန်တားစံနစ် | Truss Principle, The |
| ' ပစ်ဝစ်စာစဥ် ' | ' Pickwick Papers ' |
| ပဉ္စမရိပ်သာ | Fifth Avenue |
| ' ပျောက်ဆုံးနေသော ကမ္ဘာကြီး ' | ' The Lost World ' |
| ပြဒါးဓာတ်ငွေ့ | Mercury Vapour |
| ပြင်သစ်အမျိုးသားကိုယ်စားလှယ်ညီလာခံကြီး | French National Assembly |
| ပြည်သူ့မော်ကွန်းထိန်းရုံး (လန်ဒန်မြို့) | Public Records Office (London) |
| ပြန်ထပ်ဒသမ | Recurring Decimal |
| ပွာတျေးယူနီဗာစီတီ | University of Poitiers |
| ပွင့်ပုံမဲ့ပစ္စည်း | Amorphous |
| ပွင့်ပုံရှိပစ္စည်း | Crystalline |
| ဖရင်းနစ်နာဗ်ကြော | Phrenic Nerve |
| ဖရုမ်းအိုင် | Lake Frome |
| ဖိုတိုဂရေဗြူအာ ဘလောက် | Photogravure |
| ဖိုတိုလစ်သို ဘလောက် | Photolithography |
| ဖောက်ထုံး | Calcium Hydroxide |
| ဖွန်တန်နာဆည် | Fontana Dam |
| ' ဗရိဂေဒီယာ ဂျရတ်၏ စွန့်စားခန်းများ ' | ' The Exploits of Brigadier Gerard ' |
| ဗရက်ဇတ်မြစ် | Brazos River |
| ဗာရဒါ မြစ် | Barada |
| ဗေ့ ဓာတ်ဆား | Basic Salt |
| ဗေလီ တန်တား | Bailey Bridge |
| ဗော့စပရပ် ရေလက်ကြား | Bosporus Strait |
| ဗော့ တန်တား | Pontoon Bridge |

| | |
|---|---|
| မော့ဗစလက် ကစားနည်း | Bobsledding |
| ဗို့အားနိမ့် လျှပ်စစ်ခေတ်စီး | Induced Voltage |
| ဗက်စ ရေလက်ကြား | Bass Strait |
| ဗဗ်တက် | Bulb |
| ‘ ဘဝသစ် ’ | ‘ The New Life ’ |
| ဘုရင့်တင့်ကားတပ်ဖွဲ့ | The Royal Tank Corps |
| ဘုရင့်ယန္တရားတပ်ဖွဲ့ | The Royal Armoured Corps |
| ဘုရင်မပန်းခြံ | Queen's Park |
| ‘ ဘိန်းစားတဦး၏ဝန်ခံချက် ’ | ‘ Confessions of an Opium Eater ’ |
| မဂျဲလင် ရေလက်ကြား | Strait of Magellan |
| မဖောက်ထုံး | Calcium Oxide |
| မလေး ဖိလစ်ပိနို လူမျိုး | Malay Fillipino |
| မာကေးဆ ကျွန်းစု | Marquesas Islands |
| မာရှယ်စီမံကိန်း | Marshal Plan |
| မာအိုရီ လူမျိုး | Maori |
| မားမရာ ပင်လယ် | Sea of Marmara |
| မိကျောင်းခေါင်းတို | Alligator |
| မီးပွင့်စို့ | Spark Plug |
| မီးလောင်တုံးပျံ | Incendiary Rocket |
| ‘ မေ့သီးစားသူများ ’ | ‘ The Lotus-Eaters ’ |
| မဲတင်း တန်တား | Bascule Bridge |
| မော်ဆယ် ပင်လယ်အော် | Mossel Bay |
| မော်တ အိုင် | Mort Lake |
| မော်ရီဆန် တောင်ထိပ် | Mount Morrison |
| မိုးထိအဆောက်အအုံများ | Skyscrapers |

| | |
|---|---|
| မိုးတိမ် | Nimbus |
| မက်တဂေါ်ဒ ကျွန်း | Matagorda |
| မက်ဆိုဇိုးအစ် ကပ် | Mesozoic |
| မိုက္ကရိုခေတုဗေဒ | Microchemistry |
| မောင်းကန် တန်တား | Cantilever Bridge |
| မျက်နှာချင်းဆိုင် အနား | Opposite Side |
| မြူထု | Fog |
| ‘ မြို့တော်နှစ်မြို့၏ အကြောင်း ’ | ‘ A Tale of Two Cities ’ |
| မြန်မာပြည် လက်မှုပညာအသင်း | Burma Industrial Society |
| မြန်မာလူငယ်များ ပေါင်းသင်းဆက်ဆံရေး အသင်း | Young Men's Social Association |
| ‘ မြော်တလင့်လင့် ’ | ‘ The Great Expectations ’ |
| ‘ ယထာဘူတပညာနှင့် စာပေအသင်းကြီး ’ | ‘ Literary and Philosophic Society ’ |
| ‘ ယုဝ ’ | ‘ Youth ’ |
| ယောန ဝတ္ထု | The Book of Jonah |
| ယိုစိမ့်မှု | Secretion |
| ယဉ်းနာ | Ulcer |
| ရေကြောင်းမိုင် | Nautical Mile |
| ရေခဲမှတ် | Freezing Point of Water |
| ရေငွေ့ | Water Vapour |
| ရေစေး | Hard Water |
| ရေဒီယမ်သတ္တိရှိ ဒြပ်စင် | Radio-active Element |
| ရေဓာတ်ငွေ့ | Water Gas |
| ရေနွေးငွေ့နှင့် ပြည့်ဝနေသောလေ | Saturated Air |
| ရိုးရိုးထောက်ထုပ် | A Simply supported Beam |
| ရက်ဒဝု သစ်တော | Red Wood Forest |

| | |
|---|---|
| ရင်ခေါင်းလေသွင်းနည်း | Artificial Pneuthorax |
| ရစ် တောင်တန်း | Rif Mountain |
| ရန်ကုန်မြို့၊ အပျော်ထမ်း လက်နက်ကိုင် စစ်တပ် | Rangoon Volunteer Rifles |
| ရန်းကန် ရိုးနု | Elastic Cartilage |
| ရန်းကန် မျှင် | Elastic Fibre |
| ရုပ်ဂုဏ် | Physical Property |
| ရမ်းဖို့ ဆုတံဆိပ် | Rumford Medal |
| ရှလဲဇွစ်–ဟိုလစတိုင် | Schleswig-Holstein |
| ' ရှားလော့ ဟုမ်း၏ စွန့်စားခန်း ' | ' The Adventures of Sherlock Holmes ' |
| ' ရှဲလော့ကျွန်းသူ လှပျိုဖြူ ' | ' The Lady of Shallot ' |
| ရွှေပြောင်းဖု | Cam |
| ရှတ်တယ်လာရဗ် မြစ် | Shatt-Al-Arab |
| ရှံမွှားဆိတ် | Chamois |
| ရှုံ့နိုင်တစ်ရှူး | Contractile Tissue |
| လူကူဂါ မြစ် | River Lukuga |
| ' လူငယ်ဘဝ ' | ' Boyhood ' |
| လူစွဲ တျူဗာကယ် | Human Tubercle |
| ' လူဆိုတာဘာလဲ ' | ' What is Man ? ' |
| လေးချက်ခုတ် အင်ဂျင် | Four Engine Cycle |
| လေးချက်ခုတ် | Four Stroke Cycle |
| လေလွှာ | Air Layer |
| လော်ရင်းရှင်း တောင်တန်း | Laurentian Mountains |
| လိုဆီ တောင်ထွတ် | Lhotse |
| လိုဖိုတန် ကျွန်း | Lofoten Island |
| လက်တံဝင်ရိုး | Crankshaft |
| လင်ကွန်း ထောင် | Lincoln Gaol |
| လောင်စာခြောက် | Dry Fuel |
| လောင်စာရည် | Liquid Fuel |
| လောင်စာရည် တုံးပျံ | Liquid Fuel Rocket |
| လွိုင်းယိုးလား တက္ကသိုလ် | Loyola University |
| လျှပ်စစ်ဓာတ်ဆက် ကရိယာ | Electric Contract |
| ဝိတိုရိယ နီယန်ဇာ အိုင် | Lake Victoria Nyanza |
| ဝင်ရိုးတံ | Shaft |
| ဝင်ရိုးလက်တံ | Crank Shaft |
| ဝတ်မှုန်ကူးခြင်း | Pollination |
| ဝမ်းပျက်လျှာနာ | Sprue |
| သဘာဝဓာတ်ငွေ့ | Natural Gas |
| သဘာဝပညာရှင် | Naturalist |
| သာမန်ဓာတ်ဆား | Normal Salt |
| သူငယ်နာဝမ်းပျက် ရောဂါ | Coeliac Disease |
| ' သူဆင်းရဲ ' | ' Poor People ' |
| ' သူရဲကောင်းသုံးယောက် ' | ' The Three Musketeers ' |
| သက်တန့် တန်တား | Rainbow Bridge |
| သတ္တုညံ့ | Base Metals |
| သေတ္တာ ပုံထုပ် | Box Girder |
| သိပ်သည်းဆ | Relative Density |
| သံကျောက် | Ironstone |
| သံလိုက်ဗုံး | Magnetic Mine |
| သံလိုက်ဝင်ရိုးစွန်း | Magnetic Pole |
| ဟိတ်မြို့ အစည်းအရုံးကြီး | The Hague Convention |

| | |
|---|---|
| ဟန်ဆီအက်တစ် အဖွဲ့ | Hanseatic League |
| အချိန်စီးသောရေ | Heavy Water |
| အချိန်အဆ ဓာတ်ခွဲခြင်း | Quantitative Analysis |
| အစာအိမ် ယဉ်းနာ | Gastric Ulcer |
| အစုန်အဆန်စီး ဓာတ်စီးကြောင်း | Alternating Current |
| အဆုတ် တီဘီ | Lung T.B. |
| အဆုတ်ရောင် တီဘီ နာတာရှည်ရောဂါ | Chronic T.B. |
| အထပ်ညွှန်း ဂဏန်းများ | Indices |
| အနောက်တောင် အာဖရိကပြည်နယ် | South-West Africa |
| အပေါ့စား အမြောက် | Light Gun |
| အပိုးခံ ထုပ် | Bressummer |
| အပြင်းဖမ်း အဆုတ်ရောင် တီဘီရောဂါ | Acute T.B. |
| အပြည်ပြည်ပိုင်နယ် | International Zone |
| ' အဖ တိုင်းဗားမြစ်ကြီး ' | ' Father Tiber ' |
| အမျိုးအစား ဓာတ်ခွဲခြင်း | Qualitative Analysis |
| ' အမှတ်တရ ' | ' In Memoriam ' |
| အရေပြား တီဘီ | Skin T.B. |
| အရိုး တီဘီ | Bone T.B. |
| အရိုးနု | Cartilage |
| အရောင် မြင်မှားခြင်း | Colour Blindness |
| အရင်းခံ ဇီဝရုပ် အဖြစ်အပျက် | Base Metabolism |
| အလေးချိန် ဓာတ်ခွဲနည်း | Gravimetric Analysis |
| အလင်းပိတ် | Opaque |
| အလင်းယိုင်ခြင်း နိယမ | Law of Refraction |
| အလှည့်မှန် အစုခွဲခြင်း | Periodic Classification |
| ' အဝေးရောက် ရိုးအသူများ ' | ' The Innocents Abroad ' |
| အသည်းရောင်ခြင်း | Cirrhosis |
| အာဖရိကန္တားလူမျိုး | Africana |
| အာရမ်နိုင်ငံ | Aram |
| အာရှနှင့် အရှေ့ဖျားဆိုင်ရာ စီးပွားရေးကော်မရှင်အဖွဲ့ | Economic Commission for Asia & the Far East |
| ' အာရှ တော်ဝင်အသင်း ဂျာနယ် ' | Journal of the Royal Asiatic Society |
| အားဂွန် ဓာတ်ငွေ့ | Argon Gas |
| အားဖြည့်သံကူ ကွန်ကရိ | Reinforced Concrete |
| အားဘီး | Fly Wheel |
| အီလက်ထရိုစတက်တစ် အနည်ထိုင်စက် | Electrostatic Precipitator |
| အီလက်ထရွန် သေနတ် | Electron Gun |
| ဥဓနယ် | Oudh |
| အူမရောင်ယဉ်းနာ | Ulcerative Colitis |
| အူသိမ်ဦးယဉ်းနာ | Duodenal Ulcer |
| အယ်ယား နိုင်ငံ | Eire |
| အယ်လဖာ မှုန်မွှန် | Alpha Particle |
| အဲယား အိုင် | Lake Eyre |
| ဩဂါမင် မြစ် | Augerman River |
| ဩဂဲနစ် ဓာတုဗေဒ | Organic Chemistry |
| အိုဇတ် တောင်တန်း | Ozarks |
| အက်ဆစ် မူလစု | Acid Radical |
| အက်တမ် နံပတ်စဉ် | Atomic Number |
| အက်တမ် အလေးဆ | Atomic Weight |
| အင်ဩဂဲနစ် ဓာတုဗေဒ | Inorganic Chemistry |
| အင်္ဂတေမံ ထုပ် | Built-in Beam |

| | |
|---|---|
| အင်တီလီ ကျွန်းစုကြီး | Greater Antilles |
| အိုင်ယာလန် လွတ်လပ်သောပြည်နယ် | Irish Free State |
| ဖိလော့ဆော့ဖာ ကျောက် (ဂ္ဂ) ဓာတ်လုံး | Philosopher's Stone |
| 'အိန္ဒိယနိုင်ငံ ရှေးဟောင်းပညာကျော်နယ်' | 'The Indian Antiquary' |
| အိပ်စရေး ရောင်ခြည် ရိုက်ဟပ်ခံတုံး | X-ray Target |
| အိပ်ဇော့ အဆို့ရှင် | Exhaust Valve |

## အသံလှယ်အမည်များ

| | |
|---|---|
| ကဗရား | Cabral |
| ကဗူကီ | Kabuki |
| ကရီအို | Creole |
| ကရူဆာ တင့် | 'Cruiser' Tank |
| ကရူးဂါးစဒေါ့ | Krugersdorp |
| ကရက်ဒေါ့, ဆာ ရယ်ဂျီနယ် | Craddock, Sir Reginald |
| ကရစ်, အာသာ ရှီယာလီ | Cripps, Arthur Shearly |
| ကရစ်စတေးတပ် စကိုတီကပ် | Cristatus Scoticus |
| ကလဲရီနက် | Clarinet |
| ကလဲမန်း, ဆယ်မျူယယ် လန်းဟွန်း | Clemens, Samuel Langhorne |
| ကလိုရိုဖော်မိတ် | Chloroformate |
| ကလိုရိုဟိုက်ဒရိတ် | Chlorohydrate |
| ကလင်ဒျူလာ အော့ဖိဆီနဲလစ် | Calendula Officinalis |
| ကအေရီ | Kaeri |
| ကာဗေးသား သေ ဗားကား | Cabeza de Vaca |
| ကာဗျူရက်တာ | Carburettor |
| ကာဗွန် တစ်ရှူး ပေပါ | Carbon Tissue Paper |
| ကာဗွန်နိုင် ကလိုရိုက် | Carbonyl Chloride |
| ကာရက်ဒရီယပ် မွန်ဂိုလပ် | Charadrius Mongolus |
| ကီဇယ်ဂူး | Kieselguhr |
| ကီလိုဆိုင်ကယ် | Kilocycle |
| ကီလွန်း | Keelung |
| ကူတဗ မီနာ | Kutb Minar |
| ကေဆီအင် | Casein |
| ကေလန်တန် | Kelantan |
| ကယ်လဂူလီ | Kalgoorlie |
| ကယ်လဆီယမ် ဆီလီကိတ် | Calcium Silicate |
| ကယ်လဆိုက် | Calcite |
| ကော့ကဆပ် | Caucasus |
| ကော့ဆင်ဂါ | Koxinga |
| ကော့ဆိုင်ခပ် မာလာဗာရစ်ကပ် | Copsychus Malabaricus |
| ကော်နာ | Korna |
| ကော်ဒိုက် | Cordite |
| ကော်ဒိတ် | Cordate |
| ကိုဆီးကင့် | Cosecant |
| ကိုဆိုင်း | Cosine |
| ကိုနိုယေး | Konoye |
| ကိုလမ်ဗီယမ် | Columbium |
| ကိုလမ်ဗိုက် | Columbite |
| ကက္ကတပ် ဒါလီယာ | Cactus Dahlia |

| | |
|---|---|
| ကက်ပရိမာလဂျီဖောမီး | Caprimulgiformes |
| ကင်နီစကုပ် | Kinescope |
| ကိုင်ဇာ မော်တော် ကော်ပိုရေးရှင်း | Kaiser Motor Corporation |
| ကိုင်ရီနီနီး | Cairininae |
| ကစ်တူး | Kitool |
| ကုတ်, ရောဗတ် | Koch, Robert |
| ကန်ချင် ဂျွန်းဂါး | Kanchan Junga |
| ကန်နွန် | Kannon |
| ကိပ် ပရောဗင့် | Cape Province |
| ကျူမူလပ် | Cumulus |
| ကျူရီယမ် | Curium |
| ကွိုက် | Cuyp |
| ကွင်းစဗရာ | Queensborough |
| ကွင်းစ မစ်ဒတွန်း | Queens' Midtorn |
| ကွန်နီဖား | Conifer |
| ကွန်ဗရီတေးစီအီး | Combretaceae |
| ခရိုက်ဆလာ ကော်ပိုရေးရှင်း | Chrysler Corporation |
| ခရစ္စတီနာ | Christina |
| ခရစ်စတီယန် | Christian |
| ခရစ်ဆန်သီမန် လူကန်သီမမ် | Chrysanthemum Leucanthemum |
| ချား | Char |
| ချက်တမ် | Chatham |
| ချင်ဝမ်းတောင် | Chinwantao |
| ချင်းချင်းကွန်း | Cheng Cheng Kung |
| ချန်ဒနီ ချောက် | 'Chandni Chauk' |
| ဂရီဂေါ, ဝီလျံ | Gregor, William |
| ဂလူတင် | Gluten |
| ဂရမ်မိုဖုန်း | Gramophone |
| ဂီတာ | Guitar |
| ဂီးလဗတ်, ဒေဗီ | Gilbert, Davies |
| ဂဲ့စတြစ် အက်ဆစ် | Gastric Acid |
| ဂယ်လဗာနိုထရိုပီဇင်း | Galvanotropism |
| ဂယ်လဗက်စတန် | Galvaston |
| ဂယ်လီယမ် | Gallium |
| ဂဲလပ် ဂဲလပ် | Gallus Gallus |
| ဂေါ့ | Gort |
| ဂိုးလိုင်းယက် (ဂေါလျက်) | Goliath |
| ဂက်ဆိုမီတာ | Gasometer |
| ဂက်ဇယ် | Gazelle |
| ဂက်တစ်စဗတ် | Gettysburg |
| ဂက်ဒိုလင်နီယမ် | Gadolinium |
| ဂင်ဇာ | Ginza |
| ဂင်းစဗုတ် | Gemsbok |
| ဂေါင်ချို | Gaucho |
| ဂစ်, ဝီးလတ် | Gibbs, Willard |
| ဂတ် | Gath |
| ဂျဖက် (ယာဖတ်) | Japheth |
| ဂျမား မပ်စဂျစ် | Jama Masjid |
| ဂျာမေနီယမ် | Germanium |
| ဂျီဂီ, ဂျေ၊ အာ | Geigy, J. R. |

| | |
|---|---|
| ဂျီအိုထရိုပီဇင်း | Geotropism |
| 'ဂျူးဒစ်' | 'Judith' |
| ဂျော့တောင်း | Georgetown |
| ဂျော်ဂျီးနေ | Giorgione |
| ဂျက်ဆီ | Jesse |
| ဂျင်နရေတာ | Generator |
| ဂျင်နရယ် မော်တော် ကော်ပိုရေးရှင်း | General Motor Corporation |
| ဂျိုင်း, အက် (ဖ)၊ အိပ်ချ် | Giles, F. H. |
| စကော့, ဂျေ၊ ဂျီ | Scott, J. G. |
| စကန်ဒီယမ် | Scandium |
| စတီဂိုဆောရပ် | Stegosaurus |
| စတီဖင်ဆန်, ဆာ ဟျူး | Stephenson, Sir Hugh |
| စတူးဝပ် | Stuart |
| စတဲလိုက် | Stellite |
| စတိန်း | Staines |
| စတုန်းနီးဟတ် ကောလိပ် | Stonyhurst College |
| စတြိဂျီဒီး | Strigidae |
| စတြေတပ် | Stratus |
| 'စထရင်း မဂ္ဂဇင်း' | 'Strand Magazine' |
| စထရွန်တီးယား | Strontia |
| စထရွန်ရှီယမ် | Strontium |
| စပရု | Spruce |
| စပရင်ဂယ်, ထောမတ် | Springle, Thomas |
| စပရင်းဗုတ် | Springbok |
| စပါလေ | Sparley |
| စပါးမာစီတီ | Spermaceti |
| စပင်းနစ် အမေရိက | Spanish America |
| စပက် | Spax |
| စမစ်, ဂျွန် စတက်ဖို့ | Smith, John Stafford |
| စမစ်ဆိုနီယန် အင်စတီကျူးရှင်း | Smithsonian Institution |
| စယူသတ် ထရှုဟီးယို | Cuidad Trujillo |
| စိကိုနိုင်အီဒီး | Cyconiidae |
| စီရူလီ | Caerulea |
| စက်ကင်ဒရီ ကွိုင် | Secondary Coil |
| ဆကရူ ဂေ့ | Screw Gauge |
| ဆမေရီယမ် | Samarium |
| ဆလိုက် ကယ်လစ်ပါ | Slide Calliper |
| ဆားကပ် အီရူဂျီနိုးဆပ် | Circus Aeruginosus |
| ဆီကန် | Sikang |
| ဆီဇီယမ် | Caesium |
| ဆီးဖို့ | Seaford |
| ဆီအက်တယ် | Seattle |
| ဆီးကင့် | Secant |
| ဆူဇူကီး | Suzuki |
| ဆူပါ ချာဂျာ | Super Charger |
| ဆူးဆ | Sousse |
| ဆူး ဖော | Sioux Falls |
| ဆေဗယ် | Sable |
| 'ဆောရစ္စဆီအာ' | 'Saurischia' |
| ဆိုဗရဲရိုး, အာစကားညို | Sobrero, Ascanio |

| | |
|---|---|
| ဆိုမာစဗီ | Somersby |
| ဆိုဟိုး | Soho |
| ဆင်းနစ် | Cynic |
| ဆိုင်ဂါး | Saiga |
| ဆိုင်မင်တန် | Symington |
| ဆိုင်လွန် | Ts'ai Lun |
| ဆိုင်အေးနီးယား | Cyanea |
| ဆိုင်ကယ် | Cycle |
| ဆိုင်း | Sine |
| ဆစ်ရာကျူ | Syracuse |
| ဆစ်ရိုကျူမူလပ် | Cirro Cumulus |
| ဆစ်ရိုစတြေးတပ် | Cirro Stratus |
| ဆစ်ရပ် | Cirrus |
| ဆစ်လီကွန် ကာဗိုက် | Silicon Carbide |
| ဆစ်လီကွန် ဒိုင်အောက်ဆိုက် | Silicon Dioxide |
| ဆန်ဂီရို | Sangiro |
| ဆန်တာဖီ | Santa Fe |
| ဆန်ဒို | Sando |
| ဆမ္မာဆက် | Somerset |
| ဆွစ်ဂီယာ | Switchgear |
| ဇာဇီး | Xerxes |
| ဇီနွန် | Xenon |
| တဂျီတီ ပတ်တျူလာ | Tajetes Patula |
| တဂျီတီ အီရက်တာ | Tajetes Erecta |
| တရက်ဆကမ် အော့ဖစ်ဆီနာလီ | Taraxacum Officinale |

| | |
|---|---|
| တဟား ဗင် အမ်းမား | Tahar Ben Ammar |
| တာဒီဒီး | Turdidae |
| တာဗီယမ် | Terbium |
| တာဗို အော်လတာနေတာ | Turbo-Alternator |
| တာဗိုင်ရှပ် | Turbine Shaft |
| တာမိနဲလီးယား တိုမင်တိုဆာ | Terminalia Tormentosa |
| တားလ | Taal |
| တိရန်နိုဆောရပ် | Tyrannosaurus |
| တိဇီယားနို ဗေချယ်လီယို | Tiziano Vecellio |
| တီ၊ အို၊ ရှိန်း | T. O'shane |
| တူလွန် | Toulon |
| တူအားတားရား | Tuatara |
| တူရိန်း | Touraine |
| တူးလာ | Tula |
| တယ်လျူရီယမ် | Tellurium |
| တယ်ဗစ်စတော့ | Tavistock |
| တော်လမေးယပ်, ကလော်ဒီးယပ် | Ptolemaeus, Claudius |
| တော်စတွိုင်, ကောင့် လီယို နီကိုလားအေဗစ် | Tolstoy, Count Leo Nikolaevich |
| တိုဗေးဂိုး | Tobago |
| တက်ဆိုး, တော်ကွားတို | Tasso, Torquarto |
| တက်နီတီယမ် | Technitium |
| တင်နက်ဆီ ဗဲလေး အော်သောရီတီ | Tennessee Valley Authority |
| တင်နင် | Tannin |
| တင်းဒါးလ, ဂျွန် | Tyndall, John |
| တိုင်တေးနီဖာရပ် မက်ဂနက်တိုက် | Titaniferous Magnetite |

| | |
|---|---|
| တိုင်တေးနီယမ် | Titanium |
| တိုင်တင်းနိုက် | Titanite |
| တိုင်နန် | Tainan |
| တိုင်ပေ | Taipeh |
| တိုင်ဟိုကူး | Taihoku |
| တိုင်းမော | Thymol |
| တိုင်းမတ် ဗာလဂါရစ် | Thymus Vulgaris |
| တစ် | Tit |
| တစ်မောက် | Titmouse |
| တန်ဂျီးယား ဇုန် | Tangier Zone |
| တန်းဂျီးယား စတက်ကျု | Tangier Statute |
| တန်းဂျင့် | Tangent |
| တန်းနှိုင်းဇား | Tannhäuser |
| တုန်ကြိမ်ဆိုင်ကယ် | Frequency Cycle |
| တပ်စကနီ | Tuscany |
| တပ်စမန်, အာဗယ် ယန်းဆန် | Tasman, Abel Janszoon |
| တမ်ပီကို | Tampico |
| တျူဒါ, အိုဝင် | Tudor, Owen |
| တြိဂိုနွန် | Trigonon |
| တွိန်း, မတ် | Twain, Mark |
| တွမ်တစ် | Tomtit |
| ထရူးမန်း, ဂျွန် အန်ဒါဆင် | Truman, John Anderson |
| ထရူးမန်း, ဟယ်ရီ ရှစ် | Truman, Harry Shippe |
| ထရူဟီးယို | Trujillo |
| ထရော့စကီ, လီယွန် | Trotsky, Leon |

| | |
|---|---|
| ထရောလပ်, အန်တိုနီ | Trollope, Anthony |
| ထရိုပီဇင်း | Tropism |
| ထရက်ခိုဒန် | Trachodan |
| ထရိုင်ကလိုရို မက်သိုင်း | Trichloro Methyl |
| ထရိုင်ဆာရတော့ | Triceratops |
| ထရိုင်နိုက်ထရို တော်လျူအင် | Trinitro Toluene |
| ထရုတ် | Troad |
| ထရန်စဖော်မား | Transformer |
| ထျန်ဆင် | Tienstin |
| ဒကွင်းစီး, တောမတ် | De Quincy, Thomas |
| ဒဂိုး, ရှား | De Gaulle, Charles |
| ဒရေးဖပ်, မက်သယူး | Dreyfus, Mathieu |
| ဒရေးဖပ်, အဲလဖရက် | Dreyfus, Alfred |
| ဒရက်ကင်စဗတ် | Drakensberg |
| ဒရက်ဇဒင် | Dresden |
| ဒရိုင်ဒင်, ဂျွန် | Dryden, John |
| ဒရိုင်းယပ် (ဒါရိ) | Darius |
| ဒါဂဲ | Daguerre |
| ဒါ ဗင်ချီ | Da Vinci |
| ဒါဗန် | Durban |
| ဒါလဟိုဇီ, လော့ | Dalhousie, Lord |
| ဒါလီယာ ဗေရီယေးဗီလစ် | Dahlia Variabilis |
| ဒါးရက်ဆလမ်း | Dar es Salaam |
| ဒီဇယ်, ရုဒေါ့ | Diesel, Rudolf |
| ဒီဇယ် အင်ဂျင် | Diesel Engine |

| | |
|---|---|
| ဒီယာနယ် ဒါ လစ်တရာတီယာ | Diurnal de Literateur |
| ဒီဝမ်အီအမ် | Diwan-i-am |
| ' ဒီဗိုင်း ကော်မဒီ ' | ' Divine Comedy ' |
| ဒီးထရွိုက် | Detroit |
| ဒီးဒလပ် | Daedalus |
| ဒူဗု | Dubuque |
| ဒူဗွား | Dubois |
| ဒူးနာ | Duna |
| ဒေဆီယို | Desio |
| ဒေးကတ်, ရာနေး | Descartes, René |
| ဒေးဗစ်, ဒွိုက် | Davis, Dwight |
| ဒေးမန် | Damon |
| ဒဲလမားဗား | Delmarva |
| ဒဲလဝဲယား | Delaware |
| ဒေါ်လိုမိုက် | Dolomite |
| ဒေါ်ကပ် ဂက်ဇယ် | Dorcas Gazelle |
| ဒေါ်လတန်, ဂျွန် | Dalton, John |
| ဒိုဒေး, အဲလဖွန် | Daudet, Alphonse |
| ဒိုဒို | Dodo |
| ဒိုနာ လူဝီဇာ ဒီ ဆာလဒါနာ | Dona Louisa de Sal dana |
| ဒိုနောင် | Donau |
| ဒိုဗာ | Dover |
| ' ဒိုရာ ' | ' Dora ' |
| ဒက်ဗလဲရာ, အေးမန် | DeValera, Eamon |
| ဒက်ဗင်ပို့, ထောမတ် | Davenport, Thomas |
| ဒိုင် ဖိနိုင် ကလိုရို အာဆင်း | Di-Phenyl-chloro-Arsine |
| ဒိုင်ဖော့စဂျင်း | Diphosgene |
| ဒိုင်ယာဖရမ် | Diaphragm |
| ဒိုင်ယာလစ်စစ် | Dialysis |
| ဒိုင်ယောဂျိနီ | Diogenes |
| ဒိုင်အော့စပိရော့ | Diospyros |
| ဒိုင်အော့စပိရော့ ကာကီး | Diospyros Kaki |
| ဒိုင်အော့စပိရော့ ဗာဂျင်းနီအားနား | Diospyros Virginiana |
| ဒိုင်အော့စပိရော့ လိုတပ် | Diospyros Lotus |
| ဒိုင်းဒပ် အင်နက်တပ် | Didus Ineptus |
| ဒိုင်းနမစ် | Dynamic |
| ဒစ်ကင်း, ချား | Dickens, Charles |
| ဒစ်စပရိုဆီယမ် | Dysprosium |
| ဒစ်ဇနီ, ဝေါ်လတာ အီလီယာ့ | Disney, Walter Elias |
| ဒစ်ဇရေလီ, ဗင်ဂျမင် | Disraeli, Benjamin |
| ဒစ်တာဖုန်း | Dictaphone |
| ဒတ်စတာ့ယေးဖစကီး, ဖျော့ဒါ မျစ်ခိုင်လပ်ဗျစ် | Dostoesvski, Feodor Mikailovitch |
| ဒန်တွန်, ဇော့ ဇက် | Danton, Georges Jacques |
| ဒန်ဒီလီယန် | Dandelion |
| ဒန်းနယ် (ဒံယေလ) | Daniel |
| ဒမ်းပီယာ, ဝီလျံ | Dampier, William |
| ဒျူရာ, အားလဗရက် | Durer, Albrecht |
| ဒျူးမား, အယ်လက်ဇန္ဒာ | Dumas, Alexandre |
| ဒွိုင်း, ချား | Doyle, Charles |
| ဒွိုင်း, ဆာ အာသာ ကိုနင် | Doyle, Sir Arthur Conan |

| | |
|---|---|
| ဒွိုင်း, ရစ်ချတ် | Doyle, Richard |
| နယူး ဆွီဒင် | New Sweden |
| နယူး အယ်လဗီယွန် | New Albion |
| နာစစ်ဆပ် ဆူဒို နာစစ်ဆပ် | Narcissus Pseudo Narcissus |
| နိပါလင်ဆစ် | Nipalensis |
| နိပါ | Nipa |
| နိပါ ဖရုတီကန် | Nipa Frutican |
| နီယိုဒင်မီယမ် | Neodymium |
| နီးမ | Nimes |
| နူး | Gnu |
| နေးစမစ်, ဂျိမ်း | Nasmyth, James |
| နော့စဗီး | Knoxville |
| နော်ကေး, တင်ဇင် | Norkey, Tensing |
| နော်သမ်းဗာလန် | Northumberland |
| နော့ဖို့ | Norfolk |
| နက်ပကျူနီယမ် | Neptunium |
| နက်ရှဗီး | Nashville |
| နိုက်ထရို ဂျယ်လတင် | Nitro Gelatine |
| နိုက်ထရိုဂျင် ထရိုင်အောက်ဆိုက် | Nitrogen Trioxide |
| နိုက်ထရိုဂျင် ပါရောက်ဆိုက် | Nitrogen Peroxide |
| နိုက်ထရပ် အောက်ဆိုက် | Nitrous Oxide |
| နင်းဗပ် | Nimbus |
| နစ်ပကို | Nipkow |
| ' နစ်ကလတ် နစ်ကလဗီ ' | ' Nicholas Nickleby ' |
| နန်းကွန်ဖော်မစ် | Nonconformist |

| | |
|---|---|
| နျူထရွန် | Neutron |
| နျူးဗာ အဇ္ဇဗဲလား | Neuva Isabella |
| ပတိနီယာ | Patinir |
| ပဒူကာ | Paducah |
| ပရီတိုးရီးယား | Pretoria |
| ပရု, ဂျိုးဆက် | Proust, Joseph |
| ပရေဆီယိုဒင်မီယမ် | Praseodymium |
| ပရိုတို အက်တင်နီယမ် | Proto Actinium |
| ပရိုမီသီယမ် | Promethium |
| ပရင်ဒါဂတ် | Prendergast |
| ပရောင်းဟွန်း | Pronghorn |
| ပရိုင်မရီ ကွိုင် | Primary Coil |
| ပရိုင်းယမ်း | Priam |
| ပလူတိုနီယမ် | Plutonium |
| ပလေဒီယမ် | Palladium |
| ပလိုဆီအီဒီ | Ploceidae |
| ပလိုဆီအိုင်နီး | Ploceinae |
| ပလင်းမတ် | Plymouth |
| ပါဒီစိုင်နီ | Perdicinae |
| ပါရာဗိန်း | Paravane |
| ပါရော့စကိုက် | Perovskite |
| ပါလမာ, ဟိုဇေး | Palma, Jose |
| ပါလမေစီအီး | Palmaceae |
| ပါးစတားရိုက် | Pasteurized |
| ပါးစတား အင်စတီကျု | Pasteur Institute |

| | |
|---|---|
| ပါးရားဆဲအပ် | Paracelsus |
| ပိကာ | Picquart |
| ' ပိနော့ကီယို ' | ' Pinocchio ' |
| ပီရီယောဒစ် ကလပ်စီဖီကေးရှင်း | Periodic Classification |
| ပီးယာ | Pierre |
| ပီးလော့ | Pelops |
| ပူတြန်ဂျီဗာ ရော့ကစဗာဂိုင်အီ | Putranjiva Roxburghii |
| ပေသရို ဆန်တာနာ | Pedro Santana |
| ပေသရို သေ အိုညာ | Pedro de Ona |
| ပေးရပ် စီရူးလီယပ် အော့ဗကျူးရပ် | Parus Caeruleus Obscurus |
| ပယ်ရိဒီ | Paridae |
| ပယ်လပ်စတြစ် ဒြက်ဆာရီ | Palustris Dresseri |
| ပေါ်လီပလက်ထရွန် ဗိုင်ကယ်ကာရာတမ် | Polyplectron Bicalcaratum |
| ပို့စဒမ် ကွန်ဖရင့် | Potsdam Conference |
| ပို့ အယ်လစ်ဇဗက် | Port Elizabeth |
| ပို့ ဩဂတ်စတာ | Port Augusta |
| ပိုတက်ဆီယမ် ကလိုရိုက် | Potassium Chloride |
| ပိုတက်ဆီယမ် နိုက်ထရိတ် | Potassium Nitrate |
| ပိုတက်ဆီယမ် ဟိုက်ဒရော့ဆိုက် | Potassium Hydroxide |
| ပက်ကာ့ မော်တော် ကော်ပိုရေးရှင်း | Packard Motor Corporation |
| ပက်စာရီဖောမီး | Passeriformes |
| ပင်ဒါဂတ် | Pendergast |
| ပင်နီဆလင် | Penicillin |
| ပင်းဇင်း | Penzance |
| ပိုင်နေစီအီး | Pinaceae |
| ပိုင် | Pine |
| ပိုင်းနား, အေ၊ အေ၊ | Pienaar, A. A. |
| ပစ်ကဝစ် လန်ဒင်း | Pickwick Landing |
| ပစ်တာ မိုလပ်စင်ဆစ် | Pitta Moluccensis |
| ပစ်တီဒီ | Pittidae |
| ပစ်သီယာ့ | Pythia |
| ပတ်စလေ, ဆာ ချား | Pasley, Sir Charles |
| ပန်နုရပ် ဗိုင်အာမီကပ် | Panurus Biarmicus |
| ပန်ချ | Punch |
| ပျိုနီ ဒါလီယာ | Peony Dahlia |
| ပွမ် ပွမ် ဒါလီယာ | Pom Pom Dahlia |
| ဖရက်ကတ်စတိုးရီးယပ် | Fracastorius |
| ဖရက်ဒရစ်စဗတ် | Fredericksburg |
| ဖရိုင်းဒေး | Friday |
| ဖရစ်ဂျီးယား | Phrygia |
| ဖရပ်တို့ | Fructose |
| ဖလူအော်စပါး | Fluorspar |
| ဖလူအိုရက်ဆင့် စကရင်း | Fluorescent Screen |
| ဖလော်ဂျစ်စတန် | Phlogiston |
| ဖလော်ဂျစ်စတန် သီအိုရီ | Phlogiston Theory |
| ဖလင်းဒါး, မက်သယူး | Flinders, Matthew |
| ဖာစီအာနီဒီ | Phasianidae |
| ဖာတာ မော်ဂါနာ | Fata Morgana |
| ဖာနန်းဒေး သေ လီဆားသိ | Fernandez de Lizardi |
| ဖာဗာရိုက် | Ferberite |

| | |
|---|---|
| ဖာလာဆလေးဗင်း, ဩဂတ် ဟော့ဖမန်း | Fallerslaben, August Hoffman |
| ဖား | Fir |
| ဖီးအင်နာ ဖေး | Fianna Fail |
| ဖူနင် | Funen |
| ဖဲလိဒီ | Felidae |
| ဖေဆီယံနိဒေ | Phasianidae |
| ဖယ်ရီ | Phayrei |
| ဖယ်လာကရိုကို ရက်စီဒီး | Phalacroco Racidae |
| ဖော့စဂျင်း | Phosgene |
| ဖို့ တော့တင် | Fort Totten |
| ဖို့ မော်တော် ကုမ္ပဏီ | Ford Motor Company |
| ဖို့ ဝပ် | Fort Worth |
| ဖို့ ဩရိန်း | Fort Orange |
| ဖိုတိုထရိုပီဇင်း | Phototropism |
| ဖိုနိုဂရပ် | Phonograph |
| ဖိုလီယို | Folio |
| ဖစ်လတာ | Filter |
| ဖွိန်းတေး, လိုပေ့ ဒီ | Fuentes, Lopez Y |
| ဗဇူကာ | Bazooka |
| ဗရာဂီ | Bragi |
| ဗရိုမီတာ | Barometer |
| ဗရက်, ဆာ လောရင့် | Bragg, Sir Lawrence |
| ဗရက်, ဆာ ဝီလျံ | Bragg, Sir William |
| ဗရောင်း, စီ၊ အီး၊ | Brown, C. E. |
| 'ဗရိတ်, ဗရိတ်, ဗရိတ်' | Break, Break, Break' |
| ဗရန်းရှတိုင်, လျက် ဒဗျီးဒဗျစ် | Branstein, Lev Davydavich |
| ဗလူးဖင်း တန်းနီ | Blufin Tunny |
| ဗလက် ဖောရက် | Black Forest |
| ဗာကူး | Baku |
| ဗာချဲ, ဝီလျံ ဂျွန် | Burchell, William John |
| ဗာဆရာ | Basra |
| ဗာဆူးတိုလန် | Basutoland |
| ဗာဂျီ | Virgil |
| ဗာဂျင်နီယမ် | Virginium |
| ဗာနီ, စီ၊ ဒီ၊ | Burney, C. D. |
| ဗာဗီနေစီအီး | Verbenaceae |
| ဗာလင်နာ, အေမီး | Berliner, Emile |
| ဗားမောင့် | Vermont |
| ဗီ | Bea |
| ဗီတယ်လင် | Vitellin |
| ဗီလာနိုဗန်းနပ်, အာနိုဒပ် | Villanovanus, Arnoldus |
| ဗီးဇာ့ | Bizarte |
| ဗူးဂီးဗား, အမ်၊ ဟာဗစ်၊ | Bourguiba, M. Habib |
| ဗူးလား, ဖရက်ဒရစ် | Wohler, Friedrich |
| ဗေ့ကလိုက် | Bakelite |
| ဗေကင်, ရော်ဂျာ | Bacon, Roger |
| ဗေရီယမ် | Barium |
| ဗေရီယမ် ကလိုရိုက် | Barium Chloride |
| ဗေရီယမ် ဆာလဖိတ် | Barium Sulphate |
| ဗေလီနီ, ဂျီဗန်နီး | Bellini, Giovanni |

| | |
|---|---|
| ဗေလီနီ, ဂျိန်းတီးလေ | Bellini, Gentile |
| ဗေလင်စီ | Valency |
| ဗေအာထရီးချေ | Beatrice |
| ဗေး | Bey |
| ဗဲ့လဒ | Veld |
| ဗဲ့လဒါ, ဝီလမ် ဗန် ဒါ | Veldes, Willem Van De |
| ဗယ်ရှေဇာ | Balshazar |
| ဗဲယာ့, ဂျွန် လိုဂီ | Baird, John Logie |
| ဗော်လရှီဗစ် | Bolshevik |
| ဗိုဂျီ ငီဂျီ | Bojig Ngijic |
| ဗိုဇေ ဇာရိယာ ချရန်နီ | Bozhe Zaria Charany |
| ဗိုရက်စပ် ပလက်ဗဲလီဖား | Borassus Plabellifer |
| ဗိုလုံး | Bologne |
| ဗက္ကရယ်, အန်တွန်း အန်းရီ | Bequerrel, Antoine Henri |
| ဗက်ကျူယမ် ကျူ | Vacuum Tube |
| ဗက်ချူအားနာလန် | Bechuanaland |
| ဗက်ဒလို | Bedloe |
| ဗက်ဒိုး, ဒေါက်တာ ထောမတ် | Beddoes, Dr. Thomas |
| ဗိုင်အိုကင်မစ္စတြီ | Biochemistry |
| ဗိုင်းတက် ဂလေဗရေးတား | Vitex Glabrata |
| ဗစ်စတျူလာ | Vistula |
| ဗစ်စမတ် နိုက်ထရိတ် | Bismuth Nitrate |
| ဗစ်စမတ် ဟိုက်ဒရော့ဆိုက် | Bismuth Hydroxide |
| ဗတ်ဂါ | Böttger |
| ဗတ်သကိတ်, ဟိုရေရှို | Vasquez, Horacio |

| | |
|---|---|
| ဗြိတိသျှ ရွိုင်ယယ် ကော်မစ်ရှင် | British Royal Commission |
| ဗွန်ဆင်, ရောဗတ် | Bunsen, Robert |
| မကောမစ် | McCormick |
| မဇူရီယမ် | Masurium |
| မရင်းဂိုး | Marengo |
| မဟာမေဒင် | Mohammedan |
| မာကျူရစ် အောက်ဆိုက် | Mercuric Oxide |
| မာဂင် တားလား | Mergen Thaler |
| မာရတ်, ဂျေ၊ ပီ | Marat, J. P. |
| မားဒေါ့, ဝီလျံ | Murdock, William |
| မီထရွန် | Metron |
| မီဟားလကော့, ဆာဂီ | Mikhalkov, Sergei |
| မီး, နစ်ကလက် | Maes, Nicholas |
| မေဂျာ နျူတိုနီ | Major Newtoni |
| မေရီလန် | Maryland |
| မော့, အန်းတွန် | Mauve, Anton |
| 'မော့ ဒါးသား' | 'Morte D'Arthur' |
| မို့စလီ, အိပ်၊ ဂျီ၊ ဂျေ | Moseley, H. G. J. |
| မိုဆူ | Mosul |
| မိုလီနာ, ထရူဟီးယို | Molina, Trujillo |
| မိုးလဇီ | Molesey |
| မက္ကာ | Mecca |
| မက်ဂနီဇီယမ် အောက်ဆိုက် | Magnesium Oxide |
| မက်ဂနီးတို | Magneto |
| မက်ဂနပ်, အယ်လဗတ်တပ် | Magnus, Albertus |

| | |
|---|---|
| မက်ဂါဝပ် | Megawatt |
| မက်ဆီဒုန် | Macedon |
| မက်ဆီးနား | Messina |
| မိုက်ကရိုမီတာ | Micrometer |
| မိုက္ကရိုဖုန်း | Microphone |
| မိုက်ကရွန် | Micron |
| မိုက်ကို ဗက်တီးရီးယမ် | Myco Bacterium |
| မဂ္ဂဆိုင်ကယ် | Megacycles |
| မင်ဒီလေးယက်, ဒီမီထရီ | Mendeliev, Dimitri |
| မင်နီလေးအပ် | Menelaus |
| မောင့် မာစီ | Mount Marcy |
| မိုင်ကယ် (မိခါလ) | Michael |
| မိုင်ဆင် | Meissen |
| မိုင်အိုဆင် | Myosin |
| မတ်စကာဒီနပ် အဗယ်လန်နေးရီးယပ် | Muscardinus Avellanarius |
| မန်းစတား | Munster |
| မမ်တပ် မဟာ | Mamtaz Mahal |
| မျူးအား, အယ်လက်ဇန္ဒာ | Muir, Alexandre |
| ယနုဗကာ | Yanovka |
| ယာစနာယာ ပလျာနာ | Yasnaya Polyana |
| ယားကေ ဒဲဆူး | Yaqui Delsor |
| ယားကေ ဒဲ နော့တေ | Yaqui Del Norte |
| ယူနာ | Yuna |
| ယူရေး | Urey |
| ယူရေးရှ | Eurasia |
| ယူရိုစတော့ပိုဒပ် မက်ကရောတစ် စာဗီနိစက် | Eurostopodos Macrotis Cerviniceps |
| ယူရိုပီယမ် | Europium |
| ' ယူလစ်ဆီ ' | ' Ulysses ' |
| ယူးပုပ အဲပေါ့ | Upupa Epops |
| ယွန်ကင့် | Jongkind |
| ရားမိုလီနို, လေတီးဆီယာ | Ramolino, Letizia |
| ရီကာဗီရော့စတြီဒီး | Recurvirostridae |
| ရီနီယမ် | Rhenium |
| ရီဗော်လျူရှင် | Revolution |
| 'ရီဗျူး ' | ' Review ' |
| ရူသီနီယမ် | Ruthenium |
| ရူသီးယား, ဆာ အေ၊ ဗီ | Routhier, Sir A. V. |
| ရူတီး | Rutile |
| ရူးဗင်း | Rubens |
| ရူးအိ သေ အားလားကွန်, ဟွန် | Ruiz de Alarcon, Juan |
| ရေယွန် | Rayon |
| ရော့ဖော | Roquefort |
| ရိုဒီယမ် | Rhodium |
| ရိုက်, လင်မျူယယ် | Wright, Lemuel |
| ရိုက်စတက် | Reichstadt |
| ရိုက်ရှား တိုမင်တိုစာ | Wrightia Tomentosa |
| ရင်နက် | Rennet |
| ရိုင်ယို ဂရန်း | Rio Grande |
| ရစ်ချတ်, သီယိုဒို | Richard, Theodore |
| ရစ်ဗစ် | Rivet |

ရန့်ဂင်၊ ဝီလဟမ် ကွန်းရက် Rontgen, Wilhelm Conrad
ရန်း Rand
ရမ့်ဆေး၊ ဂျိမ်း အင်ဒရူး ဗရောင်း Ramsay, James Andrew Brown
ရွိုက်ဆဒယ်၊ ယာကွပ် ဗန် Ruesdael, Jacob Van
ရွိုင်ယယ် ယော့ ဟိုတယ် Royal York Hotel
ရှရိုင်းနား၊ အောလစ် Schreiner, Olive
ရှား ဂျဟန်း Shah Jehan
ရှီးလိုက် Scheelite
ရှော့ ဆာကစ် Short Circuit
ရှက်တယ် အာ ရပ် Shatt-al-arab
လ ဖရှက် La Fleche
လဗွာစီယေ၊ အန်တွန်း လောရန်း Lavoisier, Antoine Laurent
လ အေး La Haye
လာချ Larch
လာဗီယတ် Labiate
လား ပေါ်စီနား Lars Porsena
လီနွား၊ ဂျေ၊ ဂျေ၊ အီ၊ Lenoir, J. J. E.
လူတီဆီယမ် Lutecium
လူးဆက်၊ ဂျိုးဇက် ဂေး Lussac, Joseph Gay
လော့ဂရစ်သမ် Logarithm
လော်ရယ် (မြို့) Laurel
လိုဗီဗင်နဲလပ် အင်ဒီကပ် Lobivanellus Indicas
လက်တို့ Lactose
လက်တင် အမေရိက Latin America
လက်တစ် အက်ဆစ် ဗက်တီးရီးယား Lactic Acid Bacteria
လက်ပတောတီလော့ ဂျာဗာနီကပ် Leptoptilos Jawanicus
လက်ပလန် Lapland
လောက်သ (မြို့) Louth
လင်ပိုပို Limpopo
လင်းမင်း Lemming
လောင်းအား၊ မက် ဗွန် Laue, Max Von
လိုင်နိုတိုက် Linotype
လစ်ဇမိုး Lismore
လစ်ပါဟိုင်း Lippershey
လစ်ဖေး Liffey
လစ်လီအေစီအီး Liliaceae
လန်ဂဒန်၊ အော်လီဗီယာ Langdon, Olivia
လန်ဂင်၊ အီ Langen, E.
လန်သနမ် Lanthanum
လန်းပို့ Landport
လပ်ပစ် Luppis
လျူးဒါရစ် Luderitz
ဝါးတား ဗတ် Water Buck
ဗီလမင် Villemin
ဝီလမင်တန် Wilmington
ဝီးယား၊ အာ၊ အက်စ Wier, R. S.
ဝူးဖရမ်မိုက် Wolframite
ဝေးဂန်း Weygand
ဝဲလား၊ ဆမ် Weller, Sam
ဝေါလေ့၊ ဗက် Wallace, Bess

| | |
|---|---|
| ဝက်စမိုလန် | Westmoreland |
| ဝင်ဗယ်လဒန် | Wimbledon |
| ဝပ်ဆင်, ဒေါက်တာ | Watson, Dr. |
| ဝှီးလား | Wheeler |
| ဝှိုက်ဟက်, ရောဗတ် | Whitehead, Robert |
| ဝှိုင်ဂင် | Huygen |
| ‘ သခရူဇာ ဆိုနာတာ ’ | ‘ The Kreutzer Sonata ’ |
| ‘ သ လစ်ဗင်း ဒဲဆာ့ ’ | ‘ The Living Desert ’ |
| သာမိုထရိုပီဇင်း | Thermotropism |
| သာမျှန်နစ် ဗား | Thermonic Valve |
| သီဩဒလိုက် | Theodolite |
| သူလီယမ် | Thulium |
| သယ်လီယမ် | Thalium |
| သဲလဖိး | Delphi |
| သန္နီဒိး | Thunnidae |
| ဟာပက်တပ် အီရစ်သရိုစဲဖလပ် အီရစ်သရိုစဲဖလပ် | Harpectus Erythrocephalus Erythrocephalus |
| ဟာလေ, ရောဗတ် | Harley, Robert |
| ဟီနီ, ပက်ထရစ် | Heaney, Patrick |
| ဟီလီယိုထရိုပီဇင်း | Heliotropism |
| ဟူစတန် | Houstan |
| ဟယ်လမ်, အာသာ | Hallam, Arthur |
| ဟော့ကင်း, ဆာ ဂျွန် | Hawkins, Sir John |
| ဟိုဗတ် | Hobart |
| ဟိုလမီယမ် | Holmium |
| ဟိုရေးရှပ် | Horatius |
| ဟိုးဂတ်, ကက်သရင်း | Hogarth, Catherine |
| ဟက်ဂဒ်, ဆာ ရိုက်ဒါ | Haggard, Sir Rider |
| ဟက်ဖနီယမ် | Hafnium |
| ဟင်မတိုက် | Haematite |
| ဟင်လေ | Henley |
| ဟောင်း | Howe |
| ဟိုင်ဒင်, ဖရန့် ဂျိုးဇက် | Hadyn, Franz Joseph |
| ဟိုင်မင်းတိုပပ် ဟိုင်မင်းတိုပပ် | Himantopus Himantopus |
| ဟိုင်း ဖရီကွင်စီ ကားရင့် | High Frequency Current |
| ဟိုင်း ဖရီကွင်စီ အော်လတာနိတ်တာ | High Frequency Alternator |
| ဟဒ်ဆန် မော်တော်ကား ကုမ္ပဏီ | Hudson Motor Car Company |
| ဟန်းတား, မတ် | Hunter, Mark |
| ဟပ်ဖတုန်း | Halftone |
| ဟပ္ပနာရိုက် | Hubnerite |
| ဟုမ်း, ရှားလော့ | Holmes, Sherlock |
| အဒိရွန်ဒက် | Adirondack |
| အနာတိဒိ | Anatidae |
| အနာလစ်တစ်ကယ် ဂျီဩမေတြီ | Analytical Geometry |
| အမာရိလိဒေးစီအိး | Amaryllidaceae |
| အမိယန် | Amiens |
| အမေရိဆီယမ် | Americium |
| အလျူမိနီယမ် | Aluminium |
| အလျူမိနီယမ် ဆီလီကိတ် | Aluminium Silicate |
| အလျူမိနီယမ် အောက်ဆိုက် | Aluminium Oxide |
| အာဇွေးလား, မာရီအာနို | Azuela, Mariano |

| | |
|---|---|
| ‘ အာရှ ကွာတာလီ ရီဗျူး ’ | ‘ Asia Quarterly Review ’ |
| အာဟပ် | Aarhus |
| အာဗီယမ် | Erbium |
| အာရဝက် | Arawak |
| အာရေးနီးယပ်, စဗန်တီ ဩဂတ် | Arrhenius, Svante August |
| အာရင်ဂါး စက်ကာရီဖားရား | Arenga Saccharifera |
| အားခိမီးဒီး | Archimedes |
| အားဗိုးဂါးဒရိုး, အာမေးဒေအို | Avagadro, Amadeo |
| အားမေချာ | Armature |
| အီဂွာနိုဒန် | Iguanodan |
| အီကီးတို | Iquitos |
| အီကော်နိုမိုင်ဇာ | Economiser |
| အီဂီသေးလော့ ကောဒေးတပ် ရိုဆီယပ် | Aegithalos Caudatus Roseus |
| အီလ ဆန် ဇန်း | Ile Saint Jean |
| အီလက်ထရို တိုက်ပင်း | Electro Typing |
| အီလက်ထရစ် ဂျင်နရေးတား | Electric Generator |
| အီလင်နီယမ် | Illinium |
| အီလန် | Eland |
| အီးဂဲဖီး | Eaglefield |
| ဥစတတ် အီဆာ | Ustad Isa |
| ဥဇနို | Ueno |
| အုပျူးပီဒီး | Upupidae |
| အေတာ ဗြိတန်နိကပ် | Ater Brittanicus |
| အယ်လဗမ်မင်း | Alabamine |
| အယ် ပက်ဆို | El Paso |
| အယ်လစီဒို | Alcedo |
| အယ်လစီဒင်နီဒီး | Alcedinidae |
| အဲလစီဒို အက်သစ် | Alcedo Atthis |
| အဲလတို ကျူမူလပ် | Alto Cumulus |
| အဲလတို စတြေးတပ် | Alto Stratus |
| ‘ အဲလမာဂျက် ’ | ‘ Almagest ’ |
| အဲလစ် စပရင်း | Alice Spring |
| အော့စတင်း | Ostend |
| အော့စမီယမ် | Osmium |
| အော့တိုး, အင်၊ အေ | Otto, N. A. |
| အော်စတင်, စတီဖင် ဖူးလား | Austin, Stephen Fuller |
| အော်စတင်, ဆန် ဖီလစ် ဒေ | Austin, San Felipe De |
| အော်တိုမက်တစ် | Automatic |
| အော်လတာနိတ်တာ | Alternator |
| အော်လကာနိတ်တင်း ကားရင့် | Alternating Current |
| အော်လဒွင်ကယ် | Aldwinkle |
| ‘ အော်လီဗာ တွစ် ’ | ‘ Oliver Twist ’ |
| ဩစတရယ်လေးရှား | Australasia |
| ဩနစ်သစ္စီအာ | Ornithischia |
| ဩသီကွန် | Orthicon |
| ဩသိုကလေ့ | Orthoclase |
| အိုကလဟိုးမား | Oklahoma |
| အိုဇာမာ | Ozama |
| အိုတီစီ | Oatesi |
| အိုရှီယန်းနီယား | Oceania |

| | |
|---|---|
| အက်ကရိဒိုသီးရီး ဖပ်စကပ် | Acridotheres Fuscus |
| အက်စတာအဇီး | Esterhazy |
| အက်စတာပိုဗို | Astapovo |
| အက်စတန်, ဖရန်းစစ် ဝီလျံ | Aston, Francis William |
| အက်စဗက်စတော့ | Asbestos |
| အက်စိပိတြိဒီး | Accipitridae |
| အက်ဆလာ | Esla |
| အက်ဆက် | Essex |
| အက်ဒီဆန်, ထောမတ် အယ်လဗာ | Edison, Thomas Alva |
| အက်တင်နီယမ် | Actinium |
| အက်ဒီလိတ် | Adelaide |
| အက်ပဆမ် | Epsom |
| အက်ပတိုက် | Apatite |
| အက်ပနိုင်း | Apennines |
| အက်ပလက်ချီယန် | Appalachian |
| အက်ပီသီလျမ် တစ်ရှူး | Epithelium Tissue |
| အက်ဗိနေစီအီး | Ebenaceae |
| အဂ္ဂလား, ဒေါက်တာ | Aggler, Dr. |
| အင်ဒီယမ် | Indium |
| ' အင်ပရက်ရှင်းနစ် ' | ' Impressionist ' |
| အိုင်ကွန်နိုစကုပ် | Iconoscope |
| အိုင်ဆိုတုပ် | Isotope |
| အိုင်အိုဒင်း | Iodine |
| အိုင်မွိုင်ဒင် | Ymuiden |
| အိုင်းဆစ် | Isis |
| အိုင်းယန်း ဆာလဖိုက် (ဒ) | Iron Sulphide |
| ' အိုင်းရစ် ဖရီးဒမ်း ' | ' Irish Freedom ' |
| အစ်ထရီယမ် | Yttrium |
| အစ်လမင်နိုက် | Ilmenite |
| အဇ္ဇရီယယ်, ယိုးဆက် | Israel, Joseph |
| အိတ်ဇီတာ ကောလိပ် | Exeter College |
| အန်စာရီဖောမီး | Anseriformes |
| အန်စာရိုင်နီ | Anserinae |
| အန်တီမိုနီ | Antimony |
| အန်တိုင်းအိုခပ် | Antiochus |
| အန်ဒရီယင် | Andriaen |
| ' အနာ ကရင်နီနာ ' | Anna Karenina |
| အမ်ပီယာ | Ampere |
| အမ္ဗဇုန် | Amazon |
| အွမ်မီအက် | Ommiad |